

မန္တလေးမြို့ရှိ မဟာမြတ်မုနိဘုရား

# မြန်မာ့စွယ်စုံကျမ်း

စာပေဗိမာန်

၏

# ရုပ်ပြဗဟုသုတဘဏ်



အတွဲ — ၈

ဗီး — မဟော

ရန်ကုန်မြို့

မြန်မာနိုင်ငံဘာသာပြန်စာပေအသင်း

# ဤကျမ်းကိုမရှုစသမီ

**အောက်ပါလမ်းညွှန်ကိုလေ့လာထားပါက ဤစွယ်စုံကျမ်းစီစဉ်ပုံကို ကောင်းစွာသဘောပေါက်၍ ကိုးကားရာကျမ်းတဆူအဖြစ် လွယ်ကူစွာ အသုံးပြုတတ်ပေလိမ့်မည်။**

**အက္ခရာစဉ်ဇယား။** ။စွယ်စုံကျမ်းတွင်ပါဝင်သော အကြောင်းရပ်များကို လွယ်လင့်တကူ ရှာဖွေ ဖတ်ရှုနိုင်ရန် အက္ခရာစဉ်ဇယားကို အတွဲတိုင်း၌ဖော်ပြထားသည်။

**ဝေါဟာရနှင့်အမည်များ။** ။ဤကျမ်းမှာ ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသောပညာရပ်အမျိုးမျိုး၊ အကြောင်းရပ်အမျိုးမျိုးတို့ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံးပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလို ပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားရသောအမည်များ မြောက်မြားစွာပါဝင်သည်။ ယင်းတို့ကို မူရင်းစကားနှင့်တကွ ဤကျမ်း၏နောက်ပိုင်းတွင် ကဏ္ဍသီးခြား၍ အက္ခရာစဉ်အတိုင်းဖော်ပြထားသည်။

**မြန်မာအမည်များ။** ။ရဟန်းရှင်လူဆိုင်ရာ အကြောင်းရပ်များကို ခေါင်းစည်းပေးရာ၌၊ အမည်ရှေ့ရှိ သျှင်၊ ဦး၊ ဒေါ်၊ ကို၊ မောင်၊ မ စသည်တို့နှင့်တကွ အခြားဂုဏ်ပုဒ်များကို အမည်ရင်းနောက်တွင်ထား၍၊ အမည်ရင်းကိုသာ အက္ခရာစဉ်အလိုက် စီစဉ်ဖော်ပြထားသည်။ ပုံစံအားဖြင့် သျှင်ကရဝိက၊ ခုံတော်မောင်ကျဘမ်း၊ ဦးချိန်၊ မြဝတီဝန်ကြီးဦးစ တို့ကို ကရဝိက၊ သျှင်။ ကျဘမ်း၊ မောင်၊ ခုံတော်။ ချိန်၊ ဦး။ စ၊ ဦး၊ မြဝတီဝန်ကြီး ဟူ၍ အသီးအသီးဖော်ပြထားသည်။ ဤသို့ပြုလုပ်ခြင်းမှာ ပုဂ္ဂိုလ်ကို မလေးစား၍ မဟုတ်၊ စွယ်စုံကျမ်းများထုံးတမ်းစဉ်လာအရ အကြောင်းရပ်ရှာဖွေရ လွယ်ကူစေရန်သာဖြစ်ရာ၊ လူမျိုးခြားအမည်များကိုလည်း အလားတူပင်စီစဉ်ဖော်ပြထားသည်။

**ဖတ်ချင်ဖွယ်ရာအဖြာဖြာ။** ။တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ၊ သို့မဟုတ် ဝါသနာအလျောက် သမိုင်းဖြစ်စဉ်များ၊ တိုင်းနိုင်ငံများ၊ ပုဂ္ဂိုလ်ကျော်များ၊ စာပေဝတ္ထုများ၊ အနုပညာရပ်များ၊ သိပ္ပံပညာရပ်များ၊ လုပ်ငန်းကြီးများ၊ သစ်ပင်များ၊ တိရစ္ဆာန်များ၊ ကစားခုန်စားများအကြောင်းကို သိလိုသောအခါ အကူအညီရစေရန် ဖတ်ချင်ဖွယ်ရာအဖြာဖြာကို အတွဲတိုင်း၌ထည့်သွင်းထားသည်။

**ဗဟုသုတစစ်တမ်း။** ။စွယ်စုံကျမ်းအတွဲတိုင်းတွင် ဗဟုသုတစစ်တမ်းကိုထည့်သွင်းထားသည်မှာ၊ စာရှုသူသည် ဤစစ်တမ်းဖြင့် မိမိကိုယ်ကိုမိမိ ပြန်လည်မေးခွန်းထုတ်၍ မသိသေးသောအကြောင်းအရာကို သိလိုပါက၊ ညွှန်းထားသောနေရာတွင် ပြန်လည်ဖတ်ရှု လေ့လာနိုင်စေခြင်းငှာ ရည်ရွယ်သည်။ ထိုစစ်တမ်းတွင် အတွဲတွင်းပါ အကြောင်းရပ်အားလုံးငုံမိအောင် မေးခွန်းထုတ်ထားခြင်း မဟုတ်ချေ။ စိတ်ဝင်စားဖွယ်အချက်အလက်များ အတွက်သာလျှင် မေးခွန်းများကို ရွေးချယ်စီစဉ်ထားခြင်းဖြစ်သည်။

**အပြန်အလှန်အညွှန်း။** ။စွယ်စုံကျမ်းအကြောင်းရပ်တို့မှာ အက္ခရာအလိုက်စီစဉ်ထားသည့်အလျောက်၊ ဘာသာရပ်အလိုက် တစုတဝေးတည်းမရှိဘဲ နေရာအနှံ့အပြား ကွဲပြားလျက်ရှိကြသည်။ သို့ဖြစ်၍ အကြောင်းရပ်ချင်းဆက်စပ်နေသည့်အချက်အလက်တို့ကို အပြန်အလှန်ညွှန်းပြရသည်။ စာကိုယ်မဲ့အကြောင်းရပ်ခေါင်းစည်းမှ စာကိုယ်ရှိအကြောင်းရပ်ခေါင်းစည်းသို့ရင်း၊ အကြောင်းရပ်တခုနှင့်တခု ပညာသဘောအားဖြင့် ဆက်သွယ်နေသော်လည်း တသီးတခြားစီရှိသဖြင့် ပိုမိုပြည့်စုံစွာ လေ့လာစေလိုသောအခါတွင်ရင်း၊ (...................... — ရှု။) ဟုညွှန်းသည်။ ပညာသဘောအားဖြင့် ဆက်သွယ်ခြင်း မရှိစေကာမူ၊ တနည်းတလမ်းအားဖြင့် နီးစပ်သည့် အကြောင်းရပ်တခုကို စိတ်ဝင်စားဖွယ်ဖြစ်၍ လေ့လာစေလိုသောအခါတွင် (...................... — လည်းရှု။) ဟုညွှန်းသည်။

**ကြောင်းခြင်းရာအညွှန်းအတွဲ။** ။နောက်ဆုံးအတွဲသည် စာရှုသူအဖို့ အခါမရွေး ကိုးကားရန်လမ်းညွှန်ပင်ဖြစ်သည်။ ထိုအတွဲသည် အသီးသီးသောအတွဲများအတွက် အက္ခရာစဉ်အညွှန်းဖြစ်ရုံမျှမက၊ လုံးချင်းစွယ်စုံခေါ် လောက်ပေသည်။ ထိုအတွဲတွင် ကမ္ဘာ့သမိုင်းမှတ်တမ်းတင်သည်မှ မျက်မှောက်ခေတ်အထိ ပေါ်ပေါက်ဖြစ်ပျက်ခဲ့သော မှတ်သားဖွယ်ရာအကြောင်းအရာများကို နှစ်၊ လ၊ ရက် အပိုင်းအခြားနှင့်သိနိုင်စေရန် နှစ်လုံးပတ်လည်ဖော်ပြထားသော ကမ္ဘာ့ပြက္ခဒိန်ကိုရင်း၊ ပညာရပ်များကို စံနစ်တကျ တဆင့်ပြီးတဆင့် ပြည့်စုံစွာလိုက်စားနိုင်ရန် ပညာရပ်မာတိကာကိုရင်း၊ ထည့်သွင်းထားသည်။ ထိုနောက် အသီးသီးသောအတွဲများတွင်ပါဝင်သည့် အကြောင်းရပ်များကို လွယ်ကူစွာလှန်လှောရှာဖွေနိုင်ရန် ညွှန်ပြသော ကြောင်းခြင်းရာအညွှန်းကိုလည်း စီစဉ်ဖော်ပြထားသည်။ ထိုအညွှန်းတွင် စွယ်စုံကျမ်းပါအကြောင်းရပ်များကိုသာမက၊ စွယ်စုံကျမ်းစာကိုယ်တွင် မပါဝင်လင့်ကစား သိသင့်သိထိုက်သောအကြောင်းရပ်မြောက်မြားစွာကိုလည်း မှတ်သားဖွယ် အချက်အလက်များနှင့်တကွ ဖြည့်စွက်ဖော်ပြထားသည်။

# အက္ခရာစဉ်ဇယား

ဤကျမ်းပါအကြောင်းရပ်များကို အောက်ပါအက္ခရာစဉ်အတိုင်း စီစဉ်ထားသည်

၁။ အ
၂။ အာ
၃။ အား

၄။ အိ
၅။ အီ
၆။ အီး

၇။ အု
၈။ အူ
၉။ အူး

၁၀။ အေ့
၁၁။ အေ
၁၂။ အေး

၁၃။ အဲ့
၁၄။ အယ်
၁၅။ အဲ
} နောက်ပစ်နှင့် ယသတ်

၁၆။ အော့
၁၇။ အော်
၁၈။ အော

၁၉။ အို့
၂၀။ အို
၂၁။ အိုး

၂၂။ အက်
၂၃။ အောက်
၂၄။ အိုက်
} ကသတ်

၂၅။ အင့်
၂၆။ အင်
၂၇။ အင်း
} ငသတ်

၂၈။ အောင့်
၂၉။ အောင်
၃၀။ အောင်း
၃၁။ အိုင့်
၃၂။ အိုင်
၃၃။ အိုင်း
} ငသတ်

၃၄။ အစ် — စသတ်

၃၅။ အည့်
၃၆။ အည်
၃၇။ အည်း
} ညကြီးသတ်

၃၈။ အဉ့်
၃၉။ အဉ်
၄၀။ အဉ်း
} ဉကလေးသတ်

၄၁။ အတ်
၄၂။ အိတ်
၄၃။ အုတ်
} တသတ်

၄၄။ အန့်
၄၅။ အန်
၄၆။ အန်း
၄၇။ အိန့်
၄၈။ အိန်
၄၉။ အိန်း
၅၀။ အုန့်
၅၁။ အုန်
၅၂။ အုန်း
} နသတ်

၅၃။ အပ်
၅၄။ အိပ်
၅၅။ အုပ်
} ပသတ်

၅၆။ အမ့်
၅၇။ အမ်
၅၈။ အမ်း
၅၉။ အိမ့်
၆၀။ အိမ်
၆၁။ အိမ်း
၆၂။ အုမ့်
၆၃။ အုမ်
၆၄။ အုမ်း
} သေးသေးတင် နှင့် မသတ်

၆၅။ ျ ယပင့်
၆၆။ ြ ရရစ်
၆၇။ ွ ဝဆွဲ
၆၈။ ှ ဟထိုး
၆၉။ ျွ ယပင့် ဝဆွဲ
၇၀။ ြွ ရရစ် ဝဆွဲ
၇၁။ ျှ ယပင့် ဟထိုး
၇၂။ ြှ ရရစ် ဟထိုး
၇၃။ ွှ ဝဆွဲ ဟထိုး
၇၄။ ျွှ ယပင့်ဝဆွဲဟထိုး
၇၅။ ြွှ ရရစ်ဝဆွဲဟထိုး

# ဖတ်ချင်ဖွယ်ရာအဖြာဖြာ

ဤစာစောင် ပျော်ပျော်ရွှင်ရွှင် ဖတ်ရှုလိုသောအခါ အောက်ပါ ဆိုရာအကြောင်းရပ်တို့မှ ရှာရှာဖွေဖွေဖတ်၍ ရောက်လာပါက စာရှုသူသည် အပျင်းပြေစေပြီး မဟုတ်သလည်းပွားစေလိမ့်မည်။ ထိုင်ရာမထဘဲ ကမ္ဘာ့မြို့ကြီး၊ နယ်ကြီး၊ နိုင်ငံကြီးများသို့ရောက်၍ ပုဂ္ဂိုလ်ကျော်များနှင့် ငြိမ်းအေး ကမ္ဘာ့အမိုးကိုလည်း သုံးသပ်ရှုရှိမည့်ပြင် သိပ္ပံပညာ၏ အံ့ဖွယ်ရာအကြောင်းများကိုလည်း သိနားလည်လာစေလိမ့်မည်။ ဆိုမှုမက အနုစာပေဂန္ထဝင်များ၏အရသာကိုပါ ထင်ရှားစွာခံစားရမည့်ပြင် အားထပ်ရက် အပျင်းပြေရန်နည်းများလည်း ရှိပေတယ်။

# ဗဟုသုတစစ်တမ်း

ဤကျမ်းတွင် များစွာသောပြဿနာတို့ကို ဖြေရှင်းထားပေသည်။ စာရှုသူသည် မိမိမည်မျှမှတ်မိ၍ အသိဉာဏ်အခြေ၊ ဗဟုသုတအဖြေ မည်မျှကြွယ်ဝနေပြီကို မှတ်ကျောက်တင်ကြည့်ရန် အောက်ပါမေးခွန်းများဖြင့် စစ်တမ်းထုတ်သင့်ပေသည်။ အကယ်၍ အဖြေမပေးနိုင်ရှိအံ့၊ ညွှန်းထားရာစာမျက်နှာတွင် ပြန်လည်ဖတ်ရှုလေ့လာရန် တိုက်တွန်းရပေသည်။

# ကျေးဇူးပြုသူများ

မြန်မာ့စွယ်စုံကျမ်းတွင် စာမျက်နှာတိုင်း၌ ရုပ်ပုံဓာတ်ပုံစသည်ဖြင့် ဝေဆာစွာမွမ်းမံရန် ကြိုးပမ်းခဲ့ရာ၌ နိုင်ငံတွင်းနိုင်ငံပမှ အကူအညီများရခဲ့သည်။ နိုင်ငံပမှဆိုလျှင် လန်ဒန်မြို့ ပစ်ချာပို့လိုက်ဗရေရီနှင့် ပေါပေ့ါပါးမှရင်း၊ နယူးယော့မြို့ အီဝင် ဂယ်လိုဝေမှရင်း ဓာတ်ပုံများ ဝယ်ယူပုံနှိပ်ခွင့်ရခဲ့သည်။ နိုင်ငံတွင်းမှ ကူညီသူ ရာပေါင်းများစွာရှိသည့်အနက် စွယ်စုံကျမ်း နှင့်ထိုက်တန်သည့် ရုပ်ပုံ၊ ဓာတ်ပုံ၊ မြေပုံ စသည်တို့ကို အောက်ပါဌာနကြီးများနှင့် ပညာရှင်များထံမှ ရရှိပါ၍ ကျေးဇူး အထူးတင်ပါကြောင်း။

| အမည် | နေရပ် | ဓာတ်ပုံပါ စာမျက်နှာ |
|---|---|---|
| မြန်မာနိုင်ငံ တော်လှန်ရေးအစိုးရ ပြည်ထဲရေးဌာန | ရန်ကုန်မြို့ | ၃၉၆၊ ၃၉၇၊ ၃၉၈၊ ၃၉၉၊ ၄၀၀ |
| မြန်မာနိုင်ငံ ကောင်းကင်မြေတိုင်းဌာန | ။ | ၄၀၉ |
| ရှေးဟောင်းသုတေသနဌာန | ။ | ၁၄၄၊ ၁၄၅၊ ၁၄၆၊ ၁၄၇ |
| သစ်တောပြုစုစိုက်ပျိုးရေးဝန်ရုံး (သစ်တောဌာန) | ။ | ၁၃၊ ၇၄၊ ၁၇၆၊ ၂၀၉၊ ၂၉၉၊ ၃၆၉၊ ၃၈၀၊ ၃၈၁၊ ၃၈၃၊ ၃၉၄ |
| အမျိုးသားကိုယ်လက်ကြံ့ခိုင်ရေးကောင်စီ | ။ | ၃၅၀ |
| ထိုင်းနိုင်ငံသံရုံး | ။ | ၁၈၀ |
| နယူးပစ် | ။ | ၄၅၁ |
| ဦးကျော်လှ | ။ | ၃၇၅ |
| ဒေါ်ခင်ရွှေ | ။ | ၁၅၃ |
| (ဖျာပုံ) ဒေါ်ခင်လေးနု | ။ | ၄၄၁ |
| ခင်လေးမောင် | ။ | ဘုရားပွဲတော်များ-ရောင်စုံပုံ နှင့် မဟာမုနိဘုရား-ရောင်စုံပုံ |
| ဦးချစ်သန်း | ။ | ၁၈၆၊ ၁၈၇ |
| ဦးစောလွင် | ။ | ၃၉၂၊ ၃၉၃ |
| ဦးစစ်ဟန် | ။ | ၃၃၇၊ ၃၄၀ |
| ဦးစိန်ညွန့် | မန္တလေးမြို့ | ၂၄၆ |
| ဒေါက်တာ ဦးညီညီ | ရန်ကုန်မြို့ | ၃၁၇၊ ၃၁၈၊ ၃၁၉၊ ၃၂၁၊ ၃၂၄ |
| ဒေါ်ညွန့်ညွန့် | ။ | ၂၄၅ |
| ဦးတင်ဦး | ဗန်းမော်မြို့ | ၁၉၈၊ ၁၉၉ |
| ဦးတင်ဦး | ရန်ကုန်မြို့ | ၁၆၈၊ ၁၇၀၊ ၁၇၂ |
| (ဖျာပုံ) ဒေါ်တင်အုံးသွင် | ။ | ၃၃၇ |
| ဒု-ဗိုလ်မှူးကြီးတင့်ဆွေ | တောင်ကြီးမြို့ | ၃၃၃၊ ၃၃၅၊ ၄၁၀၊ ၄၄၂၊ ၄၄၃ |
| ဦးထိန်လင်း | ရန်ကုန်မြို့ | ၇၀ |
| ဦးထွန်းကြိုင် | မြိတ်မြို့ | ၃၇၃ |
| ဦးထွန်းရည် | ရန်ကုန်မြို့ | ၇၈၊ ၃၆၈ |
| ဦးဗထွေး (သိပ္ပံဗထွေး) | မုံရွာမြို့ | ၂၈၆၊ ၂၈၇၊ ၂၈၈၊ ၂၈၉၊ ၂၉၀၊ ၂၉၁ |
| ဦးဘမိုး | ရန်ကုန်မြို့ | ၂၅၉ |
| ဦးဘလုံလေး | ။ | ၂၆၅ |
| ဦးမင်းနိုင် | ။ | မနောပွဲ-ရောင်စုံပုံ၊ ၄၃၈၊ |
| မျိုးမြင့် | ။ | ၂၁၊ ၄၂၇ |
| ဦးရွှေ | ။ | ၁၅၁ |
| ဒေါ်ဦးယဉ် | ။ | ၃၆၇ |

# နိုင်ငံပြု သုခမိန် လော့ ဗီးဗား ဗရွတ်

**လော့ ဗီးဗား ဗရွတ်သည် သတင်းစာလောကမှ နိုင်ငံရေးလောကသို့ ကူးပြောင်းကာ ဝန်ကြီးအဖြစ် တိုင်းပြည်၏ တာဝန်ကို ကျေပြွန်စွာ ထမ်းရွက်ခဲ့၍ ဗြိတိသျှဝန်ကြီးချုပ် ချာချီ၏ ချီးကျူးခြင်းကို ခံယူရရှိခဲ့သည်။ မည်သည့် ဆောင်ရွက်ကြိုးပမ်းမှုများကြောင့် ထိုသို့ ချီးမွမ်းခံရပုံကို ဖတ်ရှု လေ့လာရပေလိမ့်မည်။**

**ဗီးဗားဗရွတ်၊ လော့** (ခရစ် ၁၈၇၉ ဖွား)။ ။ဗြိတိသျှ နိုင်ငံပြုသုခမိန် သတင်းစာတိုက် ပိုင်ရှင် လော့ ဗီးဗားဗရွတ် ဘွဲ့ခံ ဝီလျံ မက္ကဆွဲ အိုက်ကင်းသည် ၁၈၇၉ ခုနှစ် မေလ ၂၅ ရက်နေ့တွင် ကနေဒါနိုင်ငံ အွန်တေးရီးယိုးပြည်နယ်၊ မေပယ် မြို့၌ ဖွားမြင်လေသည်။ သူ၏ဖခင်မှာ ပရက်ဇဗီတီးရီးယန်း ဂိုဏ်းဝင် ဓမ္မဆရာတဦးဖြစ်၏။ အိုက်ကင်းသည် အသက် ၂၀ အရွယ်ကပင် ဟဲလဖက်မြို့တွင် စီးပွားရေး လုပ်ငန်း စတင် လုပ်ကိုင်ခဲ့ပြီးနောက် တိုးတက်ကြီးပွားလာသော အခါ၊ မွန်း ထရီးအောမြို့သို့ ပြောင်းရွှေ့ လုပ်ကိုင်ခဲ့ပြန်သည်။ အသက် ၂၈ နှစ်အရွယ်တွင် စတော့ပွဲရုံ၌ အရေးပါ အရာရောက်သူ ဖြစ်လာခဲ့၏။

၁၉၁၀ ပြည့်နှစ်တွင် မွန်းထရီးအော ဘဏ်ကြီးက ကနေ ဒါနိုင်ငံ ဘိလပ်မြေစက်ရုံကြီး ၃ ခုကို ပူးပေါင်းရေး အတွက် စုံစမ်းရန် အိုက်ကင်းအား ခန့်ထားသည်။ ထိုလုပ်ငန်းကို ဆောင်ရွက်ခဲ့ရာတွင် ကနေဒါနိုင်ငံရှိ ဘိလပ်မြေ စက်ရုံအား လုံး ပူးပေါင်းရေးကိုပါ ဆောင်ရွက်ခဲ့လေသည်။ ယင်းသို့ ဆောင်ရွက်သည်ကို ကနေဒါနိုင်ငံသူနိုင်ငံသားများက လုံးဝ မကျေနပ်ကြပေ။ သတင်းစာများမှလည်း အပြင်းအထန် ရေးသားကန့်ကွက်ခဲ့ကြ၏။ မည်သို့ပင် ဖြစ်စေ သူ၏ဆောင် ရွက်မှုကြောင့် ဘိလပ်မြေစက်များ ငွေရေးကြေးရေး အခြေ အနေကောင်းမွန်လာရုံမက အိုက်ကင်းကိုယ်တိုင်လည်း ရွှေ ဒင်္ဂါးပေါင်တသန်းခန့် ကြွယ်ဝသူဘဝသို့ ရောက်လာသည်။ ထိုနှစ်တွင်ပင် အိုက်ကင်းသည် အင်္ဂလန်ပြည်သို့ ပြောင်းရွှေ့ ကာ နိုင်ငံရေးလောကသို့ ဝင်လေသည်။

၁၉၁၀ ပြည့်နှစ် ဒီဇင်ဘာလတွင် ပါလီမန်အမတ် အဖြစ် အရွေးခံရကာ အတိုက်အခံခေါင်းဆောင် ဗိုနာလော၏ အ တွင်းရေးအတွင်းဝန်အဖြစ် ဆောက်ရွက်ခဲ့၏။ ဗိုနာလော၏ ချစ်ခင်ယုံကြည်မှုကို ခံယူရသူလည်း ဖြစ်သည်။ ၁၉၁၁ ခု နှစ်တွင် ဆာဘွဲ့ချီးမြှင့်သူကောင်းပြုခြင်း ခံရသည်။ ပဌမ ကမ္ဘာစစ်အတွင်းက သူ၏ဆောင်ရွက်ချက်များကြောင့် ဩ ဇာတိက္ကမ ကြီးမားလာကာ ၁၉၁၆ ခုနှစ်တွင် ဗဲရွန်နက် အ ဆင့်အတန်းသို့ တိုးမြှင့်ခန့်အပ်ခြင်းခံရပြီးနောက် ၁၉၁၇ ခု နှစ်တွင် ဗဲရွန် ဗီးဗားဗရွတ်အဖြစ် သူကောင်းပြုခြင်း ခံရလေ သည်။ ထိုအခါမှစ၍ လော့ ဗီးဗားဗရွတ်ဟု တွင်ခဲ့သည်။

၁၉၁၈ ခုနှစ်တွင် လော့ ဗီးဗားဗရွတ်သည် ပြန်ကြားရေး ဝန်ကြီးအဖြစ် ဆောင်ရွက်ရလေသည်။ စစ်ပြီးသော အခါ



ဗြိတိသျှ သတင်းစာ လောကတွင် ထင်ရှားကျော်ကြားသည့် လော့ ဗီးဗားဗရွတ်

အစိုးရအဖွဲ့မှနုတ်ထွက်၍ "ဒေးလီးအိပ်စပရက်" သတင်းစာ ကို ကိုယ်တိုင် အုပ်ချုပ်လုပ်ကိုင်ခဲ့ရာ သတင်းစာမှာ လူကြိုက် များလာသဖြင့် စောင်ရေ တိုးတက် ထုတ်ဝေခဲ့ရသည်။ ၁၉၂၁ ခုနှစ်တွင် "ဆန်းဒေးအိပ်စပရက်"သတင်းစာကို တည် ထောင်ခဲ့၍ နောက်မကြာမီ "အီးဗနင်းစတင်းဒတ်" သတင်း စာ ကို ဝယ်ယူလုပ်ကိုင်ခဲ့ပြန်လေသည်။

၁၉၂၉ ခုနှစ်တွင် ဗီးဗားဗရွတ်သည် နိုင်ငံရေး နယ်ထဲသို့ ပြန်ဝင်လာပြီးနောက် ဗြိတိသျှ နိုင်ငံတော်အတွင်း လွတ် လပ်စွာ ကုန်သွယ်ရေးကိစ္စကို အထမြောက် အောင်မြင်စေ ရန် ကြိုးပမ်းဆောင်ရွက်လေသည်။ ထိုအရေးတွင် သူ၏ဝါဒ ကို ထောက်ခံသော ပါလီမန်အမတ်လောင်းများကို သူ၏ သတင်းစာများက အားပေးကူညီခဲ့သည်။

၁၉၄၀ ပြည့်နှစ် မေလ ၁၄ ရက်နေ့တွင် ဗြိတိသျှဝန်ကြီး

ချုပ် ချာချီက လော့ဗီးဗားဗရွတ်အား လေယာဉ်ပျံ ထုတ်လုပ်ရေးဌာန ဝန်ကြီးအဖြစ် ခန့်ထားလိုက်ရာ သူ၏ ဆောင်ရွက်ချက်သည် အထူးအောင်မြင်သဖြင့် ချာချီကပင်လျှင် လော့ ဗီးဗားဗရွတ်သည် စစ်လေယာဉ်ပျံများကို မျက်လှည့်ပြသလို ထုတ်လုပ်လိုက်သည်ဟု ခြီးမွမ်းခဲ့ရ၏။ ၁၉၄၁ ခုနှစ် မေလမှအစပြု၍ လော့ ဗီးဗားဗရွတ်သည် ထောက်ပံ့ရေးဌာန ဝန်ကြီးအဖြစ် ဆောင်ရွက်ခဲ့ရာ ၁၉၄၂ ခုနှစ်တွင် အငှါး ချအကြွေးပေး ဥပဒေဆိုင်ရာ ဗြိတိသျှ အုပ်ချုပ်ရေးမှူးအဖြစ် အမှုထမ်းရန် အမေရိကန်ပြည်ထောင်စုသို့ စေလွှတ်ခြင်း ခံရသည်အထိ ဖြစ်သည်။ ၁၉၄၃ ခုနှစ်မှ ၁၉၄၅ ခုနှစ် အထိ တံဆိပ်တော်ဝန်ကြီး အဖြစ် ခန့်အပ်ခြင်း ခံခဲ့ရသည်။ ၁၉၄၇ ခုနှစ်မှ ၁၉၅၃ ခုနှစ်အထိ နယူးဗရန်းဇွစ်တက္ကသိုလ် အဓိပတိ အဖြစ်တင်မြှောက်ခြင်း ခံရသည်။ တိုရွန်တိုတက္ကသိုလ်၊ မောင့်အလီဆန် တက္ကသိုလ်တို့မှ ဥပဒေပါရဂူနှင့် စာပေပါရဂူဘွဲ့ထူးများကို အသီးအသီး ခြီးမြှင့်ခြင်းလည်း ခံရသည်။

လော့ ဗီးဗားဗရွတ်သည် "အောင်မြင်မှု"၊ "နိုင်ငံရေး သမားနှင့်စစ်"၊ "နိုင်ငံရေး သမားနှင့် သတင်းစာလောက"၊ "ဗြိတိသျှ အင်ပိုင်ယာ၏ သဘာဝအခြေအမြစ်များ"၊ "ကံကို မယုံနှင့်"၊ "အောင်မြင်ရေးအတွက် သော့သုံးချက်" စသော စာအုပ် စာတမ်းများစွာ ရေးသား ထုတ်ဝေခဲ့သည်။

**ဗီးလယာ့, ဂျော့** (ခရစ် ၁၅၉၂ – ၁၆၂၈)။ ။အင်္ဂလိပ်နန်းတွင်းသား၊ ဘုရင့် အချစ်တော်နှင့် နိုင်ငံပြုသုခမိန် ဂျော့ဗီးလယာ့ကို ၁၅၉၂ ခုနှစ် ဩဂုတ်လ ၂၈ ရက်နေ့တွင် လက်စတာရှိုင်ယာနယ် ဗရုစဘီမြို့တွင် ဖွားမြင်သည်။ ဆာဂျော့ဗီးလယာ့၏ ဒုတိယသား ဖြစ်သည်။

ဗီးလယာ့ ၁၃ နှစ်အရွယ်တွင် ဖခင်ဖြစ်သူကွယ်လွန်သည်။ အသက် ၁၈ နှစ်တွင် ပြင်သစ်နိုင်ငံသို့ သွားရောက်၍ ၃ နှစ်မျှ နေထိုင်ကာ ကိုယ်လက်လေ့ကျင့်ရေးဖက်တွင် အထူးသင်ယူတတ်ကျွမ်းခဲ့သည်။ ပင်ကိုယ်ရုပ်ရည်ကလည်းလှ၍ အမူအယာသိမ်မွေ့သူ ဖြစ်သည့်အပြင်၊ကိုယ်လက်လေ့ကျင့်သူဖြစ်သဖြင့် ကိုယ်ဟန်လှသော ဗီးလယာ့အား ပဌမဂျိမ်းဘုရင်သည် အလွန်နှစ်သက် ချစ်ခင်တော်မူသည်။ ဘုရင်ကချစ်ခင် မြတ်နိုးစွာဖြင့် ခေါ်သည့် စတီနီဟူသောအမည်ဖြင့် လူသိများခဲ့သည်။မကြာမီ အားဘွဲ့ရဆမ္မားဆက်ကို ဆက်ခံသူအဖြစ် မြှောက်စား ခံရသည်။ ၁၆၁၈ ခုနှစ်တွင် ဗီးလယာ့သည် ဆာဘွဲ့ဖြင့် သူကောင်းပြုခံရရုံမက မားကွစ်ဘွဲ့ရ ဗတ်ကင်ဂမ်စားအဖြစ် ခြီးမြှင့်ခြင်းခံရသည်။ ၂ နှစ်အတွင်း ဘုရင်မင်းမြတ်သည် ဗီးလယာ့အား ဘွဲ့ထူး၊ ဂုဏ်ထူး၊ ရာထူးကြီးများဖြင့် စုပုံခြီးမြှင့်လိုက်ရာ ဘုရင်မင်းမြတ်ပင် လူအများ၏ ပြစ်တင် ရှုတ်ချခြင်း ခံရရုံမက၊ မလိုမုန်းထားခြင်းပါ ခံခဲ့ရသည်။

၁၆၂၀ ပြည့်နှစ်တွင် ဗီးလယာ့သည် အားဘွဲ့ရ ရပ်တလန်စား၏ သမီးဖြစ်သူ တနိုင်ငံလုံးတွင် အချမ်းသာဆုံး အမွေခံအမျိုးသမီးနှင့် လက်ထပ်သည်။ ဝေလမင်းသား ချားနှင့် စပိန် မင်းသမီးတို့ လက်ထပ်ရန် အားဘွဲ့ရ ဗရစ္စတိုစားက စေ့စပ်နေစဉ်တွင် ချားအား စပိန်နိုင်ငံ မဒရစ်မြို့တော်သို့ ကိုယ်တိုင်သွားရောက် စေ့စပ်ရန် ဗတ်ကင်ဂမ်စားက သွေးဆောင်သည်။ သူ၏ သွေးဆောင်ချက်အရ ချားလည်း မဒရစ်မြို့တော်သို့ ဗတ်ကင်ဂမ်စားနှင့် အတူ သွားရောက်သည်။ သို့ရာတွင် ဗတ်ကင်ဂမ်စား၏ မောက်မာစွာ ဆက်ဆံမှုကြောင့် လက်ထပ်ရေး အစီအစဉ် မပြေမပြစ်ဖြစ်ကာ ပျက်ပြားခဲ့ရရုံမက စပိန်နှင့် ဗြိတိန်နိုင်ငံတို့ စစ်ဖြစ်ပွားခဲ့ရသည်။ သို့သော်လည်း ဗီးလယာ့အပေါ် ဘုရင်နှင့် ဝေလမင်းသား ချားတို့၏ အထင်ကြီးမှုသည် ပျက်ပြယ် သွားခြင်းမရှိရုံမက ဒျူ့ဘွဲ့ဖြင့်ပင် တိုးတက်ခြီးမြှောက်ခြင်း ခံရလေသည်။

၁၆၂၅ ခုနှစ် မတ်လတွင် ပဌမ ဂျိမ်းဘုရင်ကံကုန်၍ ချားမင်းသားသည် ပဌမချားဘုရင်အဖြစ် နန်းတက်သည်။ ထိုနှစ် မေလတွင် မဒရစ်မြို့သို့ သွားစဉ်ကတွေ့ခဲ့သော ပြင်သစ်မင်းသမီး ဟင်နရီအက်တာ မာရီယားနှင့် လက်ထပ်ဖို့ စေ့စပ်ရန် ချားဘုရင်က ဗီးလယာ့အားစေလွှတ်ပြန်သည်။ နောက်နှစ်တွင် ဗီးလယာ့အား စပိန်နိုင်ငံ ကေးဒစ်မြို့ကို တိုက်ခိုက်ရန် ခေါင်းဆောင်စေလွှတ်လိုက်ရာ အရေးရှုံးနိမ့်သဖြင့် ပါလီမန်လွှတ်တော်က အပြင်းအထန် ပြစ်တင်ရှုတ်ချခြင်း ခံရသော်လည်း၊ ဘုရင်က ပါလီမန်ကို ဖျက်သိမ်းပေးလိုက်သဖြင့် ဗီးလယာ့ ချမ်းသာရာ ရခဲ့သည်။

ထိုပြင် ဗီးလယာ့၏ မောက်မောက်မာမာ ပြုမူမှုများကြောင့် မကြာမီ အင်္ဂလန်နှင့် ပြင်သစ်တို့ စစ်ဖြစ်သည့် အခြေအထိ ရောက်ခဲ့ရသည်။ ၁၆၂၇ ခုနှစ်တွင် ပြင်သစ် အစိုးရအား တော်လှန်နေကြသော ဟျူးဂျနိုးတို့ အခိုင်အမာ တပ်စွဲရာ ရိုရှယ်ခံတပ်မြို့သို့ ဗီးလယာ့အား လက်နက် အမြောက်အမြားဖြင့် အကူအညီသွားရန် စေလွှတ်လိုက်ရာ ဟျူးဂျနိုးတို့က အကူမခံသည့်အပြင် မြို့သို့ပင် မဝင်ရန်တားမြစ်သဖြင့် ဗီးလယာ့သည် နောက်ဆုတ်ခဲ့ရသည်။ (ဟျူးဂျနိုး — ရှု။) မကြာမီ ရိုရှယ်မြို့သို့ တဖန်သွားရောက်ရန် ပို့စမတ်မြို့တွင် အစီအစဉ်များ ပြုလုပ်နေခဲ့စဉ် ရာထူးခန့်ထားမှုနှင့် စပ်လျဉ်း၍ သူ့အပေါ် မကျေမနပ်ဖြစ်နေခဲ့သော ဂျွန် ဖဲလတန်ဆိုသူ စစ်ဗိုလ်ကလေး တဦးက လုပ်ကြံသဖြင့် ၁၆၂၈ ခုနှစ် ဩဂုတ်လ ၂၃ ရက်နေ့တွင် ကွယ်လွန်သည်။

**ဗုဇွန်**။ ။ဗုဇွန်သည် ကရပ်စတေးစီးခေါ် အခွံမာ သတ္တဝါမျိုးပေါင်းတွင် အမြီးရှည်သော အကောင်မျိုး ဖြစ်သည်။ ယင်းသည် ကနန်းနှင့် တမျိုးတည်း ဖြစ်သည်။

ဗုဇွန်အမျိုးမျိုး ရှိသည်။ ယင်းတို့မှာ ဗုဇွန်တုပ်၊ ဗုဇွန်

ကျော့၊ ဗုဇွန်ဆိတ်၊ ဗုဇွန်ကျား၊ ကျောက်ဗုဇွန် စသည်တို့ဖြစ်ကြသည်။

ဗုဇွန်တုပ်သည် ၂ ပေအထိပင် ရှည်တတ်သည်။ အချို့ဗုဇွန်တုပ်ကြီးများမှာ ၃၅ ပေါင်အထိပင် အချိန် စီးတတ်သည်။ ကိုယ်ထည်သည် လုံး၍ အစိတ်အပိုင်း ၆ ခုဆက်စပ်ထားသကဲ့သို့ ဖြစ်နေသည်။ ကိုယ်ပေါ်တွင် အပြာရောင်ခပ်ပြောင်ပြောင် အခွံမာ ဖုံးအုပ်နေသည်။ အမြီးမှုကား ယပ်တောင်သဖွယ် ကားနေသည်။ ဦးခေါင်းထိပ်တွင် ရှည်လျားသော အမှင်အင်္ဂါ ၂ ခုရှိသည်။ ကနန်းကဲ့သို့ပင် ခြေ ၅ စုံပါ၍ ပဌမအစုံကို လက်မဟုခေါ်သည်။ လက်မတဖက်မှာ ကြီး၍ တုံးသောသွားများ ပါရှိပြီးလျှင် ယင်းလက်မဖြင့် မိမိ၏ အစာကို ကြိတ်ချေသည်။ ကျန်လက်မတဖက်မှာ သေးငယ်၍ချွန်ထက်သော သွားများ ပါရှိကာ အစာကို ကိုက်ဖြတ်ရန်အသုံးပြုသည်။ ဗုဇွန်တုပ်၏ ဝမ်းပိုက်တွင် ရေကူးအင်္ဂါငယ်များ ပါရှိသည်။ ရေကူးရာတွင် ယင်းတို့ကို လှော်တက်များသဖွယ် အသုံးပြုလေသည်။

ဗုဇွန်တုပ်သည်တသားလျှင်ဥပေါင်း ၅,၀၀၀ မှ ၁၀၀,၀၀၀ အထိ အုတတ်သည်။ ယင်းဥများကို ဝမ်းပိုက်ရှိ ရေကူးအင်္ဂါငယ်ကလေးများတွင် စေးကပ်သော ကော်တမျိုးဖြင့် အမြဲ ကပ်နေအောင် သယ်ဆောင်ထားကြသည်။ ၁၁ လမျှကြာသော် ဥများမှ ဗုဇွန်တုပ်ကလေးများပေါက်ဖွားလာသည်။ အများအားဖြင့် နွေကူးရာသီတွင် ဥမှပေါက်လေ့ရှိသည်။ ပေါက်စတွင် ဗုဇွန်တုပ်ကလေးသည် တလက်မ၏ ၄ ပုံ ၁ ပုံခန့် ရှည်သည်။ ဦးခေါင်းကြီး၍ အမြီးငယ်သည်။ ဗုဇွန်တုပ်ကလေးသည် ကိုယ်ထည် ငယ်သည်ကလွဲ၍ အရွယ်ရောက်ပြီး ဗုဇွန်တုပ်ကြီးနှင့် ပုံပန်းသဏ္ဌာန်တထေရတည်း တူသည်။ ရက်သတ္တပတ်အနည်းငယ်ကြာသောအခါ၊ ဗုဇွန်တုပ်ကလေးသည် ရေအောက်သို့ ဆင်းကာကျက်စားလေသည်။ ထိုမှစ၍ ဗုဇွန်တုပ်သည် အသက်ကြီးလာသည်နှင့်အမျှ တဖြည်းဖြည်းကြီးလာ၍ အလေးချိန်လည်း စီးလာသည်။

ဗုဇွန်တုပ်သည် တသက်လုံး ဤအခွံနှင့်ချည်း နေသွားသည်မဟုတ်ချေ။ မကြာခဏ အခွံလဲသည်။ ပဌမ တနှစ်သားအတွင်း ၁၄ ကြိမ်မှ ၁၇ ကြိမ်အထိ အခွံလဲသည်။ နောက်ကြီးသောအခါ တနှစ်တကြိမ်လဲသည်။ ဗုဇွန်တုပ်သည် အခွံလဲတော့မည်ရှိသောအခါ ကနန်းကဲ့သို့ပင်လုံခြုံစိတ်ချရသောနေရာကောင်းတခုကို မရအရ ရှာဖွေစမြဲ ဖြစ်သည်။ သူ၏ရှည်လျားသော အမှင်အင်္ဂါဖြင့် တွေ့သမျှ အပေါက်များ အထဲသို့ ထိုးသွင်းစမ်းသပ်ခြင်းဖြင့် သင့်တော်မည့်အပေါက်၊ သို့မဟုတ် "တွင်း" ကို ရှာဖွေသည်။ ထိုးစမ်းကြည့်သောအပေါက်ထဲတွင် မည်သည့်ဘေးအန္တရာယ်မျှ မရှိဟူ၍ စိတ်ချလောက်မှ တွင်းအောင်းခြင်းအမှုကို ပြုလေသည်။ တွင်းအောင်းယင်းပင် ဗုဇွန်တုပ်သည် အပြင်းအထန်တွန့်လိမ်လှုပ်ရှားကာ အရေခွံလဲရသည်။ အရေခွံလဲရသည်မှာ အခွံမာကြီးများကို ကိုယ်မှ ပြုတ်ထွက်သွားအောင် အပြင်း အထန်ကြိုးပမ်းရသည်ဖြစ်ရာ အားကုန်ပင်ပန်းလှသည် ဖြစ်သောကြောင့် ဗုဇွန်တုပ်သည် အခွံကျွတ်သည့်အခါ ခေတ္တမျှမလှုပ်မယှက်နိုင်ဘဲ မေ့မြော၍ပင် သွားရှာတတ်သည်။ သို့သော်အသစ်ပေါ် ပေါက်လာသော အရေခွံအတန်ငယ်မာလာသည်နှင့် တပြိုင်နက် အားအင်တဖန် ပြန်လည်ပြည့်ဝ လာလေသည်။ အရေခွံဟောင်းကွာ၍ အခွံသစ် မာကျောလာခြင်း မရှိမီအချိန်တွင်ရန်သူတို့ကိုအထူးသတိထား၍နေကြရသည်။

ဗုဇွန်တုပ်သည် ရေထဲတွင် ယက်ကာ ယက်ကာဖြင့် လေးလေးမှန်မှန် သွားလေ့ရှိသည်။ သို့ရာတွင် တစုံတရာ အရေးကြီးသော ကိစ္စကြုံလာလျှင် ရေထဲသို့ လျင်မြန်သော အရှိန်



**ပင်လယ်တွင်းကျက်စားလေ့ရှိသော ဗုဇွန်ကြီးမျိုး**



ပင်လယ်တွင် ပုဇွန်ဖမ်းရာ၌ ပုဇွန်စာအိုးများကို ဤသို့ ပင်လယ်တွင်းချ၍ ဖမ်းယူရသည်။

ဖြင့် နောက်ပြန်ပစ်ကူးလေ့ ရှိသည်။ တခါတရံ ခပ်ကဲ့ကဲ့ သွား၍ တချက်တချက် ခုန်တတ်သေးသည်။ သွားရာ နေရာ၌ တွင်းများတွေ့လျှင် သူတို့၏လက်မကြီးဖြင့် နှိုက်စမ်းကြည့်တတ်သည်။ ရန်သူကိုတွေ့ပါကလက်မဖြင့်ညှပ်ပစ်လေသည်။

ရှုံ့နှံ့ထူထပ်သော နေရာမျိုးတွင် ပုဇွန်တုပ်ကို တွေ့ရခဲသည်။ ယင်းတို့သည် ကျောက်တောင်ထူထပ်ပေါမျာ်းသော ကမ်းခြေ ရေတိမ်ရာ နေရာများကို အထူးသဖြင့် ကြိုက်နှစ်သက်တတ်သော်လည်း ရေနက်ရာ အရပ်များတွင်လည်း တွေ့ရတတ်သည်။ အတ္တလန္တိတ်သမုဒ္ဒရာဖက်ရှိ အမေရိကန် ကမ်းခြေတလျှောက်တွင် တွေ့ရသော ပုဇွန်တုပ်မျိုးသည် ကမ္ဘာပေါ်တွင် အကြီးဆုံးမျိုး ဖြစ်သည်။ ဥရောပတိုက် ကမ်းခြေတလျှောက်တွင် တွေ့ရသော ပုဇွန်တုပ်မျိုးမှာမူ အမေရိကန် ပုဇွန်တုပ်လောက် မကြီးချေ။ ပင်လယ် ပုဇွန်တုပ်မျိုးတွင် အာဖရိကတိုက် ဂွတ်ဒဟုပ်အငူ ကမ်းခြေတွင် တွေ့ရသော ပုဇွန်တုပ်မျိုးသည် အငယ်ဆုံးဖြစ်သည်။ နိုင်ငံအရပ်ရပ်ရှိ မြစ်ချောင်းတို့မှ ဖမ်းယူရရှိသော ရေချိုပုဇွန်တုပ်တို့မှာမူ အကြီးဆုံး ၈ လက်မခန့်သာ ရှိလေသည်။

ပုဇွန်ဆိတ်နှင့် ပုဇွန်ကျော့များမှာမူ ပုဇွန်တုပ်ကြီးများကဲ့သို့ ရေနက်ရာ ပင်လယ်တွင် မတွေ့ရဘဲ၊ ရေတိမ်၍ သဲမြေရှိရာ မြစ်ချောင်း အင်းအိုင်တို့တွင်သာ အမြောက်အမြား တွေ့ရသည်။ ကမ္ဘာ့အရပ်ရပ်မှာပင် တွေ့ရှိနိုင်သည်။

ပုဇွန်ဆိတ်နှင့် ပုဇွန်ကျော့များကို အချို့က မကြီးထွားသေးသော ပုဇွန်တုပ်ဟု ထင်ကြသည်။ ထင်ကြသည့် အကြောင်းမှာ အမှတ်မဲ့ကြည့်က အကြီး အသေးမှလွဲ၍ ပုံပန်းသဏ္ဌာန်ချင်း တူသောကြောင့် ဖြစ်လေသည်။ သို့ရာတွင် ယင်းတို့၌ လွယ်ကူစွာ ခွဲခြားနိုင်သော အချက်အလက်များ ရှိသည်။ ပုဇွန်ဆိတ်သည် အကြီးဆုံး ၃ လက်မအထိသာ ကြီး၍၊ ပုဇွန်ကျော့သည် ၅ လက်မအထိ ကြီးသည်။ ယင်းတို့၏ အမြီးနှင့် ဝမ်းပိုက်ရှိရေကူးအင်္ဂါများသည် အရွယ်နှင့်မလိုက်အောင် ကြီးသည်။ တတိယနှင့် စတုတ္ထအဆက်၌ ကိုယ်လုံးကွေး၍ ကျောခုံးနေသည်။ ဆွဲဆန့်သည့်တိုင်အောင်ပင် ခပ်ခုံးခုံး ဖြစ်နေလေသည်။ ပုဇွန်ဆိတ်သည် အရောင်မဲ့၍ အညိုစက်ရှိသည်။ ပုဇွန်ကျော့သည် စိမ်းပြာရောင် ရှိ၍ အညိုစက်ပါသည်။

ပုဇွန်ဆိတ်နှင့် ပုဇွန်ကျော့ကိုလည်း တကောင်နှင့် တကောင် ခွဲခြားရန် မခဲယဉ်းချေ။ ပုဇွန်ဆိတ်၏ ဦးခေါင်းထိပ်တဖက်တချက်မှ ယုန်နားရွက်ကဲ့သို့ မပျော့လွန်း မမာလွန်းသော အပြား ၂ ခု ထိုးထွက်၍၊ ယင်းအပြား ၂ ခုအနီး၌ အာရုံမှင်အရှည် ၂ ခုနှင့် မျက်စိ ၂ ခုကြား၌ ခက်ရင်းခွကဲ့သို့သော အာရုံမှင် ၂ ခုရှိသည်။ ပုဇွန်ဆိတ်၏ လက် ၅ စုံအနက် ပဌမလက်တစုံသည် ကြီး၍ပြားပြီးလျှင်၊ အဖျားတွင် ၂ ခွဖြစ်၍ ချိတ်ကဲ့သို့ ကောက်ကောက်ကလေး ဖြစ်နေသည်။ ယင်းတို့

ထက် ငယ်သော သတ္တဝါကလေးများကို ညှပ်၍ စားသောက်ကြရန် ဖြစ်သည်။ ဗုဇွန်ကျော့၏ ဦးခေါင်းထိပ်မှမူ ဆူးတောင်ကဲ့သို့ အညွန့်အတက်နှင့် အချွန်တခု ထိုးထွက်နေသည်။ အာရုံမှင် ၂ စုံစလုံးသည် သေး၍ ရှည်သည်။ ပဉ္စမနှင့် ဒုတိယ လက် ၂ စုံသည် ဗုဇွန်တုပ်လက်နှင့် ဆင်ဆင်တူသည်။

ဗုဇွန်ကျားမျိုးမှာမူ ကိုယ်ထည်ပြား၍ ဗုဇွန်တုပ်လောက် ခေါင်းမကြီးချေ။ အပေါ်အရေခွံလည်း ဗုဇွန်တုပ်လောက် မထူဘဲ အရောင်မှာ စိမ်းညိုရောင်နှင့် အဝါစင်းကျား ဖြစ်သည်။ လက်နှင့်ဝမ်းပိုက်ရှိ ရေကူးအင်္ဂါများလည်း ပို၍ ပျော့ပျောင်းနူးညံ့သည်။ အရွယ်အားဖြင့် ၆ လက်မမှ ၈ လက်မအထိ ရှိသည်။ ယင်းကိုလည်း ရေတိမ်ရာမြစ်ချောင်း စသည်တို့၌သာ တွေ့ရသည်။

ကျောက်ဗုဇွန်သည် ၆ လက်မထက် ပိုကြီးခဲသည်။ အဖြူ၊ ပန်းရောင်၊ လိမ်မော်ရောင်၊ အညို၊ စိမ်းပြာနှင့် အပြာ ပုပ်ပုပ် အရောင် စသည်ဖြင့် အရောင်အမျိုးမျိုး ရှိသည်။ ကျောက်ဗုဇွန်၏အခွံသည် မာ၍ ကြမ်းသည်။ ဗုဇွန်တုပ်ကဲ့သို့ပင် လက် ၅ စုံရှိသည့်အနက် ပဌမလက်စုံသည် ညှပ်၍ရသည်။ ကျန်လက် ၄ စုံဖြင့် လမ်းလျှောက်သည်။

ဗုဇွန်အမျိုးမျိုးကို လူတို့သည် ဟင်းလျာအလို့ငှါ ဖမ်းယူကြသည်။ အများအားဖြင့် လတ်လတ် ဆတ်ဆတ် ချက်ပြုတ်စားသောက်သော်လည်း အနောက်နိုင်ငံများတွင် စည်သွတ်၍ ရောင်းချကြသည်။ မြန်မာနိုင်ငံတွင် ဗုဇွန်ဖြင့် ငပိ လုပ်ကြသေးသည်။ မျှင်ခေါ် အလွန်သေးငယ်သည့် ဗုဇွန်ကလေးဖြင့် ပြုလုပ်သည် ထိုမျှင်ငပိသည် အလွန်ထင်ရှားသည်။ ဗုဇွန်ဦးခေါင်းမှရရှိသည့် အဆီသက်သက်ကိုလည်း ချက်၍ ဟင်းလျာတမည်အဖြစ် စားသုံးကြသည်။ ဗုဇွန်ပေါသည့် မြစ်ဝကျွန်းပေါ်ဒေသတွင် ဗုဇွန်ဥများကို သက်သက် ထုတ်၍ ရောင်းချကြသည်။

**ဗုဇွန်လုံး။** ။ကနန်း — ရှု။

**ဗုသ, ဝီလျံ** (ခရစ် ၁၈၂၉ – ၁၉၁၂)။ ။ဝီလျံဗုသသည် ကယ်ဆယ်ရေးတပ်ကို စတင်တည်ထောင်သူ ဖြစ်သည်။ ဗုသကို အင်္ဂလန်ပြည် နော့တင်ဂမ်မြို့၌ ၁၈၂၉ ခုနှစ် ဧပြီလ ၁၀ ရက်နေ့တွင် ဖွားမြင်၏။ သူသည် ငယ်ရွယ်စဉ်ကပင် ကိုယ့်ဒူးကိုယ်ချွန် အသက်မွေး ဝမ်းကျောင်း ပြုခဲ့ရသူ ဖြစ်သည်။

ဗုသသည် ရှေးဦးစွာ အပေါင်ဆိုင် လက်ထောက်အဖြစ် လုပ်ကိုင်နေရာမှ ဘာသာရေးဟောပြောမှု၌ဝါသနာထုံသည့် အလျောက် ၁၈၅၂ ခုနှစ်တွင် မက်သဒစ် ဓမ္မဆရာ အလုပ်ကိုကူးပြောင်းလုပ်ကိုင်ခဲ့သည်။ ၁၈၅၅ ခုနှစ်တွင်ကက်သရင်း မန်ဖို့အမည်ရှိသော ဝါသနာချင်းတူ၍ သဘောကိုက်ညီသည့် အမျိုးသမီး တဦးနှင့် လက်ထပ် လိုက်သည်။ မက်သဒစ် ဓမ္မ ဆရာ အလုပ်ကို ၉ နှစ်ခန့် လုပ်ပြီးနောက် မက်သဒစ် ဂိုဏ်းနှင့် အဆက်အသွယ် ဖြတ်လိုက်ပြီးလျှင် မိမိဖာသာ တစင်ထောင်ကာ တရားဟောပြောခဲ့သည်။ ဗုသသည် စိတ်ရင်းကောင်း၏။ ဆင်းရဲသောသူများနှင့် ခိုကိုးရာမဲ့ ဒုက္ခိတများကို ကယ်ဆယ်လိုစိတ် ပြင်းထန်သူဖြစ်သည့် အလျောက် ၁၈၆၅ ခုနှစ်တွင် လန်ဒန်မြို့သို့ သွားရောက်ကာ ဝှိုက်ချပ်ပယ်ရပ်ကွက်၌ ခရစ်ယန် သာသနာပြုအဖွဲ့တခုကို တည်ထောင်လေသည်။ ၁၈၇၈ ခုနှစ်တွင် ထိုအဖွဲ့သည် ကယ်ဆယ်ရေးတပ်ဟူသော အသွင်ဖြင့် အလုပ်သမားလူတန်းစားတို့၏ လူမှုရေးရာ အခြေအနေ တိုးတက်ကောင်းမွန်စေမည့် လုပ်ငန်းများကို ဆောင်ရွက်သည်။ ဗုသသည် ထိုတပ်၏ဗိုလ်ချုပ်ကြီး ဖြစ်လာသည်။ (ကယ်ဆယ်ရေးတပ် — ရှု။)

ဗုသနှင့် အပေါင်းပါတို့၏ လုပ်ငန်းများသည်ငြိမ်ဝပ်ပိပြားရေးကို အနှောင့်အယှက်ပေးသည်ဟု ဆိုကာ ဗုသ၏ နောက်လိုက် များစွာတို့အား ဒဏ်ငွေတပ်ခြင်း၊ ထောင်ချခြင်းတို့ဖြင့် နှိပ်ကွပ် လေသည်။ သို့သော် ၁၈၈၉ ခုနှစ် နောက်တွင်ကား ထိုသို့သောနှိပ်ကွပ်မှုမျိုး မရှိတော့သဖြင့် ဗုသ၏ ကယ်ဆယ်ရေး လုပ်ငန်းသည် ဥရောပတိုက်၊ အမေရိကတိုက်တို့နှင့် ဩစတြေးလီးယား၊ အိန္ဒိယ၊ သီဟိုဠ်စသောနိုင်ငံများသို့



ကယ်ဆယ်ရေးတပ်ကို စတင်ဖွဲ့စည်းသူ ဝီလျံ ဗုသ

ပင် ပျံ့နှံ့သွားခဲ့သည်။ ၁၇၉၀ ပြည့်နှစ်တွင် သူ့အား များစွာ အကူအညီ ပေးခဲ့သော ဇနီးသည် ကက်သရင်း အနိစ္စရောက်သွားလေသည်။ သို့ရာတွင် သူ၏ သားသမီးများ ဖြစ်ကြသော ဗရမ်းဝဲနှင့် အီဗယ်ဂျလင်းတို့သည် သူ့လုပ်ငန်းတွင် များစွာအကူအညီပေးနိုင်ခဲ့သည်။ ထိုနှစ်၌ပင် ဗိုလ်ချုပ်ကြီး ဗုသသည် ''အမှောင်ဆုံး အင်္ဂလန်နိုင်ငံနှင့် ထွက်ရပ်လမ်း'' ဟူသောစာအုပ်ကို ရေးသား ထုတ်ဝေကာ ဝတ်ပြတ်မှုကိုငင်း၊ ဒုစရိုက်ကျူးလွန်မှုတို့ကိုငင်း ပပျောက်စေရန် နည်းအမျိုးမျိုးဖြင့် ကြိုးပမ်းဆောင်ရွက်ခဲ့သည်။ ၁၉ ရာစုနှစ်အကုန်လောက်တွင် ဗုသ၏လုပ်ငန်းများကို အတိုက်အခံ ပြုလုပ်မှုများသည် လုံးဝ ပပျောက်သွား၏။ ယခင်က သာသနာ့ဝန်ထမ်းများ၏ နှာခေါင်းရှုံ့ခြင်းကိုငင်း၊ လမ်းကြီး လမ်းငယ်များထဲတွင် တုတ်၊ ကျောက်ခဲစသည်တို့ဖြင့် ပစ်ခတ်နှင်ထုတ်ခြင်းကိုငင်း ခံခဲ့ရသော ကယ်ဆယ်ရေးတပ်ဗိုလ်ချုပ်ကြီးဗုသသည် မကြာမီ မင်းညီမင်းသားများနှင့် ပခုံးချင်းယှဉ်ကာ လူရာဝင်နိုင်သော အခြေသို့ ရောက်ခဲ့ရသည်။ သတ္တမ မြောက် အက်ဒွပ် ဘုရင်ကြီးကိုယ်တိုင်ကပင် သူ၏ ဘိသိက်ခံ မင်္ဂလာပွဲသို့ တက်ရောက်ရန် ဗုသအား အရေးတယူ ဖိတ်ခေါ်တော်မူခဲ့သည်။ ဗုသ လုပ်ကိုင်သောလုပ်ငန်းများ၏ အဖိုးတန်ပုံ မှန်မြတ်ပုံကို ဆန့်ကျင်ဖက် ဂိုဏ်းသားများ ကပင် ချီးကျူးလာကြရ၏။ ထိုသို့ လောကီ လောကုတ္တရာ နှစ်ဖြာသောကောင်းကျိုးကို ဖြူစင်သော စေတနာဖြင့် မတွန့် မဆုတ်ဆောင်ရွက်ခဲ့ပေသော ဗိုလ်ချုပ်ကြီး ဗုသသည် ၁၉၁၂ ခုနှစ်တွင် အနိစ္စရောက်သွားလေသည်။

**ဗူဂိန်းဗီး, လူဝီ အန်တွန်း ဒါ** (ခရစ် ၁၇၂၉–၁၈၁၁)။ ။ လူဝီ အန်တွန်း ဒါဗူဂိန်းဗီးသည် ထင်ရှားသော ပြင်သစ်လူမျိုး ရေကြောင်းကျွမ်းကျင်သူ ဖြစ်သည်။ ၁၇၂၉ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်နေ့တွင် ပါရစ်မြို့၌ ဖွားမြင်သည်။

ဗူဂိန်းဗီးသည် ဦးစွာ၌ ဝတ်လုံလိုက်၍ အသက်မွေးရန် ကြံရွယ်ခဲ့သော်လည်း ၁၇၅၃ ခုနှစ်တွင် ကြည်းတပ်သို့ ဝင်၍ အမှုထမ်းသည်။ ၁၇၅၄ ခုနှစ်တွင် လန်ဒန်မြို့ရှိ ပြင်သစ်သံရုံး၌ အတွင်းဝန်အဖြစ် သွားရောက်အမှုထမ်းရသည်။ ၁၇၅၆ ခုနှစ်တွင် ကနေဒါနိုင်ငံသို့ သွားရောက်၍ ဗိုလ်ချုပ်မှူး လူဝီ ဂျိုးဇက် ဒါ မွန်းကမ်း၏ ကိုယ်ရံတော်ဗိုလ်မှူးအဖြစ် ဆောင်ရွက်ခဲ့ရပြီးလျှင် တီကွန်ဒါရိုးဂါးတိုက်ပွဲနှင့် ကွီဗက်သိမ်းပွဲတို့တွင် ဝင်ရောက် တိုက်ခိုက်ခဲ့လေသည်။ ၁၇၆၁ ခုနှစ်တွင် ဥရောပ တိုက်သို့ပြန်၍ ဂျာမနီနိုင်ငံတွင် ၂ နှစ်ကြာမျှ တိုက်ပွဲဝင်နေခဲ့လေသည်။ ၁၇၆၃ ခုနှစ်တွင် ကြည်းတပ်မှထွက်၍ ရေတပ်တွင်ဝင်ရောက် အမှုထမ်းသည်။ ပြင်သစ်အစိုးရ၏ တောင်းပန်ချက်အရ ဗူဂိန်းဗီးသည် ဖော့ကလန်ကျွန်းစုတွင် ကိုလိုနီ တည်ထောင်ရန် သွားရောက်ခဲ့သည်။ ယင်းမှ တဆင့် ၁၇၆၆



ကမ္ဘာ့တပတ် ရေကြောင်းခရီး သွားခဲ့သူ လူဝီ အန်တွန်း ဒါ ဗူဂိန်းဗီး

ခုနှစ်တွင် မဂျဲလန်ရေလက်ကြားကို ဖြတ်ခဲ့၍ ပစိဖိတ်သမုဒ္ဒရာအတွင်းရှိ တဟီးတီး၊ ဆမိုးဝါး၊ နယူးဟက်ဗရိဒီး၊ နယူး ဗြိတိန် စသည့် ကျွန်းများသို့ ဝင်ရောက်ခဲ့ပြီးနောက် သင်္ဘောဖြင့် ကမ္ဘာ့တပတ် လှည့်ပတ်လေသည်။ ဗူဂိန်းဗီးသည် ပြင်သစ်လူမျိုးထဲမှ ပဌမဆုံး ကမ္ဘာကို ပတ်ခဲ့သူ ဖြစ်သည်။ သူရေးသားသော ကမ္ဘာ့တပတ် စာအုပ်သည် ပထဝီဝင်နှင့် သိပ္ပံပညာရပ်တို့အတွက် အထောက်အပံ့ များစွာဖြစ်စေခဲ့သည်။

ဗူဂိန်းဗီးသည် ရာထူးများ တဆင့်ပြီး တဆင့် တက်ခဲ့ရာ စစ်သူကြီး (ဖီးမာရှယ်) ရာထူးရခဲ့ပြီးနောက် ၁၇၉၀ ပြည့်နှစ်တွင် ဗရက်မြို့ ရေတပ်မှူးကြီးအဖြစ် ခန့်အပ်ခြင်း ခံရသည်။ နပိုလီယန်ဘုရင်ကပင် ကောင့်ဘွဲ့ ပေးအပ်ခဲ့သည်။ ၁၈၁၁ ခုနှစ် ဩဂုတ်လ ၃၁ ရက်နေ့တွင် ဗူဂိန်းဗီး ကွယ်လွန်လေသည်။ ပစိဖိတ်သမုဒ္ဒရာ တောင်ပိုင်းရှိ ဆော်လမွန်ကျွန်းစု၌ ပါဝင်သော ကျွန်းတကျွန်းကို ဗူဂိန်းဗီးကျွန်းဟုငင်း၊ ဟက်ဗရိဒီးကျွန်းစုမှ ရေလက်ကြားတခုကို ဗူဂိန်းဗီး ရေလက်ကြားဟူ၍ငင်း သူ့အား ဂုဏ်ပြုကာ မှည့်ခေါ်ကြလေသည်။ ထို့ပြင် စက္ကူပန်း၏ ရုက္ခဗေဒအမည်ဖြစ်သော ဗူဂိန်းဗီးလျှသည်လည်း ဗူဂိန်းဗီးကို အစွဲပြု၍မှည့်ခေါ်ခဲ့သော အမည်ဖြစ်လေသည်။

**ဗူဖွန်, ဇော့ဇက်** (ခရစ် ၁၇၀၇–၁၇၈၈)။ ။ ကောင့် ဇော့ဇက် လူဝီ လက်လတ် ဗူဖွန်သည် ပြင်သစ်လူမျိုး သဘာဝနှင့် ယထာဘူတ ပညာရှင်တဦး ဖြစ်သည်။ သူ့ကို ၁၇၀၇ ခုနှစ်

စက်တင်ဘာလ ၇ ရက်နေ့တွင် ဗာဂန်ဒီနယ်၌ ဖွားမြင်သည်။ ဖခင်မှာ ဗာဂန်ဒီ ပါလီမန်တွင် ကောင်စီလူကြီးတဦးဖြစ်၏။ ဗူဖွန်သည် ဥပဒေပညာရပ်ကို ဂျက်ဇူးအစ်ကောလိပ်၌ သင်ယူပြီးနောက် လောကဓာတ်ပညာရပ်များကို ဆက်လက်ဆည်းပူးသည်။ လယ်ယာစိုက်ပျိုးရေးနှင့် ရူပဗေဒ ပညာရပ်ဆိုင်ရာ စာအုပ် စာတမ်းများကိုရေးသားသည်။ ၁၇၃၉ ခုနှစ်တွင် ဘုရင့်ဥယျာဉ်နှင့်ပြတိုက်အုပ်ချုပ်ရေးမှူး ဒျူဖေး ကွယ်လွန်သောအခါ ဗူဖွန်အား ၁၅ ဆက်မြောက် လူဝီဘုရင်က ခေါ်ယူခန့်အပ်ရာ ကွယ်လွန်သည်အထိ ထိုရာထူးတွင် ထမ်းရွက်ခဲ့လေသည်။

သဘာဝ အလျောက် ကြီးပွားရာတွင် လူနှင့် အခြားအသက်ရှိ သတ္တဝါတို့မှာဖြစ်စဉ်ချင်း ခြားနားချက်မရှိ၊ အတူတူပင်ဖြစ်သည်ဟု ဗူဖွန်က ထုတ်ဖော် ပြောဆိုခဲ့လေသည်။ တိရစ္ဆာန်တို့သည် တမျိုးမှ တမျိုးသို့ အဆင့်ဆင့် ပြောင်းလဲလာကြသည်ဖြစ်ရာ လူတို့သည်လည်း အဆင့်ဆင့် ပြောင်းလဲလာသည်ဟုဆို၏။ ထို့ပြင် သက်ရှိသတ္တဝါသည် ဝင်ရိုးစွန်းဒေသများရှိ သမုဒ္ဒရာများတွင် စတင်ဖြစ်ပေါ်လာကြ၍ ထိုအချိန်အခါ၌ ဝင်ရိုးစွန်း သမုဒ္ဒရာရေသည် သတ္တဝါတို့အသက်တည်တံ့နိုင်ရုံမျှ လောက်သာ အေးသည်ဟု ဆိုလေသည်။ ယင်းအချက်တို့ကား ဗူဖွန်၏ ယူဆချက်များပေတည်း။

ဗူဖွန်သည် ၁၇၃၅ ခုနှစ်တွင် စတက်ဖင်ဟေး ရေးသားသော ဟင်းသီးဟင်းရွက် စတက်တစ်ပညာစာအုပ်ကို ဘာသာပြန်ထုတ်ဝေသည်။ ၁၇၄၀ ပြည့်နှစ်တွင် နျူတန်၏ဖလပ်ဆီယန်ဟူသောစာအုပ်ကို ဘာသာပြန်ထုတ်ဝေသည်။ ထိုနှစ်တွင်ပင် သဘာဝသမိုင်းကျမ်းကို စတင်ပြုစုလေသည်။ ပဌမတွဲကို ၁၇၄၉ ခုနှစ်တွင် ပုံနှိပ်ထုတ်ဝေခဲ့သည်။ ထိုကျမ်းကို နှစ်ပေါင်း ၅၀ ကျော်အတွင်း စာအုပ်တွဲရေပေါင်း ၄၄ တွဲမျှ ထုတ်ဝေနိုင်အောင် ရေးသားပြုစုခဲ့လေသည်။ ဗူဖွန်မကွယ်လွန်မီ ၃၆ တွဲ ထုတ်၍ ကွယ်လွန်ပြီးနောက် ၈ တွဲကို ထုတ်ဝေသည်။ ဗူဖွန်သည် မိမိ၏ ယူဆချက်များကို ရှင်းလင်း ပြတ်သားစွာ လူတိုင်း နားလည်အောင် ရေးသားနိုင်သူ ဖြစ်သောကြောင့် ကျော်စောထင်ရှားလာလေသည်။ ဗူဖွန်၏ကြိုးစားမှုကြောင့် လူတို့သည် သဘာဝပညာရပ်၏ နက်နဲသော အကြောင်းရပ်များကိုစိတ်ဝင်စားလာကြ၏။ လေ့လာဆည်းပူးလိုလာကြ၏။ အခြားသက်ရှိ သတ္တဝါများ၏ ထူးခြား ပေါ်လွင်နေသော အချက်များနှင့် အလေ့အကျင့်များကို ဆင်ခြင်စူးစမ်းလိုသော စိတ်များပေါ် ပေါက်လာလေသည်။

ပြင်သစ်ဘုရင်သည် ဗူဖွန်အား ကောင့်ဘွဲ့ ချီးမြှင့်ကာ သူကောင်းပြု မြှောက်စားသည်။ ကောင့်ဗူဖွန်သည် ပါရစ်မြို့၌ ၁၇၈၈ ခုနှစ် ဧပြီလ ၁၆ ရက်နေ့တွင်ကွယ်လွန်လေသည်။

# သမိုင်းတလျှောက် ဆူပူလှုပ်ရှားမှု များပြားခဲ့သော ဥရောပနိုင်ငံငယ်

**ဗော်လကန်နိုင်ငံများအနက် အငယ်ဆုံးဖြစ်သည်။ သို့သော် ဥရောပစစ်ပွဲကြီးများ၊ ကမ္ဘာစစ်ပွဲကြီးများ၌ အရေးပါအရာရောက်စွာ ပါဝင်ဆင်နွှဲခဲ့လေသည်။**

**ဗူလဂေးရီးယားနိုင်ငံ။** ။ဗူလဂေးရီးယားနိုင်ငံသည် ဥရောပတိုက် တောင်ပိုင်းရှိ ဗော်လကန်ကျွန်းဆွယ်တွင် တည်ရှိသည်။ အရှေ့ဖက်တွင် ပင်လယ်နက်၊ တောင်ဖက်တွင် ဂရိနိုင်ငံနှင့် တူရကီနိုင်ငံ၊ အနောက်ဖက်တွင် ယူဂိုစလားဗီးယားနိုင်ငံနှင့် မြောက်ဖက်တွင် ရူမေးနီးယားနိုင်ငံတို့ဖြင့် ဝန်းရံလျက်ရှိသည်။ ရူမေးနီးယားနိုင်ငံနှင့် ဗူလဂေးရီးယား နိုင်ငံကြားတွင် ဒန်းညူမြစ်က နယ်နိမိတ်သဖွယ် စီးဆင်းလျက်ရှိသည်။ဗူလဂေးရီးယားနိုင်ငံသည် ၄၂,၈၁၀ စတုရန်းမိုင်ကျယ်ဝန်း၍ မြန်မာနိုင်ငံအကျယ် အဝန်း၏ ၆ ပုံ ၁ ပုံနီးနီးသာ ရှိသည်။ ခရစ်နှစ် ၆၀၀ ကျော်ခန့်က ယင်းဒေသတွင် လာရောက် နေထိုင်ကြသော တာတာလူမျိုးအနွယ် ဗူလဂါး လူမျိုးတို့အား အစွဲပြု၍ ဗူလဂေးရီးယားနိုင်ငံဟု တွင်သည်။ ယခုအခါ ယင်းနိုင်ငံကို ဗူလဂေးရီးယား ပြည်သူ့သမတနိုင်ငံတော်ဟု ခေါ်ကြသည်။

ဗူလဂေးရီးယား နိုင်ငံ၏ မြေမျက်နှာပြင်ကို ၄ ပိုင်း ခွဲခြားထားနိုင်သည်။ မြောက်ပိုင်းတွင် ဒန်းညူမြစ် စီးဆင်းရာ ဒန်းညူ မြစ်ဝှမ်းဒေသ၊ အလယ်ပိုင်းတွင် ဗော်လကန်တောင်တန်းဒေသနှင့် တောင်ပိုင်း လွင်ပြင်ခေါ် မရစ်ဆမြစ်ဝှမ်းဒေသ၊ တောင်ပိုင်းတွင် ရော့ဒိုပဲ တောင်တန်းဒေသတို့ ဖြစ်သည်။ ဗော်လကန် တောင်တန်းနှင့် ရော့ဒိုပဲ တောင်တန်းတို့သည် အရှေ့မှ အနောက်သို့ တန်းနေကြသည်။ ဗော်လကန်တောင်တန်း၏ အမြင့်ဆုံး တောင်ထွတ်သည် အနောက်နှင့်အနောက် မြောက်ဖက်တွင် တည်ရှိ၍ ပေ ၁,၀၀၀ ကျော်ကျော် မြင့်သည်၊ ရော့ဒိုပဲ တောင်တန်း၏ အမြင့်ဆုံး တောင်ထွတ် မူဆာလာသည် ၉,၅၉၅ ပေ မြင့်သည်။ ပေ ၄,၅၀၀ အထက် တောင်ကုန်းဒေသတွင် ထင်းရှူးနှင့်ဝက်သစ်ချပင်များ ပေါက်သော သစ်တောများရှိသည်။ ဗူလဂေးရီးယား နိုင်ငံ၏ ထင်ရှားသောမြစ်ကြီးများမှာ ဒန်းညူမြစ်၊ မရစ်ဆမြစ်၊

တွန်ဒဇာမြစ်၊ ယန်တြာမြစ်၊ အစ္စကာမြစ်၊ ကမ္ဘချီယမြစ်နှင့် အော့စမာမြစ်တို့ဖြစ်ကြသည်။ များစွာသော မြစ်ငယ်ချောင်းငယ်တို့ကား ဒန်ညူမြစ်နှင့် မရစ်ဆ မြစ်တို့ထဲသို့ စီးဝင်ကြသည်။ဗူလဂေးရီယားနိုင်ငံတွင်တောင်ကြားရေအိုင်ကလေးများမှအပ ထင်ရှားသော ရေအိုင်ကြီးများ မရှိချေ။




ဗူလဂေးရီးယားနိုင်ငံ တည်နေရာပြမြေပုံ

ဗူလဂေးရီးယား နိုင်ငံ တောင်ပိုင်းတွင် အပူအအေး မျှတ၍ မိုးအသင့်အတင့် ရွာသည်။ ဗော်လကန် တောင်တန်း၏ မြောက်ပိုင်းသည် နွေရာသီတွင်ပူ၍ ဆောင်းရာသီတွင် အလွန်အေးသည်။ တောင်ပိုင်း အစွန်ဆုံးဒေသမူကား ဣတလီနိုင်ငံ ရာသီဥတုနှင့် ခပ်ဆင်ဆင်တူသည်။

ဗူလဂေးရီးယား နိုင်ငံသည် မြေသြဇာကောင်း သဖြင့် စိုက်ပျိုးရေး ဖြစ်ထွန်းသည်။ ထင်ရှားသော လယ်ယာစိုက်ပျိုးရေး ထွက်ကုန်များမှာ ဂျုံ၊ ရိုင်းဂျုံ၊ မုယော စသည့် ကောက်ပဲသီးနှံများ၊ ဆေးရွက်၊ သစ်သီးများနှင့် ဝါဂွမ်းတို့ဖြစ်သည်။ ကျောက်မီးသွေး၊ ခဲ၊ သွပ်၊ အလျူမီနမ်နှင့် ကြေးနီစသော သတ္တုများလည်း ထွက်သည်။ ဗော်လကန် တောင်တန်းဒေသများနှင့် အနောက် တောင်ဖက်ရှိ တောင်တန်းများတွင် ရေပူစမ်းနှင့် ဆေးစမ်းများရှိသည်။

၁၉၅၆ ခုနှစ် သန်ကောင် စာရင်းအရ ဗူလဂေးရီးယားနိုင်ငံ၏ လူဦးရေသည် ၇,၆၂၉,၂၅၄ ယောက်ရှိသည်။ ယင်းတို့အနက် ၉၁ ရာခိုင်နှုန်းသည် ဗူလဂေးရီးယန်း လူမျိုးများဖြစ်၍ ၆ ရာခိုင်နှုန်းခန့်သည် တူရကီလူမျိုးများဖြစ်ပြီးလျှင် ကျန် ၃ ရာခိုင်နှုန်းသည် ဂျစ်ပဆီနှင့် အခြားလူမျိုးများ ဖြစ်ကြသည်။ ဗူလဂေးရီးယန်း လူမျိုးဟူသည်မှာ ဗူလဂါး လူမျိုးနှင့် ဆလဗလူမျိုးတို့ သွေးနှော၍ ပေါက်ဖွားလာသောလူမျိုးဖြစ်သည်။ နိုင်ငံအတွင်း လူအများစု သက်ဝင်ယုံကြည်သော အယူဝါဒမှာ ဂရိ အော်သိုဒေါ့ဂိုဏ်းဖြစ်သည်။ များသောအားဖြင့် ဗူလဂေးရီးယန်းနှင့် တူရကီဘာသာစကားကို ပြောဆိုကြသည်။ ဗူလဂေးရီးယန်း လူမျိုးတို့သည် အရပ်ပုသော်လည်း ကျန်းမာ သန်စွမ်းသူများဖြစ်ကြသည်။ အသက်ရှည်သော လူမျိုးဟူ၍လည်း ကျော်ကြားသည်။ ဗူလဂေးရီးယားနိုင်ငံတွင် မြို့နေလူထုထက် ရွာနေလူထုကပိုသည်။ကျေးလက်တို့တွင် စတုရန်း တမိုင်လျှင် ပျမ်းမျှလူ ၂၀၀ ခန့်နေထိုင်ကြသည်။လူနေ ၂၅,၀၀၀ ထက်ပိုသော မြို့ကြီးပေါင်း ၁၀ မြို့ထက်မပိုချေ။ များစွာသောကျေးရွာတို့၌ အိမ်တိုင်း၌လိုပင် လက်ရက်ကန်းစင်များ ရှိကြသည်။ ဗူလဂေးရီးယန်း အမျိုးသမီးများ ရက်လုပ်သော အထည်များသည် အလွန်လှပ သဖြင့် ကျော်ကြားသည်။ တနိုင်ငံလုံးရှိ လူဦးရေ၏ ၈၀ ရာခိုင်နှုန်းသည် လယ်ယာ လုပ်ကိုင်သူများဖြစ်ကြ၍ ၁၀ ရာခိုင်နှုန်းသည် လယ်ထွက်ပစ္စည်းများကို ပြည်တွင်းပြည်ပ ရောင်းချသည့်အလုပ်ဖြင့် အသက်မွေးကြသည်၊ ကျန် ၁၀ ရာခိုင်နှုန်းသာလျှင် အစိုးရလခစားနှင့် စက်မှုလက်မှု လုပ်ငန်းသမားများ ဖြစ်ကြသည်။ ကွန်မြူနစ်တို့ အုပ်စိုးသည့် အချိန်မှ စ၍ စက်မှုလက်မှု နိုင်ငံဖြစ်အောင် ပြုပြင်လျက် ရှိသော်လည်း ယခုအချိန်အထိ စက်မှုလုပ်ငန်းနှင့် အလုပ်ရုံပေါင်း ၃,၅၀၀ ခန့်သာ ရှိသေးသည်။ ခြည်ထည်၊ ပိုးထည်၊ ဂျုံ၊ စက်ဘီး၊ မော်တော်ကား တိုင်ယာ၊ စက္ကူ၊ ဖိနပ် နှင့် စီးကရက် စသော ပစ္စည်းအနည်းငယ်သာ ပြုလုပ်နိုင်ကြလေသည်။

ဗူလဂေးရီးယား နိုင်ငံသည် လယ်ယာလုပ်ကိုင်သော နိုင်ငံ ဖြစ်သည့်အလျောက် အဓိကထွက်ကုန်များမှာ ဆေးရွက်၊ သစ်သီး၊ ဂျုံ၊ ပြောင်း၊ သားရေ၊ ပိုးခြည်နှင့် ရေမွှေးလုပ်သော နှင်းဆီပန်း အဆီတို့ဖြစ်သည်။ ဗူလဂေးရီးယားနိုင်ငံသည် ကမ္ဘာပေါ်တွင် နှင်းဆီပန်းအဆီအများဆုံးထွက်သော နိုင်ငံ ဖြစ်သည်။ တကမ္ဘာလုံးထွက် နှင်းဆီပန်းအဆီ၏ ၇၅ ရာခိုင်နှုန်းသည် ဗူလဂေးရီးယားနိုင်ငံမှ ထွက်သည်။ မရစ်ဆမြစ်ဝှမ်းဒေသတွင် ဧကပေါင်း ၁၂,၀၀၀ လောက်၌ နှင်းဆီများစိုက်ပျိုးသည်။ ဗူလဂေးရီးယား နိုင်ငံထွက်ကုန် တဝက်ကျော်ကို ဂျာမနီနိုင်ငံကဝယ်၍ ဗူလဂေးရီးယား နိုင်ငံသွင်းကုန်တဝက်ကျော်သည် ဂျာမနီနိုင်ငံထွက်ကုန်များဖြစ်သည်။

ဗူလဂေးရီးယား နိုင်ငံသည် တခါက ရောမအင်ပိုင်ယာ၏ တစိတ်တဒေသ ဖြစ်ခဲ့သည်။ ရောမအင်ပိုင်ယာကြီး ပြိုကွဲသောအခါ ဆလဗလူမျိုးများက သိမ်းပိုက်နေထိုင်ကြသည်။ ခရစ်နှစ် ၆၀၀ ကျော်တွင် ဆလဗတို့လက်မှ ဗူလဂါးလူမျိုးများကတဖန် ဗော်လဂါမြစ်အောက်ပိုင်း ဒေသမှ လာရောက်ကာ သိမ်းယူနေထိုင်ကြသည်။၇၉၁ ခုနှစ်မှ ၁၂၈၀ ပြည့်နှစ်အတွင်း ဗူလဂေးရီးယန်းလူမျိုးတို့သည် ဗော်လကန်ကျွန်းဆွယ်ဒေသများစွာကို ၂ ကြိမ်တိုင်တိုင် သိမ်းပိုက်နိုင်ခဲ့ကြသည်။

၁၃၉၆ ခုနှစ်တွင် တူရကီနိုင်ငံက ဗူလဂေးရီးယား နိုင်ငံကို တိုက်ခိုက် သိမ်းပိုက်ကာ ဗူလဂေးရီးယန်း အင်ပိုင်ယာကြီးကို ဖြိုခွင်းပြီးနောက် နှစ်ပေါင်း ၅၀၀ ကျော် အုပ်ချုပ်ခဲ့သည်။ ၁၈၇၆ ခုနှစ်တွင် ဗူလဂေးရီးယား နိုင်ငံသူ နိုင်ငံသားတို့သည် တူရကီ အစိုးရအား တော်လှန်ကြရာ၊ တူရကီတို့က ရက်စက်



အပေါ်ပုံမှာ ဗူလဂေးရီးယားနိုင်ငံ၏မြို့တော် ဆိုဖီယာမြို့ရှိ ထင်ရှားသော ဗန်ညာဗာရှိပလီရှုခင်းဖြစ်သည်။ အောက်ပုံမှာ ဆေးရွက်ကြီးလုပ်ငန်း ထွန်းကားရာ အချက်အခြာ ဒေသဖြစ်သော ပလော့ဒစ်မြို့ပုံဖြစ်သည်။

ကြမ်းကြုတ်စွာ ဖိနှိပ်ချေမှုန်းကြသည်။ ဗော်လကန် ကျွန်းဆွယ်တွင် လက်ဝါးကြီးအုပ်ချင် နေသော ရုရှတို့က တူရကီတို့၏ ရက်စက်မှုကြီးကို အခွင့်ကောင်းယူ၍ ဗူလဂေးရီးယန်းတို့ဖက်မှ ဝင်ရောက် တိုက်ခိုက်ပေးသဖြင့် အနိုင်ရကာ ဆန်စတက်ဖန်နို စာချုပ် ချုပ်ဆိုကြသည်။ ယင်း စာချုပ်အရ မက်ဆီဒိုးနီးယားနှင့် တူရကီပိုင် ဥရောပ နယ်မြေ အားလုံးလိုလို အပြင်၊ ယခုလက်ရှိ ဗူလဂေးရီးယား နိုင်ငံတို့ကို ပေါင်း၍ ဗူလဂေးရီးယားနိုင်ငံဟူ၍ တည်ထောင်ခဲ့သည်။ သို့ရာတွင် ဥရောပ တန်ခိုးကြီးနိုင်ငံများက ယင်း အစီအစဉ်ကို သဘောမကျသဖြင့် ၁၈၇၈ ခုနှစ်တွင် ဘာလင်မြို့၌ ကျင်းပသော ညီလာခံကြီးတွင် ဗူလဂေးရီးယားနိုင်ငံ မြောက်ပိုင်းအား တူရကီအစိုးရ၏ အထိန်းသိမ်းခံ ကိုယ်ပိုင် အုပ်ချုပ်ခွင့်ရ တိုင်းပြည်အဖြစ် သတ်မှတ်ပေး၍ ဗူလဂေးရီးယား တောင်ပိုင်းနှင့် မက်ဆီဒိုးနီးယားတို့ကို တူရကီ နိုင်ငံသို့ ပြန်ပေးလိုက်သည်။ ၁၈၀၈ ခုနှစ်တွင် ဗူလဂေးရီးယား နိုင်ငံသည် တူရကီနိုင်ငံအောက်မှ ရုန်းထွက်ကာ လုံးဝလွတ်လပ်သော နိုင်ငံအဖြစ် ကျေညာသည်။ ၁၈၈၇ ခုနှစ်မှစ၍ ဗူလဂေးရီးယားကို အပိုင်စားရသော မင်းသား ဖာဒီနန်သည် ဇာဘုရင်ဘွဲ့ကို ခံယူလိုက်သည်။

၁၉၁၂ ခုနှစ်တွင် မက်ဆီဒိုးနီးယား နယ်၌ တူရကီတို့က ရက်စက်စွာ သတ်ဖြတ်ဖိနှိပ်မှုကြောင့် ဗူလဂေးရီးယား နိုင်ငံနှင့်တကွ အခြား ဗော်လကန်နိုင်ငံတို့သည် တူရကီနိုင်ငံအား စစ်ကျေညာကြသည်။ ယင်းစစ်ပွဲတွင် တူရကီတို့ စစ်ရှုံး၍ နယ်ပယ်ပေါင်း များစွာ လက်လွှတ်ခဲ့ရလေရာ၊ ဗူလဂေးရီးယားနိုင်ငံက နယ်ပယ်အများဆုံး ရရှိလိုက်သည်။သို့ရာတွင် ဗော်လကန် နိုင်ငံအချင်းချင်း အဝေမတည့်သဖြင့် ဗူလဂေးရီးယားနိုင်ငံသည် သူ၏ မဟာမိတ်နိုင်ငံများနှင့် စစ်ဖြစ်ရပြန်သည်။ ဤအကြိမ်တွင် ဗူလဂေးရီးယား နိုင်ငံက စစ်ရှုံးခဲ့ရာ ဒိုးဗရူးဂျ နယ်ကို ရူမေးနီးယား နိုင်ငံသို့ ပေးအပ်လိုက်ရသည်။ မက်ဆီဒိုးနီးယား နယ်ကိုလည်း ဂရိနှင့် ဆားဗီးယားတို့က ခွဲဝေယူကြသည်။

ပဌမ ကမ္ဘာစစ် ဖြစ်သောအခါ ဗူလဂေးရီးယား နိုင်ငံသည် ယခင်က နယ်ပယ်များ ဆုံးရှုံးခဲ့ရသည်ကို အခဲမကြေဖြစ်ကာ၊ ဗော်လကန် နိုင်ငံများနှင့် မပူးပေါင်းဘဲ ဂျာမနီနိုင်ငံနှင့် ပူးပေါင်းလိုက်သည်။ သို့ရာတွင် ဂျာမနီတို့ စစ်ရှုံးပြန်သဖြင့် ဗူလဂေးရီးယား နိုင်ငံလည်း အဖိနှိပ်ခံရပြန်သည်။ စစ်လျော်ကြေးများ ပေးရရုံမက၊ ဗူလဂေးရီးယား နိုင်ငံပိုင်နယ်မြေအများကိုလည်း လက်လွှတ် လိုက်ရသည်။

ပဌမ ကမ္ဘာစစ် ပြီးသည်မှစ၍ ဗူလဂေးရီးယား နိုင်ငံတွင် နိုင်ငံရေး လှုပ်ရှားမှုများ ဖြစ်ပေါ်လာသည်။ မက်ဆီဒိုးနီးယားနှင့် ဒိုးဗရူးဂျနယ်ကို ပြန်ရရန် လုံးပန်းကြပြန်သည်။ ၁၉၃၄ ခုနှစ်တွင် အာဏာရှင် စံနစ်ထွန်းကားလာပြန်သည်။ ၁၉၃၅ ခုနှစ် ဧပြီလတွင် တတိယဗောရစ်ဘုရင်သည် အစိုးရကို ကိုယ်တိုင်ဦးစီး၍ အာဏာရှင် အဖြစ် အုပ်ချုပ်သည်။

၁၉၄၀ ပြည့်နှစ် စက်တင်ဘာလတွင် ဟစ်တလာ၏ အဓမ္မတောင်းဆိုချက်ကြောင့် ရူမေးနီးယန်းတို့က ဗူလဂေးရီးယန်းတို့အား ဒိုးဗရူးဂျ တောင်ပိုင်းကို ပေးအပ်လိုက်ရသည်။ ၁၉၄၁ ခုနှစ်တွင် ဂျာမနီက ယူဂိုစလားဗီးယားနိုင်ငံအား စစ်ကျေညာသောအခါ၊ ဗူလဂေးရီးယား နိုင်ငံသည် ဂျာမနီဖက်မှဝင်ရောက်တိုက်ခိုက်သည်။ ဂျာမန်တို့ စစ်နိုင်လာသည့်အခါ ဗူလဂေးရီးယားနိုင်ငံသည် မက်ဆီဒိုးနီးယားနှင့်သရေ့နယ်များကို ဆုအဖြစ် ရရှိသည်။ ၁၉၄၃ ခုနှစ်တွင် ဗောရစ်ဘုရင် နတ်ရွာစံ၍ သားတော် ဆီမီယွန် နန်းတက်သည်။ ၁၉၄၄ ခုနှစ် စက်တင်ဘာလတွင် ရုရှတို့က ဗူလဂေးရီးယားနိုင်ငံအား စစ်ကျေညာခဲ့သည်။ ဒုတိယ ကမ္ဘာစစ်ပြီးသောအခါ ဗူလဂေးရီးယားနိုင်ငံကို ရုရှတို့က ချုပ်ကိုင်ထားရာမှ နောင်အခါ ဗူလဂေးရီးယားနိုင်ငံသည် ကွန်မြူနစ်နိုင်ငံဖြစ်လာသည်၊ ၁၉၄၆ ခုနှစ်တွင် ဆီမီယွန်ဘုရင်ကို နန်းချ၍၊ ဗူလဂေးရီးယား ပြည်သူ့ သမတနိုင်ငံအဖြစ် ထူထောင်လိုက်သည်။

ဗူလဂေးရီးယား နိုင်ငံ၏ မြို့တော်သည် ဆိုဖီယာမြို့ ဖြစ်သည်။ အခြား ထင်ရှားသောမြို့ကြီးများမှာ ပလေ့ဗ်ဒစ်၊ ဗာနာ၊ ရုစ၊ ဗားဂတ် စသည့်မြို့များ ဖြစ်သည်။ ဗားဂတ်နှင့် ဗာနာ မြို့ကြီး ၂ မြို့သည် ပင်လယ်နက်ပေါ်၌ ရှိ ထင်ရှားသော သင်္ဘောဆိပ်မြို့ကြီးများ ဖြစ်သည်။

**ဗူးခရက်မြို့။** ။ဗူးခရက်မြို့သည် ရူမေးနီးယားနိုင်ငံ၏မြို့တော်ဖြစ်၍ ဒန်ညူမြစ်လက်တက်တခုဖြစ်သော ဒမ်ဗိုဗစ်ဇားမြစ်ပေါ် တွင် ခွ၍တည်ရှိ၏။ ဒန်ညူမြစ်၏ မြောက်ဖက် ၃၃ မိုင်ဝေးသည်။ ဒမ်ဗိုဗစ်ဇားမြစ်ဝမှ ၃၇ မိုင်ဝေးသည်။ မြို့၏ အဆောက်အအုံများနှင့်တကွ လမ်းပန်းတို့ကို ပြင်သစ်နိုင်ငံ ပါရစ်မြို့ နမူနာအတိုင်း တည်ဆောက်ထားသဖြင့် ယင်းမြို့ကို ဥရောပအရှေ့ပိုင်း၏ ပါရစ်မြို့ဟူ၍လည်း ခေါ်ကြသည်။

ဗူးခရက်ဟူသော အမည်သည် ဗူးကာဘုရားရှိခိုးကျောင်းကလေးကို အစွဲပြု၍ တွင်သည်ဟု အချို့ကဆို၍ အချို့ကမူ ရူမေးနီးယန်းဘာသာဖြင့် ပျော်မြူးဖွယ်ရာမြို့ဟု အဓိပ္ပါယ်ရသော ဗူးကာရက်စီဟူသော စကားမှ လာသော အမည်ဟု ဆိုကြသည်။ ယင်းမြို့၏ အစိုးရသုံး အမည်မှာ ဗူကာရက်စတီမြို့ဖြစ်သည်။ ဗူးခရက်မြို့သည် ရူမေးနီးယန်း အစိုးရ ရုံးစိုက်မြို့ဖြစ်သည်။

ဗူးခရက်မြို့တွင် အများအားဖြင့် ခေတ်မီ အဆောက်အအုံကြီးများ ရှိသော်လည်း ရှေးခေတ်အဆောက်အအုံ အချို့နှင့် လမ်းကျဉ်းကလေးများလည်း ရှိသေးသည်။ စင်စစ် ဗူးခရက်မြို့သည် ရူမေးနီးယားနိုင်ငံ ပေါ်ပေါက်မလာမီကပင်



ဗူးခရက်မြို့၏ကျက်သရေဆောင်အမျိုးသားစီးပွါးရေးပြတိုက် အဆောက်အအုံကြီး၏ ရှုခင်း တစိတ်တဒေသ

တည်ရှိပြီး ဖြစ်သော မြို့ဖြစ်သော်လည်း၊ ၁၄ ရာစုနှစ်ကမှ စတင် တည်ထောင်သော မြို့ဖြစ်သဖြင့် အကောင်းဆုံး မြို့ တမြို့ဟုကား မခေါ်နိုင်ချေ။ ၁၈၆၁ ခုနှစ်တွင် ဝေါလေ့ကီးယားနှင့် မော်လဒေးဗီးယားနယ် ၂ နယ်ကို ပေါင်း၍ ရူမေးနီးယားနိုင်ငံ ထူထောင်သောအခါ ဝေါလေ့ကီးယား နယ်၏ မြို့တော် ဗူးခရက်ကို မြို့တော်အဖြစ် သတ်မှတ်သည်။ ဗူးခရက်မြို့သည် အခြား ဗော်လကန်မြို့များကဲ့သို့ စစ်ဒဏ်ကို အကြိမ်ကြိမ် ခံခဲ့ရသည်။ ပဌမကမ္ဘာစစ်အတွင်း ၁၉၁၆ ခုနှစ်မှ ၁၉၁၈ ခုနှစ်အထိ နှစ်များအတွင်း ဂျာမန်တို့ သိမ်းပိုက်ထားခြင်း ခံရ၍၊ ဒုတိယကမ္ဘာစစ်အတွင်းကမူ ရူမေးနီးယားအစိုးရ၏ ဘက်ပြောင်းမှုကြောင့် ဗူးခရက်မြို့သည် မဟာမိတ်ရော ဂျာမန်တို့ကပါ တိုက်ခိုက်ခြင်း ခံရလေသည်။

ဗူးခရက်မြို့သည် မကြာသေးမီ နှစ်များ အတွင်းကပင် စက်မှုလက်မှု လုပ်ငန်းကို ချဲ့ထွင်လုပ်ကိုင် လာခဲ့၏။ နိုင်ငံခြားမှ ခြည်မျှင်ကို မှာယူ၍ အထည်ရက်လုပ်သည့် လုပ်ငန်းသည် တိုးတက်ထွန်းကား လာ၏။ ဗူးခရက်မြို့၏ ထင်ရှားသော စက်မှု လက်မှုလုပ်ငန်းများမှာ မြေထည် လုပ်ငန်း၊ သံထည်လုပ်ငန်း၊ အထည်အလိပ်၊ သားရေ၊ ဆပ်ပြာ၊ စက္ကူ၊ အရက် စသော လုပ်ငန်းများဖြစ်သည်။ ဗူးခရက်မြို့သည် ခေတ်ဆီ အမြောက်အမြား ဖြန့်ဖြူးရာမြို့ကြီးလည်း ဖြစ်လေသည်။

၁၉၆၁ ခုနှစ်ခန့်မှန်းခြေအရ ဗူးခရက်မြို့၏ လူဦးရေသည် ၁,၂၂၉,၁၃၅ ယောက်ဖြစ်သည်။ မြို့သူမြို့သားများသည် အရှေ့တိုင်း၏ ဝတ်စားဆင်ယင်မှုနှင့် ဓလေ့ထုံးစံကို လိုက်နာကြသော်လည်း၊ အထူးသဖြင့် အထက်တန်းလွှာတို့ကမူ အနောက်တိုင်း ယဉ်ကျေးမှုကို လိုက်နာကြသည်။ ၁၈၄၆ ခုနှစ်တွင် တည်ထောင်သော ဗူးခရက် တက္ကသိုလ်သည် ဥရောပအရှေ့ ပိုင်း၌ အကောင်းဆုံး တက္ကသိုလ်များအနက် တခု အပါအဝင်ဖြစ်၏။

**ဗူးဒပက်မြို့။** ။ဗူးဒပက်မြို့သည်ဟန်ဂေရီနိုင်ငံ၏ မြို့တော်နှင့် အကြီးဆုံးမြို့ ဖြစ်သည်။ ဗီယင်းနားမြို့ အရှေ့မြောက်ဖက် ၁၃၅ မိုင်အကွာ ဒန်းညူမြစ်ပေါ်တွင်ခွ၍ တည်ရှိနေသော အမွှာမြို့ ဖြစ်သည်။ ဒန်းညူမြစ်၏ အနောက်ဖက်ကမ်းပေါ်ရှိ ဗူးဒမြို့၊ အိုဗူးဒမြို့တို့နှင့် အရှေ့ဖက် ကမ်းပေါ်ရှိ ပက်မြို့တို့ကို ပေါင်း၍ ဗူးဒပက်မြို့ဟု တွင်သည်။ ဗူးဒမြို့သည် တောင်ကုန်းပိုင်း၌ တည်၍ ပက်မြို့မှာမူ မြေနိမ့်ပိုင်းတွင် တည်သည်။ တဖက်ကမ်းနှင့် တဖက်ကမ်းကို တန်တားကြီး

၆ ခုဖြင့် တင့်တယ် ခမ်းနားစွာ ဆက်သွယ်ထားရာ၊ လန့်ဇစ် တန်တားသည် ဥရောပတိုက်တွင် တခါက အကြီးဆုံး တန်တား တခုဖြစ်သည်။

ဗူးဒပက်မြို့ကို ၂ ရာစုနှစ်ခန့်ကစ၍ ရောမလူမျိုးတို့ တည်ထောင်ခဲ့ကြသည်။ ယခု အိုဗူးဒမြို့တည်ရာ နေရာတွင် တည်ရှိ၍ အက်ကွင်းကမ်းမြို့ဟူ၍ ခေါ်သည်။ ကဲလတစ်ဘာသာစကားဖြင့် အက်ကွင်းကမ်းမြို့ဟူသည်မှာ ဆေးစမ်းဟု အဓိပ္ပါယ်ရ၏။ ယင်းမြို့၏အပါးဝန်းကျင်တွင် ကျန်းမာရေး အတွက် အလွန်အဖိုးတန်သော နာမည်ကျော် ဆေးစမ်းများ ရှိသောကြောင့် ဖြစ်သည်။ ခရစ် ၃၇၆ ခုနှစ်လွန်သော အခါ ဟန်း၊ အောစတြိုဂေါ့၊ အဗား၊ ဆလဗစသော လူမျိုးများ အဆက်ဆက် ဝင်ရောက်နေထိုင်ကြကာ ဗူးဒနှင့် ပက်မြို့များ ပေါ်ပေါက်လာသည်။ ၁၃၆၁ ခုနှစ်တွင် ဗူးဒမြို့သည် ဟန်ဂေရီနိုင်ငံ၏ မြို့တော်ဖြစ်လာသည်။ ၁၅၂၆ ခုနှစ်မှ ၁၆၈၆ ခုနှစ်အထိ မကြာခဏဆိုသလိုပင် တူရကီတို့က သိမ်းပိုက်ထားခဲ့သည်။ ၁၈၀၀ ပြည့်နှစ် နောက်ပိုင်းတွင် ပက်မြို့သည် ဗူးဒမြို့ထက် ပို၍ စည်ကား ဖွံ့ဖြိုးလာသည်။ ၁၈၇၂ ခုနှစ် တွင် ဗူးဒနှင့် ပက်မြို့ကိုပေါင်း၍ ဗူးဒပက်မြို့ဟု မှည့်ခေါ်သည်။ ထိုအချိန်မှ စ၍ ဗူးဒပက်မြို့သည် ဒီရေအလား တိုးတက်စည်ကားလာသည်။ ဒန်းညူ မြစ်ပေါ်၌ ဗီယင်နာမြို့မှ လွဲလျှင် ဗူးဒပက်မြို့သည် အကြီးဆုံး ဆိပ်ကမ်းမြို့ဖြစ်၍ သင်္ဘောများစွာ ဥဒါဟို ဝင်ထွက်သွားလာနိုင်သည်။ ဒုတိယ ကမ္ဘာစစ်အတွင်း ၁၉၄၄–၄၅ ခုနှစ်တွင် ဗူးဒပက်မြို့ထဲ၌ ဂျာမန်နှင့် ရုရှစစ်တပ်များ အတန်ကြာတိုက်ပွဲ ဖြစ်ပွားရာ မြို့သည် များစွာ ပျက်စီးသွားသဖြင့် ပြန်လည်ထူထောင် ရလေသည်။

ဗူးဒပက်မြို့တွင် ရှေးဟောင်းနှင့် ခေတ်သစ် အဆောက်အအုံအများအပြား ရှိသည်။ အထူးသဖြင့် ဗူးဒမြို့တွင် ရှေးက ဆောက်လုပ်ခဲ့သော ဘုရင့်နန်းတော်၊ ဘိသိက်ခံ ဘုရားရှိခိုးကျောင်းစသည့် ရှေးဟောင်းအဆောက်အအုံများ ရှိ၍ ပက်မြို့ဖက်တွင်မူ စက်မှုလုပ်ငန်းနှင့် အရောင်းအဝယ် ဌာနများရှိရာ၊ ခေတ်မှီ အဆောက်အအုံများဖြင့် စည်ကားလျက်ရှိသည်။ ပါလီမန်လွှတ်တော်နှင့် ဟန်ဂေရီနိုင်ငံ၏ အထင်ရှားအကြီးကျယ်ဆုံးသော ဗူးဒပက်တက္ကသိုလ် အဆောက်အအုံတို့သည် ပက်မြို့ဖက်၌ တည်ရှိသည်။ ဥရောပတိုက်ရှိ အလှပဆုံးသော လမ်းတလမ်းဖြစ်သည့် အန္ဒရာစီစတြာစီလမ်းသည် ပက်မြို့၌ရှိသည်။ ဗူးဒပက်မြို့သည် ဟန်ဂေရီတနိုင်ငံလုံးမှ သာမက ပတ်ဝန်းကျင် နိုင်ငံများဖြစ်သော ရုရှ၊ ချက်ကိုဆလိုဗားကီးယား၊ ဩစတြီးယား၊ ယူဂိုစလားဗီးယားနှင့် ရူမေးနီးယား နိုင်ငံတို့မှ လာသော မီးရထားလမ်းတို့ ဆုံရာမြို့ကြီးဖြစ်သည်။ ထို့ကြောင့် ဗူးဒပက်မြို့၏ အဓိကလုပ်ငန်းများဖြစ်သော ဂျုံစပါး၊ အရက်၊ ဆေးရွက်၊ သားရေ၊ လျှော်နှင့် ကျွဲ နွားမွေးမြူရေး စသည့် လုပ်ငန်းကြီးများမှ



ဗူးဒပက်မြို့ရှိ ပါလီမန်လွှတ်တော်

ထွက်သော ကုန်ပစ္စည်းများကို မီးရထားလမ်းနှင့် တဖုံ၊ ဒန်းညူမြစ်တလျှောက် ရေလမ်းဖြင့် တသွယ် နိုင်ငံအရပ်ရပ်သို့ တင်ပို့ နိုင်သည်။ ဗူးဒပက်မြို့သည် ကမ္ဘာပေါ်တွင် အကြီးအကျယ်ဆုံးသော ဂျုံစက်ကြီးများရှိရာ မြို့ဖြစ်ရုံမက၊ သံနှင့် သံမဏိ လုပ်ငန်းဗဟိုဌာနလည်း ဖြစ်သည်။ ဥရောပ တတိုက်လုံးတွင် အကြီးဆုံးသော လျှပ်စစ်လုပ်ငန်းကြီးများ ဗူးဒပက်မြို့တွင် ရှိသည်။ ဗူးဒပက်မြို့သည် ပဌမဆုံးသော မြေအောက် ထရော်လီလမ်းကို ဖောက်လုပ်ခဲ့သည့် မြို့လည်း ဖြစ်လေသည်။

၁၉၆၀ ပြည့်နှစ်ခန့်မှန်းခြေအရ ဗူးဒပက်မြို့၏လူဦးရေသည် ၁,၈၀၇,၂၉၉ ယောက်ဖြစ်သည်။ ယင်းတို့အနက် ၉၀ ရာခိုင်နှုန်းသည် ဟန်ဂေရီလူမျိုးများဖြစ်၍ နိုင်ငံခြားသား အလွန်နည်းသည်။

**ဗူးပင်။** ။ဗူးပင်သည် လူတို့ စားသုံးရသော ဟင်းသီး ဟင်းရွက်ပင်ဖြစ်၍ ရုက္ခဗေဒအလိုအားဖြင့် လဂျင်နေးရီးယား ဗာလဂါရစ်ဟု ခေါ်သည်။

အပူပိုင်းဒေသ အထူးသဖြင့် အတန်ငယ်ခြောက်သွေ့သော ဒေသတွင် စိုက်ပျိုးကြသည်။ ခြံဝင်းအနည်းငယ် ရှိသော အိမ်ယာများတွင် အိမ်တွင်း ဟင်းခင်းအဖြစ် စင်ကလေးများ ထိုး၍ပင် စိုက်ပျိုးလေ့ ရှိကြသည်။ ယင်းသည် နွယ်ပင်ဖြစ်၍ အကိုင်းအရွက်စသည်တို့၌ အမွေးနုကလေးများ ဖုံးနေသည်။ အသီးအနုတွင်လည်း အမွေးနုများ ပါရှိ၍ ရင့်လာသည်နှင့် တပြိုင်နက်၊ အမွေးများ ပါးသွားသည်။ အရွက်သည် လက်ဝါးပုံ ကျယ်ပြန့်၍ နူးညံ့ထူထဲသည်။ အသီးသည် ပုလင်း ပုံ သဏ္ဌာန် အောက်ပိုင်းကား၍ လည်ဝကျဉ်းသည်။ အချို့ ဗူးသီးသည်ပု၍ အချို့သည် ရှည်သည်။ ၂ ပေ ခန့်အထိ ရှည်သော ဗူးသီးရှိသည်။ ဗူးပွင့်သည် အဖြူရောင်ဖြစ်၍ အချင်း ၂½ လက်မခန့် ကျယ်သည်။



လူသိများသည့် ဗူးပင်၏ အသီးအရွက်နှင့် အပွင့်များ

ဗူးသီး၊ ဗူးရွက်၊ ဗူးညွန့်တို့ကို ဟင်းလျာအဖြစ် ချက်ပြုတ်စားသောက် ကြသည်။ ဗူးသီးအသားကို လှီး၍ ဆန်မှုန့်၊ ပဲမှုန့်၊ ရွှေခြည်တို့ဖြင့် ကြော်သော ဗူးသီးကြော်သည် မြန်မာတို့၏ နာမည်ကျော် သရေစာ တမျိုး ဖြစ်သည်။ ဗူးသီး အသားကိုလှီး၍ အခြောက်လှန်းပြီးနောက် ရာသီကုန်သည့်အခါ ယင်းကို ရေနွေးဖျော၍ သုတ်စား ချက်စားကြသည်။ ဗူးသီး၊ ဗူးညွန့်၊ ဗူးရွက်တို့၏ အရသာသည် ချိုသည်။ နှုတ်ကို မြိန်စေတတ်သည်။ ဓာတုရသကျမ်း အလိုအားဖြင့် ဗူးသီးသည် တောပင့်ကူ၏ အဆိပ်ကိုပင် လျင်စွာ ပယ်နိုင်သည်ဟု ဆိုသည်။

ဗူးသီးနှင့်ကျေးသား ရောစပ်၍ မစားသင့်ချေ။ အန္တရာယ် ဖြစ်စေတတ်သည်။

ဗူးသီးရင့်ရင့်ကို အတွင်းမှ အသားများ ခြစ်ထုတ်၍ ဗူးတောင်းခွံချည်း ကျန်သည့်အခါ အခြောက်လှန်းကာ ရေ၊ သို့မဟုတ် ထန်းရည်ထည့်၍ သယ်ယူရန် အသုံးပြုကြသည်။

**ဗူးဗွန်မင်းဆက်။** ။၁၅၈၉ ခုနှစ်မှ ၁၇၉၂ ခုနှစ်အတွင်းနှင့် ၁၈၁၄ ခုနှစ်မှ ၁၈၄၈ ခုနှစ်အတွင်းတွင် ပြင်သစ်နိုင်ငံ၌ ၎င်း၊ ၁၇၀၀ ပြည့်နှစ်မှ ၁၉၃၁ ခုနှစ်အတွင်း စပိန်နိုင်ငံ၌၎င်း စိုးစံခဲ့ကြသော မင်းများကို ဗူးဗွန်မင်းဆက်ဟု ခေါ်သည်။ ယင်းမင်းဆက်၏ အဆက်အနွယ်အချို့သည် ပါးမားနယ်၊ နာဗားနယ်နှင့် နေပယ်မြို့တို့၌လည်း အုပ်စိုးခဲ့ကြဘူးသည်။

ဗူးဗွန်မင်းဆက်သည် ပြင်သစ်နိုင်ငံ၏ အကျယ်အဝန်းဆုံး နယ်ဖြစ်သည့် ဗူးဗွန်နေးနယ်ကို စားသည့် နယ်စားမျိုးမှ ဆင်းသက် ပေါက်ပွားလာသူများ ဖြစ်ကြ၍၊ ယင်းနယ်၏ မြို့တော်ဖြစ်သော ဗူးဗွန်လာရှန်ဗိုမြို့ကို အစွဲပြု၍ ထိုဗူးဗွန်ဟူသော အမည်ဖြစ်ပေါ်လာခြင်း ဖြစ်သည်။ ထိုနယ်စားမျိုးသည် ပြင်သစ်ဘုရင်မျိုးနွယ်နှင့် လက်ဆက်ကြရာမှ မင်းမျိုး မင်းနွယ်များ ဖြစ်လာကြ၏။

၉ ရာစုနှစ် ကုန်ခါနီးတွင် ဗူးဗွန်နေးနယ်ကို စားရသူ ဗဲရှန် အိုင်းမားသည် ဗူးဗွန်ဆွေမျိုးစု၏ အစဖြစ်သည်။ ဗဲရှန်အိုင်းမား၏ သမီးအကြီး မတီလဒါနှင့် ရှမ်ပိန်နယ် စစ်သေနာပတိ ဒမ်းပီယာတို့၏အဆက်အနွယ်အဂ္ဂနက်သည် ဗာဂန်ဒီနယ်စားဂျွန်နှင့် လက်ဆက်ရာ သမီး ဗီအာထရစ်ကို ဖွားမြင်သည်။ ဗီအာထရစ်သည် န၀မ လူဝီ၏ သားတော်အငယ် ကလားမွန့်နယ်စား ရောဗတ်နှင့် အကြောင်းပါရာမှ မြင်သော သားတော် လူဝီသည် ၁၃၂၇ ခုနှစ်တွင် ဗူးဗွန်မြို့စားဖြစ်လာသည်။ လူဝီမင်းသားမှ ဆင်းသက်သော အဆက်အနွယ်များသည် ၁၅၂၇ ခုနှစ်တွင် ကွယ်လွန်သော ချားလက်ထက်အထိ သားစဉ် မြေးဆက် ဗူးဗွန်မြို့စားဘွဲ့ကို ဆက်ခံခဲ့လေသည်။ ယင်းနောက် တိုက်ရိုက် အဆက်အနွယ်များ မဟုတ်သော်လည်း သွေးသား မကင်းသူများပင် ဗူးဗွန်မြို့စားဘွဲ့ကို ခံယူ ခဲ့သည်။

၁၅၇၇ ခုနှစ်တွင် ကွယ်လွန်သော ဗူးဗွန်မြို့စား ချား(ဗင်ဒိုး မြို့စား အဖြစ်မှ ဗူးဗွန် မြို့စားအဖြစ် ဆက်ခံခဲ့သူ) ၏ သား အကြီး အန်တိုနီသည် နာဗားနယ်၏ အမွေခံ မင်းသမီး ဇန်းဒါလဗတ်နှင့် လက်ဆက်ရာမှမြင်သော နာဗား မင်းသား ဟင်နရီသည် ပြင်သစ်နိုင်ငံဘုရင် ဒုတိယဟင်နရီ၏သမီးတော် မာဂရက်နှင့် သင့်သဖြင့်၊ စတုတ္ထမြောက် ဟင်နရီ ဘုရင် (၁၅၅၃-၁၆၁၀) ဟူသော ဘွဲ့ဖြင့် ပြင်သစ်ထီးနန်းကို ဆက်ခံ သည်။ ယင်းသို့ဖြင့် ပြင်သစ်နိုင်ငံ ဗူးဗွန်မင်းဆက်ဟူ၍ စတင် ဖြစ်ပေါ် လာလေသည်။

စတုတ္ထဟင်နရီ (၁၅၅၃–၁၆၁၀) ဘုရင်၏ အဆက် အ နွယ်များ ဖြစ်ကြသော ဆဲ့သုံးဆက်မြောက် လူဝီ ဘုရင် (၁၆၀၁–၁၆၄၃)၊ ဆဲ့ လေး ဆက် မြောက် လူ ဝီ ဘု ရင် (၁၆၃၈–၁၇၁၅)၊ ဆဲ့ငါးဆက်မြောက် လူဝီဘုရင် (၁၇၁၀–၁၇၇၄) နှင့် ဆဲ့ခြောက်ဆက်မြောက် လူဝီဘုရင် (၁၇၅၄–၁၇၉၃) တို့သည် ၁၇၈၉ ခုနှစ် တိုင်အောင် ပြင်သစ်နိုင်ငံကို အဆက်မပြတ် အုပ်ချုပ်ခဲ့ကြလေသည်။ ဆဲ့ခြောက်ဆက် မြောက် လူဝီဘုရင်နှင့် မာရီအန်တွာနတ် မိဖုရားတို့ နန်းကျ၍ အသတ်ခံရပြီးနောက်၊ ဗူးဗွန်မင်းဆက် ခေတ္တပြတ်သွားသော် လည်း၊ ၁၈၁၄ ခုနှစ်တွင် ဆဲ့ရှစ်ဆက်မြောက် လူဝီဘုရင် (၁၇၅၅–၁၈၂၄) နန်းတက်သောအခါ ဗူးဗွန်မင်းဆက် ပြန် ပေါ်လာပြန်သည်။ သို့ရာတွင် ၁၈၄၈ ခုနှစ်၌ လူဝီဖိလစ် ဘုရင် လက်ထက်တွင် ဖြစ်ပွားသော တော်လှန်ရေးကြောင့် ဗူးဗွန်မင်းဆက် ပြတ်သွားလေသည်။

စပိန် နိုင်ငံ ဗူးဗွန်မင်းဆက်သည် ၁၇၀၀ ပြည့်နှစ်တွင်မှ စ တင်ခဲ့သည်။ ပြင်သစ်ဘုရင် ဆဲ့လေးဆက်မြောက် လူဝီ၏ မြေးတော် ပဥ္စမ ဖိလစ် ဘုရင် (၁၆၈၃–၁၇၄၆) မှ စတင်၍ စပိန်နိုင်ငံတွင် ဗူးဗွန်မင်းဆက် ပေါ်ပေါက် လာသည်။ ဖိလစ် ဘုရင်၏ အဆက်အနွယ်များ ဖြစ်သော ဆဋ္ဌ ဖာဒီနန် ဘုရင် (၁၇၁၃–၁၇၅၉)၊တတိယချားဘုရင် (၁၇၁၆–၁၇၈၈) နှင့် စတုတ္ထချားဘုရင် (၁၇၄၈–၁၈၁၉)၊ သတ္တမ ဖာဒီနန်ဘုရင် (၁၇၈၄–၁၈၃၃)၊ ဒုတိယ အဇ္ဇဗဲလားဘုရင်မ (၁၈၃၀–၁၉၀၄) နှင့် ဆဲ့နှစ်ဆက်မြောက် အယ်လဖွန်းဆိုးဘုရင် (၁၈၅၇–၁၈၈၅) နှင့် ဆဲ့သုံးဆက်မြောက် အယ်လဖွန်းဆိုး ဘုရင် (၁၈၈၆–၁၉၄၁) တို့ လက်ထက်တိုင် ၁၉၃၁ ခုနှစ်တွင် စပိန် သမတနိုင်ငံ ဖြစ်ပေါ် လာသည်အထိ ဗူးဗွန်မင်းများ စပိန် နိုင်ငံ၌ အဆက်ဆက် အုပ်စိုးခဲ့ကြသည်။

စပိန်ဘုရင် တတိယ ချားသည် စပိန်ထီးနန်း မဆက်ခံရ သေးမီ ၁၇၃၈ ခုနှစ်တွင် နေပယ် ဘုရင်နှင့် ပါးမား နယ်စား ဖြစ်ခဲ့သည်။ သို့ရာတွင် စပိန်ဘုရင်အဖြစ် နန်းတက်သော အခါ နေပယ်နှင့် ပါးမားနယ်တို့ကို သားတော်အငယ် ဖာဒီ နန်အား ပေးအပ်လိုက်သည်။ ဖာဒီနန်နှင့် သူ၏ အဆက် အ နွယ်များဖြစ်သော ပဥ္စမဖရန်စစ်၊ ဒုတိယဖာဒီနန်နှင့် ဒုတိယ ဖရန်စစ်တို့သည် စစ္စလီကျွန်းအပါအဝင် နေပယ်နှင့် ပါးမား ဘုရင်များအဖြစ် အုပ်စိုးခဲ့ရာ ၁၈၆၀ ပြည့်နှစ်တွင် ဣတလီ ထီးနန်းနှင့် ပေါင်းလိုက်ရသည့် အချိန်အထိ ဖြစ်သည်။

ပြင်သစ်၊ စပိန်၊ ပါးမား နှင့် နေပယ်တို့မှ ဗူးဗွန် မင်းဆက် ၏ အဆက်အနွယ်များသည် ယခုတိုင် ကျန်ရစ်ခဲ့သေးသည်။ ပြင်သစ် သမိုင်း၌ အလွန်ထင်ရှားသော ကွန်ဒီ ဆွေမျိုးစု သည် ဗူးဗွန်မင်းဆက်၏ အနွယ်တော်များ ဖြစ်လေသည်။

**ဗူးလင်း, အန်း**(ခရစ် ၁၅၀၇–၁၅၃၆)။ ။ အန်း ဗူး လင်း သည် အင်္ဂလန်ပြည် အဋ္ဌမ ဟင်နရီဘုရင်၏ ဒုတိယ မိဖုရားဖြစ် ၍ ပဥ္စမအယ်လစ်ဇဗက် ဘုရင်မကြီး၏ မယ်တော် ဖြစ်သည်။ နောင် အားဘွဲ့ရ ဝစ်ရှိုင်ယာစား ဖြစ်လာသော ဆာတော မတ်ဗူးလင်းနှင့် ဒျူဘွဲ့ရ နောဖို့စား၏သမီး အယ်လစ်ဇဗက် တို့မှ ၁၅၀၇ ခုနှစ်တွင် ဖွားမြင်သော သမီးဖြစ်သည်။

ဖခင်ဖြစ်သူ ဆာတောမတ် ဗူးလင်းအား အဋ္ဌမ ဟင်နရီ ဘုရင်က ပြင်သစ်နိုင်ငံသို့ သံအမတ်အဖြစ် ခန့်အပ်လိုက်သော အခါ အန်းလည်း လိုက်ပါသွားသည်။ ပဋ္ဌမတွင် ဆဲ့နှစ်ဆက် မြောက် လူဝီဘုရင်၏ မိဖုရား အင်္ဂလိပ်မင်းသမီးမေရီ၏အပါး တော်မြဲ အပျိုတော်အဖြစ် အမှုထမ်း၍၊ မေရီမင်းသမီး မုဆိုးမ ဖြစ်သွားပြီးနောက် အင်္ဂလန်သို့ ပြန်သွားသော်လည်း၊ ပြင် သစ် နန်းတွင်း၌ပင် အမှုထမ်းနေရစ်ခဲ့လေသည်။ ပြင်သစ် နန်းတော်၌လည်း အန်း၏ ပါးနပ်လိမ္မာမှုနှင့် ရုပ်ရည် ချော မောလှပမှုကြောင့် လူအများ၏ ချစ်ခင်ခြင်း ခံရသည်။

၁၅၂၂ ခုနှစ်တွင် အင်္ဂလန်ပြည်သို့ ပြန်ရောက်သော အခါ ဟင်နရီဘုရင်၏ ပဌမ မိဖုရား ကက်သရင်းထံတွင် ခစားနေ ယင်း၊ ဘုရင်နှင့် မေတ္တာ သက်ဝင်မိသည်။ ဟင်နရီဘုရင် သည် အန်းအား လက်ထပ်နိုင်ရန်အတွက် ကက်သရင်း မိဖုရား နှင့် ကွာရှင်းရန် ကြိုးစားခဲ့သော်လည်း သတ္တမ ကလဲမန့် ပုပ် ရဟန်းမင်းက ဆောင်ရွက်မပေးဘဲ နေခဲ့သဖြင့် ဟင်နရီ ဘု ရင်သည် အင်္ဂလန်ပြည် သံဃအဖွဲ့ကို ဗရင်ဂျီသံဃအဖွဲ့မှ ခွဲ ထုတ်ကာ ဂိုဏ်းသီးခြား ထောင်လေသည်။ မိမိကိုယ်တိုင် လည်း အင်္ဂလန်ပြည် သံဃအဖွဲ့၏ ခေါင်းဆောင်အဖြစ် ခံယူ လိုက်သည်။ (ခရစ်ယန် သာသနာ့အရေးပုံ — ရှု။) ၁၅၃၃ ခုနှစ်တွင် ကန်တာဗာရီဂိုဏ်းအုပ်ကြီး ကရန်မားက ကက် သရင်းမိဖုရားနှင့်ကွာရှင်းပေး၍ အန်းနှင့် ဇန္နဝါရီလလောက် ကပင် တိတ်တဆိတ် လက်ထပ်ထားခဲ့သည်ကို တရားဝင် အ ဖြစ် အသိအမှတ်ပြုလိုက်သည်။ ထိုနှစ် ဇွန်လတွင် အန်းအား အဘိသိက်ခံ မိဖုရားကြီးအဖြစ် တင်မြှောက်လိုက်သည်။စက် တင်ဘာလတွင် နောင်အခါ ပဌမ အယ်လစ်ဇဗက် ဘုရင်မ ဖြစ်လာမည့် သမီးတော်ကို ဖွားမြင်သည်။ (အယ်လစ်ဇဗက် ဘုရင်မ၊ ပဌမ — ရှု။)

သားယောကျ်ား ကလေးသာ မြော်မှန်းနေသော ဟင်န



အန်းဗူးလင်းအား ဒုတိယကြင်ယာတော် မိဖုရားအဖြစ် မြှောက်စားစဉ်

ရီဘာရင်သည် အန်းအပေါ်၌ တဖြည်းဖြည်း အပြစ်မြင်လာကာ အန်း၏အပျိုတော် ဂျိန်းဆေးမိုးနှင့် မေတ္တာသက်ဝင်ခဲ့ပြန်သည်။ ထို့ကြောင့် အန်းကို သစ္စာမတည်ဟု စွပ်စွဲ၍ လန်ဒန်မျှော်စင်ကြီး၌ အကျဉ်းချထားပြီးလျှင် တရားခွင် တင်ကာ စစ်ဆေးစေသည်။ တရားရုံးတော်မှ သေဒဏ်စီရင်လိုက်သဖြင့် ၁၅၃၆ ခုနှစ် မေလ ၁၉ ရက်နေ့တွင် ခေါင်းဖြတ်၍ အဆုံးစီရင်ခြင်း ခံရလေသည်။

**ဗေ့စဘောကစားခြင်း။** ။ခြင်းလုံး ခတ်ခြင်းသည် မြန်မာလူမျိုးတို့၏ အမျိုးသား ကစားနည်း ဖြစ်သကဲ့သို့ ဗေ့စဘောကစားခြင်းသည်လည်း အမေရိကန် လူမျိုးတို့၏ အမျိုးသားကစားနည်း ဖြစ်သည်။ ဗေ့စဘော ကစားခြင်းသည် ကစားကွင်းအတွင်း၌ ဘောလုံးကို လက်ဖြင့် ပစ်၍၎င်း၊ ဗက်တံဖြင့် ရိုက်၍၎င်း ကစားသော ကစားနည်းမျိုး ဖြစ်သည်။

ဗေ့စဘော ကစားခြင်းကို အမေရိကန်ပြည်တွင်းစစ် အတွင်းက ဗိုလ်ချုပ်ဖြစ်ခဲ့သူ အက်ဗနာ ဒူဗယ်ဒေး ဆိုသူသည် ၁၈၃၉ ခုနှစ်တွင် နယူးယော့ပြည်နယ် ကူးပါးစတောင်းမြို့၌ စတင်တီထွင် ခဲ့သည်။ ထိုအလျှင်ကမူ ယင်း ကစားနည်းမျိုးကို ကစားခဲ့ကြသော်လည်း ဒူဗယ်ဒေး၏ စည်းကမ်းစနစ်ချမှတ် ကစားမှုကြောင့် ယခုခေတ် လူသိများသော ဗေ့စဘောကစားနည်း ပေါ်လာခဲ့သည်။ တီထွင်သူ ဒူဗယ်ဒေးအား ဂုဏ်ပြုသော အားဖြင့် သူ့ဇာတိ ကူးပါးစတောင်းမြို့တွင် အမျိုးသား ဗေ့စဘောခန်းမနှင့် ပြတိုက်တခု ဖွင့်လှစ် ထားလေသည်။ ယင်းကစားနည်းသည် မြန်မာနိုင်ငံသို့ ရောက်ရှိလာပြီ ဖြစ်သော်လည်း ခေတ်မစားသေးချေ။

ဗေ့စဘော ကစားသည့်အခါ ကွင်းကြီး၏အလယ် အတွင်း ကစားကွင်းတဝိုက်တွင် ဗဟိုပြု ကစားကြသည်။ အပြင် ကွင်းသည် ကျယ်နိုင်သမျှကျယ်ရ၍၊ စည်းရိုးခတ်ထားတတ်သည်။ အတွင်း ကစားကွင်းသည် ရာဇမတ်ကွက်ပုံရှိ၍ ဘေးအနား တဖက်လျှင် ပေ ၉၀ ရှည်သည်။ ထောင့် ၄ ထောင့်ရှိသည့် အနက် ၃ ထောင့်ကို ပဌမ အခြေခံထောင့်၊ ဒုတိယ အခြေခံထောင့်၊တတိယအခြေခံထောင့်ဟုခေါ်၏။ကျန်ထောင့်တထောင့်ကို အင်္ဂလိပ်ဘာသာဖြင့်ဟုမ်းပလိတ်ခေါ်၍ ဗက်တံကိုင် နေသော နေရာဖြစ်သည်။ ဗက်တံကိုင်နှင့် ဘောလုံးပစ်သူတို့ နေရာများသည် ၆၀½ ပေ ကွာဝေးရသည်။

ဗက်တံကိုင်နေရာနှင့်ဒုတိယအခြေခံထောင့်သည် ၁၂၇ ပေ ၉ ⅜ လက်မ ဝေးသည်။ ဤကား လူကြီးများအတွက် ဗေ့စဘောကစားကွင်း ဖြစ်၍၊ ကလေးများအတွက် ကစားကွင်း



ဗေ့စဘောကစားခြင်းသည် ကိုယ်လက်ကြံ့ခိုင်ရေး ကစားနည်းကောင်း တခုဖြစ်သည်။

ကိုမူ ထို့ထက်သေးသော အလယ်ကွင်း ပြုလုပ်နိုင်သည်။ အနား တဖက်လျှင် ပေ ၉၀ မဟုတ်ဘဲ ဂ၂ ပေ ထား၍ ဘောလုံးပစ်သူနှင့် ဗက်တံကိုင်နေရာကို ပေ ၅၀ အကွာထားနိုင်သည်။ ဗက်တံကိုင် နေရာနှင့် ဒုတိယ အခြေခံ ထောင့်ကို ၁၁၅ ပေ ၁၁ ၃/၂ လက်မ ခွာထားရသည်။

ဗေ့စဘော ကစားရာ၌ အသုံးပြုသော ဘောလုံးသည် မာသည်။ အဝန်း ၉ လက်မနှင့် ၉ ၁/၄ လက်မအတွင်းရှိသည်။ ဗဟိုတွင်ဖော့ခံ၍ ရော်ဘာအထပ်ထပ်သိုးမွေးခင်အနုအကြမ်း အထပ်ထပ်ပတ်၍ အပေါ်မှမြင်းသားရေဖြင့်ချုပ်ထားသည်။ ၅ အောင်စမှ ၅ ၁/၄ အောင်စအထိ လေးသည်။

ဘောလုံး ရိုက်သော ဗက်တံသည် သစ်မာသားဖြင့် ပြုလုပ်ထား၍ ၄၂ လက်မထက် ပို၍မရှည်ရချေ။ ဗက်တံသည် အလုံးဖြစ်၍ အကြီးဆုံး အပိုင်းတွင် အချင်း ၂ ၃/၄ လက်မရှိသည်။ဗက်တံကိုင်သည် စတုတ္ထအခြေခံထောင့်—ဟုမ်းပလိတ်၏ ဝဲယာရှိ သတ်မှတ်ထားသော အကွက်တွင် နေရသည်။

ဗေ့စဘော ကစားရာ၌ အနည်းဆုံး ဒိုင်လူကြီး တယောက် အများဆုံး ၄ ယောက် ထားနိုင်သည်။ ဒိုင်လူကြီး ချုပ်သည် ဘောလုံးပစ်သူ၏ နောက်တွင်နေ၍၊ ကျန် ၃ ယောက်က ပဌမအခြေခံထောင့်၊ ဒုတိယ အခြေခံထောင့်၊ ဘောလုံးဖမ်းသူ နောက်ဘို့တွင် နေ၍ ကြည့်ရသည်။

ဗေ့စဘော ကစားရာတွင် အသင်း ၂ သင်း ယှဉ်ပြိုင် ကစားရ၍ တသင်းလျှင် ကစားသူ ၉ ယောက်စီ ပါဝင်ရသည်။ ယင်းတို့မှာ ဘောလုံး ပစ်သူ၊ ဘောလုံး ဖမ်းသူ၊ ပဌမ အခြေခံ ထောင့်လူ၊ ဒုတိယအခြေခံ ထောင့်လူ၊ တတိယ အခြေခံ ထောင့်လူ၊ဒုတိယနှင့် တတိယ အခြေခံ နှစ်ခုကြား ဘောဖမ်းလူ၊ ဘောဖမ်းကွင်း ဗယ်လူ၊ ဘောဖမ်းကွင်း အလယ်လူ၊ ဘောဖမ်းကွင်း ယာလူတို့ဖြစ်သည်။ ကစားပွဲ စသောအခါ တဖက် အသင်းက ကွင်းထဲသို့ ဆင်း၍ နေရာယူပြီးနောက်၊ ကျန်အသင်းမှ ကစားသူများက ဘောလုံးကို ဗက်တံနှင့် တလှည့်စီ ရိုက်ကြရသည်။ မိမိအလှည့်မကျမီ ကွင်းပြင်ထွက်၍ ထိုင်စောင့် ရသည်။ ကွင်းထဲမှ ကစားသူသည် လက်တဖက်ကို သားရေ လက်အိတ်စွပ်ထားရသည်။ ယာလက်ဖြင့် ဘောလုံး ပစ်တတ်သူဖြစ်လျှင် ဝဲလက်ကို လက်အိတ်စွပ်၍ ဝဲလက်ဖြင့် ဘောလုံး ပစ်တတ်သူဖြစ်လျှင် ယာလက်ကို လက်အိတ် စွပ်ရသည်။ ဘောလုံးဖမ်းသူသည် ရိုက်သူနောက်တွင် နေရ၍ အရှိန်ပြင်းစွာနှင့် လာသော ဘောလုံးကို ဖမ်းနိုင်ရန် ပို၍ ထူထူခံထားသော လက်အိတ်စွပ် ထားရသည်။ ထို့ပြင် မျက်နှာကိုရင်း၊ကိုယ်ကိုရင်း၊ ဒူးကိုရင်းဘောလုံးမှန်၍ ထိခိုက်ဒဏ်ရာရခြင်းမရှိစေရန် ကြေးနန်းကြိုး ခက်ထားသော မျက်နှာစွပ်၊ ဒူးစွပ်များ စွပ်၍ ကာကွယ် ထားလေ့ ရှိကြသည်။



ဂျပန်နိုင်ငံတွင် အထူးခေတ်စားလျက်ရှိသော ဗေ့စဘော အပြိုင်အဆိုင်ကစားနေကြစဉ်

ဘောလုံးပစ်သူသည် ဘောလုံး ပစ်လွှတ်ချိန်တွင်သတ်မှတ်ထားသော နေရာကွက်ကို မိမိခြေတဖက်ဖြင့် နင်းမိထားစေရသည်။ ဘောလုံးပစ်သူသည် ဘောလုံးကို ဗက်တံကိုင်၏ ဒူးအောက်လည်း မကျ၊ ပခုံးပေါ်လည်း မကျော်စေဘဲ ပစ်ပေးမှ စံနစ်မှန်ဘောလုံးဟု ခေါ်သည်။ စံနစ်မှန် ဘောလုံး ဖြစ်ပါလျက်နှင့် ဗက်တံကိုင်က ဘောလုံးကို ဆီး၍ မရိုက်ဘဲ ရပ်နေလျှင်ဖြစ်စေ၊ ဘောလုံးကို ဗက်တံကိုင်က လှမ်းရိုက်ပါလျက်နှင့် မမိလိုက်လျှင်ဖြစ်စေ ဒိုင်လူကြီးက စထရိုက်ဟု ခေါ်၍ အဆုံးအဖြတ်ပေးသည်။ "စထရိုက်" ၃ ခါ ခေါ်ရလျှင် ဗက်တံကိုင် ထွက်ရသည်။ သို့သော်လည်း တတိယ အကြိမ် "စထရိုက်" ခေါ်သည်တွင် ဖမ်းသူ လက်မှ ဘောလုံး လွတ်ကျခဲ့သည် ရှိသော် ဗက်တံကိုင် ထွက်ပေးရန်မလိုချေ။ ဗက်တံကိုင် ရိုက်လိုက်သော ဘောလုံးသည် "ဟုမ်းပလိတ်" မှ ပဌမ အခြေခံနှင့် တတိယ အခြေခံတို့ကို ဖြတ်၍ ကွင်းပြင်ထဲသို့ တိုင်အောင် ဆန့်ထွက်သော နယ်နိမိတ် မျဉ်းနှစ်ကြောင်း အကြားကို ဖြတ်ကျော်စေရသည်။ ယင်းကဲ့သို့သော ဘောလုံးကို စံနစ်မှန်ဘောလုံးဟုဆိုသည်။ ထိုမျဉ်းနှစ်ကြောင်း အပြင်သို့ အန်ထွက်သော ဘောလုံးမှန်သမျှမှာ စံနစ်မှန် ဘောလုံး မဟုတ်သဖြင့် "စထရိုက်" ဟူ၍ အခေါ်ခံရမည် ဖြစ်သည်။ အကယ်၍ ဘောလုံးသည် ဗက်တံကိုင် ဒူးအောက်မှ ဖြစ်စေ၊ ပခုံးပေါ်သို့ ကျော်၍ဖြစ်စေ၊ "ဟုမ်းပလိတ်"အပြင်မှ ဖြစ်စေ ဖြတ်သွားလျှင် ဒိုင်လူကြီးက 'ဘော' ဟု အော်ရသည်။ 'ဘော' ၄ ကြိမ် ဖြစ်လျှင် ဗက်တံကိုင်သည် ပဌမ အခြေခံထောင့်သို့ အဆီးအတားမရှိ သွားနိုင်သည်။ ကွင်းတဲရှိ ဘောလုံးကစားသူများ ရိုက်လိုက်သော ဘောလုံးကို တဖက်သားက မြေသို့ မကျမီ ဖမ်းမိလျှင် ရိုက်သူထွက်ရသည်။ ရိုက်သူ ပဌမအခြေခံ ထောင့်သို့ မရောက်မီ၊ ဘောလုံး ရသူ တဖက်သားက ထိုထောင့်သို့ အရောက် ဦးနေလျှင်လည်း ရိုက်သူ ထွက်ရသည်။ ရိုက်သူသည် ပဌမ အခြေခံ ထောင့်သို့ အလျင် ဦးစွာ ရောက်နေလျှင် တဖက်သားက မနှောင့်ယှက်နိုင်ချေ။ ဆက်ပြေးရန် အခွင့်သာနေသေးလျှင် ပဌမ အခြေခံ ထောင့်မှ ဒုတိယ၊ တတိယ အခြေခံထောင့်များသို့၎င်း၊ ထိုမှတဆင့် "ဟုမ်းပလိတ်"၊ သို့မဟုတ် ပန်းဝင်ထောင့်သို့၎င်း ဆင့်ကဲ ပြေးဝင်နိုင်သည်။ သို့ရာတွင် အခြေခံထောင့်တခုနှင့် တခုကြားတွင် ပြေးယင်း ဘောလုံးနှင့် မထိအောင် ရှောင်ရသည်။ ထိမိလျှင် ထွက်ပေးရသည်။ ဘောလုံးနှင့် မထိဘဲ တပတ်ပြည့်အောင် ပြေးနိုင်ပါက တပတ်အောင်သည်ဟု ခေါ်သည်။ ဤနည်းဖြင့် ဘောလုံး ရိုက်ရသည့်ဖက်မှ ၃ ယောက်ထွက်ရသည် အထိ ဆက်လက်ကစားကြသည်။ ၃ ယောက် ဆက်၍ ထွက်ရလျှင် တဖက်နှင့် နေရာ တလှည့် ပြောင်း၍ ကစားကြရသည်။

တဖက်လျှင် ဘောလုံး ရိုက်လှည့် တလှည့်ကျ ရပြီးသော အခါ တချီပြီးပြီဟု မှတ်ယူရသည်။ တပွဲတွင် ၉ ချီအထိ ကစားလေ့ ရှိသည်။ သရေပွဲဖြစ်လျှင် ဆက်ကစားရသည်။ အမေရိကန် ပြည်ထောင်စုတွင် ကြေးစား ဗေ့စဘော အသင်းများ တည်ထောင်၍ နှစ်စဉ် ဧပြီလအလယ်မှ အောက်တိုဘာလ ဆန်းအထိ ယှဉ်ပြိုင် ကစားကြလေသည်။

**ဗေကင်, ဖရန်စစ်** (ခရစ် ၁၅၆၁ – ၁၆၂၆)။ ။ အင်္ဂလိပ်နိုင်ငံပြုသုခမိန်၊ သဘာဝတ္တပညာရှင်နှင့် စာမွန်ရေး ဆရာကြီး ဖရန်စစ် ဗေကင်သည် ထင်ရှားသော အမျိုး အနွယ်မှ ဆင်းသက်လာသူ ဖြစ်သည်။ ဖခင်ဖြစ်သူ တံဆိပ်တော်ဝန်ကြီး ဆာနစ်ကလတ်ဗေကင်နှင့်မိခင်ဖြစ်သူ ဆာ အန်တော်နီ ကွတ်၏ သမီး လေ့ဗာဂလေ၏ ခယ်မ အန်းတို့မှ ၁၅၆၁ ခုနှစ်ဇန်နဝါရီလ ၂၂ ရက်နေ့တွင် လန်ဒန်မြို့၌ဖွားမြင်သော ရှစ်ယောက်မြောက် သားထွေး ဖြစ်သည်။ မိဖ ၂ ဖက်စလုံးမှ ဆွေမျိုးများသည် အယ်လစ်ဇဗက် ဘုရင်မ၏ နန်းတွင်း၌ ဝင်ထွက်သွားလာ နိုင်သူများ ဖြစ်သော်လည်း၊ ဗေကင်သည် အခွင့်အရေး အထူးအထွေ ဟူ၍ မခံစားခဲ့ရချေ။

၁၅၇၃ ခုနှစ်တွင် ဗေကင်သည် ကိမ်းဗရစ် တက္ကသိုလ် ထရင်နီတီကောလိပ်၌ ဝင်ရောက်ပညာသင်ယူ၍ ၁၅၇၆ ခုနှစ်တွင် ဂရေးအင်းသို့ ဝင်ခွင့်ရသည်။ ထို့နောက် ဆာအေမီယတ်ပေါလက်၏ သံအဖွဲ့ဝင်အဖြစ် ပြင်သစ်နိုင်ငံတွင် သွားရောက်နေထိုင်ရာ ၁၅၇၉ ခုနှစ်တွင် ဖခင်ဖြစ်သူ ကွယ်လွန်သည်အထိ ဖြစ်သည်။ ဖခင်ကွယ်လွန်ပြီးမှပင် ဗေကင်သည် ဝတ်လုံ အတတ်ကို ပြီးမြောက်အောင်သင်ယူ၍ အမှုလိုက်ရာ ဥပဒေ တတ်ကျွမ်းနားလည်လှသဖြင့် မကြာမီ ထင်ရှား ကျော်ကြားလာသည်။ သို့ရာတွင် နိုင်ငံရေးလောကသို့သာ ဝင်လိုသော ဗေကင်သည် ၁၅၈၄ ခုနှစ်တွင် မဲလကမ်ရဲဂျစ်နယ်မှ ပါလီမန် အမတ်ဖြစ်လာသည်။ ဘုရင်မ၏ အချစ်တော် အက်ဆက်စားနှင့်လည်း ဗေကင်သည် ရင်းနှီးရကား၊ အက်ဆက်စား၏ စောင်မကူညီမှုကြောင့် နန်းတော်တွင်း၌ အထူးအခွင့် အရေးများရခဲ့သည်။ လစ်လပ်နေသော ရှေ့နေချုပ်ရာထူးကိုပင် ဗေကင်အားခန့်အပ်ရန် အက်ဆက်စားက ဘုရင်မအားပြောပေးသည်။ သို့ရာတွင် ဗြိတိသျှ အစိုးရက ဗေကင်၏ နိုင်ငံရေး မှုကို မကြိုက်သဖြင့် သူ၏ ပြိုင်ဖက် ကုတ်ကို ခန့်ထားလိုက်ရာ အက်ဆက်စားက ဗေကင်အား ကရုဏာ သက်စွာဖြင့် ပေါင် ၁,၈၀၀ တန်နယ်မြေကို လက်ဆောင်ပေးလိုက်သည်။

ဗေကင်ကား ထူးချွန်ထက်မြက်သူ ဖြစ်သလောက် စိတ်သဘောထား မြင့်မြတ်ခြင်း မရှိလှချေ။ ကျေးဇူးရှင် အက်ဆက်စားအား ဘုရင်မက အမျက်တော်ရှိစဉ်၊ အက်ဆက်စားဖက်မှကူညီဖေးမပေးခြင်း မရှိရုံမက မြေနိမ့်ရာ လှံစိုက်ပင် ပြုလုပ်သည်ဟု အများ၏ စွပ်စွဲခြင်းခံခဲ့ရသည်။ အက်ဆက်စား၏ကိစ္စတွင် ဗေကင်သည် အထူးပင်နာမည်ပျက်ခဲ့သည်။


ဗြိတိသျှ နိုင်ငံပြုသုခမိန်နှင့် သိပ္ပံပညာရှင် ဖရန်စစ် ဗေကင်

၁၆၀၃ ခုနှစ်တွင် ပဌမ ဂျိမ်းဘုရင်နန်းတက်သော အခါ ဗေကင်အား များစွာ ချီးမြှင့်မြှောက်စားခြင်း ပြု၏။ ထိုနှစ်တွင်ပင် ဆာဘွဲ့အပ်နှင်းခြင်း ခံရ၍ အစိုးရ အထူးရှေ့နေချုပ်ကြီး၊ ပရီဗီကောင်စီအဖွဲ့ဝင်၊ တရားဌာန ဝန်ကြီး စသည့် ရာထူးကြီးများ၌ အဆင့်ဆင့် တိုးတက်ခန့်ထားခြင်း ခံရသည်။ ၁၆၁၈ ခုနှစ်တွင် ဗဲရွန်ဘွဲ့ရ၍ ၁၆၂၁ ခုနှစ်တွင် ဗိုင်းကောင့်ဘွဲ့ဖြင့် ချီးမြှင့်သူကောင်းပြုခြင်း ခံရလေသည်။

နက်နက်နဲနဲ တတ်သိသော နိုင်ငံပြုသုခမိန်ပီပီ ဗေကင်သည် ဂျိမ်းဘုရင်အား အကြံဉာဏ် ကောင်းများ ပေးခဲ့သော်လည်း၊ ဘုရင်ကဆောင်ရွက်ခြင်း မပြုချေ။ ဗေကင်ကိုယ်တိုင်ကလည်း အကြံပေး ကောင်းသလောက် သူ့အကြံ အတိုင်း သူလိုက်နာ လုပ်ကိုင်လေ့ မရှိချေ။ တရားစီရင်ရာ၌ ဖြောင့်မတ်ရန် သြဝါဒပေးလေ့ ရှိသောဗေကင်သည် တရားဝန်ကြီးအဖြစ်ဆောင်ရွက်စဉ် လာဘ်စားမှုဖြင့် တခါသော် တရားစွဲခံရဘူး၏။ ထိုအမှုအတွက် လန်ဒန်မျှော်စင်၌ အကျဉ်းခံရန်နှင့် ဒင်္ဂါးငွေပေါင် ၄၀,၀၀၀ ပေးဆောင်ရန်အပြင် မည်သည့်အခါမျှ အစိုးရရာထူးတွင် ထမ်းဆောင်ခွင့် မပြုရန် အမိန့်ချမှတ်ခြင်းခံရသည်။ ဗေကင်အား ၄ ရက်မျှသာ ချုပ်၍ လွှတ်လိုက်ကာ ဒဏ်ငွေကိုလည်း လျှော်လိုက်သည်။ သို့ရာတွင် မည်သည့်အစိုးရ ရာထူးတွင်မျှ အမှုမထမ်းရဟူသော အမိန့်မှာ တည်မြဲနေခဲ့၏။ အစိုးရ ရာထူးများတွင်သာ အမှုထမ်းကာ တက်လမ်းကိုမြှော်မှန်းခဲ့သော ဗေကင်သည် ယင်းသို့ လမ်းပိတ်သွားသဖြင့် စာပေနှင့် လောကဓာတ် ပညာကိုသာ လေ့လာလိုက်စားခဲ့လေသည်။

အစိုးရဖက်တွင် အမှုထမ်းစဉ်ကပင် ဗေကင်သည် စာမွန်ခေါ် အက်ဆေးများကို ရေးခဲ့သည်။ အစိုးရရာထူးမှ နုတ်ထွက်ရသော အခါ၊ ယခင်ကထက် ပို၍ရေးနိုင်ခဲ့သည်။ ဗေကင်သည် စာမွန်ပေါင်း ၅၈ ပုဒ်ခန့် ရေးသား ထုတ်ဝေခဲ့သည်။ သူ၏ စာမွန်များမှာ ဥပဒေ၊ အုပ်ချုပ်ရေး၊ လောကဓာတ်ပညာနှင့် သဘာဝတ္တဗေဒပညာရပ်များ အကြောင်းတို့သာ များသည်။ ယင်းတို့သည် ထင်ရှားသော စာကြီးပေကြီး စာရင်းဝင်များဖြစ်၍ ဗေကင်၏ အထင်ရှားဆုံး လက်ရာများ ဖြစ်သည်။ ဗေကင်သည် စာမွန် အပြင် အခြား စာအုပ် စာတမ်းပေါင်းများစွာ ရေးသားခဲ့သည့် အနက် 'သတ္တမ ဟင်နရီ ဘုရင်သမိုင်း' နှင့် 'အသ်လစ်ဇဗက်ဘုရင်မအား အမှတ်တရ' ဟူသော စာအုပ် ၂ အုပ်မှာ ထိုခေတ် အင်္ဂလိပ်သမိုင်းများတွင် အကောင်းဆုံးဖြစ်သည်။ ဗေကင်အား အချို့က ကမ္ဘာကျော် ရှိတ်စပီးယား ပြဇာတ်များ ရေးသူအစစ်ဟု ယုံကြည်ကြသည်။

ဗေကင်သည် လောကဓာတ် ပညာကို လေ့လာရာ၌ အစိတ်စိတ်ခွဲခြားနည်း၊ သို့မဟုတ် သိပ္ပံစံနစ် တွေးတော ဆင်ခြင်းနည်းကို ထွင်ခဲ့သူတဦး ဖြစ်သည်။ လောကဓာတ်ပညာရပ်အတွက် လက်တွေ့စူးစမ်းမှုပြုရာမှ ဗေကင်သည် အအေးမိ၍ နာမကျန်းဖြစ်ကာ၊ ၁၆၂၆ ခုနှစ် ဧပြီလတွင် ကွယ်လွန်လေသည်။ ကြက် အကောင်လိုက်ကို နှင်းခဲ နှင်းပွင့်ဖြင့် ဌာပနာထားပါက ကြာရှည်ခံမခံ သိလိုသဖြင့်၊ နှင်းတောထဲ ဆင်း၍ လက်တွေ့စမ်းသပ်ရာမှ အအေးမိခြင်း ဖြစ်သည်။ သူကွယ်လွန်သော်လည်း သူ၏ စမ်းသပ်ချက်ဖြင့် အစားအစာများကို အအေးဓာတ်ပေးက ကြာရှည် ခံနိုင်ကြောင်း သိကာ အအေးဓာတ်ပေး၍ သိုမှီးနည်းကို လုပ်ကိုင် နိုင်ခဲ့ကြသည်။ ဗေကင်ကား အလွန် ဉာဏ်ထက်မြက်သူ ဖြစ်သည်။ ထို့ကြောင့် ကဗျာ ဆရာကြီး ပုပ်က 'လူသားတို့တွင် ပညာအရှိဆုံး၊ ဉာဏ် အထက်ဆုံးနှင့် သဘောထား အသေးဆုံးသောသူ' ဟု ဗေကင်ကို စာတမ်းထိုးခဲ့သည်။

**ဗေကင်,ရော်ဂျာ**(ခရစ် ၁၂၁၄ – ၁၂၉၄)။ ။ရော်ဂျာ ဗေကင်သည် ဥရောပအလယ်ခေတ်က ပေါ်ပေါက်ခဲ့သော အတွေးအခေါ် နက်နဲလှသည့် အင်္ဂလိပ်လူမျိုး သဘာဝတ္တပညာရှင်ကြီး ဖြစ်သည်။

ရော်ဂျာဗေကင်ကို ၁၂၁၄ ခုနှစ်တွင် ဆမ္မားဆက်နယ်၌ ဖွားမြင်သည်။ အောက်စဖို့နှင့် ပါရစ်တက္ကသိုလ်များတွင် ပညာဆည်းပူးခဲ့ရာ၊ ဂရိ၊ လက်တင်၊ ဟီဗြူနှင့် အာရဗီဘာသာများကို တတ်ကျွမ်းသည်။ ထိုနောက် ခေတ်ပညာတတ်တို့နည်းအတိုင်း သာသနာ့ဘောင်သို့ ဝင်၍ ဖရန်စစ္စကန် ဂိုဏ်းဝင်ဘုန်းတော်ကြီး ဖြစ်လာသည်။ အောက်စဖို့တက္ကသိုလ်၌ စာပေများလည်း ပို့ချသည်။

ဗေကင်သည် ဂရိ၊ လက်တင်၊ ဟီဗြူ၊ အာရဗီ ဘာသာတို့ဖြင့် ရေးသားထားသော စာပေကျမ်းဂန်များကို ဖတ်ရှုရုံဖြင့် ကျေနပ် နှစ်သိမ့်ခြင်းမရှိဘဲ ဟုတ်မှန်ခိုင်လုံခြင်း ရှိမရှိကို လက်တွေ့အားဖြင့် စူးစမ်းတတ်သော အလေ့ရှိသည်။ ဗေကင်သည် ယမ်းမှုန့်နှင့် သံလိုက်အပ်အကြောင်းကို တင်ကြို သိထားနှင့်သူ ဖြစ်သည်။ အဝေးကြည့် မှန်ပြောင်းပြုလုပ်နည်းကိုလည်း ထုတ်ဖော် ပြသခဲ့သည်။ ထိုပြင် ကမ္ဘာမြေကြီးသည် ဝိုင်း၍ အတ္တလန္တိတ် သမုဒ္ဒရာကို ဖြတ်ကာ အနောက်ဖက်သို့ သွားလျှင် အာရှတိုက်သို့ ရောက်နိုင်သည်ဟူသော အချက်ကို ချွင်းချက်မရှိ ယုံကြည်ထားသူ ဖြစ်သည်။ ဗေကင်၏ စာအုပ်စာတမ်းများတွင် ယခုခေတ်၌ ပေါ်ပေါက်နေပြီ ဖြစ်သော သင်္ဘော၊ မော်တော်ကား၊ တန်တားနှင့် ကရိန်းကြီးများ တနေ့တွင် ပေါ်လာလိမ့်မည်ဖြစ်ကြောင်း တင်ကူး ရေးသားထားသည်ကိုတွေ့ရသည်။ ထိုကြောင့် ရော်ဂျာဗေကင်အား အချို့က ခေတ်ရှေ့ပြေးနေသူဟု ဆိုကြ၍ သူ့ခေတ် လူခပ်များများကမူ ကဝေဆရာကြီးဟုစွပ်စွဲကြသည်။ စင်စစ်သော်ကား ဗေကင်သည် အတွေးနက်နဲသည့် လက်တွေ့သမားကြီး ဖြစ်ပေသည်။ ထိုခေတ်က ယုံကြည်စွဲလမ်းကြသော အချို့အချက်များကို အခြေအမြစ်မရှိ၊ ယုတ္တိမတန်ဟု ပြောဆိုမှုကြောင့် ဗေကင်သည် မိစ္ဆာဒိဋ္ဌိ တဦးအဖြစ် စွပ်စွဲခံရသည်။ တဂိုဏ်းတည်းဝင် ဘုန်းကြီးများကပင် ဗေကင်အပေါ် သက်ာမကင်းဖြစ်၍ ကြဉ်ကြသဖြင့် ပါရစ် မြို့သို့ ၁၀ နှစ် ခန့် သွားရောက် နေထိုင်ခဲ့ရလေသည်။


အင်္ဂလိပ် သဘာဝတ္တ ပညာရှင်ကြီး ရော်ဂျာ ဗေကင်

ဗေကင်၏ အထက်ဘုန်းတော်ကြီးများက ဗေကင်အား တရားစာပေများ ဟောပြောခြင်း၊ ရေးသားခြင်း ဆက်လက်မပြုရန် တားမြစ်ကြသည်။ ယင်းသို့ လူအများ၏ သံသယဖြစ်ခြင်း၊ အားမပေးခြင်း ခံနေရသည့် ကြားမှပင် ဗေကင်သည် မိမိယူဆချက်များကို မှန်ကန်သည်ဟု ယုံကြည်သည့်အတိုင်း ဘာသာစာပေ၊ သိပ္ပံပညာ၊ အယူဝါဒ၊ သဘာဝတ္တဗေဒစသည်တို့ အကြောင်းပါသော အိုပတ် မဂျူ၊ အိုပတ် မိုင်းနပ်နှင့် အိုပတ် တာယီယမ် ဟူသော စာအုပ်ကြီး ၃ အုပ်ကို ၁၈ လအတွင်း အပြီးရေးသား၍ ပုပ်ရဟန်းမင်းထံ ပေးပို့သည်။ ၁၂၇၈ ခုနှစ်တွင် ပုပ်ရဟန်းမင်းကြီး ကွယ်လွန်ရာ၊ ဖရန်စစ္စကန် ဂိုဏ်းအုပ်ကြီးကိုယ်တိုင် ခေါင်းဆောင်၍ ဗေကင်အား ဆန့်ကျင်ဖက်ပြုလုပ်ကာ သူ၏ စာအုပ်များကို မဖတ်ကြရန် ပိတ်ပင်ရုံမက သူ့အား မိစ္ဆာဒိဋ္ဌိ တဦးအဖြစ် ထောင်ချလိုက်၏။ ထောင်ထဲတွင် ၁၄ နှစ်ခန့်နေရစဉ် "အိုမင်းရခြင်း၏ ချွတ်ယွင်းချက်" ခေါ် စာအုပ်တအုပ်ကို ရေးသား၍ ပုပ်ရဟန်းမင်းကြီး စတုတ္ထနစ်ကလတ်ထံ ဆက်စေသည်။ ထို စာအုပ်ကြောင့် ပင်လော၊ အခြားအကြောင်းကြောင့်ပင်လော မပြောနိုင်သော်လည်း၊ ၁၂၉၂ ခုနှစ်တွင် ဗေကင်သည် ထောင်မှလွတ်၍ အောက်စဖို့တက္ကသိုလ်တွင် စာပေပို့ချခွင့် ရပြန်သည်။ သို့ရာတွင် ၁၂၉၄ ခုနှစ်တွင် လူကြီးရောဂါဖြင့် ကွယ်လွန်ရှာလေသည်။

**ဗေဒါပင်။** ။မြန်မာနိုင်ငံ အောက်ပိုင်း မြစ်ချောင်း အင်းအိုင်တို့တွင် ရေယဉ်စီး၍ မျောပါနေသော ဗေဒါပင်များကို တွေ့မြင်ကြရသည်။ ဗေဒါပင်သည် ပွန်တဲဒီရီယေးစီအီး မျိုးရင်းတွင်ပါဝင်၍၊ ရုက္ခဗေဒအမည်မှာ အိုက်ဟောနီးယားကရပ်ဆီပီဖြစ်သည်။ ဗေဒါပင်ကို ရေပိတောက်၊ သို့မဟုတ် ရေသဇင်ဟူ၍လည်း ခေါ်ကြသည်။ ဗေဒါပင်၏ မူလဇာတိသည် ဖလော်ရီဒါ၊ ပနားမား၊ အာဂျင်တီးနား စသော အမေရိကတိုက် အပူပိုင်း ဒေသများဖြစ်သည်။ နောင်အခါမှ အိန္ဒိယ၊ မြန်မာ၊ ဂျားဗား၊ သြစတြေးလီးယား စသည့် အရှေ့ပိုင်းအပူပိုင်းဒေသများသို့ မျိုးပွါးနှံ့ခဲ့လေသည်။

ဗေဒါပင်သည် ရေ၌ပေါက်၍ မျောပါတတ်သော ဒိုက်ပင်မျိုး ဖြစ်သည်။ ကြက်သွန်ဥပုံရှိသော ရွက်ညှာတို့သည် အ



ရေတက်ရေကျတွင် စုန်ဆန်မျောလျက်ရှိသည့် ဗေဒါပင်

သားထူ၍ ဖောင်းပွပြီးလျှင် ဖော့ကဲ့သို့ရှိသဖြင့် ဗေဒါပင်သည် ရေစုန်ရေဆန် မျောပါနေနိုင်ခြင်းဖြစ်သည်။ အရွက်တို့သည် စိမ်းစိုပြောင်လက်နေ၍ ဝိုင်းလုနီးပါး ပုံသဏ္ဌာန် ရှိကာ လက်မဝက်ခန့်မှ ၆ လက်မခန့်အထိ ကျယ်သည်။ အသားထူအရွက်မျိုးဖြစ်ပြီးလျှင် အနားညီသည်။သစ်ခွပန်းမျိုးဆန်၍ လှပဝင့်ကြွားသောအပွင့်တို့သည် အသားထူပြီးလျှင် ဖောင်းပွသောအပွင့်တံ၏ ထိပ်တွင် အဆုပ်အခဲ ပွင့်ကြသည်။ တပွင့်လျှင် ခရမ်းရင့်ရောင် ပွင့်ချပ် ၆ ခု ပါရှိသည်။ ထိပ်ဆုံးပွင့်ချပ်တွင် အပြာနှင့် အဝါ အစက် အပြောက်တို့ဖြင့် ဒေါင်းမြီးကွက်သဏ္ဌာန် ပေါ်နေသည်။ မြန်မာနိုင်ငံတွင် ဆိုခဲ့သော ခရမ်းရင့် ရောင်ပွင့်သည့် ဗေဒါပင်မျိုးသာရှိသော်လည်း၊ ပန်းရောင်ရင့် ပွင့်သည့် ဗေဒါပင်မျိုးလည်း ရှိသေးသည်။ ဥရောပ နိုင်ငံအချို့တွင် အပွင့်လှသဖြင့် အလှစိုက်ပန်းပင်မျိုးအဖြစ် စိုက်ပျိုးကြလေသည်။

ဗေဒါပင်တွင် များပြား ထူထပ်သော အမြစ်ဖွားများ ရှိသည်။ ရေတပေခန့်ရှိလျှင် ဗေဒါပင် ပေါက်နိုင်သည်။ အပင်ခွဲခြင်းဖြင့် မျိုးပွားယူ နိုင်သည်။ အလွန် မျိုးပွားလွယ်သောအပင်မျိုးဖြစ်ရာ အထူးသဖြင့် မိုးရာသီတွင် ပို၍ အပင်ပွားသည်။ မြစ်ချောင်းတို့တွင် ဗေဒါပင်များ ပိတ်ဆို့နေ၍ လှေသင်္ဘောသွားလာရေးကို များစွာ အနှောင့်အယှက်ဖြစ်စေသည်။ ထို့ကြောင့် ဗေဒါပင်များကို လူအင်အား၊ စက်အင်အားဖြင့် ဖျက်ဆီးပစ်ရန် ကြံရွယ်အားထုတ်ခဲ့ကြသော်လည်း၊ ခေတ္တခဏမျှသာ တတ်နိုင်ကြ၍ ဗေဒါပင်တို့ကား ပွားမြဲ ပွားလျက် ရှိကြပေသည်။

စင်စစ် ဗေဒါပင်ကို အသုံးပြုနိုင်လျှင် အကျိုးဖြစ်ထွန်းသည်။ အိန္ဒိယနိုင်ငံတွင် ဗေဒါပင်ကို စက္ကူလုပ်ငန်း၌၎င်း၊ ကပ်ထူစက္ကူများပြုလုပ်ရာ၌၎င်း အသုံးချလေသည်။ ကုန်ထုပ်စက္ကူ အညိုရောင်များလည်း ပြုလုပ်နိုင်သော်လည်း တွက်ခြေမကိုက်ချေ။တရုပ်လူမျိုးတို့သည် ဗေဒါပင်ကိုဝက်ကျွေးရန်အတွက် အသုံးချသည်။ ဂျားဗားကျွန်းတွင် အရွက်နုများ၊ ရွက်ညွှာများ၊ အပွင့်ခိုင်များကို တခါတရံ ပေါင်း၍၎င်း၊ ချက်၍၎င်း စားသောက်ကြသည်။

ထို့ပြင် ဗေဒါပင်ကို မြေဩဇာအဖြစ် အသုံးပြုနိုင်သေးသည်။ ဗေဒါမြေဩဇာပြုလုပ်နည်းမှာ ခဲတောင့်ခဲယဉ်း မဟုတ်ချေ။ဗေဒါပင်များကို ရေမှဆယ်၍ရေစစ်အောင် တန်းတင်ပေးရသည်။ရေစစ်ပြီးဗေဒါပင်များကို အလျား ၁၈ ပေ၊ အနံ ၁၂ ပေ၊ ထု ၉ လက်မမှ ၁၂ လက်မအထိ ရှိအောင် အညီအမျှဖြန့်ပေးရသည်။ ထိုနောက် မြေကြီးလှည်းတစီးတိုက်တဝက်၊ နွားချေးအစို လှည်းတစီးတိုက်တဝက်နှင့် ပြာနှစ်တောင်းခန့်ကို ဗေဒါပုံပေါ် ညီညာစွာ ဖြန့်ခင်းပြီးသော် ရေစွတ်ရုံမျှဖျန်းပေးရသည်။ ယင်းသည့် နည်းအတိုင်း တထပ်ပြီးတထပ်ဖြည့်တင်ကာ ၁၅ ပေ၊ ပေ ၂၀ ခန့် အမြင့်ရှိအပုံကြီး ဖြစ်လာစေရသည်။ တလခန့်ကြာ၍ ဗေဒါပုံကြီးအချဉ်ပေါက်ပြီးလျှင် ယိရွဲလာလျှင် အပုံကြီးကို မွှေနှောက်၍ အသစ် ပြန်ပုံရသည်။ နောက်ထပ် တလခန့်ကြာလျှင် ဗေဒါအပုံကြီး အချဉ်ဓာတ်ကုန်၍ သစ်ရွက်ဆွေး နွားချေးဆွေးကဲ့သို့ ဖြစ်လာလေသည်။

ဗေဒါမြေဩဇာကို အသီးအနှံအမျိုးမျိုးအတွက် အသုံးပြုနိုင်သည်။ မြေစေးများကို စိုက်ပျိုးဖြစ်ထွန်းသော အခြေအနေမျိုးရောက်ရှိရန်ပြုပြင်ရာ၌ ဗေဒါမြေဩဇာသည်အထူးအသုံးဝင်သည်။ နွားချေး မြေဩဇာမလုံလောက်လျှင် အစားထိုးသုံးစွဲနိုင်၍ နွားချေးမြေဩဇာနည်းတူ အာနိသင်ရှိသည်။ တောင်သူလယ်သမားတို့သည် ဗေဒါပင်များကိုမိမိတို့လက်လှမ်းမှီရာ မြစ်ချောင်း အင်းအိုင်တို့မှ ပေါပေါများများရနိုင်သဖြင့် အထက်နည်းအတိုင်း မြေဩဇာအဖြစ် ပြုလုပ်အသုံးချသင့်ကြပေသည်။

ထို့ပြင် တနည်းမှာ တရုပ် လူမျိုးတို့သည် ဗေဒါပင်များကို အခြောက်လှန်း၍ မီးရှို့ပြီးလျှင် ပြာကိုမြေဩဇာအဖြစ်အသုံးပြုသည်။ ဗေဒါပင်တို့သည် ပိုတက်ဓာတ်ကို အများအပြား စုဆောင်းထားလေ့ရှိသဖြင့် မီးရှို့လျှင် လျှင်မြန်စွာမီးတောက်နိုင်သည်။

ဗေဒါပင်၏ အပင်တံများတွင် အမျှင်ရှိသည်။ ထိုအမျှင်များကို ကြိုးကျစ်၍ရသည်။ ဂုံနီကြိုးအစားပင် အသုံး

ချနိုင်သည်။ သို့သော် ကြိုးအဖြစ်ရောက်အောင် လုပ်ကိုင်ရန် စရိတ်စကကြီး၍ တွက်သားမကိုက်သဖြင့် လုပ်ကိုင်ရောင်းချခြင်းမပြုကြချေ။

ဗေဒါပွင့်များသည် မြင်းအရေပြား ရောဂါများအတွက် ဆေးဖက်ဝင်လေသည်။

**ဗေဒင်။** ။ဗေဒင်ဟူသည်မှာမာဂဓပါဠိဝေဒ (သင်္သကရိုဋ္ဌဘာသာ ဟိန္ဒူနဂရိ ဗေဒ)· သိခြင်းနှင့် အင်္ဂ-အင်္ဂါဖြစ်ခြင်းတို့ပေါင်းစပ်၍ ဖြစ်ပေါ်လာသည့် ဝေဒင်္ဂမှ ဆင်းသက်လာသည်။ ဝေဒင်္ဂသဒ္ဒါသည် ဗေဒ၏အင်္ဂါဖြစ်သော ကျမ်းကိုဆိုရာ၊ယင်းတွင် သိက္ခာ၊ ကပ္ပ၊ဗျာကရဏ၊ ဆန္ဒ၊ ဇောတိသတ္တ၊ နိရုတ္တိကျမ်းများပါဝင်သည်။ဝေဒင်္ဂမှသင်္သကရိုဋ္ဌဘာသာသို့ ရွေ့လျော၍ ဗေဒင်္ဂဖြစ်လာသည်။ ဗေဒင်္ဂမှ မြန်မာဘာသာဖြင့် ဗေဒင်ဟူသော ဝေါဟာရဖြစ်လာသည်။ ဝေဒင်္ဂတွင် ပါဝင်သော ဇောတိသတ္တကား ဗေဒင်ပညာပင် ဖြစ်သည်။ ဝေဒ-ဗေဒသဒ္ဒါသည် သိခြင်းအနက်ကို ဆိုသောကြောင့် ဗေဒင်ပညာဖြင့် ပစ္စုပ္ပန် အတိတ် အနာဂတ် အကျိုးအပြစ်တို့ကို သိနိုင်သည်ဟု ရှေးအခါကပင် ယုံကြည်ရင်းစွဲ ရှိခဲ့သည်။ သာမ-ယဇု-ဣရုဟူ၍ ဗေဒ ၃ ပုံရှိသည်တွင် အထဗ္ဗနကို ထည့်သွင်းလျက် ဗေဒ ၄ ပုံဟု ရေးသားပြောဆိုလေ့ ရှိကြရာ၊အမှန်စင်စစ်အားဖြင့် ဗေဒ ၄ ပုံမှာ ဟိန္ဒူလူမျိုးတို့၏ ဘာသာစာပေများသာ ဖြစ်ကြလေသည်။

ဤဗေဒင် ပညာသည် အလွန်ရှေးကျလှသော ကယ်လဒီးယား၊ ဗက်ဗီလုံးနီးယား၊ အီဂျစ်၊ အိန္ဒိယနှင့် တရုပ်နိုင်ငံများတွင် ထွန်းကားပေါ်ပေါက်လာခဲ့ရာ၊ အဘယ်မျှ နှစ်ပရိစ္ဆေဒကြာခဲ့ပြီဟု မည်သူမျှ အတတ်မပြောနိုင်ချေ။မည်သည့်နိုင်ငံမှ စတင်ပေါ်ပေါက်ခဲ့သည်ဟူ၍လည်း အထောက်အထားမပြနိုင်ကြချေ။ အဆိုပါ နိုင်ငံများတွင် ခေတ်ကာလ အလျောက် ပညာရှင်များသည် ကောင်းကင်ရှိ ဂြိုဟ်နက္ခတ်တာရာတို့ကို အခြေပြု၍ တီထွင်ပေါ်လာသော ပညာတရပ်ဖြစ်သည်ဟု ယူဆယုံကြည်ကြသည်။ ဗေဒင်ပညာသည် ရှေးဟောင်း အိန္ဒိယနိုင်ငံ၏အာရိယန်လူမျိုးတို့မှပေါက်ပွားဆင်းသက်လာသည်ဟု အဆိုရှိသည်။ ဘီစီ ၃၅၆ ခုနှစ် အယ်လက်ဇန္ဒာ-သ-ဂရိတ်လက်ထက်တွင် ကယ်လဒီးယန်း လူမျိုးတို့၏ ကျေညာချက်အရ မိမိတို့၏ ဗေဒင်ပညာသည် အတိတ်နှစ်ပေါင်း ၄၇၃,၀၄၀ ကပင် ရှိခဲ့သည်ဟု သိရသည်။ မည်သို့ပင်ဖြစ်စေ၊နှစ်ပရိစ္ဆေဒကို အတိအကျ မခန့်မှန်းနိုင်သော အချိန်ကာလကပင် ဒေဗင်ပညာ စတင်ပေါ်ပေါက်ခဲ့ခြင်းကိုမူကား




သိပ္ပံပညာ ထွန်းကားလျက်ရှိသော အင်္ဂလန်ပြည်တွင် လက္ခဏာဗေဒင်ပညာကို ယနေ့တိုင် လိုက်စား လေ့လာလျက် ရှိကြသေးပေသည်။

မငြင်းသာချေ။ ဆေးပညာနှင့် အခြားလောကီ ပညာရပ်များကဲ့သို့ပင် ဗေဒင်ပညာသည်လည်း ရှေးမဆွကပင် ပေါ်ပေါက်လာခဲ့သည်။ မြန်မာနိုင်ငံ၏ ဗေဒင်ပညာသည်လည်း အိန္ဒိယမှဆင်းသက်လာခဲ့သည်ကိုသမိုင်းအရသိနိုင်ပေသည်။

ဗေဒင်ပညာဆိုရာ၌ မြေပြင်နှင့် အာကာသကောင်းကင်တွင် ဖြစ်ပေါ်လာသမျှသော တိတ်နိမိတ်နှင့်တကွ ဂြိုဟ်နက္ခတ်တာရာတို့၏ အထွန်း- အညှိုး-အငုပ်-အပေါ်၊ ကြယ်ကြွေခြင်း၊ဥက္ကာပျံခြင်း၊ တိမ်တောက်ခြင်း၊ ကြယ်တံခွန်ပေါ်ခြင်း၊ နေကြတ်၊ လကြတ်၊ ဂြိုဟ်ပူးဂြိုဟ်မြင်မှုစ၍ ဖြစ်ပေါ်လာသမျှသော တိတ်နိမိတ်များကို အခြေခံပြု၍ ဟောဆိုရသောပညာတရပ်ဖြစ်သည်။ ဖွားသက္ကရာဇ်နှင့် အသက်ကိုတည်လျက် ၇ ခု၊ ၈ ခု၊ ၁၂ ခု စား၍ အကြွင်းဂဏန်းသင်္ချာအရ တီထွင်သော ဟောနည်းများမှ အစ အချိန်နာရီကို မူတည်၍ ဟောသောဟူးရားဗေဒင်၊ကာလကြီးဗေဒင်၊ ဂဏန်းဗေဒင်၊ မွေးဖွားချိန်အရ ကောင်းကင် ၁၂ ရာသီဂြိုဟ်၊ လဂ်၊ စန်းတို့ကိုကြည့်၍ ဟောဆိုသောဗေဒင်ဟူ၍ အမျိုးမျိုး ရှိသည်။ သို့သော် မွေးဖွားချိန်တွင် တွက်ယူရရှိသည့် ကောင်းကင် ၁၂ ရာသီဂြိုဟ်ခွင်၏ အလားအလာကို စစ်ဆေးဟောပြောသော ဗေဒင်ပညာသည် သဘာဝ ယုတ္တိရှိပေသည်။

ဂြိုဟ်နက္ခတ်ကြယ်တာရာတို့သည် သက်ရှိသက်မဲ့ ခပ်သိမ်းအပေါ် တွင် သက်ဆိုင်ရာသဘာဝအစွမ်းသတ္တိအရှိန်အဝါဖြင့် လွှမ်းမိုးချုပ်ချယ်နိုင်သည်ဟု ရှေးပညာရှင်တို့ ယူဆခဲ့ကြသည်။ ပုံပမာ-တနင်္ဂနွေဂြိုဟ်ဟု ခေါ်ဆိုသည့် အပူဓာတ်ကို ပေးဆောင်နိုင်သော နေမင်းကို အမှီပြု၍သာ သက်ရှိ သက်မဲ့တို့သည် သန်စွမ်း ကြီးထွား လာရသည်။ နေမရှိလျှင် သက်ရှိသက်မဲ့အားလုံး သေကြေပျက်ပြုန်း သွားကြလိမ့်မည်။ နေ၏ အလင်းဓာတ်ကြောင့် စိတ်ဓာတ်တက်ကြွကာ ရဲစွမ်း သတ္တိရှိရသည်။ အမှောင်ဓာတ်ကို သက်ရှိ သက်မဲ့တို့သည် အစဉ်ထာဝရ မလိုလားကြချေ။ ဤသဘောကို ဆင်ခြင်လျှင် နေမင်းတည်းဟူသော တနင်္ဂနွေဂြိုဟ်သည် သက်ရှိသက်မဲ့တို့၏ အသက်သခင်ဖြစ်သည်နှင့်အညီ အဘယ်မျှ အင်အားပေးနိုင်သည်ကို ရိပ်စားမိသင့်သည်။ အသက်ဝိညာဉ်၊ အဖ၊ မာန၊ အလုပ်အကိုင်၊ ရာထူး ဂုဏ်ထူးကို အစိုးရ၏။ထို့အတူ တနင်္လာခေါ် လ မင်းသည် ဂြိုဟ်အဖြစ်ဖြင့် သူ၏ သဘာဝကို ပေးစွမ်းနိုင်သည်။ သတ္တဝါတို့သည် အေးမြကြည်လင်လှသော လရောင်ကို မြင်ရသောအခါ စိတ်ပျော်ရွှင်လန်းကြည်နူးလေ့ရှိကြသည်။ အအေးဓာတ်၊ အမိ၊ စိတ်၊ ငွေရတနာ စသည်တို့ကို အစိုးရသည်။ ထိုအတူ အင်္ဂါဂြိုဟ်နီသည် မိမိ၏ သွေးနီရောင်သဘာဝအတိုင်း အစွမ်းသတ္တိ၊ အရည်အချင်း၊ ရဲစွမ်းသတ္တိ၊ ဇွဲလုံ့လ၊ စွန့်စားမှု၊သတ်ဝံ့ဖြတ်ဝံ့သောစိတ်၊ ခိုက်ရန်ဒေါသစိတ်၊ဘေးရန် ပဋိပက္ခမှု၊စစ်မက်၊ ကျေးကျွန်၊ လင်ယောကျ်ားကို အစိုးရသည်။ ဗုဒ္ဓဟူးဂြိုဟ်




၁၂ ရာသီ စက် နှင့် အိမ်ပိုင်ဂြိုဟ်

စိမ်းသည် အသိဉာဏ်၊သားသမီး၊အတတ်ပညာတို့ကို အစိုးရသည်။ ကြာသပတေးဂြိုဟ်ဝါသည် ပညာဉာဏ်၊ ငွေကြေးဥစ္စာဓန၊ အကျင့်စာရိတ၊ ဘာသာ၊ အယူဝါဒ၊ မိတ်ဆွေ၊ ဆရာ စသည်တို့ကို ဖန်တီးပေးနိုင်သည်။ သောကြာဂြိုဟ်သည် သူ၏ ထွန်းတောက်သောအလင်းရောင်ဓာတ်အားဖြင့် ကာမရာဂ၊အချစ်ရေး၊ ပျော်ရွှင်မြူးထူးခြင်း၊ မိန်းမ၊ မယား၊ ဂုဏ်ပကာသန၊ ထင်ပေါ်ကျော်စောခြင်း အစရှိသည်တို့ကို စွမ်းဆောင်ပေးနိုင်သည်။ စနေဂြိုဟ်မဲ့ ဂြိုဟ်ပြာကား ဆင်းရဲဒုက္ခ၊ အနှောင့်အယှက်၊ အချိန်နှောင့်နှေး ကြန့်ကြာခြင်း၊ ဆွေမျိုးသားချင်း၊ ဘေ့ဝေ မိန်းမောခြင်း အစရှိသည်တို့ကို ဖြစ်စေတတ်သည်။ ရာဟုနှင့် ကိတ်အမှောင် ဂြိုဟ်တို့သည် ကောင်းကင်မှာ ဂြိုဟ်ကိုယ်ဒြပ်နှင့် အထင်အရှား မရှိစေကာမူ၊ နေကြတ် လကြတ်ကို ဖန်တီးပေးနိုင်သောအစွမ်း သတ္တိကြောင့်အမှောင်လောကနှင့်တကွ ထူးခြားဆန်းကြယ်သော အကျိုးအပြစ်၊ခြေလေးချောင်း တိရစ္ဆာန်စသည်တို့ကို အစိုးရသည်။ ဤဂြိုဟ် ၉ လုံးအပြင် ထပ်မံတွေ့ရှိရသော ယူရေးနပ်၊ နက်ပကျွန်း၊ ပလူတို ဂြိုဟ်တို့ကိုလည်း ယခုအခါ ထည့်သွင်းဟောပြောကြပေသည်။ (ဂြိုဟ် — ရှု။) အဿဝဏီနက္ခတ်အစ ရေဝတီနက္ခတ်အဆုံး နက္ခတ် ၂၇ လုံးသည်လည်း သူ့သဘာဝနှင့်သူ ဖန်တီးပေးနိုင်ပေသည်။ ရှေးပညာရှင်တို့သည် ဤသဘာဝများကို နှစ်ပေါင်းများစွာ လက်တွေ့လေ့လာပြီးမှသာ ယူဆဟောဆိုကြခြင်း ဖြစ်သည်။

တွက်ရိုးသင်္ချာအရ အာကာသကောင်းကင်ကိုစက်ဝိုင်းသဖွယ်ရှိသော ၁၂ ရာသီစက်ကို တည်ဆောက်လျက်မိဿ-

ပြိဿ-မေထုန် စသည်ဖြင့် အမည်ပေးထားသည်။ ထိုပြင် ၁၂ ရာသီစက်ကို တနင်္ဂနွေဂြိုဟ် နေမင်းနှင့် တနင်္လာဂြိုဟ်လမင်းအတွက် ပိုင်အိမ် ၁၃ စီ၊ အင်္ဂါအစ စနေအဆုံး ပဥ္စတာရဂြိုဟ် ၅ လုံးအတွက် ပိုင်အိမ် ၂ အိမ်စီ သတ်မှတ် ထားသည်။ ယင်းသို့ပိုင်အိမ်အဖြစ်ပေးထားပုံမှာလည်း သဘာဝကျလျက် စိတ်ပါဝင်စားစရာ ကောင်းလှသည်။ ပိုင်အိမ်များ အဖြစ် စ-သာ-ရှေ့-ကူ-အင်း-ဝ-သူ-ဆန်-ဖြူ-တ-တင်း-ပေး ဆောင်ပုဒ်အရ မိဿရာသီမှစ၍ လက်ဝဲရစ်အစဉ်အတိုင်း ချယူနိုင်သည်။ ကောင်းကင်တွင် သူ့လမ်းကြောင်းနှင့်သူ မရပ်မတည် လှည့်လည် သွားလာနေကြသော ဂြိုဟ်တို့ကို အချိန်ကာလအားလျော်စွာ နောက်ခံနက္ခတ် ၂၇ လုံးပိုင် ၁၂ ရာသီစက်အရ ဘယ်နေ့တွင် ဘယ်ရာသီမှာ ရှိသည်ကို တွက်ယူနိုင်သည်။ (နက္ခတ် ၂၇ လုံး။ ရာသီ — ရှု။) ဂြိုဟ်အားလုံးသည် ၁၂ ရာသီစက်ထဲမှာ မည်သို့မည်ပုံ တည်ရှိသည်ကို သိရပြီးနောက်၊ မွေးဖွားသော အချိန်အရ လဂ် ရာသီ အံသာလိတ္တာ တို့ကို တွက်ချက် ယူနိုင်သည်။ လဂ်၏ ၁ တန့်သည် တနုဘာဝ၊ လဂ်၏ ၂ တန့်သည် ကုတုမ္ဘဘာဝ၊ ၃ တန့်သည် သဟဇဘာဝ စသည်ဖြင့် ၁၂ တန့် ဗျာယဘာဝအထိ၊ ဘာဝ ၁၂ ပါးကို ခွဲ၍သတ်မှတ်ရသည်။ မည်သည့်ဂြိုဟ်သည် မည်သည့်ဘာဝတွင်ရှိသည်ကို သိရသောအခါ ဗေဒင်ကျမ်းလာနည်းစနစ်များအတိုင်း ဂြိုဟ်ပူး ဂြိုဟ်မြင်၊ နက္ခတ်၊ နဝင်း၊ ယုဂ် စသည်တို့အပေါ်တွင် အခြေပြုကာ၊ အတိတ်၊ ပစ္စုပ္ပန်နှင့် အနာဂတ်အကျိုးအပြစ်တို့ကို တွက်ယူဟောဆိုနိုင်သော စခန်းသို့ ရောက်လာပေသည်။ ဤဖွားဇာတာဂြိုဟ်ခွင်သည် ဇာတာရှင်၏ တသက်တာ အကျိုးအပြစ်တို့ကို ဟောကိန်းအမျိုးမျိုးအားဖြင့် ဟောသွားနိုင်ပေသည်။

ဖွားဇာတာဂြိုဟ်ခွင်အရ၊ မူလအခြေခံ ပါလာသော အကျိုးအပြစ်တို့ကို ကိန်းသေယူဆနိုင်သည်။ မင်း မှူးမတ် စစ်သူကြီး သဌေး ပညာရှိ ဖြစ်မည့်အခြေအနေ၊ အိမ်ထောင်ရေး၊ ကျန်းမာရေး၊ ဆင်းရဲဒုက္ခ၊ ဘေးရန်၊ မိဖ၊ မွေးချင်း၊ သားသမီးအခြေအနေစသည်တို့ကို ဘာဝ ၁၂ ပါးအရ ဟောဆိုရပေသည်။ မွေးဖွားချိန်အရ ၁၂ ရာသီ ကောင်းကင်ကို ဓာတ်ပုံရိုက်သည့်သဖွယ် ရိုက်ပြထားသော ဂြိုဟ်ခွင်သည် ဖွားဇာတာ ဂြိုဟ်ခွင်ဟု အတည်ပြုရစေကာမူ၊ ထိုထို ဂြိုဟ်တို့သည်ရပ်တည်မနေကြဘဲ သွားမြဲ သွားနေကြသောကြောင့်၊ ဂေါစရခေါ် ကောဇာဂြိုဟ်များအဖြစ်သို့ ပြောင်းလဲသွားကြပေသည်။ မည်သည့် ရာသီ မည်သည့် ဘာဝကို မည်သည့် ဂြိုဟ်စီးလျှင် မည်သို့ဖြစ်မည်ကို ရှေ့သို့ ဆက်ပြီး အဟောထုတ်နိုင်သည်။ သို့မဟုတ် တနင်္လာဂြိုဟ်စီးယှဉ်သော စန်းစီးနက္ခတ် (စင်နက္ခတ်)အရ ဒသာဟောကိန်းများနှင့် အနာဂတ် အဟောများကို ချိန်ဆ ဟောဆိုရပေသည်။

ဗေဒင် ဟောကိန်းအမျိုးမျိုးရှိသည့်အနက် သာမန်အတိုနည်းအားဖြင့် တွက်ယူသော ကိန်းများကို သာမန်ပညာရှင်တို့ တတ်ကျွမ်း နားလည် ကြသလောက်၊ ဗေဒင် တွက်ရိုးသင်္ချာနှင့် အဟောပညာကို ပါရဂူရောက်တတ်မြောက်နားလည်ရန်မှာမူ အလွန်ခဲယဉ်းလှပေသည်။ ဗေဒင်ပညာကို ယုံကြည်ပြီးလျှင် စိတ်ဝင်စားသူများ ရှိကြသကဲ့သို့ မယုံကြည် စိတ်မဝင်စားနိုင်သော လူများလည်း ရှိကြပေသည်။ မည်သို့ပင်ဖြစ်စေ၊ ဗေဒင်ပညာကား ရှေးဟောင်း ပညာတရပ် အပါအဝင် ဖြစ်ရုံမျှမက အခြေခံပညာ နည်းစံနစ် ထုထယ်လည်း ခိုင်ခံ့ကောင်းမွန် လှပေသည်။ ဂြိုဟ်သွား ဂြိုဟ်လာကို ပိုင်ပိုင်နိုင်နိုင်တွက်ယူနိုင်ရန်သူရိယသိဒ္ဓန္တ၊ ဗြဟ္မာ့သိဒ္ဓန္တ၊ အရိယသိဒ္ဓန္တ၊ သိဒ္ဓန္တ သီရောမဏိ အစရှိသော သိဒ္ဓန္တတွက်ရိုး ၁၈ မျိုးကား ရှေးကပင်ရှိခဲ့သည်။ ထိုပြင် ဂြဟလာဂ တွက်ရိုး၊ ဘာသုတိ၊ သရဝိဇ္ဇောဒယဇနမပတ္တိက၊ မြန်မာပြည်ဖြစ် မကာရန္တ၊ သံဒိဋ္ဌတွက်ရိုးများလည်း ရှိကြသည်။ ခေတ်မှီအနောက်နိုင်ငံ ဗေဒင်တွက်ရိုးသင်္ချာကျမ်းများလည်း အများအပြားပင် ရှိကြသည်။ ဗြိဟဇ္ဇာတက၊ ဗြိဟဇ္ဇသံဟိတ၊ အပ္ပဇာတက။ ထိုပြင် ရာဇမတ္တဏ္ဍ၊ ဇာတကပါရိဇာတ၊ သာရာဝလိ-ဇာတကဒေသမဂ္ဂ။ ပြဿနာမဂ္ဂ၊ ဖလဒီပိကာ၊ ဥတ္တရကာလ အမြိတ္တ၊ ဟောရရတနာ၊ သဗ္ဗတ္ထစိန္တာမဏိ၊ ဘာဝတ္ထရတနာကရ၊ ဇာတကတတ္တွာ၊ ဇောတိသတ္တ သိဿဗောဓဇာတကလင်္ကာရ ဇာတကစန္ဒ္ရိယဗရဂုဒ္ဓိ၊ ဗရကောဋ္ဌိ၊ သင်္ကေတနိတိအစရှိသော ရှေးဟောင်းသင်္ကရိုင်ဗေဒင်ကျမ်းများသာမက၊ ခေတ်ပေါ် အနောက်နိုင်ငံဗေဒင်ကျမ်းများလည်း အများအပြားပင် ရှိကြသည်။ **ဦးသန်းမောင်**

# ကင်းထောက်တို့၏ ဖခင်ကြီး

**မိုးဝါးစစ်ပွဲ၏ သူရဲကောင်းကြီးတဦး ဖြစ်သည်။ သို့သော် လူငယ် လူရွယ်ကလေးများအား လူတော် လူကောင်း လူရည်ချွန် လူရည်မွန်ဖြစ်စေသော ကင်းထောက်လုပ်ငန်းကို စတင်တည်ထောင်သူအဖြစ် ကမ္ဘာကျော်လေသည်။**

**ဗေဒင်ပိုဝယ်, ရောဗတ်** (ခရစ် ၁၈၅၇–၁၉၄၁)။ ။ကင်းထောက် (လုလင်) နှင့် ကင်းထောက်အမျိုးသမီးများ အကြောင်းကို သိသူများသည် ဗလော့ ရောဗတ် ဗေဒင်ပိုဝယ်၏ အကြောင်းကိုလည်း ကြားဘူးနားဝ ရှိကြပေလိမ့်မည်။ လူငယ်ကလေးများ၏ အကျင့်စာရိတ္တ ကောင်းမွန်ရေး၊ လူကျင့်ဝတ်ကို သိနားလည်ရေး၊ တကိုယ်ကောင်းစိတ် ပယ်ရှား




လူငယ်လူရွယ်များအဖို့ ရည်မှန်မြင့်မြတ်သော အဆင့်အတန်းသို့ ပြုပြင်ပို့ဆောင်ပေးသည့် ကင်းထောက်လုပ်ငန်းကို စတင်ပျိုးထောင်ခဲ့သူ ရောဗတ် ဗေဒင်ပိုဝယ်အား လူမျိုးစုံကင်းထောက်များနှင့်အတူ တွေ့ရစဉ်

ရေး စသည်တို့ကို ရှေးရှုသော ကင်းထောက် လုပ်ငန်းကို စတင် မွေးဖွားပေးခဲ့သူမှာ ဗေဒင်ပိုဝယ် ဖြစ်သည်။ ထို့ကြောင့် လော့ဗေဒင် ပိုဝယ်ကို ကင်းထောက်တို့၏ ဖခင် ဟုလည်း ခေါ်ဆိုရပေသည်။ စင်စစ် ဗေဒင်ပိုဝယ်သည် ကင်းထောက် အဖွဲ့ စတင်သည်မှစ၍ ကမ္ဘာ့ကင်းထောက်များ၏ အထွတ်အထိပ်၊ ကင်းထောက်ချုပ်ကြီး ဖြစ်ခဲ့လေသည်။

ကင်းထောက်အဖွဲ့ကို ဗေဒင်ပိုဝယ်သည် အဘယ်ကြောင့် စဘင်တည်ထောင်ခဲ့ပါသနည်း။ တောင်အာဖရိကတိုက်တွင် ဗိုးဝါး စစ်ပွဲဖြစ်ပွားစဉ် အတွင်း မက်ဖကင်းမြို့ကို ရန်သူ ဗိုးဝါးတပ်ကြီးက (၁၈၉၉—၁၉၀၀ ခုနှစ် အတွင်း) ၇ လခန့် ကြာအောင် ဝိုင်းထားသည်။ မြို့တွင်းရှိ ဗြိတိသျှ တပ်ကို ကွပ်ကဲသူ ဗိုလ်မှူးကြီး ရောဗတ် ဗေဒင်ပိုဝယ်သည် စစ်ကူ ရောက်သည်အထိ မက်ဖကင်း မြို့ကို ရန်သူလက် မကျအောင် ဆိုခဲ့သော ကာလပတ်လုံး ထိန်းသိမ်း ထားနိုင်ခဲ့သည်။ ရန်သူ အဝိုင်းခံနေရစဉ် အတွင်း ဗေဒင်ပိုဝယ်သည် မက်ဖကင်းမြို့တွင်းရှိ လူငယ်များကို ကင်းထောက်များ၊ စာပို့ သတင်းပို့ လုလင်များ၊ ရှေးဦးသူနာပြုများအဖြစ် လေ့ကျင့်အသုံးပြုခဲ့ခြင်းဖြင့် လူရွယ် လူကြီးများကို အခြားပို၍ အရေးပါသော လုပ်ငန်းများ၌ ပိုမို အသုံးချနိုင်ခဲ့သောကြောင့်၊ တနည်းအားဖြင့် ရန်သူတပ်ကို ကြံ့ကြံ့ခံနိုင်ခဲ့ခြင်း ဖြစ်လေသည်။ ထိုအခါမှစ၍ ဗေဒင်ပိုဝယ်သည် လူငယ် ကလေးများအား ကင်းထောက်စည်းမျဉ်းနှင့် စာရိတ္တကောင်းမွန်ရေးကို ရှေးရှုသော အခြေခံများဖြင့် အဖွဲ့ဖွဲ့၍ သွန်သင်လေ့ကျင့်ပေးနိုင်လျှင်၊ တိုင်းပြည်အတွက် အဖိုးတန် သားကောင်းရတနာကလေးများ ဖြစ်လာနိုင်သည်ကို သဘောပေါက်ခဲ့သည်။

ထို့ကြောင့် ဗေဒင်ပိုဝယ်သည် ၁၉၀၈ ခုနှစ်တွင် အင်္ဂလန်ပြည်၌ ကင်းထောက်အဖွဲ့ကို စတင်ဖွဲ့စည်းရာ အောင်မြင်သည်။ ရည်ရွယ်ချက်ကောင်းမွန်လှသော ထိုအဖွဲ့ကို နှစ်ခြိုက် အားပေးကြသောကြောင့် ကင်းထောက် အဖွဲ့များသည် ဗြိတိသျှအင်ပိုင်ယာအတွင်း၌သာမက၊ ကမ္ဘာအရပ်ရပ်၌ပါ လျင်မြန်စွာ တိုးပွားခဲ့သည်။ လူငယ်ကလေးများသာမက၊ မိန်းကလေးများသည်လည်း ကင်းထောက် လုပ်ငန်းတွင် စိတ်ပါဝင်စားလာကြသဖြင့်၊ ဗေဒင်ပိုဝယ်သည် ၁၉၁၀ ပြည့်နှစ်တွင် နှမဖြစ်သူ အဂ္ဂနက်၏ အကူအညီဖြင့် ကင်းထောက် အမျိုးသမီးအဖွဲ့များကိုလည်း ဖွဲ့စည်းခဲ့လေသည်။ ကင်းထောက်အဖွဲ့များ၊ ကင်းထောက် အမျိုးသမီးအဖွဲ့များ ဖွဲ့စည်းရေးအတွက် ကမ္ဘာအရပ်ရပ်သို့ လှည့်လည်သွားလာခဲ့ရာ၊ အိန္ဒိယနှင့် မြန်မာနိုင်ငံတို့သို့လည်း ရောက်ရှိခဲ့ဘူးလေသည်။

ဗေဒင်ပိုဝယ်သည် အောက်စဖို့တက္ကသိုလ်မှ ပါမောက္ခတဦး၏ ခြောက်ယောက်မြောက်သားဖြစ်၍ လန်ဒန်မြို့၌ ၁၈၅၇ ခုနှစ် ဖေဖွာရီလ ၂၂ ရက်နေ့တွင် ဖွားမြင်သည်။ ချာတာဟောက် ပတ်ဗလစ်ကျောင်းတွင် ပညာဆည်းပူးခဲ့သည်။ စွန့်စားမှုကိုနှစ်ခြိုက်သော ဗေဒင်ပိုဝယ်သည် အမှတ် ၁၃ ဟတ်ဇာ း တပ်သို့ ဝင်ခဲ့သည်။ အိန္ဒိယ၊ အာဖဂနိစတန်နှင့် တောင်အာဖရိက တိုက်တို့၌ သူ၏တိုက်မှုခိုက်မှုစွမ်းရည်သတ္တိကို ပြသခဲ့သဖြင့် လျင်မြန်စွာ ရာထူးတိုးတက်ခဲ့သည်။ တောင်အာဖရိကတိုက်တွင် ကိုယ်ရံတော်ဗိုလ်အဖြစ် အမှုထမ်းရာမှ ၁၈၈၇ ခုနှစ်၌ တပ်မှူးချုပ်ဖြစ်လာသည်။ ၁၈၉၅ ခုနှစ်တွင် အရှန်တီ ( ဂိုးလကိုပြည်နယ် ) ၌ တိုင်းရင်းသားတပ်များ၏ တပ်မှူးချုပ်ကြီးအဖြစ် ဆောင်ရွက်ခဲ့ရသည်။ ၁၈၉၆ ခုနှစ် မက်တဗီလဲလန်း (တောင်အာဖရိကတိုက်) တိုက်ပွဲစဉ်အတွင်း စစ်ဦးစီးချုပ်အဖြစ် ဆောင်ရွက်ခဲ့ရလေသည်။ မက်ဖကင်းမြို့ကို ခုခံကာကွယ်ခဲ့သည့် အတွက် ဒုဗိုလ်ချုပ်ကြီး ရာထူးသို့ တိုးတက်ခဲ့လေသည်။

ထိုအပြင် အင်္ဂလန်ပြည်အတွက် စွမ်းစွမ်းတမံ အမှုထမ်းခဲ့ခြင်းကြောင့် ဗြိတိသျှအစိုးရက ၁၉၀၉ ခုနှစ်တွင် ဆာဘွဲ့ချီးမြှင့်သည်။နောက်တနှစ်တွင် စစ်တပ်မှအငြိမ်းစားယူသည်။ သို့သော် ကင်းထောက် လုပ်ငန်းကို ဆက်လက်ဆောင်ရွက်သည်။ ဗေဒင်ပိုဝယ်သည် ငြိမ်းချမ်းစွာ ပညာပေးသောလုပ်ငန်းကြီးသို့ ကမ္ဘာ့လူမျိုးပေါင်းစုံ၏ လူငယ်များကို ဆွဲဆောင်ခဲ့ရာ၌ ဗြိတိန်နိုင်ငံသားများအနက် နှစ်ယောက်မရှိအောင်ထူးခြားသော ပုဂ္ဂိုလ်ကြီး ဖြစ်ပေသည်။ ဗေဒင်ပိုဝယ်သည် ငယ်ရွယ်စဉ်ကပင် ယောကျ်ားကလေး ပီသသောစိတ်၊ မြင့်မြတ်သော သဘောထား၊ ရဲစွမ်းသတ္တိတို့နှင့် ပြည့်စုံခဲ့သူ ဖြစ်ခဲ့ရာ၊ ယင်းစိတ်ဓာတ်မျိုးကို မိမိ၏ ကင်းထောက်များ၌လည်း ကိန်းဝပ်စေရန် ကြိုးပမ်း ခဲ့လေသည်။

ယင်းသို့သော ထူးခြားစွာ စွမ်းဆောင်မှုများကြောင့် ၁၉၂၉ ခုနှစ်တွင် ဗဲရွန်ဘွဲ့ဖြင့် ချီးမြှင့်ခြင်းခံရသည်။ ဗေဒင်ပိုဝယ်သည် တာဝန်လုပ်ငန်း များပြားသည့်အကြားမှပင် စစ်ဗျူဟာနှင့် ဆိုင်သော စာအုပ်အနည်းငယ်နှင့် ကင်းထောက်လုလင်များနှင့် ဆိုင်သောစာအုပ်များ ပြုစုရေးသားခဲ့သေးသည်။ ၁၉၃၇ ခုနှစ်တွင် အော်ဒါအော့မဲရစ်ဘွဲ့ တံဆိပ်အပ်နှင်းခြင်းခံရပြန်သည်။ ထိုနှစ်တွင်ပင် အာဖရိကတိုက် ကင်းနယားပြည်နယ် ညေးရဲမြို့၌ သွားရောက် အငြိမ်းစားယူနေထိုင်ခဲ့ရာ၊ ၁၉၄၁ ခုနှစ်တွင် အနိစ္စရောက်သွားလေသည်။ (ကင်းထောက်၊ ကင်းထောက် အမျိုးသမီး — ရှု။)

**ဗေရကရူမြို့။** ။ဗေရကရူမြို့သည် မက္ကဆီကိုနိုင်ငံ၏အကြီးဆုံးသောသင်္ဘောဆိပ်ကမ်းမြို့ဖြစ်သည်။ မက္ကဆီကိုပင်လယ်ကွေ့၏ ကမ်းရိုးတန်းမြေနုသောအနိမ့်ပိုင်းတွင် မြို့တည်ထား



မက္ကဆီကို နိုင်ငံ၏ ဆိပ်ကမ်းမြို့ဖြစ်သော ဗေရကရူမြို့၏ ရှုခင်း

သည်။ မက္ကဆီကိုနိုင်ငံ၏ မြို့တော် မက္ကဆီကိုစီတီမှ မီးရထားလမ်းအားဖြင့် အရှေ့ဖက် ၂၆၄ မိုင်ကွာခန့်တွင် တည်ရှိ၍ မက္ကဆီကို နိုင်ငံအရပ်ရပ်နှင့်လည်း မီးရထားလမ်းများဖြင့် ဆက်သွယ်ထားသည်။ လူဦးရေ (၁၉၅၉ ခုနှစ် ခန့်မှန်း သန်ကောင်စာရင်း) ၁၃၇,၀၁၂ ယောက်ရှိသည်။ ရာသီဥတုမှာ ပူနွေး၍စိုစွတ် ထိုင်းမှိုင်းလေသည်။

မက္ကဆီကို နိုင်ငံကို ပဌမဆုံး လာရောက်တိုက်ခိုက် သိမ်းပိုက်ခဲ့သောစပိန်လူမျိုး ဟာနန်ဒိုကောတက်(ကောတက်—ရှု။) ၁၅၁၉ ခုနှစ်တွင် တည်ထောင်ခဲ့သော မူလ ဗေရကရုမြို့သည် ယခုမြို့တည်ရာ၏မြောက်ဖက် ၁၀ မိုင်ခန့် အကွာတွင်ရှိသည်။ ယင်းနေရာသည် အရပ် အနေ မကောင်းသဖြင့် ယခု နေရာသို့ ၁၆၀၉ ခုနှစ်တွင် မြို့ရွှေ့ပြောင်းခဲ့ ရသည်။ ထိုနေရာတွင် ကျွန်းကလေးများနှင့် သန္တာကျောက်တန်းများရှိ၍ သင်္ဘောများခိုလှုံဆိုက်ကပ်နိုင်သော ဆိပ်ကမ်းကောင်း ပြုလုပ်နိုင်သည်။ သို့တိုင်အောင် မြို့တည်ပြီးစက၊ မြေနု မြေနိမ့် ဒေသဖြစ်၍၎င်း၊ သောင်များရှိသဖြင့်၎င်း၊ မြောက်ဖက်မှ လေမုန်တိုင်းများ အတွက် အကာအကွယ်မရှိ သေး၍၎င်း၊ ပင်လယ်ဓားပြ တို့၏ ရန်ကို ကြောက်နေရသဖြင့်၎င်း အခက်အခဲတွေ့ကြုံ ခဲ့ရသည်။ သို့သော်နိုင်ငံအတွင်းဖက်နှင့် ဆက်သွယ် နိုင်သော အချက် အခြာနေရာ၊ ကုန်သွယ်ရေး အချက်အခြာနေရာတွင် ရှိနေသဖြင့် ပီယားဆင်အမည်ရှိ အင်္ဂလိပ် ကုမ္ပဏီတခုအား ဗေရကရုမြို့ကို ပြင်ဆင်ပြုပြင်စေခဲ့သည်။

ထိုကုမ္ပဏီသည် သင်္ဘောများ ဘေးကင်းစွာ ခိုလှုံ ဆိုက်ကပ်နိုင်ရန်နှင့် ကုန်စည်များ သိုလှောင်နိုင်ရန် ဆိပ်ကမ်းကို ပြုပြင်ပေးခြင်း၊ မြို့သန့်ရှင်းရေးနှင့် သုံးသောက်ရန် ရေသွယ်ယူရေး လုပ်ငန်းများကို ခေတ်မှီသော စံနစ်များဖြင့် ပြုပြင်ခြင်းတို့ကို လုပ်ကိုင်ပေးရာ ဗေရကရုသည် ခေတ်မှီသော သင်္ဘောဆိပ်ကမ်းမြို့ကြီး ဖြစ်လာခဲ့သည်။ ယခင်က မြို့တည်ရာ အရပ်သည် ကျန်းမာရေးနှင့် မညီမညွတ်၍ လူအသေအပျောက်များခဲ့သဖြင့် 'သေမင်းမြို့' ဟုခေါ်တွင်ခဲ့သည့်အမည်လည်း ပျောက်ခဲ့သည်။ ယခုအခါ မက္ကဆီကို တနိုင်ငံလုံးအတွက် သွင်းကုန် ထုတ်ကုန်တို့သည် ဗေရကရုမြို့မှ တဆင့် တင်ပို့ဖြန့်ချိခြင်း ပြုလုပ် ရလေသည်။

ထို့ပြင် ဗေရကရုမြို့သည် အရေးပါသော စက်မှု လုပ်ငန်းများလုပ်ကိုင်ရာ မြို့ဖြစ်သည်။ ထင်ရှားသော လုပ်ငန်းများမှာ ဖြစ်ချက်လုပ်ငန်း၊ ဆေးပြင်းလိပ် လုပ်ငန်း၊ ချောကလက်လုပ်ငန်း၊ ဖိနပ် လုပ်ငန်းစသည်တို့ ဖြစ်၍ ကော်ဖီနှင့် သကြားစက်ရုံများလည်း ရှိလေသည်။

**ဗေလက်ဒီကတ်, ယေးကို ရိုဒရီဂွေ့ သေ ဆီလဗာ ယီး (ခရစ် ၁၅၉၉—၁၆၆၀)။** ။ဗေလက်ကတ်သည်စပိန်ပန်းချီဆရာများအနက် အထင်ရှားဆုံးဖြစ်သည်။ကမ္ဘာ့အနုပညာသမိုင်း၌ပင် အထင်ရှားဆုံး မှတ်တမ်းတင်ရသော နန်းတွင်းပန်းချီကျော်ကြီးဖြစ်သည်။ ဗေလက်ကတ်သည် သရုပ်မှန်ပန်းချီရေးဆွဲရာ၌ စိတ်ချက်အလွန်ပိုင်သူဖြစ်သည်။သူ၏ပန်းချီလက်ရာများသည် ၁၉ ရာစုနှစ် ပြင်သစ် အင်ပရက်ရှင်းပန်းချီကျော်တို့အပေါ် အတော်ပင် လွှမ်းမိုးခဲ့သည်။

ဗေလက်ကတ်ကို ၁၅၉၉ ခုနှစ် ဇွန်လ ၆ ရက်နေ့တွင် ဆဲဗီးမြို့၌ ပေါ်တူဂီအမျိုးအနွယ်မှ ဖွားမြင်သည်။ဖခင်မှာ ချွေနေကြီး ဂျွန် ရိုဒရီဂွေ့ သေ ဆီလဗာ ဖြစ်၍ မိခင်မှာဂျီရိုနီမာ ဗေလက်ကတ်ဖြစ်သည်။ စပိန်ထုံးစံအတိုင်း မိခင်ဖက်မှ မျိုးရိုးအမည်ကိုယူသဖြင့် ဗေလက်ကတ်ဟု တွင်ခြင်းဖြစ်သည်။ အနုပညာ၌ စိတ်အား ထက်သန်သော သားဖြစ်သူ၏ ဝါသနာကို ထူးချွန်သည်ထက် ထူးချွန်စေလိုသော ဖခင်သည် ဗေလက်ကတ်အား ပန်းချီပညာအခြေခံသင်္ချားစာများကို ပန်းချီဆရာကြီး ဖရန်စစ္စကို ဟာရီရာထံတွင် သင်ယူရန် အပ်နှံသည်။ သို့ရာတွင် ဒေါသခက်ထန်သော ဆရာ၏ဒဏ်ကို မခံနိုင်သဖြင့် ဗေလက်ကတ်သည် ပန်းချီဆရာကြီး ပါချီကိုထံသို့ သွားရောက် ဆည်းပူးသည်။ တပည့်၏အစွမ်းအစကို အကဲခတ်မိသော ဆရာဖြစ်သူသည် ဗေလက်ကတ်အား သူ၏သမီး ဂျူအားနားနှင့် လက်ဆက် ပေးသည်။

၁၆၂၂ ခုနှစ်တွင် ဗေလက်ကတ်သည် မဒရစ်မြို့သို့ သွားရောက်နေထိုင်ယင်း စတုတ္ထဖိလစ်ဘုရင်၏ ပုံတူကို ရေးဆွဲခဲ့ရာ၊ ဖိလစ်ဘုရင်က သူ၏ အစွမ်းအစကို သဘောကျသဖြင့် သူ့အား နန်းတွင်း ပန်းချီဆရာအဖြစ် ခန့်အပ်လေသည်။ ဗေလက်ကတ်သည် မိဖုရား သားတော် သမီးတော်နှင့် နန်းတွင်းသူ နန်းတွင်းသားများ၏ ပုံတူကား အများအပြား ရေးဆွဲခဲ့သည်။ အထူးသဖြင့် သားတော်သမီးတော်ကလေးများ ကစားနေပုံနှင့် နန်းတွင်း ပျော်တော်ဆက်များ ပုံကို ရေးဆွဲလေ့ ရှိသည်။ စတုတ္ထဖိလစ်ဘုရင်ကလည်း ဗေလက်ကတ်အား အလွန်မြှောက်စားလေသည်။ ၁၆၂၈ ခုနှစ်တွင် ဖလန်းဒါးပန်းချီကျော် ရူးဗင်းသည် စပိန်နိုင်ငံသို့ နန်းတွင်းပန်းချီကားများရေးဆွဲရန်အတွက် ရောက်လာခဲ့ရာ၊ဗေလက်ကတ်အား ရူးဗင်းကိုကူညီစောင့်ရှောက်ရန်ဘုရင်ကခန့်ထားသည်။ ပန်းချီကျော် ရူးဗင်းသည် ဗေလက်ကတ်၏လက်စွမ်းလက်စကို အလွန်သဘောကျခဲ့ လေသည်။ (ရူးဗင်း, ပီတာ ပေါ — ရှု။)

၁၆၂၉ ခုနှစ်တွင် ဗေလက်ကတ်သည် ဣတလီ နိုင်ငံသို့ သွားရောက်၍ မိုက်ကယ်အန်ဂျလို အစရှိသော အနုပညာရှင်ကြီးများ၏ လက်ရာများကို ၂ နှစ်ခန့် လေ့လာပြီးလျှင်၊ မိမိကိုယ်ပိုင် လက်စွမ်းဖြင့် ဟန်သစ် မူသစ်များကို ဖန်တီးခဲ့လေသည်။

ဗေလက်ကတ်သည် ၁၆၄၉ ခုနှစ်တွင် ဖိလစ်ဘုရင်အတွက်



ဗေလက်ကတ်၏လက်စွမ်းပြ ဆေးရေးပန်းချီကားတချပ်

တစ်ရှန်၊ တင်တိုရက်တိုနှင့် ဗယ်ရိုနီးတို့ရေးဆွဲသော ပန်းချီကားချပ်များနှင့် စပိန်တော်ဝင် ပြခန်းတွင် ထားရှိရန်အတွက် ပန်းပုရုပ်လုံးများကို ဝယ်ယူရန် ဣတလီ နိုင်ငံသို့ တခေါက်သွားပြန်သည်။ ဤအခေါက်တွင် ပုပ်ရဟန်းမင်း ဒသမအင်နိုးဆင့်၏ပုံတူကို ရေးဆွဲခဲ့သည်။ပုပ်ရဟန်းမင်းကလည်း ဗေလက်ကတ်အား ဆုတံဆိပ်များချီးမြှင့်လေသည်။ ယင်းပုံတူကားသည် ယခုခေတ်တွင် တွေ့ရသောဗေလက်ကတ်၏ လက်ရာများအနက် အကောင်းဆုံး ကားတချပ်ဖြစ်သည်။ ရောမမြို့ ဒိုရီယာနန်းတော် ပြခန်းရှိ ပုံတူကားများအနက် အကောင်းဆုံး ပုံတူကားဟူ၍လည်း အချို့ ပန်းချီဆရာများက ဆိုသည်။ ၁၆၅၁ ခုနှစ်တွင် ဗေလက်ကတ်အား ဖိလစ်ဘုရင်က နန်းတွင်း အာဏာပိုင် အရာရှိအဖြစ် ယုံကြည်ကိုးစားခန့်အပ်သည်။ ၁၆၅၉ ခုနှစ်တွင် ကရေ့အော့ ဆန်တီယားဂိုးခေါ် စပိန်နိုင်ငံ၏ အမြင့်ဆုံး ဘွဲ့တံဆိပ်ဖြင့် သူ ကောင်း ပြုခဲ့သည်။

၁၆၆၀ ပြည့်နှစ်တွင် ဘုရင့်နှမတော် အင်ဖန်တာ မရီးယာ တရီးဇားနှင့် ပြင်သစ်ပြည့်ရှင် ၁၄ ဆက်မြောက်လူဝီဘုရင်တို့၏ လက်ထပ်ပွဲအခမ်းအနားအတွက် ပြင်ဆင်မွမ်းမံရန် လွှဲအပ်ခြင်း ခံရသည်။ ယင်းသို့ အမှုတော်ထမ်းခဲ့ရစဉ် အသက်အရွယ်နှင့် မလိုက်အောင် ပင်ပန်းလှသဖြင့် ပန်းဖျားဖျားကာ ထိုနှစ် ဩဂုတ်လ ၆ ရက်နေ့တွင် ကွယ်လွန်သည်။

ဗေလက်ကတ်သည် သူ၏ ပန်းချီကားများတွင် လက်မှတ်ရေးထိုးလေ့မရှိ ရကား သူ့အတုယူ၍ ရေးဆွဲနေကြသော သူ့တပည့် ပန်းချီဆရာများ၏ လက်ရာများနှင့် အတော်ပင် ခွဲ၍ ယူကြရသည်။ ဗေလက်ကတ်သည် ဖိလစ်ဘုရင်၏ ပုံတူကားပင် အချပ် ၄၀ ခန့် ရေးဆွဲခဲ့သည်။သူ၏ ထင်ရှားသော လက်ရာများမှာ 'ဆဲဗီးမြို့မှရေသည်'၊ 'နံနက်စာ'၊ 'ခရစ်တော်နှင့် အီးမေးအပ်ဘုရားဖူးများ'၊ 'မာသာ၏ အိမ်တော်တွင်းမှ ခရစ်တော်'၊ 'ဗီးနပ်နှင့် ကြေးမုံပြင်'၊ 'မာကျူရီနှင့် အားဂပ်'၊ 'စတုတ္ထ ဖိလစ်ဘုရင်'၊ 'အင်ဖန်တာမရီးယာ' စသည်တို့ဖြစ်သည်။

**ဗေးထိုးဗင်,လုဒဗစ် ဖန်**(ခရစ် ၁၇၇၀–၁၈၂၇)။ ။ဂျာမန်လူမျိုးထိပ်တန်းဂီတစာဆိုကျော်ကြီးတဦးဖြစ်သူ လုဒဗစ်ဖန်ဗေးထိုးဗင်သည် အနောက်တိုင်းဂီတ တိုးတက်မှုအတွက် အများဆုံးအကျိုးပြုခဲ့သော ပုဂ္ဂိုလ်ကြီးဖြစ်သည်။ အထူးသဖြင့်ဗေးထိုးဗင်၏ ဆင်ဖနီဂီတများကား ဂီတလောကတွင် အမြဲတေရတနာများသဖွယ် ထူးခြားကောင်းမွန်လှ၍ ယခုခေတ်အခါထိ မှေးမှိန်ခဲ့ခြင်း မရှိပေ။ အနောက်တိုင်းဂီတလောကတွင် ဗေးထိုးဗင်၏ လက်ရာသီချင်းကြီး သီချင်းခန့်များကို လေးလေး စားစား လေ့လာသင်ကြား ကြရသည်။

ဗေးထိုးဗင်သည် ထူးခြားသော အနုပညာပါရမီရှင် တဦးဖြစ်လင့်ကစား၊ သူ၏ ဘဝတသက်တာ တလျှောက်လုံးတွင် ပျော်ရွှင် ချမ်းမြေ့မှုကို ကောင်းစွာမခံစားရရှာသူ ဖြစ်သည်။ အခြားသူများ၏ သောတအာရုံကို သာယာကြည်နူးစေသည့် တေးဂီတများကို စပ်ဆိုစွမ်းဆောင်နိုင်ခဲ့သော်လည်း၊ သူကိုယ်တိုင်မှာမူ အရွယ်ကောင်းချိန်၊ အသက် ၃၀ ကျော်ခန့်မှစ၍ နားမကြားသော ဝေဒနာ စွဲကပ်ခဲ့သည်မှာ ကွယ်လွန်သည့်တိုင်အောင် ဖြစ်သည်။ သို့သော် မိမိ၏ဘဝအကျိုးပေး နံ့ချာမှု၊ အကုသိုလ် ဖိစီးမှုများကို အရှုံးမပေးဘဲ ကြိုးစားတွန်းလှန်ခဲ့သဖြင့် ဘဝတိုက်ပွဲသူရဲကောင်းတဦးဟု ဆိုရပေမည်။

ဗေးထိုးဗင်သည် ဂျာမနီနိုင်ငံ ဗွန်းမြို့၌ ၁၇၇၀ ပြည့်နှစ် ဒီဇင်ဘာလ ၁၆ ရက်နေ့တွင် မွေးဖွားခဲ့သည်။ အသက် ၄ နှစ်အရွယ်မှစ၍ အဆိုတော် အမှုသမားဖခင်၏ ရိုက်နှက်စေခိုင်းမှုကြောင့် စန္ဒရားတီး သင်ခဲ့ရသည်။ ကလေးဘဝ လွတ်လပ်ပျော်ရွှင်စွာ မနေရ၊ မကစားရဘဲ ခိုင်းသည့်အတိုင်း လုပ်နေရသည့် အချုပ်အချယ် ခံရမှုကြောင့် ဗေးထိုးဗင်၏ စိတ်ဓာတ်ကို ထိခိုက်သွားကာ နောင်အခါတွင် စိတ်ချောက်ချားတတ်ခြင်း၊စိတ်တိုတောင်းခြင်းဖြစ်လာတတ်လေသည်။

ဖခင်ဆိုးသည် အိမ်ထောင်၏ တာဝန်ကို ကြေပြွန်စွာ မထမ်းလိုသဖြင့် ဗေးထိုးဗင်အား ဂီတသမားပေါက်စ ကလေးအဖြစ်ဖြင့် အိမ်ထောင်စရိတ်ရှာနိုင်စေရန် ဂီတနယ်ထဲ အ

တင်းဆွဲသွင်းခြင်း ဖြစ်သည်။ စင်စစ်ဗေးထိုးဗင်၌လည်း ငယ်စဉ်ကပင် ဂီတဖက်၌ ထူးချွန်မည့် အရည်အသွေးများ ရှိခဲ့သည်။ ထို့ကြောင့် ၁၁ နှစ်သားအရွယ်တွင် ကိုယ်တိုင် တေးဂီတများကို စပ်ဆိုနိုင်ခဲ့သည်။ ၁၄ နှစ်သား အရွယ်တွင် နန်းတွင်း လက်ထောက် အော်ဂန်ဆရာ ဖြစ်လာသည်။ နောင်အခါတွင် အော်ခက်စတြာတီးဝိုင်းများကို ခေါင်းဆောင်နိုင်ခဲ့လေသည်။

ဗေးထိုးဗင်တို့ မိသားစု၏ အခြေအနေမှာ စိတ်ပျက်ဖွယ်ရာ ဖြစ်သည်။ ဖခင်ကလည်း အိမ်ထောင်၏ တာဝန်ကို မယူလိုဘဲ ပေါ့ပေါ့နေသဖြင့် အိမ်သားများမှာ ဆင်းရဲ ကျပ်တည်းပြီးလျှင်၊ ကျန်းမာရေးလည်း ချို့တဲ့ကြသည်။ ဗေးထိုးဗင်သည် မသာယာသော အိမ်ထောင်စုကို ကျောထောက်နောက်ခံပြုကာ၊ သူ၏ဂီတပညာကို တိုးသည်ထက်တိုးအောင် ကြိုးစားခဲ့သည်။ ၁၇ နှစ်သားအရွယ် ၁၇၈၇ ခုနှစ်တွင် ထိုစဉ်က ဂီတမြို့တော်ဖြစ်သော ဩစတြီးယားနိုင်ငံ ဗီယင်းနားမြို့သို့ သွားရောက်၍ ဂီတပညာရှင်ကြီး တဦးဖြစ်သော မိုးဇတ်၏ ရှေ့တွင် မိမိ၏စွမ်းရည်ကို ပြသခဲ့သည်။ ထိုအခါ မိုးဇတ်က ဗေးထိုးဗင်သည် ကမ္ဘာ၌ သူ့ဂီတသံ လွှမ်းအောင် ပြုနိုင်မည့်သူဟူ၍ နိမိတ်ဖတ်လိုက်လေသည်။

ဗီယင်းနားမှ ပြန်ရောက်ပြီးနောက် မိခင်ဖြစ်သူ ကွယ်လွန်ရာ၊ အမူးသမား ဖခင်နှင့် ညီအစ်ကို မောင်နှမတို့၏ တာဝန်ကို ဗေးထိုးဗင်က လုံးဝထမ်းဆောင် ရသည်။ သို့ဖြစ်လင့် ကစား အိမ်သားများသည် သူ့အား စိတ်ချမ်းသာမှု မပေးဘဲ နားပူနားဆာ ပြုတတ်ကြလေသည်။ ယင်းသို့သော အခြေအနေကြားထဲမှပင် ဗေးထိုးဗင်၏ ဂီတစွမ်းရည်သည် တိုးတက်လာခဲ့သည်။ ဗွန်းမြို့ရှိ သြဇာတိက္ကမရှိသော လူကြီး လူကောင်းများက သူ၏ ဂီတစွမ်းရည်ကို အကြောင်းပြုပြီးလျှင် ဗေးထိုးဗင်အား ခင်မင်စေတနာ ထားကြသဖြင့် ဗီယင်းနားမြို့တွင် ဂီတဝိဇ္ဇာကြီးတဦးဖြစ်သူ ဂျိုးဇက်ဟိုင်းဒင်ထံတွင် ဂီတပညာဆက်လက် ဆည်းပူးနိုင်အောင် စီစဉ်ပေးကြသည်။ ဗီယင်းနားတွင် ဂီတပညာ ဆည်းပူးခဲ့ပြီးနောက်တွင် ဗေးထိုးဗင်သည် ထိပ်တန်းဂီတစာဆိုတဦး အဖြစ်သို့ ရောက်ရှိခဲ့လေသည်။

ယင်းသို့ ထိပ်ထိပ်ကြဲဂီတပညာရှင် တဦးအဖြစ်သို့ ရောက်ခဲ့ပြန်သော်လည်း၊ စိတ်မချမ်းသာဖွယ်ရာ တမျိုးသည် ဗေးထိုးဗင်၏အပေါ် လောင်းရိပ်ကဲ့သို့ မိုးလာပြန်လေသည်။ ယင်းသည်ကား တဖြည်းဖြည်း နားလေးလာရာက နောက်ဆုံးတွင် မကြားရသော ဘဝသို့ ရောက်ခဲ့ခြင်းပင် ဖြစ်လေသည်။ သို့သော် စိတ်ဓာတ်ပြင်းပြလှသော ဗေးထိုးဗင်သည် ယင်းသို့သော အကုသိုလ်ဖိစီးမှုကို လွယ်လွယ်နှင့် အရှုံးမပေးချေ။ အသံကို အကြောင်းပြုရသော မိမိ၏ ပညာလုပ်ငန်းကို မစွန့်လွှတ်ဘဲ၊အသံမကြားရသည့် ဘဝ၌ပင် ဆက်လက်၍



ဂျာမန် ဂီတစာဆိုကျော် လုဒဗစ် ဖန် ဗေးထိုးဗင်

တေးဂီတကြီးများကိုစပ်ဆိုစီကုံးခဲ့သည်။ နားမကြားရသည့်နောက်ပိုင်းတွင်စပ်ဆိုသည့်တေးကြီးတေးခန့် များသည်ဗေးထိုးဗင်၏ အကောင်းဆုံး လက်ရာများဟု ဆိုကြလေသည်။

ဗေးထိုးဗင်သည် အရုပ်ဆိုးသော်လည်း ပင်ကိုယ်သဘောတည်ကြည်မှု၊ သူ၏ ထူးချွန်သော ဂီတပါရမီတို့ကြောင့် သူ့အား ကြည်ညိုလေးစားသူများပြားသည်။ သို့သော် ဗေးထိုးဗင် နားထိုင်းရောဂါ ဖြစ်ပြီးနောက်တွင် သူ၏ ညီအစ်ကိုမောင်နှမများက သူ၏ ငွေကြေးကိစ္စကို ဆောင်ရွက်မှုကြောင့် ဗေးထိုးဗင်အား ခင်မင်ခဲ့ကြသူများနှင့် စိမ်းသွားခဲ့ရသည်။ မိဖဆွေမျိုးအတွက် တာဝန်ကြီး ထမ်းခဲ့ရသော်လည်း ဆွေမျိုးအကျိုးပေးလည်း မကောင်းခဲ့ပေ။ ချစ်ကိစ္စများ၌လည်း ကံခေခဲ့သဖြင့် အိမ်ထောင်မပြုခဲ့သော ဗေးထိုးဗင်သည် တူတယောက်အား သားရင်းတမျှ ချစ်ခင်မြတ်နိုးခဲ့ရာ၊ထိုသူသည် သူ့အားစိတ်ဒုက္ခအပေးဆုံးဖြစ်ခဲ့သည်။ ယင်းသို့သော စိတ်မချမ်းသာဖွယ် အမျိုးမျိုးကို ကြိုးစားတွန်းလှန်ခဲ့ရသောဗေးထိုးဗင်မှာ တခါတရံ မျိုသိပ်မထားနိုင်ဘဲ ဒေါသအိုး ပေါက်ကွဲတတ်သည်။ ဗေးထိုးဗင် ရေးခဲ့သော သေတမ်းစာတစောင်ထဲတွင် မိမိသည် နားထိုင်းခြင်း စသည့် ဒုက္ခအမျိုးမျိုး စိတ်မချမ်းသာဖွယ် အဖုံဖုံတို့ကို ခံစားရလွန်း

၍ မချိတင်ကဲဖြစ်ကာ၊ တခါတရံ စိတ်ထိန်းမနိုင်ဖြစ်ပြီးလျှင် မိမိဒေါသတကြီး ဖြစ်မိသည်များကို ညီအစ်ကို မောင်နှမများက ခွင့်လွှတ်ပါရန် ရေးသား ထားလေသည်။

ဗေးထိုးဗင်အဖို့ တမျိုးပြီး တမျိုး သူရင်ဆိုင်ရသော စိတ်မချမ်းသာမှုများသည် သူ့အားဘဝကို အရှုံးမပေးလိုအောင် သွေးထိုးပေးသကဲ့သို့ ရှိပြီးလျှင်၊ တေးဂီတ တပုဒ်ပြီး တပုဒ် သူ့ကလောင်များမှ ထွက်ခဲ့သည်။ သီချင်း ရိုးရိုးမှ ဂီတပြဇာတ်ကြီးများအထိ စပ်ဆိုရေးသားခဲ့ရာ၊ သူ၏ ဂီတစွမ်းရည် မည်မျှထက်မြက်ထူးချွန်ပုံကို အကဲခတ်နိုင်ပေသည်။ ဗေးထိုးဗင်သည် ကောင်းစွာ မကျန်းမမာဖြစ်နေရာမှ ၁၈၂၇ ခုနှစ်တွင် ညီဖြစ်သူထံ အလည်သွားယင်း ဗီယင်းနားမြို့၌ ကွယ်လွန်သည်။ ဗေးထိုးဗင် ကွယ်လွန်ပြီးသည့် နောက်တွင် ထူးခြားသော ဂီတပညာရှင်ကြီးကို ဂုဏ်ပြုသောအားဖြင့် သူ၏ ဇာတိဖြစ်သော ဗွန်းမြို့တွင်၎င်း၊ သူ၏ သင်္ချိုင်းရှိရာ ဗီယင်းနားမြို့၌၎င်း သူ၏ ရုပ်တုများကို ထားရှိပြီးလျှင် ဗေးထိုးဗင်မွေးဖွားခဲ့ရာ နေအိမ်ကို ပြတိုက် အဖြစ် ပြုလုပ်ထားရှိလေသည်။

**ဗယ်ဗင်,အားနက်**( ခရစ် ၁၈၈၁–၁၉၅၁ )။ ။ ဒုတိယ ကမ္ဘာစစ်အပြီးတွင် ဗြိတိန်နိုင်ငံ၏ နိုင်ငံခြားရေးရာများမှာ ရှုပ်ထွေးခက်ခဲလာသည်နှင့် အမျှပင် နိုင်ငံခြားရေးဌာန၏ တာဝန်များသည်လည်း အလွန်ပင် ကြီးလေးလှပေသည်။ ဤသို့သော အချိန်မျိုးတွင် နိုင်ငံခြားရေးဝန်ကြီး အဖြစ် အောင်မြင်စွာ ဆောင်ရွက် နိုင်ခဲ့သည့် ပုဂ္ဂိုလ်ကြီးကား မစ္စတာအားနက်ဗယ်ဗင် ဖြစ်သည်။ မည်သည့် ကျောင်းတွင်မျှ မနေခဲ့ဘူးသည့် သူရင်းငှါးကလေး ဘဝမှ ကမ္ဘာကြီးတခုလုံး၏ အခြေအနေကို ပြောင်းလဲ သွားစေနိုင်လောက်အောင် အရေးကြီးလှသော အစည်းအဝေးကြီးများတွင် ခေါင်းဆောင်ပါဝင်ရသောနိုင်ငံပြုသုခမိန်ကြီးတဦး ဖြစ်သည်အထိ တိုးတက်လာခဲ့သော အားနက်ဗယ်ဗင်၏ ဘဝဖြစ်စဉ်မှာ အထူးပင်မှတ်သားဖွယ်ကောင်းပေသည်။

ဗယ်ဗင်သည် သာမန် လယ်သမားတဦး၏ သားမျှသာဖြစ်၍ ၁၈၈၁ ခုနှစ် မတ်လ ၉ ရက်နေ့တွင် ဆမ္မားဆက်နယ် ဝင်းစဖို့မြို့၌ မွေးဖွားခဲ့သည်။ ငယ်စဉ်က မိဖများ ကွယ်လွန်သဖြင့်၊ ငယ်ငယ်ရွယ်ရွယ်နှင့်ပင် သူရင်းငှါး အဖြစ်၎င်း၊ မင်းစေအဖြစ်၎င်း လုပ်ကိုင်ခဲ့ရသည်။ ထိုနောက် မာတ်ရထားမောင်းသမား၊ ကုန်တင်ကား မောင်းသမား စသည်ဖြင့် အလုပ်အမျိုးမျိုးကို ပြောင်းလဲ လုပ်ကိုင်ခဲ့သည်။ ဗယ်ဗင်သည် သင်္ဘောကျင်းအလုပ်သမားသမဂ္ဂသို့ဝင်ရောက်ခဲ့ရာ မျှားမကြာမီ အရေးပါ အရာရောက်သော အသင်းဝင်တဦး ဖြစ်လာပြီးလျှင်၊ ၁၉၁၁ ခုနှစ်တွင် သမဂ္ဂ၏လက်ထောက် အထွေထွေ အတွင်းရေးမှူးအဖြစ် တင်မြှောက်ခြင်း ခံရသည်။

၁၉၂၀ ပြည့်နှစ်တွင် လန်ဒန်မြို့၌ အလုပ်သမားအရေးနှင့် စပ်လျဉ်း၍ သယ်ယူပို့ဆောင်ရေး လုပ်ငန်း စုံစမ်းရေး ကော်မရှင်တခု၏ ရှေ့၌ ၁၁ နာရီကြာမျှ စကားပြောခဲ့ရာမှစ၍ တိုင်းပြည်တဝန်းလုံး၌ ထင်ရှားလာပြီးလျှင် “ အလုပ်သမားတို့၏ ရှေ့နေကြီး” ဟူ၍ပင် အမည်ပေးခြင်း ခံရသည်။

အလုပ်သမား လောကအတွက် ဆောင်ရွက်ခဲ့ရာ၌ ဗယ်ဗင်၏ အကြီးဆုံးသော အောင်မြင်မှုတရပ်မှာ ၁၉၂၂ ခုနှစ်တွင် သယ်ယူ ပို့ဆောင်ရေးနှင့် အထွေထွေ အလုပ်သမား သမဂ္ဂကြီး ဖြစ်လာအောင် ဖန်တီးနိုင်ခဲ့ခြင်းပင် ဖြစ်သည်။ ထိုသမဂ္ဂကြီးမှာ အလုပ်သမား သမဂ္ဂပေါင်း ၃၂ ခုကိုစုပေါင်းထားသော သမဂ္ဂကြီးဖြစ်၍၊ ကမ္ဘာပေါ်ရှိ အင်အား အကြီးဆုံးသော အလုပ်သမား သမဂ္ဂကြီးများတွင် တခုအပါ အဝင်ဖြစ်သည်။ ဗယ်ဗင်သည် ထိုသမဂ္ဂ၏ အထွေထွေ အတွင်းရေးမှူးအဖြစ် ဆောင်ရွက်ရလေသည်။

ဒုတိယ ကမ္ဘာစစ် ဖြစ်ပွားသောအခါ၊ အလုပ်သမား လုတန်းစားတို့၏ အရေးသည် များစွာ ကြီးမားလာလေသည်။ ၁၉၄၀ ပြည့်နှစ် မေလ၌ ဝင်စတန်ချာချီ ဝန်ကြီးချုပ် ဖြစ်လာသောအခါ ဗယ်ဗင်အား အလုပ်သမား လူထုကြီးက ကြည်ညိုသည်ကို သိမြင်ပြီးဖြစ်သည့်အတိုင်း အလုပ်သမားနှင့် အမျိုးသားဝန်ထမ်း ဌာနဝန်ကြီးအဖြစ် ခန့်ထားသည်။ ဗယ်ဗင်သည် စစ်အတွင်းပစ္စည်းများ အလျင်အမြန် ထုတ်လုပ်ရေးကို အားသွန်ကြိုးပမ်းနိုင်ခဲ့၍၊ အလုပ်သမား ပဋိပက္ခဖြစ်မှုများကို နည်းနိုင်သမျှ နည်းအောင် ဆောင်ရွက်ပေး



ဗြိတိသျှ လေဘာပါတီ ခေါင်းဆောင်တဦးဖြစ်သူ အားနက် ဗယ်ဗင်

နိုင်ခဲ့သည်။ ထိုသို့ ဝန်ကြီးဖြစ်စဉ်က သူသည် ပါလီမန် အမတ် မဟုတ်သေးပေ။ သို့သော် ဇွန်လ၌ ဝင်းစဝပ်ဗဟိုနယ် ကြားရွေးကောက်ပွဲတွင် လေဘာပါတီဝင် အမတ် အဖြစ် အရွေးခံရသည်။

ဒုတိယ ကမ္ဘာစစ်ကြီး ပြီးဆုံးပြီးနောက် အထွေထွေ ရွေးကောက်ပွဲကြီး ကျင်းပသောအခါ ဗယ်ဗင်သည် လေဘာပါတီဝင် ပါလီမန်အမတ်အဖြစ် အရွေးခံခဲ့ရသည်။ ယင်းသို့ဖြင့် ၁၉၄၅ ခုနှစ်တွင် လေဘာအစိုးရ တက်လာသောအခါ၊ နိုင်ငံခြားရေးဝန်ကြီးအဖြစ် ဆောင်ရွက်ရသည်။ ဗယ်ဗင်သည် ထိုနှစ်ဇူလိုင်–ဩဂုတ်လများတွင် ကျင်းပသော ပေါ့စဒမ်ညီလာခံသို့ တက်ရောက်သည်။ ထို့ပြင် မောစကိုမြို့၌ ကျင်းပသော "ကြီးသုံးကြီး ညီလာခံ" (၁၉၄၅ ခုနှစ်) နှင့် "ကြီးလေးကြီး ညီလာခံ" (၁၉၄၇ ခုနှစ်) များသို့လည်း တက်ရောက်ခဲ့သည်။ ဆိုဗီယက်ရုရှနှင့် စပ်လျဉ်း၍ ဗယ်ဗင်က သည်းခံခြင်းနှင့် ကြံ့ခိုင်ခြင်းဝါဒကို ထားရှိခဲ့သည်။ သို့သော် ရုရှက အနောက်ဒီမိုကရေစီ နိုင်ငံများကို "စစ်အေး" ဆင်နွှဲလာသောအခါ၊ ယင်းနိုင်ငံများနှင့် စစ်ရေး နိုင်ငံရေး စီးပွားရေး ပူးပေါင်းဆောင်ရွက်မှု ရှိမှသာလျှင် ငြိမ်းချမ်းရေး ရနိုင်မည်ဟု သဘောထား ပြောင်းလာသည်။ ထို့ကြောင့် ဗရပ်ဆဲစာချုပ် (၁၉၄၈ ခုနှစ်) ချုပ်ဆိုရာတွင်၎င်း၊ ဝါရှင်တန်မြို့၌ အတ္တလန္တိတ် စာချုပ် (၁၉၄၉ ခုနှစ်) ချုပ်ဆိုရာ၌၎င်း ဦးစီးဦးဆောင် ပြုသူများထဲတွင် ဗယ်ဗင်သည် ရှေ့တန်းမှ ပါဝင်ခဲ့လေသည်။

နိုင်ငံခြားရေးဝန်ကြီး အဖြစ် အရေးကြီးသော ကမ္ဘာ့ရေးရာများကို စီမံဆောင်ရွက်နေလျက်ကပင် အလုပ်သမား လူတန်းစားတို့ ဖက်မှ အမြဲတမ်း ကာကွယ် ပေးခဲ့သောကြောင့် အလုပ်သမား လူထုကြီးက "ဒိုအန်နီ"ဟု မြတ်နိုး တနာ ခေါ်ဝေါ်ခြင်းကို ခံခဲ့ရသော ဗယ်ဗင်သည် ကျန်းမာရေး ချွတ်ယွင်းလာသဖြင့် ၁၉၅၁ ခုနှစ် မတ်လတွင်နိုင်ငံခြားရေးဝန်ကြီး ရာထူးမှနုတ်ထွက်သည်။ သို့သော် သူ့အား တံဆိပ်တော် ဝန်ကြီးအဖြစ် ခန့်ထားသေးသည်။ ဗယ်ဗင်သည် ထိုနှစ် ဧပြီလ ၁၄ ရက်နေ့တွင် လန်ဒန်မြို့၌ပင် ကွယ်လွန် သွားလေသည်။

**ဗယ်ရီ, ဆာဂျိမ်း မက်သယူး**(ခရစ် ၁၈၆၀–၁၉၃၇)။ ။ အင်္ဂလိပ်စာဖတ်ကလေး သူငယ်များ၏ အချစ်တော် "ပီတာပင်"ကို ဖန်တီးလိုက်သူမှာ ဆာဂျိမ်း မက်သယူး ဗယ်ရီ ဖြစ်ပေသည်။ ဆာဂျိမ်းဗယ်ရီသည် စကော့လူမျိုး စာရေးဆရာကြီး တဦးဖြစ်၍ ဝတ္ထု အရေးအသား၌၎င်း၊ ပြဇာတ် အရေးအသား၌၎င်း ထင်ရှား ကျော်ကြားသည်။ အထူးသဖြင့် ဆာဂျိမ်း၏ လက်ရာ ဖြစ်သော "ပီတာပင်" ပြဇာတ်သည် ယခုခေတ်တိုင်အောင် လူကြိုက်များပြား ထင်ရှားနေဆဲပင် ဖြစ်သည်။ ဆာဂျိမ်း၏ လက်ရာတို့သည် မထိတထိ ဟာသကလေးများ၊ သိမ်မွေ့သော အလွမ်း အဆွေးများနှင့် ဆန်းကြယ်သော စိတ်ကူးယဉ်မှုကလေးများ ပါဝင်သဖြင့်၊ သူ၏ လက်ရာပြဇာတ်တို့သည် ဖတ်၍ ကောင်းသလောက်၊ ပြဇာတ်အဖြစ် ရုံတင်ပြသည့် အခါတွင်လည်း နှစ်ခြိုက်စွဲ လမ်းဖွယ်ရာ ကောင်းလှပေသည်။ ဆာဂျိမ်း၏ ပြဇာတ်များစွာတို့ကို ရုပ်ရှင်အဖြစ်လည်း ရိုက်ကူးခဲ့ကြလေသည်။

ဆာဂျိမ်းဗယ်ရီသည် စကော့တလန်ပြည် ကားရီးမျူးမြို့၌ ၁၈၆၀ ပြည့်နှစ် မေလ ၉ ရက်နေ့တွင် ဖွားမြင်ခဲ့သည်။ ငယ်စဉ်က အစဉ်သဖြင့် မကျန်းမာဖြစ်နေသူ ချစ်လှစွာသော သူ၏ မိခင်ကို နှစ်သိမ့်ဖျော်ဖြေရန် စိတ်ကူးယဉ် ပုံပြင်ကလေး များကို တီထွင်ဖန်တီး ပြောပြတတ်ပေရာ၊ နောင်အခါ စိတ်ကူးယဉ် ပုံပြင်များကို ဝတ္ထုများ၊ ပြဇာတ်များအဖြစ် ဖန်တီးခဲ့လေသည်။အက်ဒင်ဗာရာ တက္ကသိုလ်မှဘွဲ့ရပြီးသည့်နောက် ပိုင်းမှစတင်၍ စာပေရေးသားလာခဲ့ရာ၊ သူ၏နှစ်သက်စွဲလမ်း ဖွယ်ရာ စိတ်ကူးယဉ်မှု၊ အရေးအသားကောင်းမွန် ပြောင်မြောက်မှုတို့ကြောင့် အောင်မြင် ကျော်ကြားလာသည်။ ရှေးဦးစွာ စကော့လူမျိုးတို့၏ အနေအထိုင်၊ ဓလေ့ထုံးစံတို့



နာမည်ကျော်ဗြိတိသျှ စာရေးဆရာ ဆာဂျိမ်း ဗယ်ရီ

ကို သရုပ်ဖော်သည့် ဝတ္ထုများကြောင့် နာမည်ရလာသည်။ နောင်အခါတွင်မူ ပြဇာတ်များ ရေးသားရန်ပို၍ စိတ်အားသန်ပြီးလျှင်၊ ပြဇာတ်အများအပြား ရေးသားခဲ့သည်။ ၁၈၈၅ ခုနှစ်တွင် လန်ဒန်မြို့သို့ ပြောင်းရွှေ့ လာ၍ ၁၈၉၀ ပြည့်နှစ်ခန့်တွင် ထိုခေတ် ထိုအခါက အထင်ရှားဆုံးသော စာရေးဆရာကြီး တဦးအဖြစ်သို့ ရောက်ရှိခဲ့လေသည်။

၁၉၁၃ ခုနှစ်တွင် ပဉ္စမဂျော့ဘုရင်မင်းမြတ်က "ဆာ" ဘွဲ့ဖြင့် ချီးမြှင့်သည်။ အက်ဒင်ဗာရာ၊ စိန့်အန်ဒရူး၊ အောက်စဖို့နှင့် ကိမ်းဗရစ်ဘက္ကသိုလ်တို့က ချီးမြှင့်သော ဂုဏ်ထူးဆောင်ဘွဲ့များကိုလည်း ရရှိခဲ့သည်။ ၁၉၃၀ ပြည့်နှစ်မှစ၍ ကွယ်လွန်သည့်တိုင်အောင် အက်ဒင်ဗာရာတက္ကသိုလ်၏ အဓိပတိ အဖြစ် ဆောင်ရွက်ခဲ့လေသည်။

ဆာဂျိမ်းဗယ်ရီ ဖန်တီးသော "ပီတာပင်" သည် အလွန်ခေတ်စား ထင်ရှားခဲ့သည်။လန်ဒန်မြို့ကင်းဆင်တန်ဥယျာဉ်၌ပင် "ပီတာပင်" ၏ ရုပ်တုတခုကို ထုလုပ်ထားရှိသည်။ "ပီတာပင်" ပြဇာတ်ကို ၁၉၀၄ ခုနှစ်တွင် စတင် ရုံတင်ပြသရာ၌ အလွန်လူကြိုက်များလှ၍ နှစ်စဉ် နာတာလူးပွဲတော်ချိန်တွင် ရုံတင်ခဲ့ရရာ၊ ယခုတိုင် မရိုးနိုင် ကြသေးချေ။ နာမည်ကျော် ပြဇာတ်မင်းသမီးကြီးများသည် "ပီတာပင်" အဖြစ် ပါဝင်သရုပ်ဆောင် ခဲ့ကြသည်။ အမေရိကန် ပြည်ထောင်စုတွင် "ပီတာပင်" ကို ရုပ်ရှင်ရိုက်ကူးသည်။ ၁၉၅၃ ခုနှစ်တွင် ဝေါ့ဒစ်ဇနီက "ပီတာပင်" ကို ကာတွန်းရုပ်ရှင်ရိုက်ကူးခဲ့ ပြန်လေသည်။

**ဗယ်ရီဗယ်ရီ။** ။စားသောက်သော အစာတို့တွင် ဗီတာမင် ဘီ-၁ ခေါ် သြဇာဓာတ်တမျိုး မပါ၍၎င်း၊ ပါသင့် သလောက်မပါ၍၎င်း အာရုံကြောများ ရောင်ရမ်း လာကာ ကြွက်သားများနှင့် နှလုံးသားများ အားယုတ်လာတတ်သောရောဂါမျိုးကို ဗယ်ရီ ဗယ်ရီ ရောဂါဟုခေါ်သည်။ (ဗီတာမင် — ရှု။)

ဗယ်ရီ ဗယ်ရီဟူသော စကားလုံးသည် သီဟိုဠ် ဘာသာစကားဖြစ်၍ "မလုပ်နိုင်"ဟု အဓိပ္ပါယ် ရသည်။ ဗယ်ရီ ဗယ်ရီရောဂါရှိသူသည် မည်သည့်အလုပ်ကိုမျှ မလုပ်နိုင် မကိုင်နိုင်သောကြောင့် ဖြစ်သည်။ ယင်းရောဂါကို မြန်မာတို့ အလိုအားဖြင့် ထုန်ရောဂါ (ထုန်နာ) ဟုခေါ်သည်။

ဗယ်ရီ ဗယ်ရီရောဂါကို ၄ မျိုး ၄ စားခွဲခြားနိုင်သည်။ ပဌမ ၃ မျိုးမှာလက္ခဏာများကိုလိုက်၍ခေါ် ဝေါ် ခြင်းဖြစ်ပြီးလျှင် စတုတ္ထအမျိုးမှာ ကလေးများ၌သာ တွေ့ရသဖြင့် သူငယ်နာတမျိုးဟု ခေါ်နိုင်သည်။ ယင်းတို့မှာ (၁) ဝက်၊ သို့မဟုတ် ဒရော့ပစစ်ကယ် ဗယ်ရီ ဗယ်ရီ (မြန်မာအလိုအားဖြင့် ထုန်စိုနာ)၊ (၂) ဒရိုင်း၊ သို့မဟုတ် ပါရာလိုက်တစ်ဗယ်ရီဗယ်ရီ(မြန်မာ အလိုအားဖြင့် ထုန်ခြောက်နာ)၊ (၃) အကျူ၊ သို့မဟုတ် ဖာလမိနိတ်တင်း ဗယ်ရီဗယ်ရီ (မြန်မာ အလိုအားဖြင့် ထုန်ရှုပ်နာ)၊ (၄) အင်ဖင်တိုင် ဗယ်ရီ ဗယ်ရီ (ကလေးထုန်ရောဂါ) တို့ဖြစ်သည်။

ဝက်ဗယ်ရီဗယ်ရီခေါ် ထုန်စိုနာ ဖြစ်လာသော အခါ အစားအသောက်ပျက်ခြင်း၊ ရင်ပြည့်ရင်ကယ်ခြင်း၊ အသားအရေများ ကွက်၍ကွက်၍ယားခြင်း၊ ပူခြင်း၊ ကျဉ်ခြင်း၊ အရေပြား၌ ကွက်၍ ကွက်၍ ဟိုတကွက်သည်တကွက် ပိုမို နာကျဉ်ခြင်း၊ ခြေသလုံး ကြွက်သားများနာခြင်း၊ ပဌမ၌ ဒူးခေါင်း၏ တုံ့ပြန်ခြင်း ပိုမိုလာပြီးနောက်တွင် ပျောက်ကွယ်သွားခြင်း၊ ခွန်အားဆုတ်ယုတ်ခြင်း၊ ရင်တုန်ခြင်း၊ မောလွယ်ခြင်း၊ ခြေဖမိုးနှင့် ခြေကျင်းဝတ်များ ဖောရောင်လာခြင်း၊ မကြာမီ ခြေထောက်၊ ကိုယ်၊ မျက်နှာ စသည် တကိုယ်လုံး တင်းမာရောင်ရမ်းလာခြင်း၊ဆီးနည်းလာခြင်း၊အလွန်အမင်း ရောင်ဖောလာသည့်အခါ အသက်ရှူကျပ်လာသဖြင့် မျက်နှာညိုပုပ်ပုပ်ဖြစ်လာခြင်း၊ သွေးတိုးမြန်လာခြင်း၊အလွန်မောပန်းခြင်း၊ လည်ပင်းသွေးကြောများ ထောင်လာခြင်း၊ အိပ်ရာထဲမှ မထနိုင် မလှုပ်နိုင်ဖြစ်လာခြင်းတို့ဖြစ်သည်။ ယင်းသို့ ကိုယ်များရောင်ဖောလာသည်ကို စွဲ၍လည်း ဘိန်းပြဲကိုယ်ရောင်ရောဂါဟုလည်း ခေါ်ကြသေးသည်။

ဒရိုင်းဗယ်ရီဗယ်ရီခေါ် ထုန်ခြောက်နာဖြစ်လာသောအခါ ထုန်စိုနာကဲ့သို့ ဖောရောင်ခြင်းမရှိဘဲ နာဗကြောများ လေဖြတ်သည့် လက္ခဏာများ ထင်ရှားဖြစ်လာသည်။ ညိုဘဲကျည်း၊ခြေဖမိုး၊ ပေါင်အပြင်ဖက်၊လက်ချောင်းကလေးများနှင့်လက်ဖျံတို့၏အရေပြားများထုန်နေခြင်း၊ဖနောင့်အထက် ပထဝီကြောကြီးကို ဖျစ်ညှစ်လျှင်မနာကျဉ်ခြင်း၊ ကြွက်သားများကို နှိပ်လျှင် နာကျဉ်ခြင်း၊ ဆောင့်ကြောင့် ထိုင်နေရာမှ လက်လွှတ်ထနိုင်ခြင်းငှါ မစွမ်းဘဲ လက်ဖြင့် တစုံတရာကိုဆွဲမှ ထနိုင်ခြင်း၊ ခြေလက်များ မထိန်းနိုင်ဘဲ တွဲကျခြင်း၊ သွေးတိုးအားနည်းခြင်း၊အရေပြားအောက်ရှိ မြင်ရသော သွေးကြောများခုန်ခြင်း၊ အရိုးပေါ် အရေတင်သော ရုပ်မျိုးဖြစ်ခြင်းတို့ ဖြစ်တတ်သည်။

အကျူဗယ်ရီ ဗယ်ရီခေါ် ထုန်ရှုပ်နာမျိုးကား အထူးအထွေ လက္ခဏာမရှိ၊ ထုန်စိုနာ၊ သို့မဟုတ် ထုန်ခြောက် တခုခု ဖြစ်နေစဉ် ရုတ်တရက် ရှောင်တခင် နှလုံးရပ်၍ သေဆုံးတတ်သော ရောဂါမျိုး ဖြစ်သည်။

အင်ဖင်တိုင် ဗယ်ရီ ဗယ်ရီခေါ် ကလေးထုန်ရောဂါသည် ၂ လမှ ၄ လသားခန့် ကလေးများတွင် ဖြစ်တတ်သည်။ အမိ၌ ဗီတာမင် ဘီ-၁ ဓာတ် အလွန်နည်းပါးသောကြောင့် ကလေး၌ ဖြစ်ပေါ်ခြင်း ဖြစ်သည်။ ယင်းရောဂါ ဖြစ်ပေါ်လာသောအခါ ဝမ်းလျှောခြင်း၊ ပျို့အန်ခြင်း၊ အကြောဆွဲခြင်း၊ တက်ခြင်းတို့ ဖြစ်လာတတ်သည်။

ဗယ်ရီ ဗယ်ရီရောဂါသည် လမည်မျှလောက်ကစ၍ ရောဂါ

ပျိုးသည်ကို အတိအကျ ကန့်သတ်၍ မဖြစ်ချေ။ လူ၏ ခံနိုင်ရည် သဘာဝကို လိုက်၍ သီတင်း ၂ ပတ်လောက်မှ ၆ လအတွင်းတွင် ပေါ်ပေါက်လာတတ်သည်။ ထုံနှိုင်းနာသည် တဖြည်းဖြည်း ပေါ်လာတတ်၍ ထုံနှိုင်းမှာ မြန်မြန်ပေါ်လာတတ်သည်။ ထုံရှပ်နာမူကား အလွန်မြန်သဖြင့် တခါတရံ နာရီပိုင်းအတွင်း၌ပင် လူနာသေဆုံးတတ်သည်။

ဗယ်ရီ ဗယ်ရီ ရောဂါသည် အိန္ဒိယ၊ မြန်မာ၊ ဂျပန်၊ တရုပ်၊ အာဖရိကနှင့် အခြားဆန်စားသော နိုင်ငံများတွင် အများအားဖြင့် ဖြစ်တတ်သည်။ လူကြီးလူငယ်ယောကျာ်း မိန်းမမရွေး ဖြစ်တတ်ကြသော်လည်း လူကြီးပိုင်းတွင်ပိုမို ဖြစ်တတ်သည်။ ဗယ်ရီ ဗယ်ရီ ရောဂါဖြင့် တနှစ်လျှင် လူပေါင်း ၁၁၁,၀၁၁ ခန့် အသက် ဆုံးရှုံးရ၍ လူသန်းပေါင်းများစွာ ဝေဒနာခံစားနေရပြီးလျှင် သန်းပေါင်းများစွာတို့မှာ ရောဂါစဖြစ်၍ ကျန်းမာသည်ဟူ၍ မရှိဘဲ မအီမလည် ဖြစ်နေကြရသည်။

၁၈၈၇ ခုနှစ်မှ စ၍ ဒပ်ချလူမျိုး ဆရာဝန် ဒေါက်တာ အိတ်ကမင်းက ဗယ်ရီဗယ်ရီရောဂါ ဖြစ်ပေါ်ရခြင်း၏ အရင်းအမြစ်ကိုရှာဖွေတွေ့ရှိသည်။ ဆေးရုံဝင်းအတွင်း၌ လူနာများ စွန့်ပစ်ထားသော ထမင်းကျန်များကို စားသောက်နေသည့် ခိုင်ငှက်များသည် မကြာမီ ဗယ်ရီဗယ်ရီရောဂါစွဲကပ်လာ၍ ယင်းတို့အား ကောင်းစွာ မကြိတ်ရသေးသော ဆန်လုံးတီးများ ကျွေးသည့်အခါ၊ တဖြည်းဖြည်း ပြန်လည်ကောင်းမွန်လာသည်ကို တွေ့ရသည်။ ဆန်တွင် ဗီတာမင် ဘီ-၁ ခေါ် သိုက်ယာမင် ဩဇာဓာတ် ပေါများစွာ ပါသော်လည်း ဆန်စားသော လူမျိုးသည် ဗယ်ရီ ဗယ်ရီ ပို၍ ဖြစ်ရသည်မှာ ဆန်ကို ဖြူစင်အောင်ဖွပ်ပြီးမှ စားကြသောကြောင့် ဖြစ်သည်။ ဆန်ကိုဖွပ်လိုက်သောအခါ သိုက်ယာမင်ဓာတ် များစွာ စုဝေးနေရာအပင်ဖြစ်မည့် အတက်ကလေးနှင့် စကူတယ်လမ်းခေါ်သော အလွှာဖွဲ့နုစသည်တို့ ပြုတ်ထွက် ပွန်းပဲ့သွားကုန်သဖြင့် တကြောင်း၊ ဆန်ကိုရေဖြင့် စင်အောင် ဆေးပြီးနောက်ချက်၍ ထမင်းရည်ကို ငှဲ့ပစ်သဖြင့် သိုက်ယာမင်ဓာတ်ဆုံးပါးသောကြောင့်တကြောင်း အာဟာရ ချို့တဲ့၍ ဗယ်ရီ ဗယ်ရီရောဂါ စွဲရခြင်းဖြစ်သည်။ ဆန်သာမဟုတ် ဂျုံလုံးစိမ်းကို ဖွပ်ကြိတ်ပြီးမှ အမှုန့်ပြုသော ဂျုံမှုန့်ဖြူမှီဝဲသူတို့လည်း ဗယ်ရီ ဗယ်ရီ ရောဂါ ဖြစ်တတ်သည်။ ထိုကြောင့် ဗယ်ရီ ဗယ်ရီ ရောဂါမှ ကာကွယ်ရန်၊ သို့မဟုတ် ပျောက်ကင်းရန် ဆန်လုံးတီး၊ ပဲပင်ပေါက်၊ အပင်ဖောက်ပြီးကုလားပဲ၊ ပေါင်မုံ့၊ ဟင်းသီး ဟင်းရွက်စိမ်း၊ ခရမ်းချဉ်သီး၊ ပဲမျိုးစုံ၊ ကြက်ဥ၊ မလိုင်၊ ထန်းရည်ချို စသည်တို့ကို ချင့်ချိန်၍ရင်မကယ်အောင် စားသောက်ရသည်။ မြန်မာနိုင်ငံ၌ ဖြစ်သော ပုဂံပုန်းရည်ကြီးလည်း ဗယ်ရီ ဗယ်ရီရောဂါကာကွယ်ရန်အတွက် သင့်လျော်သည်။

ဗီတာမင် ဘီ-၁ ခေါ် သိုက်ယာမင်ဓာတ်ဖိကျွေးခြင်းဖြင့် ဗယ်ရီ ဗယ်ရီရောဂါ သက်သာရာရနိုင်သော်လည်း ရောဂါရှင်းရှင်းပျောက်စေရန် ကြာရှည်စွာ ကုမှုရသည်။ ရောဂါ သက်သာပြီးနောက် အခြားသော ဗီတာမင်နှင့် ပရိုတင်း ဓာတ်ပေါသောအစားအစာကို မှီဝဲစေရသည်။ ရောဂါရင့်နေလျှင်ကား ရှင်းရှင်းမပျောက်နိုင်ဘဲ ရှိတတ်ချေသည်။

**ဗယ်ရီလီယမ်။** ။ဗယ်ရီလီယမ်သည် ရှားပါးသော သတ္တုဒြပ်စင်တမျိုး ဖြစ်၍ ယခင်က ဂလူစီနမ်ဟုလည်းခေါ်သည်။ ဓာတုသင်္ကေတနည်းဖြင့် (Be) ဟု ရေးသားသည်။ ဗယ်ရီခေါ် ကျောက်မျက်ရွဲတမျိုးမှ ထုတ်ယူရရှိသဖြင့် ဗယ်ရီလီယမ်ဟု ခေါ်တွင်သည်။ ယင်းကို ခရမ်းကျောက်၊ သို့မဟုတ် ဖရဲအူကျောက်နှင့် ပင်နဆိုက်ကျောက်များမှလည်း ထုတ်ယူရရှိသည်။ဗယ်ရီကျောက်တွင် ပါဝင်သော ဗယ်ရီလီယမ်ဆားကို လျှပ်စစ်ဓာတ်ခွဲခြင်းဖြင့်လည်း ဗယ်ရီလီယမ်ဒြပ်စင်ရအောင် အနည်းအကျဉ်း လုပ်ယူ နိုင်သည်။ ဗယ်ရီလီယမ်၏ အရောင်သည် မွဲပြာပြာဖြစ်လေသည်။

ဗယ်ရီလီယမ်သည် အလျူမီနမ် သတ္တုနှင့် အလွန်နီးစပ်သည်။သို့သော်ဗယ်ရီလီယမ်အောက်ဆိုက်သည်အလျူမီနာနှင့် ကွဲပြားကြောင်း ၁၇၉၈ ခုနှစ်တွင် လူဝီ နစ်ကလတ် ဗိုးကလင်းက ဖော်ထုတ်ခဲ့သည်။ ဗယ်ရီလီယမ်ကို အရောအနှောများမှ သီးသီးသန့်သန့် ပဌမဆုံးခွဲထုတ်ခဲ့သူများမှာ ဖရီးဒရစ် ဗျူးလားနှင့် အန်တွန်းဗျူးဆီးတို့ ဖြစ်၍ ၁၈၂၈ ခုနှစ်တွင် ဆောင်ရွက်ခဲ့ကြသည်။

ဗယ်ရီလီယမ်သည် မာကျောသော သတ္တုများ အနက် အပေါ့ပါးဆုံး ဖြစ်သော်လည်း၊ အရည်ပျော်ချိန် အမြင့်ဆုံးဖြစ်သည်။ အပူချိန် စင်တီဂရိတ် ၁၂၈၀ ဒီဂရီတွင်မှ အရည်ပျော်လေသည်။

ဗယ်ရီလီယမ်ဒြပ်စင်ကို ၁၉၁၆ ခုနှစ်မှစ၍ ဂျာမနီ နိုင်ငံ၌ စက်မှု ထုတ်လုပ်ရေးတွင် အသုံးပြုခဲ့ကြသည်။ အများ အားဖြင့် ထိုဒြပ်စင်ကို အခြား သတ္တုများနှင့် ရောစပ်အသုံး ပြုကြသည်။ ကြေးနီ၊ အလျူမီနမ်၊ သံ၊ နစ်ကယ်စသော သတ္တုများတွင် ဗယ်ရီလီယမ်ကို ရောစပ်လျှင် ပို၍ မာကျော ခိုင်ခံ့ပြီးလျှင် သံချေးမတက်နိုင်သော သတ္တုစပ်များ ရရှိသည်။ ကြေးနီတွင် ဗယ်ရီလီယမ်အနည်းငယ်ကို ရောစပ်လျှင် ကြေးနီထက် ၆ ဆခန့် ပို၍ ခိုင်မာသော ဗယ်ရီလီယမ် ကြေးညိုခေါ် သတ္တုစပ်ဖြစ်လာပြီးလျှင် ယင်းသည် သံမဏိ အပျော့စားထက် ၂ ဆပို၍ ခိုင်မာကြောင်း တွေ့ရသည်။ ထိုကြောင့် ကတ်ကျေးကဲ့သို့ ဖြတ်တောက်ရန် ကရိယာများ၊ စပရင်များနှင့် လေယာဉ်တို့၏ နုနယ်သော စက်ပစ္စည်းများကို ဗယ်ရီလီယမ်သတ္တုစပ်ဖြင့် ပြုလုပ်ကြလေသည်။

၁၉၃၀ ပြည့်ကျော် နှစ်များတွင် သိပ္ပံပညာရှင်တို့သည်

အက်တမ်ကို ဖြိုခွဲရန် နည်းအမျိုးမျိုး ရှာဖွေစမ်းသပ်ခဲ့ကြရာ၊ ဗယ်ရီလီယမ်သည် နျူကလီယာဓာတုဗေဒနှင့် နျူကလီယာ ရူပဗေဒတို့၌လည်း အရေးပါသော သတ္တုဒြပ်စင်ဖြစ်ကြောင်း ကိုတွေ့ရှိလာကြသည်။ ဗီတာမှုန်ဖြင့် ဖြိုခွင်းသောအခါ ဗယ် ရီလီယမ် အက်တမ်တခုမှ ဟီလီယမ်အက်တမ် နှစ်ခုနှင့်နျူထ ရွန်တခု ကွဲထွက်လာသည်။ အယ်လဖာမှုန်တခုဖြင့် တိုက် ခိုက်မိလျှင် ကာဗွန်အက်တမ်တခုနှင့် နျူထရွန်တခု ဖြစ်ပေါ် လာသည်။ ဗယ်ရီလီယမ်၏ အက်တမ်အလေးချိန်မှာ ၉.၀၂ ဖြစ်၍ အက်တမ်ကိန်းမှာ ၄ ဖြစ်သည်။

အိပ်စရေး ရောင်ခြည်သည် ဗယ်ရီလီယမ်ကို လွယ်ကူစွာ ထိုးဖောက်နိုင်ကြောင်းတွေ့ရသဖြင့် ဤဒြပ်စင်ကို အိပ်စရေး ပြွန်များ၏ လေလုံသော "ပြတင်းပေါက်" များ ပြုလုပ်ရာ၌ အသုံးချသည်။ ထိုပြင် နီယွန်မီးချောင်း၏ ဓာတ်ခေါင်း (အီ လက်ထရုဒ်) များပြုလုပ်ရန်အတွက်လည်း အသုံးပြုကြ သည်။ သို့သော် ဗယ်ရီလီယမ်ဒြပ်ပေါင်းတို့သည် လူတို့၏ အရေပြားနှင့် အသက်ရှူအင်္ဂါစုတို့ဖြင့် ထိတွေ့မိလျှင် အ အန္တရာယ် ဖြစ်စေတတ်သောကြောင့် နီယွန် မီးချောင်းများ ကို မကွဲမရှရအောင် သတိပြု၍ ကိုင်တွယ် ကြရသည်။

**ဗယ်ရီသီးများ။** ။အသားပျော့အိ၍ အစေ့များ ပြီးလျှင် အရည်ရွှမ်းသော အသီးများကို ဗယ်ရီသီးဟု ခေါ်သည်။ ပုံစံအားဖြင့် စပျစ်သီးနှင့် နရွဲသီးတို့ကဲ့သို့သော အသီးမျိုး ဖြစ်သည်။ ဗယ်ရီသီးမျိုး သီးသောအပင်များမှာ စထရော ဗယ်ရီ (စထရောဗယ်ရီ — ရှု။) ဗလက်ဗယ်ရီ၊ ဒျူးဗယ်ရီ၊ ဟတ်ကယ် ဗယ်ရီ၊ ဗလူး ဗယ်ရီ (ဆိတ်တင်းပင်)၊ လိုဂန် ဗယ်ရီ၊ ရပ်စဗယ်ရီ၊ ကရန်း ဗယ်ရီ၊ ကားရန့်သီး၊ ဆော်ရီဂွန် ဂေါ့စ်သီး စသည်တို့ဖြစ်ကြလေသည်။

အသီး၏ အမည်တွင် ဗယ်ရီပါတိုင်းလည်း ရုက္ခဗေဒ အ လိုအားဖြင့် ဗယ်ရီသီးများမဟုတ်ကြချေ။ ပုံစံအားဖြင့် စထ ရောဗယ်ရီသီးဟု ခေါ်နေကြသော အရာမှာ စင်စစ်အရည် ရွှမ်းသော ပွင့်ရင်းခံတခုဖြစ်၍ အသီးကလေးများသည် ယင်း ၏ မျက်နှာပြင် တခုလုံးတွင် အနှံ့အပြားပေါ်လျက် ရှိကြ သည်။ ဗလက်ဗယ်ရီဟုခေါ်သော အသီးများသည် ချယ်ရီ သီးများနှင့်တူ၍၊ အတွင်းခံမာသီးများ ဖြစ်ကြသည်။ အသီး သီးပုံမှာ အတွဲလိုက်အပြွတ်လိုက် ဖြစ်၍၊အသီး၏အလယ်တွင် မာကျောသောအစေ့ တခုတည်းသာ ရှိလေသည်။

ဗယ်ရီသီးမျိုး သီးသော အပင်မျိုးတို့သည်လည်း ရုက္ခ ဗေဒအလိုအရ မျိုးရင်းချင်း၊ မျိုးစုချင်း မတူကြချေ။ ပုံစံ အားဖြင့် ဗလူးဗယ်ရီပင်သည် ချုံပင်မျိုးဖြစ်၍ အီရီကာစီအီး မျိုးရင်း၌ ပါဝင်ပြီးလျှင် ဗက်ဆီနီယမ်မျိုးစုဝင် ဖြစ်သည်။ စပျစ်သီးသည် ဗိုက်တာစီအီးမျိုးရင်းတွင် ပါဝင်သော စပျစ် ပင်မှသီး၍ ထိုအပင်၏ ရုက္ခဗေဒမျိုးစု အမည်သည် ဗိုင်တစ် ဖြစ်သည်။ စပျစ်ပင်သည် နွယ်ပင် ဖြစ်လေသည်။ (စပျစ် ပင် — ရှု။) ဗလက်ဗယ်ရီပင်သည် ရိုဇေးစီအီးမျိုးရင်းဝင် ဖြစ်၍ ရူဗတ်မျိုးစုတွင် ပါဝင်သော အပင်ငယ်မျိုး ဖြစ် လေသည်။

**ဗယ်လကလားဗာ တိုက်ပွဲ။** ။ဗယ်လကလားဗာ တိုက် ပွဲ(၁၈၅၄ ခုနှစ်)သည် ကရိုင်းမီးယန်းစစ်ပွဲအတွင်း၌ ဖြစ်ပွား ခဲ့သည်။ ယင်းတိုက်ပွဲအမှတ်တရ ဖြစ်ရသော အကြောင်း ရင်းမှာ စစ်အတွက် အရေးပါလှ၍ မဟုတ်ဘဲ၊ စစ်သည်တော် တစု၏ စစ်သားကောင်း ပီသမှုကို ပြသခဲ့သော အကြောင်း ကြောင့်ပေတည်း။

ထိုတိုက်ပွဲသည် ၁၈၅၄ ခုနှစ် အောက်တိုဘာလ ၂၅ ရက် နေ့တွင် ဗယ်လကလားဗာဆိပ်ကမ်းမြို့ကလေးအနီး၌ဖြစ်ပွား ခဲ့သည်။ အင်္ဂလိပ်၊ ပြင်သစ်၊ တူရကီတပ်များသည် ဗယ်လ ကလားဗာကို ခြေကုတ်စခန်းပြုကာ ဆီဗတ်စတိုပိုမြို့ကို ဝိုင်း ရံ လုပ်ကြံနေချိန်ဖြစ်၍၊ ရုရှတပ်များက မဟာမိတ်တပ်များ ကို တွန်းလှန် တိုက်ခိုက်လျက် ရှိသည်။ ရုရှ တပ်များသည် ဗယ်လကလားဗာမြို့ အနီး တောင်ကုန်း တောင်တန်းများ၌ တပ်စွဲထားသော မဟာမိတ်တပ်များကို အလစ်ဝင်ရောက် တိုက်ခိုက်သည်။ သို့သော် မဟာမိတ်တပ်များက ပြန်လှန် တွန်းလှန်လိုက်သဖြင့် ဆုတ်ပြေးရသည်။ ယင်းသို့ ဆုတ်ပြေး ရသော ရုရှတပ်များကို တပ်သား ခြောက်ရာကျော် ပါဝင် သော အင်္ဂလိပ်မြင်းတပ် တတပ်က လိုက်တိုက်လေသည်။

ယင်းသို့ အင်္ဂလိပ်မြင်းတပ်သားများက ရုရှတို့ကို လိုက် တိုက်ရာတွင် အထက်ကချမှတ်သော အမိန့်ကို ယင်းမြင်းတပ် အား ကွပ်ကဲသူ လော့လူကန်သည် အယူအဆလွဲသွားသည်။ ထိုကြောင့် မိမိ၏တပ်အား လက်ဝဲဖက်ရှိ ရုရှအမြောက်တပ် ကို တိုက်ခိုက် စေရမည့်အစား တောင်ကြား အဆုံးရှိ ရုရှ အမြောက်တပ်ရှိရာသို့ ချီတက်တိုက်ခိုက်စေသည်။ ထိုနေရာ သို့ ရောက်ရန်မှာ အင်္ဂလိပ် မြင်းတပ်သားများအဖို့ သေမင်း ခံတွင်းကို ဝင်ရောက်ရသည်နှင့် မခြားတော့ချေ။အကြောင်း မူ မြင်းတပ်သားတို့ ဖြတ်ကျော်ရမည့် လမ်းကြောင်း၏တဖက် တချက်တွင် ရုရှ တပ်များရှိနေပြီးလျှင် ယင်းတို့ချီတက် တိုက် ခိုက်ရမည့် ရုရှ အမြောက်တပ်ကလည်း ရှေ့မှဆီးကြို ပစ်ခတ် နေမည် ဖြစ်သောကြောင့်တည်း။

မြင်း တပ်သားများသည် အမိန့်ပေးမှားသည်ကို သိကြ သည်။ သို့ရာတွင် အမိန့်သည် အမိန့်ဖြစ်၍ စစ်သားကောင်း တို့မည်သည် အမိန့်ကို ပြန်လှန် ဆင်ခြေတက်ခွင့် မရှိ။ အမိန့် အတိုင်း ဆောင်ရွက်ရန်သာ ဖြစ်သည်။ ထိုကြောင့် ယင်းတို့ သည် သေမင်းခံတွင်းအတွင်းသို့ အပြင်းအထန် ချီတက်တိုက် ခိုက်ကြလေသည်။

တဖက်တချက် တောင်ကုန်း တောင်စောင်းများ ပေါ်မှ



ဗယ်လကလားဗာ တိုက်ပွဲတွင် ရန်သူအမြောက်တပ်အား ဗြိတိသျှ မြင်းတပ်သားများ ချဉ်းနင်း တိုက်ခိုက်စဉ်

နေရာ ကောင်းရထားသော ရုရှတပ်များကရင်း၊ ရှေ့မှ ရုရှ အမြောက်တပ်ကရင်း ယင်းတို့၏ ပစ်ကွင်းထဲသို့ တိုးဝင်လာသော အင်္ဂလိပ်မြင်းတပ်အား ကောင်းစွာ ပစ်ခတ်တိုက်ခိုက်နိုင်ပေရာ၊ ကျည်ဆံအမြောက်ဆံတို့သည် မိုးသီး မိုးပေါက်ပမာ တသဲသဲ ကျနေပြီးလျှင် တသောသော ညံနေတော့သည်။ မြင်းတပ်သားတို့ကား မိမိတို့၏ အသက်ကို ပမာဏမထား မရပ်မနား ဒရစပ် ကျရောက်နေသော ကျည်ဆံတို့ကြားထဲမှပင် ဒလကြမ်း ချီတက်၍ ရှပ်ရှပ်ချုံချုံ တိုက်ခိုက်ကြသည်။

ယင်းသို့သေမင်းခံတွင်း အတွင်းသို့ ဒလကြမ်း ချီတက်၍ ရှပ်ရှပ်ချုံချုံ တိုက်ခိုက် ခဲ့ကြသဖြင့် ရုရှ အမြောက်တပ်ကိုမူ သိမ်းပိုက်နိုင်ခဲ့၏။ သို့သော် တပ်သား ၆၀၀ ကျော် အနက် ၁၉၅ ယောက်မျှသာ မိမိတို့တပ်သို့ အရောက် ပြန်လာနိုင်ခဲ့ကြသည်။ အကျအဆုံးကား များပြားလှ၍ ဒဏ်ရာရသူများလည်း ချီတက်ရာ လမ်းကြောင်းတလျှောက် မြင်မကောင်းအောင် အတုံးအရုန်း ဖြစ်နေခဲ့လေသည်။

စစ်မိန့်ကို မှားမှန်းသိလျက်နှင့် ဦးလည်မသုံ၊ စစ်သားကောင်း ပီသစွာ အသေခံ၍ ချီတက် တိုက်ခိုက်ခဲ့ကြပုံကို အင်္ဂလိပ် ကဗျာစာဆိုတော်ကြီး လော့တင်နီဆန်က "မြင်းတပ်မဟာ ဖိတိုက်ခြင်း" အမည်ရှိ ကဗျာဖြင့် ခြီးကျူးဂုဏ်ပြုကာ ထို မြင်းတပ်မဟာတပ်သားတို့၏ ဂုဏ်ရည်ကို ဥဒါန်းတွင်ရစ်စေခဲ့လေသည်။

ယင်းသို့ ကမ္ဘာတွင် ဥဒါန်းတွင်ရစ်သော တိုက်ပွဲကလေးဖြစ်ပွားခဲ့ရာ ဗယ်လကလားဗာမြို့ကလေးမှာ ပင်လယ်နက်၏ ကရိုင်းမီးယား ကမ်းခြေပေါ်တွင် တည်ရှိသည်။ ဆီဗတ်စတိုပိုမြို့၏ အရှေ့တောင်ဖက် ၈ မိုင်ခန့်ဝေးသည်။ ဒုတိယကမ္ဘာစစ်အတွင်းကလည်း ဤဒေသတွင် ရုရှနှင့် ဂျာမန်တို့တိုက်ပွဲများဖြစ်ပွားခဲ့သေးသည်။ယခုအခါ ဆိပ်ကမ်းသာမြို့ကလေးဖြစ်၍ တံငါလုပ်ငန်းနှင့် ဝိုင် အရက်လုပ်ငန်းများရှိသည်။ ဆိုဗီယက် အစိုးရ လက်ထက်တွင် ဗယ်လကလားဗာမြို့ကို အခြား ဆိပ်ကမ်းမြို့များကဲ့သို့ တိုးချဲ့ပြုပြင်ခြင်း မရှိပေ။ အကြောင်းမူ ဗယ်လကလားဗာ ဆိပ်ကမ်းသည် မြင့်မားသော တောင်ကုန်း တောင်တန်းများ ဝန်းရံလျက်ရှိ၍ သဘော်ာ တစင်းစာမျှသာ ဝင်ပေါက် ထွက်ပေါက်ရှိသောကြောင့်တည်း။ ထို့ကြောင့် တိုးတက် စည်ကားခြင်း မရှိလှဘဲ လူဦးရေ (၁၉၃၉ ခုနှစ်) ၁,၃၀၀ ခန့်မျှသာ ရှိလေသည်။

**ဗယ်လပရိုက်ဇိုမြို့။** ။ဗယ်လပရိုက်ဇိုမြို့သည် တောင် အမေရိကတိုက်၊ ချီလီနိုင်ငံ၏ အကြီးဆုံး ပင်လယ်ဆိပ်ကမ်းမြို့ဖြစ်သည်။ ပစိဖိတ် ကမ်းခြေမြို့များအနက် အကြီးဆုံးနှင့် အ

စည်ကားဆုံးလည်း ဖြစ်သည်။ ချီလီနိုင်ငံ၏ မြို့တော် ဆန်တီယာဂို၏ အနောက်မြောက်ဖက် ၇၅ မိုင်ခန့်တွင်ရှိသည်။ လခြမ်းသဏ္ဍာန်ရှိသော ဗယ်လပရိုက်ဇိုပင်လယ်အော်၏တောင်ဖက် လက်တက်ပေါ် တွင် မြို့တည်ထားသည်။ ယင်းပင်လယ်အော်သည် အချင်း ၃ မိုင်ခန့်ရှိ၍ သုံးဖက် သုံးတန်၌ သဘာဝ အကာအကွယ် ရှိသည်။ သို့သော် မြောက်ဖက်တွင် လွတ်နေသဖြင့် လေမုန်တိုင်းဒဏ်ကို ခံနိုင်အောင် လှိုင်းကာတန်တိုင်းကြီးများကို(ထိုမှာဖက်၌ ရေနက်သဖြင့်) ခဲခဲယဉ်းယဉ်း ဆောက်လုပ် ပြုပြင်ထားရာ၊ ခေတ်မီ၍ ကောင်းမွန်သောဆိပ်ကမ်းမြို့ကြီး ဖြစ်လာလေသည်။

"ဗယ်လပရိုက်ဇို" သည် စပိန်အမည်ဖြစ်၍ "နတ်ပြည်ချိုင့်ဝှမ်း" ဟု အဓိပ္ပါယ်ရသည်။ ယင်းသို့ ခေါ် တွင်လောက်အောင်ပင် မြင်ကွင်းသာယာလှပသော မြို့ကြီး ဖြစ်သည်။ ပေ ၁၅၀ ကျော်အမြင့်ရှိသော တောင်ကုန်းတောင်တန်းများက မြို့၏ နောက်ခံအဖြစ် တည်ရှိနေကြရာ၊ ချဲ့ထွင်လာသော မြို့သည် တောင်စောင်း ဆင်ခြေလျှောများထက်သို့ တစတစ ရောက်ရှိ လာခဲ့သည်။ လူနေရပ်ကွက်၏ အိမ်ခြေ တိုက်တာတို့သည် တောင်စောင်း ဆင်ခြေလျှောများပေါ်၌ အဆင့်ဆင့် တည်ရှိ၍၊ စီးပွားရေးရပ်ကွက်တို့သည် သင်္ဘောဆိပ်ကမ်းနားတွင် တည်ရှိကြသည်။ ဗယ်လပရိုက်ဇိုမြို့သည် လှပ တင့်တယ်သော အဆောက်အအုံများ ကျောင်းများဖြင့်လည်း ပြည့်စုံသည်။ ချီလီနိုင်ငံ၏ ရေတပ် တက္ကသိုလ်သည် ဗယ်လပရိုက်ဇိုမြို့၌ ရှိသည်။ လှပကျယ်ပြန့်သော ဥယျာဉ်ပန်းခြံများလည်း ရှိ၍၊ ခရစ္စတိုဖာ ကိုလံဗပ်၊ ချီလီယန်ရေတပ်ကို စတင် တည်ထောင်ခဲ့သော ရေကြောင်း ဗိုလ်ချုပ် ကော့ကရိန်းစသည့် ပုဂ္ဂိုလ်ကျော်များ၏ ရုပ်တုများကို ပန်းခြံများအတွင်း၌ ထားရှိသည်။

ဗယ်လပရိုက်ဇိုမြို့သည် အရေးပါသော စက်မှု လုပ်ငန်းမြို့လည်း ဖြစ်သည်။ မြို့၏ အဓိက ထွက်ကုန်များမှာ ခြည်ထည်၊ စက်ကရိယာ၊ ဆေးလိပ်၊ သကြားနှင့် အရက်တို့ ဖြစ်သည်။ ထိုပြင် မီးရထားခေါင်းတွဲ လုပ်ငန်းနှင့် သင်္ဘောဖောင်ဒရီ လုပ်ငန်းများလည်း ရှိလေသည်။ အန်းဒီးတောင်ကို ဖြတ်၍ အာဂျင်တီးနားနိုင်ငံမှ ဗွေနိုဆိုင်းရက်မြို့နှင့် ဆက်သွယ်ထားသော အန်းဒီးတောင်ကျော် မီးရထားလမ်းကြောင့် ဗယ်လပရိုက်ဇို သင်္ဘောဆိပ်သည် ပို၍ကုန်တင် ကုန်ချ များပြားစည်ကားသည်။ ဆန်တီယာဂိုမြို့နှင့် လျှပ်စစ်မီးရထားလမ်းဖြင့် အဆက်အသွယ်ရှိ၍၊ အခြား လျှပ်စစ်မီးရထားလမ်းတလမ်းသည် ချီလီနိုင်ငံအတွင်းဖက်၊ သတ္တုတွင်းဒေသနှင့် ဆက်သွယ် ထားလေသည်။

ဗယ်လပရိုက်ဇိုမြို့ကို စပိန်လူမျိုး ဟွမ် သေ ဆာအားဗေးထရားက ၁၅၃၆ ခုနှစ်တွင် စတင် တည်ထောင် ခဲ့သည်။ တည်ထောင်ပြီးစအခါက တိုင်းရင်းသား အင်ဒီးယန်းများ၏ နှောင့်ယှက် တိုက်ခိုက်မှုကို မကြာခဏခံခဲ့ရသည်။ ၁၅၇၈ ခုနှစ်တွင် အင်္ဂလိပ်ရေကြောင်းဗိုလ် ဆာ ဖရန်းစစ် ဒရိတ်က လာရောက် တိုက်ခိုက်သိမ်းပိုက်ခဲ့သေးသည်။ ထိုပြင် အခြားဗြိတိသျှ ရေကြောင်းဗိုလ်တဦးဖြစ်သော ဆာ ရစ်ချတ် ဟော့ကင်းကလည်း ၁၅၉၄ ခုနှစ်တွင်မြို့ကိုတိုက်ခိုက်လုယက်ခဲ့သေးသည်။ ထိုနောက် ၆ နှစ်အကြာတွင် ဒပ်ချရေတပ်သားတို့၏ လုယက်ဖျက်ဆီးခြင်းခံရပြန်သည်။ စပိန်ရေတပ်ကလည်း မြို့ကို ၁၈၆၆ ခုနှစ်တွင် အမြောက်နှင့် ပစ်ခွင်းဖျက်ဆီးသေးသည်။ ၁၈၉၁ ခုနှစ်အတွင်းက ပြည်တွင်း စစ်ဒဏ်ကြောင့် မြို့ပျက်ခဲ့ရပြန်သည်။ ထိုပြင် ငလျင်ဒဏ်ကိုလည်း မကြာခဏ ခံရသော မြို့ဖြစ်သည်။ အထူးသဖြင့် ၁၉၀၆ ခုနှစ် ငလျင်ဒဏ်ကြောင့် ဗယ်လပရိုက်ဇိုမြို့သည် အကြီးအကျယ် ပျက်စီးခဲ့ရသည်။ သို့သော် ပြန်လည် ပြုပြင်တည်ဆောက်ခဲ့သဖြင့် ယခုအခါ ခေတ်မီလှပသော မြို့ကြီး တမြို့ဖြစ်နေလေပြီ။ လူဦးရေမှာ (၁၉၅၇ ခုနှစ် သန်းကောင်စာရင်းအရ) ၂၅၀,၀၀၀ ကျော် ဖြစ်လေသည်။

**ဗယ်လေ။** ။ဗယ်လေသည် အနောက်တိုင်း သဘင်လောက၌ ထင်ရှားသော ပြဇာတ် တမျိုးဖြစ်သည်။ တဦးချင်းသော်၎င်း၊ အစုအဖွဲ့နှင့်သော်၎င်း ကပြကြရသည်။ "ဗယ်လေ" သည် ပြင်သစ်စကားလုံး ဖြစ်၍ ရှေးလက်တင်စကား "ဗယ်လာရီ" (ကရန်) မှ ဆင်းသက်လာသည်။ ဇာတ်လမ်းဇာတ်ကွက်ကို၎င်း၊ ဇာတ်ကောင်၏ စိတ်အခြေအနေကို၎င်း အဆိုအပြောမပါဘဲ အကနှင့် ဟန်အမူအရာတို့ဖြင့် သရုပ်ဖော်ပြခြင်းဖြစ်ရာ၊ အချို့က ကဇာတ်၊ သို့မဟုတ် သရုပ်ဖော်အကဟု ဆိုကြသည်။

ဗယ်လေတွင် အဓိက အချက်သည် ဂီတဖြစ်သည်။ အချို့က ဗယ်လေသည် တေးဂီတကို သရုပ်ဖော်သော အကဟု ဆိုကြသည်။ဗယ်လေတခုအတွက် ယင်းနှင့်ဆိုင်ရာ တေးဂီတတို့ကိုစပ်ဆိုကြရသည်။ တခါတရံ ဇာတ်လမ်းပါသော တေးဂီတတို့ကို ဗယ်လေဖြင့် သရုပ်ဖော်ကြသည်။ တေးဂီတအပြင်၊ အဝတ်အစား၊ အခမ်းအနား၊ အလင်းအမှောင်၊ မီးရောင်အယူအဆတို့သည်လည်း ဗယ်လေအတွက် အရေးပါသော အစိတ် အပိုင်းများဖြစ်ကြလေသည်။ ဗယ်လေကပွဲ အတွက် ကကြိုး ကကွက် ဟန်အမူအရာ စသည်တို့ကို တီထွင်စီစဉ်ညွှန်ကြားသူအား ကော်ရီယိုဂရပ်ဖာ၊ သို့မဟုတ် ဗယ်လေဒါရိုက်တာဟု ခေါ် သည်။ ထူးချွန်သော ကော်ရီယိုဂရပ်ဖာများ၏ ထွင်ဉာဏ်၊ ပြင်ဉာဏ်တို့ကို အကြောင်းပြု၍ ဗယ်လေတွင် တိုးတက်မှု များစွာ ရှိခဲ့လေသည်။

ဗယ်လေသည် ရှေးရောမနှင့် ဂရိတို့၏ ပန်တိုမိုင်းခေါ် ဟန်ဇာတ်တမျိုးမှ ဆင်းသက်လာ၍ ဣတလီနိုင်ငံတွင် ခရစ်နှစ် ၁၄၅၀ ခန့်ကစပြီး ပေါ် ပေါက်လာသည်။ (ပန်တိုမိုင်းဟန်



ကမ္ဘာကျော် ရုရှ ဗယ်လေ ကဟန်တရပ်

ဇာတ် — ရှု။) အလွန်ငွေကုန်ကြေးကျ များသော ကပွဲမျိုး ဖြစ်၍ ထိုစဉ်က မင်းစိုးရာဇာအထက်တန်းစား လောကဌ်သာ ခေတ်စား ခဲ့သည်။ နောက်အနှစ်တရာခန့်အတွင်း ဗယ်လေသည် ဣတာလီနိုင်ငံတွင် ဖွံ့ဖြိုး ထွန်းကား လာသည်။ ၁၆ ရာစုနှစ် အစပိုင်းတွင် ဣတာလျံ မင်းသမီး ကက်သရင်း ဒါမဲဒီချီသည် ပြင်သစ်ဘုရင်၏ မိဖုရား ဖြစ်လာသော အခါ ဗယ်လေသည် ပြင်သစ် နန်းတွင်း၌ ခေတ်စားလာသည်။ ယင်းသို့ဖြင့် ဗယ်လေသည် ဣတာလီမှ ပြင်သစ်နိုင်ငံသို့ ကူးစက်ပျံ့နှံ့သွားသည်။ ပြင်သစ်ဘုရင် ၁၄ ဆက်မြောက် လူဝီသည် ဗယ်လေကို ခြီးမြှင့်မြှောက်စားသည်။ ကိုယ်တော်တိုင် ဗယ်လေကဇာတ် တခု၌ ခေါင်းဆောင် ပါဝင်ခဲ့သည်။ လူဝီဘုရင်သည် ဂီတနှင့် အက အကယ်ဒမီ ကျောင်းကို တည်ထောင်ခဲ့ရာ၊ ထိုကျောင်းသည် ခေတ်သစ်ဥရောပ ဗယ်လေ စတင်ပေါက်ဖွားရာ ဌာနဖြစ်ခဲ့သည်။ ထိုပြင် ဗယ်လေသည် တော်သုံးအဖြစ်မှ လူထုသုံး သဘင်တရပ်လည်း ဖြစ်လာလေသည်။

ထိုစဉ်က ဗယ်လေတွင် အကတလှည့် အဆို၊ သို့မဟုတ် လက်ာရွတ်ခြင်းတလှည့် ဖြစ်သည်။ ၁၆၀၀ ပြည့်နှစ်ခန့်တွင် အော်ပရာခေါ် ဂီတပြဇာတ်ကို စတင်ရေးသား ပြသခဲ့ရာ၊ ဗယ်လေကို အော်ပရာ၌ ချပ်၍ ကပြလေ့ ရှိခဲ့သည်။ ဗယ်လေအခန်းကို အော်ပရာ ဇာတ်ကွက်အလယ်၌သော်၎င်း၊ ခေတ္တရပ်နားချိန်၌သော်၎င်း ကပြအသုံးတော်ခံလေ့ ရှိကြသည်။

၁၆ရာစုနှစ်အတွင်း ကြေးစား ဗယ်လေ ကခြေသည်များ ပေါ်ပေါက်လာသည်။ ပဌမတွင် အမျိုးသား၊ နောင်အခါ အမျိုးသမီး ကခြေသည်များ ပါရှိလာသည်။ ၁၄ ဆက်မြောက် လူဝီဘုရင်၏ လက်ထက်တွင် ဖွံ့ဖြိုးခဲ့သော ဗယ်လေသည် နောင်အခါတွင် စည်းကမ်းစံနစ်၊ အသိုင်း အဝိုင်း များများလွန်းပြီးလျှင် သမရိုးကျအတိုင်းရှိနေ၍ မတိုးတက်ဘဲနေခဲ့ရာ၊ ၁၈ ရာစုနှစ်ထဲတွင် ဇန်း ဇော့ဇက်နိုဗားသည် ဗယ်လေကို အဆိုအပြောမပါဘဲ အကနှင့် ဟန်အမူအရာ သက်သက်ဖြစ်အောင်ပြုပြင်လိုက်သည်။ ဗယ်လေ ကပြသူတို့အား ရှေးစံနစ်ဖြစ်သော မျက်နှာဖုံးစွပ်ခြင်းကိုလည်း မပြုစေတော့ပေ။ ထိုပြင် အဝတ်တန်ဆာများကို ပို၍လှပအောင်ပြုပြင်ပြီးလျှင် အမူအရာတို့ကို ပို၍သဘာဝကျစေခဲ့လေသည်။

၁၈ ရာစုနှစ် အလယ်ပိုင်းလောက်တွင် ဗယ်လေသည် ဥရောပတိုက်၌ အတန်ငယ် ခေတ်တိမ်လာသည်။ ယင်းသို့ မှေးမှိန် လာသော ဗယ်လေကို ပြန်လည် အရောင်ထွက်လာစေသူမှာ ရုရှမှ ကော်ရီယိုဂရပ်ဖာ (ဗယ်လေဒါရိုက်တာ) တဦးဖြစ်သော မီရှယ် ဖိုးကင်း ဖြစ်သည်။ မီရှယ် ဖိုးကင်းသည် ရှေးရိုးဗယ်လေကို ဆန်းသစ်လှပသော ဗယ်လေ သဘင်ဖြစ်လာအောင် စီစဉ်မွမ်းမံတီထွင် လိုက်သည်။ ဗယ်လေကဇာတ်သည် ရုရှသို့လည်း ပြန့်ပွားရောက်ရှိခဲ့ရာ ၁၇၃၅ ခုနှစ်ခန့်က ရုရှတွင် အင်ပီးရီးယယ် ဗယ်လေအတတ်သင်ကျောင်း တည်ထောင် ခဲ့သည်။ ထိုကျောင်း၌ သင်ပြသော ဆရာကောင်းများကြောင့် ရုရှနိုင်ငံတွင် ဗယ်လေသည် များစွာ တိုးတက်ခဲ့သည်။ နိုင်ငံရပ်ခြားမှ ဗယ်လေ ဒါရိုက်တာ အကျော်အမော်တို့သည် ရုရှဗယ်လေကို အဆင့်အတန်း မြင့်သည်ထက် မြင့်အောင် ဖန်တီး သင်ကြားပေးကြသည်။ သို့သော် ၁၈ ရာစုနှစ် အလယ်ပိုင်းတွင် ဗယ်လေသဘင် ညှိုးမှိန်လာရာ မီရှယ် ဖိုးကင်းက ပြန်လည် မြှင့်တင်ပေးခဲ့လေသည်။

မီရှယ် ဖိုးကင်းသည် ဆီယာဂျီ ဒယာဂီလျက် စီမံအုပ်ချုပ်သောဗယ်လေအဖွဲ့ကို ၁၉၀၉ ခုနှစ်တွင် ပါရစ်မြို့၌ ပွဲထုတ်စေခဲ့ရာ၊ ဆန်းသစ်လှပသော ရုရှဗယ်လေသည် အလွန်ကျော်ကြားသွားလေသည်။ ယင်းအဖွဲ့တွင် အမျိုးသားဗယ်လေ အကဝိဇ္ဇာ ညီဇင်းစကီးနှင့် အမျိုးသမီး ဗယ်လေအကဝိဇ္ဇာ အန္နာ ပါဗလိုဗာတို့ ပါဝင်သည်။ ယင်းတို့အဖွဲ့ ကပြတင်ဆက်သော ဗယ်လေကဇာတ်တို့မှာ "ရှီဟာရာဇားဒီ"၊ "ပီထရော့ရှကာ"၊ "မီးငှက်"၊ "ငန်းရေအိုင်" စသည်တို့ဖြစ်၍ ထူးကဲလှပတင့်ဆန်းလှပေသည်။ ယင်းတို့ကို နှစ်ပေါင်း များစွာ မရိုးတမ်း ကပြခဲ့ရလေသည်။ ဒယာဂီလျက် ခေါင်းဆောင်သော ယင်းတို့အဖွဲ့သည် အင်္ဂလန်နှင့် အမေရိကန် ပြည်ထောင်စုတို့၌လည်း ကပြအသုံးတော် ခံခဲ့၍ အလွန်တရာ ခြီးကျူးအားပေးမှုကို ခံခဲ့ရပြီးသော် ကမ္ဘာကျော် ကြားခဲ့လေသည်။

ရုရှတွင် ဒယာဂီလျက် ကွယ်လွန်ပြီးသည့်နောက်တွင်ဗယ်လေအဖွဲ့များစွာ ပေါ်ပေါက်ခဲ့သည်။ အစိုးရ အုပ်ချုပ်ရေးစံနစ် ပြောင်းသွားသော်လည်း ဗယ်လေသဘင်မှာမူ အစိုးရအဆက်ဆက်၏အားပေးကူညီမှုကို ရရှိလျက်ပင်ရှိလေသည်။

ဒယာဂီလျက်တို့ အဖွဲ့လာရောက် ကပြသွားပြီးနောက်၊ အမေရိကန်နှင့် အင်္ဂလန်တို့တွင်လည်း ဗယ်လေသည် ဆက်လက်ခေတ်စား နေခဲ့သည်။ ဗယ်လေအကသင်ကျောင်းများ ဗယ်လေအဖွဲ့များ ပေါ်ပေါက်ခဲ့သည်။ အမေရိကန် ပြည်ထောင်စုတွင် ဗယ်လေ ကရဗန်အဖွဲ့၊ ဖိလဒဲလဖီးယား ဗယ်လေအဖွဲ့၊ ပေ့ (ဂျ) စတုန်း ဗယ်လေအဖွဲ့၊ ဆန်ဖရန်စစ္စကို ဗယ်လေအဖွဲ့များသည် နာမည်ရသော အဖွဲ့များဖြစ်သည်။ အထူးသဖြင့် ဒုတိယကမ္ဘာစစ်ပြီး ကာလတွင် ဗယ်လေသည် အမေရိကန်ပြည်ထောင်စု၌ ပိုမိုခေတ်စား၍ အဆင့်အတန်း တိုးတက်လာသည်။ ထိုပြင် အင်္ဂလန်ရှိ ဆက်ဒလာဝဲဗယ်လေ အကသင်ကျောင်းမှ ဗယ်လေအကဝိဇ္ဇာများစွာ ပေါ်ထွက်ခဲ့လေသည်။ ကမ္ဘာတွင် အကျော်ကြားဆုံး ဖြစ်ခဲ့သော ဗယ်လေ အကဝိဇ္ဇာ နှစ်ဦးမှာ ရုရှမှအန္နာပါဗလိုဗာနှင့် ဒိန်းမတ်မှ အဒဲလီ နဲရှီနီတို့ ဖြစ်ကြသည်။

ပြောင်မြောက်သော ဗယ်လေကခြေသည်တဦး ဖြစ်လာရန်မှာ လွယ်ကူသည် မဟုတ်ချေ။ ငယ်ရွယ်စဉ်ကစ၍ နှစ်ပေါင်း များစွာ ထိထိရောက်ရောက်၊ ပြင်းပြင်းထန်ထန် လေ့

ကျင့် ရသည်။ ရုရှ အင်ပီးရီးယယ် ဗယ်လေ အတတ်သင်ကျောင်းတွင် အသက် ၇ နှစ်မှ ၆ နှစ်အထိ ကလေး သူငယ်များကို စတင် သင်ကြားပေးသည်။ ဗယ်လေ ကသည့် အခါ စီးသောဖိနပ်မျိုးကို သင်ကြားမှုအခြေခံ ၂ နှစ်ကျော်မှသာ စီး၍ လေ့ကျင့်ခွင့်ရသည်။ ဗယ်လေကခြေသည် တဦးအဖို့ ကကြိုး ကနည်းများကို ကျွမ်းကျင်ရုံသာမက၊ ဂီတ၊ ပန်းချီနှင့် ပန်းပုအတတ်တို့ကိုပါ နားလည်ထားရန် လိုအပ်ပေသေးသည်။

**ဗဲ့၊အယ်လက်ဇန္ဒာဂရေဟမ်** (ခရစ် ၁၈၄၇–၁၉၂၂)။ ။ တနေရာမှ တနေရာ၊ တမြို့မှ တမြို့၊ တနိုင်ငံမှ တနိုင်ငံသို့ တဦးနှင့် တဦး စကား ပြောဆို ဆက်သွယ် နိုင်အောင် ဆောင်ရွက်သော စကားပြောကြေးနန်း (စကားပြောကြေးနန်း — ရှု။) ကို စတင်တီထွင်ခဲ့သူမှာ အယ်လက်ဇန္ဒာ ဂရေဟမ်ဗဲ ဖြစ်လေသည်။ ယခုခေတ်၌ အသုံးပြုလျက်ရှိကြသော စကားပြောကြေးနန်းများသည် ဗဲ၏ ခေတ်မှစတင်၍ အဆင့်ဆင့် ပြုပြင်မှုဖြင့် တိုးတက်လာခဲ့ခြင်း ဖြစ်သည်။ ဗဲသည် စင်စစ် ငယ်စဉ်ကတည်းက သိပ္ပံပညာကို လေ့လာဆည်းပူးခဲ့သူ မဟုတ်သော်လည်း၊ သိပ္ပံဆိုင်ရာတီထွင်မှုများစွာကို ပြုခဲ့က၊ လူ့လောက အကျိုးကို သည်ပိုး ဆောင်ရွက်ပေးခဲ့သော လူ့လောကသားတို့၏ ကျေးဇူးရှင်ကြီး တဦးဖြစ်ပေသည်။ ထိုကြောင့်များစွာသော တက္ကသိုလ်နှင့် သိပ္ပံပညာအသင်းများက သိပ္ပံပညာရှင်ကြီး တဦးအဖြစ် ဂုဏ်ပြုခြင်းကို ခံခဲ့ရလေသည်။

ဗဲသည် စကော့လူမျိုးဖြစ်၍၊ စကော့တလန်ပြည် အက်ဒင်ဗာရာမြို့၌ ၁၈၄၇ ခုနှစ်တွင်ဖွားမြင်သည်။ အက်ဒင် ဗာရာ တက္ကသိုလ်နှင့် လန်ဒန် တက္ကသိုလ်တို့တွင် ပညာဆည်းပူးခဲ့သည်။ ၁၈၇၀ ပြည့်နှစ်တွင် ကျန်းမာရေး အခြေအနေအရ၊ မိဖများနှင့်အတူ ကနေဒါ နိုင်ငံသို့ ပြောင်းရွှေ့အခြေစိုက်ခဲ့ကြသည်။ဗဲ၏အဖိုးနှင့် ဖခင်တို့သည် စကားသံပညာကိုတတ်ကျွမ်း၍ ဆွံ့အ နားထိုင်းသူများအား စကားပြောနည်း သင်ပေးခြင်းတို့ကို ဆောင်ရွက်ရာ၌ ထင်ရှားခဲ့သည်။ ထိုကြောင့် ဘမျိုးဘိုးတူသော ဗဲသည်လည်း ဆွံ့အ နားထိုင်းသူများ၏ ဆရာ ဖြစ်လာသည်။ နောင်အခါ ဗော့စတန်တက္ကသိုလ်တွင် အသံဇီဝကိစ္စဗေဒပါမောက္ခအဖြစ် ဆောင်ရွက်ရလေသည်။

ထိုအချိန်တွင် ကြေးနန်းလုပ်ငန်းသည် ခေတ်စား၍လျင်မြန်စွာ တိုးတက်လျက် ရှိသည်။ ဗဲသည် ကြေးနန်းကြိုး တကြိုးတည်းဖြင့် ကြေးနန်းများစွာ တချိန်တည်း ပို့နိုင်ရန် "မာလတီပလက်" နည်းကို ကြံစည်သည်။ ထို့ပြင် လူ၏ စကားသံကို ကြေးနန်းကြိုးဖြင့် တဖက်မှ တဖက်သို့ ပို့ဆောင်နိုင်ရန်ကိုလည်း ကြံစည်သည်။ ဗဲသည် အသံဇီဝကိစ္စ ဗေဒပညာရှင် တဦးဖြစ်သဖြင့် လူတို့၏ စကားသံထွက်ပုံ၊ ပြောပုံ ပြောနည်းတို့ကို ကျွမ်းကျင်သူဖြစ်သည်။ စင်စစ် ဗဲသည် လျှပ်စစ်ဓာတ်အကြောင်းကို ကျွမ်းကျင်သူ မဟုတ်သော်လည်းအချိန်အားရသည့်အခါတိုင်း သူ၏ လက်ထောက်ဖြစ်သော စက်ဆရာ တောမတ် အေ ဝပ်ဆင်နှင့်အတူ သုတေသနပြုကာ အမျိုးမျိုး ကြံဆစမ်းသပ် လုပ်ကိုင်ခဲ့လေသည်။



စကားပြော ကြေးနန်းကို တီထွင်ခဲ့သူ အယ်လက်ဇန္ဒာ ဂရေဟမ်ဗဲ

၁၈၇၄ ခုနှစ် ဇွန်လထဲတွင် ဗဲသည် စကားပြောကြေးနန်း၏အခြေခံစနစ်ကို အမှတ်မထင် စမ်းသပ်တွေ့ရှိခဲ့သည်။ သူ၏ ဝမ်းမြောက်ပျော်ရွှင်မှုကား ဖော်မပြနိုင်လောက်အောင် ဖြစ်တော့၏။ ဗဲသည် ထိုစနစ်ကို အခြေခံထား၍၊ တိုးတက် ကြံစည်လုပ်ကိုင်ကာ၊ ၁၈၇၆ ခုနှစ်တွင်စကားပြောကြေးနန်း တီထွင်မှု မူပိုင် မှတ်ပုံတင်ခွင့်ကို ရုံးတော်၌ လျှောက်ထားရရှိခဲ့လေသည်။

ဗဲသည် ၁၈၇၆ ခုနှစ် ဖိလဒဲလဖီးယားမြို့ နှစ်တရာပြည့် ပြပွဲပြိုင်ပွဲတွင်လျှပ်စစ်ဓာတ်၏ ဖြစ်ထွန်းမှုတရပ်ဖြစ်သောစကားပြောကြေးနန်း ကရိယာကို တင်ပြနိုင်ခဲ့လေရာ၊ ကြေးနန်းကြိုးတဖက်မှ စကားပြောသံကို ကြေးနန်းကြိုးတဖက်မှကြားကြရသော ပြပွဲလာပရိသတ်တို့မှာ အံ့မခန်းနိုင်အောင် ဖြစ်ကြရလေသည်။

ဗဲသည် အခြားတီထွင်မှုများစွာကိုလည်း ပြုခဲ့သေးသည်။

သို့သော် စကားပြောကြေးနန်းလောက် လူသုံးမများခဲ့ဘဲ၊ အရေးပါ အရာရောက်ခြင်းလည်း မရှိခဲ့ပေ။ ဗဲ၏ တီထွင်မှုများထဲတွင် တုန်ခါနေသော အလင်းရောင်ခြည်ကို သုံးကာ ကိုက် ၂၅၀ ခန့်အသံလွှင့်နိုင်သော ရေဒီယိုဆန်ဆန် ကရိယာတမျိုးလည်း ပါဝင်သော်လည်း၊ ဆက်လက်၍ တိုးတက်ကောင်းမွန်အောင်ပြုပြင်ကြံစည်ခြင်း မရှိခဲ့ပေ။ ထိုပြင် ဂရပ်ဖိုဖုန်းခေါ် ဖယောင်းခဲတတ်ပြားချပ်များကို စတင်အသုံးပြုသည့်ကရိယာတမျိုးကိုလည်း တီထွင် ခဲ့သေးသည်။ ကိုယ်ခန္ဓာထဲသို့ ဝင်သွားသည့် ကျည်ဆန်ကို လူနာအား မနာကျင်စေဘဲ ကျည်ဆန်တည်နေရာကို စမ်းသပ်ရှာဖွေပေးနိုင်သဖြင့် ဆရာဝန်တို့အတွက်အကျိုးအလွန်ရှိသောတယ်လီဖုန်းစမ်းတံတမျိုးကိုလည်း ဗဲသည် တီထွင်ခဲ့သည်။ ဗဲသည် လေထဲတွင် ပျံသန်းခြင်းနှင့် စပ်လျဉ်းသော တီထွင်မှုတို့၌လည်း စိတ်ဝင်စားပေရာ၊ စွန်လွှတ်ကြည့်ခြင်းဖြင့် အရေးပါသော လေထဲပျံသန်းမှု အခြေခံအချက်အလက်များကို တွေ့ရှိခဲ့လေသည်။

ဗဲသည် စိတ်သဘောထား အလွန်ကောင်းမွန်၍ သူတပါးအား အလွန်ကူညီ ယိုင်းပင်းတတ်သူဖြစ်သည်။ ပျော်ပျော်လည်းနေတတ်သည်။ သူသည် ၁၉၂၂ ခုနှစ်တွင် ကနေဒါနိုင်ငံ၊ ကိပ်ဗရက်တန်ကျွန်းရှိ သူ၏ နွေရာသီဂေဟာ၌ကွယ်လွန်သွားလေသည်။ သူတီထွင်ခဲ့သော စကားပြောကြေးနန်းသည် ခရီးအလွန်ကွာဝေးသော နေရာများကို နီးစပ်အောင် ဆက်သွယ်ပေးသည့် အခြေအထိ တိုးတက်လာသည်ကို တွေ့မြင်သွားရ သော်လည်း၊ စကားပြော ကြေးနန်း သံများကြောင့် သူ၏ စမ်းသပ်မှုများတွင်အနှောင့်အယှက် ဖြစ်ခဲ့ရသဖြင့်၊ သူကိုယ်တိုင်ကမူ စကားပြော ကြေးနန်းကို မနှစ်ခြိုက်နိုင်အောင် ဖြစ်ခဲ့ရသည်ဟု ဆိုလေသည်။

**ဗဲရင်းပင်လယ်။** ။ဗဲရင်း ပင်လယ်သည် ပစိဖိတ်သမုဒ္ဒရာ၏ မြောက်ဖက်ဆုံး အစိတ်အပိုင်း ဖြစ်သည်။ မြောက်အမေရိကတိုက်ရှိ အလာစကာပြည်နယ်နှင့် အာရှတိုက်၏ အရှေ့



ဗဲရင်း ပင်လယ်တွင်း ရှိ သိပ္ပံသုတေသန ရေငုပ်သင်္ဘော စူးစမ်း ရှာဖွေ လေ့လာနေစဉ်

ဖက်ကမ်းရိုးတန်း အကြားတွင်ရှိ၍၊ အလျူးရှင်းကျွန်း၏ မြောက်ဖက်ကျသည်။ ဗဲရင်းရေလက်ကြားသည် ဗဲရင်းပင်လယ်ကို အာတိတ်သမုဒ္ဒရာမှ ပိုင်းခြားထား၍၊ အလျူးရှင်းကျွန်းသည် ဗဲရင်းပင်လယ်ကို ပစိဖိတ်သမုဒ္ဒရာမှ ပိုင်းခြားထားလေသည်။

ဗဲရင်းပင်လယ်သည် မြောက်မှ တောင်သို့ အလျား မိုင် ၁,၀၀၀ ခန့်ရှည်လျား၍၊ အရှေ့မှအနောက်သို့မိုင် ၁,၅၀၀ ခန့် ကျယ်ဝန်းသည်။ ဗဲရင်း ရေလက်ကြားတွင်မူ အလာစကာ ပြည်နယ်နှင့် အာရှတိုက်တို့သည် ၅၄ မိုင်ခန့်မျှသာ ကွာဝေးလေသည်။ ပင်လယ်၏ အနက်သည် ပျမ်းမျှခြင်းအားဖြင့် ၄,၇၀၀ ပေရှိရာ၊ အနက်ဆုံးနေရာတွင် ပေပေါင်း ၁၃,၄၀၀ ကျော်ခန့် ရှိလေသည်။

ဗဲရင်းပင်လယ်ထဲတွင် ကျွန်းကလေးများ၊ ရေလက်ကြားများ များစွာ ရှိသည်။ ပရစ်ဗီလော့ကျွန်းသည် အရေးအပါဆုံးသော ကျွန်းဖြစ်သည်။ ထိုပင်လယ်သည် ကမ္ဘာ့ အအေးပိုင်းဒေသ၌ တည်ရှိသဖြင့် ပင်လယ်၏ မြောက်ဖက်ပိုင်းသည် ဆောင်းရာသီတွင် လပေါင်းများစွာ ရေခဲ နေတတ်သည်။ နွေရာသီတွင်မူ ပင်လယ်တခုလုံးသည် ရေခဲခြင်းမှ ကင်းလွတ်သဖြင့် ကူးသန်းသွားလာနိုင်ပေသည်။ အာရှတိုက်ဖက်မှ၎င်း၊ မြောက်အမေရိကတိုက်ဖက်မှ၎င်း မြစ်များစွာ ဗဲရင်းပင်လယ်ထဲသို့ စီးဝင်ရာ၊ ယင်းတို့တွင် အလာစကာပြည်နယ်မှ ယူးကွန်းမြစ်နှင့် ဆိုက်ဗီးရီးယားပြည်မှ အနာဒါမြစ်တို့လည်း ပါဝင်သည်။

ရှေးအခါက ဗဲရင်းပင်လယ်ကို ကမ်ချက်ကာ ပင်လယ်ဟုလည်း ခေါ်တွင်သည်။ နောင်အခါ ရုရှဇာဘုရင် ပီတာ—သ—ဂရိတ်က ဗဲရင်းပင်လယ်၏အကျိုးအကြောင်းကို စုံလင်စွာ သိရှိလို၍ စေခိုင်းသဖြင့် ထိုပင်လယ်ကို သေချာစွာစူးစမ်းလေ့လာတိုင်းထွာမှတ်တမ်း တင်ခဲ့သူ ဒိန်းမတ်လူမျိုး ဗီတူးဗဲရင်းကို ဂုဏ်ပြုသောအားဖြင့် ဗဲရင်းပင်လယ်ဟုခေါ်ဝေါ်ခဲ့သည်။ စင်စစ်သော်ကား ရုရှကော့ဆက်လူမျိုး ဒက်ရှနက်ဆိုသူသည် ၁၆၄၈ ခုနှစ်တွင် ထိုပင်လယ်ကို စတင် တွေ့ရှိခဲ့လေသည်။

ဗဲရင်းပင်လယ်သည် ပင်လယ်ဖျံသားမွေး အမြောက်အမြားထွက်ရာ ဒေသ ဖြစ်သည်။ ပရစ်ဗီလော့ ကျွန်းသည် ပင်လယ်ဖျံ သားမွေးလုပ်ငန်း၏ အချက် အခြာ ဌာန ဖြစ်သည်။ ၁၈၆၇ ခုနှစ်တွင် အမေရိကန် ပြည်ထောင်စု အစိုးရက ရုရှအစိုးရထံမှ အလာစကာပြည်နယ်ကို ဝယ်ယူပြီးသည့်နောက်တွင် ဂရိတ်ဗြိတိန်နှင့် အမေရိကန်ပြည်ထောင်စုတို့သည် ဗဲရင်းပင်လယ်အတွင်း ပင်လယ်ဖျံဖမ်းဆီးရေးနှင့် စပ်လျဉ်း၍ အကြီးအကျယ် အချင်းများခဲ့ဘူးလေသည်။

**ဗဲလဂရိတ်မြို့။** ။ယူဂိုစလားဗီးယား ပြည်ထောင်စု နိုင်ငံ၏မြို့တော် ဖြစ်၍ အကြီးဆုံး မြို့လည်း ဖြစ်သည်။ ထို့ပြင် ပြည်ထောင်စုဝင် ပြည်နယ်တခု ဖြစ်သော ဆားဗီးယားပြည်နယ်၏ မြို့တော်လည်း ဖြစ်သည်။ ဆဗ်ဘာသာဖြင့် ဗဲယိုဂရက်ဟုလည်း ခေါ်တွင်၍ "ရဲတိုက်ဖြူ" ဟု အနက်ရသည်။ ရှေးရှေးအခါကမူ ဆင်ဂျီဒျူနမ်ဟု ခေါ်လေသည်။ ထို့ပြင် ၁၇ ရာစုနှစ်မှ ၁၉ ရာစုနှစ်အထိ တူရကီတို့က ဗဲလဂရိတ်မြို့ကို "သာသနာ့စစ်မြေ" ဟု ခေါ်ဆိုခဲ့ကြလေသည်။

ဗဲလဂရိတ်မြို့သည် ဒန်းညူမြစ်တွင်းသို့ ဆားဗားမြစ်စီးဝင်ပေါင်းဆုံရာတြိဂံမြေပေါ်တွင်ဒန်းညူမြစ်၏ လက်ျာဖက်ကမ်း



ဗဲလဂရိတ်မြို့တော်၏ နံနက်ခင်း ရှုခင်းတရပ်

ပေါ်၌ တည်ရှိသည်။ မြစ်လမ်းဖြင့်သော်၎င်း၊ မီးရထားလမ်းဖြင့်သော်၎င်း ကူးသန်းသွားလာရေး လမ်းဆုံကျသော မြို့ဖြစ်သည်။ နိုင်ငံတွင်း မီးရထားလမ်းဆုံမြို့ဖြစ်သည်သာ မက ပါရစ်၊ ဘာလင်နှင့် ဗီယင်းနားစသော ဥရောပအနောက်ပိုင်းနှင့် အလယ်ပိုင်းမြို့ကြီးများမှ အရှေ့ဥရောပနိုင်ငံများသို့သွားရာ မီးရထားလမ်းဆုံလည်း ဖြစ်သည်။ ထို့ပြင် ဗဲလဂရိတ်မြို့သည် ကမ္ဘာ့လေကြောင်း လမ်းပေါ်၌လည်း တည်ရှိသည်။ ယင်းကဲ့သို့ ကူးသန်းသွားလာရေး လမ်းဆုံမြို့ကြီး ဖြစ်သဖြင့် ယူဂိုစလားဗီးယားနိုင်ငံ တခုလုံး၏ ကုန်သွယ် ဖောက်ကားမှုအတွက်သာမက ဖော်လကန်နိုင်ငံများနှင့် ဥရောပအလယ်

ပိုင်းနိုင်ငံများ၏ ကုန်ပစ္စည်း ဖလှယ် ရောင်းဝယ်မှုအတွက်လည်း အချက်အခြာမြို့ ဖြစ်သည်။ ထို့ကြောင့် ဗဲလဂရိတ်မြို့တွင် ခြည်ထည်လုပ်ငန်း၊ သကြားစက်ရုံ၊ သားရေ လုပ်ငန်း၊ အရက်လုပ်ငန်းစသဖြင့် စက်မှု လုပ်ငန်း အနည်းငယ်မျှသာ ရှိသော်လည်း၊ ကုန်သွယ် ရောင်းဝယ် ဖောက်ကားမှု စည်ကားဖွံ့ဖြိုးလှသည်။ လူဦးရေ(၁၉၅၇ ခုနှစ် သန်းကောင်စာရင်းအရ) ၅၂၀,၀၀၀ ယောက်ရှိလေသည်။

ဗဲလဂရိတ်မြို့သည် ခေတ်မှီ၍ စံနစ်တကျ ဆောက်လုပ်ထားသော မြို့ဖြစ်သည်။ မြို့သည် အမြင့်ပိုင်း၊ အနိမ့်ပိုင်းဟူ၍ ရှိရာ၊ အမြင့်ပိုင်း၌ ပေ ၁၅၀ ခန့်မြင့်သော တောင်ကုန်း တခုပေါ် တွင် ရဲတိုက်ဖြူ ဟု ခေါ် ဆိုကြသော အဆောက် အအုံ ကြီးရှိသည်။ ဆဗ်ဘာသာဖြင့် ဗဲယိုဂရက်ဟု ခေါ် တွင်ခြင်းမှာ ထိုရဲတိုက်ဖြူကို အစွဲပြုခေါ် ဝေါ်ခြင်း ဖြစ်သည်။ အနိမ့်ပိုင်းဟူသည်မှာ မြစ်ကမ်းနားပိုင်းကို ခေါ် သည်။ ဗဲလဂရိတ်မြို့တွင် ခန့်ညားလှပသော အဆောက်အအုံများစွာ ရှိပေရာ ယင်းတို့အနက် ဟက္ကသိုလ် အဆောက်အအုံများသည် ထင်ရှားကျော်ကြားသည်။ ထို့ပြင် ယဉ်ကျေးမှုရေးရာနှင့်ပညာရေးဆိုင်ရာ အဖွဲ့အစည်းတို့၏ အဆောက်အအုံ များလည်း များစွာရှိသည်။ ရှေးကမြို့တံခါးပေါက် ၅ ခုရှိသည့် မြို့ရိုးတန်တိုင်းဖြင့် ဝိုင်းပတ်ထားရာ၊ ၁၈၆၈ ခုနှစ်တွင် ထိုမြို့ရိုးကိုဖျက်၍ မြို့၏နယ်နိမိတ်ကို ချဲ့ထွင်ခဲ့ရာမှ အရှေ့တိုင်း မြို့တမြို့၏အသွင်အပြင် ပျောက်ကွယ်ခဲ့လေသည်။ ယခင်ကမူ တူရကီတို့၏ ကြီးစိုးလွှမ်းမိုးမှုကို မကြာခဏ ခံခဲ့ရသဖြင့် အရှေ့တိုင်းအငွေ့အသက်များ ရှိနေပြီးလျှင်၊ အရှေ့တိုင်းဆန်နေသော မြို့တမြို့ ဖြစ်ခဲ့လေသည်။

ဗဲလဂရိတ်မြို့သည် အရှေ့နှင့် အနောက် ဥရောပ နိုင်ငံများ၏ အလယ်၌ တည်ရှိ၍ စစ်မှုရေးရာအတွက် အချက်ကျသော မြို့ဖြစ်သဖြင့် ရှေးရှေးခေတ်အခါများကပင်၊ လက်နက်နိုင်ငံများ၏ တန်ခိုးအာဏာလုပွဲအတွက် စစ်မြေတခုဖြစ်ခဲ့သည်။ ထို့ကြောင့် စိုးမိုးသူ လက်အမျိုးမျိုးပြောင်းခဲ့သည်။ ဘီစီ ၃ ရာစုနှစ်ခန့်က ကဲ့လူမျိုးတို့ စတင်တည်ထောင် ခဲ့သော ဗဲလဂရိတ်မြို့ကလေးသည် ရောမတို့ လက်ထက်တွင် စစ်စခန်းမြို့ဖြစ်ခဲ့သည်။ ဗိုင်ဇင်းတိုင်မင်းများ၏ လက်မှ လွတ်မြောက်ခဲ့ပြီးနောက်တွင် ဟန်ဂေရီတို့၏ လက်အောက်ကျရောက်ခဲ့ပြန်သည်။ ထို့နောက် ဗဲလဂရိတ်မြို့ကို အေဒီ ၁၃၃၀ ပြည့်နှစ်မှ ၁၄၂၇ ခုနှစ် တိုင်အောင် ဆဗ်လူမျိုးတို့က သိမ်းပိုက်ထားသည်။ ၁၄၅၆ ခုနှစ်တွင် တူရကီတို့က တိုက်ခိုက်လာသော အခါ ဂျွန်ဟူးညေဒီ အမည်ရှိ ဟန်ဂေရီ မျိုးချစ်တဦးက ခေါင်းဆောင်ပြီး တွန်းလှန်တိုက်ခိုက်သည်။ သို့သော် ၁၅၂၁ ခုနှစ်တွင်မူ တူရကီတို့၏ လက်အောက်သို့ ကျရောက်ခဲ့ရာ၊ ၁၈၆၇ ခုနှစ်တိုင်အောင် ဖြစ်သည်။ ဤမျှ ရှည်ကြာသော ကာလအတွင်း ဗဲလဂရိတ်သည် တူရကီတို့၏ လက်အောက်မှ လွတ်မြောက်၍စိုးမိုးသူလက်ပြောင်းမှုများ ရှိခဲ့သော်လည်း၊ ကြာမရှည်လှဘဲ၊ တူရကီတို့လက်အောက်သို့ပင် ပြန်၍သာ ကျရောက်ခဲ့သည်။ ၁၈၆၇ ခုနှစ်တွင်မူ ဆဗ်လူမျိုးတို့ လက်အောက်သို့ ရောက်ခဲ့ပြန်လေသည်။ ၁၈၈၂ ခုနှစ်တွင် ဆားဗီးယားနိုင်ငံ၏ မြို့တော်ဖြစ်လာ၍၊ ၁၉၂၉ ခုနှစ်တွင် ယူဂိုစလားဗီးယားနိုင်ငံ၏ မြို့တော်ဖြစ်လာလေသည်။

ဗဲလဂရိတ်မြို့သည် ဗော်လကန်စစ်ပွဲများ ပြီးဆုံးသွားသည့်နောက်တွင် ကြီးပွားတိုးတက်လာသည်။ အထူးသဖြင့် ၁၉၁၉ ခုနှစ်တွင် ယူဂိုစလားဗီးယား နိုင်ငံကို ဖန်တီးတည်ထောင်ပြီးသည့်နောက်တွင် ပို၍ တိုးတက်လာသည်။ ဗော်လကန်နိုင်ငံများတွင် အကြီးအကျယ်ဆုံးသော မြို့တမြို့ အဖြစ်ရောက်အောင် ပြုပြင်ခဲ့ကြလေသည်။

ဒုတိယ ကမ္ဘာစစ်ကြီး အတွင်းက ဗဲလဂရိတ်မြို့ကို အကာကွယ်မဲ့မြို့ဟူ၍ ကျေညာထားခဲ့သော်လည်း၊ ဂျာမန်တို့က ၁၉၄၁ ခုနှစ် ဧပြီလထဲတွင် မညှာမတာ ဗုံးကြဲတိုက်ခိုက်ပြီးနောက်၊ သိမ်းပိုက်ထားခဲ့သေးသည်။ ၁၉၄၄ ခုနှစ် အောက်တိုဘာလတွင် မာရှယ်တီးတိုးခေါင်းဆောင်သော ယူဂိုစလပ်လွတ်လပ်ရေး တပ်သားများသည် ဆိုဗီယက်တပ်များနှင့်ပူးပေါင်းကာ ဗဲလဂရိတ်မြို့ကို ပြန်လည် တိုက်ခိုက် သိမ်းပိုက်ခဲ့လေသည်။

# ဥရောပအနောက်ပိုင်းစစ်တလင်းနိုင်ငံ

**ဗဲလဂျီယမ်နိုင်ငံတွင် ဥရောပ နိုင်ငံကြီးများ၏ စစ်ပွဲကြီးများ အကြိမ်ကြိမ် ဆင်နွှဲခဲ့ကြသည်။ ဗဲလဂျီယမ်နိုင်ငံသည် စစ်ကြောင့် အကြိမ်ကြိမ် ကြေခဲ့ရသည်။ သို့သော် နိုင်ငံသူနိုင်ငံသားတို့၏ ဇွဲသတ္တိနှင့်ဝီရိယတို့ကြောင့် ဗဲလဂျီယမ်သည် ပြန်လည်ဖွံ့ဖြိုးစည်ကားမြဲ ရှိတတ်ပြီးလျှင် အနုပညာ မြတ်နိုးသူတို့ ပျော်ပိုက်သော နိုင်ငံလည်း ဖြစ်သည်။**

**ဗဲလဂျီယမ်နိုင်ငံ။** ။ဥရောပတိုက်တွင် အငယ်ဆုံး နိုင်ငံတခုသည် ဗဲလဂျီယမ် နိုင်ငံဖြစ်သည်။ သို့သော် ဥရောပနိုင်ငံသမိုင်းတွင် ရှေးရောမခေတ်မှသည် ယခုခေတ်တိုင်အောင် ဗဲလဂျီယမ် နိုင်ငံသည် ထင်ရှားသော အပိုင်းကဏ္ဍမှ ပါဝင်ခဲ့သည်။ ဥရောပအရေးကိစ္စကြုံတိုင်း ဗဲလဂျီယမ် နိုင်ငံပါဝင်ခဲ့ရသည်သာ များသည်။ မြောက်ဖက်၌ နယ်သာလန် နိုင်ငံ၊

အရှေ့ဖက်၌ ဂျာမနီနိုင်ငံနှင့် လပ်ဇင်ဗတ်နိုင်ငံ၊ တောင်ဖက်တွင် ပြင်သစ်နိုင်ငံတို့နှင့် နယ်ချင်းစပ်လျက် တည်ရှိ၍ အနောက် မြောက်ဖက်ရှိ ဂရိတ်ဗြိတိန်နှင့်မူ မြောက်ပင်လယ်၏ ရေပြင်တစိတ်တဒေသမျှသာ ခြားလျက်ရှိရာ နိုင်ငံကြီးများ၏ အကြား၌ ညှပ်လျက် တည်နေပုံ အနေအထားကြောင့် ဥရောပ အနောက်ပိုင်း၌ စစ်မက် အရေးကြုံလာသော အခါများတွင် ဗဲလဂျီယမ် နိုင်ငံသည် အများဆုံး ပါဝင်ခဲ့ရသည်။ သို့သော် ကမ္ဘာ့ကုန်သွယ်နိုင်ငံကြီးများဖြစ်ကြသော ဖော်ပြပါ နိုင်ငံကြီးများနှင့် စီးပွားရေးဆက်ဆံမှုတွင် အရေးပါ အရာရောက်သဖြင့် ဗဲလဂျီယမ် နိုင်ငံ၏ စီးပွားကုန်သွယ်မှုသည် အလွန်ဖွံ့ဖြိုးသည်။ ဒုတိယကမ္ဘာစစ်မတိုင်မီ ၁၉၃၉ ခုနှစ်က ဥရောပတိုက် စက်မှုနိုင်ငံများတွင် ဗဲလဂျီယမ်နိုင်ငံက တတိယ စွဲခဲ့လေသည်။




ဗဲလဂျီယမ်နိုင်ငံ တည်နေရာပြမြေပုံ

ဗဲလဂျီယမ်နိုင်ငံသည် ဥရောပတိုက်တွင် ဒုတိယ လူဦးရေအထူထပ်ဆုံး နိုင်ငံဖြစ်သည်။ နိုင်ငံ၏ အကျယ်အဝန်းသည် ၁၁,၇၇၅ စတုရန်းမိုင် ဖြစ်၍ မြန်မာနိုင်ငံ အကျယ်အဝန်း၏ အပုံနှစ်ဆယ်အောက် ငယ်သည်။ လူဦးရေသည် ၈၇,၉၁၀, ၀၅၅ ယောက်မျှရှိရာ စတုရန်းတမိုင်လျှင် လူ ၇၄၇ ယောက် ကျရှိနေသဖြင့် နိုင်ငံ၏ အကျယ်အဝန်းနှင့် မမျှအောင် ဖြစ်နေသည်။ ထို့ကြောင့် မြေနေရာလပ် မကျန်အောင် စိုက်ပျိုးလုပ်ကိုင်ပါလျက်၊ စားနပ်ရိက္ခာ မလုံလောက်သေး၍ နိုင်ငံခြားမှ တင်သွင်းရသေးသည်။

မြောက်ပင်လယ်ဖက်သို့ မျက်နှာမူလျက်ရှိသော ဗဲလဂျီယမ်နိုင်ငံ၏ ပင်လယ်ကမ်းရိုးတန်းသည် ၄၂ မိုင်ရှည်လျားသည်။ မြေမျက်နှာပြင်သည် အနောက်မြောက်ဖက်ရှိ ပင်လယ်ကမ်းခြေမှ အရှေ့တောင်ဖက်ရှိ အာဒင်းနီးတောင်တန်းဆီသို့ တဖြည်းဖြည်း မြင့်တက်သွားသည်။ ပထဝီဝင် အနေအထားအရ ဗဲလဂျီယမ်နိုင်ငံ၏ မြေမျက်နှာပြင်ကို ၃ ပိုင်း ခွဲခြားနိုင်ရာ၊ ယင်းတို့မှာ (၁) ဖလန်းဒါးနှင့် ကင်ပင်ဒေသ (၂) အလယ်ပိုင်းလွင်ပြင်ဒေသနှင့် (၃) အာဒင်းနီးတောင်တန်းဒေသတို့ ဖြစ်လေသည်။

ဗဲလဂျီယမ် နိုင်ငံတွင် မြစ်ချောင်းများစွာ ဖြတ်သန်းစီးဆင်းလျက်ရှိရာ အဓိကမြစ်ကြီး ၃ သွယ်တို့မှာ ဆကဲ့မြစ်၊ ဆန်းဗရာမြစ်နှင့် မျူးစမြစ်တို့ဖြစ်ကြ၍ ထိုမြစ် ၃ သွယ်လုံး ပင် ပြင်သစ်နိုင်ငံ၌ မြစ်ဖျားခံကြသည်။ဗဲလဂျီယမ်သည် မြေနိမ့်ချိုင့်ဝှမ်းဒေသ များပြားသော နိုင်ငံဖြစ်ရာ၊ အချို့ အပိုင်းများသည် ပင်လယ် ရေမျက်နှာပြင်ထက်ပင် နိမ့်နေသေးသည်။ရှေးက မြောက်ပင်လယ်မှ ဒီရေလွှမ်းမိုးခြင်းကို မကြာခဏ ခံခဲ့ရရာ၊ ကမ်းရိုးတန်းတလျှောက် ရေလွှမ်းမိုးသည့် ဘေးမှ ကာကွယ်ရသည့် တာဝန်သည် အတော်ပင် ကြီးလေးခဲ့သည်။

ယခုအခါတွင်မူ ကြီးကျယ်ခိုင်ခံ့လှသော တာတမံကြီးများ ဆောက်လုပ် ထားသည့်ပြင်၊ အခြား ခေတ်မီ အကာအကွယ်များကြောင့် ရေလွှမ်းခြင်းဘေးမှ အတော်ပင်ကင်းလွတ်ရပြီ ဖြစ်သည်။ ထိုပြင် တာတမံများ၏ ဤမှာဖက်ရှိ ကမ်းရိုးတန်း မြေနိမ့်ဒေသများကို ရေများစုတ်ထုတ်ပစ်၍ မြေဖို့ပြုပြင်ခြင်းဖြင့် မြေမျက်နှာပြင် တိုးချဲ့ကြသည်။ ထိုဒေသကို "ပေါလဒါ" ဟုခေါ်၍ ဟင်းသီးဟင်းရွက်များ စိုက်ပျိုးလုပ်ကိုင်ရာ၊ ဖြစ်ထွန်း လှသဖြင့် ဥရောပတတိုက်လုံးသို့ပင် တင်ပို့ နိုင်သည်။

ထိုဒေသသည် ဖလန်းဒါး နယ်တွင် ရှိသည်။ ဖလန်းဒါး နယ်သည် ဗဲလဂျီယမ်နိုင်ငံမြောက်ပိုင်းတွင်ရှိ၍ မြေအနိမ့်ဆုံး အပိုင်း ဖြစ်သည်။ ကမ်းရိုးတန်းသည် ဖြောင့်စင်းလှမတတ် ဖြစ်၍ လှပသော ရေချိုးဆိပ်ကမ်းများ ရှိသည်။

ဗဲလဂျီယမ် နိုင်ငံတွင် မြစ်ချောင်းများအပြင် တူးမြောင်းများလည်း ပေါများလှပေရာ၊ နိုင်ငံ တခုလုံးသည် ကျွန်းကလေးပေါင်း မြောက်မြားစွာကို စုထားဘိသကဲ့သို့ ထင်ရသည်။ တူးမြောင်းများသည် ရေသွင်း စိုက်ပျိုးရေးအတွက် မဟုတ်ပေ။တာတမံ တုတ်ထားသောဒေသများမှရေများကို



အမျိုးသားဝတ်စုံ ဆင်ယင်ထားသည့် ဗဲလဂျီယန် အမျိုးသမီးတဦး

အစဉ်မပြတ် စုတ်ထုတ်ပစ်နေရ၍၊ စုတ်ထုတ်သော ရေများကို တူးမြောင်းများထဲသို့ ရေအားဖြည့်ပေး ရလေသည်။ ထိုတူးမြောင်းများကို ကူးသန်းသွားလာရေးအတွက် အသုံးပြုကြလေသည်။

ဗဲလဂျီယမ်နိုင်ငံ၏ အရှေ့မြောက်ဒေသကို ကင်ပင်၊ သို့မဟုတ် ကမ်ပိုင်းဟုခေါ်၍ ၁၉၀၀ ပြည့်နှစ်ခန့်အထိ မြေရိုင်းဖုန်းဆိုး ဒေသဖြစ်သည်။ ၁၉၁၀ ခု နှစ်တွင် ထိုဒေသ၌ ကျောက်မီးသွေး တွေ့ရှိသည်မှစ၍ စက်မှုလုပ်ငန်းနှင့် လယ်ယာမြေများ တိုးတက်လာခဲ့လေသည်။

ဖလန်းဒါးနှင့် ကင်ပင်ဒေသ၏ တောင်ဖက်၊ မျူးစမြစ်၏ မြောက်ဖက်ရှိ လွင်ပြင်ဒေသသည် မြေဩဇာကောင်းမွန်သဖြင့် မြေလွတ်မရှိအောင် စိုက်ပျိုးလုပ်ကိုင်ကြသည်။ ဂျုံ၊ အုတ်ဂျုံ၊ ရိုင်းဂျုံ၊ အာလူး၊ သကြားမုန်လာ၊ ပိုက်ဆံလျှော် စသည့် ကောက်ပဲသီးနှံများ ထွက်သည်။ ထိုဒေသတွင် ဗဲလဂျီယမ်နိုင်ငံ၏ အရေးပါလှသော မြို့ကြီးပြကြီးများ တည်ရှိလေသည်။

အရှေ့တောင်ဖက်ရှိ အာဒင်းနီး တောင်တန်းဒေသသည် ကုန်းပြင်မြင့် ဒေသဖြစ်သည်။ ထိုဒေသတွင် မြေဩဇာ ညံ့ဖျင်းသည်။ အင်းအိုင် စိမ့်စမ်းပေါများသည်။ ထိုဒေသရှိ သစ်တောများမှ အဖိုးတန် သစ်များကား မထွက်ချေ။

ဗဲလဂျီယမ် နိုင်ငံ၏ ရာသီဥတုသည် သင့်တင့်မျှတသည်။ ပူနွေးသောနွေရာသီနှင့် မအေးမချမ်းလွန်းသော ဆောင်းရာသီမျိုးရှိသည်။ ပင်လယ်လေရသောကြောင့် ဖြစ်သည်။ သို့သော် မြောက်ဖက် သမပိုင်း ဒေသအတွင်း ကျရောက်သော နိုင်ငံဖြစ်၍ နွေရာသီအခါ နေ့တာရှည်၍၊ ဆောင်းအခါနေ့တာတိုလှပြီးလျှင် ဆီးနှင်းမြူခိုးတို့ဖြင့် အုံ့အုံ့မှိုင်းမှိုင်း ရှိနေတတ်လေသည်။

ဗဲလဂျီယမ်နိုင်ငံ၏ အရေးပါဆုံးသော သယံဇာတ ပစ္စည်းမှာမြေဖြစ်သည်။ စိုက်ပျိုးလုပ်ကိုင်ရန် မြေကွက်သည် ဗဲလဂျီယမ်နိုင်ငံသားတို့အတွက် အဖိုးတန်လှပေသည်။ ရသမျှ မြေကွက်ကိုလည်း သေချာကျနစွာ စိုက်ပျိုး လုပ်ကိုင်ကြသဖြင့် သီးနှံထွက်ကောင်းသည်။ ဗဲလဂျီယမ် နိုင်ငံသည် ကျောက်မီးသွေး၊ သံ၊ သွပ်၊ ခဲ၊ ကြေးနီ စသော သတ္တုတို့ဖြင့် ပေါကြွယ်ဝလှသဖြင့် ကြီးကျယ်ဖွံ့ဖြိုးသော စက်မှုလုပ်ငန်းများရှိသည်။စက်မှုလုပ်ငန်းတို့မှာ သံနှင့် သံမဏိလုပ်ငန်း၊ ဖန်ထည်လုပ်ငန်း၊ အထည်အလိပ် လုပ်ငန်း၊ သကြားချက်လုပ်ငန်း၊ အဖျော်ယမကာလုပ်ငန်း၊ ဓာတုဗေဒ ပစ္စည်းလုပ်ငန်း စသည်တို့ ဖြစ်ကြလေသည်။

ဗဲလဂျီယမ် နိုင်ငံသည် အထည်အလိပ်လုပ်ငန်းတွင် ကြီးကျယ် ထွန်းကားလှသည်။ ဗဲလဂျီယမ် နိုင်ငံမှ ဇာလုပ်ငန်းသည် ကမ္ဘာကျော်ဖြစ်၍ ဗဲလဂျီယမ်နိုင်ငံသည် ဇာလုပ်ငန်းတွင် ထိပ်တန်းနိုင်ငံတခု ဖြစ်သည်။ အမျိုးသမီးများသည် ဇာထိုးလုပ်ငန်းကို စက်ရုံကြီးများတွင်သာမက မိမိတို့ နေအိမ်များတွင်လည်း လုပ်ကိုင်ကြလေသည်။

ဗဲလဂျီယမ်နိုင်ငံတွင်းရှိ မြို့ကြီးများသည် များသောအားဖြင့် ရှေးနှစ်ပေါင်း ၁,၀၀၀ ကျော်ခန့်က တည်ထားခဲ့သော မြို့များဖြစ်ကြသည်။ သို့သော် ခေတ်နှင့်လျော်စွာပြောင်းလဲ တိုးတက်မှုများလည်း ရှိခဲ့သဖြင့် ခေတ်ဟောင်းနှင့်ခေတ်သစ် အဆောက်အအုံများ ရောပြွမ်းကာ တွေ့ရှိရသည်။ ဗဲလဂျီယမ်၏မြို့တော်သည်ဗရပ်ဆဲမြို့ဖြစ်သည်။(ဗရပ်ဆဲမြို့ — ရှု။) ဗဲလဂျီယမ်နိုင်ငံ၏ စီးပွားကုန်သွယ်ရေးအချက်အခြာ မြို့မှာ အန့်တွပ်မြို့ဖြစ်သည်။(အန့်တွပ်မြို့ — ရှု။)ဗဲလဂျီယမ်နိုင်ငံ၏ အရှေ့တောင်ပိုင်းရှိ လီဂျမြို့ကြီးသည် သံထည်၊ ဖန်ထည်လုပ်ငန်းနှင့် အခြားစက်မှုလုပ်ငန်း ထွန်းကားသည့်မြို့ကြီး တမြို့ဖြစ်သည်။ ထိုမြို့ကြီးများအပြင်၊ သာယာလှပသောကမ်းခြေစခန်းနှင့် သင်္ဘောဆိပ်မြို့ကြီး တမြို့ဖြစ်သော အတ်စတင်းမြို့၊ ရှေးအကျဆုံးနှင့် အလှအပဆုံးမြို့တမြို့ ဖြစ်သော ဗရုဂျမြို့ စသည်တို့လည်း ရှိပေသေးသည်။ (ဗရုဂျမြို့ — ရှု။)

ဗရပ်ဆဲမြို့၊လူးဗန်းမြို့၊ဂင့်မြို့၊လီဂျ်မြို့ကြီးတို့တွင် တက္ကသိုလ်ကျောင်းကြီးများ ရှိသည်။ မူလတန်းနှင့် အလယ်တန်းကျောင်းများကို အစိုးရက ဖွင့်လှစ်ပေးသည်။ ထိုပြင် အစိုးရအထောက်အပံ့ခံ တန်းမြင့်ကျောင်းများနှင့် ဥပစာကောလိပ်များလည်း ရှိလေသည်။

ဗဲလဂျီယမ်နိုင်ငံတွင် ဖလင်းမစ်နှင့် ဝေါလွန်းဟူ၍ ရိုးသိုးဘာသာစကားနှစ်မျိုးထား၍ဒေသဌာနအလိုက် သုံးစွဲလျက်ရှိသည်။ အကြောင်းမူ ဗဲလဂျီယမ်နိုင်ငံတွင် ဘာသာ စကားချင်းမတူသော ဖလင်းမင်းလူမျိုးနှင့် ဝေါလွန်းလူမျိုးဟူ၍ လူမျိုးကြီးနှစ်မျိုး ကွဲပြားလျက်ရှိရာ၊ ယင်းလူမျိုးကြီးများ၏ ဌာနဒေသအလိုက် ဘာသာစကား ကွဲပြားခြားနားမှုဖြစ်ပေါ် ခဲ့လေသည်။ဖလင်းမင်းလူမျိုးတို့သည် မြောက်ပိုင်းတွင် နေထိုင်ကြ၍ ဒပ်ချလူမျိုးတို့နှင့် သွေးစပ်သူများဖြစ်ကြသည်။ ထို့ကြောင့် ဒပ်ချစကားနှင့် ဆင်တူသော ဖလင်းမစ်ဘာသာစကားကို ပြောဆိုကြသည်။ ဝေါလွန်းလူမျိုးတို့သည်တောင်ပိုင်း၌ နေထိုင်ကြလျက် ပြင်သစ်တို့နှင့် သွေးစပ်သူများဖြစ်ကြ၍ ပြင်သစ်ဘာသာစကားတမျိုး ဖြစ်သောဝေါလွန်းဘာသာကို ပြောဆို ကြလေသည်။

ဗဲလဂျီယမ်နိုင်ငံသားတို့သည် လုံ့လဝီရိယရှိ၍ အလွန်အလုပ် လုပ်သောလူမျိုးများ ဖြစ်ကြသည်။ လုပ်ငန်းတခုအတွက် ထိရောက်၍ အလုပ်တွင်မည့်နည်းစနစ်သစ် မှန်သမျှကို အလွယ်တကူ လက်ခံကျင့်သုံးကြသည်။ ထို့ကြောင့် စက်ရုံအလုပ်ရုံများတွင် ခေတ်မီ စက်ကရိယာများကို အသုံးပြုများခြင်းဖြစ်သည်။ တိုင်းတပါးသားတို့၏ စိုးမိုးမှုကို နှစ်ပေါင်းရာပေါင်းများစွာခံခဲ့ရသဖြင့် ချုပ်ချယ်မှုကို မလိုလားဘဲ လွတ်လပ်မှုကို အလွန်ခုံမင်မြတ်နိုးကြလေသည်။ ဗဲလဂျီယန်တို့သည် များသောအားဖြင့် ဗရင်ဂျီဂိုဏ်းဝင်များ ဖြစ်ကြသည်။ ဘာသာရေးဖက်၌ ချုပ်ချယ်မှု မရှိချေ။

သေးငယ်သောနိုင်ငံပင် ဖြစ်လင့်ကစား၊ ဗဲလဂျီယမ်နိုင်ငံတွင် လမ်းပန်းဆက်သွယ်ရေး ကောင်းမွန်သည်။ မော်တော်ကားလမ်းမိုင်ပေါင်း ၆,၇၀၀ ကျော်ရှိ၍၊မီးရထားလမ်းလည်း မိုင် ၃,၀၀၀ ကျော်ရှိသည်။ ၁၈၃၅ ခုနှစ်တွင်ဗရပ်ဆဲမြို့၌ ဖွင့်လှစ်သော မီးရထားဘူတာရုံသည်ဥရောပတိုက်တွင် ပဌမဆုံးဖြစ်သည်။ ထိုဘူတာရုံကိုဖျက်ချလိုက်၍၊ ဥရောပ၏ ပဌမဆုံးကမ္ဘာ့ရဟတ်ပျံ (ဟယ်လီကော့ပတာ) လေယာဉ်ဆိပ်ကို ထိုနေရာတွင် တည်ဆောက်ပြီးလျှင် ၁၉၅၃ ခုနှစ်တွင် ဖွင့်လှစ်ခဲ့သည်။ ဗဲလဂျီယမ်နိုင်ငံ၌ လေကြောင်း သယ်ယူပို့ဆောင်ရေးတွင် ရဟတ်ပျံများကိုလည်း အသုံးပြုသည်။ မြစ်ချောင်းတူးမြောင်းများဖြင့်လည်း မိုင် ၁,၀၀၀ ကျော်မျှသွားလာနိုင်သည်။ မြေနိမ့်ဒေသများတွင် တူးမြောင်း များသည် ကုန်သန်းသွားလာရေးအတွက် အရေးပါလှ လေသည်။

ဗဲလဂျီယမ်ဟူသော အမည်သည် "ဗဲလဂျေး" ခေါ် သည့် လူမျိုးတမျိုးကို အစွဲပြုခေါ် ဝေါ်ခြင်း ဖြစ်သည်။ ထိုလူမျိုးတို့သည် ရှေးနှစ်ပေါင်း နှစ်ထောင်ကျော်ခန့်က ယခု ဗဲလဂျီယမ် နိုင်ငံဖြစ်လာသော ဒေသကို ဂျူးလယပ်ဆီဇာ လာရောက်တိုက်ခိုက်စဉ်က၊ ထိုဒေသ၌ နေထိုင်လျက်ရှိကြသည်။ ဂျူးလယပ်ဆီဇာ တိုက်ခိုက်လာမှုကို ထိုလူမျိုးတို့က ရှုပ်ရှပ်ချုံချုံ ခုခံကာကွယ်ခဲ့ကြသဖြင့် သူရသတ္တိနှင့် အပြည့်စုံဆုံးသော လူမျိုးဖြစ်သည်ဟု ဂျူးလယပ်ဆီဇာက ပြောစမှတ် ပြုခဲ့လေသည်။

ဘီစီ ၅၇ ခုနှစ်မှ ၅၁ ခုနှစ်ထိ ဂျူးလယပ်ဆီဇာက ဗဲလဂျီယမ်ဒေသကို ၇ နှစ်တိုင်တိုင် တိုက်ခိုက် သိမ်းပိုက်ခဲ့သည်မှစ၍ နှစ်ပေါင်း ငါးရာခန့်မျှကြာအောင် ရောမတို့၏ လက်အောက်တွင် ကျရောက်နေခဲ့ရသည်။ အေဒီ ၇၀၀ ခန့်တွင် ရှားလမိန်းဘုရင်ကြီးသည် ထိုဒေသ၏စိုးမိုးသူအဖြစ် ခံယူခဲ့လေသည်။

ထိုစဉ်က ဗဲလဂျီယမ်ဟူ၍မခေါ် တွင်သေးပေ။အကြောင်းမူ ထိုခေတ်က ဟော်လန်၊ ဗဲလဂျီယမ်နှင့် ပြင်သစ်ဖလန်းဒါးပြည်နယ်တို့ကို မြေနိမ့်ပိုင်းပြည်များဟု ခေါ် ဝေါ် ကြသည်။ ကရူးဆိတ်စစ်ပွဲများ အပြီးတွင် ဗဲလဂျီယမ်မြို့များ စည်ပင်ဝပြောလာသည်။ ၁၁ ရာစုနှင့် ၁၂ ရာစုနှစ်အတွင်းက သီးခြား လွတ်လပ်မှုကိုလည်း ခံစားကြရသည်။ ၁၃ ရာစုနှစ်နှင့် ၁၄ ရာစုနှစ်အတွင်းတွင်မူ၊ ဗဲလဂျီယမ်အပါအဝင် မြေနိမ့်ပိုင်းပြည်များသည် ဗာဂန်ဒီပြည်နယ်နှင့် ပူးပေါင်းလိုက်ရသည်။ နောင်အခါ ဗာဂန်ဒီပြည်နယ်ရှင် မေရီ မင်းသမီးသည် ဩစတြီးယားပြည့်ရှင် မက္ကဆီမီလျံနှင့် လက်ဆက်ခဲ့သဖြင့်၎င်း၊ မေရီမင်းသမီး၏ သားတော် ဖိလစ်သည် စပိန်ပြည့်ရှင်၏ သမီးတော်နှင့် လက်ဆက်ခဲ့သဖြင့်၎င်း မြေနိမ့်ပိုင်းပြည်များကို ဩစတြီးယားနှင့် စပိန်နှစ်နိုင်ငံတို့က ပိုင်ခွင့်ဆိုင်ခွင့် ရှိလာခဲ့လေသည်။ ထို့ကြောင့် နောင်အခါတွင် မြေနိမ့်ပိုင်းပြည်များသည် ဥရောပ စစ်တလင်း ဖြစ်ခဲ့ရလေသည်။

၁၅၆၈ ခုနှစ်တွင် ဗဲလဂျီယမ်နှင့် ဟော်လန်တို့သည် စပိန်နိုင်ငံအား တော်လှန်ကြသည်။ သို့သော် ဟော်လန်ပြည်သည် သာလျှင် စပိန်လက်အောက်မှ လွတ်မြောက် သွား၍ ဗဲလဂျီယမ်မှာမူ စပိန်လက်အောက်တွင် နောင်အနှစ် ၇၀ ခန့် ဆက်လက် နေခဲ့ရသည်။ စပိန်ထီးနန်းဆက်ခံရေး စစ်ပွဲ အတွင်းက ဗဲလဂျီယမ်သည် စစ်မြေပြင် ဖြစ်ခဲ့ရပြန်လေသည်။ ထိုစစ်ပွဲအပြီးတွင် ယူးထရက်စာချုပ်အရ ဗဲလဂျီယမ်သည် ဩစတြီးယား လက်အောက် ရောက်ခဲ့ရပြန်လေသည်။

ပြင်သစ် တော်လှန်ရေးကြီး ဖြစ်ပွားပြီးနောက်၊ ၁၇၉၂ ခုတွင် ပြင်သစ်တပ်များက ဩစတြီးယန်း တပ်များကို အောင်မြင်ခဲ့သဖြင့်၊ ဗဲလဂျီယမ်သည် ပြင်သစ်ပိုင်နယ်တနယ်ဖြစ်ခဲ့ရပြန်သည်။ နပိုလီယန် တန်ခိုးအာဏာ ကျဆင်းလာ၍၊ ဗဲလဂျီယမ်ပြည်အတွင်းရှိ ဝါးတာလူး စစ်ပွဲတွင် အညှံ့ခံလိုက်ရပြီး

နောက် ဗီယင်နာစာချုပ်အရ ဗဲလဂျီယမ်သည် ဟော်လန်နှင့် ပူးပေါင်းလိုက်ရပြန်သည်။ သို့သော် ဗဲလဂျီယမ်နှင့်ဟော်လန်သည် အယူဝါဒလေ့ထုံးစံ စိတ်နေစိတ်ထားချင်း ကွဲပြားကြသဖြင့် အချင်းချင်း မညီညွတ်နိုင်သည့်ပြင် ဒပ်ချတို့နှင့် တန်းတူအကျိုးခံစားခွင့်မရသဖြင့် ၁၈၃၀ ပြည့်နှစ် စက်တင်ဘာလတွင် ဗဲလဂျီယန်တို့သည် ဟော်လန်ပြည့်ရှင်အား တော်လှန် ပုန်ကန်ကြလေသည်။

ဗရပ်ဆဲမြို့တွင်း၌ပင် တိုက်ပွဲများဖြစ်ပွား၍၊ ဒပ်ချ တပ်များဆုတ်ခွာရသည်။ ဗဲလဂျီယန် တို့သည် ၁၈၃၁ ခုနှစ် ဖေဖွာရီလ ၇ ရက်နေ့တွင် အချုပ်အချာအာဏာပိုင် သီးခြားလွတ်လပ်သောနိုင်ငံအဖြစ် ထူထောင်က၊ ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံဥပဒေတရပ်ကို ပြဋ္ဌာန်းလက်ခံခဲ့ကြသည်။ ထိုနှစ် ဇွန်လတွင် ဆက္ကဆီကိုဗတ် မင်းသား လီယိုပိုကို ဘုရင်အဖြစ်တင်မြှောက်ကြရာ ပဌမ လီယိုပိုဘုရင်ဘွဲ့ကိုယူ၍ နန်းတက်လေသည်။ ၁၈၃၉ ခုနှစ်တွင် ဥရောပနိုင်ငံကြီးများက လန်ဒန် စာချုပ်ကို လက်မှတ် ရေးထိုး၍ ဗဲလဂျီယမ်နိုင်ငံ၏ သီးခြားလွတ်လပ်မှုနှင့် အချုပ်အချာအာဏာပိုင်မှုကို အသိအမှတ်ပြုက၊စစ်ကာလများတွင် ကြားနေနိုင်ငံအဖြစ် ထားရှိရန် သဘောတူညီ ကြလေသည်။

ဗဲလဂျီယမ် နိုင်ငံတွင် ဘုရင်သည် အထွတ်အထိပ် ဖြစ်သော်လည်း ဟန်ပြမျှသာဖြစ်၍ တန်ခိုးအာဏာ မရှိပေ။ တန်ခိုးအာဏာသည် နန်းရင်းဝန်နှင့် အစိုးရအဖွဲ့တို့၌သာ တည်ပေသည်။ ပါလီမန်၌ အမတ်ဦးရေအများဆုံး ရရှိသော ပါတီက အစိုးရဖွဲ့ရပြီးလျှင်၊ထိုပါတီ၏ ခေါင်းဆောင်အား နန်းရင်းဝန်အဖြစ် ဆောင်ရွက်ရန် ဘုရင်က ခန့်ထားရသည်။ ပါလီမန်တွင် အထက်လွှတ်တော်နှင့် အောက်လွှတ်တော် ၂ ရပ် ပါဝင်သည်။ လွှတ်တော် ၂ ရပ်လုံး၏ သက်တမ်းမှာ ၄ နှစ်ချည်းဖြစ်သည်။ အထက် လွှတ်တော်တွင် အမတ်ဦးရေ ၁၇၅ ယောက်ရှိ၍၊ အောက်လွှတ်တော်တွင် ၂၁၂ ယောက်ရှိသည်။

၁၈၆၅ ခုနှစ်တွင် နန်းတက်သော ဒုတိယ လီယိုပိုဘုရင်သည် ဗဲလဂျီယမ်နိုင်ငံထက် အဆ ရှစ်ဆယ်မက ကြီးမားကျယ်ဝန်းသော ကွန်ဂိုဖရီးစတိတ် (အာဖရိကတိုက်ရှိ) ကို ကိုယ်တိုင် ကြပ်မတ် ထူထောင်ခဲ့သည်။ ထိုပြည်နယ်သည် ဗဲလဂျီယမ်၏ အကြီးဆုံးသော ကိုလိုနီဖြစ်လာ၍ ဗဲလဂျီယမ်ကွန်ဂိုဟုခေါ် တွင်သည်။ဗဲလဂျီယမ်အစိုးရသည် ထိုပြည်နယ်ကို ၁၉၆၀ ပြည့်နှစ်တွင် လွတ်လပ်ရေး ပေးလိုက်သည်။

ဒုတိယလီယိုပိုဘုရင်ကြီးသည် ဗဲလဂျီယမ် မီးရထားလုပ်ငန်းနှင့် စက်မှုလုပ်ငန်းတို့ကိုလည်း အားပေးဆောင်ရွက်ခဲ့သည်။ ဗဲလဂျီယမ်နိုင်ငံသည် ၁၉ ရာစုနှစ်အတွင်းတွင် ထူးထူး ခြားခြား ကြီးပွားတိုးတက်ခဲ့ လေသည်။

ဥရောပနိုင်ငံကြီးများသည် ဗဲလဂျီယမ်အားကြားနေနိုင်ငံ




ဗဲလဂျီယမ်နိုင်ငံတွင် ခွေးများကို လှည်းဆွဲရန်အတွက် ယနေ့တိုင် အသုံးပြုလျက်ရှိကြသည်။



ဗဲလဂျီယမ်နိုင်ငံရှိ မြို့များတွင် တူးမြောင်းလမ်းများ ဖောက်လုပ်ထားကြသဖြင့်၊ မြို့ခင်းသာယာ ဆိတ်ငြိမ်၍ သန့်ရှင်းပေသည်။

အဖြစ် အသိအမှတ် ပြုထားသော်လည်း ပဌမ ကမ္ဘာစစ်ကြီး ဖြစ်လာသောအခါ၊ အသိအမှတ် ပြုထားချက်ကို ဖောက်ဖျက်လာကြသည်။ ထိုအချိန်တွင် ဗဲလဂျီယမ်နိုင်ငံ ပြည့်ရှင် ပဌမ အဲလဗတ်ဘုရင်နှင့် တိုင်းသူပြည်သားတို့သည် မိမိတို့နိုင်ငံ၏ ကြားနေမှုကို ထိန်းသိမ်းနိုင်ရန် ဇွဲသတ္တိ ရှိစွာဖြင့် အသက်အိုးအိမ် စည်းစိမ်ပျက်စီး ဆုံးရှုံးမှုကိုခံကာ ကြိုးစားခဲ့ကြသည်။ သို့သော် ဂျာမန်တပ်များ၏ လူအင်အား၊ လက်နက်အင်အား ကြီးမားစွာဖြင့် တိုက်ခိုက်လာမှုကို မခံနိုင်သဖြင့် ဂျာမန်တို့အား အညံ့ခံခဲ့ရလေသည်။

ကမ္ဘာစစ်ကြီး နှစ်ခုစပ်ကြားကာလတွင် ဗဲလဂျီယမ်နိုင်ငံ၏ စက်မှုလုပ်ငန်းစံနစ်သည် တမျိုးပြောင်းခဲ့သည်။ ပုံစံတူအများအပြားထုတ်လုပ်သည့်စံနစ်ကို လုပ်ကိုင်သည့်နိုင်ငံကြီးများ၏ ယှဉ်ပြိုင်မှု ဝင်လာခြင်းကြောင့် စက်မှုလုပ်ငန်းအခြေခိုင်လာသည် အထိ စံနစ်တမျိုးပြောင်း၍ လုပ်ကိုင်ခဲ့သည်။ ဗဲလဂျီယမ်နိုင်ငံသည် ယင်း၏ ဝိသေသလုပ်ငန်းများဖြစ်သော စိန်လုပ်ငန်း၊ စာအုပ်ချုပ်လုပ်ငန်း၊ လင်နင်အထည် လုပ်ငန်းနှင့် ပဌမတန်းစား ကျောက်မီးသွေး ထုတ်လုပ်သည့် လုပ်ငန်းစသည်တို့ကို အားသွန်လုပ်ကိုင်ခြင်းဖြင့် စီးပွားရေး အခြေမယိုင်အောင် ကြိုးစားခဲ့လေသည်။

ဒုတိယ ကမ္ဘာစစ်ကြီး ဖြစ်လာပြန်သော အခါတွင်လည်း ရှေးနည်းတူပင် ဗဲလဂျီယမ်၏ ကြားနေရေးကို ဖျက်ဆီးတိုက်ခိုက်ခြင်း ခံရပြန်သည်။ ထိုအချိန်၌ ဗဲလဂျီယမ်နိုင်ငံ ပြည့်ရှင် တတိယ လီယိုပိုဘုရင်သည် တိုက်ခိုက်လာသော ဂျာမန်တပ်များအား ၁၉၄၀ ပြည့်နှစ် မေလ ၂၈ ရက်နေ့တွင် အညံ့ခံလိုက်သည်။ သို့သော် ဗဲလဂျီယန် ကက်ဗိနက်ဝန်ကြီး အဖွဲ့ကမူ အညံ့မခံဘဲ လန်ဒန်မြို့သို့ ပြောင်းရွှေ့ပြီးသော်၊ ဗဲလဂျီယန် အဝေးရောက် အစိုးရအဖွဲ့ဟူ၍ ဖွဲ့စည်းထားသည်။ ထိုအစိုးရအဖွဲ့တွင် အထင်ရှားဆုံး ပုဂ္ဂိုလ်မှာ နိုင်ငံခြားရေးဝန်ကြီး ပေါ ဟင်နရီ စပတ် ဖြစ်သည်။ မဟာမိတ်တပ်များသည် ဗဲလဂျီယန် နိုင်ငံအား ၁၉၄၄ ခုနှစ် စက်တင်ဘာလတွင် ပြန်လည်တိုက်ခိုက် သိမ်းပိုက်ပေးသည်။ အဝေးရောက် ဗဲလဂျီယန်အစိုးရအဖွဲ့သည် ဗရပ်ဆဲမြို့သို့ ပြန်လာပြီးသော် လီယိုပိုဘုရင်၏ ညီတော် ချားမင်းသားကို နန်းစောင့်ထားသည်။ ၁၉၄၄ ခုနှစ် ဒီဇင်ဘာလ၌ ဗဲလဂျီယမ်နိုင်ငံအတွင်းရှိ “ဗားလချ” ၌ ဂျာမန်နှင့် မဟာမိတ်တပ်များ တိုက်ခိုက် ကြသော စစ်ပွဲသည် ဒုတိယကမ္ဘာစစ်အတွင်း အရေးပါဆုံးသော တိုက်ပွဲတခု ဖြစ်လေသည်။

စစ်ကြီးပြီးဆုံး ပြီးနောက် ၁၉၅၀ ပြည့်နှစ် ဇူလိုင်လတွင် ဗဲလဂျီယန် ကက်ဗိနက်အဖွဲ့က တတိယ လီယိုပိုအား ပြန်၍ နန်းတင်ပေးသော်လည်း ပြည်သူလူထုက မလိုလားလှချေ။ ထို့ကြောင့် သားတော် ဗော်ဒွင်မင်းသားသည် ၁၉၅၁ ခုနှစ်တွင် ဘုရင်အဖြစ် ဘိသိက်ခံယူ လေသည်။

စစ်ကြီး၏ ဒဏ်ကြောင့် ဥရောပ နိုင်ငံအများပင် ပျက်စီးဆုံးရှုံးခဲ့ရာ၊ဗဲလဂျီယမ်နိုင်ငံသည်လည်း အပါအဝင်ဖြစ်သည်။ သို့သော် စစ်ပြီး၍ တိုင်းပြည် ပြန်လည် ထူထောင်ကြရာတွင် ဗဲလဂျီယမ် နိုင်ငံသည် ပဌမဆုံးပြန်၍ နာလှန် ထူနိုင်သော တိုင်းပြည် တပြည်ဖြစ်ခဲ့သည်။ ထို့ကြောင့် ဥရောပတိုက်၌ စစ်ပြီးခေတ်တွင် ငြိမ်ဝပ်ပိပြားခြင်းနှင့် စီးပွားရေးဖက်၌ ဗဲလဂျီယမ် နိုင်ငံကို စံနမူထားရလေသည်။ ယင်းသို့ လျင်မြန်စွာပြန်လည်ထူထောင် နိုင်ခြင်းသည် တိုင်းပြည် ပြန်လည်ထူထောင်မှု၌ ဂိုဏ်းဂဏမရွေး၊တိုင်းပြည်၏ ကြီးပွားရေး၊ စီးပွားရေးကိုသာလျှင် ရှေးရှု၍ ပူးပေါင်း ဆောင်ရွက်ခဲ့ကြသောကြောင့်လည်း ဖြစ်ပေသည်။

**ဗဲလဖိုး့ အာသာဂျိမ်း** (ခရစ် ၁၈၄၈ – ၁၉၃၀)။ ။ ဗြိတိသျှနိုင်ငံပြုသုခမိန်အာသာဂျိမ်းဗဲလဖိုးသည် ဗြိတိသျှပါလီမန်အောက်လွှတ်တော်တွင် ကွန်ဆားဗတစ် ပါတီကို အနှစ် ၂၀ ကျော် ခေါင်းဆောင်ခဲ့သူ ဖြစ်ခဲ့သည်။

ဗဲလဖိုးကို ၁၈၄၈ ခုနှစ် ဇူလိုင်လ ၂၅ ရက်နေ့တွင် အရှေ့လိုသီယန်နယ် ရှစ်တင့်တမ်မြို့၌ ဖွားမြင်သည်။ တတိယ မားကွစ် ဆော့စဗာရီ၏ တူဖြစ်၍၊ ဝယ်လင်တန် မြို့စားကြီး၏ ခေါင်းကိုင်သားဖြစ်သည်။ အီတန် ကျောင်းနှင့် ကိမ်းဗရစ်

တက္ကသိုလ် ထရင်နီတီ ကောလိပ်တို့တွင် ပညာသင်ယူပြီး နောက် ၁၈၇၄ ခုနှစ်တွင် ဟတ်ဖိုနယ်မှ ကွန်ဆားဗတစ်ပါတီ ဝင် ပါလီမန် အမတ်အဖြစ် အရွေးခံရသည်။

၁၈၇၈ ခုနှစ်တွင် လော့ဒ်ဗီ၏နေရာ၌ လော့ဆော့စဗာရီ သည် နိုင်ငံခြားရေးဝန်ကြီး ဖြစ်လာသောအခါ၊ ဗဲလဖိုးသည် နိုင်ငံခြားရေးဝန်ကြီး၏ အတွင်းရေး အတွင်းဝန် ဖြစ်လာ၍၊ ဝန်ကြီးချုပ် ဒစ်ဇရေလီနှင့် အတူ ဘာလင် ညီလာခံကြီးသို့ လိုက်ပါသွားရသည်။ (ဒစ်ဇရေလီ၊ ဗီ — ရှု။) ၁၈၈၅ ခုနှစ် တွင် အရှေ့မန်ချက်စတာနယ်မှ ပါလီမန်အမတ်အဖြစ် ရွေး ကောက်တင်မြှောက်ခြင်းခံရရာ၊ နောင် ၂၀ နှစ်တိုင်တိုင် ယင်း နယ်မှပင် ဆက်တိုက်အရွေးခံရသည်။ ထိုနှစ်တွင်ပင်ဒေသန္တရ အဖွဲ့များဆိုင်ရာ ဌာနဝန်ကြီးအဖြစ် ဝင်ရောက် ဆောင်ရွက်ရ သည်။သို့သော် မကြာခင် စကော့တလန်ပြည်ဆိုင်ရာဝန်ကြီး အဖြစ် ပြောင်းရွှေ့ခန့်ထားခြင်းခံရ၍ ၁၈၈၇ ခုနှစ်တွင် အိုင် ယာလန်ပြည်ဆိုင်ရာ ဝန်ကြီးအဖြစ် ခန့်အပ်ခြင်း ခံရပြန်လေ သည်။ အိုင်ယာလန်ပြည်တွင် တိကျပြတ်သားစွာ အုပ်ချုပ် ခဲ့ရာ၊ဦးစွာ၌ မျိုးချစ်စိတ် အလွန် ပြင်းထန်နေသော အိုင်ရစ် မျိုးချစ်များက ဗဲလဖိုး၏ ဝါဒကို အကြမ်းဖက် ကန့်ကွက်ရုံ မက၊ ဗဲလဖိုးအားလည်း “အကြမ်းသမား ဗဲလဖိုး” ဟု ခေါ် စမှတ် ပြုခဲ့ကြသော်လည်း၊နောက်ဆုံးတွင် ဗဲလဖိုးအား လေး စားချီးကျူးလာခဲ့ကြသည်။ ၁၈၉၁ ခုနှစ်တွင် အောက်လွှတ် တော်၌ ယူနီယန်နစ်အဖွဲ့၏ ခေါင်းဆောင်ဖြစ်လာ၍ ၁၈၉၂ ခု နှစ်မှ ၁၈၉၅ ခုနှစ်အတွင်း ဂလက်စတုန်းနှင့် ရို့စဗာရီအစိုးရ များလက်ထက်တွင် အတိုက်အခံ ခေါင်းဆောင် အဖြစ် ဂျိုး ဇက်ချိန်ဗာလိန်နှင့်အတူ ထိပ်တန်းမှ ဆောင်ရွက်ခဲ့သည်။



ဗြိတိသျှနိုင်ငံပြု သုခမိန် အာသာ ဂျိမ်း ဗဲလဖိုး

၁၈၉၅ ခုနှစ်တွင် ယူနီယန်နစ်ပါတီ ပြန်တက်လာသည်မှ အစပြု၍ ၁၉၀၅ ခုနှစ်အထိ ဗဲလဖိုးသည် ဘဏ္ဍာရေး ဝန်ကြီး နှင့် အောက်လွှတ်တော်တွင် ယူနီယန်နစ်အဖွဲ့ ခေါင်းဆောင် အဖြစ် ဆောင်ရွက်ရသည်။ ၁၉၀၂ ခုနှစ် ဇူလိုင်လတွင် ဦး လေးတော် လော့ဆော့စဗာရီ အနားယူသောအခါ ဗဲလဖိုး သည် ဝန်ကြီးချုပ်အဖြစ် ဆက်ခံထမ်းရွက်ရသည်။ ၁၉၀၅ ခု နှစ်တွင် ရာထူးမှ နုတ်ထွက်သည်။ ၁၉၀၆ ခုနှစ်ရွေးကောက် ပွဲကြီးတွင် ယူနီယန်နစ်ပါတီသာ အရေး ရှုံးနိမ့်ခဲ့သည်မဟုတ်၊ ဗဲလဖိုးကိုယ်တိုင်လည်း အရှေ့မန်ချက်စတာနယ်မှ အရွေးခံရာ တွင် ရှုံးနိမ့်ခဲ့ရသည်။ သို့ရာတွင် မကြာမီ လန်ဒန်မြို့ တနေ ရာမှ အရွေးခံရ၍ ၁၉၁၁ ခုနှစ်အထိ ယူနီယန်နစ် အဖွဲ့ခေါင်း ဆောင်အဖြစ် ဆောင်ရွက်ခဲ့သည်။ ၁၉၁၁ ခုနှစ်တွင်ခေတ္တ အ နားယူခဲ့၍၊ ၁၉၁၄ ခုနှစ်တွင် ပဌမ ကမ္ဘာစစ် ဖြစ်ပွားသော အခါ၊ နိုင်ငံရေးထဲသို့ ပြန်လည် ဝင်ရောက်ခဲ့သည်။ ၁၉၁၅ ခု နှစ်မှ ၁၉၁၉ ခုနှစ်အထိ ညွန့်ပေါင်းအစိုးရအဖွဲ့များတွင် ရေ ကြောင်းဝန်ကြီးအဖြစ်ဖြင့်၎င်း၊ နိုင်ငံခြားရေးဝန်ကြီး အဖြစ် ဖြင့်၎င်း ဆောင်ရွက်ခဲ့သည်။ ၁၉၁၇ ခုနှစ်တွင် အမေရိကန် ပြည်ထောင်စုနိုင်ငံသို့ ဗြိတိသျှ မစ်ရှင်အဖွဲ့ ခေါင်းဆောင် အဖြစ် သွားရောက်၍ အင်္ဂလန်နှင့်အမေရိကန် ပူးပေါင်းတိုက် ခိုက်ရေး ကိစ္စများကို အောင်မြင်စွာ ဆောင်ရွက် ခဲ့သည်။ ၁၉၁၉ ခုနှစ် ဗာဆေးညီလာခံကြီးတွင် ဗဲလဖိုးသည် ဗြိတိသျှ နိုင်ငံခြားရေး ဝန်ကြီးအဖြစ် ထူးချွန်စွာ ပါဝင်ဆောင်ရွက်ခဲ့ ရာ၊မဟာမိတ်နိုင်ငံများ၏ ချီးကျူးခြင်းခံရသည်။ ဗာဆေး စာချုပ် ချုပ်ဆို ပြီးသည့် နောက်တွင် ဗဲလဖိုးသည် ပရီဗီ ကောင်စီ ဥက္ကဋ္ဌအဖြစ် ပြောင်းရွှေ့ ဆောင်ရွက်ခဲ့၏။ ဗဲလဖိုး သည် ၁၉၁၇ ခုနှစ် နိုဝင်ဘာလတွင် စစ်အပြီး၌ ပယ်လက် စတိုင်တွင် ယဟူဒီများအတွက် ပြည်နယ်တည်ထောင်ပေးရန် စီမံချက်ကို ဗြိတိသျှအစိုးရက သဘောတူ ကျေညာသည်။ ယင်းကို ဗဲလဖိုးကျေညာချက်စာတမ်းဟု ခေါ် သည်။

ဗဲလဖိုးသည် ၁၉၂၁–၂၂ ခု နှစ်များတွင် ဝါရှင်တန်ရေတပ် ကွန်ဖရင့်သို့ ဗြိတိသျှ ကိုယ်စားလှယ် ခေါင်းဆောင် အဖြစ် တက်ရောက်ခဲ့ပြီးနောက် အပြန်တွင် အား ဘွဲ့ချီးမြှင့်ကာ သူ ကောင်းပြုခြင်း ခံရသည်။ ထိုပြင် ဗဲလဖိုးသည် ကိမ်းဗရစ် တက္ကသိုလ်၏ အဓိပတိ အဖြစ် ၁၉၁၉ ခုနှစ်မှ ၁၉၃၀ ပြည့်နှစ် မတ်လ ၁၉ ရက်နေ့တွင် ကွယ်လွန်သည်အထိ ဆောင်ရွက်ခဲ့ လေသည်။

ဗဲလဖိုးသည် နိုင်ငံပြု သုခမိန်သာမဟုတ်၊ ယထာဘူတ

ပညာရှင်ကြီးလည်း ဖြစ်သည်။ ယထာဘူတ ပညာရပ်နှင့်စပ်လျဉ်းသော စာအုပ် စာတမ်းများကိုလည်း ရေးသားခဲ့သည်။ "ယထာဘူတနှင့် စပ်လျဉ်းသည့် သံသယ ဖြစ်မှုကို ချေပချက်" (၁၈၇၉)၊ "စာမွန်များနှင့် မိန့်ခွန်းများ" (၁၈၉၃)၊ "ယုံကြည်မှု၏ အခြေခံ" (၁၈၉၅)၊ "ကျွန်းလုံးဆိုင်ရာ လွတ်လပ်စွာကုန်သွယ်မှု"(၁၉၀၃)၊ "ဘုရားရှိဝါဒနှင့် လူ့ကျိုးပြုဝါဒ" (၁၉၁၄) စသည်တို့သည် ဗဲလဖိုး၏ ထင်ရှားသော လက်ရာများ ဖြစ်လေသည်။

**ဗဲလဖတ်မြို့။** ။ဗဲလဖတ်မြို့သည် ဗြိတိန်နိုင်ငံ၏ တစိတ်တဒေသဖြစ်သော မြောက်ပိုင်း အိုင်ယာလန်၏ မြို့တော် ဖြစ်သည်။ အားစတားပြည်နယ်၏ အရှေ့ဖက်ကမ်းရိုးတန်း၊ အန်ထရင်း ကောင်တီအတွင်း၌ တည်ရှိ၍၊ ဗဲလဖတ်လော့ခေါ် ပင်လယ်လက်ကြားထဲသို့ လက်ဂန်မြစ်စီးဝင်ရာ မြစ်ဝ၌ တည်ရှိလေသည်။

လူဦးရေ ၄၃၇,၀၈၆ ယောက်ရှိ၍ မြောက်ပိုင်း အိုင်ယာလန်၏ လူဦးရေအများဆုံး၊ စက်မှု လက်မှုနှင့် ကုန်သွယ်မှု လုပ်ငန်းများ အကြီးအကျယ်ဆုံး မြို့ကြီး ဖြစ်သည်။ ဗဲလဖတ်မြို့သည် ဗြိတိန်နိုင်ငံ၌ အကောင်းဆုံးသော သင်္ဘောဆိပ်တခု ရှိသောမြို့လည်း ဖြစ်သည်။ ၁၆၃၆ ခုနှစ်က စကော့လူမျိုး ပရက်ဇဗီတီးရီးယန်း ဂိုဏ်းသားတစုသည် အမေရိကတိုက်သို့ သွားရန် ပင်လယ်ကူး သင်္ဘောတစင်းကို ဗဲလဖတ်၌ တည်ဆောက် ခဲ့သည်။ နောင်အနှစ်တရာခန့် ကြာလျှင် ဗဲလဖတ်၌ သင်္ဘောကျင်းကြီးများရှိလာ၍၊ ယခု အခါ အင်္ဂလန်နှင့် အမေရိကတိုက်ကို ကူးလူး သွားလာ နေသော သင်္ဘောကြီးများစွာတို့သည် ဗဲလဖတ်သင်္ဘောကျင်း ထွက်များဖြစ်၍၊ ဗဲလဖတ်သည် ကမ္ဘာပေါ်၌ သင်္ဘောတည် လုပ်ငန်းကြီးကျယ် လှသော မြို့ကြီးတမြို့ ဖြစ်လေသည်။

ယင်းသို့သော မြို့ကြီး ပြကြီးဖြစ်လာသည့် ဗဲလဖတ်သည် ရှေးအခါက သာမညတံငါရွာကလေးတရွာမျှသာဖြစ်သည်။ ၁၆၄၁ ခုနှစ် အိုင်ရစ်သူပုန် အရေးပေါ်ပြီးနောက်တွင် မြို့ရိုး ခံတပ်နှင့် မြို့တမြို့ဖြစ်လာ၍ ကုန်သွယ်ရောင်းဝယ်မှု ဖွံ့ဖြိုး တိုးတက်လာသည်။ ဟျူးဂျနိုးများ ပြင်သစ်နိုင်ငံမှ ထွက်ခွာလာကြရသောအခါ၊ ဗဲလဖတ်မြို့၌ အမြောက်အမြား လာရောက်အခြေစိုက်ကြသည်။ ယင်းတို့သည် စက်ရက်ကန်း အသုံးပြုသော လင်နင်ပိတ်ချောစက်ရုံများ တည်ထောင်ရာ၌ ကူညီအားပေးကြသည်။ ထိုကြောင့် ၁၈ ရာစုနှစ် နောက်ပိုင်းတွင် ဗဲလဖတ်မြို့သည် ပို၍စည်ကား ဝပြောလာသည်။ အိုင်ရစ်လင်နင် ပိတ်ချောလုပ်ငန်း၏ အချက်အခြာ မြို့ကြီး ဖြစ်လာသည်။ ယခုအခါ ယင်းအထည် လုပ်ငန်းသည် ဗဲလဖတ်မြို့၏ ဒုတိယအရေးပါသော လုပ်ငန်း ဖြစ်နေလေပြီ။ ထို့ပြင် ဗဲလဖတ်မြို့မှ ကြိုးလုပ်ငန်း၊ ဆေးလိပ်ဆေးလုပ်ငန်းတို့



မြောက်ပိုင်း အိုင်ယာလန်၏ မြို့တော်ဖြစ်သော ဗဲလဖတ်မြို့ရှိ အစိုးရအိမ်တော်

သည်လည်း ဗြိတိသျှကျွန်းစုတွင် အကြီးအကျယ်ဆုံး ဖြစ်နေလေသည်။ စက်ကရိယာ၊ ချုပ်ပြီး အဝတ်အထည်၊ လေယာဉ်ပျံနှင့် ဓာတုဗေဒ ဆေးလုပ်ငန်းများကိုလည်း ဗဲလဖတ်မြို့၌ လုပ်ကိုင်ကြ၍၊ အရက်ချက်စက်၊ ဂျုံစက်၊ သားရေနယ်စက်များလည်း ရှိလေသည်။

ဗဲလဖတ်မြို့သည် လှပသောမြို့ မဟုတ်ချေ။ သို့သော် မြို့ အနေအထားအကွက်ကျ၍ စံနစ်တကျရှိသည်။ ဘုရင်မ တက္ကသိုလ်၊ ဘုရားရှိခိုးကျောင်းများနှင့် အစိုးရရုံးကြီးများ စသောလှပခန့်ညားသည့် အဆောက်အအုံ ကြီးများလည်းရှိလေသည်။

မြို့သူ မြို့သား တို့သည် များသောအားဖြင့် စကော့-အိုင်းရစ် အဆက်အနွယ်များ ဖြစ်၍ ပရိုတက်စတန့်များ ဖြစ်ကြသည်။ ထို့ကြောင့် ဗြိတိသျှအစိုးရအား သံယောဇဉ် ကြီးမား၍ ယုံကြည်အားထားကာ၊ ဟုမ်းရူးအုပ်ချုပ်ရေး တိုက်ပွဲကို ဆန့်ကျင်တွန်းလှန်ခဲ့သော အချက်အခြာ မြို့ဖြစ်ခဲ့လေသည်။ ထို့ကြောင့် ဗြိတိသျှအစိုးရ အအုပ် အချုပ် လက်အောက်တွင်ပင် ရှိနေသော မြောက်ပိုင်း အိုင်ယာလန်၏ မြို့တော်ဖြစ်လာခဲ့လေသည်။

ဒုတိယကမ္ဘာစစ် အတွင်းက ဗဲလဖတ်မြို့သည် အရေးပါသော ရေတပ်စခန်းမြို့ ဖြစ်ခဲ့သည်။ ၁၉၄၁ ခုနှစ်က ဂျာမန်လေတပ်၏ ငါးကြိမ်တိုင်တိုင် ဗုံးကြဲခြင်းကို ခံရ၍ ရပ်ကွက်အားလုံးတွင် အပျက်အစီးရှိခဲ့သည်။ အမေရိကန်မှ ပို့သော ရိက္ခာများ၊ စစ်လက်နက်ပစ္စည်းများကို ဗဲလဖတ်မြို့မှ တဆင့် မဟာမိတ်တပ်များသို့ တင်ပို့ခဲ့ရလေသည်။

**ဗဲလဗိုအာ၊ ဗတ်ရှကူး နူးညတ် သေ** (ခရစ် ၁၄၇၅ ခန့်–၁၅၁၇)။ ။ဗတ်ရှကူး နူးညတ် သေ ဗဲလဗိုအာသည် ပစိဖိတ်သမုဒ္ဒရာကို ပဌမဆုံးမြင်ဘူးသော ဥရောပတိုက်သား စပိန်လူမျိုး တဦးဖြစ်သည်။ ယခုပနားမား သမတနိုင်ငံဖြစ်သော ထိုစဉ်က ဒါးရီးယင်းနယ်၏ အနောက်ဖက်တွင် သမုဒ္ဒရာကြီး တစင်းရှိ၍ ယင်း၏ ကမ်းခြေတွင် ရွှေပေါသောတိုင်းပြည်များရှိသည်ဟူသော သတင်းစကားကြောင့် ဗဲလဗိုအာသည်နောက်ပါ လက်ရွေးစင် စပိန်တပ်သား ၁၉၀ ခန့်နှင့် ဒါးရီးယင်းမြို့မှ ၁၅၁၃ ခုနှစ် စက်တင်ဘာလ ၁ ရက်နေ့တွင် အနောက်ဖက်သို့ ခရီးထွက်ခဲ့ ကြသည်။ ဒါးရီးယင်းကျွန်းဆက်ကို ဖြတ်ကျော်ရာတွင် ထူထပ်ပြီးလျှင် မှက်၊ ခြင်၊ ယင် ပေါများလှသော အပူပိုင်းဇုန် သစ်တောကြီးများကို ခဲယဉ်းစွာ ဖြတ်သန်းခဲ့ရ၍ တိုင်းရင်းသားလူရိုင်းများ၏ တိုက်ခိုက်ခြင်းကိုလည်း တွန်းလှန်ခဲ့ရသေးသည်။ စက်တင်ဘာလ ၂၅ ရက်နေ့တွင် တောင်ထိပ် တခုပေါ်မှနေ၍ အပြော ကျယ်လှသော သမုဒ္ဒရာကြီးကို ဗဲလဗိုအာတို့ လှစ်မြင်တွေ့ ကြရသည်။ ဗဲလဗိုအာက ယင်းရေပြင်ကျယ်ကြီးကို မားသယ်ဆား (တောင်



ပစိဖိတ်သမုဒ္ဒရာကိုရှေးဦးစွာ တွေ့မြင်ကြရသဖြင့် ဗဲလဗိုအာနှင့် တပည့်များ ပျော်ရွှင် ကြွေးကြော်နေကြစဉ်

ပင်လယ်)ဟု အမည်ပေးသည်။ ထိုနောက် ၇ နှစ် ကြာမှ ယင်းသမုဒ္ဒရာကို မဂျဲလင်က ပစိဖိတ်ဟု အမည်ပေးခဲ့သည်။ (မဂျဲလင် — ရှု။)

ဗဲလဗိုအာသည် ပင်လယ်ကမ်းခြေဒေသတဝိုက်၏ အကျိုးအကြောင်းကို မေးမြန်းစုံစမ်းပြီးနောက် ၂၉ ရက်နေ့တွင် ထိုသမုဒ္ဒရာရေပြင်ကျယ်နှင့် တကွ ယင်းသမုဒ္ဒရာ ရေပြင်ထိစပ်ရာ မြေမှန်သမျှသည် မိမိ၏အရှင်၊ စပိန်နိုင်ငံဘုရင်မင်းမြတ်ပဋ္ဌမဖာဒီနန်၏ ပိုင်နက်အဖြစ်ကျေညာလေသည်။ ယင်းသို့ ပြုခြင်းမှာ စပိန်ဘုရင်မင်းမြတ်က မိမိအပေါ် မျက်တော်မူနေသည်ကို ဖြေစေရန် တကြောင်းဖြစ်ပေသည်။

ဗဲလဗိုအာသည်စပိန်နိုင်ငံ အက်ရှထရဲမသူးရာပြည်နယ်တွင် ၁၄၇၅ ခုနှစ်ခန့်၌ မွေးဖွားသည်။ ထိုစဉ်က ကမ္ဘာသစ် ဟု ခေါ် ဆိုကြသော အမေရိကတိုက်သို့ သူဌေးဖြစ်ရန် အကြံနှင့် ၁၅၀၀ ပြည့်နှစ်ခန့်တွင် ရောက်လာခဲ့သည်။ အနောက်အိန္ဒိယကျွန်းစုထဲမှ ဟစ္စပါညိုလာ(ဟေးတီး)ကျွန်းတွင် စိုက်ပျိုးရေးလုပ်ကိုင်သည်။ သို့သော် စီးပွားလမ်း မဖြောင့်ဘဲ ကြွေးများ ဝိုင်းဝိုင်းလည်နေခဲ့သည်။ ထို့ကြောင့် ကြွေးရှင်များ မသိအောင် သင်္ဘောပေါ်၌ ရေစည်တခုထဲဝင်ပြီး ပုန်း၍ လိုက်ပါကာ ဒါးရီးယင်းနယ်ဖက်သို့ လွင့်လာခဲ့ပြန်သည်။

ဒါးရီးယင်းသို့ ရောက်ပြီးနောက်တွင် ယင်းဒေသကို နယ်သစ်ထူထောင်ရာ၌ ပါဝင်ခဲ့သည်။ သို့သော် နယ်သစ် ထူထောင်ကြသူခေါင်းဆောင်ပိုင်း၌ အချင်းများကြရာ၊ ဗဲလဗိုအာသည် အခွင့်ကောင်းယူပြီးသော်၊ ယင်းနယ်၏ ဘုရင်ခံရာထူးကို ဝင်ယူလိုက်သည်။ ဗဲလဗိုအာ ပုန်းအောင်းလိုက်ပါခဲ့သော သင်္ဘောမှ ဦးစီးသည် နယ်သစ် ထူထောင်ရာ၌ ပါဝင်ရာ၊ ခေါင်းဆောင်များ အချင်းများပြီးနောက်တွင် ယင်းသင်္ဘောဦးစီးကို သံခြေကျဉ်းခတ်၍ စပိန်သို့ ပြန်ပို့သည်။ သင်္ဘောဦးစီးသည် စပိန်သို့ ပြန်ရောက်သောအခါ ဘုရင်မင်းမြတ်ထံ အကြောင်းစုံလျှောက်ထား၍ အသနားခံ သဖြင့် အချုပ်မှ လွတ်မြောက်သည်။ ယင်းကိစ္စနှင့် စပ်လျဉ်း၍ ဘုရင်က မိမိအား မျက်တော်မူကြောင်း ဗဲလဗိုအာ ကြားသိရလေသည်။

ထို့ကြောင့် ဘုရင်အား နယ်သစ်ရှာ၍ ဆက်ခြင်းဖြင့် အမျက်ပြေရန် တကြောင်း၊ ရွှေပေါသောဒေသများ ရှိသည့် သတင်းစကားကြောင့် တကြောင်း ဒါးရီးယင်း၏ အနောက်ဖက်သို့ ခရီးထွက်သွားခြင်း ဖြစ်သည်။ စပိန်ဘုရင် ဖာဒီနန်သည် သမုဒ္ဒရာအသစ်တစင်းတွေ့ကြောင်း သံတော်ဦး တင်လွှာနှင့် အဖိုးထိုက် အဖိုးတန် လက်ဆောင်ပဏ္ဏာများကိုရရှိ၍ ဗဲလဗိုအာအပေါ် အမျက်ပြေတော်မူပြီးလျှင် ဗဲလဗိုအာအားတောင်ပင်လယ်၏ ရေကြောင်း ဗိုလ်ချုပ်အဖြစ် ခန့်အပ်သည်။ သို့သော် ဒါးရီးယင်းနယ်အတွက်မူ ဘုရင်ခံသစ်ခန့်ထားပြီး ဖြစ်လေသည်။ ဘုရင်ခံသစ်သည် ဗဲလဗိုအာကို မလိုမုန်းထားသူ ဖြစ်သည်။ ယင်းဒေသတဝိုက်တွင် ဗဲလဗိုအာ၏ နောက်ထပ် ဆောင်ရွက်မှုများ အောင်မြင်၍ ဗဲလဗိုအာလာခြင်းကို မလိုလားချေ။ ထို့ကြောင့် အပြစ်ရှာ၍ ဗဲလဗိုအာအား နိုင်ငံအစိုးရကို သစ္စာဖောက်မှုဖြင့် ဖမ်းဆီးပြီးလျှင် ၁၅၁၇ ခုနှစ်၌ ဒါးရီးယင်းနယ် အက္ကလာမြို့တွင် လူပရိသတ်အများရှေ့၌ ခေါင်းဖြတ်စီရင်လိုက် လေသည်။

**ဗဲလေ့။** ။လျှို့ဝှက်မဲ — ရှု။

**ဗေ့ာစတန်မြို့။** ။အမေရိကန် ပြည်ထောင်စု မက်ဆချူးဆက်ပြည်နယ်၏ မြို့တော်ဖြစ်သော ဗေ့ာစတန်မြို့သည် ပြည်ထောင်စု၏ န၀မ အကြီးဆုံး မြို့လည်း ဖြစ်သည်။ ကမ္ဘာ့ထိပ်တန်း သင်္ဘောဆိပ်ကမ်းမြို့ကြီးနှင့် လေကြောင်း လမ်းဆုံမြို့ကြီးလည်း ဖြစ်သည်။ နယူးအင်္ဂလန်ပြည်နယ်များ၏ စီးပွားရေး ပညာရေး ယဉ်ကျေးမှု အချက်အခြာ "မဏ္ဍိုင်" မြို့ကြီး ဟုလည်း ခေါ် ဝေါ် ကြလေသည်။

ဗေ့ာစတန်မြို့သည် ချားမြစ်ဝမှ မက်ဆချူးဆက် ပင်လယ်အော်ထဲသို့ ထိုးထွက်နေသော ရှောမွတ်ကျွန်းဆွယ် ပေါ်၌ တည်ရှိသည်။ နယူးယော့မြို့၏ အရှေ့မြောက်ဖက်မိုင် ၂၁၀ ခန့်အကွာ၊ ဝါရှင်တန်မြို့၏ အရှေ့မြောက်ဖက်မိုင် ၄၄၀ ခန့် အကွာတွင် ရှိသည်။ မြို့၏ အကျယ်အဝန်းမှာ ၄၇.၈ စတုရန်းမိုင်ဖြစ်၍ (၁၉၆၀ ပြည့်နှစ် သန်းကောင်စာရင်း အရ) လူဦးရေ ၆၉၇,၁၉၇ ယောက်ရှိသည်။

ယင်းမြို့၏ သင်္ဘော ဆိပ်သည် ဧက ၃၀,၀၀၀ ခန့်ရှိ၍ ကမ္ဘာတွင် အကြီးဆုံး နှင့် ဘေးအန္တရာယ် အကင်းဆုံး သင်္ဘောဆိပ်တခုဖြစ်သည်။ သဘာဝအလျောက် ကောင်းမွန်သော သင်္ဘောဆိပ်ကိုပြုပြင်တိုးချဲ့ထားသဖြင့် အမေရိကန်ပြည်ထောင်စု၏ အကောင်းဆုံး သင်္ဘောဆိပ်တခု အဖြစ်သို့ ရောက်ရှိခဲ့သည်။ မိုင် ၄၀ ခန့်ရှည်သော ဆိပ်ကမ်းတွင် ပင်လယ်ကူးသင်္ဘော၊ ကုန်သင်္ဘော၊ တံငါသင်္ဘော၊ စစ်သင်္ဘော စသည်တို့ဖြင့် အစဉ်မပြတ် ပြည့်နှက်လျက်ရှိ၍၊ မြောက်မြားစွာသော သင်္ဘောကျင်းများလည်း ရှိသည်။ ကမ္ဘာတွင် အကြီးဆုံး တခုဖြစ်သော သင်္ဘောကျင်းကြီးလည်း ရှိသည်။ သင်္ဘော တည်ဆောက်ခြင်း လုပ်ငန်းသည် ဗေ့ာစတန်မြို့၏ အရေးပါသောလုပ်ငန်းတခု ဖြစ်လေသည်။

ဗေ့ာစတန်မြို့၌ စက်မှု လုပ်ငန်းများလည်း ကြီးကျယ်လှသည်။ အမေရိကန် ပြည်ထောင်စု သိုးမွေး လုပ်ငန်းဖက်၌ ဗေ့ာစတန်မြို့သည် အချက်အခြာဖြစ်၍ ကမ္ဘာ့သိုးမွေး လုပ်ငန်းတွင် လန်ဒန်မြို့၏နောက် ဒုတိယ အကြီးကျယ်ဆုံး ဖြစ်သည်။ ထို့ပြင် ငါးဖမ်းသည့် လုပ်ငန်းလည်း ကြီးကျယ်၍၊ ကမ္ဘာ၌ အကြီးအကျယ်ဆုံးသော ငါးဈေးကြီးလည်း ရှိသည်။ သင်္ဘောဆိပ်ကောင်း ရှိသဖြင့်၎င်း၊ မီးရထား အဆက်



ဗော့စတန်မြို့၏ ဆိတ်ငြိမ်သော လူနေရပ်ကွက် ရှုခင်း

အသွယ်ကောင်းမွန်သဖြင့်ရင်း အမေရိကန် ပြည်ထောင်စု၏ ဝင်ကုန်များကို အရပ်ရပ်သို့ ဖြန့်ဖြူးပေးရသော အရေးပါအရာရောက်လှသည့် ကုန်စည်ဖြန့်ဖြူးရေး မြို့ကြီးလည်း ဖြစ်သည်။ ဘဏ်စသော ငွေကြေးလုပ်ငန်းဖက်တွင်လည်း နယူးယော့၊ ရှီကာဂိုနှင့် ဖိလဒဲလဖီးယားမြို့တို့မှ လွဲလျှင်အကြီးကျယ်ဆုံး ဖြစ်လေသည်။

ဗော့စတန်မြို့နှင့် ဆင်ခြေဖုံးဒေသများတွင် ကမ္ဘာ့၌အကြီးကျယ်ဆုံးသော ဖိနပ်စက်ရုံများနှင့် အမေရိကန်၌ထိပ်တန်း အကျဆုံးသောခြည်ထည်စက်ရုံများရှိသည်။ ထိုပြင် စာအုပ်ပုံနှိပ်ထုတ်ဝေရေးလုပ်ငန်း၊ အမဲသား စည်သွတ် လုပ်ငန်းတို့လည်း ဗော့စတန်၏ ကြီးကျယ်သော လုပ်ငန်းများဖြစ်ကြသည်။

ဗော့စတန်မြို့သည် အမေရိကန်မြို့များအနက် စိတ်ဝင်စားဖွယ် အကောင်းဆုံး မြို့တမြို့ ဖြစ်သည်။ ရှေးကိုလိုနီခေတ်က စိတ်ဝင်စားဖွယ်အဖြစ်အပျက်တို့သည် ဗော့စတန်မြို့၌ဖြစ်ပွားခဲ့လေသည်။ ပျူရီတန်တို့ စတင် အခြေစိုက်ခဲ့သော မြို့ဖြစ်၍၊ ပျူရီတန်မဟုတ်သူများအား မြို့အဝင်မခံဘဲ ရက်ရက်စက်စက်ပြုမူခဲ့ပြီးလျှင်၊ မိခင်နိုင်ငံ၏ နှိပ်ကွပ် ချုပ်ချယ်မှုများကိုလည်း ပြင်းပြင်းထန်ထန် တော်လှန်ပုန်ကန်ခဲ့သည့် စိတ်ဓာတ်ပြင်းပြသော မြို့ဖြစ်ပေသည်။ အမေရိကန် တော်လှန်ရေး စတင်ပေါက်ဖွားရာမြို့ ဟုလည်း ဆိုကြသည်။ အမေရိကန်တော်လှန်ရေးကိုခေါင်းဆောင်ခဲ့ကြသော ပေါရီဗီးယား၊ ဂျွန် ဟန်းကော့၊ ဆယ်မျူယယ် အက်ဒမ်၊ ရောဗတ် ပိန်းတို့၏ ဂူသင်္ချိုင်းများ ဗော့စတန်တွင် ရှိသည်။ အမေရိကန် တော်လှန်ရေးသို့ရှေးရှုသော ၁၇၇၀ ပြည့်နှစ် ဗော့စတန်အစုအပြုံလိုက် သုသတ်ပွဲ၊ ဗော့စတန် လက်ဖက်ခြောက်ပါတီ၊ ဗန်ကာတောင်ကုန်းတိုက်ပွဲ (၁၇၇၅) နှင့် ဗော့စတန်မှ ဗြိတိသျှတို့ ရွှေပြောင်းရသော ကိစ္စတို့ကား ဗော့စတန်မြို့၏ သမိုင်းဝင်ထင်ရှားသော အဖြစ်အပျက်များပေတည်း။

ဗော့စတန်မြို့တွင် စတင်အခြေစိုက်လာသူတို့မှာ ဂျွန် ဝင်းထရော့ခေါင်းဆောင်သော ပျူရီတန်များ ဖြစ်ကြ၍၊ ၁၆၃၀ ပြည့်နှစ်ခန့်တွင် ထိုဒေသသို့ ရောက်ရှိလာကြသည်။ မူလက ယင်းဒေသရှိ တောင်ကုန်း ၃ လုံးကို အစွဲပြုကာ "ထရိုင်မောင်းတိန်း" ဟုခေါ်သည်။ နောင်အခါတွင် ထိုမြို့၌ လာရောက်အခြေစိုက်သူတို့တွင် အင်္ဂလန်ပြည် လင်ကွန်းရှိုင်ယာနယ်၊ ဗော့စတန်မြို့မှ အများအပြား ပါဝင်သဖြင့် ဗော့စတန်ဟု အမည်ပြောင်းခဲ့သည်။

ဗော့စတန်သည် ၁၇ ရာစုနှစ်အတွင်း ဖွံ့ဖြိုးတိုးတက်လာသည်။ တော်လှန်ရေး အစတွင် မြို့လူဦးရေ ၂၀,၀၀၀ ခန့်ရှိသည်။ ထိုစဉ်က ကိုလိုနီများအနက် အရေးအပါဆုံး ဖြစ်ခဲ့သည်။ တော်လှန်ရေး ပြီးသည့်နောက်တွင်လည်း ကြီးပွားတိုးတက်လာသည်။ ပြည်တွင်းစစ်အတွင်းက ပြည်ထောင်စုအဖွဲ့ကို အားပေး၍ ငွေဝယ်ကျွန်စံနစ်ပယ်ဖျက်ရေးကိုလည်း ထောက်ခံ အားပေးခဲ့သည်။ ၁၈၇၂ ခုနှစ်တွင် မီးကြီးလောင်ကျွမ်း၍ မြို့ပျက်လုနီးပါးဖြစ်ခဲ့သော်လည်း၊ လျင်မြန်စွာ ပြန်လည်ထူထောင် နိုင်ခဲ့သည်။ ၁၉ ရာစုနှစ် ပဌမ ပိုင်းတွင် ဗော့စတန်သည် အလွန်တိုးတက်ခဲ့သည်။ ယခုအခါ ဗော့စတန်သည် တနည်းအားဖြင့် ဆိုလျှင် မြို့နှစ်မြို့ကဲ့သို့ ဖြစ်နေသည်။ ရှေးကိုလိုနီခေတ် ပုံစံမပျက်သော အဆောက်အအုံများ ရှိသည့် မြို့ဟောင်းနှင့် ခေတ်မှီ အဆောက်အအုံများရှိသည့် ခေတ်မှီ ဥယျာဉ်ပန်းခြံများဖြင့် ခမ်းနားတင့်တယ်သော မြို့သစ်ဟူ၍ နှစ်ပိုင်း ရှိနေလေသည်။ ဗော့စတန်မြို့တွင် တက္ကသိုလ်များ၊ ကောလိပ်များ အများအပြားရှိ၍ ကမ္ဘာကျော် ဟားဗဒ်တက္ကသိုလ်သည် ချားမြစ်၏ တဖက်ကမ်း ဗော့စတန်မြို့၏ ဆင်ခြေဖုံး၌ တည်ရှိသည်။ ရှေးအခါကပင် ဗော့စတန်မြို့သည် ပညာရေးနှင့် အနုပညာ ထွန်းကားသော မြို့ကြီး တမြို့အဖြစ် ထင်ရှားခဲ့သည်။ ကျော်ကြားသော ရှေးခေတ် အမေရိကန် စာကြီး ပေခန့်တို့ကို ပြုစုရေးသားခဲ့ကြသူ စာရေး ဆရာကြီးများတွင် ဗော့စတန်မြို့သား အများအပြား ပါဝင်သည်ဟု ဆိုကြသည်။ ထို့ကြောင့် ဗော့စတန်မြို့ကို "အမေရိကန် အက်သင်းမြို့" ဟု ခေါ် ဝေါ်ကြလေသည်။

# ဆူပူလှုပ်ရှားမှု ပြင်းထန်ခဲ့သော ပြည်နယ်များ

**ပြည်နယ်ကလေးများဖြစ်သော်လည်း၊ ဥရောပနိုင်ငံကြီးများ တန်ခိုးအာဏာပြိုင်ဆိုင်မှု၌ စက်ကွင်းမလွတ်ခဲ့ချေ။ ထို့ကြောင့် ပဌမကမ္ဘာစစ်ကြီး၏ စစ်မီးသည် မကြီးကျယ်လှသော ဗော့စနီးယားပြည်နယ်၏မြို့တော်မှ ထ၍တောက်ခဲ့လေသည်။**

**ဗော့စနီးယားနှင့်ဟားဇီဂိုဗီးနား။** ။ထိုနယ် နှစ်နယ်ပေါင်းသည် ယူဂိုစလားဗီးယားနိုင်ငံ၏ ပြည်နယ်တခု ဖြစ်၍ တခါက ဩစတြီးယား-ဟန်ဂေရီ အင်ပိုင်ယာ၏ ပြည်နယ် တခုဖြစ်ခဲ့လေသည်။ယင်းတို့သည် ဗော်လကန်ကျွန်းဆွယ်၏ အနောက်မြောက်ဖက်တွင် တည်ရှိ၍၊ မြောက်ဖက်တွင် ဆားဗားမြစ်သည်၎င်း၊ အရှေ့ဖက်နှင့် တောင်ဖက်တွင် ဆားဗီးယားပြည်နယ်နှင့် မွန်တီနီးဂရိုးပြည်နယ်တို့သည်၎င်း၊ အနောက်ဖက်တွင် ကရိုအေးရှားပြည်နယ်နှင့် ဒါလမေးရှားနယ် တို့သည်၎င်း နယ်နိမိတ်အဖြစ်တည်ရှိကြသည်။ဗော့စနီးယားနှင့် ဟားဇီဂိုဗီးနားနယ် နှစ်ခုပေါင်း၏ အကျယ်အဝန်းသည် ၁၉,၉၀၀ စတုရန်းမိုင်ခန့်ရှိ၍ လူဦးရေမှာ ၂,၆၇၉,၀၀၀ ခန့် ဖြစ်သည်။

ယင်းနယ် နှစ်ခုသည်တောင်ထူထပ်သောဒေသဖြစ်သည်။ မြင့်မားမတ်စောက်သော တောင်များသည် ထူထပ်သော သစ်တောများ ဖုံးလွှမ်းလျက်ရှိ၍ မြေဩဇာ ကောင်းမွန်သော တောင်ကြားများနှင့် ဆားဗားမြစ်နှင့် ယင်း၏ လက်တက်များ၏ မြစ်ဝှမ်းများရှိ မြေပြန့်များတွင် စိုက်ပျိုးရေးကို လုပ်ကိုင်ကြ၍၊ စိုက်ပျိုးရေးသည် ထိုနယ်နှစ်နယ်၏ အဓိက လုပ်ငန်းဖြစ်လေသည်။ ဆေးရွက်၊ ဂျုံ၊ မုယော၊ ပြောင်း၊ မြင်းစားဂျုံ၊ နှံစားပြောင်း၊ ဗီသွာလျှော်စသည်တို့နှင့် သစ်သီးများကို စိုက်ပျိုးလုပ်ကိုင် ကြသည်။ သစ်သီးခြောက်နှင့် သစ်တို့သည် အဓိကထွက်ကုန်များ ဖြစ်ကြလေသည်။ သံ၊ ကြေးနီ၊ မန်ဂနိ၊ ကျောက်မီးသွေး စသည့်တွင်းထွက် ပစ္စည်းများထွက်သော်လည်း၊ ကူးသန်းသွားလာရေး ခက်ခဲခြင်းကြောင့် အများအပြား တူးဖော် လုပ်ကိုင်ခြင်းမရှိပေ။ မြို့ကြီးများမှာ ဆားရာဂျဲဗိုမြို့၊ မော့စတာမြို့နှင့် ဗန်ဂျာလူကာမြို့တို့ ဖြစ်လေသည်။ ပဌမ ကမ္ဘာစစ်မီးကြီးကို တောက်လောင်စေခဲ့သော မီးပွားသည် ဗော့စနီးယားနယ် မြို့တော် ဆားရာဂျဲဗိုမြို့မှ ပေါ်ထွက်ခဲ့ လေသည်။ (ကမ္ဘာစစ် ပဌမ — ရှု။)

ဗော့စနီးယားနှင့် ဟားဇီဂိုဗီးနားနယ်တို့၏ အခြေ အနေမှာ အခြား ဗော်လကန်နယ်များ နည်းတူ မငြိမ်မသက် လှုပ်လှုပ် ရှရှရှိခဲ့သည်။ ယင်းတို့၏ နောက်ကြောင်း သမိုင်းကို ပြန်ကြည့်မည်ဆိုလျှင် ယင်းတို့သည် တရံခါက သီးခြား လွတ်လပ်သော နယ်များ ဖြစ်ခဲ့ကြသည်။ နောင်တွင် ယင်းတို့ကို ဟန်ဂေရီနိုင်ငံက သိမ်းပိုက်ခဲ့သည်။ ယင်းသည့်နောက်တွင် တူရကီ အင်ပိုင်ယာတွင်းသို့ ကျရောက်ခဲ့ရပြန်သည်။ ၁၈၇၇ ခုနှစ်တွင် ရုရှား-တူရကီ စစ်ပွဲဖြစ်ပွားသောအခါ ရုရှား၏ အကူအညီဖြင့် ယင်းနယ် နှစ်နယ်သည် ကိုယ်ပိုင်အုပ်ချုပ်ရေးရခဲ့သည်။ သို့သော် အခြား ဥရောပလက်နက် နိုင်ငံကြီးများက ဝင်စွက်ကြသဖြင့် ၁၈၇၈ ခုနှစ် ဘာလင်စာချုပ်အရ ထိုနယ် နှစ်နယ်အား ဩစတြီးယား နိုင်ငံက အုပ်ချုပ်ရန် လွှဲပေးလိုက်သည်။ ၁၉၀၈ ခုနှစ်တွင် ဩစတြီးယားက ယင်းနယ် နှစ်နယ်ကို ဩစတြီးယားပိုင်နက် အတွင်း သိမ်းသွင်းလိုက်သည်။ ထို့ကြောင့် ထိုနယ်သားတို့သည် မကျေမနပ်ဖြစ်ကာ ကိုယ်ပိုင် အုပ်ချုပ်ရေးရရန် လှုပ်ရှားဆူပူမှုများ ပြုခဲ့

လေသည်။ဗော့စနီးယား နယ်သားဆဗ်လူမျိုးများကလည်း ယင်းတို့၏ နယ်ကို ဆားဗီးယားနှင့် ပူးပေါင်းစေလိုသည်။ ယင်းသို့ဖြင့် အခြေအနေရှုပ်ထွေးလာပြီးလျှင် ဩစတြီးယား အိမ်ရှေ့ဥပရာဇာမင်းသားနှင့် ကြင်ယာတော်တို့ ဆားရာဂျဲဗိုမြို့၌ လုပ်ကြံခံရရာမှအစ ပဌမကမ္ဘာစစ်မီးကြီး တောက်လောင်သည်အထိ အခြေအနေဆိုးရွားပြင်းထန်ခဲ့လေသည်။

ပဌမ ကမ္ဘာစစ်ကြီး ပြီးဆုံးသောအခါ ထိုနယ်နှစ်နယ်ကို ယူဂိုစလားဗီးယား နိုင်ငံအတွင်း သွတ်သွင်း လိုက်သည်။ ဒုတိယ ကမ္ဘာစစ်အတွင်းက ဂျာမနီနှင့် ဂျာမန်တပ်များသည် ဗော့စနီးယားနှင့် ဟားဇီဂိုဗီးနားနယ်များကို ချင်းနင်းဝင်ရောက်တိုက်ခိုက် ခဲ့သေးသော်လည်း၊ စစ်အပြီးတွင်ယူဂိုစလားဗီးယားနိုင်ငံသို့ ပြန်လည်ပေးအပ်ခဲ့သည်။ ၁၉၄၅ ခုနှစ်မှစ၍ ယင်းသည့်နှစ်နယ်ကို ပေါင်းလိုက်ပြီးလျှင် ယူဂိုစလားဗီးယားနိုင်ငံ၏ ကိုယ်ပိုင်အုပ်ချုပ်ခွင့် ရရှိသော ပြည်နယ်တခု ဖြစ်လာခဲ့လေသည်။

**ဗော့စပရပ်ရေလက်ကြား။** ။တူရကီ နိုင်ငံပိုင် ဖြစ်၍ အာရှတိုက်နှင့် ဥရောပတိုက်ကို ပိုင်းခြားထားသော နယ်နိမိတ် တစိတ်တဒေသဖြစ်သည်။ စစ်မက်ရေးရာ အခါတွင် အရေးပါ၍ ကမ္ဘာတွင် ထင်ရှားသော ရေလက်ကြားတခု ဖြစ်သည်။ ပင်လယ်နက်နှင့် မားမရ ပင်လယ်၊ အီးဂျီးယန်း ပင်လယ်၊ မြေထဲပင်လယ်တို့ကို ယင်းရေလက်ကြားကဆက်သွယ်ပေးထားသည်။အလျား ၁၉ မိုင်ခန့်ရှိ၍အကျယ်မှာအချို့နေရာ၌ မိုင်ဝက်ခန့်၊ အချို့နေရာ၌ နှစ်မိုင်ကျော်ခန့် စသည်ဖြင့် အကျဉ်းအကျယ်နေရာ အမျိုးမျိုးရှိ၍ အရှေ့မြောက်ဖက်မှ အနောက်တောင်ဖက်သို့ အလွန် အကွေ့ အကောက်များသောမြစ်ကြောင်းသဖွယ် တည်ရှိလေသည်။

ဥရောပတိုက်ဖက်သို့ ကျသော အနောက်ဖက် အစွန်းတွင် တူရကီနိုင်ငံ၏ မြို့တော် အစ္စတန်ဗူ (ယခင်ကွန်စတန်တီနိုပယ်)၏ ဆိပ်ကမ်းဖြစ်သော ဂိုးလဒင်းဟွန်း သင်္ဘောဆိပ်တည်ရှိသည်။ ဗော့စပရပ် ရေလက်ကြားတွင် ရေစီးသန်သော ရေစီးကြောင်းများရှိ၍ အချို့နေရာများတွင် ရေစီးအလွန် သန်လှသည်။ ထို့ကြောင့် သင်္ဘောများ သွားလာရန် အန္တရာယ်များလှ၍ မီးပြတိုက်များစွာ ဆောက်လုပ် ထားရလေသည်။

ကမ်းတဖက်တချက်တွင် စိမ်းစိုလှပသော သစ်တောများ၊ ခမ်းနားလှပသောနန်းတော်၊ နွေရာသီ စံအိမ်၊ ရဲတိုက်စသည့် အဆောက်အအုံများ၊ ကျေးရွာများဖြင့် လှပသော ပန်းချီကားတချပ်သဖွယ် ရှုခင်းသာယာလှပေသည်။ ယင်းသို့ သာယာကြည်နူးဖွယ် ကောင်းလှသော ကမ်းတဖက် တချက်တွင် တူရကီအစိုးရက အစောင့်အနေထူထပ်စွာ ချထားသည်။ ရှေးခေတ်မှစ၍ စစ်မက်ရေး အတွက်၎င်း၊ ကုန်သွယ်ရေး အတွက်၎င်း ပင်လယ်နက် ဆိပ်ကမ်းမြို့များနှင့် ဆက်သွယ်လိုလျှင် ဤရေလက်ကြားကို ဖြတ်သွားရသည်။ ဗော့စပရပ်ရေလက်ကြားသည် ပင်လယ်နက်၏တခုတည်းသော ထွက်ပေါက် ဖြစ်ပေသည်။ (ပင်လယ်နက် — ရှု။)

၁၄၅၃ ခုနှစ်မှစ၍ ရေလက်ကြားအတွင်း သွားလာခွင့်ကို တူရကီက ကြီးစိုးခဲ့သည်။ ၁၇၇၄ ခုနှစ်နှင့် ၁၈၀၆ ခုနှစ်များအတွင်း စာချုပ်အမျိုးမျိုး ချုပ်ဆိုခြင်းဖြင့် ယင်း၏ ရေကြောင်းကို နိုင်ငံအသီးအသီးမှ ကုန်သင်္ဘောများ အသုံးပြု



ပင်လယ်နက်နှင့် မြေထဲပင်လယ်တို့ကို ဆက်သွယ် ပေးရာဖြစ်သော တူရကီနိုင်ငံ ဗော့စပရပ် ရေလက်ကြား၏ ရှုခင်း တစိတ်တဒေသ

ခွင့် ရခဲ့သည်။ ၁၈၂၃ ခုနှစ် လိုဇန်းစာချုပ်အရ ဗော့စပရပ် ကမ်းနှစ်ဖက်ကို တူရကီအား ပိုင်ဆိုင်ခွင့် ပေးထားလင့်ကစား ရေကြောင်း အုပ်ချုပ်မှုကို နိုင်ငံပေါင်းစုံ ပါဝင်သော ကော်မရှင်၏လက်အောက်တွင် ထားရှိခဲ့သည်။ သို့သော် ၁၉၃၆ ခုနှစ်မှစ၍ ရေကြောင်း အုပ်ချုပ်ရေးကို တူရကီ အစိုးရအား ပြန်၍ ပေးခဲ့လေသည်။

"ဗော့စပရပ်" ဟူသော အမည်သည် "နွားမ ဖြတ်ရေတိမ်" ဟု အနက်ရသည့် ဂရိစကားမှ ဆင်းသက်လာသည်။ ဂရိထုံးဟောင်း ပုံပြင်အရ အိုင်အိုနတ်သမီးသည် ဟီးရနတ်သမီး၏ရန်ကို ကြောက်၍ထွက်ပြေးရာတွင် ဗော့စပရပ် ရေလက်ကြားနေရာသည် ရေတိမ်သဖြင့် နွားအသွင် ဖန်ဆင်းပြီးသော် ကူးဖြတ်ပြေးသည်ဟု ဆိုလေသည်။

**ဗော့ဇဝဲ,ဂျိမ်း**(ခရစ် ၁၇၄၀–၁၇၉၅)။ ။အင်္ဂလိပ် စာပေလောကတွင် "ဆယ်မျူယယ်ဂျွန်ဆင်၏အတ္ထုပ္ပတ္တိ"သည် အတ္ထုပ္ပတ္တိစာအုပ်များထဲတွင် အထင်ရှားအကျော်ကြားဆုံး ဖြစ်သည်။ ထိုစာအုပ်ကို ရေးသား ပြုစုသူမှာ စကော့လူမျိုး ဂျိမ်းဗော့ဇဝဲဖြစ်၍ ယင်းစာအုပ်သည် သူ၏ အကောင်းဆုံး လက်ရာ ဖြစ်သည်။ ထင်ရှား ကျော်ကြားသော အင်္ဂလိပ်စာရေးဆရာကြီး ဆယ်မျူယယ် ဂျွန်ဆင် (ဂျွန်ဆင်,ဆယ်မျူယယ် — ရှု။)၏ အကြောင်းကို စေ့စပ် သေချာစွာနှင့် ကွက်ကွက် ကွင်းကွင်း ထင်မြင်လာအောင် ရေးသား ပြုစုခဲ့သူ ဗော့ဇဝဲအား အချို့က အတော်ဆုံးသော အတ္ထုပ္ပတ္တိရေးသူဟု အသိအမှတ် ပြုကြလေသည်။

ဗော့ဇဝဲသည် နောင်လော့အော်ကင်လက် ဖြစ်လာသည့် အယ်လက်ဇန္ဒာ ဗော့ဇဝဲ၏ သားကြီးဖြစ်၍ စကော့ ဆွေကြီးမျိုးကြီးမှ ဆင်းသက်လာသည်။ အက်ဒင်ဗာရာမြို့၌ ၁၇၄၀ ပြည့်နှစ် အောက်တိုဘာလ ၂၉ ရက်နေ့တွင် မွေးဖွား၍ အက်ဒင်ဗာရာ တက္ကသိုလ်နှင့် ဂလပ်စဂိုး တက္ကသိုလ်တို့ အပြင် ဟော်လန်နိုင်ငံ ယူးထရက် တက္ကသိုလ်၌လည်း ပညာဆည်းပူးခဲ့လေသည်။

၁၇၆၃ ခုနှစ်တွင် လန်ဒန်မြို့သို့ ရောက်ခဲ့စဉ်က ဂျွန်ဆင်နှင့် ပဌမဆုံးအကြိမ်တွေ့ဆုံဘူးသည်။ ဗော့ဇဝဲသည် ထိုနှစ်တွင် ဥရောပတိုက်သို့ သွားရောက် လည်ပတ်ပြီးလျှင် ယူးထရက်တက္ကသိုလ်၌ ဥပဒေပညာ ဆည်းပူးသည်။ ထိုနောက် ဣတလီနိုင်ငံသို့ သွားရောက်ခဲ့ရာ၊ ဗော်လတဲယား၊ ရူးဆိုး၊ ကော်စီကန်ခေါင်းဆောင် ပါးအိုလီ စသော နိုင်ငံရေးပုဂ္ဂိုလ်ကျော်များနှင့် သိကျွမ်းခဲ့သည်။

ဗော့ဇဝဲသည် သွက်လက်ချက်ခြာ၍ ဖော်ရွေလိုက်လျောစွာပေါင်းသင်း ဆက်ဆံတတ်သူ ဖြစ်သည်။ ထိုကြောင့် စကော့လူမျိုးကို မုန်းတီးသော ဂျွန်ဆင်သည်ပင် ဗော့ဇဝဲကို ခင်မင်လာခဲ့ရသည်။ ဂျွန်ဆင်နှင့် ခင်မင်ရင်းနှီးလာသည်မှစ၍ ဗော့ဇဝဲ၏ ဘဝတွင် အချိုးတကွေ့ ပြောင်းလာသည်။ ၁၇၆၆ ခုနှစ်တွင် အက်ဒင်ဗာရာမြို့၌ ဝတ်လုံ လိုက်ခွင့် ရသော်လည်းဗော့ဇဝဲသည် စာရေးသားရန်ပို၍ စိတ်သန်လာသည်။ ဂျွန်ဆင်၏ အကြောင်းကို စာတစောင် ပေတဖွဲ့ ပြုစုရန် ကြံစည်စိတ်ကူးလာသည်။ ထိုကြောင့် ဂျွန်ဆင် သွားလေရာ တကောက်ကောက် လိုက်ပါပြီးလျှင်၊ ဂျွန်ဆင်၏ အပြော အ



စာရေးဆရာကြီး ဗော့ဇဝဲနှင့် ဒေါက်တာ ဆယ်မျူယယ်ဂျွန်ဆင်တို့ ပဌမဆုံးအကြိမ် တွေ့ဆုံမိတ်ဆက်ပွဲ ကျင်းပကြစဉ်

ဆို၊ အနေအထိုင်၊ စိတ်နေသဘောထားတို့ကို စေ့စပ်သေချာ တိကျစွာ မှတ်တမ်းတင်သည်။ ထိုအတောအတွင်း စာတိုပေစများကိုလည်းရေးသားရာ ဝင်ငွေမကောင်းသဖြင့်ကြွေးဝိုင်းနေလေသည်။ ၁၇၆၇ ခုနှစ်တွင် ဩတလီနိုင်ငံ ကော်စီကားကျွန်းသို့ သွားရောက်စဉ်က အကြောင်းကို စာတအုပ်ရေးသား ထုတ်ဝေသည်။

ဂျွန်ဆင်နှင့် ပေ့ဇဝဲတို့သည် တတွဲတွဲနှင့် ရှိနေခဲ့သော်လည်း၊ သူတို့သည် သက်တူရွယ်မျှ မဟုတ်ဘဲ၊ ပေ့ဇဝဲသည် ဂျွန်ဆင်ထက် အနှစ်သုံးဆယ်ခန့် ငယ်သည်။ ဂျွန်ဆင်၏ ပြောင်လှောင် သရော်မှု၊ ကျီစယ်မှုတို့ကို ပမာမထားဘဲ ပေ့ဇဝဲက သူသိလိုသမျှတို့ကို စပ်စပ်စုစု မေးမြန်းမှတ်သားတတ်သည်။ ထိုကြောင့်လည်း ပေ့ဇဝဲပြုစုသော ဂျွန်ဆင်၏ အတ္ထုပ္ပတ္တိသည် အခြားသော အတ္ထုပ္ပတ္တိများထက် ပြည့်စုံပြီးသော် ကွက်ကွက်ကွင်းကွင်း ရှိလှလေသည်။ ပေ့ဇဝဲသည် ဂျွန်ဆင်ကို အကြောင်းပြု၍ ဂစ်ဗန်၊ ဂိုးစမစ်၊ အက်ဒမန်ဗတ်၊ ဆာ ရေးနော စသော ပုဂ္ဂိုလ်ကျော်ကြီးများနှင့်လည်း ရင်းနှီးခဲ့သည်။ ပေ့ဇဝဲ၏ ဝါသနာမှာလည်း ပုဂ္ဂိုလ်အကျော်အမော်များနှင့် သိကျွမ်းလိုခြင်း ဖြစ်သည်။ ဂျွန်ဆင်ဦးစီး၍ အထက်တွင် ဆိုခဲ့သော စာရေးဆရာနှင့် ပန်းချီဆရာ အကျော် အမော်ကြီးများ ပါဝင်သည့် "စာပေ အသင်း" တွင် ဂျွန်ဆင်၏ ထောက်ခံချက်အရ ပေ့ဇဝဲသည် အသင်းဝင် တဦး ဖြစ်ခဲ့လေသည်။

၁၇၇၃ ခုနှစ်တွင် ပေ့ဇဝဲသည် စကော့တလန်ပြည် ဟက်ဗရိဒီးကျွန်းသို့ ဂျွန်ဆင်အား မလိုက် လိုက်အောင် ခေါ်ဆောင်၍ နှစ်လကြာမျှ အလည်အပတ် သွားသည်။ ဂျွန်ဆင်ကွယ်လွန်ပြီးနောက် နှစ် နှစ်ခန့်အကြာ(၁၇၈၅ ခုနှစ်) တွင် ထိုသို့ ခရီးထွက်ကြစဉ်က အမှတ်တရ အဖြစ်အပျက်ကလေးများနှင့်အတူ "ဟက်ဗရိဒီးကျွန်းခရီးသွား မှတ်တမ်း" စာအုပ်ကို ရေးသားထုတ်ဝေခဲ့သည်။ ထို့နောက် ၁၇၉၁ ခုနှစ်တွင် စာပေ လောကတွင် သူ၏ ဂုဏ် သတင်းကို ထွန်းပြောင်စေမည့် ဒေါက်တာဂျွန်ဆင်၏ အတ္ထုပ္ပတ္တိ စာအုပ်ကြီးကို ရေးသားထုတ်ဝေသည်။ ယင်းစာအုပ် နှစ်အုပ်လုံးတွင် ထိုစဉ်က အသက်ရှင်နေဆဲ ပုဂ္ဂိုလ်အချို့၏ အကြောင်းကို ဘွင်းဘွင်းရှင်းရှင်း ထည့်သွင်း ရေးသား ထားသဖြင့် ထိုစာအုပ်များ ထွက်သည့်အခါ ဆူဆူ ပူပူ ဖြစ်ခဲ့သေးသည်။ မည်သို့ပင်ဖြစ်စေ ပေ့ဇဝဲ၏ ဂျွန်ဆင် အတ္ထုပ္ပတ္တိ စာအုပ်ကား အကောင်းဆုံး အတ္ထုပ္ပတ္တိ စာအုပ်တအုပ် ဖြစ်လာလေသည်။

ယင်းအတ္ထုပ္ပတ္တိ စာအုပ်ကို ရေးသား ထုတ်ဝေပြီးနောက်တွင် ပေ့ဇဝဲသည် မိမိအနှစ်နှစ် အလလ ကြိုးစားအားခဲ ဆောင်ရွက်ခဲ့သော လုပ်ငန်းပြီးစီးပြီဖြစ်၍ စိတ်အား လျော့သည် တကြောင်း၊ ကြွေးများအတွက် သောကများရသဖြင့် တကြောင်းကြောင့် စာအုပ် ထုတ်ဝေ ပြီး၍ ၄ နှစ် အကြာ ၁၇၉၅ ခုနှစ် မေလတွင် လန်ဒန်မြို့၌ ကွယ်လွန်သွားလေသည်။

**ပော်တယ်ပင်။** ။ပော်တယ်ပင်သည် ဩစတြေးလီးယားတိုက်၊ကွင်းစလန်ပြည်နယ်နှင့် အတွင်းပိုင်းကျသော အပူပိုင်းဒေသများ၌သာ ပေါက်ရောက်တတ်သော အရွယ်အလတ်စား သစ်ပင်မျိုး ဖြစ်သည်။ ပင်စည်၏ ပုံသဏ္ဌာန်နှင့်ပေါက်ရောက်ပုံမှာ အလွန် ကြီးမားသော ပုလင်းလုံးကြီးတခုကို ထောင်ထားသည်နှင့် တူသောကြောင့် ပုလင်းပင်ဟူသော အဓိပ္ပါယ်ဖြင့် ပော်တယ်ထရီးဟု အင်္ဂလိပ်ဘာသာဖြင့် ခေါ်ဝေါ်ခြင်း ဖြစ်လေသည်။

ပော်တယ်ပင်သည် စတားကျူလီယေးစီအီး မျိုးရင်းတွင်ပါဝင်သည်။ ပင်စည်သည် ပုဝိုင်းဝိုင်းဖြစ်၍ အကိုင်းအခက်တို့သည် ပင်စည်မှထွက်ခြင်း မရှိဘဲ ပုလင်းဝနှင့်တူသော ပင်စည်ထိပ်မှသာ ယှက်ဖြာ၍ ထွက်သည်။ အရွက်တို့သည် လုံ့စွပ်ပုံရှိ၍ အနားချော့မှတ်ပြီးလျှင် ထိပ်ချွန်သည်။ ၂ လက်မ မှ ၄ လက်မ အထိ ရှည်သည်။ သေးသိမ်သော အကိုင်းအလက်များပေါ်တွင် အပွင့်ကလေးများ အစုလိုက်၊ အခဲလိုက် ပွင့်သည်။ အသီးသည် ပဲတောင့်ကဲ့သို့ ဖြစ်၍ အစေ့ ၆ စေ့ ပါသည်။

အပင်၏ အတွင်းသား အူတိုင်သည် ပျော့ဖတ်များ ဖြစ်၍ အရည်ရွှမ်းလှသည်။ ရေပါးရှားသော ကာလများတွင် အပင်၏ ပင်စည်ကို ခုတ်ထစ်၍ နွားများအား ကျွေးလျှင် ရေတော်လည်းပြေ၍ အာဟာရလည်း ဖြစ်သည်။ နွားများ အအလွန်နှစ်သက်ရာ အပင်ကို ခုတ်ထစ်ရာမှ လွင့်စင်ကျသော အစအနများကိုပင် အလုအယက် တိုးဝှေ စားသောက်တတ်ကြသည်။ တိုင်းရင်းသားများနှင့် ခရီးသည်တို့လည်း ထိုအပင်၏ ပင်စည်ကို ထစ်၍ အရည်ကို ခံယူပြီးသောက်ကြသည်။ ပင်စည်၏ အခေါက်မှ ထုတ်ယူရရှိသော လျှော်မျှင်ဖြင့် ပိုက်ကွန်များ ရက်လုပ်ကြသည်။ ထိုပြင် ပင်စည်ကို ထွင်း၍ ဘောက်တူများလည်း ပြုလုပ်အသုံးချနိုင်သေးသည်။ ပော်တယ်ပင် မျိုးစိတ်များရှိသေးရာ အချို့အပင်၏ အမြစ်ဥများကို ရှေးဦး တိုင်းရင်းသားတို့ စားသုံး ကြလေသည်။

**ပော်ဒိုးမြို့။** ။ပော်ဒိုးမြို့သည် ပြင်သစ်နိုင်ငံ၏ ထိပ်တန်း သင်္ဘောဆိပ်မြို့ကြီး တမြို့လည်းဖြစ်၍၊ ကုန်သွယ်ရောင်းဝယ်မှုကြီးကျယ်စည်ကားလှသော မြို့ကြီးတမြို့လည်း ဖြစ်သည်။ ဗစ္စကေးပင်လယ်အော်ထဲသို့ စီးဝင်သော ဇီးရွန်းမြစ်ဝကျယ်မှ အရှေ့တောင်ဖက် မိုင် ၇၀ ခန့်ဆန်တက်လာလျှင် ဂရွန်းမြစ်ထဲသို့ ရောက်လာပြီးသော် ယင်း၏ လက်ဝဲဖက် ကမ်းပေါ်၌ တည်ရှိသော ပော်ဒိုးမြို့ကို တွေ့ရပေလိမ့်မည်။ ပော်ဒိုး

မြို့သည် ဇီးရွန်းစီရင်စုနယ်၏ မြို့တော်ဖြစ်၍၊ ပါရစ်မြို့တော်မှ အနောက်တောင်ဖက် မိုင် ၃၆၀ ခန့် ကွာဝေးလေသည်။

ဗေါ်ဒိုးမြို့သို့ အရောက်တွင် ဂရွန်းမြစ်သည် ကွေ့ကောက်နေရာ၊ ယင်းသည်ပင် ဗေါ်ဒိုးမြို့အတွက် အလွန်ကောင်းမွန်သော သင်္ဘောဆိပ်ကိုဖြစ်စေသည်။ သဘာဝသင်္ဘောဆိပ်ကောင်းကို ပြုပြင်မွမ်းမံထားပြန်သဖြင့် အလွန်ကြီးမားသော သင်္ဘောကြီးများမှအပ သင်္ဘောကြီးများစွာတို့သည် ဗေါ်ဒိုးမြို့သို့ဝင်ထွက်သွားလာနိုင်ကြသည်။ အထူးသဖြင့် တောင်အမေရိကတိုက်မှ ပြင်သစ်နိုင်ငံသို့ လာရောက်သော သင်္ဘောကြီးများသည် ဗေါ်ဒိုးမြို့သို့ ဆိုက်ကပ်ကြလေသည်။ ဗေါ်ဒိုးမြို့၏ မြစ်ကမ်းတလျှောက်၌ ခေတ်မှီသင်္ဘောကျင်းကြီး များစွာရှိ၍ သင်္ဘောတည်ဆောက်သောလုပ်ငန်းသည် ဗေါ်ဒိုးမြို့၏ အရေးပါသော လုပ်ငန်းတရပ် ဖြစ်လေသည်။

ဗေါ်ဒိုးမြို့သည် တောင်ကုန်းထူထပ်၍ နေရောင်ခြည်ရသော အက်ကီးတိန်းဒေသ၏အလယ်၌ တည်ရှိသည်။ ယင်းဒေသတွင် စပျစ်ခြံများ ဖြစ်ထွန်းပေါများလှသည်။ ထိုကြောင့် ဝိုင်အရက်လုပ်ငန်းကို ဗေါ်ဒိုးမြို့၌ အကြီးအကျယ်လုပ်ကိုင်သည်။ ဗေါ်ဒိုးမြို့ထွက် ဝိုင်အနီနှင့် အဖြူသည် ရောမခေတ်အခါကပင် ကျော်ကြားထင်ရှားခဲ့လေသည်။ ထိုပြင် ဗရန်ဒီအရက်၊ သကြား၊ ရှာလကာရည်၊ အိုးခွက်၊ ဖန်ထည်၊ ကော်ဇော၊ စက္ကူနှင့် တံငါလုပ်ငန်းတို့ကိုလည်း ဗေါ်ဒိုးမြို့၌ လုပ်ကိုင်ကြသေးသည်။

ဗေါ်ဒိုးမြို့နှင့် တဖက်ကမ်းရှိ မြို့၏ ဆင်ခြေဖုံး ဒေသကို ပေါင်းကူး ၁၇ ခုရှိသော ဗေါ်ဒိုးတန်တားဖြင့် ဆက်သွယ်ထားသည်။ ယင်းတန်တားပေါ်မှ ဗေါ်ဒိုးမြို့၏ သာယာလှပသော ရှုခင်းကို တွေ့မြင် နိုင်သည်။ ဗေါ်ဒိုးမြို့၏ ခန့်ညားလှပသော အဆောက်အအုံများမှာ ၁၂ ရာစု၊ ၁၄ ရာစုခေတ်က ဆောက်လုပ်ခဲ့သော စိန်အန်ဒရေဝတ်ကျောင်း၊ စိန်မီရှယ်၊ စိန်ဆေဗရန်း၊စိန်ကရွားဘုရားရှိခိုးကျောင်းများ ဖြစ်သည်။ ထိုပြင် ရောမခေတ် ဇာတ်ရုံဝိုင်း အပျက်အစီးတခုနှင့် ခန့်ညားလှသော မြို့တံခါး ၄ ပေါက်လည်း ရှိသေးသည်။ ဗေါ်ဒိုးမြို့၏ တက္ကသိုလ်ကျောင်းတော်ကြီးနှင့် စာကြည့်တိုက်ကြီးများသည်လည်း မြို့ကျက်သရေဆောင်ကြီးများ ဖြစ်ကြသည်။ လူဦးရေ ၂၇၅,၉၄၆ ယောက်ရှိသည်။

ဗေါ်ဒိုးမြို့သည် ရှေးအခါက ကဲ့လူမျိုးတို့၏ မြို့ဖြစ်ရာ နောင်အခါ ရောမလူမျိုးတို့က လာရောက်ကြီးစိုးသည်။ ရောမခေတ်တွင် ကုန်သွယ်ရေး အချက်အခြာမြို့နှင့် နယ်ကြီး တနယ်၏ မြို့တော်လည်း ဖြစ်ခဲ့သည်။ ၁၁၅၄ ခုနှစ်တွင် ပြင်သစ်



နာမည်ကျော် ဗေါ်ဒိုး ဝိုင်အရက်နှင့် စပျစ်သီးများ ထွက်ရာ ဗေါ်ဒိုးမြို့၏ ရှုခင်း

မင်းသမီး အယ်လီနာသည် အင်္ဂလန်ပြည့်ရှင် ဒုတိယ ဟင်နရီနှင့် လက်ဆက်သောအခါ၊ ဗော်ဒိုးမြို့သည် မင်းသမီး၏ ခန်းဝင်လက်ဖွဲ့အဖြစ် အင်္ဂလိပ်လက်သို့ ရောက်ခဲ့ရာ၊ ၁၄၅၃ ခုနှစ်တွင်မှ ပြင်သစ်လက်သို့ ပြန်၍ ရောက်ခဲ့သည်။ ပြင်သစ်တော်လှန်ရေးခေတ်က ဗော်ဒိုးမြို့တွင် ဆူပူသောင်းကျန်းမှု များစွာဖြစ်ပွားခဲ့၍ မြို့လည်း ပျက်စီးခဲ့ရသည်။ ၁၈၇၀ ပြည့်နှစ်တွင် ပါရစ်မြို့တော်ကို ဂျာမန်တို့က သိမ်းပိုက်ထားသောအခါ၊ ဗော်ဒိုးသည် ပြင်သစ်မြို့တော် ခေတ္တ ဖြစ်ခဲ့သေးသည်။

ပဌမကမ္ဘာစစ်ကြီးအတွင်းကလည်း ပါရစ်မြို့၏ အခြေအနေစိုးရိမ်ရသောအခါ၊ ပြင်သစ်အစိုးရသည် ဗော်ဒိုးသို့ ပြောင်းရွှေ့ ရုံးစိုက်ခဲ့ရသည်။ ထို့ပြင် အမေရိကန်ပြည်ထောင်စုမှ မဟာမိတ်များအတွက် လူ၊ ရိက္ခာနှင့် လက်နက်များကို ဗော်ဒိုးသို့ ပို့ပြီးသော် ထိုမှတဆင့် ဖြန့်ဖြူးရသည်။ ဒုတိယကမ္ဘာစစ်အတွင်း (၁၉၄၀ ပြည့်နှစ် ဇွန်လ) ကလည်း ပြင်သစ်အစိုးရသည် ဗီရှီမြို့သို့ မပြောင်းမီ၊ ဗော်ဒိုးမြို့၌ ယာယီရုံးစိုက် သေးသည်။ ပဌမကမ္ဘာစစ်အတွင်း၌၎င်း၊ ဒုတိယကမ္ဘာစစ်အတွင်း၌၎င်း ဗုံးဒဏ်အကြိမ်ကြိမ် ခံခဲ့ရသည်။ ပါရစ်မြို့တော် ကျဆုံးပြီးနောက် မကြာမီ ဂျာမန်တပ်များက ဗော်ဒိုးကိုလည်း သိမ်းပိုက်၍ ရေငုပ်သင်္ဘော အခြေခံစခန်း ပြုထားသည်။ ၁၉၄၄ ခုနှစ် ဩဂုတ်လကုန်လောက်တွင်မှ ပြင်သစ်နှင့် အမေရိကန်တပ်များက ဗော်ဒိုးမြို့ကို ပြန်လည်သိမ်းပိုက် ခဲ့ရလေသည်။

**ဗော်နီယိုကျွန်း။** ။ဗော်နီယို ကျွန်းသည် အရှေ့အိန္ဒိယကျွန်းစုတွင် အကြီးဆုံးကျွန်းဖြစ်၍၊ ကမ္ဘာ့လူနေကျွန်းများထဲတွင် ဂရင်းလန်နှင့် နယူးဂင်နီကျွန်းတို့၏ နောက် တတိယအကြီးဆုံး ဖြစ်လေသည်။ ဖိလစ်ပိုင်ကျွန်းစု၏ တောင်ဖက်တွင်၎င်း၊ ဂျားဗားကျွန်း၏ မြောက်ဖက်တွင်၎င်း တည်ရှိ၍ ယင်း၏ နယ်နိမိတ်မှာ မြောက်ဖက်တွင် ဆူးလူးပင်လယ်၊ အရှေ့ဖက်တွင် စဲလဗီးပင်လယ်နှင့် မာကက်ဆာရေလက်ကြား၊ တောင်ဖက်တွင် ဂျားဗား ပင်လယ်၊ အနောက် တောင်ဖက်တွင် ကရိမာတာရေလက်ကြား၊ အနောက် မြောက်ဖက်တွင် တောင်တရုပ်ပင်လယ်တို့ ရှိသည်။

ထိုကျွန်းသည် တြိဂံပုံသဏ္ဌာန်ရှိ၍ အထက်ကျဉ်း ပြီးလျှင် အောက်ပိုင်းကားသည်။ အရှည်ဆုံးသော နေရာတွင် မိုင် ၈၅၀ ခန့်ရှိ၍၊ အကျယ်ဆုံး နေရာတွင် မိုင် ၆၀၀ ခန့် ရှိသည်။ ကျွန်း တကျွန်းလုံး၏ အကျယ် အဝန်းမှာ စတုရန်း မိုင် ၂၈၇,၄၂၀ ဖြစ်သည်။ကျွန်းအကျယ်အဝန်း၏ ၇၂ ရာခိုင်နှုန်းသည် ယခင်က နယ်သာလန် (ဒပ်ချ) ဗော်နီယိုဖြစ်၍ ယခုအခါ အင်ဒိုနီးရှားနိုင်ငံတွင်း၌ ပါဝင်ကာ ကာလီမန်းတင်းပြည်နယ်ဟုခေါ် တွင်သည်။ ကျွန်း၏ကြွင်းသော အစိတ်အပိုင်းသည် ဗြိတိသျှဗော်နီယိုဟု ခေါ်တွင်၍ ဗြိတိသျှ အစိုးရ၏ အစောင့် အရှောက်ခံ ဖြစ်ကြသော ဗြိတိသျှကိုလိုနီနယ် ၂ နယ်နှင့် စော်ဘွားနယ် တနယ်တို့ ပါဝင်ပေသည်။

များသောအားဖြင့် ဗော်နီယိုကျွန်း၏ မြေမျက်နှာပြင်သည် တောင်များ ထူထပ်သည်။ ဗော်နီယိုကျွန်း၏ တောင်စဉ် တောင်တန်းတို့တွင် အမြင့်ဆုံးဖြစ်သော ကီနာဗာလူ




ဗော်နီယိုကျွန်း တည်နေရာပြမြေပုံ

တောင်ထိပ်သည် ပင်လယ်ပြင်အထက် ပေ ၁၃,၀၀၀ ကျော်ခန့်မြင့်သည်။ မြစ်ချောင်းများလည်း ပေါများ၍ ယင်းတို့သည် ခန်းခြောက်သည်မရှိဘဲ ရေများဖြင့် ပြည့်လျှံ၍သာ ရှိကြသည်။ ထင်ရှားသော မြစ်ကြီးများမှာ အနောက်မြောက်ဖက်၌ ရာဂျန်မြစ်၊ အနောက်တောင်ဖက်၌ ကပွတ်ယားမြစ်၊ အရှေ့တောင်ဖက်၌ ဗာရစ်တိုမြစ်နှင့် အရှေ့ဖက်၌ မဟာကမ်မြစ်တို့ ဖြစ်ကြသည်။ ယင်းတို့အားလုံးတွင် များသောအားဖြင့် မိုင်ပေါင်း များစွာ တိုင်အောင် လှေသင်္ဘောသွားလာနိုင်ကြလေသည်။ကမ်းရိုးတန်းတလျှောက်သည် ရွံ့နှံ့ ထူပြောသော မြေပျော့မြေနိမ့်များ ဖြစ်သည်။ အကောင်းဆုံး သင်္ဘောဆိပ်သည် ဗရူးနေး ပင်လယ်အော်ဖြစ်၍ မြောက်ဖက်ကမ်းရိုးတန်းတွင် ရှိသည်။ ဒုတိယ ကမ္ဘာစစ်အတွင်းက ယင်းသည် ဂျပန်တို့၏ အခြေခံ ရေတပ်စခန်း ဖြစ်ခဲ့လေသည်။

အီကွေတာချဉ်း ဖြတ်သန်းသွားရာ အပူပိုင်းဇုန်ဒေသဖြစ်သဖြင့် ရာသီဥတု ပူအိုက်စိုစွတ်ပြီးလျှင် တနှစ်ပတ်လုံး လိုလိုပင် မိုးရွာတတ်သည်။ ပူပြင်းခြောက်သွေ့သော အခါ သမယ ဟူ၍ ပြောပလောက်အောင် မရှိချေ။ ပင်လယ်လေ ကောင်းစွာရရှိနေသောကြောင့်လည်း အပူအအေးလွန်ကဲခြင်းလည်း မရှိပေ။ မိုးများလှသော ဒေသဖြစ်သဖြင့် သိပ်သည်းထူထပ်သော သစ်တောကြီးများ ရှိသည်။ ယင်း သစ်တော ကြီးများမှ သစ်အမျိုးပေါင်း ၅၀ ကျော်ထွက်၍ ကျွန်းသစ်စသော အဖိုးတန် သစ်များလည်း ပါဝင်လေသည်။

ဗော်နီယိုကျွန်းသည် သယံဇာတ တွင်းထွက် ပစ္စည်းများဖြင့် ပေါကြွယ်ဝသည်။ အဖိုးတန်လှသော ရေနံမြေများစွာလည်း ရှိသည်။ အကြီးဆုံး ရေနံချက် စက်ရုံကြီးသည် အရှေ့တောင်ဖက်ကမ်းရိုးတန်း၌ ရှိသော ဗာလစ်ပါပန်မြို့၌ တည်ရှိသည်။ စိန်နှင့် အခြား ကျောက်မျက် ရတနာများကိုလည်း တူးဖော် ရရှိသည်။ သို့သော် စိန်များသည် အာဖရိကစိန်များလောက် အမျိုးအစားမကောင်းလှပေ။ ရွှေ၊ ကြေးနီ၊ သံ၊ ခနောက်စိမ်း၊ ပလက်တီနမ်၊ သံဖြူ စသော သတ္တုများလည်း တူးဖော်ရရှိလေသည်။

ဗော်နီယိုကျွန်း၏ အရေးပါသော လုပ်ငန်းများမှာ ရေနံနှင့် ကြက်ပေါင်စေးလုပ်ငန်း ဖြစ်သည်။ ဒုတိယ ကမ္ဘာစစ်မတိုင်မီက ဗော်နီယို ကျွန်းသည် ကမ္ဘာ့ကြက်ပေါင်စေး၏ ⅓ ပုံ ထွက်ခဲ့သည်။ ဆန်စပါး၊ ကော်ဖီ၊ ဆေးရွက်၊ ကော်၊ ဟင်းခတ် အမွှေးအကြိုင်များ၊ သကြားနှင့် ဝါဂွမ်းတို့သည်လည်း ဗော်နီယိုကျွန်း၏ ထင်ရှားသော ထွက်ကုန်များ ဖြစ်သည်။ ဗော်နီယိုကျွန်းသူများ ရက်လုပ်သည့် အဆင်အကွက်နှင့် အရောင် ဆန်းပြားသော ခြည်ထည်များနှင့် မြက်ဖျာများသည်လည်း ကျော်ကြားလှ ပေသည်။

ကျွန်းတကျွန်းလုံး၌ မီးရထားလမ်း ၁၂၇ မိုင်မျှသာ ရှိသည်။ ရထား မော်တော်ကား သွားလာနိုင်သော လမ်းမကြီးများသည် စုစုပေါင်း မိုင် ၂,၅၀၀ ခန့် ရှိသည်။ ကုန်စည်များ သယ်ယူပို့ဆောင်ရေးအတွက် မြစ်ကြောင်းများကို အသုံး များလေသည်။

ဗော်နီယိုကျွန်း၏ ပဌမဆုံး တိုင်းရင်းသားတို့မှာ ဒယက်လူမျိုးများ ဖြစ်ကြသည်။ ယင်းတို့သည် အရင်းခံဖြစ်၍၊ အခြားမျိုးခွဲ တိုင်းရင်းသားလူမျိုးပေါင်း များစွာရှိသေးသည်။ ဒယက်တို့သည် ရှေးက ခေါင်းဖြတ်လူသားစား လူ



ဗော်နီယိုကျွန်း တိုင်းရင်းသားတဦးနှင့် စွဲကိုင်သော လက်နက်



ဗော်နီယို ကျွန်းတွင် ယနေ့ထက်တိုင် ငယ်ရွယ်စဉ် ထိမ်းမြားလက်ထပ်ပေးသည့် ခလေ့ ရှိကြသေးသည်။

ရိုင်းများ ဖြစ်ခဲ့ကြသော်လည်း တစတစ ယဉ်ကျေးလာကြပေပြီ။ သို့သော် နက်ခေါင်သော တောကြီးတောင်ကြီးများ အလယ်၌မူ မယဉ်ကျေးသေးသူ အများအပြား ရှိကြသေးသည်။ ဒယက်တို့သည် ဂျားဗား၊ ဆူမတြားနှင့် အခြားကျွန်းများမှ မလေးလူမျိုးများ ရောက်လာကြသော အခါ ကုန်းဖက်သို့ တဖြည်းဖြည်း ဆုတ်ပေးခဲ့ကြသည်။ မလေးတို့သည် များသောအားဖြင့် အစ္စလမ် အယူဝါဒီများဖြစ်ကြသည်။ မလေးတို့အပြင် တရုပ်လူမျိုးများလည်း လာရောက်နေထိုင် ကြသည်။ ဖော်နီယိုကျွန်းသည် ၅ ရာစုနှစ်ခန့်ကပင် တရုပ်နိုင်ငံနှင့် ကုန်သွယ်မှု အဆက်အသွယ် ရှိခဲ့သည်။ သို့သော် ၁၂ ရာစုနှစ်ခန့်ကမှ တရုပ်တို့သည် ဖော်နီယိုကျွန်း၌ လာရောက် အခြေစိုက်ကြလေသည်။ ထို့ပြင် ဖိလစ်ပိုင်ကျွန်းမှ ဆူးလူးလူမျိုးများလည်း ဖော်နီယိုကျွန်းမြောက်ပိုင်း၌ လာရောက် နေထိုင်ကြသည်။ ဥရောပတိုက်သားများလည်း ရှိလေသည်။

ဖော်နီယိုကျွန်းသို့ ပဌမဆုံးရောက်ရှိလာသော ဥရောပတိုက်သားတို့သည် ပေါ်တူဂီ သင်္ဘောသားများဖြစ်ကြ၍ ၁၆ ရာစုနှစ်အတွင်း၌ ရောက်ခဲ့ကြသည်။ ပေါ်တူဂီ၊ ဒပ်ချနှင့် အင်္ဂလိပ်တို့သည် ဟင်းခတ်အမွှေးအကြိုင်နှင့် ပရုတ်စသည်တို့ကို ကုန်သွယ်မှုအတွက်ရောက်ရှိလာကြသည်။ ၁၇ ရာစုနှစ်နောက်ပိုင်းတွင် ဒပ်ချနှင့် ဗြိတိသျှတို့သည် ကမ်းရိုးတန်းတလျှောက်တွင် လူနေစခန်းများ စတင်တည်ထောင်သည်။ ထိုစဉ်က မလေးပင်လယ်ဓားပြနှင့် ဒယက် လူရိုင်းများ၏ တိုက်ခိုက်မှု၊ နှောင့်ယှက်မှုတို့ကို များစွာခံခဲ့ကြရလေသည်။

ဗြိတိသျှနှင့် ဒပ်ချတို့သည် ဖော်နီယိုကျွန်း၌ ကုန်သွယ်မှုကို အပြိုင်ပြုယင်း နယ်မြေများသိမ်းသွင်းခဲ့ရာ ဒပ်ချတို့က ဗြိတိသျှတို့ထက် ပို၍ခြေသွက်ခဲ့သည်။ ထို့ကြောင့် ဖော်နီယိုကျွန်း၏ ဆယ်ပုံ ခုနစ်ပုံခန့်မှာ ဒပ်ချတို့၏ လက်အောက်သို့ ရောက်ခဲ့သည်။ ၁၈၉၁ ခုနှစ်တွင် ဗြိတိသျှနှင့် ဒပ်ချတို့ ပိုင်သော နယ်များ၏ နယ်နိမိတ်များကို ပိုင်းခြား သတ်မှတ်ခဲ့လေသည်။

ဗြိတိသျှ ဖော်နီယိုတွင် ပါဝင်သော ဆရားဝပ်နယ်၊ (ဆရားဝပ်နယ် — ရှု။) ဖော်နီယိုမြောက်ပိုင်းနယ်နှင့်ဗရူးနေးနယ်တို့သည် ၁၈၄၀ ပြည့်နှစ်တွင် ဆရားဝပ်နယ်သို့ ရောက်ရှိလာသော ဗြိတိသျှလူမျိုး ဆာဂျိမ်းဗရွတ်၏စွမ်းဆောင်မှုကြောင့် ဗြိတိသျှ ဩဇာခံ နယ်များအဖြစ်သို့ ရောက်ရှိလာခဲ့သည်။ ဗရူးနေးနယ်၏ စူလတန်စော်ဘွားသည် ထကြွပုန်ကန်မှုတခုကို နှိမ်နင်းရန် ဗရွတ်အား အကူအညီတောင်းရာ၊ ဗရွတ်က ကူညီခဲ့၍ ဆရားဝပ်နယ်ကို အပိုင်စားပေးခဲ့သည်။ ဆာဂျိမ်းဗရွတ်သည် ထိုနယ်တွင် အလွန်တန်ခိုးဩဇာကြီးလာသည်။ နောင်အခါ နယ်မြေများ ထပ်မံသိမ်းသွင်းခဲ့သည်။ မြောက်ဖော်နီယိုနယ်သည် မူလက အမေရိကန်ကုန်သွယ်ရေး ကုမ္ပဏီတခုက စတင်အခြေစိုက်ခဲ့သော်လည်း ၁၈၈၁ ခုနှစ်မှ စ၍ ဗြိတိသျှ မြောက်ဖော်နီယို ကုမ္ပဏီလက်အောက်ခံ ဖြစ်လာလေသည်။

ဗရူးနေးနယ်၏ စူလတန် စော်ဘွားသည် ကုန်သွယ်ရေးနှင့် ပင်လယ်ဓားပြနှိမ်နင်းရေးအတွက် ဗြိတိသျှအစိုးရနှင့် ၁၈၄၇ ခုနှစ်တွင် စာချုပ် ချုပ်ဆိုခဲ့သည်။ ၁၈၈၈ ခုနှစ်တွင် ဆာဂျိမ်းဗရွတ်၏ ဆရားဝပ်နယ်နှင့်အတူ ဗရူးနေးနယ်နှင့် မြောက်ဖော်နီယိုနယ်တို့သည်လည်း ဗြိတိသျှ အစောင့်အရှောက်ခံ နယ်များဖြစ်လာကြလေသည်။

ဒုတိယ ကမ္ဘာစစ်အတွင်း ၁၉၄၂ ခုနှစ်တွင် ဂျပန်သည် ဖော်နီယိုကျွန်းကို တိုက်ခိုက်သိမ်းပိုက်သောအခါ၊ ဗြိတိသျှ ဖော်နီယိုသည်လည်း ဂျပန်လက်အောက်ကျရောက်ခဲ့သည်။ စစ်ကြီးအပြီး ၁၉၄၅ ခုနှစ်တွင် ဂျပန်လက်အောက်မှ လွတ်မြောက်ခဲ့၍ စစ်အုပ်ချုပ်ရေး ရုပ်သိမ်းပြီးနောက်၊ ၁၉၄၆ ခုနှစ် ဇူလိုင်လမှစ၍ ဆရားဝပ်နယ်နှင့် မြောက်ဖော်နီယိုနယ်တို့သည် ဗြိတိသျှအစိုးရက ခန့်ထားသော ဘုရင်ခံအုပ်ချုပ်သည့် ဗြိတိသျှ ကိုလိုနီနယ်များ ဖြစ်လာသည်။ ဗရူးနေးနယ်သည် အမည်ခံအားဖြင့် စော်ဘွားနယ်ဖြစ်သော်လည်း ဗြိတိသျှအရေးပိုင်က အုပ်ချုပ်ရေးကို ကြိုးကိုင်သည်။ ယင်းအရေးပိုင်သည် စစ်ကာလမတိုင်မီက မလ္လာယုနယ်များ၏ မဟာမင်းကြီးကို ကိုယ်စားပြုသည်။ စစ်ပြီးကာလတွင် ဆရားဝပ်နယ်၏ ဘုရင်ခံက ဗရူးနေးနယ်၏ မဟာမင်းကြီး ဖြစ်လာ၍ ယင်းအား ဗရူးနေးနယ် ဗြိတိသျှအရေးပိုင်က ကိုယ်စား ပြုရလေသည်။

မူလက ဗရူးနေးနယ်သည် ကျယ်ပြန့်သောနယ်ကြီး တနယ်ဖြစ်ခဲ့သော်လည်း၊ မြောက်ဖော်နီယိုနှင့် ဆရားဝပ်နယ်တို့က နယ်မြေများ ဖဲ့၍ ဖဲ့၍သိမ်းသွင်းခဲ့သဖြင့် အငယ်ဆုံးသော နယ်တနယ် ဖြစ်လာသည်။ အကျယ်အဝန်း ၂,၂၂၆ စတုရန်းမိုင်ရှိ၍ လူဦးရေ (၁၉၅၈ ခုနှစ် ခန့်မှန်းခြေ) ၈၀,၂၇၇ ခန့်ရှိသည်။ မြောက်ဖော်နီယိုသည် (လားဗုးအန်းကျွန်း အပါအဝင်) ၂၉,၃၈၇ စတုရန်း မိုင်ကျယ်ဝန်း၍ လူဦးရေ (၁၉၅၉ ခုနှစ် ခန့်မှန်းခြေ) ၅၀၀,၀၀၀ ခန့် ရှိသည်။ ဆရားဝပ်နယ်သည် ၄၇,၀၇၁ စတုရန်းမိုင်ကျယ်ဝန်း၍ လူဦးရေ (၁၉၅၉ ခုနှစ်ခန့်မှန်းခြေ) ၆၇၅,၀၀၀ ခန့်ရှိလေသည်။

ဖော်နီယိုကျွန်း၏ ကြီးမားသော အစိတ်အပိုင်းဖြစ်သည့် ဒပ်ချ (နယ်သာလန်) ဖော်နီယိုကို ဒပ်ချတို့သည် တိုက်ခိုက်ခြင်းဖြင့်၎င်း၊ စာချုပ် ချုပ်ဆိုခြင်းဖြင့်၎င်း နယ်မြေများ သိမ်းသွင်းခဲ့သည်။ ဒပ်ချတို့ စိုးမိုးစဉ်အခါက အနောက်ဖော်နီယိုနယ်၊ တောင်နှင့် အရှေ့ဖော်နီယိုနယ်ဟူ၍ နယ် ၂ နယ် ခွဲခြားထားခဲ့သည်။ ဒုတိယကမ္ဘာစစ်အတွင်း ဂျပန်တို့ လက်အောက်သို့ ကျရောက်ခဲ့ပြီးနောက် စစ်ကြီးပြီး၍ စစ်အုပ်ချုပ်ရေး ရုပ်သိမ်းပြီးသောအခါ၊ ဒပ်ချအစိုးရသည် ၁၉၄၇ ခု

နှစ်မှစ၍ အုပ်ချုပ်ရေးလွတ်လပ်မှု အတော်အသင့် ပေးခဲ့သည်။ ၁၉၅၀ ပြည့်နှစ်တွင် အင်ဒိုနီးရှားသမတနိုင်ငံ ထူထောင်သောအခါ ဒပ်ချဗော်နီယိုသည် ပြည်နယ်တခုအဖြစ် ပါဝင်ခဲ့သည်။ ဒပ်ချစိုးမိုးမှုနှင့် ကင်းလွတ်ပြီဖြစ်၍ ကာလီမန်းတင်းဟူသော တိုင်းရင်းအမည်သစ်ဖြင့် ပြည်နယ်ထူထောင်ခဲ့သည်။ အကျယ်အဝန်းမှာ စတုရန်း မိုင် ၂၀၀,၂၈၆ ဖြစ်၍ လူဦးရေ ၂,၇၂၅,၀၀၀ ယောက်ရှိလေသည်။ (အင်ဒိုနီးရှားနိုင်ငံ — ရှု။)

# ဥရောပတိုက်၏ယမ်းအိုးဖြစ်သောဒေသ

**တောတောင် ထူထပ်သော ဗော်လကန်ကျွန်းဆွယ် ဒေသသည် ရာစုနှစ်ပေါင်း များစွာပင် ဥရောပတိုက်၏ ယမ်းအိုး ဖြစ်ခဲ့သည်။ ဥရောပတိုက်၏ စစ်ပွဲပေါင်း များစွာသည် အဘယ်ကြောင့် ထိုဒေသ၌ အစပျိုးခဲ့သည်ကို အောက်ပါ အကြောင်းရပ်ကို ဖတ်ကြည့်က သိကြရပေလိမ့်မည်။**

**ဗော်လကန်ကျွန်းဆွယ်။** ။ ဗော်လကန်ကျွန်းဆွယ်သည် ဥရောပတိုက်တောင်ပိုင်း၏ ကျွန်းဆွယ်ကြီး ၃ ခုအနက် အရှေ့ဖက်ဆုံး ကျွန်းဆွယ်ဖြစ်သည်။ အီလီရီးယန်း ကျွန်းဆွယ်ဟုလည်း ခေါ်သည်။ ဗော်လကန် ကျွန်းဆွယ်ဟူသည့် အမည်သည် ဗော်လကန်တောင်တန်းကို အစွဲပြုခေါ်ဝေါ်ခြင်း ဖြစ်သည်။ "ဗော်လကန်" သည် တူရကီဝေါဟာရဖြစ်၍ "တောင်တန်းမြင့်" ဟူသော အဓိပ္ပါယ် ရလေသည်။

ဗော်လကန်ကျွန်းဆွယ်ဒေသကို "ဥရောပယမ်းအိုး" ဟုလည်း ခေါ်ဆိုခဲ့ကြသည်။ အကြောင်းမူ စစ်ပွဲပေါင်းများစွာတို့သည် ယင်းဒေသမှ စတင်ခဲ့သောကြောင့်တည်း။ ယင်းဒေသ၌ နိုင်ငံရေးမငြိမ်မသက်၊ လှုပ်ရှားမှုများ မကြာခဏ ဖြစ်ခြင်းသည် ကျွန်းဆွယ်၏ ရပ်တည်ပုံအနေအထားကြောင့် ဖြစ်သည်။ ယင်းသည် စိုက်ပျိုးရေးအတွက်၎င်း၊ စက်မှု လုပ်ငန်းအတွက်၎င်း သယံဇာတ သဘာဝပစ္စည်းတို့ဖြင့် ပေါကြွယ်ဝသည်လည်း မဟုတ်ချေ။ သို့သော်ဥရောပနှင့် အာရှတိုက်ကြီး နှစ်တိုက်ကို ကုန်းလမ်းခရီးဖြင့် ဆက်သွယ်ပေးနိုင်သော ပေါင်းကူးတန်တားသဖွယ်ဖြစ်၍ တကြောင်း၊ ဗော်လကန်ကျွန်းဆွယ်ကို စိုးမိုးနိုင်သူသည် မြေထဲပင်လယ်နှင့် ပင်လယ်နက် အကြား လူသူနှင့်ပစ္စည်းရိက္ခာ အပို့အယူကို ချုပ်ကိုင်ထားနိုင်သောကြောင့် တကြောင်း ဖြစ်ပေသည်။

ဗော်လကန်ကျွန်းဆွယ်တွင် ပါဝင်၍ ဗော်လကန် နိုင်ငံများဟု ခေါ်တွင်သော တိုင်းပြည်နိုင်ငံတို့မှာ ယူဂိုစလားဗီးယား၊ အယ်လဗေးနီးယား၊ ဂရိ၊ ဗူလဂေးရီးယားနှင့် ရူမေးနီးယားနိုင်ငံတို့ဖြစ်သည်။ (ယူဂိုစလားဗီးယားနိုင်ငံ။ အယ်လဗေးနီးယားနိုင်ငံ။ ဂရိနိုင်ငံ။ ဗူလဂေးရီးယား နိုင်ငံ။ရူမေးနီးယားနိုင်ငံ — ရှု။)ရူမေးနီးယားနိုင်ငံသည် စင်စစ် ဗော်လကန်နိုင်ငံဟု မခေါ်ဆိုနိုင်သော်လည်း နိုင်ငံသမိုင်းအားဖြင့်၎င်း၊ နိုင်ငံရေးအားဖြင့်၎င်း ဗော်လကန်ဒေသနှင့် ဆက်စပ်နေသဖြင့် ယင်းကို ဗော်လကန်နိုင်ငံတခုအဖြစ် ယူဆထားကြသည်။ ယူဂိုစလားဗီယား နိုင်ငံတွင် ယခင်က မွန်တီနီဂရိုး၊ ဒယ်လမေးရှား၊ ဗော့စနီးယား၊ ဆားဗီးယားနှင့် ဟားဇီဂိုဗီးနားပြည်နယ်တို့ ပါဝင်သည်။ ဗော်လကန်ကျွန်းဆွယ်၏ အရှေ့ဖက်ဆုံး အစွန်းသည် တူရကီနိုင်ငံ၏ တစိတ် တဒေသ ဖြစ်လေသည်။

ကျွန်းဆွယ်၏ မြောက်ဖက်ပိုင်းသည် ဥရောပနိုင်ငံများ၏ နယ်နိမိတ်များနှင့် ဆက်စပ်နေသည်။ အခြားဥရောပတောင်ပိုင်းကျွန်းဆွယ်များကဲ့သို့ မြောက်ဖက်ပိုင်း၌ မြင့်မားသော တောင်ရိုးတောင်တန်းများဖြင့် ဥရောပကုန်းမကြီးနှင့် ပိုင်းခြားထားခြင်းမရှိချေ။ ဒန်ညူမြစ်နှင့် ဆားဗားမြစ်တို့သည် မြောက်ဖက်ပိုင်းနယ်နိမိတ်များဖြစ်ကြသည်။ တြိဂံပုံ ဆန်ဆန်ရှိသော တောင်ဖက်ပိုင်းမှာမူ သုံးဖက်သုံးတန်၌ ပင်



ဗော်လကန်ကျွန်းဆွယ်မှ ဆားဗီးယား လူမျိုးတို့သည် ဤသို့ဆင်ယင်လေ့ ရှိကြသည်။

လယ်ရေပြင်များဖြင့် ဝိုင်းရံလျက်ရှိသည်။ အရှေ့ဖက်၌ ပင်လယ်နက်ရှိ၍တောင်ဖက်တွင်မားမရပင်လယ်၊ဒါးဒနဲရေလက်ကြားနှင့် အီးဂျီးယန်းပင်လယ်တို့ ရှိသည်။ အေဒြီယက်တစ်ပင်လယ်နှင့် အိုင်အိုးနီးယန်းပင်လယ်တို့သည် အနောက်ဖက်၌ရှိသည်။ ဗော်လကန်ကျွန်းဆွယ်တခုလုံးသည် စတုရန်းမိုင် ၁၇၅,၀၀၀ ခန့်ကျယ်ဝန်းသည်။ ကျွန်းဆွယ်၏ တောင်ဖက်ဆုံးအစွန်းသည် ဂရိနိုင်ငံ၏ တောင်ဖက်စွန်းဖြစ်သော မေ်ာရီယနယ်ဖြစ်၍ စင်စစ်အားဖြင့် ကျွန်းတကျွန်းဖြစ်ပေသည်။

ဗော်လကန်ကျွန်းဆွယ်သည် များသောအားဖြင့် တောင်ထူထပ်သည်။ ဗော်လကန်တောင်တန်းသည် ဥရောပတိုက်အလယ်ပိုင်းရှိ အဲလပတောင်တန်း၏ တောင်ရိုးမှ ဆက်နွယ်လာခြင်းဖြစ်သည်။ ယင်းတောင်တန်းသည် ဗူလဂေးရီးယား၊ ယူဂိုစလားဗီးယားနှင့် ရူမေးနီးယားနိုင်ငံတို့၏ နယ်နိမိတ်များ ဆုံသည့်နေရာမှ ဗော်လကန်ကျွန်းဆွယ်ထဲသို့ ဝင်ရောက်လာရာ တောင်ဖက်နှင့် အနောက်ဖက်၌ ယူဂိုစလားဗီးယားနိုင်ငံကိုင်း၊ အရှေ့ဖက်၌ ဗူလဂေးရီးယား နိုင်ငံကိုင်း ဖြတ်သွားရာ ပင်လယ်နက်၏ ကမ်းခြေတိုင်အောင် ဖြစ်တော့သည်။ ဗော်လကန်တောင်တန်း၏ တောင်ဖက်တွင် ဗူလဂေးရီးယားတောင်ပိုင်းမှ ရော့ဒိုပဲ တောင်တန်းရှိသည်။ အမြင့်ဆုံးတောင်ထိပ်သည် ပေ ၇,၇၇၉ မြင့်၍၊ ပေ ၇,၀၀၀ ကျော်မြင့်သော တောင်ထိပ်ပေါင်းများစွာရှိသည်။ တောင်ကြားလမ်းပေါင်း သုံးဆယ်ကျော်ရှိ၍ အချို့ တောင်ကြားလမ်းတို့သည် ပင်လယ်ရေပြင်မှ ပေ ၄,၀၀၀ မှ ၅,၀၀၀ အထိ မြင့်သည်။ဗော်လကန်တောင်တန်း၏ အနောက်ဖက်တွင် အဖိုးတန် သံ၊ ကြေးနီ၊ ခဲနှင့် အခြားဓာတ်သတ္တုများစွာ တူးဖော်ရရှိသည်။

ကျွန်းဆွယ်၏အလယ်တွင် ဒီနာရစ်အဲလပ၊ အယ်လဗေးနီးယန်းနှင့် ပင်းဒပ်တောင်ရိုး တောင်တန်းများ ရှိသေးသည်။ ဗူလဂေးရီးယားနိုင်ငံရှိ ရူမဲလီယလွင်ပြင်နှင့် ယင်းထက် ငယ်သော ဆားဗီးယားနိုင်ငံရှိ ကော့ဆိုဗိုလွင်ပြင်တို့မှ လွဲလျှင် ဗော်လကန်ကျွန်းဆွယ်တွင် လွင်ပြင်ဒေသများသည် မကျယ်ဝန်းလှချေ။

ဗော်လကန်ကျွန်းဆွယ်တွင် ဒန်းညူမှလွဲလျှင် မြစ်ချောင်းတို့သည် အလျားတို၍ ရေစီးမြန်သည်။ ထို့ကြောင့် သယ်ယူပို့ဆောင်သွားလာရေးအတွက် အသုံးဝင်သော မြစ်ချောင်းများနည်းပါးသည်။ ပင်လယ်နက်ထဲသို့ စီးဝင်သော ဒန်းညူမြစ်သည် အရေးအပါဆုံး၊ အသုံးဝင်ဆုံးဖြစ်လေသည်။ ခရီးလမ်းပန်းအဆက်အသွယ်များသည် များသောအားဖြင့် မြစ်ကြောင်း၊မြစ်ဝှမ်းများနှင့် ယှဉ်လျက်ဖောက်လုပ်ထားသည်။ ဗော်လကန် ကျွန်းဆွယ်၌ အရေးပါသော မြို့ကြီးများ ဖြစ်သည့် ဗဲလဂရိတ်၊ ဆယ်လိုနီးကားနှင့် အစ္စတန်ဗူတို့သည် ရေလမ်း ကုန်းလမ်းဆုံတို့၌ တည်ရှိကြလေသည်။

ဗော်လကန်ကျွန်းဆွယ်၏ ကမ်းရိုးတန်းသည် အလွန်ကွေ့ကောက်၍ ကုန်သွယ်ရေးအတွက်ငင်း၊ စစ်ရေးအတွက်ငင်း အရေးပါသော သင်္ဘောဆိပ်ကောင်းများစွာ ရှိသည်။ သို့သော် တောင်ရိုးတောင်တန်းများ ခံနေသဖြင့် ကုန်းတွင်းသို့ အဝင်အထွက် ပြုရန် မလွယ်ကူချေ။ ကျွန်းစုများ၊ ကျွန်းငယ်ကလေးများသည် အာရှမိုင်းနားနှင့် ကူးသန်းဆက်သွယ်ရန် တန်တားသဖွယ်လည်း ရှိနေကြသည်။ ဒါးဒနဲနှင့်ဗော့စပရပ်ရေလက်ကြားတို့ကြောင့်သာလျှင် အာရှတိုက်ကုန်းမကြီးနှင့် ပိုင်းခြားလျက် နေတော့သည်။

ဗော်လကန်ကျွန်းဆွယ်တွင် ရာသီဥတု အထွေထွေ အပြားပြားရှိသည်။ များသောအားဖြင့် ကမ်းရိုးတန်း ဒေသ တလျှောက်တွင် မြေထဲပင်လယ် ရာသီဥတုမျိုးရှိ၍၊ တောင်ထူထပ်သော ဒေသများတွင် ကုန်းတွင်းရာသီဥတုမျိုးရှိသည်။ ကျွန်းဆွယ်တခုလုံးကို ခြုံ၍ကြည့်လျှင် တောင်ထူထပ်၍ မြက်ခင်းပြင်များ အသင့်အတင့်ရှိသဖြင့် သစ်တော လုပ်ငန်း၊ သိုးဆိတ်မွေးမြူရေး လုပ်ငန်းများ လုပ်ကိုင် နိုင်သည်။ မြစ်ဝှမ်းဒေသများသည် မြေဩဇာကောင်းမွန်၍ စိုက်ပျိုး ဖြစ်ထွန်းသည်။ ထို့ကြောင့် ဗော်လကန်ကျွန်းဆွယ်၏ ထွက်ကုန်များမှာ ဂျုံ၊ပြောင်း၊ ဝါဂွမ်း၊ဆေးရွက်၊စပျစ်သီး၊ သံလွင်သီး၊ ပိုးစာသီး၊ နွား၊ ဆိတ်၊ သိုးနှင့် ဝက်များဖြစ်ကြသည်။

ဗော်လကန်ကျွန်းဆွယ်တွင် တိုင်းပြည်နိုင်ငံအမျိုးမျိုး ပါဝင်သကဲ့သို့ ဘာသာစကား၊ ဝတ်စားဆင်ယင်ပုံနှင့် ဓလေ့ထုံးစံ ကွဲပြားခြားနားသော လူမျိုး အမျိုးမျိုးရှိသည်။ တောင်ဖက်စွန်းနှင့် ယင်း အနီးအနား ကျွန်းစုများတွင် ဂရိလူမျိုးများ နေထိုင်ကြသည်။ အေဒြီယက်တစ် ကမ်းရိုးတန်း တလျှောက်တွင် အယ်လဗေးနီးယန်း လူမျိုးများ နေထိုင်ကြသည်။ အနောက်မြောက်ဖက်တွင် ဒေသအလိုက် ဆလိုဗင်းဟူ၍ငင်း၊ ကရိုးအက်ဟူ၍ငင်း၊ ဗော့စနီးယန်းဟူ၍ငင်း၊ ဟားဇီဂိုဗီးယန်းဟူ၍ငင်း စသည်ဖြင့် အမည်အမျိုးမျိုး ခံယူထားသော ဆလဗလူမျိုးများ နေထိုင်ကြသည်။ ယင်းတို့အပြင် တူရကီ လူမျိုးများသည်လည်း အရှေ့ တောင်ပိုင်းစွန်းတွင် နေထိုင်ကြသည်။ လူမျိုးချင်း ကွဲပြားသော်လည်း စိတ်နေစိတ်ထားတွင်မူ အများအားဖြင့် တူညီကြသည်။ ဗော်လကန်ကျွန်းဆွယ်သားတို့သည် စိတ်ဆတ်၍ မတရားမှု၊ ချုပ်ချယ်မှုတို့ကို မလိုလားချေ။ လွတ်လပ်မှုအတွက် တိုက်ခိုက်လိုသူများ ဖြစ်ကြလေသည်။

ဗော်လကန်ပြည်နယ်များသည် အယ်လက်ဇန္ဒာ-သ-ဂရိတ်၏ အင်ပိုင်ယာအတွင်း၌ငင်း၊ ရောမနှင့် ဗိုင်ဇင်းတိုင်း အင်ပိုင်ယာများအတွင်း၌ငင်း တစိတ် တဒေသအဖြစ် ပါဝင်ခဲ့သည်။ ၁၄ ရာစုနှင့် ၁၅ ရာစု နှစ်များတွင် တူရကီတို့ ဝင်ရောက် စိုးမိုးခဲ့ရာ ၁၈ ရာစုခေတ်တိုင်အောင် ဖြစ်ခဲ့သည်။ ဂရိနိုင်ငံသည် ၁၈၂၉ ခုနှစ်တွင် လွတ်လပ်ခဲ့သည်။ ဆားဗီးယား၊ မွန်တီ

နီးယားနှင့် မွန်တီနီးဂရိုးတို့သည် ၁၈၇၈ခုနှစ်တွင် လွတ်လပ်ခဲ့၍၊ ဗူလဂေးရီးယားသည် ၁၉၀၈ခုနှစ်၌၎င်း၊ အယ်လဗေးနီးယားသည် ၁၉၁၂ ခုနှစ်တွင်၎င်း လွတ်လပ်ရေးရခဲ့လေသည်။ ဗော်လကန်စစ်ပွဲ(၁၉၁၂–၁၃)အပြီးတွင် ဗော်လကန်ကျွန်းဆွယ်၌ တူရကီ၏ တန်ခိုးအာဏာ ကျဆင်းခဲ့ပြီးလျှင် ပြန်၍ခေါင်းမထောင်နိုင်တော့ချေ။

ဗော်လကန်နိုင်ငံများသည် အချင်းချင်းလည်း စစ်ပြိုင်ခဲ့ကြသည်။ အခြား ဥရောပနိုင်ငံများနှင့် တသီးတခြားကဲ့သို့ ရှိနေသော်လည်း၊ ဗော်လကန်စစ်မက်ရေးတွင် ဥရောပ နိုင်ငံများပါဝင်ခဲ့ကြသည်။ ပဌမကမ္ဘာစစ်သည် ဗော်လကန်နိုင်ငံများမှ စတင်ခဲ့၍ ဥရောပတတိုက်လုံး ပြန့်နှံ့ခဲ့သည်။ စစ်ပြီးကာလတွင် ဆားဗီးယားနိုင်ငံကို အခြေခံထား၍ ဩစတြီး-ဟန်ဂေရီနိုင်ငံ၏ နယ်မြေအများအပြားနှင့် ဗူလဂေးရီးယားနယ်အချို့ကို ပူးပေါင်းထည့်သွင်း၍ ယူဂိုစလားဗီးယားနိုင်ငံကို ထူထောင်သည်။ ရူမေးနီးယား၏ နယ်နိမိတ်လည်း ပို၍ ကျယ်ပြန့်လာသည်။ အယ်လဗေးနီးယား၏ နယ်နိမိတ်ကိုလည်း ပြန်လည်သတ်မှတ်သည်။ဂရိနိုင်ငံသည် ဗူလဂေးရီးယားနိုင်ငံ၏ အီးဂျီးယန်းကမ်းရိုးတန်းဒေသကို ရရှိခဲ့သည်။

ဒုတိယကမ္ဘာစစ်အတွင်းက ဣတလီနိုင်ငံသည် အယ်လဗေးနီးယားကို သိမ်းယူခဲ့သည်။ ရူမေးနီးယားနိုင်ငံ တစိတ်တဒေသကို ဟန်ဂေရီ၊ရုရှနှင့် ဗူလဂေးရီးယားနိုင်ငံတို့ကသိမ်းပိုက်ခဲ့သည်။ ဂရိနိုင်ငံတွင်းသို့ ဂျာမန်နှင့် ဣတာလျံတပ်များဝင်ရောက် တိုက်ခိုက်ခဲ့သည်။ နောက်ဆုံးတွင် ဗော်လကန်နိုင်ငံအားလုံးကို ဂျာမန်တပ်များက သိမ်းပိုက်၍ ဂျာမန်လက်နက်နိုင်ငံများအဖြစ် ထားခဲ့သည်။ စစ်အပြီးတွင် ဂျာမန်လက်အောက်မှ လွတ်မြောက်ခဲ့၍၊ နယ်နိမိတ်များ ပြန်လည်သတ်မှတ်ခဲ့သည်။ ဂရိနိုင်ငံမှ လွဲလျှင် အခြားဗော်လကန်နိုင်ငံတို့တွင် ကွန်မျူနစ်ဝါဒလွှမ်းမိုး၍ ရုရှဩဇာကြီးမိုးခဲ့သည်။ သို့သော် ယူဂိုစလားဗီးယားနိုင်ငံသည် ၁၉၄၈ ခုနှစ်တွင် ရုရှဩဇာခံအဖြစ်မှ ခွဲထွက်၍ အနောက် ဒီမိုကရေစီနိုင်ငံများဖက်သို့ ပို၍ ယိမ်းသော ကွန်မျူနစ်နိုင်ငံ ဖြစ်လာလေသည်။

**ဗော်လဂါမြစ်။** ။ဗော်လဂါမြစ်သည် ဥရောပတိုက်တွင်အရှည်ဆုံးမြစ်ဖြစ်သည်။ အလျားမိုင်ပေါင်း ၂,၃၀၀ ကျော်ရှိ၍ ဆိုဗီယက် ရုရှပြည်ထောင်စု အတွင်း၌ လုံးလုံးလျားလျားတည်ရှိသည်။ ရုရှနိုင်ငံ၏ ရေကြောင်းခရီးလမ်းမကြီးလည်းဖြစ်၍၊ ကုန်စည်ကူးသန်းရောင်းဝယ်မှုအတွက်သာ အရေးပါသည်မဟုတ်၊ ဥရောပတိုက်နှင့် အာရှတိုက်တို့ကို ဆက်သွယ်ပေးသော ပေါင်းကူးတန်တားကြီးသဖွယ်လည်း အရေးပါသောမြစ်ကြီး ဖြစ်လေသည်။

ထိုမြစ်သည် ဆိုဗီယက် ရုရှနိုင်ငံ၏ အနောက်မြောက်ဖက်ပိုင်း၊ လီနင်ဂရက်မြို့၏ အရှေ့တောင်ဖက် မိုင်နှစ်ရာခန့် အကွာရှိ ဗာလဒိုင်းတောင်ကုန်းဒေသ၌ မြစ်ဖျားခံပြီးလျှင်၊ ကက်စပျန် ပင်လယ်ထဲသို့ ကွေ့ကောက် စီးဆင်းသည်။ တိုက်ဆိုင်ပုံမှာ ဗော်လဂါမြစ် ကွေ့ကောက် စီးဆင်းပုံသည် ဆိုဗီယက်ပြည်ထောင်စု၌ တန်ခိုးအာဏာ ကြီးလှသောကွန်မျူနစ်ပါတီ၏ တံဆိပ်ဖြစ်သည့်တူတံစဉ်ပုံမှ တံစဉ်ပုံသဏ္ဍာန်နှင့် ဆင်ဆင်တူခြင်းဖြစ်သည်။ထိုမြစ်သည်ဦးစွာ၌အရှေ့ဖက်သို့ ကွေ့ကောက်ကာ စီးသည်။ ထိုနောက် တောင်ဖက်သို့ စီးပြန်ကာ နောက်ဆုံးတွင် အရှေ့တောင်ဖက်သို့ ချိုးချသွားလေရာ "တံစဉ်၏ လက်ကိုင်"နေရာကဲ့သို့ ဖြစ်ပေါ်စေသည်။ ဗော်လဂါမြစ်၏မြစ်ဝကျွန်းပေါ်သည် မိုင် ၇၀ ကျော်မျှ ပြန့်ဖြူး၍ မြစ်ဝကလေးပေါင်း နှစ်ရာကျော်ဖြင့် ကက်စပျန် ပင်



ဗော်လဂါမြစ်နှင့် ဒွန်မြစ်တို့ကို ဆက်သွယ်ဖောက်လုပ်ထားသော ဗော်လဂါ-ဒွန် တူးမြောင်း၏ ရေတံခါး

လယ်ထဲသို့ စီးဝင်လေသည်။ ထိုမြစ်ကြီး၏ အရေးပါသော မြစ်လက်တက်များသည် အပ်က၊ ကားမနှင့် အွန်ဇတို့ ဖြစ်ကြလေသည်။

ပေ၁်လဂါမြစ်သည် ရေစီးနှေးသဖြင့် မိုင်ပေါင်းနှစ်ထောင်ကျော်အထိ လှေသင်္ဘောများ သွားလာ နိုင်သည်။ တနှစ်လျှင် သုံးလမျှ ရေခဲသော နေရာများစွာ ရှိသော်လည်း၊ ထိုရေခဲပြင်များပေါ်တွင် မြင်းဆွဲ သို့မဟုတ် စက်တပ်စွတ်ဖားလှည်းများဖြင့် ကုန်စည်များကို သယ်ယူပို့ဆောင် နိုင်သဖြင့် မြစ်ကြောင်း တလျှောက်ကူးသန်းရောင်းဝယ်ရေးသည် တနှစ်ပတ်လုံး အဆက်မပြတ်လှချေ။ မည်သည့် သမုဒ္ဒရာရေပြင်နှင့်မျှ တိုက်ရိုက်ဆက်စပ်လျက် မရှိသော်လည်း၊ မြစ်၏အထက်ပိုင်းတွင် ဗော့လတစ်ပင်လယ်၊ ပင်လယ်ဖြူတို့နှင့် တူးမြောင်းများ အားဖြင့်၎င်း၊ အောက်ပိုင်းတွင် ပင်လယ်နက်နှင့် ပေ၁်လဂါ-ဒွန်တူးမြောင်းအားဖြင့်၎င်း ဆက်သွယ်နိုင်သည်။ ထိုပြင်အာတိတ်သမုဒ္ဒရာ၊ မောစကိုမြို့တို့နှင့်လည်း တူးမြောင်းများဖြင့် ဆက်သွယ် ထားလေသည်။

ဆိုခဲ့သော တူးမြောင်းများသည် ပေ၁်လဂါမြစ်ဝှမ်း တလျှောက်မှ ထွက်ကုန်များကို ရုရှနယ်စပ်ဒေသများအရောက် သယ်ဆောင် ပေးရာ၌ အရေးပါ အသုံးဝင်ကြ ပေသည်။ ပေ၁်လဂါမြစ်ဝှမ်းသည် ဂျုံစပါးအကြီးအကျယ် စိုက်ပျိုးရာဒေသနှင့် သစ်လုပ်ငန်းအကြီးအကျယ် လုပ်ကိုင်သော ဒေသဖြစ်သည်။ နွေကူးရာသီတွင် ပေ၁်လဂါမြစ်သည် မြစ်ရေလျှံတတ်ရာ ကက်စပျန်ပင်လယ်ကို များစွာ ရေတိုးစေသည်။ ပေ၁်လဂါမြစ်၏ ရေစီးကြောင့် ကမ်းပါးများ ပြိုပြိုလိုက်သဖြင့် ကုန်တင်ကုန်ချ သင်္ဘောဆိပ်များကို မကြာခဏ နေရာပြောင်းကြရသည်။

ပေ၁်လဂါမြစ်သည် ဆိုဗီယက် ရုရှနိုင်ငံ၏ ပြည်တွင်းသယ်ယူပို့ဆောင်ရေးအတွက် အသက်သွေးကြောကြီး သဖွယ်ဖြစ်၍၊ ထိုမြစ်ကြီးနှင့် ယင်း၏ လက်တက်များကို အမှီပြုကာ သွားလာလုပ်ကိုင် စားသောက်နေကြရသော လူပေါင်းမှာ သန်းပေါင်း ၅၀ ကျော်မျှရှိသည်။ စတာလင်ဂရက်မြို့နှင့် ဂေါ်ရကီမြို့တို့သည် ပေ၁်လဂါမြစ်ကမ်းပေါ်ရှိ အရေးပါသော စက်မှု လုပ်ငန်းမြို့ကြီးများ ဖြစ်သည်။ ဆာရာတော့နှင့် အက်စတြာခန်မြို့တို့သည်လည်း ထိုမြစ်ဝှမ်းတွင် အရေးပါသော မြို့ကြီးများ ဖြစ်ကြလေသည်။

ပေ၁်လဂါမြစ်ကို ရှေးခေတ် အီဂျစ်ပညာရှင်ကြီးတဦးဖြစ်သော တော်လမီ၏ ပထဝီဝင်စာအုပ်ထဲ၌ ဖော်ပြထားသည်ကို တွေ့ရသည်။ ရှေးခေတ်သမိုင်း တလျှောက်တွင် အာရှတိုက်မှ ဥရောပတိုက်သို့ လူအများရွှေ့ပြောင်းသွားလာရေး၌ ပေ၁်လဂါမြစ်သည် အရေးပါခဲ့သည်။ ကားမမြစ်နှင့် ပေ၁်လဂါမြစ်တို့ ပေါင်းဆုံရာ အရပ်တွင် တခါက ဗူလဂေးရီးယန်းအင်ပိုင်ယာတခု ထွန်းကား ခဲ့ဘူးသည်။ ရုရှလူမျိုးတို့သည် ပေ၁်လဂါမြစ်ကြီးအား ချစ်မြတ်နိုးကြပုံကို တေးကဗျာများ စာပေများဖြင့် ဖွဲ့ဆိုထားကြလေသည်။

**ဗော်လတဲယား (ခရစ် ၁၆၉၄–၁၇၇၈)။** ။အထင်ရှားဆုံးသော ပြင်သစ် စာရေးဆရာကြီးတဦးဖြစ်သူ ဗော်လတဲယား ကလောင်အမည်ခံ ဖရန်ဆွာ မာရီ အာရွေးသည် သဘာဝတ္တဗေဒပညာရှင်၊ သမိုင်းပညာရှင်၊ ဝတ္ထုပြဇာတ်နှင့် ကဗျာရေးဆရာ၊ စွယ်စုံကျမ်းပြုပညာရှင်နှင့် စာပြောင်ရေးဆရာ ဖြစ်သည်။ ကမ္ဘာပေါ်တွင် အကြွယ်ဝဆုံးနှင့် အကျော်ကြားဆုံး စာရေးဆရာဟုပင် ဆိုကြသည်။

ဗော်လတဲယားကို ၁၆၉၄ ခုနှစ် နိုဝင်ဘာလ ၂၁ ရက်နေ့တွင် ပါရစ်မြို့၌ ဖွားမြင်သည်။ မိခင်ဖြစ်သူမှာ ဗော်လတဲယား ၇ နှစ်သားအရွယ်ကပင် ကွယ်လွန်သည်။ မိခင်ဖြစ်သူ၏ မိတ်ဆွေ ရှာတူးနို့ ဘုန်းတော်ကြီးက စာပေရေးရာများကို ညွှန်ကြား ပြသပေးခဲ့သည်။ အသက် ၁၀ နှစ်အရွယ်တွင် ဂျက်ဇူးအစ်ဂိုဏ်းဝင်များ တည်ထောင်ထားသောကျောင်း၌ ဝင်ရောက် ပညာသင်ကြားရာ ၁၇၁၁ ခုနှစ်အထိ ဖြစ်သည်။ ရှာတူးနို့ ဘုန်းတော်ကြီးသည် ဗော်လတဲယားအား ပြင်သစ်အထက်တန်းလွှာတွင် ထင်ရှားသော အမျိုးသမီးကြီး နီနွန်ဒါ လန်းကလို့နှင့် ရင်းနှီးအောင် မိတ်ဖွဲ့ပေးရာ၊ ၁၇၀၅ ခုနှစ်တွင် ယင်းအမျိုးသမီးကြီး ကွယ်လွန်သောအခါ ဗော်လတဲယားအတွက် စာအုပ်များဝယ်ရန် ဖရန့် ၂,၀၀၀ အမွေပေးခဲ့သည်။

၁၇၁၁ ခုနှစ်တွင် ဗော်လတဲယားကျောင်းမှ ထွက်လာ၍ အိမ်ပြန် ရောက်သောအခါ စာပေရေးရာဖြင့်သာ အချိန်ကုန်လွန်နေသော သားဖြစ်သူသည် စာပေကို အထင်မကြီးဘဲ ဥပဒေပညာကို လိုက်စားသင်ယူစေလိုသည့် ဆန္ဒပြင်းပြနေသော ဖခင်ဖြစ်သူနှင့် အမြဲပင် သဘောမတိုက်ဆိုင်နိုင်အောင် ဖြစ်နေတော့သည်။ ဖခင်ကျေနပ်စေရန် ဥပဒေပညာကို အတန်ငယ် လိုက်စားပြီးနောက် နယ်သာလန် ဆိုင်ရာ ပြင်သစ်သံအမတ်ကြီး၏အတွင်းဝန်အဖြစ်ဖြင့် ဟိတ်မြို့သို့လိုက်ပါသွားသည်။ ယင်းသို့ အမှုထမ်းယင်း အဆင်မပြေသော အချစ်ရေးကြောင့် ပါရစ်မြို့သို့ ပြန်ခဲ့ရသည်။ ပါရစ်မြို့၌ နေစဉ် ဖခင်ကျေနပ်စေရန် ဝတ်လုံကြီးတဦးထံ ဝင်ရောက် အလုပ် လုပ်ကိုင်ဟန်ဆောင်ယင်း ပြင်သစ်နန်းတွင်းသူ နန်းတွင်းသားများအား ပြက်ရယ်ပြုသည့် စာပေများ အစဉ်တစိုက် ရေးသားသည်။ အော်လီယန်းစားအား ပြက်ရယ်ပြု ရေးသားသော ကဗျာအတွက် အဖမ်းခံရ၍ ဗက်စတီးထောင်တွင် ၁၁ လတိုင်တိုင် အကျဉ်းချထားခြင်း ခံရသည်။ ၁၇၁၈ ခုနှစ် ဧပြီလတွင် ထောင်မှလွတ်သည်မှစ၍ ဖရန်ဆွာအမည်မှ ဗော်လတဲယားအမည်သို့ ပြောင်းလိုက်သည်။

ဗက်စတီးထောင်တွင် အကျဉ်းကျနေခဲ့စဉ်က သူ၏ ရှေးဦး



ထင်ရှားကျော်ကြားသည့် ပြင်သစ်သဘာဝတ္တဗေဒ ကဝိဗော်လတဲယား

ဆုံးပြဇာတ်ဖြစ်သော 'အိုဒစ်' ကိုရေးသား အချောကိုင်သည်။ ထောင်မှ လွတ်လာသောအခါ အိုဒစ်ပြဇာတ်ကို ကျကျနနစီစဉ် ပြသရာ လူကြိုက်များ၍ ဝင်ငွေများစွာရသည်။ ၁၇၂၁ ခုနှစ်တွင် ဖခင်ဖြစ်သူ ကွယ်လွန်သဖြင့် တနှစ်လျှင် လီဗာဒေါ်ါ ၄,၀၀၀ ဝင်ငွေရှိသော အမွေပစ္စည်းများ ရရှိလိုက်သည်။ ၁၇၂၄ ခုနှစ်တွင် ပြင်သစ်နိုင်ငံ စတုတ္ထဟင်နရီဘုရင်အကြောင်းဖြစ်သော "လာ ဟင်နရီယက်" အက်ပစ်ကဗျာကြီးကို ရေးသားပြီးသည်။ ၁၇၂၅ ခုနှစ်တွင် ပြင်သစ်နိုင်ငံ၌ ဩဇာအာဏာ အလွန်ရှိသော ပုဂ္ဂိုလ်ကြီးတဦးနှင့် မသင့်မတင့် ခိုက်ရန်ဖြစ်သဖြင့် ဗက်စတီးထောင်တွင် အကျဉ်းချခံရပြန်သည်။ ဗော်လတဲယားသည် သူ၏ တောင်းဆိုချက်အရ ရက်သတ္တ ၂ ပတ်ကြာသောအခါ အင်္ဂလန်ပြည်သို့ အပို့ခံရသည်။ ဗော်လတဲယားသည် အင်္ဂလိပ် လူမျိုးတို့၏ လူနေမှုစံနစ်နှင့် အင်္ဂလန်ပြည်၏ လွတ်လပ်မှုကို သဘောကျ သဖြင့် အင်္ဂလန်ပြည်၌ ၃ နှစ်ကြာမျှ နေထိုင်သည်။ အင်္ဂလန်၌ နေစဉ် ဝါလပိုး၊ ဗောလင်းဗရုတ်၊ ပုပ်၊ မာလဗာရာနယ်စား ကတော် ဆာရာ စသောထင်ရှားသည့် ပုဂ္ဂိုလ်ကြီးများနှင့် ခင်မင်ရင်းနှီးခဲ့သည်။

၁၇၂၉ ခုနှစ်တွင် ပါရစ်မြို့သို့ ပြန်လာကာ သူ၏ ပြဇာတ်များကို စံနစ်တကျ ထုတ်ဝေခြင်း၊ စံနစ်တကျ စင်တင်ခြင်း ပြုလုပ်ခဲ့ရာ အလွန်ဝင်ငွေကောင်းခဲ့သည်။ ယင်းတို့ အနက် ၁၇၃၂ ခုနှစ်တွင်ထွက်ပေါ်လာသော 'ဇဲယား' ပြဇာတ်သည် သူ၏ အကောင်းဆုံး လက်ရာလည်းဖြစ်၍ ပြင်သစ်ပြဇာတ်တို့အနက် အကောင်းဆုံးပြဇာတ်တခုလည်း ဖြစ်သည်။ ၁၇၃၃ ခုနှစ်တွင် အင်္ဂလိပ် လူမှုရေးရာစံနစ်ကို ချီးကျူး၍ ပြင်သစ်သာသနာဝန်ထမ်းအဖွဲ့နှင့် အစိုးရအဖွဲ့တို့၏ ပြုမူပုံများကို စောင်းမြောင်း ပုတ်ခတ်ရေးသားထားသည့် 'အင်္ဂလိပ်လူမျိုးအကြောင်းပေးစာများ' ဟူသောစာအုပ်နှင့် ပြင်သစ်စာရေးဆရာအကျော် ရူးဆိုးအား သရော်ထားသော 'တင်ပယ်ဒူဂေါ့' စာအုပ် ၂ အုပ်ရေးသားထုတ်ဝေသည်။ ၁၇၃၄ ခုနှစ်တွင် သူ၏ အင်္ဂလိပ်လူမျိုးအကြောင်း ပေးစာများ စာအုပ်ကို အစိုးရအာဏာပိုင်တို့က တွေ့ရာအရပ်တွင်သိမ်း၍ မီးရှို့ပစ်ကာ ဗော်လတဲယားအားလည်း ဖမ်းရန် ဝရမ်းထုတ်သဖြင့် ပါရစ်မြို့မှ ထွက်ပြေးရသည်။ ၁၇၃၄ ခုနှစ်မှ ၁၇၄၉ ခုနှစ်အတွင်း ဗော်လတဲယားသည် ရှမ်ပိန်းနှင့် လိုရိန်းနယ်အကြားစီရေးအရပ်ရှိအိမ်တအိမ်၌ မဒမ်ရှတ်တလေးနှင့်အတူ နေထိုင်သည်။ မဒမ်ရှတ်တလေး၏အားပေးမှုဖြင့် အိုင်ဇပ်နျူတန်၏ ပရင်စီပီယားစာအုပ်ကို ပြင်သစ်ဘာသာသို့ ပြန်ဆို ရေးသား၍ ၁၄ ဆက်မြောက် လူဝီဘုရင်သမိုင်းစသည်ဘို့ကို ရေးသားပြုစုခဲ့၏။ ၁၇၃၅ ခုနှစ်တွင် ဗော်လတဲယားအား ဖမ်းဆီးရန် အမိန့်ရုပ်သိမ်းသွားသဖြင့် လွတ်လပ်စွာ နေထိုင်နိုင်ခဲ့ပြန်သည်။ ၁၇၄၆ ခုနှစ်တွင် ပြင်သစ်ပညာတံခွန်အသင်းဝင် အဖြစ် ရွေးချယ်တင်မြှောက်ခြင်းခံရသည်။

၁၇၄၉ ခုနှစ်တွင် မဒမ်ရှတ်တလေးကွယ်လွန်၍ ၁၇၅၁ ခုနှစ်တွင် ပရပ်ရှားဘုရင်ဖရက်ဒရစ်၏ ဖိတ်ခေါ် ချက်အရ ပရပ်ရှားနန်းတော်တွင် သွားရောက်နေထိုင်သည်။ ပဌမတွင် ဘုရင်ကလည်း အလွန်ကြည်ညိုသည့်အလျောက် မြှောက်စားသော်လည်း၊ ဗော်လတဲယား၏ မင်းလိုလိုက် မင်းကြိုက်မနေတတ်သည့်အလေ့ကြောင့် ဘုရင်နှင့်စကားများကာ ၁၇၅၃ ခုနှစ် မတ်လတွင် ပြင်သစ်နိုင်ငံသို့ ပြန်လာသည်။ သို့ရာတွင် ပရပ်ရှားနိုင်ငံ၌ သွားရောက် နေထိုင်ခဲ့သူဖြစ်၍ ပြင်သစ်နိုင်ငံကလည်း လက်မခံသဖြင့် ဆွစ်ဇာလန် နိုင်ငံ ဂျီနီးဗားမြို့အနီးပြင်သစ်နယ်စပ်ရှိ ဖားနေးရွာတွင် အိမ်တလုံးဝယ်ကာ တူမဖြစ်သူနှင့် နေထိုင်သည်။ ဖားနေးရွာတွင်နေစဉ် စာအုပ်စာတမ်းများစွာကို လွတ်လပ်စွာ ရေးသားသည်။ အယူဝါဒရေးဆိုင်ရာ အမြင်ကျဉ်းမှုနှင့် စပ်လျဉ်းသော စာအုပ် စာတမ်းများနှင့် စွယ်စုံကျမ်းအတွက် သဘာဝတ္တဗေဒ အကြောင်းရပ်များဆိုင်ရာ ဆောင်းပါးများ ရေးသားသည်။ ဗော်လတဲယားသည် ဖားနေးရွာ၌နေစဉ် စီးပွားဖြစ်လုပ်ငန်းများကို လုပ်ကိုင်ယင်း ကြွယ်ဝသည်ထက် ကြွယ်ဝလာကာ၊ ဆင်းရဲသားများနှင့် အယူဝါဒ ရေးရာ ညှဉ်းပန်းမှုကြောင့် ထွက်ပြေးလာရသော ဒုက္ခသည်များကို ကျွေးမွေး ပြုစု၍၊ ယင်းတို့အကြောင်းကို တင်ပြသော ပြဇာတ်များ ရေးသားသည်။ ဗော်လတဲယားကား ထိုအချိန်တွင် အကျော်ကြားဆုံး ဖြစ်သည်။

၁၇၇၄ ခုနှစ်တွင် ၁၅ ဆက်မြောက် လူဝီဘုရင် နတ်ရွာစံသောအခါ ပေါ်လတဲယားသည် ပါရစ်မြို့သို့ ပြန်သွားရန် အခွင့်ကောင်း စောင့်နေလေသည်။ ၁၇၇၈ ခုနှစ်တွင် ၂၈ နှစ်လုံးလုံး ကွဲကွာနေရသော ပါရစ်မြို့သို့ ပြန်သွားသော အခါ၊ ပေါ်လတဲယားအား စာပေသမားနှင့် နိုင်ငံခြားသား အမြောက်အမြားက သောင်းသောင်း ဖျဖျ ဆီးကြို ဂုဏ်ပြုကြသည်။ အသက်ကလည်းကြီး၊ ခရီးကလည်းပန်းသဖြင့် ပါရစ်မြို့သို့ရောက်၍ ရက်သတ္တ ၂ ပတ်အကြာပေါ်လတဲယားသည် အပြင်း ဖျားလေသည်။ ပြန်လည် ကျန်းမာလာသောအခါ သူ၏ အလွမ်းပြဇာတ် 'အိုင်ရင်း' ကို ရုံတင်ကပြရန် စိုင်းပြင်းသည်။ ယင်းပြဇာတ်ကပြစဉ် လူထုက သူ့အားဝိုင်း၍ ဂုဏ်ပြုသြဘာပေးကြသည်။ ပေါ်လတဲယားသည် ပါရစ်မြို့၌နေထိုင်စဉ် ပညာ့တံခွန်အသင်း အစည်းအဝေးများသို့ မနားမနေတက်ရောက်ခြင်း၊ လူထု ခြီးကျူးပွဲများသို့ တက်ရောက်ခြင်းတို့ကြောင့် ပန်းဖျား ဖျားကာ ထိုနှစ်မေလ ၃၀ ရက်နေ့တွင် ကွယ်လွန်လေသည်။

ပေါ်လတဲယား၏ ပညာပါရမီ ထူးချွန်ပုံကို မည်သူမျှ မငြင်းနိုင်ချေ။ သို့ရာတွင် မည်သည့်လုပ်ငန်းတခုခု၊ ဘာသာရပ်တခုခုတွင် ထူးချွန်၍ ကျော်ကြားသည်ဟူ၍မူ အတိအကျမဆိုနိုင်ချေ။ ပေါ်လတဲယား၏ ပြဇာတ်များသည် ကျော်ကြားသော်လည်း၊ သူ့ကိုကား အကောင်းဆုံး ပြဇာတ်ရေးဆရာဟု ခေါ်၍မဖြစ်ပေ။ ထို့အတူ ပေါ်လတဲယားရေးသားသော သမိုင်းများသည် ဖတ်ကောင်းပြီး ကျော်ကြားသော်လည်း၊ သူ့ကိုကား အကောင်းဆုံး သမိုင်းရေးဆရာဟု မဆိုနိုင်ချေ။ သူကား အပြစ်မြင်ဝေဖန်ရေးသမားဖြစ်သည်။ သူ့ခေတ်နိုင်ငံရေးနှင့် အယူဝါဒရေး ဆိုင်ရာ အဖွဲ့အစည်းများကို ခပ်ပြင်းပြင်းနှင့် ကြမ်းကြမ်း ဝေဖန် ရေးသားသူဖြစ်သည်။ သူ၏ "ကင်ဒစ်ဒီ" ဟူသည့်စာပြောင် ပြဇာတ်၌ပင် လူမှုရေးစံနစ်၏ ချွတ်ယွင်းချက်များပုံပြင်ရန် ရည်သန်၍ ရေးသားခဲ့သည်။ ဂျွန်နသန်ဆွစ်ကဲ့သို့ သူသည် လူ့သဘာဝကိုသရော်သည်မဟုတ်ဘဲ၊ လူ့အဖွဲ့အစည်းကိုသာ သရော်ခြင်း ဖြစ်သည်။ (ဆွစ်, ဂျွန်နသန် — ရှု။) သို့ရာတွင် အချိန်နှင့်အခြေအနေပြောင်းလဲမှုတို့ကြောင့် သူ့ခေတ်က အလွန်ထက်မြက်ပုံရသော သူ့စာပေများသည် ယခုခေတ်တွင် ပျင်းရိဖွယ်ကောင်းလျက် ရှိပေသည်။

ပြင်သစ် တော်လှန်ရေးကို သွေးထိုးပေးသူ ရူးဆိုးကဲ့သို့ပင် ပေါ်လတဲယားသည် လူမှုရေးဆိုင်ရာ သဘာဝတ္ထဗေဒ ပညာရှင်ဖြစ်သည်။ (ရူးဆိုး, ဂျေ၊ဂျေ — ရှု။) သူသည် အိုးသစ်အိမ်သစ် တည်ဆောက်ရန် ခလုတ်ကန်သင်းဖြင့် ပြည့်နှက်နေသည့်မြေကို ရှင်းပေးသူနှင့်လည်း တူသည်။ လူထုအား သူ၏ ကလောင်လက်နက်ဖြင့် မျက်စိဖွင့်ပေးခဲ့၍သာ ရူးဆိုး၏လွတ်လပ်ရေး၊ ခွင့်တူ ရေးတူ ရရေး၊ အချင်းချင်း ချစ်ခင်မျှတမှုရှိရေးတည်းဟူသော လူမှုရေးဝါဒကို ပြင်သစ် လူထု သဘောပေါက်နိုင်ကြခြင်း ဖြစ်သည်။

ပေါ်လတဲယားသည် တရားမျှတမှုနှင့် လွတ်လပ်မှုကို လိုလားသူ ဖြစ်သည့်အလျောက် အရာရာတွင် မဟုတ်မခံ လွတ်လပ်စွာ ပြောဆို ရေးသားတတ်သဖြင့် ချစ်ခင်ဖွယ် မကောင်းသည့် ရန်စွယ်နှင့် ငေါငေါ လူတယောက်အဖြစ် အချို့က မြင်ကြသည်။

**ပေါ်လဒွင့်,စတန်လေ** (ခရစ် ၁၈၆၇–၁၉၄၇)။ ။အင်္ဂမအက်ဒွပ် ဘုရင် နန်းစွန့်သည့် အရေးတွင် ဗြိတိန်နိုင်ငံနှင့် တကွ အင်ပိုင်ယာကြီး တခုလုံးကို မတိမ်း မစောင်းရအောင် ထိန်းသိမ်းခဲ့သည့် ဗြိတိသျှ ဝန်ကြီးချုပ် စတန်လေပေါ်လဒွင်ကို ၁၈၆၇ ခုနှစ် သြဂုတ်လ ၃ ရက်နေ့တွင် ဝုစတာရှိုင်ယာနယ် ဗျူဒလီမြို့တွင် ဖွားမြင်သည်။ အင်္ဂလန်ပြည်ရှိ အကြီးဆုံးသော အင်ဂျင်နီယာ လုပ်ငန်းဖြစ်သည့် ပေါ်လဒွင် လီမိတက်ပိုင်ရှင်နှင့် ဒါရိုက်တာလူကြီး အဲလဖရက် ပေါ်လဒွင်၏ တဦးတည်းသောသား ဖြစ်သည်။

ဟယ်ရိုကျောင်းနှင့် ထရင်နီတီကောလိပ်တွင် ပညာသင်ခဲ့၍ ၁၈၈၈ ခုနှစ်တွင် ဘွဲ့ရခဲ့ပြီးနောက် ဖခင်ဖြစ်သူ၏ လုပ်ငန်းကို ဝင်ရောက် ဦးစီးလုပ်ကိုင်ခဲ့သည်။ အနှစ်နှစ်ဆယ်ကျော်ကျော် စီးပွားရေးဖက်တွင် လုံးပန်းခဲ့ပြီးနောက် ၁၉၀၈ ခုနှစ်တွင် ဖခင်ဖြစ်သူ၏ နေရာဖြစ်သော ဗျူဒလီမှ ကွန်ဆားဗတစ်အမတ်အဖြစ် ရွေးကောက် တင်မြှောက်ခြင်း ခံရသည်။ ၁၉၁၆ ခုနှစ်တွင် ဗိုနာလော အစိုးရလက်ထက်၌ ပေါ်လဒွင်သည် ပါလီမန် အတွင်းဝန်အဖြစ် ထမ်းရွက်ရသည်။ ၁၉၁၇ ခုနှစ်တွင် ဘဏ္ဍာရေးဝန်ကလေး ဖြစ်လာ၍ ၁၉၂၀ ပြည့်နှစ်တွင် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးအဖြစ် ဆောင်ရွက်ရသည်။ ၁၉၂၂ ခုနှစ် အောက်တိုဘာလတွင် ကျင်းပသော ကွန်ဆားဗတစ် ပါတီစည်းဝေးပွဲ၌ ပေါ်လဒွင် မိန့်ကြားသော မိန့်ခွန်း၏ ဂယက်ရိုက်မှုကြောင့် လွိုက်ဂျော့၏ ညွန့်ပေါင်းအစိုးရ ပြုတ်ကျ၍ ဗိုနာလောအစိုးရ တက်လာလေသည်။ (လော,ဗိုနာ — ရှု။) ဗိုနာလော အစိုးရ အဖွဲ့တွင် ပေါ်လဒွင်သည် ဘဏ္ဍာရေး ဝန်ကြီးအဖြစ် ဆောင်ရွက်ယင်း ၁၉၂၃ ခုနှစ်တွင် ဗြိတိန်နိုင်ငံက ဆပ်ရန်ရှိသောစစ်ကြွေးများကိစ္စကို စီစဉ်ရန် အမေရိကန်နိုင်ငံသို့ သွားရောက်ခဲ့သည်။

ထိုနှစ် မေလတွင် ဗိုနာလော ဝန်ကြီးချုပ် ရာထူးမှနုတ်ထွက်လိုက်သောအခါ ပေါ်လဒွင်ဝန်ကြီးချုပ် ဖြစ်လာသည်။ သို့ရာတွင် ၁၉၂၄ ခုနှစ် ဇန္နဝါရီလ၌ ကျင်းပသော ရွေးကောက်ပွဲကြီး၌ ပေါ်လဒွင်၏ ပါတီရှုံးနိမ့်သွားသောကြောင့် နောက်တကြိမ် ကျင်းပသော ရွေးကောက်ပွဲကြီး အထိ အတိုက်အခံ ခေါင်းဆောင်အဖြစ် ဆောင်ရွက်ရလေသည်။ ထိုနှစ် အောက်တိုဘာလ ရွေးကောက်ပွဲတွင် ပေါ်လဒွင်၏



ဗြိတိသျှ နန်းရင်းဝန်ဖြစ်ခဲ့သူ စတန်လေဗော်လဒွင်

ပါတီအနိုင်ရသဖြင့် ၁၉၂၉ ခုနှစ်အထိ ဝန်ကြီးချုပ်အဖြစ် ဆောင်ရွက်ရသည်။ ထိုအချိန်ကာလအတွင်း ဗော်လဒွင် အစိုးရသည် ဆိုဗီယက်ရုရှနှင့် ဆက်ဆံရေး၊ အလုပ်လက်မဲ့ ပြဿနာ၊ သပိတ်အရေးတော်ပုံ စသော ပြဿနာကြီးပေါင်း များစွာနှင့် ကြုံတွေ့ ခဲ့ရလေသည်။ ၁၉၂၉ ခုနှစ်တွင် ဗော်လဒွင် အစိုးရ ပြုတ်ကျလေသည်။ ၁၉၃၁ ခုနှစ်တွင် ရမ္မဆေ မက္ကဒေါ်နယ် ခေါင်းဆောင်သော ညွန့်ပေါင်း အစိုးရတက်ခဲ့ရာ ဗော်လဒွင်သည် ပရီဗီကောင်စီ ဥက္ကဋ္ဌနှင့် တံဆိပ်တော်ဝန်ကြီးအဖြစ် ထမ်းဆောင်ခဲ့ရသည်။ ပါလီမန် တွင် ကွန်ဆားဗတစ် အမတ်များ အားကောင်း နေလေရာ၊ ဗော်လဒွင်သည်လည်း အစိုးရအဖွဲ့တွင် ဩဇာအရှိဆုံးပုဂ္ဂိုလ် ဖြစ်နေလေသည်။ ၁၉၃၅ ခုနှစ် ဇွန်လတွင် မက္ကဒေါ်နယ် ရာထူးမှ နုတ်ထွက်သောအခါ ဗော်လဒွင်သည် ဝန်ကြီးချုပ် အဖြစ် တင်မြှောက်ခြင်းခံရလေသည်။

တတိယနှင့် နောက်ဆုံးအကြိမ်မြောက် ဝန်ကြီးချုပ် အဖြစ်ဆောင်ရွက်ခဲ့ရစဉ် ဗော်လဒွင်သည် ဥရောပတိုက်၌ ပိုမို ပြင်းထန်လာသည့်နိုင်ငံရေးတင်းမာမှုများကိုရင်း၊ ဗြိတိသျှ နန်းတွင်းရေး ပြဿနာကိုရင်း ရင်ဆိုင် ခဲ့ရလေသည်။ မူဆိုလီနီနှင့် ဟစ်တလာတို့သည် ကျူးကျော်မှုများဖြင့် နိုင်ငံပေါင်းချုပ် အသင်းကြီးကို ဖက်ပြိုင်အန်တုခဲ့သဖြင့် ကမ္ဘာ့ နိုင်ငံရေး အတော်လှုပ်ရှားခဲ့ရလေသည်။ ထိုအတောအတွင်း ပဉ္စမဂျော့ဘုရင် နတ်ရွာစံ၍ သားတော်အဋ္ဌမအက်ဒွပ်ဘုရင် အရိုက်အရာ ဆက်ခံခဲ့ပြီးနောက်၊ မင်းဆွေမင်းမျိုး မဟုတ်သော အမေရိကန်သူ တခုလပ် မစ္စစ်ဆင်ပဆင်အား မိဖုရားတင်မြှောက်ရေးနှင့် စပ်လျဉ်း၍ သဘောကွဲလွဲမှုများ ဖြစ်ပေါ်ခဲ့လေသည်။ ဤနန်းတွင်းရေးကို ဗော်လဒွင်သည် အေးအေး ချမ်းချမ်းနှင့် ပြီးငြိမ်းသွားအောင် လိမ်မာပါးနပ်စွာ ဆောင်ရွက် ခဲ့လေသည်။

ဗော်လဒွင်ကား အလွန်မျိုးချစ်စိတ် ထက်သန်သူ အဖြစ် ကျော်ကြားခဲ့သည်။ ၁၉၁၉ ခုနှစ်တွင် သူ၏စည်းစိမ် ၅ ပုံ ၁ ပုံကို ဗြိတိသျှ အစိုးရသို့ ပေးလှူခဲ့သူဖြစ်သည်။ သို့ရာတွင် အတိုက်အခံတို့ကမူ ဗော်လဒွင်သည် ဥရောပအာဏာရှင်တို့၏ အင်အားကို ချက်ခြင်းမရိပ်မိသူ၊ ဗြိတိသျှ လေတပ် အင်အားဖြည့်တင်းရေးအတွက် ကတိပျက်သူအဖြစ် စွပ်စွဲခဲ့ကြသည်။

၁၉၃၇ ခုနှစ် မေလ ၂၈ ရက်နေ့တွင် ဗော်လဒွင်သည် နိုင်ငံရေးမှ အနားယူသည်။ မကြာမီ ဆဋ္ဌဂျော့ဘုရင်က ဗော်လဒွင်အား အားဘွဲ့ဖြင့် သူကောင်းပြုသည်။ ၁၉၄၇ ခုနှစ် ဒီဇင်ဘာလ ၁၃ ရက်နေ့တွင် ဗော်လဒွင်သည် ဝုစတာ ရှိုင်ယာနယ် စတူးဝါးပို–အွန်–ဆဲဗန်းမြို့တွင် ကွယ်လွန်သည်။

ဗော်လဒွင်ကား နိုင်ငံရေး၌သာ မဟုတ်၊ မည်သည့် ဘာသာရပ်၌မဆို စကားပြောထိသူ ဖြစ်သည်။ သူ၏ မိန့်ခွန်းများကို စု၍ "အင်္ဂလန်ပြည်အကြောင်း (၁၉၂၆)"၊ "ကျွန်ုပ်တို့၏ အမွေ" (၁၉၂၈)၊ "မိန့်ခွန်းများနှင့် မှာတမ်းများ" (၁၉၃၅) ဟူ၍စာအုပ်များ ထုတ်ဝေခဲ့သည်။ သူ၏ အခြားစာပေ လက်ရာများမှာ "လွတ်လပ်ရေး၏ မီးရှူးတိုင်" (၁၉၃၅)၊ "အင်္ဂလန်ပြည်အား သရုပ်ဖော်သူ" (၁၉၃၉)၊ ဂန္ထဝင်နှင့် လူပြိန်း (၁၉၂၆) စသည်တို့ ဖြစ်သည်။

**ဗော်လရှီဗစ်။** ။၂၀ ရာစုနှစ်အစနှင့် ပဌမကမ္ဘာစစ် အပြီးကာလတွင် ရုရှနိုင်ငံ၌ ထင်ရှားသော နိုင်ငံရေး အဖွဲ့ကြီးကား ဗော်လရှီဗစ်ပါတီဖြစ်သည်။ ရုရှနိုင်ငံမှ မတ်ဝါဒီတို့က ရုရှနိုင်ငံအား ဆိုရှယ်လစ် ဒီမိုကရက်တစ်အလုပ်သမား နိုင်ငံအဖြစ် ထူထောင်ရန် အားထုတ်ယင်း ပေါ်ပေါက်လာသော နိုင်ငံရေးအဖွဲ့ပင်ဖြစ်သည်။ ဗော်လရှီဗစ်ဟူသော စကားလုံးသည် ရုရှဘာသာဝေါဟာရ ဗော်လရှင်စတစ်မှ ဆင်းသက်၍ လူများစုဟုအဓိပ္ပါယ်ရသည်။ယင်းပါတီသည် ၁၉၁၇ ခုနှစ်နောက်ပိုင်းတွင် ရုရှကွန်မြူနစ်ပါတီအဖြစ် ကမ္ဘာတွင်ကျော်ကြား လာလေသည်။

ဗော်လရှီဗစ်ပါတီ၏ မူလအစမှာ ၁၈၁၃ ခုနှစ်လောက်က ဖြစ်သည်။ ပေါ်စက ယင်းအမည်ဖြင့် မဟုတ်ဘဲ ပလေခါနော့နှင့် အက်ဇဲရော့တို့ခေါင်းဆောင်သော အလုပ်သမားလွတ်မြောက်ရေး အုပ်စုအဖြစ်မှ တဖြည်းဖြည်း ဗော်လရှီဗစ်ပါတီအဖြစ် ရောက်ရှိလာခြင်း ဖြစ်သည်။ ထိုအုပ်စု၏ ဝါဒစည်းမျဉ်းကား တော်လှန်ရေးကြီး အောင်မြင်ရေးအတွက် အဓိကလူစုသည် စံနစ်တကျဖွဲ့စည်းထားသော အလုပ်သမားလူတန်းစား ဖြစ်ရမည်ဟူသတည်း။ ထိုအုပ်စုသည် စာရွက်စာတမ်းများ ထုတ်ဝေခြင်း၊ ဆွေးနွေးပွဲ ကျင်းပခြင်းမျှသာ ပြုလုပ်၍ အလုပ်သမားလူတန်းစားတို့အပေါ်၌ သြဇာ မညောင်းသေးချေ။ အုပ်စုတွင် ခေါင်းဆောင်သာရှိ၍ နောက်လိုက်မရှိသလောက် ရှားနေသည်။ ၁၈၉၈ ခုနှစ်လောက်ရောက်၍ လီနင်၊ကရပ်ဆင်၊ မာတော့ စသော ထင်ရှားသည့် ပုဂ္ဂိုလ်ကြီးများ ဝင်ရောက်အားပေးမှ ထိုအုပ်စုများ ဖွံ့ဖြိုးလာလေသည်။ ယင်းအချိန်အထိပင် ပါတီသည် မည်သည့် ဝါဒလုပ်ငန်းစဉ်ဖြင့် မည်သို့သောနည်းအတိုင်း ဆောင်ရွက်ရမည်ကို ပြတ်ပြတ်သားသား မရှိသေးချေ။ သို့ရာတွင် အလုပ်သမားတို့၏ ဆိုရှယ်ဒီမိုကရက်အဖွဲ့ကလေးများ မြို့တိုင်းတွင် ပေါ်လာလေသည်။

၁၉၀၂ ခုနှစ်တွင် 'ကျွန်ုပ်တို့ဘာလုပ်ရမလဲ' ဟူသော စာအုပ်၌ လီနင်က 'အဖွဲ့ဝင်တဦးစီအား အသီးအသီး လုပ်ငန်းတာဝန်ချအပ်ပေး၍ စစ်တပ်မှ စစ်သားပမာ ထမ်းဆောင်စေခြင်းဖြင့် တော်လှန်ရေးအင်အားစုကို စုစည်းကာ ဇောက်ချလုပ်ကိုင်ရမည်' ဟု ရေးလိုက်မှ ပါတီ၏ ဝါဒလမ်းစဉ်ကို ဆွေးနွေးရန် လမ်းစပေါ်လာသည်။ ၁၉၀၃ ခုနှစ် ဇူလိုင်လမှ သြဂုတ်လအတွင်း လန်ဒန်မြို့၌ ကျင်းပသော အပြည်ပြည်ဆိုင်ရာ ဆိုရှယ်ဒီမိုကရက်တစ် လေဘာပါတီ၏ ဒုတိယ ကွန်ဂရက်၌ ပါတီဝါဒနှင့် လုပ်ငန်းစဉ်ကို ဆွေးနွေး၍ သဘောကွဲရာမှအစ လီနင်ခေါင်းဆောင်သောအုပ်စုနှင့် မာတော့ခေါင်းဆောင်သော အုပ်စုဟူ၍ အုပ်စု ၂ ခုဖြစ်လာသည်။ လီနင်အုပ်စုသည် လူများစုဖြစ်သည်ကိုစွဲ၍ ဗော်လရှီဗစ်၊ မာတော့အုပ်စုသည် လူနည်းစုဖြစ်သည်ကို စွဲ၍ မင်ရှီဗစ်ဟူ၍ ဖြစ်ပေါ်လာသည်။

ဗော်လရှီဗစ်တို့က ပါတီကို အင်အား တောင့်တင်းအောင် ဖွဲ့စည်း၍ တိုက်ရေးခိုက်ရေးကိစ္စများကို ဆောင်ရွက်သော အဖွဲ့အစည်းဖြစ်အောင် ပျိုးထောင် ရမည်။ ပါတီလုပ်ငန်းကို ကိုယ်ထိလက်ရောက် ဝင်ရောက်ဆောင်ရွက်သူမှ ပါတီဝင်ဖြစ်ရမည်ဟု သတ်မှတ်သည်။ မင်ရှီဗစ်တို့ကမူ ပါတီရန်ပုံငွေ ထည့်ဝင်သူမှန်သမျှ ပါတီဝင် ဖြစ်နိုင်သည်ဟု လျော့လျော့ရဲရဲ ဖွဲ့စည်းချင်ကြသည်။ ဤသည်တွင်မှ သဘောမတိုက်ဆိုင်ဖြစ်ကာ သီးခြားပါတီ ထောင်ကြသော်လည်း ရုရှ ဆိုရှယ်လစ် ဒီမိုကရက်တစ် လေဘာ ပါတီ ကွန်ဂရက်ကိုကား ဆက်လက် ကျင်းပသွားလေသည်။ တတိယနှင့် စတုတ္ထ ဒူးမားတွင်မူ ၂ ဖွဲ့လုံးမှ ပုဂ္ဂိုလ်များသည် ဆိုရှယ် ဒီမိုကရက် ကိုယ်စားလှယ် အဖြစ် တက်ရောက်ကြသေးသည်။ ၁၉၁၂ ခုနှစ် ပရာဂမြို့တွင် ကျင်းပသော ကွန်ဂရက်တွင်မှ ဗော်လရှီဗစ်တို့က အပြတ်အသတ် အင်အားကြီးကာ မင်ရှီဗစ်တို့ မှေးမှိန်သွားသဖြင့် ရုရှ ဆိုရှယ်လစ် ဒီမိုကရက်တစ် လေဘာပါတီ (ဗော်လရှီဗစ်)ဟု ပါတီအမည်ပါ အတိအလင်း ပြောင်းလဲပေါ်ထွက်လာသည်။ ယင်းသို့ဖြင့် မြန်မာနိုင်ငံမှ ဖ ဆ ပ လ အဖွဲ့ချုပ်ကြီး ၂ ခြမ်း ကွဲသည့်အခါ ဖဆပလ (တည်မြဲ)၊ ဖဆပလ (သန့်ရှင်း)ဟုဖြစ်ရာမှ အဖျားဆွတ်၍ သန့်ရှင်းပါတီဝင်၊ တည်မြဲ ပါတီဝင်ဟူ၍ ဖြစ်ပေါ်လာသကဲ့သို့ ဆိုရှယ် ဒီမိုကရက်ပါတီ အမည်တိမ်၍ ဗော်လရှီဗစ်ပါတီ အမည်တွင်လာသည်။ ဗော်လရှီဗစ် တို့ကား လက်ဝဲ နိုင်ငံရေးကို စွဲမြဲစွာ ယုံကြည်ကြသူများ ဖြစ်သည်။ လူတန်းစားတိုက်ပွဲ ဝါဒကို အကြွင်းမဲ့ ထောက်ခံ၍၊ ဆင်းရဲသား အလုပ်သမားများ လက်ထဲသို့ နိုင်ငံရေး အာဏာ ရောက်ရှိရေးကို ရှေးရှုဆောင်ရွက် ကြသည်။

ရုရှဂျပန်စစ်ပွဲ၌ ရုရှတို့ ရှုံးရသည်ကို မခံမရပ်နိုင် ဖြစ်ကာ၊ ဇာဘုရင်အစိုးရအား သပိတ်မှောက် ဆန္ဒပြ၊ ပုန်ကန် ဆူပူမှုများ ဖြစ်ခဲ့ရာတွင် ဗော်လရှီဗစ်ပါတီသည် အရေးပါသော အဖွဲ့တဖွဲ့ဖြစ်သည်။ ဗော်လရှီဗစ်တို့၏ ဦးဆောင်မှုဖြင့်မြို့ကြီးများ၌ စက်ရုံ အလုပ်သမားများကငင်း၊ စစ်သားများနှင့် တောင်သူလယ်သမားများကငင်း ဆိုဗီယက်ခေါ် ကောင်စီ

အဖွဲ့များ ဖွဲ့ကြသည်။ ပဌမကမ္ဘာစစ် ဖြစ်သောအခါ ရုရှတို့ စစ်ထဲဝင်ရောက် ကြသည်ကို လီနင်ခေါင်းဆောင်သော ပေါ်လရှီဗစ်တို့က အရင်းရှင် နယ်ချဲ့အားပေးခြင်းသာ ဖြစ်သည်ဟု ဆိုကာ ကန့်ကွက်ကြသည်။ ပေါ်လရှီဗစ်တို့က "စစ်သည်တော်တို့အတွက် ငြိမ်းချမ်းရေး၊အလုပ်သမားအတွက် ပေါင်မုန့်၊ လယ်သမားအတွက် လယ်မြေရအောင် လုပ်ပေးမည်" ဟု ဝါဒဖြန့်ကတိပေးလိုက်ရာ လူထုသဘောကျ ဖြစ်သွားလေသည်။ ၁၉၁၇ ခုနှစ် မတ်လတွင် ဇာဘုရင် အစိုးရကျ၍ ကြားဖြတ်အစိုးရတက်သည်။အယ်လက်ဇန္ဒား ကာရင်စကီး၏ ကြားဖြတ် အစိုးရသည်လည်း လူထုတောင့်တနေသော ငြိမ်းချမ်းရေး၊ ပေါင်မုန့်နှင့် လယ်မြေကို မပေးနိုင်ရုံမက ဆူပူမှုများကိုပင် မထိန်းသိမ်းနိုင်သဖြင့် ၁၉၁၇ ခုနှစ် နိုဝင်ဘာလ ၇ ရက်နေ့တွင် အလုပ်သမား၊ လယ်သမား၊ စစ်သားစသော လူထုအုံကြွ တော်လှန်လိုက်ရာ ကာရင်စကီအစိုးရ ပြုတ်ကျ၍ ပေါ်လရှီဗစ်တို့ ဦးစီး ဖွဲ့စည်းထားသော ဆိုဗီယက်အဖွဲ့များ အာဏာရလာသည်။ ထိုအချိန်မှ စ၍ ဆိုဗီယက်ဆိုရှယ်လစ်သမတနိုင်ငံ အစိုးရပေါ် ပေါက်လာ၍၊ပေါ်လရှီဗစ် ပါတီခေါင်းဆောင် လီနင်သည် ထိုဆိုဗီယက်အစိုးရ၏ ပဌမဆုံးသော သဘာပတိ ဖြစ်လာလေသည်။

ပေါ်လရှီဗစ် ပါတီအာဏာရပြီးနောက် ၁၉၁၈ ခုနှစ် မတ်လ ၆ ရက်နေ့မှ စတင် ကျင်းပသော ပေါ်လရှီဗစ်ပါတီ၏ သတ္တမ အကြိမ်မြောက် ကွန်ဂရက်တွင် ပေါ်လရှီဗစ်ပါတီအား ရုရှကွန်မြူနစ် ပါတီ (ပေါ်လရှီဗစ်) ဟူသော အမည်သစ်သို့ပြောင်းရန် တညီတညွတ်တည်း ဆုံးဖြတ်လိုက်သည်မှ ယင်းပါတီသည် ယခုတိုင် ကွန်မြူနစ်ပါတီအဖြစ် ကမ္ဘာတွင် ထင်ရှားလျက် ရှိလေသည်။

**ပေါ်လီဘော ကစားခြင်း။** ။တင်းနစ်ဘောလုံး ကစားသကဲ့သို့ ကစားကွင်း အလယ်တွင် ပိုက်တန်း၍ တဖက်နှင့်တဖက် ဘောလုံးကို လက်ဖြင့် ပုတ်ကစားခြင်းကို ပေါ်လီဘော ကစားခြင်းဟု ခေါ်သည်။ ယင်းကစားနည်းသည် အပင်ပန်း မခံနိုင်သူများ၊ အားကစားဖက်၌ ကျွမ်းကျင်မှု မရှိလှသူများ ကစားနိုင်သော အထွေထွေ ကိုယ်လက် လှုပ်ရှားကစားနည်းတရပ်ဖြစ်သည်။

ပေါ်လီဘောကစားနည်းကို ၁၈၉၅ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စု၊ မက်ဆာချူးဆက်ပြည်နယ် ဟိုလယော့မြို့မှ ခရစ်ယန် လူငယ်များအသင်း၏ ကာယနည်းပြဆရာ ဝီလျံ မော်ဂင်ဆိုသူက စတင်တီထွင်ခဲ့သည်။ ဘောလုံး၊ ဗတ်စကက်ဘော၊ တင်းနစ် စသော ကစားနည်းတို့ကဲ့သို့ ပင်ပန်းသည့် ကစားနည်းကို မကစားနိုင်သူများ ကစားနိုင်ရန် သက်သက် သာသာနှင့် ကိုယ်လက်လှုပ်ရှားမှု ဖြစ်စေသည့် ကစားနည်းကို တီထွင်ရာမှ ပေါ်လီဘော ကစားနည်း ပေါ်ပေါက်လာခြင်း ဖြစ်သည်။ ယင်းသို့ ကစားနည်းတမျိုးကို အောင်မြင်စွာ တီထွင်ပြီးနောက်၊ ကမ္ဘာအရပ်ရပ်ရှိ ခရစ်ယန် လူငယ်များအသင်းများက တဆင့် ဖြန့်လိုက်ရာ၊ ယခုအခါ အနှံ့အပြား ခေတ်စားနေသော ကစားနည်း တမျိုး ဖြစ်နေလေပြီ။ မြန်မာနိုင်ငံသို့မူ ၁၉၂၀ ပြည့်နှစ်လောက်တွင် ခရစ်ယန် လူငယ်များအသင်းနှင့် စစ်ပုလိပ်တပ်များကို အကြောင်းပြုကာ ရောက်ရှိလာသည်မှစ၍ ပေါ်လီဘောကစားနည်း အစပျိုးခဲ့လေသည်။ ၁၉၂၁–၂၂ ခုနှစ်တွင် ကျောင်းပေါင်းစုံ ပေါ်လီဘော ကစားပြိုင်ပွဲကြီး ကျင်းပခဲ့ကြသည်။ သို့ရာတွင် အစဉ်တစိုက် ခေတ်စားခြင်း မရှိဘဲ တိမ်မြုပ်နေသကဲ့သို့ ဖြစ်ပြီးမှ ၁၉၄၆ ခုနှစ် ဒုတိယ ကမ္ဘာစစ်ပြီးစ အချိန်တွင် မဟာမိတ်တပ်သားများ ကစားကြသည်တွင် တဖန်ပြန်ပေါ် လာပြန်သည်။ သို့ရာတွင် စံနစ်တကျ ကစားကြသေးသည် မဟုတ်ချေ။ ၁၉၅၁ ခုနှစ်တွင် အမျိုးသား ကိုယ်လက် ကြံ့ခိုင်ရေး ကောင်စီမှ ကစားနည်း စည်းမျဉ်း ဥပဒေများ ရှာဖွေသတ်မှတ်သည်။ ၁၉၅၂ ခုနှစ်တွင် မြန်မာနိုင်ငံအပျော်တမ်း ပေါ်လီဘော အဖွဲ့ချုပ်ကို ဖွဲ့စည်း၍၊ ၁၉၅၆ ခုနှစ်တွင် အပြည်ပြည်ဆိုင်ရာ ကစားနည်း ဥပဒေများနှင့် ညှိနှိုင်းချမှတ်သည်။ ထိုနောက် နိုင်ငံတွင်း၌ ပေါ်လီဘောကစားပြိုင်ပွဲများ ကျင်းပ၍ နိုင်ငံခြား၌ ကျင်းပသော ကစားပွဲများတွင်လည်း ပါဝင်ယှဉ်ပြိုင်နိုင်ရန် အားပေးသည်။ ၁၉၆၁ ခုနှစ် ဒီဇင်ဘာလတွင် ရန်ကုန်မြို့၌ကျင်းပခဲ့သည့် ဒုတိယအကြိမ်မြောက် အရှေ့တောင် အာရှကျွန်းဆွယ် အားကစားပြိုင်ပွဲတွင် ဝင်ရောက်ယှဉ်ပြိုင်ရာ၊ မြန်မာ ပေါ်လီဘော အသင်းက ဗိုလ်စွဲကာ ရွှေတံဆိပ်ဆု ရရှိခဲ့လေသည်။

ပေါ်လီဘော ကစားသည့်အခါ စည်းမျဉ်း တကျ ကစားမည်ဆိုက တဖက်လျှင် လူ ၆ ယောက်စီ ပါဝင်ယှဉ်ပြိုင်ရသည်။ သို့ရာတွင် ကိုယ်လက်လှုပ်ရှားမှု သက်သက်အတွက် အပျော်ပြေ အညာပြေ ကစားမည်ဆိုပါမူ ၁၁ ယောက်စီ၊ သို့မဟုတ် ထို့ထက်ပို၍ပင် ပါဝင်ကစားနိုင်သည်။ ယင်းကစားနည်းသည် ကစားရုံတွင်း၌ ဖြစ်စေ၊ ပြင်ပကွင်းပြင်၌ ဖြစ်စေ မည်သည့်နေရာ၌မဆို ကစားနိုင်သည်။ ကစားရုံတွင်း ပေါ်လီဘော ကစားကွင်းသည် ထုံးစံအားဖြင့် အလျားပေ ၆၀၊ အနံပေ ၃၀ ရှိရသည်။ တင်းနစ်ဘောလုံး ကစားသည့် အခါကဲ့သို့ ကွင်းအလယ်ဘေးတဖက်တချက်စီတွင် တိုင်တတိုင်စီ စိုက်၍ ယင်းတိုင်များတွင် ပိုက်ကိုတန်းထားရသည်။ ပိုက်ထိပ်အမြင့်သည် မြေကြီး အထက် ၈ ပေမြင့်ရသည်။ ကစားရာ၌ လုံးပတ် ၂၅ လက်မမှ ၂၇ လက်မအထိရှိသော သားရေစဖြင့် ချုပ်ထားသည့် ဘောလုံးကို သုံးရသည်။ ပေါ်လီဘော ကစားခြင်း၏ ရည်ရွယ်ချက်မှာ ကစားနည်းဥပဒေအရ ပိုက်ကို ကျော်၍ ဘောလုံးပုတ်ပို့ကာ ယင်း




၁၉၆၁ ခုနှစ်၊ဒီဇင်ဘာလ ၁၁ ရက်မှ ၁၆ ရက်နေ့ထိ မြန်မာနိုင်ငံ ရန်ကုန်မြို့တော်၌ကျင်းပသော ဒုတိယအရှေ့တောင်အာရှကျွန်းဆွယ် အားကစားပွဲတော် ဗော်လီဘောပြိုင်ပွဲတွင်၊ မြန်မာနိုင်ငံလက်ရွေးစင် အသင်း (အင်္ကျီဖြူ)နှင့် ကမ္ဘောဒီးယားနိုင်ငံ လက်ရွေးစင်အသင်းတို့ အကြိတ်အနယ် ယှဉ်ပြိုင်ကစားနေကြစဉ်။ ယင်းပြိုင်ပွဲတွင် မြန်မာတို့က(၁၅း၇)၊ (၁၅း၁၀) နှင့် (၁၅း၁၂) ဖြင့်၊ ၃ ပွဲစလုံးတွင် ကမ္ဘောဒီးယားတို့အပေါ် အနိုင်ရရှိခဲ့သဖြင့်၊ အရှေ့တောင် အာရှကျွန်းဆွယ် ဗော်လီဘောပြိုင်ပွဲ ပဌမဆုဖြစ်သော ရွှေတံဆိပ်ကို ဆွတ်ခူးခဲ့သည်။ မြန်မာနိုင်ငံ ဗော်လီဘော လက်ရွေးစင်အသင်းသည် လောနိုင်ငံ၊ ယိုးဒယားနိုင်ငံတို့နှင့် ယှဉ်ပြိုင်ကစားရာတွင်လည်း၊ ၃ ပွဲစလုံးတိုင်း၌ အနိုင်ရရှိခဲ့သည်။

ဘောလုံးကို မိမိဖက်သို့ ပြန်လည် မပို့နိုင်စေရန် ဖြစ်သည်။ မဘောလုံးကို တဖက်မှ တဖက်သို့ အဆက်မပြတ် ပုတ်၍ ပို့နေရသည်။ တဖက်က ပုတ်သော ဘောလုံးကို ကျန်တဖက်က ပြန်၍ ပုတ်မပို့နိုင်သော် ပဌမ ပုတ်ပို့သောအဖွဲ့ဖက်က အမှတ်ရရှိသည်။ တဖက်က ပြန်ပုတ် မပို့နိုင်သည့် အခါတိုင်း တဖက်အဖွဲ့က တမှတ်ရရှိ၍ ဦးစွာ အမှတ် ၁၅ မှတ်ရရှိသော အဖွဲ့က အနိုင်ရသည်။ သို့ရာတွင်ပွဲပြီးသောအခါ အနိုင်ရသည့် အဖွဲ့က ရှုံးသည့်အဖွဲ့ထက် အနည်းဆုံး ၂ မှတ်သာရသည်။ မသာပါက ဆက်လက်ကစားရသည်။ ပမာအားဖြင့် ၁၅ မှတ်နှင့် ၁၃ မှတ်။ အကယ်၍ အမှတ်ချင်း တူနေပါက (၁၄မှတ်=၁၄ မှတ်) ၁၄ မှတ်နှင့် ၁၆ မှတ်၊ သို့မဟုတ် ၁၅ မှတ်နှင့် ၁၇ မှတ်၊ သို့မဟုတ် ၁၆ မှတ်နှင့် ၁၈ မှတ်စသည်ဖြင့် ၂ မှတ် ပိုရသည် အထိ ဆက်လက်ကစားရသည်။ရိုးရိုးယှဉ်ပြိုင် ကစားပွဲ၌ ၃ ပွဲတွင် ၂ ပွဲနိုင်လျှင် အနိုင်ရသည်။ နိုင်ငံအချင်းချင်း ယှဉ်ပြိုင်ကစားပွဲကြီးများ၌မူကား ၅ ပွဲတွင် ၃ ပွဲနိုင်မှသာလျှင် အနိုင်ရလေသည်။

ဗော်လီဘော ကစားသူများသည် မိမိထံသို့ ဘောလုံးရောက်လာသောအခါ ဖမ်းကိုင်ပြီးမှ ပြန်ပစ်ခြင်းမျိုး မပြုရချေ။ အနီးသို့ ဘောလုံး ရောက်လာသည်နှင့် လက်ဖြင့် တဖက်သို့ ချက်ခြင်း ပုတ်ထုတ်ရသည်။ မိမိဖက်သို့ ရောက်သော ဘောလုံးကို လူ ၃ ယောက်ထက်ပို၍ တဖက်သို့ ပုတ်ပို့ခြင်း မပြုရချေ။ ယင်းသို့ ပုတ်ရာတွင် တဦးပြီးမှ တဦးပုတ်ရသည်။ လူတဦးတည်း ၂ ကြိမ်ဆက်၍ ပြန်ပုတ်ခြင်း မပြုရချေ။ မိမိပုတ်လိုက်သော ဘောလုံးသည် အခြား တယောက်နှင့် မထိမီ မိမိလက်ဖြင့်မဆိုထားဘိ မိမိကိုယ်အင်္ဂါအစိတ်အပိုင်းတခုခုဖြင့်ပင် မထိရချေ။ အကယ်၍ထိမိလျှင် အချက်ဆင့်ပုတ်သည်ဟု မှတ်ယူရသည်။ ဘောလုံး စတင်ပေးသော အကြိမ်တွင် ဘောလုံးသည် ပိုက်ကိုကျော်သည့်အခါ မထိမိစေရသော်လည်း၊ နောက်အကြိမ်များ၌ထိက အရေးမကြီးချေ။ ကစားသူ၏ ခြေသည် ဗဟိုစည်းကို ကျော်နင်းခြင်း မပြုရချေ။

ကစားပွဲ စသည့်အခါ တဖက်လျှင် ၃ ယောက်စီ ၂ တန်း ရှေ့နောက်ခွဲ၍ နေရာယူရသည်။ အကယ်၍ ၃ တန်းခွဲ နေရာယူလိုပါက ၂ ယောက်စီ ရှေ့နောက် အစဉ်လိုက် နေရာယူ ကစားရသည်။ ယင်းသို့ ကစားရာ၌ ရှေ့တန်း လူများသည် နောက်ဖက်သို့ ဆုတ်၍ ကစားနိုင်သော်လည်း၊ အစဉ် သဖြင့် နောက်တန်းလူများ၏ရှေ့၌သာ ရှိရသည်။ လကျာ်ထောင့် နောက်တန်း လူက စ၍ ပွဲဦးထွက် ရေိယာအတွင်းမှ ဘောလုံးပုတ်ရသည်။ ဘောလုံးကို စပုတ်သည့်အခါ လက်တဖက်ဖြင့် ဘောလုံးကို လေထဲသို့ မြှောက်၍ တဖက်ဖြင့် ပုတ်ထုတ်ရသည်။ လက်တဖက်ပေါ် တင်၍ လက်တဖက်ဖြင့်ပုတ်ခြင်း မပြုရချေ။ ဘောလုံးသည် ပိုက်ကို ကျော်လွန် သွားသော အခါ တဖက်အသင်းမှ တဖန် ပြန်၍ ပုတ်ပို့ရသည်။ ယင်းသို့ အပြန်အလှန် မပို့နိုင်ပါက ဘောလုံးကျသော ဖက်က တဖက်သို့ အမှတ်ပေးရသည်။ ဘောလုံးကို စပေးသော ဖက်မှ အမှတ်ရလျှင် မူလက စပေးသူပင် ဘောလုံးကို ဆက်လက်၍ စတင် ရိုက်ပို့ရသည်။ ဤသို့ မဟုတ်ဘဲ စပေးသော အသင်းဖက်တွင် ဘောလုံးကျ၍ တဖက်အသင်းက ဘောလုံး စတင်ရိုက်ပို့ရသည်ရှိသော်၊ မူလကဘောလုံးစပေးသူသည် လက်ဝဲဖက်နေရာသို့ ရွှေ့၍ ကျန်လူများကလည်း ယင်းကဲ့သို့ပင် နာရီလက်တံလှည့်သကဲ့သို့ အစဉ်လိုက်ရွှေ့၍ နေရာ ယူရသည်။ ဤနည်းအတိုင်း ဆက်လက် ကစားသွားရသည်။

ဗော်လီဘောကစားခြင်းသည်ဉာဏ်ဖျတ်လတ်ခြင်း၊ကိုယ်အနေအထား ဖျတ်လတ်ခြင်း၊ ငွေကုန်ကြေးကျသက်သာစွာနှင့် ကစားနိုင်ခြင်း၊ ဒိုင်လူကြီး မပါဘဲ ချောမောစွာ ကစားနိုင်ခြင်းတို့ကြောင့် တစတစ လူကြိုက် များလာလေသည်။

**ဗော်ယာ။** ။ပင်လယ် ကမ်းများ၊ ရေလက် ကြားများ၊ မြစ်များ၊ အိုင်ကြီးများစသည်တို့တွင် သွားလာနေကြသော လှေသင်္ဘောများအား ကျောက်ဆောင်များ၊ သောင်များနှင့် သင်္ဘောပျက်များ အစရှိသော ဘေးအန္တရာယ်ရှိသည့် နေရာများမှ ကင်းဝေးစွာ သွားလာနိုင်ကြစေရန် ပြုလုပ်ထားသောရေကြောင်း အမှတ်အသားများကို ဗော်ယာဟု ခေါ်သည်။ ဗော်ယာဟူသည်မှာ အင်္ဂလိပ်စကား ဗွိုင်မှ ဆင်းသက်လာသော စကားပျက် ဖြစ်သည်။ ဗော်ယာများကို သစ်သားဖြင့် ဖြစ်စေ၊ သံဖြင့်ဖြစ်စေ ပြုလုပ်၍ ရေ



အပေါ် (ဝဲ) ရိုးရိုးဗော်ယာ ၂ မျိုးနှင့် (ယာ) ခေါင်းလောင်းတပ် အချက်ပေး ဗော်ယာ ၂ မျိုးတို့ဖြစ်ကြသည်။ အောက်ပုံများမှာမူ မီးပြ ဗော်ယာများ ဖြစ်ကြသည်။

အောက် ကျောက်ကြိုး ချ၍ စွဲစေကာ ရေပေါ်၌ ပေါ်လော ပေါ်နေအောင် လုပ်ထားကြသည်။

ရှေးကျသော ကာလက ရေကြောင်း အမှတ်အသား အဖြစ် သစ်သားတုံးကို ချ၍သုံးခဲ့ကြသည်။ ထိုနောက် ၁၈၈၃ ခုနှစ် မတိုင်မီကာလအထိ မိမိနိုင်ငံနှင့်မိမိ သီးခြားအမှတ် အသားများ ချထားကြသဖြင့် တဒေသမှ မှတ်သားပုံနှင့် အခြားဒေသမှ မှတ်သားပုံမတူမှုကြောင့် ရေကြောင်းသွားလာရေးတွင် အခက်အခဲများတွေ့ခဲ့ ကြရသည်။ ထိုကြောင့် ဗြိတိသျှ အင်ပိုင်ယာတခုလုံး၌ ရေကြောင်း အမှတ် အသားများ တပြေးညီညာဖြစ်စေရန် ၁၈၈၂ ခုနှစ်တွင် ဗြိတိန် ရေကြောင်း အာဏာပိုင်များ ကွန်ဖရင့် ကျင်းပ၍ ရေကြောင်း အမှတ်အသား တညီတညွတ်တည်း ပြုလုပ်ရန် စံနစ်ချမှတ်ကာ၊ အိန္ဒိယ၊ ဩစတြေးလီးယား စသော ဗြိတိသျှ အင်ပိုင်ယာအတွင်းမှ နိုင်ငံများအားလုံး လိုက်နာ ကြသည်။ ၁၈၈၉ ခုနှစ်တွင် အမေရိကန်နိုင်ငံ ဝါရှင်တန်မြို့၌ အပြည်ပြည်ဆိုင်ရာ ရေကြောင်းကွန်ဖရင့် ကျင်းပ၍ ရေကြောင်း အမှတ်အသားများ တပြေးညီညာဖြစ်ရန် ညှိနှိုင်း သတ်မှတ်ကြလေသည်။

၁၉၁၂ ခု မတ်လတွင် စိန်ပီတာစဗတ်မြို့၌ ရေကြောင်း ကွန်ဖရင့် တခု ကျင်းပ၍ ရေကြောင်း အမှတ်အသားများကို ပြုပြင် ချမှတ် ပြန်သည်။ ၁၉၂၂ ခုနှစ်တွင် အင်္ဂလန်ပြည် ထရင်နီတီ အဆောက်အအုံ၌ ရေကြောင်း ကွန်ဖရင့် ကျင်းပ၍ ဗြိတိန်ကျွန်းလုံး အသုံးပြုမည့်ဗေဒ်ယာ ပုံသဏ္ဌာန်နှင့် အရောင်ကို တပြေးညီညာဖြစ်အောင် ညှိနှိုင်းချမှတ် ကြပြန်လေသည်။

ဗေဒ်ယာများသည် ပုံသဏ္ဌာန် အမျိုးမျိုးနှင့် အရွယ်အစားစား ရှိကြသည်။ ထင်ရှားသော မြစ်ကြီးများ အဝင်တွင် ဗေဒ်ယာအများအပြား ချထားသည်ကို တွေ့ကြရသည်။ ပြောင်းလုံးပုံ ရှိသောဗေဒ်ယာကို "ကင်းဗွိုင်" ဟုခေါ်၏။ ကတော့ပုံရှိသော ဗေဒ်ယာများ၊ ဘောလုံးပုံ ရှိသော ဗေဒ်ယာများလည်း ရှိသေးသည်။ ယင်းတို့အနက် အချို့ကို အမည်းသုတ်ထား၍ အချို့ကို အနီသုတ်ထား၏။ အချို့ကို အမည်းတခြမ်း အဖြူတခြမ်းသုတ်ထား၍၊ အချို့ကို အနီ နှင့် အဖြူသုတ်ထား၏။ ဤအမှတ်အသား များသည် မည်သည့်နေရာ၌ ကျောက်ဆောင်ရှိ၍ မည်သည့်နေရာတွင် သောင်ရှိပြီးလျှင် မည်သည့်နေရာ၌ ရေကြောင်းရှိသည်တို့ကို ပြထားသော အပြည်ပြည်ဆိုင်ရာ အမှတ်အသား များဖြစ်ကြသည်။ ထိုအမှတ်အသားများကြောင့် သင်္ဘောသားတို့သည် ရေကြောင်း၌ ဘေးကင်းစွာ သွားလာနိုင်ကြသည်။

အချို့သောဗေဒ်ယာများတွင် ခေါင်းလောင်းများ တပ်ဆင်ထားရာ လှိုင်း၏လှုပ်ရှားမှုကြောင့် ခေါင်းလောင်းမြည်သံကို အဝေးကပင် ကြားနိုင်သည်။ ထိုဗေဒ်ယာမျိုးကို အင်္ဂလိပ်ဘာသာဖြင့် ဗဲဗွိုင်ဟုခေါ်သည်။ လေချွန်သံကဲ့သို့မြည်သော ဗေဒ်ယာမျိုးကို "ဝှစ်စဲဗွိုင်"ဟု ခေါ်သည်။ ယင်း ဗေဒ်ယာနှစ်မျိုးလုံးကိုပင် ကျောက်ဆောင်နှင့်သောင်များ ရှိသောနေရာများ၌ ချထားလေ့ ရှိကြသည်။

သင်္ဘောပျက်များရှိသည့် နေရာများတွင် ချထားသော ဗေဒ်ယာများကို အစိမ်းရောင်သုတ်ထား၍ " သင်္ဘောပျက်" ဟူသော စာလုံးကိုအဝေးမှပင် မြင်နိုင်လောက်အောင် ထင်ရှားစွာရေးသားထားလေ့ရှိကြသည်။ ထိုဗေဒ်ယာကို "ရက်ဗွိုင်"ဟုခေါ်သည်။ တခါတရံပင်လယ်တွင် ရေငုပ်သင်္ဘောများအလုပ်လုပ်နေသောအခါ အခြားသင်္ဘောများ မလာရောက်စေရန် သတိပေးသောအနေဖြင့် ဗေဒ်ယာများ ချထားတတ်ကြသေးသည်။ ထိုဗေဒ်ယာကို "နန်းဗွိုင်"ဟုခေါ်၏။ ထိုဗေဒ်ယာနှစ်မျိုးလုံးကိုပင် ယာယီမျှချထားခြင်း ဖြစ်၍ အလုပ်ပြီးစီးသည့်အခါ ရုပ်သိမ်းသွားကြသည်။

အချို့ ဗေဒ်ယာများတွင် ဓာတ်ငွေ့ ထည့်ထား သောကြောင့် ဆီးနှင်းများဖုံးလွှမ်းနေသည့်အခါမျိုးနှင့်ညဥ့်အချိန်များတွင် ထိုဗေဒ်ယာများမှ မီးအလင်းရောင်ကို အဝေးမှ မြင်နိုင်သည်။ ထိုကဲ့သို့သော ဗေဒ်ယာများကို "ဂက်စဗွိုင်" ဟုခေါ်သည်။

အချို့ စည်ကားသော သင်္ဘောဆိပ် မြို့ကြီးများတွင် သင်္ဘောကြီးများ ဘေးကင်းစွာ ကျောက်ချနေနိုင်ရန် သတ်မှတ်ပေးထားသော ဗေဒ်ယာများလည်း ရှိသေး၏။ ယင်း ဗေဒ်ယာများသည် တခုနှင့်တခု ကပ်၍မနေကြချေ။ ထိုကဲ့သို့ သတ်မှတ်ပေးထားသောကြောင့် ဒီရေ အတက် အကျများတွင် သင်္ဘောများ တစင်းနှင့်တစင်း ထိခိုက်ခြင်း မရှိဘဲ ဘေးကင်းစွာ ကျောက်ချနေနိုင်ကြလေသည်။ ထိုဗေဒ်ယာမျိုးများကို အများအားဖြင့် သစ်သားဖြင့် ပြုလုပ်ကြသော်လည်း အချို့ကို သံဖြင့်လည်း ပြုလုပ်ကြပေသည်။

**ဗေဒဂျ,ဆီဇာ**(ခရစ် ၁၄၇၆ – ၁၅၀၇)။ ။ဆီဇာဗေဒဂျသည် ၁၄၉၂ ခုနှစ်တွင် ဆဋ္ဌ အယ်လက်ဇန္ဒာဟူ၍ ပုပ်ရဟန်း မင်းကြီးဖြစ်လာသော ရိုဒရီဂို ဗေဒဂျ၏ သားဖြစ်သည်။ ဗေဒဂျ မျိုးဆက်သည်စပိန်အမျိုးအနွယ်များဖြစ်ကြ၍ ၁၅ ရာစုနှစ်လောက်ကမှ ဣတလီနိုင်ငံတွင် ထင်ရှားလာသူများ ဖြစ်ကြသည်။ ဖခင်ဖြစ်သူက ဆီဇာအား အသက်နှစ်ဆယ် မပြည့်မီကပင်၊ ဂိုဏ်းချုပ်ဆရာတော်နှင့် ကာဒင်နယ်အဖြစ် ချီးမြှောက်ထားလေသည်။ သို့သော် ၁၄၉၈ ခုနှစ်တွင် ထိုရာထူးများမှ နုတ်ထွက်၍၊ နာဗား ဘုရင်၏ သမီးတော် ရှားလော့ဒါးလဗတ် နှင့် ထိမ်းမြားလက်ထပ်သည်။

ထိုအချိန်လောက်မှာပင် ပြင်သစ်ဘုရင် ၁၂ ဆက်မြောက် လူဝီ က သူ့အား ဗာလင်တီနွား မြို့စားအဖြစ် ချီးမြှောက်လေသည်။ ထိုနောက်တဖန် သူ၏နောင်တော် ဂျီးဗန္ဒီးဗေဒ



ညေ့ခံပွဲတခုတွင် ဆီဇာ ဗောဂျ၏သမီးကိုယ်တိုင် ဖျော်ဖြေ ကပြ အသုံးတော်ခံစဉ်

ဂျ၏ ရိုက်ရာဖြစ်သော ပုပ်ရဟန်းမင်း၏ ဗိုလ်မှူးချုပ်အဖြစ် ဆက်ခံရသည်။ ယင်းသို့ ဆက်ခံပြီးနောက် ၄ နှစ်အတွင်း ပုပ်ရဟန်းမင်းများ၏ အအုပ်အချုပ် အောက်မှ တော်လှန်ခဲ့သော မြို့စားနယ်စားများအား မကြောက်မရွံ့ မတွန့်မဆုတ် ရက်စက်စွာ နှိမ်နင်းတိုက်ခိုက်ပြီးလျှင် ဣတလီအလယ်ပိုင်းတွင် ဗောဂျမျိုးဆက်စိုးစံရမည့် ထီးနန်းကိုထူထောင်ရန် ကြံရွယ်လေသည်။ဖခင်ပုပ်ရဟန်းမင်းကြီး၏အရှိန်အဝါဖြင့်၎င်း၊ ပင်ကိုယ် စွမ်းရည်သတ္တိလည်း ရှိသူဖြစ်သဖြင့်၎င်း ပီရူးဂျား၊ ဆီးအင်နာ၊ အာဗီနို အစရှိသော နယ်မြေများကို အောင်မြင်စွာ သိမ်းပိုက်နိုင်သဖြင့် ရိုမက်ဂနာ မြို့စားအဖြစ်ကို ခံယူရရှိပြန်သည်။ ဆီဇာသည် ရိုမက်ဂနာ၊ အမ်ဗရီယာနှင့် မတ်ချက်အစရှိသော နယ်ပယ်များကို သူ၏ဆွေမျိုးများ အကူအညီဖြင့် ခွဲဝေအုပ်ချုပ်လေသည်။ ၁၅၀၃ ခုနှစ်တွင် ဖခင်ဖြစ်သူ ပုပ်ရဟန်းမင်း ကွယ်လွန်ပြီးနောက် ဗောဂျ အမျိုးအနွယ်၏ ရန်သူဖြစ်သော ဒုတိယဂျူးလယပ် ပုပ်ရဟန်းမင်းလက်ထက်တွင် ဆီဇာအဖမ်းခံရသည်။ ဆီဇာသည် အဖမ်းခံရရာမှ ထွက်ပြေးလွတ်မြောက်သွားကာ နာဗားဘုရင်ထံ ဝင်ရောက်ခိုလှုံလေသည်။ နာဗားဘုရင်၏အမှုတော်ကို ထမ်းဆောင်နေခဲ့စဉ်ပင် ၁၅၀၇ ခုနှစ် မတ်လ ၁၂ ရက်နေ့၌ စပိန်နိုင်ငံ၊ ဗီယာနာ ရဲတိုက်ရှေ့တွင် တိုက်ပွဲဝင်ရင်း ကျဆုံးသွားလေသည်။

ဆီဇာဗောဂျသည် လူချောတယောက် ဖြစ်ရုံသာ မကပညာဗဟုသုတနှင့်လည်း ပြည့်စုံသူဖြစ်သည်။ မိမိ၏ ကိုယ်ကျိုးဖြစ်မည်ဆိုလျှင် မထောက်မညှာ ရက်စက်စွာ ပြုလုပ်တတ်လေသည်။ တဖက်တွင် သူ၏ဆိုးသွမ်းမိုက်မဲမှုများ အတွက် ကျော်စောသလောက် တဖက်တွင်ကား အနုပညာကို အားပေးချီးမြှင့်သူတယောက်အဖြစ် ကျော်ကြားလေသည်။

**ဗောဓိပင်။** ။ဗောဓိပင်ဟူသည် ဘုရားရှင်တို့ သဗ္ဗညုတတည်းဟူသောဗောဓိဉာဏ်တော်ရရန် အားထုတ်ရာ၌ အမှီပြုသောအပင်များ (ဝါ) ဘုရားပွင့်တော်မူရာ အပင်များဖြစ်သည်။ ထိုအပင်များကို ဌာနျူပစာအားဖြင့် ဗောဓိပင်ဟု ခေါ်သည်။ ( နှစ်ကျိပ်ရှစ်ဆူ — ရှု။ )ဂေါတမဘုရားအလောင်းတော်သည် ညောင်ဗုဒ္ဓဟေ ပင်ရင်း၌ ဘုရားအဖြစ်သို့ ရောက်တော် မူခဲ့ရာ၊ ထိုညောင်ဗုဒ္ဓဟေပင်ကိုဗောဓိညောင်ပင်ဟူ၍ ခေါ် တွင်ခဲ့ကြလေသည်။

ဗောဓိညောင်ပင်၊ သို့မဟုတ် ညောင်ဗုဒ္ဓဟေပင်သည် မိုရေးစီအီးမျိုးရင်းဝင် ဖြစ်၍ ညောင်ပင်မျိုးစိတ် (ညောင်ပင် — ရှု)တွင်ပါဝင်သည်။ ရုက္ခဗေဒအမည်မှာ ဖိုင်းကပ် ရီလီဂျီအိုဆာ ဖြစ်သည်။ အခြားညောင်ပင်များနည်းတူ အလေ့ကျပေါက်သော ကြီးမား၍ အရိပ်အာဝါသ ကောင်းသည့် အပင် ကြီးမျိုးဖြစ်ပြီးလျှင်၊ အိန္ဒိယ၊ သီဟိုဠ်၊ မြန်မာ



ကမ္ဘာအေးစေတီအနီး စိုက်ပျိုးထားသော ဗောဓိပင်ပျို

စသော အပူပိုင်းဒေသနိုင်ငံများ၌ ပေါက်ရောက်သည်။တပင်ချင်း သီးခြား ပေါက်လေ့ရှိသည်။ အရွက်တို့သည် အခြားညောင်ရွက်များကဲ့သို့ပင် လူ၏နှလုံးပုံသဏ္ဌာန် ရှိသော်လည်း အရွက်ဖျား ပို၍ရှည်သွယ်သည်။ ဧပြီလနှင့် မေလတွင် အပွင့်ပွင့်၍သေးငယ်သောအသီးများ သီးသည်။

အိန္ဒိယ၊ မြန်မာ၊ သီဟိုဠ် စသောဗုဒ္ဓအယူဝါဒထွန်းကားရာ နိုင်ငံတို့၌ ဗောဓိညောင်ပင်ကိုအထွတ်အမြတ်ထားကြသည်။ ဗုဒ္ဓအယူဝါဒီတို့အဖို့ ဗောဓိပင်သည် ဘုရားရှင်၏ကိုယ်စား ပူဇော်ကိုးကွယ်ရာဖြစ်သော ပရိဘောဂ စေတီတပါးဖြစ်သည်။ ထို့ကြောင့် ဗုဒ္ဓအယူဝါဒဆိုင်ရာကျောင်းကန်ဘုရားတို့၏ ပရဝုဏ်အတွင်း၌ အလေးအမြတ်ပြု၍ စိုက်ပျိုးကိုးကွယ် ထားသော ဗောဓိညောင်ပင်များကို တွေ့မြင်ကြရသည်။

များသောအားဖြင့် ယင်းသို့ အလေးအမြတ်ပြု၍ ကိုးကွယ်ကြသော ဗောဓိညောင်ပင်တို့သည် ဂေါတမဘုရားရှင် ပွင့်တော်မူရာ မူလဗောဓိပင်ကြီးမှ အစဉ်အဆက် အဆင့်ဆင့် မျိုးပွားယူခဲ့သော ဗောဓိပင်ပေါက်တို့ကို ပင့်ဆောင်စိုက်ပျိုးကြခြင်း ဖြစ်သည်။ မူလဗောဓိပင်နေရာတွင် လွန်ခဲ့သော နှစ်ပေါင်းနှစ်ထောင်ကျော်ခန့်ကပင် ဗောဓိပင်နှင့်တကွ အမြိုက်တရားထူးရရန် ဘုရားရှင် အားထုတ်ယင်း၊ ထက်ဝယ်ဖွဲ့ခွေ စံနေတော်မူခဲ့သည့် ဗောဓိပင်ရင်းရှိ ပလ္လင်တော်ကိုပါ ငုံ၍ စေတီတော်တည်ခဲ့သည်။ သီရိဓမ္မာသောကမင်းတရားကြီး စတင်တည်ခဲ့၍နောင်ဗုဒ္ဓဝါဒီမင်းများက ပြုပြင်မွမ်းမံခဲ့သည်ဟု အဆိုရှိသည်။ ထိုစေတီတော်ကြီးကို မဟာဗောဓိစေတီဟုခေါ်တွင်၍ အိန္ဒိယနိုင်ငံ ဂယာခရိုင်အတွင်းရှိ ဗုဒ္ဓဂယာ၏ ထင်ရှား ကျော်ကြားသော အဓိကရ ဌာနကြီး ဖြစ်လေသည်။

မူလဗောဓိပင်၏ လက်ျာတောင်ကိုင်းကို သာသနာပြုရန် ရည်ရွယ်ချက်ဖြင့် သီရိဓမ္မာသောကမင်းကြီးသည် အဓိဋ္ဌာန်ပြုကာ ပိုင်းဖြတ်စေ၍ သမီးတော် သင်္ဃမိတ္တာထေရီနှင့်အတူ သီဟိုဠ်ကျွန်းသို့ ပို့ဆောင်စိုက်ပျိုးစေရာ၊ ထိုအပင်သည် သီဟိုဠ်ကျွန်းအနုရာဓပူရမြို့ရှိ သင်္ဃမိတ္တာမဟာဗောဓိပင်ဖြစ်လေသည်။ အသက်အရှည်ဆုံးအပင်ကြီးလည်း ဖြစ်သည်။ ထို့ကြောင့် ထိုဒက္ခိဏသာခါ မဟာဗောဓိပင်ကြီးရှိရာသို့ နှစ်စဉ်နှစ်တိုင်း အထောင်အသောင်းမျှသော ဗုဒ္ဓအယူဝါဒီတို့ ဖူးမျော်ရန်လာရောက် ကြသည်။ ယင်းဒက္ခိဏသာခါ ဗောဓိပင်ကြီးမှ ပွားသောဗောဓိပင်တို့ကို သီဟိုဠ်ကျွန်း၌ အနှံ့အပြား စိုက်ပျိုးကိုးကွယ်ကြရာမြန်မာနိုင်ငံသို့လည်း ပင့်ဆောင်စိုက်ပျိုး ကိုးကွယ်ကြသည်။ ယင်းဗောဓိပင်တို့မှ ကြွေကျသော အရွက်များကိုလည်း ကောက်ယူကိုးကွယ်ကြသည်။ ဗောဓိပင်တို့သည် ပရိဘောဂစေတီဖြစ်သဖြင့် အကိုင်းအလက်တို့ကိုခုတ်ချပိုင်းဖြတ်ခြင်း မပြုစကောင်းပေ။ သို့သော် အကြောင်း အမျိုးမျိုးကြောင့် ကျိုးပဲ့ကျသော အကိုင်းအလက်တို့ကို ဘုရားရုပ်ပွားတော်များထုလုပ်၍ ဒက္ခိဏသာခါ ဘုရား ဆင်းတုတော်များအဖြစ် ကိုးကွယ်ပူဇော်ကြရာ၊ အလွန်တန်ခိုး ကြီးသည်ဟု ယုံကြည်ကြလေသည်။

ဗောဓိညောင်ပင်ကို ဟိန္ဒူအယူဝါဒီတို့ကလည်း ဗိဿဏိုးနတ်မင်းကြီးနှင့် စပ်လျဉ်း၍ အထွတ် အမြတ် ထားကြလေသည်။



ဗောဓိညောင်ရွက် (ယာ) ကို အခြားသော ညောင်ရွက်များ(ဝဲ)နှင့် ခွဲခြားသိနိုင်သည်။

# ဗိသုကာနှင့် ပန်းတမော့ လက်ရာတွင် ကမ္ဘာကျော်သော စေတီတော်ကြီး

**ဂျာဗားကျွန်း၌တည်ရှိ၍၊ အလယ်ခေတ် ဂျာဗားဗိသုကာနှင့် ပန်းတမော့လက်ရာ အကောင်းဆုံးများကို တွေ့ရှိနိုင်သည်။ ကြီးကျယ်ခမ်းနားလှပြီးလျှင် ကြည်ညိုဖွယ်ရာဖြစ်သော ဗောရောဗုဓော စေတီတော်ကြီးသည် အရှေ့တောင်အာရှ၌ အလယ်ခေတ်က ဗုဒ္ဓသာသနာပွင့်လင်းခဲ့သော သာဓကတရပ်ဖြစ်၍ ဂျာဗားကျွန်း၏ ကျက်သရေဆောင်လည်းဖြစ်ပေသည်။**

**ဗောရောဗုဓော။** ။ကမ္ဘာပေါ်ရှိ ဗုဒ္ဓအယူဝါဒ ဆိုင်ရာအဆောက်အအုံများအနက် အင်ဒိုနီးရှားနိုင်ငံ ဂျာဗားကျွန်း၌ရှိသော ဗောရောဗုဓောစေတီသည် အကြီးအကျယ် ဆုံးဖြစ်သည်။ (ဂျာဗားကျွန်း — ရှု။) ထိုပြင် စေတီတော်၏ ကြည်ညိုဖွယ်ဖြစ်သော ဗိသုကာလက်ရာနှင့် ပန်းတမော့ လက်ရာများသည် ကမ္ဘာပေါ်၌ အလွန်တရာ ကျော်စောလေသည်။

ဗောရောဗုဓောစေတီသည် ဂျာဗားကျွန်းအလယ်ပိုင်း၊ ယောဂျကာတားမြို့ အနောက်မြောက်ဖက် မိုင် ၂၀ အကွာ အယ်လိုနှင့် ပရိုဂိုမြစ်ဆုံရာတွင်ရှိသော ကုန်းပြင်မြင့်ပေါ်၌ တည်ရှိသည်။ ယင်းဒေသသည် တခါက ရေအိုင်ကြီးသဖွယ်ဖြစ်လေရာ၊ ဗောရော ဗုဓောစေတီသည် ရေအိုင်တွင်းတွင် ငွါးငွါးစွင့်စွင့်ပွင့်နေသော ကြာပန်းကြီးသဖွယ် တင့်တယ်သည်ဟု အဆိုရှိလေသည်။ စေတီတော်ကြီး၏ ပတ်ဝန်းကျင်ကုန်းမြင့်တဝိုက်သည် ထန်းပင်တို့ဖြင့် အထူးတင့်တယ်၍အချို့နေရာတွင် စပါးပင်တို့ဖြင့် စိမ်းလန်း စိုပြည်လျက်ရှိသည်။ အရှေ့နှင့် အနောက်ဖက် ခပ်လှမ်းလှမ်းတွင် မီးတောင်ကြီးများ မိုးလျက်ရှိသည်ကို တွေ့ရပေမည်။ အနောက်ဖက်တွင် ပေ ၁၀,၀၀၀ ကျော်မြင့်သော မီနိုးရာနှင့် ဆမ်းဗင်းမီးတောင်ကြီး ၂ တောင်ရှိ၍ အရှေ့ဖက်တွင် မားဗာဗူနှင့်မားအပီခေါ် အမြွှာမီးတောင် ၂ တောင်ရှိသည်။ မြောက်ဖက်တွင် ဂျာဗားကျွန်းအား ပင်လယ်ထဲတွင် ခိုင်ခိုင်မြဲမြဲစွဲနေစေရန် နှက်ထားသည့်သံမှိုဟု ဂျာဗား ကျွန်းသူကျွန်းသားများက ယူဆသော ·မဂျေလန်တောင်ရှိသည်။

ဗောရောဗုဓောစေတီကို ၇ ရာစုနှင့် ၈ ရာစုနှစ်အတွင်းက တည်ခဲ့ဟန်ရှိသည်။ ဗိသုကာနှင့် တမော့ လက်ရာများကို အကဲခတ် ကြည့်ခြင်းအားဖြင့် ၈ ရာစုနှစ် နောက်ပိုင်းတွင် တည်သည်ဟု ပိုမိုယူဆဖွယ်ရှိသည်။ စေတီတော်တွင် သေလိန္ဒာဘုရင်များအုပ်စိုးစဉ် ထွန်းကားသည့် အနုပညာ လက်ရာများကို တွေ့ရသည်။ သို့ရာတွင် မည်သည့် မော်ကွန်းကျောက်စာမှတ်တမ်း စသည်တို့ကိုမျှ မတွေ့ရသဖြင့် အရင်းအမြစ်ကို ယခုတိုင် အတိအကျမသိကြရချေ။

ဗောရောဗုဓောဟူသော အမည်သည် ဗရာနှင့် ဗုဓောဟူသော ဝေါဟာရ ၂ လုံးကို ပေါင်းစပ်ထားခြင်းဖြစ်သည်ဟု သမိုင်းနှင့် ကျောက်စာဖက်ဆိုင်ရာ ပုဂ္ဂိုလ်ကြီးတဦး ဖြစ်သူ ပါမောက္ခ ပုအာဗော့ယာရိုကိုက ဆိုသည်။ ဗရာဟူသည်မှာ သင်္သကရိုင်ဘာသာ ဝိဟာရမှ ဗိဟာရ၊ ထိုမှဗိ၊ ဗရာဖြစ်လာသည်ဟု ဆိုသည်။ အဓိပ္ပါယ်မှာ ကျောင်းတော်ကြီးဖြစ်သည်။ ဗုဓောသည် ယခုစေတီကြီး၏ တောင်ဖက်ရှိ ရွာကလေး၏ အမည်ဟုဆိုသည်။ ထိုကြောင့် ဗောရောဗုဓောဟူသည်မှာ ဗုဓောရွာကျောင်းတော်ကြီးဖြစ်သည်ဟု အဓိပ္ပါယ်ကောက်ယူသည်။ အချို့ကလည်း ဗောရောဗုဓောသည် ပရဗုဓဟူသော စကားမှလာသည်ဟုဆို၍၊ အချို့ကမူ မိနန်ကဗောဘာသာဖြင့် ဗုဒ္ဓမှဗုဓောဖြစ်လာသည်ဟု ဆိုသည်။ ဗုဒ္ဓ၏အဓိပ္ပါယ်မှာ ထင်ရှားခြင်းအနက်ဖြစ်၍ တောင်ကုန်းပေါ်မှ ထင်ရှားသော ကျောင်းတော်ကြီးဟု အဓိပ္ပါယ်ရသည်။ မည်သို့ပင် အမျိုးမျိုးကြံဆစေကာမူ အဓိပ္ပါယ်များမှာ တခုနှင့်တခု မတိမ်းမယိမ်းပင် ဖြစ်ချေသည်။



ဗောရောဗုဓော စေတီ၏ ဖြတ်ပိုင်းပုံ (အပေါ်)နှင့် စံနစ်ပုံ(အောက်)




ဗုဒ္ဓအယူဝါဒဆိုင်ရာ အဆောက်အအုံများအနက် ဗောရောဗုဓော စေတီသည် အကြီးကျယ်ဆုံးဖြစ်သည်။ စေတီတော်၏ကြည်ညိုဖွယ်ဖြစ်သော ဗိသုကာလက်ရာနှင့် ပန်းတမော့ လက်ရာများသည် အထက်ပုံများတွင် ရှုမြင်ရသည်အတိုင်း ကမ္ဘာပေါ်၌ ကျော်စောလေသည်။

ဗောရောဗုဓောစေတီကို အနီးရှိ မီးတောင်များမှ ရရှိသော တြာခိုက်ကျောက်မျိုးဖြင့် တည်ဆောက်ထားခြင်းဖြစ်သည်။ စေတီတော်၏ပုံတော်ကို အိန္ဒိယနိုင်ငံ စေတီတော်များမှ အတုယူ၍ ဂျားဗားအနုပညာလက်ရာဖြင့် မွမ်းမံခဲ့သည်ဟု ယူဆဖွယ်ရှိသည်။ စေတီတော်၏ပန္နက်ပုံသည် လေးထောင့်ဖြစ်၍၊ မျက်နှာတဖက်လျှင် ၄၇၉ ပေရှိသည်။ ဖိနပ်တော်မှ၊သို့မဟုတ်ပန်းခုံမှ အာလိန်၊သို့မဟုတ် ပစ္စယာ ၅ ဆင့် တက်သွား၍၊ ယင်းတို့အထက်၌ ကြည်းဝန်း ၃ ဆင့်ရှိပြန်သည်။ ယင်းတို့အထက် အလယ်ဗဟိုတွင် သပိတ်မှောက်၊ ငှက်ပျောဖူး၊ ထီးတို့ရှိလေသည်။ အာလိန် ၅ ဆင့်တွင် မုခ်ဝအဆောင်ကလေးများရှိ၍ ယင်းအဆောင်ထဲ၌ လူတကိုယ်နီးပါးရှိ မျာနိဗုဒ္ဓခေါ် ရုပ်တုတော်များကိုတည်ထားကိုးကွယ်လေသည်။ ယင်းရုပ်တုတော်များသည် စုစုပေါင်း ၄၃၂ ဆူရှိသည်။ အပေါ်ဆုံး ပစ္စယာတွင် ရုပ်ပွား ၆၄ ဆူရှိ၍ ကျန်ပစ္စယာ ၄ ခုတွင် တဖက်တဖက်၌ ရုပ်ပွားတော် ၉၂ ဆူရှိသည်။ အရှေ့ဖက်ရှိ ရုပ်ပွားတော်များသည် အက္ခောဘယ (မြေညွှန်း) ပုံတော်၊ တောင်ဖက်ရုပ်ပွားတော်များသည် ရတနသမ္ဘဝ (ဆုပေး) ပုံတော်၊ အနောက်ဖက်တွင် အမိတာဘာ (တရားထိုင်) ပုံတော်၊ မြောက်ဖက်တွင် အမောဃသိဒ္ဓိ(ရန်ကင်း) ပုံတော်တို့ဖြစ်သည်။ ရုပ်ပွားတော်များနောက် ပစ္စယာလမ်းခြားလျက် စေတီတော်၏နံရံ ၄ ခုတွင် တမော့လက်ရာများဖြင့် ထုလုပ်ထားသော စဥ့်ကွင်းကျောက်ချပ်များကို တွေ့ရှိနိုင်သည်။ စေတီတော်အား တည်ဆောက်စဉ်က စဥ့်ကွင်းကျောက်ချပ်ပေါင်း ၂,၀၀၀ ခန့် ရှိခဲ့ဟန်တူသော်လည်း ယခုအခါ ကျောက်ချပ်ရေ ၁,၃၀၀ ခန့်သာ ရှိတော့သည်။ ယင်းကျောက်ချပ်များကို တခုနှင့်တခု ဆက်၍အလျားလိုက်ချသွားမူ ၃ မိုင်ခန့် ရှည်မည်ဟု ခန့်မှန်းရသည်။

စေတီတော်ကြီး၏ အပေါ်ဆုံး ပစ္စယာနံရံတွင် စဥ့်ကွင်း ၂ တန်းရှိသည်။ အပေါ်တန်းတွင် ဘုရားအလောင်းတော် သေတကေတုနတ်သားသည် လူ့ပြည်သို့ ကြည့်ခြင်းကြီး ငါးပါးဖြင့် ကြည့်ပြီးနောက် စုတေသည်မှ မိဂဒါဝုန်တော၌ မြတ်စွာဘုရားသခင်မေ့စကြာတရားတော်ကိုဟောပြောသည် အထိ ရုပ်လုံးဖော်ထားသည့် စဥ့်ကွင်းများရှိ၍၊ အောက်တန်းတွင် မဟာယာန ဗုဒ္ဓသာသနာအယူဝါဒဆိုင်ရာ ဖြစ်စဉ် အကြောင်းရပ် ဇာတ်များကို ရုပ်လုံးဖော်ထားသည့် စဥ့်ကွင်းများရှိသည်။ အပေါ်တန်းတွင် စဥ့်ကွင်းကျောက်ချပ် ၁၂၀ ရှိ၍၊ အောက်တန်းတွင်လည်း ၁၂၀ ရှိသည်။

ပစ္စယာ ၅ ခုအထက်ရှိ ကြည်းဝန်း ၃ ဆင့်တွင် ခေါင်းလောင်းသဏ္ဍာန်စေတီ ၇၂ ဆူရှိသည်။ ပဌမအဆင့်တွင် ၃၂ ဆူ၊ ဒုတိယအဆင့်တွင် ၂၄ ဆူနှင့် တတိယအဆင့်တွင် ၁၆ ဆူရှိသည်။ စေတီတော်များ၏ အတွင်း၌ ဝိရောစနရုပ်ပွားတော်များစံပယ်လျက် ရှိသည်ကို ယင်းစေတီ၌ ပြုလုပ်ထားသည့် အတန်းလိုက် ဖောက်ထားသော မျက်ကွက်အပေါက်များမှ ဖူးတွေ့နိုင်သည်။ အောက်ပစ္စယာ ၅ ဆင့်၌ကဲ့သို့ ရုပ်လုံးများနှင့် အလှအပတန်ဆာ ဆင်ထားခြင်းမရှိဘဲ ရှင်းရှင်းပင် တည်ဆောက်ထားသည်။

ကြည်းဝန်းအထက် အလယ်ဗဟိုတည့်တည့်တွင် အဝန်း ၅၂ ပေရှိခေါင်းလောင်းပုံစေတီကြီးတဆူ ရှိသည်။ ဗောရောဗုဓောစေတီတော်ကြီးသည် ဖိနပ်တော်မှအလယ် စေတီထိပ်အထိ အမြင့် ၁၁၅ ပေ ခန့်ရှိသည်။ စေတီတော်ကြီး၏ ပုံသဏ္ဍာန်သည် အကဲခတ်ရန် အလွန်ခက်သည်။စစ်ကိုင်းမြို့ရှိ ကောင်းမှုတော်ကြီးသဖွယ် လုံးဝန်းသွားမယောင်ယောင်၊ ပိရမစ် သဖွယ် မြင့်မား ချွန်တက်သွား မယောင်ယောင် ယူဆရသည်။ ပဌမပစ္စယာ ၆ ဆင့် တည်ဆောက်ထားပုံကို အကဲခတ်မူ စေတီတော်ကြီးသည် ကောင်းကင်သို့ မတ်မတ်ကြီး မြင့်တက်သွားမယောင် ထင်ရသည်။သို့ရာတွင် ကြည်းဝန်း ၃ ဆင့် တည်ဆောက်ထားပုံကမူ အလယ်သို့ တဖြည်းဖြည်း စု၍စေတီတော်ကြီးအား ပွံ့ပွံ့ လေးလေးကြီး သဖွယ်ဖြစ်သွားစေသည်။

စေတီတော်ကြီးကို ၃ ပိုင်း ခွဲခြားနိုင်သည်။ တပိုင်း နှင့် တပိုင်း လုံးဝ မတူချေ။ (၁)ပန်းခုံနှင့် ပစ္စယာ ၅ ဆင့်၊(၂) ကြည်းဝန်း ၃ ဆင့်၊(၃) ထိပ်ဆုံးမှစေတီတို့ ဖြစ်သည်။ ပန်းခုံ

နှင့် ပစ္စယာ ၅ ဆင့်တွင် စုလစ်မွန်းချွန်၊ ရုပ်လုံး စသည်တို့ဖြင့် တန်ဆာဆင်ထား သလောက် ကြည်းဝန်း ၃ ဆင့်တွင် တန်ဆာဆင်မှု လုံးဝမရှိဘဲ အဆုံးအစမရှိသော သံသရာကို ရည်ညွှန်းလို၍ အဝိုင်းပုံများနှင့် စေတီပုံများ တည်ထားဟန်ရှိသည်ဟု ယူဆရသည်။ တန်ဆာအမျိုးမျိုး ဆင်ထားသော ပစ္စယာ ၅ ဆင့်သည်ကား လောကီစည်းစိမ်တို့ဖြင့် အမျိုးမျိုး အဖုံဖုံ ခံစားစံစားရာကာမဘုံကို ရည်ညွှန်းတည်ဆောက်ခြင်း ဖြစ်သည်ဟု ယူဆကြသည်။

ဗေါရောဗုဓော စေတီတော်ကြီးသည် နှစ်ပေါင်း များစွာ လေမိုးဒဏ်ခံခဲ့ရသဖြင့် ယိမ်းယိုင်ကျမည်သို့ ရှိလာရာ၊ ဒပ်ချ အိန္ဒိယအစိုးရက ဖလော်ရင့် ၆၀,၀၀၀ (ပေါင် ၅,၀၀၀) အကုန်အကျခံ၍ အင်ဂျင်နီယာ ဗိုလ်မှူးဗန်အပ်အား စေတီတော် ထိန်းသိမ်းရေးကို ကြီးမှူးဆောင်ရွက်စေခဲ့သည်။ ယခုလက်ရှိ အင်ဒိုနီးရှားအစိုးရကလည်း အနုပညာလက်ရာများ ပျက်စီးပျောက်ပျက်သွားခြင်း မရှိစေရန် ဆက်လက် ထိန်းသိမ်းလျက်ရှိလေသည်။

**ဗေါလတစ်ပင်လယ်။** ။ဥရောပတိုက် အနောက်မြောက်ဖက်တွင် တည်ရှိနေသော ဗေါလတစ် ပင်လယ်သည် ကုန်းတွင်း ပင်လယ်ကြီးဖြစ်သည်။ ယင်းသည် ဥရောပတိုက် မြောက်ပိုင်းကမ်းရိုးတန်းနှင့် စကန်ဒီနေးဗီးယန်းကျွန်းဆွယ်တို့ကို ပိုင်းခြားထားသော ရေပြင်ကြီးလည်း ဖြစ်သည်။ ရှေးအခါက ယင်းကို မဲယားဆူအေဗီကမ်ဟူ၍၎င်း၊ တခါတရံ အရှေ့ပင်လယ်ဟူ၍၎င်း ခေါ်ဝေါ်ခဲ့ကြသည်။ ဗေါလတစ် ပင်လယ်၏ မြောက်ဖက်တွင် ဆွီဒင်နှင့် ဖင်းလန်နိုင်ငံ၊ အရှေ့ဖက်တွင် ရုရှနိုင်ငံ၊ တောင်ဖက်တွင် ဂျာမနီနှင့် ပိုလန်နိုင်ငံ၊ အနောက်ဖက်တွင် ဒိန်းမတ်နှင့် ဆွီဒင်နိုင်ငံတို့ အသီးအသီးဝန်းရံလျက်ရှိသည်။ ဗေါလတစ် ပင်လယ်သည်ရုရှနိုင်ငံမှ အတ္တလန္တိတ်သမုဒ္ဒရာဖက်သို့ ထွက်ရာတခုတည်းသော အနောက်ဖက်ရေကြောင်း လမ်းပေါက်ဖြစ်သည်။

ဗေါလတစ် ပင်လယ်သည် အနောက်တောင်မှ အရှေ့မြောက်အထိ အလျားမိုင် ၉၀၀ ကျော်၍ အကျယ်မှာမူ အကျဉ်းဆုံး ၄၅ မိုင်ခန့်ရှိကာ အကျယ်ဆုံးနေရာ၌ ၁၄၅ မိုင်ခန့်ရှိသည်။ မြောက်ဖက်ရှိ ဗော့သနီးယားကွေ့၊ အရှေ့ဖက်ရှိ ဖင်းလန်ကွေ့ နှင့် ရီဂါကွေ့၊ ဒန်းဇစ်ပင်လယ်အော် အပါအဝင် ပင်လယ်အော်ပေါင်း များစွာကို ထည့်သွင်းလျှင် စုစုပေါင်း စတုရန်းမိုင် ၁၇၀,၀၁၀ ခန့်ကျယ်ဝန်းရာ ကက်စပျန်ပင်လယ်ခန့်ကြီးသည်။ (ကက်စပျန်ပင်လယ် — ရှု။) ယင်းသည်ရေတိမ်၍ ပျမ်းမျှခြင်းအားဖြင့် ပေ ၁၈၀ ခန့်သာနက်သည်။ ဂေါ့တဝေါကျွန်းနှင့် ခပ်သုမ်းလုမ်းတွင် ဗေါလတစ်ပင်လယ်သည် အနက်ဆုံးဖြစ်၍ ပေ ၁,၃၈၁ ခန့် နက်သည်။ ပင်လယ်ကမ်းရိုးတန်းသည် မိုင် ၅,၀၀၀ ခန့်ရှည်သည်။ အရှေ့နှင့် တောင်ဖက်ကမ်းသည်နိမ့်၍ အနောက်ဖက်ကမ်းသည် မြင့်ပြီးလျှင် ကျောက်ဆောင် ထူထပ်သည်။ ယင်းပင်လယ်အတွင်းသို့ ရေဆင်း ဧရိယာပေါင်း ၇၀၀,၀၀၀ ခန့်ဖြင့် မြစ်ပေါင်း ၂၀၀ ကျော် စီးဝင်သည့်အနက် အထင်ရှားဆုံးမှာ နီဗာ၊ ဒွီနာ၊ နီမင်း၊ သို့မဟုတ် မဲမယ်၊ ဗစ္စဘျူလာ၊ အိုဒါစသော မြစ်များဖြစ်သည်။ ဗေါလတစ်ပင်လယ်တွင်း၌ ကျွန်းပေါင်း မြောက်မြားစွာရှိသည့် အနက် ဒိန်းမတ်ပိုင်ဗွန်ဟုမ်း၊ ဇီးလန်နှင့် ဖူးနန်းကျွန်း၊ ဆွီဒင်ပိုင်ယတ်တလန်နှင့် အိုးလန်ကျွန်း၊ ဂျာမနီပိုင် ရူးဂင်းကျွန်း၊ ဖင်းလန်ပိုင်အားလန်းကျွန်း၊ ရုရှပိုင်အိုဇယ်ကျွန်း၊ ဒဲဂိုးကျွန်း၊ စတန်စကာကျွန်းနှင့် ကော့တလီနာကျွန်းတို့သည် ထင်ရှားသော ကျွန်းများ ဖြစ်သည်။

ဗေါလတစ်ပင်လယ်တွင်းသို့ မြစ်များစွာစီးဝင်သဖြင့် ရေချိုများစွာ ဝင်ရောက်သည်ကတကြောင်း၊ ပင်လယ်မှ ထွက်ပေါက်ဖြစ်သော ဂရိတ်ဗဲ့၊ လစ်တဲဗဲ့နှင့် ဆောင်းရေလက်ကြားများကလည်း ရေတိမ်၍ ကျဉ်းမြောင်းသောကြောင့် တကြောင်း၊ အအေးပိုင်းဇုန်တွင် တည်ရှိ၍ ရေများသည် ရေခိုးရေငွေ့အဖြစ် ခန်းခြောက်မသွားခြင်းကြောင့် တကြောင်းတို့ကြောင့် ဗေါလတစ်ပင်လယ်ရေသည်ဆားငန်နည်းသည်။ ပင်လယ်ကွေ့အတွင်း ရေမျက်နှာပြင် ရေသည် ၁ ရာခိုင်နှုန်းမှ ၇ ရာခိုင်နှုန်းခန့်သာငန်၍ ရေနက်ရာမှ ရေသည် ၁၂ ရာခိုင်နှုန်းမှ ၁၆ ရာခိုင်နှုန်းခန့်သာ ငန်သည်။ ယင်းသို့ ရေငန်သက်သာမှုကြောင့် ရေခဲလွယ်သဖြင့် ဗော့သနီးယားနှင့် ဖင်းလန်ကွေ့သည် ဆောင်းတွင်းတိုင်း ရေခဲပြင် ဖြစ်နေ၍၊ ဗေါလတစ်ပင်လယ် အလယ်ပိုင်း၌ ရေခဲစိုင်များဖြင့် ပြွမ်းနေတတ်ပြီးလျှင်၊ ပင်လယ်ထွက်ပေါက် ရေလက်ကြားများသည် ပိတ်ဆို့နေတတ်လေသည်။ နိုဝင်ဘာလ၊ ဒီဇင်ဘာလများတွင် ရေစခဲ၍ မတ်လ၊ ဧပြီလအထိရေခဲနေတတ်သည်။ မေလလောက်တွင် ရေခဲခြင်း လုံးဝမရှိတော့ချေ။ ရေတက်ရေကျလည်း အနည်းငယ်သာရှိသည်။

ဗေါလတစ် ပင်လယ်ကမ်းပေါ်၌ ကိုပင်ဟားဂင်း၊ စတော့ဟုမ်း၊ ဟဲလဆင်းကီး၊ လီနင်ဂရက်၊ ကရုန်းစတတ်၊ ရီးဂါ၊ မဲမယ်၊ ကေးနစ္စဗတ်၊ ဒန်းဇစ်၊ ဂဒီနျား၊ စတက်တင်၊ ကီး စသော ထင်ရှားသည့် ဆိပ်ကမ်းမြို့များ ရှိသည့်အနက် ကိုပင်ဟားဂင်းမြို့သည် အကြီးအကျယ်ဆုံး ဆိပ်ကမ်းမြို့ဖြစ်လေသည်။ ဆွီဒင်နိုင်ငံမှ ဗေါလတစ်ပင်လယ်ဆိပ်ကမ်းမြို့များ အနက် တောင်ဖက်ကမ်းမှ မြို့များ၌သာ ဆောင်းတွင်း၌ သင်္ဘောများဆိုက်ကပ်နိုင်သည်။ ဖင်းလန်ဆိပ်ကမ်းမြို့များအနက် အနောက်တောင်ကမ်းခြေရှိ ဆိပ်ကမ်းမြို့များမှတပါး ကျန်မြို့များသည် ဆောင်းရာသီ၌ ဝင်ထွက်သွားလာ၍ မရအောင် ရေခဲပြင်များ ဖြစ်နေလေသည်။ ဂျာမန်ဆိပ်ကမ်းများမှာမူ အမြဲတစေ မဟုတ်ဘဲ တခါတရံသာ ပိတ်ဆို့နေလေ့ရှိသည်။ ၁၃၂၄ ခုနှစ်ခန့်က ဗေါလဘစ်ပင်လယ်ပြင်သည် ရေအလွန်ခဲ

သွားရာ ဂျာမနီနှင့် ဒိန်းမတ်နိုင်ငံမှ ဆွီဒင်နိုင်ငံသို့ တောက်လျှောက်သွားလာနိုင်ခဲ့သည်။ ၁၆၅၈ ခုနှစ်တွင် ဆွီဒင်ဘုရင်ဒသမချားသည် စစ်သည်တော်များနှင့်အတူ ဂျာမနီနိုင်ငံသို့ တောက်လျှောက် စစ်ချီနိုင်သည်အထိ ရေခဲပြင်ကြီး ဖြစ်ခဲ့ဘူးလေသည်။

ဗောလတစ် ပင်လယ်မှ မြောက်ပင်လယ်သို့ ထွက်ရန် ဒိန်းမတ်ရေလက်ကြားများသာမက ယတ်တာတူးမြောင်းနှင့်ကီးတူးမြောင်းလမ်းတို့လည်း ရှိလေသည်။ ယတ်တာတူးမြောင်းသည် ယာ့တဗောယီနှင့် စတော့ဟုမ်းမြို့ကြားရှိ ဆွီဒင် ရေအိုင်ဒေသကို ဖြတ်ကာ ဖောက်ထားခြင်းဖြစ်၍ သင်္ဘောငယ်များသာဝင်ထွက်သွားလာနိုင်သည်။၁၈၉၅ ခုနှစ်က ဖွင့်လှစ်ခဲ့သော ကီးတူးမြောင်းမှာမူ ကီးမြို့နှင့် ဗရင့်စဗစ်တဲမြို့တို့ကို ဆက်သွယ်၍ ဖောက်ထားပြီးလျှင် ပင်လယ်ကူး သင်္ဘောကြီးများဝင်ထွက်သွားလာနိုင်သည်။ (ကီးတူးမြောင်း — ရှု။)

ဗောလတစ် ပင်လယ်ပတ်ဝန်းကျင်ရှိ နိုင်ငံများမှ သစ်နှင့်သစ်ထွက်ပစ္စည်း၊ သားရေ၊ သံ၊ ကျောက်မီးသွေး စသည်တို့ ထွက်လေသည်။



အိန္ဒိယနိုင်ငံ လွတ်မြောက်ရေးကြိုးပမ်းခဲ့သူ ဆူဘတ် ချန္ဒရာဗို

**ဗို,ဆူဘတ်ချန္ဒရာ**(ခရစ် ၁၈၉၇–၁၉၄၅)။ ။ဆူဘတ်ချန္ဒရာဗိုသည် အိန္ဒိယအမျိုးသားခေါင်းဆောင်ကြီးတဦးဖြစ်၍ ပစ္စည်းဥစ္စာကုံလုံကြွယ်ဝသော မိဖများမှ ဖွားမြင်သူ ဖြစ်သည်။ အင်္ဂလန်ပြည်ကိမ်းဗရစ်တက္ကသိုလ်တွင် ပညာသင်ကြားပြီးနောက် အိုင်၊ စီ၊ အက်ခေါ် အိန္ဒိယ ပဋိညာဉ်ခံဝန်ထမ်းရာထူးကို ဆွတ်ခူးရရှိခဲ့သည်။ သို့သော်လည်း မျိုးချစ်စိတ်ပြင်းထန်လှသော ဗိုသည် အိုင်၊စီ၊အက်ရာထူးကိုဗြိတိသျှတို့၏ သစ္စာတော်ခံ ကျွန်အကြီးစားမျှသာဖြစ်သည်ဟု ခံမင်နှစ်သက်ခြင်း မရှိသဖြင့်၊ ထိုရာထူးကိုရရှိပြီးနောက် တနှစ် အကြာတွင် နုတ်ထွက် လိုက်လေသည်။

ယင်းသို့ရာထူးမှ နုတ်ထွက်ပြီးနောက် ဗိုသည် အမျိုးသားလှုပ်ရှားမှုများတွင် စတင်ဝင်ရောက် ဆောင်ရွက်လေသည်။ ၁၉၂၆ ခုနှစ်မှ ၁၉၂၉ ခုနှစ်အထိ ဗင်္ဂလားပြည်နယ် ဥပဒေပြုကောင်စီအဖွဲ့ဝင် တဦးဖြစ်၍ ၁၉၂၇ ခုနှစ်တွင် ဗင်္ဂလားပြည်နယ် အမျိုးသားကွန်ဂရက်အဖွဲ့၏ ဥက္ကဋ္ဌအဖြစ် ရွေးကောက်တင်မြှောက်ခြင်း ခံရသည်။ သို့ရာတွင် သူ၏ ပြင်းထန်လှသောနိုင်ငံရေးအယူအဆများကြောင့် ၁၉၃၁ ခုနှစ်ဘွင် ဗိုအား ကွန်ဂရက်မှ ထုတ်ပယ်လိုက်လေသည်။

ဗိုသည်သူ၏မိတ်ဆွေများနှင့်အတူ ပူးပေါင်း၍ "ဖောဝပ်" အမည်ရှိ အမျိုးသားနေ့စဉ် သတင်းစာတစောင်ကို ဦးစီးထုတ်ဝေခဲ့သည်။ ၁၉၃၉ ခုနှစ်တွင် အိန္ဒိယ နိုင်ငံလုံးဆိုင်ရာ အမျိုးသား ကွန်ဂရက်အဖွဲ့ကြီး၏ ဥက္ကဋ္ဌအဖြစ် တင်မြှောက်ခြင်းခံရသည်။ ထိုနောက် ဗြိတိသျှ အစိုးရအား အာဏာဖီဆန်ရေးလုပ်ငန်းများကို လုပ်ကိုင်ခဲ့ရာ၊ ၁၉၄၀ ပြည့်နှစ် ဇူလိုင်လတွင် ကလကတ္တားမြို့သေတွင်းအထိမ်းအမှတ်ကျောက်တိုင်ကို ဖျက်ဆီးရန် အားထုတ်မှုဖြင့် အဖမ်းခံရသည်။ ဗိုသည် ထောင်မှ တိတ်တဆိတ် ထွက်ပြေးပြီးလျှင် ဂျာမနီနိုင်ငံသို့ သွားရောက်၍ ဟစ်တလာနှင့် တွေ့ဆုံလေသည်။ ထိုမှတဖန် ဂျပန်နိုင်ငံသို့ သွားရောက်ခဲ့သည်။ ဂျပန်နိုင်ငံတွင် အိုင်၊ အင်၊ အေ ခေါ် အိန္ဒိယ အမျိုးသား တပ်မတော်ကို ဖွဲ့စည်းပြီးနောက်၊ ဂျပန် တပ်များနှင့် အတူ မြန်မာနိုင်ငံသို့ ရောက်ရှိ လာသည်။ ဗို၏ ရည်ရွယ်ချက်မှာ ဂျပန်၏ အကူအညီဖြင့် အိန္ဒိယနိုင်ငံကို ဗြိတိသျှတို့ လက်အောက်မှ လွတ်မြောက်အောင် ကြိုးပမ်းရန် ဖြစ်သည်။ ၁၉၄၃ ခုနှစ်အောက်တိုဘာလ ၂၁ ရက်နေ့တွင် လွတ်လပ်သော အိန္ဒိယနိုင်ငံ ယာယီ အစိုးရအဖွဲ့ခေါင်းဆောင် ဖြစ်လာသည်။

ဂျပန်တို့ စစ်ရေးရှုံးနိမ့်၍ မြန်မာနိုင်ငံမှ ဆုတ်ခွာ သွားကြရသောအခါ ဗိုလည်း လိုက်ပါသွားရလေသည်။ ယိုးဒယားနိုင်ငံမှ ဂျပန်နိုင်ငံသို့ အပြန်လမ်းခရီး၌လေယာဉ်ပျံ ပျက်ကျသဖြင့် ၁၉၄၅ ခုနှစ် ဩဂုတ်လ ၁၉ ရက်နေ့တွင် ကွယ်လွန်လေသည်။

**ဗိုဂိုးတားမြို့**။ ။ဗိုဂိုးတားမြို့သည် တောင်အမေရိကတိုက်ရှိ ကိုလုံးဗီးယားနိုင်ငံ၏မြို့တော်ဖြစ်၍ကွန်ဒီနာမားကားနယ်တွင် တည်ရှိသည်။ ပင်လယ်ပြင်အထက် ပေ ၇,၆၀၀ ကျော်အမြင့်တွင် တည်ရှိ၍၊ အီကွေတာမျဉ်းမြောက်ဖက် ၄.၃၆° သာ ကွာဝေးသည်။ မြို့၏ ၃ ဖက် ၃ တန်တွင် မိုင် ၃၀ ကွာ

လှမ်းသည်အထိ မြေဩဇာထက်သန်သော လွင်ပြင်မြင့်ကြီး တည်ရှိ၍၊ အရှေ့ဖက်တွင်မှ လာဂွါဒါလု နှင့် မွန်ဆာရိတ် တောင်ထွတ်ကြီး ၂ ခုက မိုးနေရာ၊ ဗိုဂိုးတားမြို့သည် နှင်းဖုံးသည့် တောင်ထွတ်များ၏ ရှုခင်းဖြင့် အလွန်လှပလျက် ရှိသည်။ မက်သားလေးနားမြစ်၏ မြစ်လက်တက်များဖြစ်သော ဆန်ဖရန်စစ္စကိုနှင့် ဆန်အောဂတ်စတန်မြစ်တို့သည် မြို့ကို ဖြတ်၍စီးဆင်းလျက်ရှိသည်။

ဗိုဂိုးတားမြို့ကို ၁၅၃၈ ခုနှစ်တွင် ဂွန်းသလိုးဟီမေးနိပ်သေကေးဆသားဆိုသူက စတည်သည်။စပိန်နိုင်ငံရှိသူ၏ မွေးရပ်မြို့နှင့် ချစ်ဗကပ်နယ်၏တောင်ဖက် မြို့တော်ဖြစ်သော ဗကာတာမြို့အမည် ၂ ခုကို ပေါင်း၍ ဆန်တာဖီးသေဗိုဂိုးတားဟု ခေါ်ခဲ့ရာမှဗိုဂိုးတားမြို့ဟု တွင်လာသည်။ ဗိုဂိုးတားမြို့သည် အီကွေတာနှင့်နီးသော်လည်း၊တောင်မြင့်ပေါ်တွင်တည်ရှိနေသဖြင့် ရာသီဥတုကောင်းမွန်သောကြောင့် လူနေစည်ကားလာရာ၊၁၅၉၈ ခုနှစ်တွင် စပိန်ကိုလိုနီဖြစ်သော နယူးဂရာနဒါနယ်၏ဘုရင်ခံရုံးစိုက်မြို့တော်ဖြစ်လာသည်။၁၈၂၁ ခုနှစ်တွင် ဂရန်းကိုလုံးဗီးယားနယ်၏ မြို့တော် ဖြစ်လာပြီးနောက်၊ ၁၈၃၁ ခုနှစ်တွင် နောင် ကိုလုံးဗီးယားသမတနိုင်ငံဟု အမည်တွင်လာသော နယူးဂရာနဒါ သမတနိုင်ငံမြို့တော် ဖြစ်လာလေသည်။

ဗိုဂိုးတားမြို့သည် မြစ်ကမ်းပေါ်တွင် တည်ရှိနေသဖြင့် ရေကြောင်း အဆက်အသွယ် လွယ်ကူသည်။ ထို့ပြင် မီးရထားလမ်းများလည်းတိုးတက်ဖောက်လုပ်လျက် ရှိသဖြင့်ကူးသန်းသွားလာရေး မခက်ခဲလှချေ။ ပစိဖိတ်ကမ်းခြေရှိ ဗွေနာဗင်တူးအား ဆိပ်ကမ်းမြို့အထိ မီးရထားလမ်းဖောက်လုပ် ဆက်သွယ်ထားသည်။ယခုအခါ ဗိုဂိုးတားမြို့တွင် လေဆိပ်ကောင်းတခု ဆောက်လုပ်ပြီး ဖြစ်ရာ၊ ကိုလုံးဗီးယား နိုင်ငံတွင်းရှိ မြို့ကြီးတိုင်းသို့ နေ့စဉ် လေယာဉ်အဆက်အသွယ် ရှိသည်။ ကယ်ရစ်ဗျန် ပင်လယ်ကမ်းခြေပေါ်ရှိ ဖာရန်ကီးယားမြို့သို့ ဗိုဂိုးတားမြို့မှ ကုန်းလမ်းခရီးဖြင့် သွားသော် ၇၃ ရက်ကြာသော်လည်း ယင်းမြို့ ၂မြို့ လေကြောင်းအဆက်အသွယ်ရှိပြီးဖြစ်သဖြင့် လေကြောင်းဖြင့် ၂ နာရီနှင့် ရောက်နိုင်သည်။ ထို့ကြောင့် ဗိုဂိုးတားမြို့သည် ကိုလုံးဗီးယား နိုင်ငံ၏ ရောင်းဝယ် ဖောက်ကားရေး၊ စီးပွားရေး၊နိုင်ငံရေး၊စာပေယဉ်ကျေးမှုနှင့် အနုပညာ ဗဟိုအချက်အခြာ မြို့ကြီး ဖြစ်သည်။ အထည်အလိပ်၊ ဗိလတ်မြေ၊ ရေမွှေး၊ ဗီယာ၊ သကြား၊ သုတ်ဆေး၊ ဂျုံမှုန့်၊ မီးခြစ်နှင့် ချောကလက်၊ သားရေထည်ပစ္စည်း စသည် ထုတ်လုပ်သော စက်ရုံကြီးများရှိသည်။ ဝန်းကျင်ရှိ လွင်ပြင်ဒေသတွင် သိုး နွား တိရစ္ဆာန်များ မွေးမြူ၍ အချို့နေရာတွင် ဂျုံ၊ မုယော၊ သစ်သော့သီး၊ ပန်းသီး၊ မက်မုံသီး များကို စိုက်ပျိုးကြသည်။ ယင်း ထွက်ကုန်များကို နိုင်ငံခြားသို့အမြောက်အမြား တင်ပို့သည်။

ယဉ်ကျေးမှု အနုပညာ အရာတွင်လည်း ဗိုဂိုးတားမြို့သည် တောင်အမေရိကတိုက် တတိုက်လုံးတွင် အထင်ရှားဆုံး ဖြစ်သည်။ ထို့ကြောင့် 'တောင်အမေရိကတိုက်၏ အက်သင်းမြို့' ဟုပင် ခေါ်စမှတ် ပြုကြသည်။ ၁၅၇၂ ခုနှစ်က တည်ထောင်ခဲ့သော အမျိုးသား တက္ကသိုလ်သည်၎င်း၊ ၁၆၀၄ ခုနှစ်ကတည်ထောင်ခဲ့သော ဆန်ဗာတိုလိုမေအမျိုးသားကောလိပ်သည်၎င်း၊ ၁၆၅၃ ခုနှစ်က တည်ထောင် ခဲ့သော ဂျက်ဇူးအစ်ကောလိပ်သည်၎င်း၊ ဥပဒေပညာ၌ ကျော်ကြားသော အခြား တက္ကသိုလ် ၂ ခုသည်၎င်း ဗိုဂိုးတားမြို့၏ စာပေ အနုပညာနှင့် ယဉ်ကျေးမှုဆိုင်ရာအဆောက်အအုံများဖြစ်သည်။ ထို့ပြင် ၁၈၂၃ ခုနှစ်က တည်ထောင်ခဲ့သော အမျိုးသား ပြတိုက်၊ နက္ခတ်ကြည့်မျှော်စင်ကြီး၊ စာကြည့် ပိဋကတ်တိုက်၊ ဂီတပညာသင်ကျောင်း စသည်တို့လည်း အထင်အရှား ရှိလေသည်။

မြို့ပေါ်တွင် ၁၆ ရာစုနှင့် ၁၇ ရာစုနှစ်များက တည်ဆောက်ခဲ့သော ဘုရားရှိခိုးကျောင်းစသော ရှေးဟောင်း အဆောက်အအုံကြီးများနှင့်အတူ သမတအိမ်တော်၊ အစိုးရရုံး၊ လွှတ်တော် စသော ခေတ်မီ အဆောက်အအုံကြီးပေါင်း များစွာကိုလည်း တွေ့နိုင်သည်။

ဗိုဂိုးတားမြို့၏ လူဦးရေသည် ၁၉၅၉ ခုနှစ် ခန့်မှန်းသန်းကောင်စာရင်းအရ ၁,၁၀၀,၀၀၀ ဖြစ်လေသည်။

**ဗိုလ်စားငှက်။** ။စနိုက်ငှက် — ရှု။

**ဗိုလ်စားပဲပင်။** ။ဗိုလ်စားပဲပင်သည် လီဂူမီနိုးစီးမျိုးရင်း၊ ပက်ပီလီအိုနိုက်ဒီး မျိုးရင်းခွဲ၏ ဖာစီအိုလပ် မျိုးစိတ်တွင် ပါဝင်သော ပဲပင်မျိုး ဖြစ်သည်။ ယင်းကို ရုက္ခဗေဒ အလိုအားဖြင့် ဖာစီအိုလပ် ဗာလဂါရစ်ဟု ခေါ်သည်။

ဗိုလ်စားပဲပင်ကိုအမေရိကတိုက် အလယ်ပိုင်းနှင့်တောင်အမေရိကတိုက်ရှိ တိုင်းရင်းသားတို့က ပဌမဦးဆုံး စိုက်ပျိုးခဲ့သည်။ ၁၆ ရာစုနှစ်တွင် ဗြိတိန် နိုင်ငံ၌လည်း စိုက်ပျိုးခဲ့သည်။ အိန္ဒိယနိုင်ငံတွင် စတင် ပေါက်ရောက်သောအပင်ဖြစ်သည်ဟု အဆိုရှိသော်လည်း၊ အယ်လဖုန်းဒေကန်ဒိုးဆိုသူက ဗိုလ်စားပဲပင်သည် တောင်အမေရိက တိုက်တွင် မူလပေါက်ရောက်သော အပင် ဖြစ်သည်ဟု ဖော်ပြထားသည်။ ဗိုလ်စားပဲစေ့ဟု ထင်မှတ်ရသော အစေ့နှင့် အမေရိကန်နိုင်ငံပေါက် အခြားပဲစေ့များကို ခုနှစ်သက္ကရာဇ် အသေအချာ မဖော်ပြနိုင်သည့် အချိန်ကတည်းက တည်ဆောက်ခဲ့သော ပီးရူးဗီးယန်း သင်းချိုင်းဂူများတွင် တွေ့ရသည်။

ပင်ထောင်မျိုး၊ ပင်နွယ်မျိုးဟူ၍ ဗိုလ်စားပဲပင် ၂ မျိုးရှိသည်။ နှစ်စဉ် စိုက်ပျိုးရသော အပင်မျိုး ဖြစ်သည်။ အရိုင်းပေါက်သည့် ဗိုလ်စားပဲပင်ဟူ၍ မည်သည့် ဒေသတွင်မျှ မတွေ့

ရချေ။ ရွက်မြှာ ၃ ရွက်ပါရှိသည့် ရွက်ပေါင်းများမှာ ချွန်၍ အရွက်အနားတွင် ခွေးသွားစိပ်မပါရှိချေ။ အပွင့်များမှာ အဖြူရောင်၊သို့မဟုတ် ဝါကြန့်ကြန့်ရောင် ဖြစ်သည်။ ခရမ်းရောင်သန်းသည့်အပွင့်များလည်း ရှိသေးသည်။ အရွယ်အားဖြင့် အလျားလက်မဝက်ခန့်ရှိသည်။ အပွင့်တွင် ဝတ်ဆံဖို ၁၀ ခု ရှိသည့်အနက် ၉ ခုမှာ တသားတည်း ပေါင်းစပ် နေပြီးလျှင် ကျန် ၁ ခုမှာ သက်သက်လွတ်လျက်ရှိသည်။

ဗိုလ်စားပဲသီးသည် နှစ်မြောင်းကွဲသီးတောင့်မျိုး ဖြစ်၍ ယေဘုယျအားဖြင့် အလျား ၆ လက်မခန့် ရှည်သော်လည်း၊ ၆ လက်မထက် ရှည်သော သီးတောင့်များကိုလည်း တွေ့ရသည်။ သီးတောင့်တွင် အစေ့များ ပါရှိသည်။ အစေ့များ၏ အရောင်မှာ အဖြူ၊ အညို၊ သို့မဟုတ် နီကျင်ကျင်ရောင်ဖြစ်သည်။ အပြာရောင်မှ အနက်ရောင်ထိ အရောင်အမျိုးမျိုး ကွဲပြားလျက် ရှိသည်ကိုလည်း တွေ့ရသေးသည်။

ဗိုလ်စားပဲကို ပြင်သစ်ပဲ၊ ပဲပုတောင့် ဟူ၍လည်း ခေါ်သည်။ ပြင်သစ်ပဲဟု ခေါ် ဆိုသော်လည်း ပြင်သစ်နိုင်ငံမှလာသောပဲမျိုး မဟုတ်ပေ။ အမေရိကန်ပြည်ထောင်စု၊ ကနေဒါ၊ ဂရိတ်ဗြိတိန်၊ ဥရောပတိုက် မြောက်ပိုင်း၊ အိန္ဒိယ၊ မြန်မာ စသော နိုင်ငံများတွင် စိုက်ပျိုးသည့်အပင်ဖြစ်သည်။ လွင်ပြင်မြေပြန့်များမှာထက် ကုန်းမြေမြင့်များတွင် ပိုမိုသန်စွမ်းသည်။ မြန်မာနိုင်ငံမြေညီအရပ်ဒေသတွင် ဩဂုတ်လ လယ်မှ အောက်တိုဘာလထိ စိုက်ပျိုး နိုင်သည်။ ကုန်းမြင့် အရပ်ဒေသများတွင်မူ ဧပြီလမှ ဇွန်လအထိ စိုက်ပျိုးကြ၏။ ဗိုလ်စားပဲပင်သည် အလင်းကို ကြိုက်သော်လည်း၊ နေပူကိုမူ မနှစ်သက်ပေ။ ကွင်းပြင်၊ လယာပြင် စသည်တို့တွင် စိုက်ပျိုးခြင်းထက် သစ်ပင်အကာအကွယ်ရှိသော ဥယျာဉ်ပန်းခြံများ၌ စိုက်သင့်ပေသည်။ သို့ရာတွင် လေဒါင်းရိပ်ကျသည့် နေရာ၌ကား ကောင်းစွာရှင်သန်ခြင်းမရှိချေ။မာကျစ်သောမြေမျိုး၌ဗိုလ်စားပဲပင်ကိုစိုက်၍မရချေ။မိုးမကုန်မီစိုက်လျှင် မြောင်းဖော်၍ စိုက်ရသည်။ စိုစွတ်သော ရာသီတွင် ရေမလိုသော်လည်း၊ခြောက်သွေ့သောရာသီတွင်မြောင်းကို တပတ်တကြိမ် ရေသွင်း ပေးခြင်း၊ သို့မဟုတ် နေ့စဉ်ရေပက်ဖျန်းပေးခြင်း စသည်တို့ကို ပြုလုပ်ပေးရသည်။ စိုက်ပျိုးစဉ်တွင် မြေကို မကျစ်စေရန် မကြာမကြာ တူးဆွ၍ ပေါင်းမြက်များကို သင်ပေးနိုင်က သာ၍ကောင်း၏။ အစေ့ချသည့်အခါ ၆ လက်မစီခြား၍ မြေတွင် အနက်တလက်မခန့်မြုပ်အောင် အစေ့ချသင့်သည်။ဗိုလ်စားပဲပင် တတန်းနှင့် တတန်းကို တပေခွဲခန့် ခြားစေရမည်။

ပင်နွယ်မျိုးဖြစ်သော ဗိုလ်စားပဲကို မြေမှုိပဲသီးတောင့်၊ သို့မဟုတ် ဗိုလ်စားပဲ တိုင်ထောင်မျိုးဟု ခေါ် သည်။ အပင်နွယ်တက်စေရန် စင်မထိုးရဘဲ ဝါးလက်၊ သို့မဟုတ် ဝါးတိုင် စသည်ကို ထောင်ပေးရသည်။ အပင်မှာ လူတရပ်ခန့် နွယ်တက်လျက် အသီးသီးသည်။ ရှမ်းပြည်နယ်တွင် မိုးရွာစတွင် စိုက်သည်။ မိုးကုန်လျှင် မစိုက်တော့ချေ။ သို့သော် စမ်းရေရသည့် ဒေသတွင် ရေပေးသွင်း၍ စိုက်ပျိုးသဖြင့် တနှစ်ပတ်လုံး ဗိုလ်စားပဲကို စားသုံးရသည်။မြန်မာနိုင်ငံတွင်မူ ဆောင်းရာသီနှင့် နွေမကူးမီ စပ်ကြားတွင် စိုက်ပျိုးသည်။ သို့ရာတွင် ပူပြင်းသော ရာသီရောက်လျှင် ပင်နွယ်မျိုးဗိုလ်စားပဲပင်ကို မစိုက်တော့ချေ။

**ဗိုလ်တဲငှက်။** ။ငှက်သူခိုး — ရှု။

**ဗိုနပတ်,နပိုလီယန်။** ။နပိုလီယန် ဘုရင်များ — ရှု။

**ဗိုနာ လော။** ။လော,အန်ဒရူး ဗိုနာ — ရှု။

**ဗိုလတာ,ကောင့်အယ်လက်ဇန္ဒြို** (ခရစ် ၁၇၄၅–၁၈၂၇) ။ ။ဣတာလျံ လူမျိုး ရူပဗေဒ ပညာရှင် ကောင့်အယ်လက်ဇန္ဒြိုဗိုလတာသည် လျှပ်စစ် ပညာလက်တွေ့ ရှာဖွေလေ့လာသူတို့တွင် ရှေ့ဆောင်ပုဂ္ဂိုလ်ကြီး တဦးဖြစ်သည်။ ဗိုလတာအား ဂုဏ်ပြုသော အားဖြင့် လျှပ်စစ်ဖိအား ယူနစ်ကို ဗို့ဟုမှည့်ခေါ် ထား ကြသည်။

ဗိုလတာကို ဣတလီနိုင်ငံ ကိုးမိုးမြို့၌ ၁၇၄၅ ခုနှစ် ဖေဖွာရီလ ၁၈ ရက်နေ့တွင် ဂုဏ်သရေရှိ မိဖတို့မှ ဖွားမြင်သည်။ ၁၇၆၉ ခုနှစ်နှင့် ၁၇၇၁ ခုနှစ်များတွင် လျှပ်စစ်ဆိုင်ရာ စက်သစ်တခု အကြောင်း စာတမ်း၂စောင် ရေးသား ထုတ်ဝေသည်တွင် နာမည်ကြီးလာသည်။ ၁၇၇၄ ခုနှစ်တွင် ကိုးမိုးမြို့ တော်ဝင်ကျောင်းတွင် ရူပဗေဒပါမောက္ခ ဖြစ်လာ၍၊ ၁၇၇၉ ခုနှစ်တွင် ပါးဗီးယား တက္ကသိုလ်၌သဘာဝယထာဘူတပညာ (ရူပဗေဒ) ပါမောက္ခ အဖြစ် ပြောင်းရွှေ့ ခန့်အပ်ခြင်း ခံရသည်။ သူသည် ၁၇၇၇ ခုနှစ်ကပင် အီလက်ထရိုဖောရပ်ခေါ် လျှပ်စစ်ဓာတ်လုပ် ကရိယာနှင့် အီလက်ထရိုစကုပ်ခေါ် လျှပ်စစ်ပြတို့ကို တီထွင်ခဲ့ရာမှအစ လျှပ်စစ်ပညာ လောကတွင် ထင်ရှားသော တိုးတက်မှုများ ဖြစ်ခဲ့လေသည်။ ဗိုလတာသည် ရေသေတွင် ဖြစ်ပေါ် လာသော ဗလုံစီများကို လေ့လာခြင်းဖြင့် ဓာတ်ငွေ့များအကြောင်း အဖိုးတန် အချက် အလက်များကို ရှာဖွေတွေ့ရှိခဲ့သည်။ လျှပ်စစ် ပစ္စတို၊ ယူဒီအိုမီတာ၊ လျှပ်စစ်ကွန်ဒင်ဆာ စသည်တို့သည် ဗိုလတာ၏ တီထွင်မှုများ ဖြစ်သည်။ ၁၈၀၀ ပြည့်နှစ်တွင် ဗိုလတိတ်ပိုင်းခေါ် လျှပ်စစ်ဗက်ထရီအိုးကို တီထွင်ပြုလုပ်လိုက်ရာ အထူးပင်နာမည်ကြီး လာသည်။ ၁၇၉၄ ခုနှစ်တွင် သူ၏ ကွန်ဒင်ဆာအကြောင်း စာတမ်းအတွက် လန်ဒန်မြို့ တော်ဝင်အသင်းကြီးမှ ကော့ပလီယန်တံဆိပ်ကို ချီးမြှင့်ခဲ့သည်။ဗိုလတာ တီထွင်သော လျှပ်စစ်ကရိယာများအကြောင်းကို ပြင်သစ်

ဘုရင်နပိုလီယန် ကြားသိသောအခါ၊ ၁၈၀၁ ခုနှစ်တွင် ဗိုလတာအား ပါရစ်မြို့သို့ လာရောက်၍ သူ၏ တီထွင်မှုများ အကြောင်း ဟောပြောစေရာ အထူးပင်အားရသဖြင့် ရွှေတံဆိပ်ချီးမြှင့်သည်။ သို့ဖြင့် ဗိုလတာသည် လီဂျန်း-အော့-အော်နာဘွဲ့တံဆိပ်နှင့် အိုင်ယန်းကရောင်း ဘွဲ့တံဆိပ်ကို ရရှိရုံမက ကောင့်ဘွဲ့ကိုပါ အပ်နှင်းခြင်း ခံရသည်။

ဗိုလတာသည် ၁၈၀၄ ခုနှစ်တွင် လုပ်ငန်းမှ အနား ယူခဲ့သည်။ ၁၈၂၇ ခုနှစ် မတ်လ ၅ ရက်နေ့တွင် ကိုးမိုးမြို့၌ပင် ကွယ်လွန်လေသည်။

**ဗိုလစ်ဗား ၊ ဆိုင်မွန်** (ခရစ် ၁၇၈၃–၁၈၃၀)။ ။ဆိုင်မွန်ဗိုလစ်ဗားသည် တောင်အမေရိကတိုက် မျိုးချစ်ပုဂ္ဂိုလ်၊ စစ်ဗိုလ်ချုပ်ကြီးနှင့် နိုင်ငံပြု သူခမိန် ဖြစ်သည်။ တောင် အမေရိကနိုင်ငံများကို စပိန်အစိုးရ လက်အောက်မှ လွတ်မြောက်စေရန် ကြိုးစား ဆောင်ရွက်သူ ဖြစ်သဖြင့် သူ့အား “ကယ်တင်သူ” ဟု ခေါ်ဝေါ်ကြသည်။“တောင်အမေရိက ဂျော့ဝါရှင်တန်”ဟုလည်း တင်စား ခေါ်ဝေါ်ကြသည်။ (ဝါရှင်တန်၊ ဂျော့ — ရှု။)

ဗိုလစ်ဗားကို ထိုစဉ်က စပိန်ကိုလိုနီ ဖြစ်နေသော ဗင်နီဇွဲးလားပြည် ကရကပ်မြို့တွင် ၁၇၈၃ ခုနှစ်ဇူလိုင်လ ၂၄ ရက်နေ့တွင် ဖွားမြင်သည်။ ဗိုလစ်ဗား၏မိဘများသည် အုပ်ချုပ်ရေးလူတန်းစားလောကမှ ကြွယ်ဝချမ်းသာသူများဖြစ်ကြသည်။ စပိန်နိုင်ငံ မဒရစ်မြို့တော်သို့ ဥပဒေပညာ သွားရောက် သင်ယူပြီးနောက်၊ ဥရောပတခွင် လှည့်လည် သွားလာခဲ့သည်။

ဗိုလစ်ဗားသည် ကရကပ်မြို့၌ ၁၈၀၁ ခုနှစ်မှ ၁၈၀၄ ခုနှစ်အထိ ပြန်၍နေထိုင်သည်။ ဇနီးဖြစ်သူ ကွယ်လွန်သောအခါ၊ ဥရောပသို့ တဖန်ပြန်သွားသည်။ ထိုအခါက်တွင် ရောမမြို့သို့ ရောက်ခဲ့စဉ်က ဗိုလစ်ဗားသည် မိမိဇာတိ တိုင်းပြည်အားလက်အောက်ခံဘဝမှ ကယ်တင်ရန် သန္နိဋ္ဌာန်ချခဲ့လေသည်။ မျိုးရိုး ဂုဏ်သိရ် အလိုက် ဆိုသော်၊ ဗိုလစ်ဗားသည် စပိန်အစိုးရဖက်တော်သား ဖြစ်ရန်သာ အကြောင်းရှိသော်လည်း သူ၏ ထက်သန်သော မျိုးချစ်စိတ်ကြောင့် အုပ်ချုပ်သူ စပိန်အစိုးရအားပင် ခေါင်းဆောင် တော်လှန်သူ ဖြစ်လေသည်။ ၁၈၁၀ ခုနှစ် တော်လှန်ပုန်ကန်မှု မဖြစ်ပွားမီကလေးတွင် သူသည် ဗင်နီဇွဲးလားသို့ ပြန်သွားသည်။ ဦးစွာ၌ မျိုးချစ် သူပုန်များ အရေးရှုံးနိမ့် သွားသော်လည်း ဗိုလစ်ဗားသည် မလျှော့သော ဇွဲသတ္တိဖြင့် အခွင့်ကောင်းယူလျက် ဆက်လက်ကြံစည်ခဲ့လေသည်။ ၁၈၁၉ ခုနှစ်တွင် ဗင်နီဇွဲးလားမှ အန်းဒီးတောင်ကို ကျော်၍ နယူးဂရာနဒါပြည်နယ်ဖက်သို့ အောင်မြင်စွာ ချီတက်နိုင်ခဲ့သည်။ ထိုနောက် နယူးဂရာနဒါနှင့် ဗင်နီဇွဲးလား ၂ ပြည်ထောင်ကို ပူးပေါင်း၍ ကိုလံဘီယား ပြည်ထောင်စု နိုင်ငံအဖြစ် ဖွဲ့စည်းလိုက်သည်။ ယင်းပြည်ထောင်စုတွင် ဗိုလစ်ဗားအား သမတ တင်မြှောက်ကြသည်။

ဗိုလစ်ဗားသည် ကိုလံဘီယားပြည်ထောင်စုမှ စပိန်တို့ကို မောင်းထုတ်ပြီးနောက်၊ အက်ကွာဒေါနှင့် ပီးရူးပြည်များတွင် ဖြစ်ပွားနေသော တော်လှန်ရေးကို သွားရောက် ကူညီသည်။ သို့သော် အက်ကွာဒေါမျိုးချစ် ခေါင်းဆောင်တို့နှင့် ဗိုလစ်ဗားသည် စေ့စပ်မရသဖြင့်၊ပီးရူးပြည်ကိုသာ ဝင်ရောက်အကူအညီပေးသည်။ ဗိုလစ်ဗားအား ပီရူးလူထုက အာဏာရှင်တင်မြှောက်၍စပိန်အုပ်ချုပ်မှုကိုတွန်းလှန်ရာ၊မကြာမီ ပီးရူးပြည်သည် စပိန်လက်အောက်မှ လွတ်မြောက်သွားသည်။ ဗိုလစ်ဗားလည်း ပီးရူးနိုင်ငံ၏ အာဏာရှင်အဖြစ်မှ နုတ်ထွက်လိုက်သည်။ ၁၈၂၅ ခုနှစ်တွင် ပီးရူးတောင်ပိုင်းပြည်နယ်များသည်သီးခြားနိုင်ငံထူထောင်၍ ဗိုလစ်ဗားအား ဂုဏ်ပြုသောအားဖြင့် ဗိုလစ်ဗီးယားနိုင်ငံဟု မှည့်ခေါ်သည်။ (ဗိုလစ်ဗီးယားနိုင်ငံ — ရှု။)ဗိုလစ်ဗားကိုယ်တိုင်ပင် ဗိုလစ်ဗီးယားနိုင်ငံအတွက် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေ ရေးဆွဲပေး လေသည်။ ၁၈၂၅ ခုနှစ်တွင် ပနားမားမြို့၌ ကျင်းပသော အမေရိက တိုက်များရှိ သမတနိုင်ငံများ၏ ပဌမဆုံး ကွန်ဖရင့်တွင် အမေရိကနိုင်ငံပေါင်းချုပ် အဖွဲ့ကြီးဖွဲ့ရန် စီစဉ်သည်။ သို့ရာတွင် မအောင်မြင်ချေ။ ၁၈၂၆ ခုနှစ်နှင့် ၁၈၂၈ ခုနှစ်များတွင် ဗိုလစ်ဗားသည် ကိုလံဘီယားပြည်ထောင်စု သမတ အဖြစ် ပြန်လည်အရွေးခံ ရသည်။ သို့ရာတွင် ရီပတ်ဗလစ်ကန် ပါတီ



ဗိုလစ်ဗီးယားနိုင်ငံ လွတ်လပ်ရေးကို ရွှေဆောင်ရယူပေးခဲ့သူ ဆိုင်မွန်ဗိုလစ်ဗား

ဝင်တို့က ဗိုလစ်ဗားသည် တောင်အမေရိကနိုင်ငံများကို အင်ပိုင်ယာဖွဲ့၍ အာဏာရှင်သဖွယ် အမြဲတမ်းအုပ်စိုးရန် လိုလားသူဟု စွပ်စွဲကာ သူ့အားလုပ်ကြံရန်ပင် ကြံစည်ကြသည်။ ယင်းသို့ဖြင့် သူကိုယ်တိုင် လွတ်လပ်ရေး ရယူပေးခဲ့သော တောင်အမေရိက နိုင်ငံများ တလုံးတစည်းတည်း ညီညီညွတ်ညွတ် ပြည်ထောင်စု ဖွဲ့စည်းရန် ဗိုလစ်ဗား၏ အကြံသည် ပျက်ပြားရသည်။ ၁၈၂၉ ခုနှစ်တွင် ဗင်နီဇွဲးလားပြည်သည် ကိုလံဗီးယား ပြည်ထောင်စုမှ ခွဲထွက်လိုက်သောအခါ ဗိုလစ်ဗားသည် သမတရာထူးမှ နုတ်ထွက်လိုက်ရ၍ ကိုလံဗီးယားနိုင်ငံ ကာတာဂျီးနားမြို့သို့ သွားရောက်ကာ အနားယူနေခဲ့လေသည်။ ဗိုလစ်ဗားသည် သူ၏ စည်းစိမ်ဥစ္စာများကို တောင် အမေရိကနိုင်ငံများ လွတ်လပ်ရေးအတွက် အကုန်အစင် သုံးစွဲလိုက်ပြီး ဖြစ်သဖြင့် ဆင်းရဲညှိုးငယ်စွာ နေထိုင်ရသည်။

၁၈၃၀ ပြည့်နှစ် ဒီဇင်ဘာလ ၁၀ ရက်နေ့တွင် တောင် အမေရိက နိုင်ငံများ၏ ကယ်တင်သူကြီး ဆိုင်မွန်ဗိုလစ်ဗားသည် ကိုလံဗီးယားနိုင်ငံ ဆန်တာမာတာမြို့အနီးတွင် ကွယ်လွန်သည်။

ဗိုလစ်ဗား၏ ဂုဏ်သတင်းသည် အသက်ရှင်စဉ်ကထက် ကွယ်လွန်သောအခါမှ ပိုမိုကျော်ကြားခဲ့သည်။ တောင် အမေရိကတိုက်နှင့် အမေရိကန်ပြည်ထောင်စုရှိ မြို့ကြီး မြို့ငယ်အချို့ကိုပင် ဗိုလစ်ဗား၏ အမည်ကို ဂုဏ်ပြုသောအားဖြင့် မှည့်ခေါ်ခြင်း၊ ဗင်နီဇွဲးလား နိုင်ငံသုံး ဒင်္ဂါးကို ဗိုလစ်ဗားဟု အမည်ပေးခြင်း စသည်ဖြင့် သူ့အား ဂုဏ်ပြုခဲ့ကြလေသည်။

# နေရောင်ခြည်နှင့်ဆီးနှင်းအပြိုင်ရှိနေသောနိုင်ငံ

**ကုန်းခေါင်ခေါင်၌ တည်ရှိသော နိုင်ငံဖြစ်၍ တောင်အမေရိက သမတနိုင်ငံများအနက် လူသိနည်းလှသော နိုင်ငံဖြစ်လေသည်။ သို့သော် ထိုနိုင်ငံအကြောင်းကို လေ့လာကြည့်သည့်အခါ၊ နေရောင်ခြည်နှင့် ဆီးနှင်းကဲ့ သို့ဆန့်ကျင်ဖက်များ အပြိုင်ရှိနေသည့် စိတ်ဝင်စားဖွယ် နိုင်ငံဖြစ်ကြောင်း တွေ့ရပေမည်။**

**ဗိုလစ်ဗီးယားနိုင်ငံ။** ။တောင်အမေရိကတိုက်၏ ပဥ္စမအကျယ်ဝန်းဆုံး နိုင်ငံဖြစ်သော ဗိုလစ်ဗီးယား နိုင်ငံသည် သဘာဝတင်းထွက် ပစ္စည်းတို့ဖြင့် အကြွယ်ဝဆုံးသော နိုင်ငံတနိုင်ငံလည်း ဖြစ်သည်။ ထို့ပြင် တောင်အမေရိကတိုက်တွင် ပင်လယ်နှင့် ဆက်စပ်ခြင်း မရှိသော ကုန်းတွင်းပိုင်း နိုင်ငံ ၂ နိုင်ငံရှိသည့် အနက် ဗိုလစ်ဗီးယားနိုင်ငံသည် တနိုင်ငံ ဖြစ်သည်။ မြောက်ဖက်တွင် ဗရာဇီးနိုင်ငံ၊ အရှေ့ဖက်တွင် ဗရာဇီးနှင့် ပါးရဂွေးနိုင်ငံ၊ တောင်ဖက်တွင် အာဂျင်တီးနားနိုင်ငံ၊ အနောက်ဖက်တွင် ချီလီနှင့် ပီးရူးနိုင်ငံတို့နှင့် နယ်နိမိတ် စပ်လျက်ရှိသည်။ ယင်းနိုင်ငံကို တောင်အမေရိကတိုက် မျိုးချစ်ပုဂ္ဂိုလ်ကြီး ဆိုင်မွန်ဗိုလစ်ဗားအား ဂုဏ်ပြုသော အားဖြင့် ဗိုလစ်ဗီးယား နိုင်ငံဟု ခေါ်တွင်ခဲ့သည်။ (ဗိုလစ်ဗား, ဆိုင်မွန် — ရှု။) ၁၈၂၅ ခုနှစ်မှ စ၍ ဗိုလစ်ဗီးယား သမတနိုင်ငံ ဖြစ်လာခဲ့သည်။

ဗိုလစ်ဗီးယား နိုင်ငံသည် မူလက စတုရန်း မိုင် ၉၀၀,၀၀၀ ခန့်ကျယ်ဝန်း၍ ပစိဖိတ် သမုဒ္ဒရာကမ်းခြေအထိရောက်သော်လည်း၊ ၁၉ ရာစုနှင့် ၂၀ ရာစုနှစ်အစလောက်ကအိမ်နီးချင်း ၅ နိုင်ငံနှင့် အကြိမ်ကြိမ် စစ်ဖြစ်ခဲ့ရာမှ ဒေသပေါင်း များစွာကို လက်လွှတ် လိုက်ရရာ၊ ယခုအခါ စုစုပေါင်း ၄၂၄,၁၆၂ စတုရန်းမိုင်သာ ရှိတော့သဖြင့် မြန်မာနိုင်ငံထက် တဆခွဲကျော်ကျယ်ဝန်းသည်။ ၁၈၈၄ ခုနှစ်တွင် ချီလီနိုင်ငံနှင့်စစ်ဖြစ်ပြီးသည့်နောက် ပင်လယ်ကမ်းရိုးတန်း ဒေသကိုလည်း လက်လွှတ်ခဲ့ရသဖြင့် ကုန်းတွင်း နိုင်ငံဖြစ်ခဲ့ရသည်။

ဗိုလစ်ဗီးယား နိုင်ငံသည် လူသူနေထိုင်ရာ ကမ္ဘာ့ ကုန်းမြေအမြင့်ဆုံး ဒေသတခုဖြစ်သည်။ အန်းဒီးတောင်တန်းကြီးသည် ဗိုလစ်ဗီးယားနိုင်ငံ အနောက်ဖက်မှ အရှေ့တောင်ဖက်သို့ တန်းဆင်းတည်ရှိနေသည်။ အန်းဒီး တောင်တန်းသည် ဗိုလစ်ဗီးယားနိုင်ငံတွင်း၌ကော်ဒီလားရားအော့ဆီဒင်တယ်နှင့် ကော်ဒီလားရားရီယဲဟူသောမျဉ်းပြိုင်တောင်တန်း၂သွယ်အဖြစ် ဖြာဆင်းလာသည်။ အရှေ့ဖက်ရှိ ကော်ဒီလားရားရီယဲ တောင်တန်းသည် အနောက်ဖက်ရှိ ချီလီနိုင်ငံနှင့် နယ်နိမိတ်သဖွယ်တည်ရှိနေသော ကော်ဒီလားရား အော့ဆီဒင်တယ် တောင်တန်းနှင့် မိုင် ၈၀ ခန့်ဝေးသည်။ ဗိုလစ်ဗီးယား နိုင်ငံကို မြေမျက်နှာသွင်ပြင်အရ သုံးပိုင်းခွဲခြားနိုင်သည်။ကော်ဒီလားရားတောင်တန်း ၂ ခုကြားရှိ အော်လတီပလာနိုကုန်းမြင့်၊အရှေ့ကော်ဒီလားရားတောင်တန်းအရှေ့ဖက်ရှိယွန်ဂတ်ဒေသနှင့် အီလာနော့ခေါ် တောင်ပိုင်းမြေနိမ့် လွင်ပြင်ဒေသတို့ဖြစ်သည်။အော်လတီပလာနိုကုန်းမြင့်သည် ပေ ၁၁,၅၀၀ မှ ၁၅,၀၀၀ အထိ မြင့်သည်။ယင်းသည်ဗိုလစ်ဗီးယားနိုင်ငံအကျယ်အဝန်း၏ ၁၆ ရာခိုင်နှုန်းမျှသာရှိသော်လည်း တနိုင်ငံလုံးရှိ လူဦးရေ၏ ၇၅ ရာခိုင်နှုန်းတို့ မှီတင်းနေထိုင်ရာ လူနေစိပ်သော အပိုင်း ဖြစ်သည်။ အဖိုးတန် သတ္တုတွင်းများဖြင့် ကြွယ်ဝသော ဒေသဖြစ်သည်။ သံဖြူများစွာ ထွက်သည်။ ယွန်ဂတ်ဒေသသည် ဗိုလစ်ဗီးယားနိုင်ငံ အကျယ်အဝန်း၏ ၁၄ ရာခိုင်နှုန်းရှိ၍ အီလာနော့မြေနိမ့် လွင်ပြင်ဒေသမှာမူ ၇၀ ရာခိုင်နှုန်းကျယ်ဝန်းသည်။ ယွန်ဂတ်ဒေသတွင် မြစ်ဝှမ်း

ငယ်များ၊ စောက်မတ်သော တောင်စောင်းများနှင့် ညွန့်ချောက်များ ရှိသော်လည်း ရာသီဥတုကောင်းမွန်၍ ရေကောင်းမွန်စွာရသောကြောင့် နိုင်ငံတွင်း လယ်ယာ စိုက်ပျိုးရေး ထွန်းကားရာ အဓိကအပိုင်း ဖြစ်သည်။ အထူးသဖြင့် ဗိုလစ်ဗီးယားနိုင်ငံ၏ ကြက်ပေါင်းစေး အထွက်ဆုံးအပိုင်းလည်း ဖြစ်သည်။ အင်ဒီးယန်းလူမျိုးတို့ အများအားဖြင့်နေထိုင်လေသည်။ အီလာနော့ မြေနိမ့်လွင်ပြင် ဒေသ၌မူ လူနေကျဲသည်။ အချို့ နေရာတွင် မိုးများ၍ သစ်တောထူထပ်ပြီး လျှင် အချို့နေရာ၌ မိုးပါး၍ ကျဲ့ နွား မွေးမြူနိုင်ရုံ မြက်ခင်းများသာ ရှိသည်။

ဗိုလစ်ဗီးယားနိုင်ငံတွင် ကြီးကျယ်ထင်ရှားသော မြစ်ကြီးများမရှိသော်လည်း၊ မြစ်ချောင်းများအားဖြင့် ကူးသန်းသွားလာနိုင်သည့် ခရီးလမ်းမှာ မိုင်ပေါင်း ၅,၅ဂ၀ ခန့် ရှိ၏။ ယွန်ဂတ်ဒေသတွင်အမေဇုန် မြစ်ကြီး၏မြစ်လက်တက်များဖြစ်သော မာမိုးရေး၊ ဂွါပူရဲ၊ ဗေနီ၊ မဲဒရာဒေဒီအော့စသော မြစ်များတွင် ရေများသည့်အခါ သင်္ဘောငယ်များဖြင့် ကူးသန်းသွားလာနိုင်သည်။ ထိုဒေသမှ ထွက်သော ကြက်ပေါင်းစေးများကို မြစ်ကြောင်းများဖြင့် အမေဇုန်မြစ်သို့ အရောက်ပို့၍ နိုင်ငံခြားသို့ တင်ပို့ရောင်းချကြသည်။ ကမ္ဘာပေါ် တွင် အမြင့်ဆုံးသော တီတီကာကာ အိုင်ကြီးသည် ဗိုလစ်ဗီးယားနိုင်ငံနှင့် ပီးရူးနိုင်ငံ ၂ နိုင်ငံကို ခွ၍ တည်နေသည်။ ပင်လယ်ရေမျက်နှာပြင် အထက် ၁၂,၆၄၅ ပေ မြင့်၍ စတုရန်း မိုင် ၃,၂၀၀ ကျယ်ဝန်းသည်။ တဖက်ကမ်းမှ တဖက်ကမ်းသို့ သင်္ဘောကြီးများ ခုတ်မောင်း သွားလာနိုင်သည်။ ထိုအိုင်ထဲရှိ ရေမှာ အလွန်အေးမြသော်လည်း မည်သည့်အခါမျှ ရေမခဲချေ။ အော်လတီပလာနိုကုန်းမြင့်ပေါ်၌ ပိုအိုးပိုခေါ် ဆားငန်အိုင်ကြီးရှိရာ၊ တီတီကာကာ အိုင်ခန့်ပင်ကျယ်ဝန်းသည်။ အိုင်ကြီး ၂ ခုသည် ဒေစာဂွါဒေးရိုးမြစ်ဖြင့် ဆက်လျက်ရှိလေသည်။

ဗိုလစ်ဗီးယား နိုင်ငံသည် တောင်ယဉ်စွန်းတန်း၏ မြောက်ဖက်တွင် လုံးလုံး ကျရောက်နေရာ၊ အပူပိုင်းဇုန် နိုင်ငံပင် ဖြစ်သည်။ သို့သော်လည်း အအေးဆုံးမှ အပူဆုံးအထိ ရာသီဥတုအမျိုးမျိုး ရှိသည်။ ကုန်းမြင့်ဒေသတွင် အေး၍ မြေနိမ့်လွင်ပြင်ဒေသတွင် ပူနွေး၍ ထိုင်းမှိုင်းသည်။ အော်လတီပလာနိုကုန်းမြင့်ဒေသတွင် အပူချိန်ပျမ်းမျှခြင်း ဖာရင်ဟိုက် ၅၀ ဒီဂရီရှိ၍၊ နွေနှင့် ဆောင်း အပူချိန် မကွာလှချေ။ တနိုင်ငံလုံး၏ ပျမ်းမျှအပူချိန်သည် ဖာရင်ဟိုက် ၇၇ ဒီဂရီဖြစ်သည်။ ဗိုလစ်ဗီးယား မြောက်ပိုင်းသည် တောင်ပိုင်းထက် မိုးများသည်။ မြောက်ပိုင်းတွင် မိုးရေချိန် လက်မ ၄၀ မှ ဂ၀ အထိ ရွာ၍ တောင်ပိုင်းတွင် လက်မ ၂၀ မှ ၄၀ အထိ ရွာသည်။

၁၉၅၉ ခုနှစ်ခန့်မှန်းခြေ သန်ကောင်စာရင်းအရ ဗိုလစ်ဗီးယားနိုင်ငံ၏ လူဦးရေသည် ၃,၃၄ဂ,၀၀၀ ခန့်ဖြစ်၍ အင်ဒီးယန်းလူမျိုးတဝက်ကျော် ပါဝင်သည်။ လူဖြူမျိုး ၁၅ ရာခိုင်နှုန်းခန့်သာရှိ၍ အင်ဒီးယန်းနှင့် လူဖြူကပြား မက်စတီဇို လူမျိုးကား ၃၅ ရာခိုင်နှုန်းရှိသည်။ အော်လတီပလာနိုကုန်းမြင့်ဒေသတွင် လူနေစိပ်၍ အီလာနော့ မြေနိမ့်လွင်ပြင်ဒေသတွင် လူနေနည်းသည်။ လူဖြူများနှင့် အစိုးရပိုင်းက စပိန်ဘာသာစကားကို ပြောဆိုသော်လည်း၊ အင်ဒီးယန်း လူမျိုးတို့ကမူ ယင်းတို့၏ ရှေးဟောင်းဘာသာစကားဖြစ်သော အမားရားနှင့် ကွေချူအား ဘာသာစကားကိုသာ ပြောဆို၍ ဘိုးစဉ်ဘောင်ဆက်မှ ဓလေ့ထုံးစံတို့ကိုသာ လိုက်နာ နေထိုင်ကြသည်ကို တွေ့ရသည်။ အင်ဒီးယန်း လူမျိုးတို့သည် မိမိတို့၏ စားဝတ်နေမှု ဖူလုံရေးသာ ဂရုစိုက်၍ နိုင်ငံရေး၊ ကမ္ဘာ့ရေးရာစသည်တို့၌ စိတ်လည်း မဝင်စား၊ပါဝင်စွက်ဖက်ခြင်းလည်း လုံးဝမပြုချေ။ ဗိုလစ်ဗီယားနိုင်ငံတွင် အစိုးရ အသိ အမှတ်ပြု အယူဝါဒသည် ရောမကက်သလစ် ခရစ်ယန်ဂိုဏ်း ဖြစ်သည်။ သို့ရာတွင် လူတိုင်း လွတ်လပ်စွာ ကိုးကွယ်နိုင်ခွင့် ရှိသည်။

ဗိုလစ်ဗီးယား နိုင်ငံသည် တွင်းထွက်သတ္တုများဖြင့် ကြွယ်ဝသောနိုင်ငံ ဖြစ်သည်။ ရှေးအခါက ငွေအများဆုံး ထွက်ခဲ့သော်လည်း၊ ယခုအခါ သံဖြူတွင်းများ တွေ့ရှိသဖြင့် ငွေသည် ဒုတိယအထွက်များဆုံး သတ္တုဖြစ်၍ သံဖြူက ပဌမစွဲသည်။ ကမ္ဘာပေါ် တွင် သံဖြူဒုတိယ အများဆုံး ထွက်သော




ဗိုလစ်ဗီးယားနိုင်ငံ တည်နေရာပြ မြေပုံ



ဗိုလစ်ဗီးယားတိုင်းရင်းသားတို့ ရှေးဟောင်းဓလေ့ထုံးစံအရ ကျင်းပသည့် ပွဲတော်တခုတွင် သံဆိုတီးမှုတ်နေကြစဉ်

နိုင်ငံဖြစ်သည်။ အန်းဆီးယား၊ ပိုတိုးဆီး၊ အိုရူးရိုးနှင့်လာပက် နယ်တဝိုက်တွင် သံဖြူအများဆုံး ထွက်သည်။ အခြား ထင်ရှားသော သတ္တုများမှာ ဝူးဖရမ်၊ ခနောက်စိမ်း၊ ခဲ၊ သွပ်၊ ကြေးနီ၊ ရွှေနှင့် ကြွပ်တို့ဖြစ်သည်။ ဗိုလစ်ဗီးယားနိုင်ငံ၏ အဓိက စီးပွားရေး လုပ်ငန်းသည် သတ္တုတွင်းလုပ်ငန်းဖြစ်သည်။ နိုင်ငံထွက်ကုန် တန်ဖိုး၏ ၉၅ ရာခိုင်နှုန်းကို သတ္တုများရောင်းခြင်းဖြင့် ရရှိသည်။ ရေနံလည်း အနည်းငယ် တွေ့ထားပြီးဖြစ်ရာ၊ နောက်ထပ်၍ အမြောက် အမြား တွေ့ဖွယ်ရှိသည်ဟု ခန့်မှန်း ကြသည်။

ဗိုလစ်ဗီးယားနိုင်ငံ လူဦးရေ ၃ ပုံ ၂ ပုံခန့်သည် လယ်ယာစိုက်ပျိုးလုပ်ကိုင်ကြသော်လည်း၊ တနိုင်ငံလုံး၏ ၂ ရာခိုင်နှုန်းမျှသော မြေတွင်သာ စိုက်ပျိုးလုပ်ကိုင်ကြသည်။ အဓိကစိုက်ပျိုးရေး ထွက်ကုန်များမှာ ကကေးအိုး၊ သကြား၊ ပြောင်း၊ မုယော၊ အာလူး၊ ကာဖီ၊ ကြက်ပေါင်စေးတို့ ဖြစ်သည်။ ဗိုလစ်ဗီးယားနိုင်ငံသည် တောင်အမေရိကတိုက်တွင် ကြက်ပေါင်စေး ဒုတိယအများဆုံး ထွက်သော နိုင်ငံဖြစ်သည်။ တောင်ပိုင်း လွင်ပြင်တွင် ကျွဲ နွား မွေးမြူသဖြင့် သားရေများလည်း ရောင်းချကြသည်။

ဗိုလစ်ဗီးယား နိုင်ငံ၏ ကူးသန်းသွားလာရေးမှာ တောင်ကုန်းမြင့်များကြောင့် ခက်ခဲသည်။ မီးရထားလမ်း၊ ကားလမ်း စသည်တို့ကို လွယ်ကူစွာ မဖောက်နိုင်ချေ။ ၁၉၅၁ ခုနှစ်တွင်ဗိုလစ်ဗီးယားနိုင်ငံ၌ မီးရထားလမ်း မိုင်ပေါင်း၁,၄၉၁ မျှရှိရာ ၁,၁၂၇ မိုင်ခန့်မှာ ပုဂ္ဂလိကကုမ္ပဏီများ၏လက်ထဲတွင် ရှိသည်။ ထင်ရှားသောမီးရထားလမ်းကြီးများမှာ လာပက်မြို့မှ အန်းဒီးတောင်ကို ကျော်၍ ချီလီနိုင်ငံအာရီးကားမြို့ အထိဋင်း၊ လာပက်မြို့မှ တီတီကာကာအိုင်ပေါ်ရှိ ဂွါကီမြို့သို့ယင်းမှကူးတို့သင်္ဘောဖြင့် ပီးရူးနိုင်ငံဖက်ကမ်းရှိပူနိုမြို့သို့ဖြတ်ကာ ထိုမှတဆင့် ပီးရူးကမ်းခြေရှိ မော်လင်းဒိုးမြို့အထိဋင်း၊ လာပက်မြို့မှ တောင်ဖက်သို့ အိုရူးရိုး၊ ပူလကာယိုး စသော မြို့များကိုဖြတ်ကာ ချီလီနိုင်ငံကမ်းခြေရှိ အန်တိုဖဂက်စတားမြို့သို့ဋင်း ဆက်သွယ်ထားသည့် လမ်းများဖြစ်သည်။ မော်တော်ကားလမ်းမှာမူ အစုစုမိုင်ပေါင်း ၆,၀၀၀ ခန့်ရှိသည်။ လမ်းများမှာ တိုးတက်ကောင်းမွန်လာသည်ဟူ၍ မရှိသော်လည်း ဥတုမရွေး သွားလာ နိုင်သော လမ်းများ ဖြစ်သည်။ ယခုအခါ လေကြောင်း ခရီးပေါ်ပေါက် လာရာ ဗိုလစ်ဗီးယားနိုင်ငံသည် ကမ္ဘာအရပ်ရပ်နှင့် အဆက်အသွယ် ပိုမိုလွယ်ကူ လာလေသည်။

ဗိုလစ်ဗီးယား နိုင်ငံတွင် မြို့တော် ၂ ခုရှိသည်ဟု ဆိုရပေမည်။ လာပက်မြို့သည် ဗဟိုအစိုးရ ရုံးစိုက်ရာ မြို့တော်ကြီးဖြစ်သော်လည်း၊ ဆူကရေးမြို့သည် တရားလွှတ်တော်ချုပ်တည်ရာ မြို့တော်ဖြစ်သည်။ ယင်းမြို့ကို ဗိုလစ်ဗီးယား ပဌမသမတ ဆူကရေးအား ဂုဏ်ပြုသောအားဖြင့် မှည့်ခေါ်ထား

ခြင်း ဖြစ်သည်။ လာပက်မြို့သည် ပင်လယ်ရေမျက်နှာပြင်အထက် ၁၁,၇၀၀ ပေမြင့်၍၊ဆူကရေးမြို့သည် ၇,၅၃၂ ပေမြင့်သည်။ လမ်းများမှာ ကျဉ်း၍ အဆောက်အအုံများသည် စပိန်ဗိသုကာပုံစံအတိုင်း ဖြစ်သည်။

ဗိုလစ်ဗီးယားနိုင်ငံသည် ရှေးခေတ် အင်းကား အင်ပိုင်ယာ၏တစိတ်တဒေသဖြစ်ခဲ့၏။ ထို့နောက် စပိန်တို့၏ လက်အောက်သို့ နှစ်ရာပေါင်းများစွာကျရောက်ခဲ့ရာ၊ ၁၁၂၅ ခုနှစ်တွင် လွတ်လပ်သော သမတနိုင်ငံ ဖြစ်လာသည်။ ၁၉၃၁ ခုနှစ်တွင် အတည်ပြုပြဋ္ဌာန်းလိုက်သော ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအရ နိုင်ငံတော်သမတကို ၄ နှစ်တကြိမ် ပြည်သူတို့က တိုက်ရိုက် ရွေးကောက် တင်မြှောက်ရသည်။ ပါလီမန်ဥပဒေပြုအဖွဲ့တွင် အထက်လွှတ်တော် အောက်လွှတ်တော်ဟူ၍ နှစ်ခုရှိရာ အထက်လွှတ်တော်တွင် ၆ နှစ်တကြိမ် ရွေးကောက် တင်မြှောက်ရသော အမတ် ၂၇ ဦးပါဝင်၍အောက်လွှတ်တော်တွင် ၄ နှစ် တကြိမ် ရွေးကောက်တင်မြှောက်ရသော ပြည်သူ့ ကိုယ်စားလှယ် ၁၂၀ ပါဝင်၏။ ၃ ပုံ ၁ ပုံသော အထက်လွှတ်တော်အမတ်များသည် ၂ နှစ်လျှင် တကြိမ် ထွက်ပေးကြရ၏။ အောက်လွှတ်တော် အမတ် ဦးရေအားလုံး၏တဝက်သည် ၂ နှစ်တကြိမ်ထွက်ပေးရလေသည်။ အသက် ၂၁ နှစ်ပြည့်သူတိုင်း မဲဆန္ဒပေးနိုင်ခွင့် ရှိသည်။

ဗိုလစ်ဗီးယား နိုင်ငံတွင် နယ် ၉ နယ်ရှိသည်။ ယင်းတို့မှာ လာပက်၊ ကိုချာဗမ်းဗား၊ ပိုတိုးဆီး၊ ဆန်တာကရု၊ ချူကွီဆကား၊ တရိဇ၊ အိုရူးရိုး၊ ဗေနီ၊ ပန်ဒိုတို့ဖြစ်သည်။

မူလတန်းပညာရေးမှာ အခလွတ်မသင်မနေရ ဖြစ်၏။ ၁၉၃၇ ခုနှစ်ကမူလတန်းကျောင်းပေါင်း ၂,၀၀၀ ရှိ၍ကျောင်းသားပေါင်း ၁၄၅,၀၀၀ ရှိသည်။ ဆူကရေးမြို့၊ လာပက်မြို့နှင့် ကိုချာဗမ်းဗားမြို့တို့၌ တက္ကသိုလ်ကျောင်း တကျောင်းစီ ရှိလေသည်။ ဆူကရေးမြို့ရှိဆန်ဖရန်စစ္စကိုဆေးဗီးယား တက္ကသိုလ်သည် အမေရိကတိုက်ရှိ တက္ကသိုလ်များအနက် ဥပဒေနှင့် ဆေးပညာဆိုင်ရာ မဟာဌာနများ အပြည့်အစုံ ရှိသော ပဌမဆုံး တက္ကသိုလ် ဖြစ်သည်။

အသက် ၁၉ နှစ်မှ ၅၅ နှစ်အတွင်းရှိ ယောကျ်ားတိုင်း စစ်ပညာကို မသင်မနေရစံနစ်ရှိ၏။ထို့ပြင် အသက် ၁၄ နှစ်မှ ၁၈ နှစ်အတွင်းရှိ ယောကျ်ားကလေးများသည်လည်း ရှေးဦးသင်စစ်ပညာကို ကျောင်းတွင် အမြဲတမ်းသင်ယူကြရသည်။ သာမန်အချိန်များတွင် အမြဲတမ်း စစ်တပ်အတွက် သတ်မှတ်



ဗိုလစ်ဗီးယားနိုင်ငံ တိုင်းရင်းသားတို့သည် ရိုးသား၍ ပျော်ရွှင်စွာ နေထိုင်လေ့ရှိကြသည်။

ထားသောစစ်သားဦးရေမှာ ၁၉၄၃ ခုနှစ်ဥပဒေအရ ၁၅,၀၀၀ ဖြစ်လေသည်။

**ဗိုဟီးမီးယားနယ်။** ။ဗိုဟီးမီးယား နယ်သည် ချက်ကိုဆလိုဗားကီးယားနိုင်ငံ၏ အနောက်ဖက်အကျဆုံး နယ်ဖြစ်သည်။ပဌမကမ္ဘာစစ် မတိုင်မီက ယင်းသည် သြစတြီးယား-ဟန်ဂေရီအင်ပိုင်ယာအတွင်း၌ ထင်ရှားသော ပြည်နယ် တနယ်ဖြစ်ခဲ့သည်။

ဗိုဟီးမီးယားနယ်သည် မှန်ကူကွက် ပုံသဏ္ဍာန် ရှိသောကုန်းမြင့်ကြီး ဖြစ်သည်။ အနောက်မြောက်ဖက်တွင် ဆက္ကဆွန်နီ ပြည်နယ်ကို အိုးတောင်တန်းကရင်း၊အရှေ့မြောက်ဖက်တွင် ဆိုင်လီးရှားနယ်ကို ဂျိုင်းယင့် တောင်တန်းကရင်း၊ အနောက်တောင်ဖက်တွင် ဗာဗေးရီးယားပြည်နယ်ကို ဗိုဟီးမီးယန်းသစ်တောခေါ် တောင်တန်းများကရင်း၊ အရှေ့တောင်ဖက်တွင် မိုရေးဗီးယားနယ်ကို အစ်ဂလော်င်း ကုန်းမြင့်ကြီးကရင်း ဗိုဟီးမီးယားနယ်နှင့် ခြားထားလေသည်။ ဂျိုင်းယင့်တောင်တန်း၌ မြစ်ဖြားခံသော အဲလဗမြစ် အထက်ပိုင်းနှင့်ယင်း၏မြစ်လက်တက်များသည် တနယ်လုံး၌ ဖြာ၍စီးဆင်းလျက်ရှိသည်။ ဗိုဟီးမီးယားနယ်၏ ထွက်ပေါက်များသည် မြောက်ဖက်တွင် အဲလဗမြစ်ဝှမ်းမှအပ ကျန်အားလုံးသည် တောင်ကြားလမ်းများ ဖြစ်သည်။

ဗိုဟီးမီးယားနယ်သည် စတုရန်းမိုင် ၂၀,၀၀၀ ခန့် ကျယ်၍၊ မြန်မာနိုင်ငံ တနင်္သာရီတိုင်းခန့် ရှိသည်။ လူဦးရေ ၇,၁၀၉,၃၇၆ ယောက်ရှိရာ၊ တနင်္သာရီတိုင်း လူဦးရေ၏ ၅ ဆကျော် ရှိလေသည်။ အများအားဖြင့် ချက်လူမျိုးနှင့် ဂျာမန်လူမျိုးတို့ နေထိုင်ကြ၍ ဂျူးလူမျိုးလည်း ၅ ပုံ ၁ ပုံခန့်ရှိသည်။ အများအားဖြင့် ဗရင်ဂျီဂိုဏ်းဝင်များ ဖြစ်ကြသည်။

ဗိုဟီးမီးယား ဟူသောအမည်သည် တိုင်းရင်းလူမျိုး ကဲ့အနွယ်ဝင် ဗိုအီးများအား အစွဲပြု၍ တွင်ခြင်း ဖြစ်သည်။ သိရှိရသမျှ ဗိုဟီးမီးယားနယ်၌ အစောဆုံး နေထိုင်ခဲ့သူများဖြစ်သော ထိုဗိုအီးတိုင်းရင်းသားများအား ခရစ်တော်ပေါ် စအချိန်က မာကိုမန်လူမျိုးတို့က တိုက်ထုတ်၍ နေထိုင်ကြပြန်ရာ၊ ယင်းတို့အား ဂျာမန်တို့ကရင်း၊ ဂျာမန်တို့အား ဆလဗအနွယ်ဝင် ချက်တို့ကရင်း မောင်းထုတ် နေထိုင်ကြသည်။ ၆၂၇ ခုနှစ်တွင် ဆမိုဘုရင်လက်ထက်၌ အကွဲကွဲဖြစ်နေသော ဗိုဟီးမီးယားနယ်သည် စည်းလုံးမိလေသည်။ ၈၀၅ ခုနှစ်တွင် ရှားလမိန်းဘုရင်က သိမ်းပိုက်ထားခဲ့ပြီးနောက် မကြာမီပင် မိုရေးဗီးယားနိုင်ငံ၏ လက်အောက်ခံ ဖြစ်ခဲ့သည်။ ၁၀၀၀ ပြည့်နှစ်ကျော်ခန့်ကမူ ဗိုဟီးမီးယားသည် ဂျာမန်နယ်တနယ် အဖြစ် ရောက်ရှိနေ၍ ၁၁၉၈ ခုနှစ်တွင် သီးခြားပြည်ထောင် ဖြစ်လာပြန်သည်။ ၁၂၅၃ ခုနှစ် မှ ၁၂၇၈ ခုနှစ်အတွင်း၌ ဗိုဟီးမီးယားသည် ဥရောပတိုက်တွင် အင်အားအတောင့်တင်းဆုံး တိုင်းပြည်တပြည်ဖြစ်လာသည်။ ၁၂၀၀ ပြည့်နှစ် နောက်ပိုင်းတွင် အုပ်စိုးသော လူဇင်းဗတ်မင်းဆက်ဖြစ်သော ဗိုဟီးမီးယားဘုရင်များသည် ဧကရာဇ်ဘုရင်ချည်းဖြစ်ကြသည်။ သို့ရာတွင် ၁၅ ရာစုနှစ်များ၌ ဂျွန်ဟပ်စကိုအကြောင်းပြု၍ ဖြစ်ပွားသော အယူဝါဒရေးစစ်ပွဲများနှင့် ၁၆၁၈ ခုနှစ်တွင်ဖြစ်ပွားသောနှစ်သုံးဆယ်စစ်ပွဲများကြောင့် ဗိုဟီးမီးယားနိုင်ငံသည် မှေးမှိန်သွားရသည်။ ပြည်သူ ပြည်သားများသည် အမျိုးသား စိတ်ဓာတ်များ ကျဆင်းချိန်၌ ဟက်ဇဗတ်မင်းများ အုပ်စိုးလျက်ရှိသည်။ ၁၈ ရာစုနှစ်ကျမှပင် ဗိုဟီးမီးယား လူထုသည် နိုင်ငံရေးနိုးကြားလာကာ အမျိုးသားအခွင့်အရေးများ၊ ကိုယ်ပိုင်အုပ်ချုပ်ရေးနှင့် နိုင်ငံရေး လွတ်လပ်မှုတို့ကို တောင်းဆိုလာကြသည်။ ၁၉ ရာစုခန့်တွင် သြစတြီးယား-ဟန်ဂေရီအစိုးရအား အတော်ပင် မကျေမနပ်ဖြစ်နေခဲ့ကြသည်။ ပဌမကမ္ဘာစစ်ပြီးသောအခါ ဗိုဟီးမီးယားပြည်နယ်သည် ချက်ကိုဆလိုဗားကီးယားနိုင်ငံသစ်၏ နယ်တနယ်ဖြစ်လာသည်။ ဒုတိယကမ္ဘာစစ်အတွင်း၌မူ ဂျာမန်အုပ်ချုပ်ခံနယ် ဖြစ်နေခဲ့ပြီးလျှင် ဒုတိယကမ္ဘာစစ်ပြီးမှ ချက်ကိုဆလိုဗားကီးယားနိုင်ငံ၏ ပြည်နယ်အဖြစ် ပြန်လည်ရောက်ရှိသည်။

ဗိုဟီးမီးယားနယ်သည် ချက်ကိုဆလိုဗားကီးယား တနိုင်ငံလုံးတွင် အကြွယ်ဝအစည်ကား အဖွံ့ဖြိုးဆုံးသော နယ်ဖြစ်သည်။ချက်တို့၏ ပရာဟမြို့တော်သည် ဗိုဟီးမီးယားနယ်တွင် တည်ရှိ၍ ရီးကင်ဗတ်၊ ပီလဆန်၊ ဗွတ်ဗစ်၊ ကားလစဗတ် စသော ထင်ရှားသည့် မြို့ကြီးများသည်လည်း ယင်းနယ်၌ပင် ပါဝင်သည်။ ဗိုဟီးမီးယားနယ်၏ မြင့်မားသော ကုန်းပြင်နှင့် မြေသြဇာကောင်းသော မြစ်ဝှမ်းဒေသများသည် လယ်ယာလုပ်ကိုင်ရန် အလွန်ကောင်းမွန်သဖြင့် ဂျုံ၊ မုယော၊ အာလူး၊ ရိုင်းစပါး၊ မြင်းစားဂျုံ၊ သကြားမုန်လာ စသည်တို့ ထွက်သည်။ ဥယျာဉ်အလုပ်လည်း များစွာဖြစ်ထွန်းသော ဒေသဖြစ်သည်။ တောင်ကုန်းများတွင် သစ်တောများ ပေါက်ရောက်လျက်ရှိသောကြောင့် သစ်လုပ်ငန်းလည်း အကြီး အကျယ်လုပ်ကိုင်ကြသည်။ ဗိုဟီးမီးယား ပြည်နယ်အနောက်မြောက်ပိုင်း၌မူ သတ္တုများထွက်သည်။အထူးသဖြင့် သံတွင်းများစွာရှိသည်။ ကြွေထည် ပစ္စည်းများ လုပ်ကိုင်နိုင်သည့် ရွှံ့မြေမျိုးလည်းရှိသဖြင့် ကြွေထည်လုပ်ငန်းလုပ်ကိုင်ကြသည်။ ယင်းအပိုင်းတွင် သံ၊ သံမဏိ၊ ခြည်နှင့် သိုးမွေး၊ အိမ်ထောင်ပရိဘောဂ၊ စက္ကူ၊ ဓာတုဗေဒ ပစ္စည်းများ၊ ကြွေထည်၊ ဖန်ထည်စသည့် စက်မှုလုပ်ငန်းများ လုပ်ကိုင်ရာ စက်ရုံကြီးများဖြင့် စည်ကားသည်။ ဗိုဟီးမီးယားနယ်ထွက် ဖန်ထည်သည် ကမ္ဘာကျော် ဖြစ်သည်။ ဗိုဟီးမီးယား၏ အခြား ထင်ရှားသော ထွက်ကုန်မှာ ပီလဇင်နာဗီယာခေါ် ကမ္ဘာကျော် ဗီယာဖြစ်သည်။

ဗိုဟီးမီးယားနယ်သည် ပြည်တွင်း ကူးသန်း သွားလာရေး အတွက် အလွန်ကောင်းမွန်သော မီးရထားလမ်းနှင့် ကား လမ်းကြီးများရှိရုံမက ပြည်ပမြို့ကြီးများဖြစ်သော ဗီယင်း နား၊ ဒရက်ဇဒင်စသည့် မြို့ကြီးများနှင့် မီးရထားလမ်းဖြင့် အဆက် အသွယ်ရှိသည်။

ဗိုဟီးမီးယားနယ်တွင် ဂျာမန်တက္ကသိုလ်နှင့် ချက် တက္က သိုလ်များရှိသည့်အနက် ၁၃၄၈ ခုနှစ်က တည်ထောင်ခဲ့သော ပရာဟာတက္ကသိုလ်သည် ဥရောပတိုက်ရှိ ရှေးအကျဆုံး တက္က သိုလ် တခုဖြစ်သည်။

**ဗိုး၊ နီးလ** (ခရစ် ၁၈၈၅–၁၉၆၂)။ ။နီးလဗိုးသည်ဒိန်းလူ မျိုး ရူပဗေဒပညာရှင် တဦးဖြစ်၍၊ အက်တမ်၏ခန္ဓာအိမ်ဖွဲ့ စည်းပုံ ဝါဒသစ်ကို စတင်ဖော်ထုတ်ခဲ့ လေသည်။ အရာဝတ္ထု မှန်သမျှ၏ အခြေခံယူနစ်ဖြစ်သော အက်တမ်များ၏ ဖွဲ့စည်း တည်နေပုံသည် နေစကြဝဠာ ဖွဲ့စည်းတည်နေပုံနှင့် အလား တူဖြစ်သည်။ အက်တမ်၏ အလယ်ဗဟိုရှိလေးလံသော ဝတ် ဆံကဲ့သို့ ဖြစ်သည့် နျူးကလီးယတ်ကို လျှပ်စစ်ဓာတ်အား ဆောင်သော အီလက်ထရွန်များက၊ နေကို ဂြိုဟ်များလှည့် ပတ်နေကြသည့် နည်းတူ လှည့်ပတ်နေကြသည်။ အက်တမ် တွင် များသောအားဖြင့် (နေရာလွတ်) ဟင်းလင်းပြင်များ ပါရှိသည်ဟု ဗိုးက သူ၏အယူအဆများကိုထုတ်ဖော်ခဲ့သည်။

ဗိုး၏အက်တမ်ဝါဒသစ်ကို အခြေပြု၍ အရေးပါသောသိပ္ပံ ပညာတိုးတက်မှုများကို ပြုလုပ်နိုင်ခဲ့ကြသည်။ ယင်းတို့တွင် အက်တမ်၏စွမ်းအင်ကို ထုတ်ယူ အသုံးပြုခြင်းလည်း ပါဝင်ခဲ့ ၍၊ အက်တမ် (အနုမြူ) ဗုံးလုပ်ကိုင်နိုင်သည်အထိ ပေါက် မြောက် အောင်မြင်ခဲ့သည်။ ဗိုးသည် မိမိ၏ဝါဒသစ်ကို တိုး တက် ပြုပြင်ခဲ့ရာ၊ ရေဒီယိုသတ္တိကြွခြင်းကို တွေ့ရှိရာမှ ပေါ် ပေါက်လာသော ပြဿနာများကိုင်၄း၊ ဂျာမန် ရူပဗေဒ ပညာရှင် ပလန့်၏ ကွမ်တမ်သီအိုရီမှ ပေါ်ပေါက်လာသော ပြဿနာများကိုင်၄း ဖြေရှင်းနိုင်ခဲ့လေသည်။



အနုမြူ သုတေသနလုပ်ငန်းတွင် နိုဗဲဆု ချီးမြှင့်ခံရသည့် ရူပဗေဒ သိပ္ပံ ပညာကျော် နီးလ ဗိုး

ဗိုးသည် ဒိန်းမတ်နိုင်ငံ ကိုပင်ဟားဂင်းမြို့၌ ၁၈၈၅ ခုနှစ် အောက်တိုဘာလ ၇ ရက်နေ့တွင် ဖွားမြင်၍၊ ကိုပင်ဟားဂင်း တက္ကသိုလ်မှ ဒီဂရီဘွဲ့ရရှိခဲ့သည်။ ရှေးဦးစွာ ဗိုး၏ သိပ္ပံသုတေ သနလုပ်ငန်းတို့မှာ သတ္တုများမှ အီလက်ထရွန်သီအိုရီကို စူး စမ်းလေ့လာခြင်း ဖြစ်သည်။ နောင်အခါတွင် အင်္ဂလန်ပြည် သို့ သွားရောက်၍ ရူပဗေဒပညာရှင် အကျော်အမော်ကြီး များဖြစ်ကြသော ဂျေ၊ဂျေ၊သွန်မဆင်နှင့်လော့ရားသားဖို့တို့ လက်အောက်တွင် သိပ္ပံသုတေသနလုပ်ငန်းများကို ဆောင် ရွက်သည်။အက်တမ်ခန္ဓာအိမ်ဖွဲ့စည်းပုံဝါဒသစ်ကို ထုတ်ဖော် ခဲ့စဉ်က ဗိုးသည်အသက် ၂၈ နှစ်အရွယ်မျှသာ ရှိသေးသည်။ ၁၉၂၀ ပြည့်နှစ်တွင် ကိုပင်ဟားဂင်းတက္ကသိုလ်တွင် သီအိုရက် တစ်ကယ်ရူပဗေဒသိပ္ပံကျောင်းကို ကူညီတည်ထောင် ပေး သည်။ ၁၉၂၂ ခုနှစ် အသက်အားဖြင့် ၃၇ နှစ်တွင် ရူပဗေ ဒအတွက် ကမ္ဘာကျော် နိုဗဲဆုကြီးကို ရရှိရာ၊ ထိုခေတ် အ ထိ နိုဗဲဆု ရသူများထဲတွင် အသက်အငယ်ဆုံး ဖြစ်လေ သည်။ အခြား နိုင်ငံများစွာတို့ကလည်း သူ၏ ရူပဗေဒပညာ စွမ်းရည်ကို ဂုဏ်ပြုချီးကျူးသောအားဖြင့် ဆုတံဆိပ်များ ချီးမြှင့်ကြလေသည်။၁၉၂၆ ခုနှစ်တွင် တော်ဝင် အသင်းကြီး ၏ နိုင်ငံခြားအသင်းဝင်အဖြစ် ရွေးခြယ်ခြင်း ခံရသည်။ ၁၉၃၈–၃၉ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စုသို့ ခေတ္တ သွားရောက်၍၊ အက်တမ်စွမ်းအင် သုတေသနလုပ်ငန်းများ ကို ဆောင်ရွက်ခဲ့ရာ၊ သိပ္ပံပညာရှင်ကြီး အဲလဗတ်အိုင်းစတိုင်း နှင့်လည်း တွေ့ဆုံနှီးနှောခဲ့လေသည်။

ထိုအချိန်တွင် ဗိုးသည် ယူရေးနီးယမ်းအက်တမ်ကိုခွဲစိတ်၍ ယူရေးနီးယမ်းထဲ၌ သိုမှီးလျက်ရှိနေသောစွမ်းအင်ကို အများ အပြားထုတ်ယူ အသုံးပြုရန် ကြိုးပမ်းလျက်ရှိသည်။ ၁၉၄၀ ပြည့်နှစ်တွင် ဂျာမန်တပ်များက ဒိန်းမတ်နိုင်ငံကို တိုက်ခိုက် သိမ်းပိုက်လိုက်သောအခါ၊ အင်္ဂလန်ပြည်သို့ ထွက်ပြေးတိမ်း ရှောင် နေခဲ့သည်။ ထိုနောက်တွင် အင်္ဂလိပ်နှင့် အမေရိကန် မဟာမိတ်တပ်များကို ကူညီခဲ့ရာ၊ အက်တမ် (အနုမြူ) ဗုံး လုပ်ကိုင်ရန်အတွက် သိပ္ပံပညာရပ်ဆိုင်ရာ အခက်အခဲများ ဖြေရှင်း ပေးခြင်းဖြင့် အများဆုံး ကူညီခဲ့သည်။ နောင်အခါ ဗိုးသည် နယူးမက္ကဆီကို လော့စအယ်လမိုး အက်တမ်မစ် ပရို ဂျက်တွင် အကြံပေးအရာရှိအဖြစ် ဆောင်ရွက်ရသည်။၁၉၄၅ ခုနှစ်တွင် ဒိန်းမတ်နိုင်ငံသို့ ပြန်သွား၏။ ၁၉၆၂ ခုနှစ် နိုဝင် ဘာလ ၁၈ ရက်နေ့တွင် ကွယ်လွန်သည်။

**ဗိုးဝါးစစ်ပွဲ** (ခရစ် ၁၈၉၉–၁၉၀၂)။ ။အာဖရိကတိုက်တောင်ပိုင်းရှိ ဗိုးဝါးပြည်နယ်များ ဖြစ်သော ဩရိန်းဖရီးစတိတ်နှင့် ထရန်စဗားပြည်နယ်များနှင့် ဗြိတိသျှ အစိုးရတို့ ၁၈၉၉ ခုနှစ်မှ ၁၉၀၂ ခုနှစ်အတွင်း ဖြစ်ပွားသောစစ်ပွဲကို ဗိုးဝါးစစ်ပွဲဟုခေါ်သည်။ ထိုစစ်ပွဲကို တောင်အာဖရိကစစ်ပွဲဟု လည်းခေါ်ကြသည်။

ဗိုးဝါးဟူသောစကားမှာ ဒပ်ချဘာသာဖြင့် လယ်သမားဟု ခေါ်ခြင်းဖြစ်သည်။ ၁၆၅၂ ခုနှစ်ခန့်က ဟော်လန်နိုင်ငံမှ ဒပ်ချလူမျိုးတစုသည် အာဖရိကတိုက်တောင်ပိုင်း ဒေသများသို့ သွားရောက်၍ လယ်ယာစိုက်ပျိုးခြင်းဖြင့် အခြေစိုက်နေထိုင်ကြသည်။ ထိုသူတို့မှ ဆင်းသက်သူများကို ဗိုးဝါးဟုခေါ်ကြသည်။ ၁၇၉၆ ခုနှစ်တွင် အာဖရိကတိုက်ရှိ ဗိုးဝါးတို့၏ ဒေသသစ်များကို ဗြိတိသျှတို့ ဝင်ရောက် သိမ်းပိုက်သည်။ဗြိတိသျှအုပ်ချုပ်သည်ကို မလိုလားသူတို့သည် ၁၈၃၆ ခုနှစ်တွင် သူတို့၏ဒေသများကို စွန့်၍ ထိုထက်မြောက်ဖက်ကျသော ဒေသများသို့ ပြောင်းရွှေ့ကာ အိုးသစ်အိမ်သစ်ထူထောင်ကြသည်။ ထိုဒေသကိုလည်း တောင်အာဖရိက သမတနိုင်ငံနှင့် ဩရိန်းဖရီးစတိတ်ဟူ၍ ကိုလိုနီနိုင်ငံသစ်တည်ထောင်သည်။ တောင်အာဖရိက သမတနိုင်ငံဟုခေါ်သောဒေသသည်နောင်အခါ ထရန်စဗားပြည်နယ်ဟု တွင်လာသည်။

၁၈၈၄ ခုနှစ်တွင် တောင်အာဖရိက သမတ နိုင်ငံ၌ ရွှေတွင်းများတွေ့သည့်သတင်းကြောင့် နိုင်ငံခြားသားများ အများအပြားပင် ထိုဒေသထဲသို့ ဝင်ရောက်လာကြသည်။ ထိုနိုင်ငံခြားသားများမှာ အများအားဖြင့် ဗြိတိသျှ လူမျိုးများဖြစ်ကြသည်။ ဗိုးဝါးတို့ကလည်း သူတို့၏အုပ်ချုပ်ရေးတွင် ဗြိတိသျှတို့ ဝင်ရောက်ခြယ်လှယ်မည်ကို စိုးရိမ်ကြသည်။ ထို့ကြောင့် တောင်အာဖရိကသမတနိုင်ငံ၏ သမတပေါလ်ကရူးဂါးက နိုင်ငံခြားသားများအား ချုပ်ချယ် ကန့်သတ်သည့် ဥပဒေများကိုပြုလုပ်လေသည်။ ထိုအခါ နိုင်ငံခြားသားများကလည်း မခံမရပ်နိုင်ဖြစ်ကာ၊ အခွင့်အရေး ပိုပေးရန် ဆူပူတောင်းဆိုကြလေသည်။နိုင်ငံခြားသားတို့ဖက်မှ ဗြိတိသျှတို့က အားပေးလေသည်။

ယင်းသို့ဖြင့် ထိုအရေးမှာ ဗိုးဝါးတို့နှင့် နိုင်ငံခြားသားတို့ အင်အားပြိုင်ကြသည့် အခြေမှ၊ ဗိုးဝါးနှင့် ဗြိတိသျှတို့ အင်အားပြိုင်သည့် အခြေသို့ ဆိုက်ရောက်သွားလေသည်။ ၁၈၉၆ ခုနှစ်တွင် လက်နက်စွဲကိုင် တိုက်ခိုက်ကြသည့် အခြေသို့ ရောက်လာသည်။အင်္ဂလိပ်လူမျိုး ဂျိမ်းဆန်ဆိုသူက လက်နက်ကိုင် တိုက်ခိုက်ရေးကို ဦးဆောင်ခဲ့ရာ၊ ယင်းထကြွမှုကို ဂျိမ်းဆန်တိုက်ပွဲဟုခေါ်ကြ၏။ ထိုအရေးတွင် ဂျိမ်းဆန်တို့ဖက်က ရှုံးနိမ့်သွားလေသည်။ သို့ရာတွင် ဗြိတိသျှနှင့် ဗိုးဝါးတို့ အရေးသည် ပြီးငြိမ်းသွားခြင်း မရှိချေ။

နောက်ဆုံး၌ ၁၈၉၉ ခုနှစ် အောက်တိုဘာလ ၁၁ ရက်နေ့တွင် ဗြိတိသျှနှင့် ဗိုးဝါးတို့ စစ်စတင်တိုက်ခိုက်ကြသည်။ ဩရိန်းဖရီးစတိတ်ပြည်နယ်သည် ဗိုးဝါးတို့နှင့်ပူးပေါင်းကာဗြိတိသျှအား တိုက်ခိုက်လေသည်။ ထိုစစ်ပွဲတွင် ကြီးကျယ်သော တိုက်ပွဲကြီးများ မရှိလှချေ။ ချောင်းမြောင်းတိုက်ခိုက်ခြင်း၊ ထောင်ဖမ်း၍တိုက်ခြင်း၊ မြို့ကြီးများကို ဝိုင်းရံပိတ်ဆို့ခြင်းများသာ များလေသည်။စစ်ပွဲ၏အစတွင် ဗိုးဝါးတို့ကအရေးသာလေသည်။ ဗိုးဝါးတို့သည် အပစ်အခတ် ကျွမ်းကျင်ပြီးလျှင် ထိုဒေသတို့၏အကြောင်းရင်းကို ကောင်းစွာ သိသူများဖြစ်ကြ၏။ ဗိုးဝါးတို့ဖက်မှ ဒီဗစ်၊ လူဝီဗိုတာ၊ ဒလာရေးစသည့် ဗိုလ်ချုပ်ကြီးများက အုပ်ချုပ်တိုက်ခိုက်၏။ ဗြိတိသျှတို့သည် ၁၉၀၀ ပြည့်နှစ် ဇန္နဝါရီလတိုင်အောင် ဗိုးဝါးတို့ဖိနှိပ်တိုက်ခိုက်ခြင်းကိုသာ ခံနေရလေသည်။

၁၉၀၀ ပြည့်နှစ် ဇန္နဝါရီလတွင် လော့ရောဗတ်နှင့် လော့ကစ်ချနာတို့ ဦးစီးသည့် အင်အားကြီးမားသော ဗြိတိသျှ တပ်သစ်များရောက်လာလေသည်။ (ကစ်ချနာ၊ အိပ်၊ အိပ် — ရှု။) ထိုနှစ် ဖေဖွာရီလ ၂၇ ရက်နေ့တွင် ဗိုးဝါး စစ်ဗိုလ်ချုပ်ကြီး ကရွန်ယီနှင့် တပ်သား ၄ ထောင်ခန့်သည် ပါးဒီဗတ်၌ လက်နက်ချကြရလေသည်။ ထိုနှစ် မတ်လ ၁၃ ရက်နေ့တွင် ဩရိန်း ဖရီးစတိတ်ပြည်နယ်၏ မြို့တော် ဗလွမ်းဖွန်တိန်းမြို့ကို လော့ရောဗတ်က ချီတက်သိမ်းပိုက်ကာ ယင်းပြည်နယ်ကို ဗြိတိသျှပိုင်အဖြစ် ကြေညာနိုင်ခဲ့သည်။

လော့ရောဗတ်ခေါင်းဆောင်သော ဗြိတိသျှစစ်တပ်များသည် မြောက်ဖက်သို့ချီတက်ကာ ဂျိုဟန္နက်စဗတ်မြို့ကို သိမ်းပိုက်သည်။ထို့နောက် ဇွန်လ ၅ ရက်နေ့တွင် တောင်အာဖရိက သမတနိုင်ငံ၏မြို့တော် ပရီတိုးရီးယားမြို့ကို သိမ်းပိုက်ပြန်လေသည်။ ထိုနှစ်စက်တင်ဘာလတွင် ဗိုးဝါးဗိုလ်ချုပ် ဗိုတာနှင့် လက်အောက်ခံတပ်များကို လော့ရောဗတ်က လက်နက်ချစေ၍၊ တောင်အာဖရိက သမတနိုင်ငံကို ထရန်စဗားပြည်နယ်ဟုအမည်ပြောင်းကာ ဗြိတိသျှပိုင်အဖြစ်ကြေညာသည်။

ကျန်ဗိုးဝါးတပ်များသည်တောခိုသွားကာ ပြောက်ကျားစနစ်ဖြင့် တိုက်ခိုက်သေးသည်။ ထိုအချိန်တွင် လော့ရောဗတ်သည် အင်္ဂလန်သို့ပြန်သွား၍လော့ကစ်ချနာက ဗြိတိသျှတပ်များကို ဦးစီးတိုက်ခိုက်လျက်ရှိသည်။ လော့ကစ်ချနာသည် ဗိုးဝါးတို့၏ ပြောက်ကျားစစ်ဆင်မှုကို အစွမ်းကုန် နှိမ်နင်းလိုက်ရာ ၁၉၀၂ ခုနှစ် မေလ ၃၁ ရက်နေ့တွင် ဗိုးဝါးစစ်ပွဲသည် အဆုံးသတ် အပြီးတိုင်ရောက်ခဲ့လေသည်။

ဗိုးဝါးတို့သည်တပ်သားအင်အား ၈၅,၀၀၀ မျှနှင့် ဗြိတိသျှတို့၏ ၂၀၀,၀၀၀ ကျော်ရှိသော တပ်ကို ၃ နှစ်မျှ ကြံ့ကြံ့ခံ၍ တိုက်ခိုက်ခဲ့သည်။ ပရီတိုးရီးယားမြို့၌ ၁၉၀၂ ခုနှစ် မေလ ၃၁ ရက်နေ့တွင် ချုပ်ဆိုသော ဗာရေးနစ်ဂင်းစာချုပ်အရ၊ ထရန်စဗားနှင့် ဩရိန်းဖရီးစတိတ်တို့သည် ဗြိတိသျှ ကိုလိုနီများ

ဖြစ်လာကြသည်။ ဗိုးဝါးတို့လည်း ဗြိတိသျှအစိုးရ သစ္စာခံ များအဖြစ် ခံယူကြသည်။ သို့သော် ၁၉၀၆ ခုနှစ်တွင် အင်္ဂလန်ပြည်၌ လစ်ဗရယ်ပါတီ ကြီးစိုးလာသော အခါ၊ ထိုပြည်နယ် ၂ နယ်ကို တာဝန်ခံအုပ်ချုပ်ရေးပေးအပ်သည်။ ပြည်နယ်များတွင် ဗိုးဝါးစစ်ကြောင့် ပျက်စီးရသည့်အတွက် ဒေါ်လာ ၁၅,၀၀၀,၀၀၀ လျော်ကြေးအဖြစ် ဗြိတိသျှတို့က ပေးလေသည်။ ကျောင်းများ၌လည်း ဒပ်ချဘာသာကို သင်ခွင့်ပြုသည်။ ယင်းသို့ ဗြိတိသျှအစိုးရ၏ သက်ညှာမှုများကြောင့် ဗိုးဝါးနှင့် ဗြိတိသျှ ဆက်ဆံရေးသည် အထူးပင်ကောင်းမွန်လာသည်။ ၁၉၁၀ ခုနှစ်တွင် ထိုပြည်နယ် ၂ နယ်သည် တောင်အာဖရိကပြည်ထောင်စု နိုင်ငံအတွင်း၌ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရပြည်နယ်များဖြစ်လာလေသည်။ (တောင်အာဖရိက ပြည်ထောင်စု — ရှု။)

**ဗက်စကို ဒါ ဂါးမ**(ခရစ် ၁၄၆၀ ခန့် – ၁၅၂၄)။ ။နယ်မြေသစ် စူးစမ်းရှာဖွေခဲ့သူများအနက် ပေါ်တူဂီလူမျိုး ဗက်စကို ဒါဂါးမသည် ကမ္ဘာတွင် အကျော်ကြားဆုံး ပုဂ္ဂိုလ်တဦးဖြစ်ပေသည်။ နယ်မြေသစ် ရှာဖွေမှုသည် စွန့်စွန့်စားစား ပြုရသလောက် အလွန် အကျိုးကျေးဇူးများလှသဖြင့် ရှေးခေတ်များမှအစပြု၍ ဥရောပတွင် ခေတ်စားခဲ့သည်။ တနိုင်ငံနှင့် တနိုင်ငံ အပြိုင် နယ်သစ်များရှာကြပြီးလျှင်၊ သက်ဆိုင်ရာမိမိတို့နိုင်ငံ၏ပိုင်နက်နှင့် တန်ခိုးအာဏာကို နယ်ချဲ့ခဲ့ကြသည်။ တခါက တန်ခိုးကြီး နိုင်ငံများဖြစ်ကြသော စပိန်နှင့် ပေါ်တူဂယ် နိုင်ငံတို့သည်လည်း ချမ်းသာကြွယ်ဝသော အရှေ့တိုင်း၊ အထူးသဖြင့် အိန္ဒိယနိုင်ငံသို့ ပိုင်နက်ချဲ့ လိုကြသည်။ ထို့ကြောင့် ယင်းဒေသများသို့အမြန်ဆုံးပေါက်ရောက်သော ပင်လယ်ခရီးလမ်းကို အပြိုင်အဆိုင်ကြိုးစားရှာဖွေခဲ့ကြသည်။



နယ်မြေသစ် ရှာဖွေမှု၌ အကျော်ဆုံး ပုဂ္ဂိုလ်ဖြစ်သည့် ဗက်စကိုဒါဂါးမ

ပေါ်တူဂီတို့သည် နှစ်ပေါင်း ၆၀ ခန့်မျှ အာဖရိကတိုက်အနောက်ဖက်ကမ်းခြေတလျှောက် တောင်ဖက်သို့ ခရီးလမ်းကို တဖြည်းဖြည်း စမ်း၍ သင်္ဘောလွှင့် ကြည့်ခဲ့ကြရာ၊ ၁၄၈၈ ခုနှစ်တွင် ဗာတူးလူးမေယုဒီးအတ်ဆိုသူသည် အာဖရိကတိုက်တောင်ဖက်စွန်းကို ပတ်မိပြီးလျှင် အရှေ့ဖက်ကမ်းခြေ တလျှောက် အတော်ပင် ခရီးပေါက်ခဲ့သည်။ (ဒီးအတ်, ဗာတူးလူးမေယု — ရှု။) ထို့နောက် ၁၀ နှစ်နီးပါးမျှ ပေါ်တူဂီတို့၏ ရှေ့ဆက်လက် ကြိုးပမ်းမှုသည် ခရီးမရောက်ဘဲ ရှိနေခဲ့လေသည်။ ထိုအတောအတွင်း စပိန်နိုင်ငံက ၁၄၉၂ ခုနှစ်တွင် အရှေ့တိုင်းသို့ သွားသော ပင်လယ်ခရီးကိုရှာရန် ကိုလံဗပ်ကို လွှတ်လိုက်ရာ၊ အမေရိကတိုက်သို့ သွားရာခရီးလမ်းစ ရခဲ့လေသည်။ (ကိုလံဗပ်,စီ — ရှု။) ထိုအခါ ပေါ်တူဂီတို့သည် အားကျမခံ၊ အာဖရိကတိုက်ကို ပတ်၍ အရှေ့သွားခရီးလမ်းကို ဆက်လက် ရှာဖွေရန် အကြံအစည် ပြုကြလေသည်။

ယင်းသည့်အချိန် မတိုင်မီက ဗက်စကိုဒါဂါးမသည် ထင်ထင်ရှားရှား မရှိခဲ့ သေးချေ။ သို့သော် မှူးမတ် မျိုးရိုးမှ ဆင်းသက်လာသူတဦးဖြစ်၍ ကက်စတီးနိုင်ငံနှင့် ပေါ်တူဂယ်နိုင်ငံတို့ စစ်ပြိုင်ရာတွင် ပါဝင်ဆင်နွှဲခဲ့ဘူးကြောင်း မျှသာ သိကြသည်။ ပင်လယ်ဆိပ်ကမ်းမြို့ကလေးဖြစ်သော ဆီးနေး၌ မွေးဖွားခဲ့သူ ဗက်စကိုဒါဂါးမသည် ပင်လယ်ခရီးကျွမ်းကျင်သူဖြစ်၍ ပင်လယ်များ၌ သွားလာရန် နှစ်သက်ပြီးလျှင်၊ မကြောက်မရွံ့သွားလာဝံ့သူ ဖြစ်လေသည်။ ထို့ကြောင့် ၁၄၉၇ ခုနှစ်တွင် ပေါ်တူဂီဘုရင် ပဉ္စမအီမန်နျူအယ်သည် ဗက်စကိုဒါဂါးမအား သင်္ဘော ၄ စင်းကို ကွပ်ကဲအုပ်ချုပ်စေပြီးသော် အရှေ့တိုင်းသွား ပင်လယ်ခရီးလမ်း ရှာဖွေစေရန် ခန့်အပ်သည်။ ဗက်စကိုဒါဂါးမသည် ထိုနှစ် ဇူလိုင်လတွင် လစ္စဗွန်းမြို့မှ စတင်၍ ခရီးထွက်ခဲ့လေသည်။

၄ လအတွင်း၌ ဗက်စကိုဒါဂါးမတို့သည် ဂွတ်ဟုပ် အငူကို ကောင်းမွန်စွာ ပတ်မိကြသည်။ ထိုအငူကို ကျော်လွန်၍ ခရီးဆက်မည်ပြုသောအခါ သင်္ဘောသားတို့သည် မလိုက်လိုကြတော့ဘဲ တော်လှန်ပုန်ကန် ကြတော့သည်။ ထို့ပြင် လေပြင်းမုန်တိုင်းများနှင့်လည်း အခါခါ ကြုံခဲ့ရသည်။ ဗက်စကိုဒါဂါးမသည် သင်္ဘောသားများ၏ ပုန်ကန်မှုနှင့် လေပြင်း မုန်တိုင်း စသည့် အခက်အခဲတို့မှ လွတ်မြောက် ကျော်နင်းနိုင်အောင် အမျိုးမျိုး ကြိုးပမ်းခဲ့ရလေသည်။

ယင်းသို့သော အခက်အခဲများကို ကျော်နင်း ဖြေရှင်း ယင်းပင် အာဖရိကတိုက် အရှေ့ဖက်ကမ်းရိုးတန်းရှိ မလင်ဒီ ဆိပ်ကမ်းမြို့တွင် အိန္ဒိယနိုင်ငံသား ကုန်သည်များနှင့် တွေ့ လေသည်။ ယင်းတို့အထဲမှ အိန္ဒိယရေကြောင်းပြ တဦး၏ အကူအညီဖြင့် အိန္ဒိယသမုဒ္ဒရာကို ဖြတ်ကျော်ကာ၊ လစ္စဗွန်းမြို့မှ ထွက်ခဲ့ပြီးနောက် ၁၀ လအကြာ ၁၄၉၈ ခုနှစ် မေလ အတွင်း၌ အိန္ဒိယအနောက်ဖက် ကမ်းခြေရှိ ကာလိကတ်မြို့သို့ ရောက်ခဲ့လေသည်။ယင်းသို့ဖြင့် ဗက်စကိုဒါဂါးမသည် ဥရောပမှ အိန္ဒိယသို့ ပင်လယ်ခရီးကို စတင်တွေ့ရှိခဲ့ လေသည်။

ကာလိကတ်မြို့တွင်း၌ ထိုအချိန်က မူးဝါးလူမျိုး ကုန်သည်များလည်း ရှိနေသည်။ မူးဝါးတို့က ပေါ်တူဂီတို့ရောက်လာခြင်းကို မလိုကြချေ။ ထို့ကြောင့် မြို့ အုပ်ချုပ်သူအား ပေါ်တူဂီတို့ကို ကောင်းစွာ လက်ခံ မပြုစုလေအောင် ပြုကြသည်။ ထို့ကြောင့် ဗက်စကိုဒါဂါးမသည် မြို့၏အခြေအနေကို လေ့လာစုံစမ်းပြီးနောက် ပေါ်တူဂယ်သို့ ပြန်ခဲ့သည်။ မူလ ပေါ်တူဂယ်နိုင်ငံမှ ထွက်ခွာခဲ့စဉ်က သင်္ဘောသား ၁၇၀ ပါရှိခဲ့ရာ လမ်းခရီးတွင် ဖျားနာသေဆုံးကြသဖြင့် ၅၅ ယောက်မျှသာ ပေါ်တူဂယ်နိုင်ငံသို့ ပြန်ရောက်နိုင်ကြလေသည်။

ပေါ်တူဂယ်နိုင်ငံသို့ ပြန်ရောက်သောအခါ၊ ဘုရင်မင်းမြတ်က ဗက်စကိုဒါဂါးမနှင့် သင်္ဘောသားများကို ဆုတော်လပ်တော်များချီးမြှင့်သည်။ ဗက်စကိုဒါဂါးမအား အင်္ဂလိပ် “ဆာ” ဘွဲ့နှင့်ညီမျှသော ‘ဒွမ်’ဘွဲ့ပေးအပ်သည်။ ပေါ်တူဂယ်နှင့် အိန္ဒိယနိုင်ငံတို့ ကုန်သွယ်လမ်း ပွင့်လေသည်။ ဗက်စကိုဒါဂါးမသည် အိန္ဒိယနိုင်ငံနှင့် ကုန်သွယ်ရန် အခွင့်အရေးများလည်း ရရှိခဲ့ရာ၊ အလွန်ချမ်းသာ ကြွယ်ဝလာလေသည်။

နောက် ၃ နှစ်ခန့်အကြာ ၁၅၀၂ ခုနှစ်တွင် ဗက်စကိုဒါဂါးမသည် ရေတပ် တတပ်ကို အုပ်ချုပ်၍ အိန္ဒိယနိုင်ငံသို့ သွားရောက်ခဲ့ရပြန်သည်။ အကြောင်းမူ ကာလိကတ်မြို့တွင်ပေါ်တူဂီကုန်သည်များနှင့် အိန္ဒိယတိုင်းသားတို့ ပဋိပက္ခဖြစ်ပွားသောကြောင့်တည်း။ ဗက်စကိုဒါဂါးမသည် ကာလိကတ်မြို့သားတို့အား ပြင်းပြင်းထန်ထန် နှိမ်နင်းခဲ့ရာ၊ ဗက်စကိုဒါဂါးမ၏အမည်တွင်အမည်းစက်ထင်ခဲ့သည်။ထို့နောက်ကိုချင်မြို့သို့ သွားရောက်၍ ကုန်သွယ်မှုများ ပြုလုပ်ရာ ရွှေငွေ ပစ္စည်း တောင်ပုံရာပုံ ရရှိခဲ့သည်။ မိုဇမ်ဗစ်နှင့် ဆိုဖာလာနယ်တို့တွင် ပေါ်တူဂီပြည်နယ်များ တည်ထောင်ခဲ့သည်။ ထို့နောက် ထိုနှစ်တွင်ပင် လစ္စဗွန်းသို့ ပြန်ခဲ့လေသည်။

ဗက်စကိုဒါဂါးမသည် အရှေ့တိုင်းတွင် ပေါ်တူဂီတို့ ခြေကုပ်ရရန် စတင် လမ်းခင်းပေးခဲ့သော်လည်း၊ ၁၅၂၄ ခုနှစ်တွင်မှ အိန္ဒိယနိုင်ငံရှိပေါ်တူဂီပိုင်နယ်များ၏ ဘုရင်ခံချုပ် အဖြစ် ခန့်အပ်ခံရ၍ အိန္ဒိယသို့ လာခဲ့ပြန်သည်။ အိန္ဒိယသို့ ရောက်၍ ရာထူးလက်ခံပြီးနောက်တွင် အိန္ဒိယရှိ ပေါ်တူဂီ အစိုးရ၏ အုပ်ချုပ်ရေး ကမောက်ကမ ဖြစ်နေသည်များကို ပြုပြင်ရန် ကြိုးပမ်းနေစဉ်၊ ကိုချင်မြို့၌ ထိုနှစ် ဒီဇင်ဘာလ ၂၄ ရက်နေ့ တွင် ကွယ်လွန်သွားလေသည်။

**ဗက်စပွတ်ချီ, အမေရိဂို** (ခရစ် ၁၄၅၁–၁၅၁၂)။ ။ ကမ္ဘာသစ် (အမေရိကတိုက်) ကို အဦးဆုံးတွေ့ရှိသူအဖြစ် ပြောစမှတ် ပြုခြင်းခံရသူ အမေရိဂိုဗက်စပွတ်ချီအား အစွဲပြု၍ အမေရိကတိုက်ဟု မှည့်ခေါ် ကြသည်။

ဗက်စပွတ်ချီသည် ဣတလီနိုင်ငံသား ကုန်သည်တဦး ဖြစ်၍၊ ၁၄၅၁ ခုနှစ် မတ်လ ၉ ရက်နေ့တွင် ဖလောရင့်မြို့၌ ဖွားမြင်သည်။ ငယ်စဉ်က ဦးလေးတော်သူ ဒိုမင်နီကန်ဂိုဏ်းဝင် ဘုန်းကြီးတပါးက စာပေသင်ကြား ပေးခဲ့ရာ၊နက္ခတ္တဗေဒနှင့် သင်္ချာပညာရပ်များကို အထူးပင် လေ့လာ တတ်မြောက်ခဲ့ပေသည်။ ဖလောရင့်မြို့တွင် အတန်ကြာမျှ ကုန်သည်အလုပ်နှင့် နေထိုင်ခဲ့၏။ ၁၄၉၂ ခုနှစ်တွင် စပိန်နိုင်ငံ ဆဲဗီးမြို့သို့ရှင်း၊ ထိုနောက် ကေးဒစ်မြို့သို့ရှင်း သွားရောက်နေထိုင်၍ ကုန်သွယ်မှုလုပ်ငန်းဖြင့် အသက်မွေးလေသည်။ ၁၄၉၅ ခုနှစ်တွင် ပင်လယ်တွင်းခရီးရှည်ထွက်ရန်အတွက် သင်္ဘောများ တည်ဆောက်ပေးသော အလုပ်ရုံတခုနှင့် ဆက်သွယ်မိခဲ့၏။ ထိုအခါမှစ၍ ဗက်စပွတ်ချီအတွက် စွန့်စားခရီးထွက်ရန် လမ်းစပေါ်ခဲ့သည်။

ခရစ္စတိုဖာကိုလံဗပ်သည် ၁၄၉၂ ခု နှစ်တွင် တကြိမ်၊



အမေရိကန်နိုင်ငံကို စတင်တွေ့ရှိခဲ့သူ အမေရိဂိုဗက်စပွတ်ချီ

၁၄၉၃ ခု နှစ်တွင်တကြိမ် ၂ ကြိမ်တိုင်တိုင် အနောက်ဖက်သို့ သင်္ဘောလွှင့်စဉ်က ဗက်စပွတ်ချီသည် စပိန်၌ ရှိလေသည်။ (ကိုလံဗပ်, စီ — ရှု။) ထို ၂ ခေါက်တွင် ကိုလံဗပ်သည် အမေရိကတိုက် ကုန်းမကြီးသို့ မရောက်ဘဲ ယခုအနောက် အိန္ဒိယ ကျွန်းစုဟုတွင်လျက်ရှိသော ကျွန်းစုများသို့သာရောက်ခဲ့သည်။ ၁၅၀၄ ခုနှစ်၌ ထုတ်ဝေသော စာတမ်းတခု၌ ဗက်စပွတ်ချီသည် အနောက်သို့သင်္ဘောဖြင့် ၁၄၉၇ ခုနှစ်၊ ၁၄၉၉ ခုနှစ်၊ ၁၅၀၁ ခုနှစ်နှင့် ၁၅၀၃ ခုနှစ်များတွင် ၄ ကြိမ်တိုင်တိုင် သွားရောက်ခဲ့ကြောင်း၊ ပဌမ အခေါက် ၁၄၉၇ ခုနှစ် ဇွန်လ ၁၆ ရက်နေ့တွင် တောင်အမေရိက အနောက်မြောက် ကမ်းခြေသို့ ရောက်ရှိခဲ့ကြောင်း ရေးသားဖော်ပြ ထားလေသည်။ ၁၄၉၇ ခုနှစ်တွင် အကယ်ပင်ခရီးထွက်ခဲ့သည် မထွက်ခဲ့သည်ကို အသေအချာမသိရသော်လည်း၊ ၁၄၉၉ ခုနှစ်တွင် တောင်အမေရိကတိုက်သို့ ခရီးထွက်ခဲ့ကြောင်းကား အသေအချာ သိရသည်။ ထို့ပြင် ဗက်စပွတ်ချီသည် အမေရိကတိုက် (ဝါ) ကမ္ဘာသစ်ကို တွေ့ရှိခဲ့ကြောင်း ပြောဆိုခဲ့သည်ကိုလည်း ကိုလံဗပ်ကငြင်းဆိုခြင်းမပြုခဲ့ချေ။ ထို့ကြောင့် ၁၅၀၇ ခုနှစ်တွင် ထုတ်ဝေခဲ့သော ပထဝီ စာအုပ်တအုပ်၌ ဂျာမန်ပါမောက္ခတဦးက ကမ္ဘာသစ်ကိုအမေရိဂိုတွေ့ရှိသဖြင့် အမေရိကတိုက်ဟု ခေါ်သင့်ကြောင်း အကြံပေးခဲ့လေသည်။ သို့သော် များစွာ အငြင်းပွားခဲ့ကြပြီးနောက်၊ ပဌမတွင် သူအကယ်တွေ့ရှိခဲ့သောတောင်အမေရိကတိုက်မက္ကဆီကို ပင်လယ်ကွေ့ နေရာရှိ ကုန်းပြင်ကိုသာ သူ့အမည်ဖြင့်ခေါ်ခဲ့သော်လည်း၊ နောက်မကြာမီ တောင်အမေရိကတတိုက်လုံးနှင့်မြောက် အမေရိကတိုက်ကိုပါ သူ၏အမည်ဖြင့် ခေါ်ဝေါ်ခဲ့ကြလေသည်။

ဗက်စပွတ်ချီသည် ပဌမနှင့် ဒုတိယအကြိမ်များတွင် စပိန်နိုင်ငံအတွက်ခရီးထွက်ခဲ့၍၊ နောက် ၂ ကြိမ်တွင်မူ ပေါ်တူဂယ်နိုင်ငံအတွက် ခရီးထွက်ခဲ့သည်ဟုဆိုသည်။ ထိုသို့ခရီးထွက်ရာတွင် ဗက်စပွတ်ချီသည် ခေါင်းဆောင်အဖြစ်နှင့် မဟုတ်ဘဲ၊ နက္ခတ်ဆရာ (ဝါ) ရေကြောင်းပြ အဖြစ်လိုက်ပါခဲ့ရသည်ဟုလည်း ဆိုလေသည်။ ၁၅၁၂ ခုနှစ် ဖေဖွာရီလ ၂၂ ရက်နေ့တွင် ဆဲဗီးမြို့၌ ကွယ်လွန်သည်အထိ၊ ဗက်စပွတ်ချီသည် စပိန်နိုင်ငံ၏ ရေကြောင်းပြ အရာရှိချုပ်အဖြစ် အမှုထမ်းကာ၊ ကမ္ဘာသစ်၏ မြေပုံများ ရေးဆွဲခြင်းဖြင့် အချိန်ကုန်လွန်ခဲ့သည်။

**ဗက်ဆီမာ, ဆာဟင်နရီ** (ခရစ် ၁၈၁၃–၁၈၉၈)။ ။ ဗက်ဆီမာနည်းဟု ထင်ရှားသော သံမဏိကျိုနည်းကို တီထွင်သူ ဆာဟင်နရီဗက်ဆီမာသည် အင်္ဂလိပ်လူမျိုး တီထွင်သူနှင့် သံမဏိလုပ်ငန်း ပိုင်ရှင်ဖြစ်သည်။ ဗက်ဆီမာကို ၁၈၁၃ ခုနှစ် ဇန်နဝါရီလ ၁၉ ရက်နေ့တွင် အင်္ဂလန်ပြည် ဗက်ဖို့ရှိုင်ယာနယ် ချာလတန်မြို့၌ ဖွားမြင်သည်။ ဖခင်ဖြစ်သူမှာ ခဲစာလုံးသွန်းလုပ်ငန်း၊ ရွှေနန်းကြိုးဆွဲလုပ်ငန်းတို့ကို ချာလတန်မြို့၌ တည်ထောင် လုပ်ကိုင်နေသူ နာမည်ကြီးအင်ဂျင်နီယာ အန်တိုနီ ဗက်ဆီမာ ဖြစ်လေသည်။


သံမဏိကျိုနည်းသစ်ကို တီထွင်ခဲ့သူ ဆာဟင်နရီဗက်ဆီမာ

ဟင်နရီဗက်ဆီမာသည် ငယ်စဉ်မှစ၍ ဖခင်ဖြစ်သူ၏ ခဲစာလုံးသွန်းစက်တွင် စက်မှုလုပ်ငန်းကို လေ့လာ သင်ကြားပြီးနောက်၊ အသက် ၁၇ နှစ်အရွယ်တွင် လန်ဒန်မြို့သို့ ပြောင်းရွှေ့နေထိုင်ကာ၊ ပုံဆွဲသူအဖြစ် အသက်မွေးသည်။ ထိုအတွင်း အမျိုးမျိုး စမ်းသပ်၍ တီထွင်မှုများကို လုပ်ကိုင်သည်။ ဗက်ဆီမာ၏တသက်တာတွင် တီထွင်မှုတို့သည် များပြားလှသောကြောင့် သူ့အား အထွင်ပါရဂူဟုပင် ခေါ်ဆိုထိုက်သည်။ စာချုပ်တံဆိပ်ခေါင်းရိုက်နှိပ်ရာ၌ ရိုက်ရာကို ဖျက်၍ပြန်လည် အသုံးပြုတတ်ကြသဖြင့် နိုင်ငံတော်အစိုးရ အခွန်တော်လစ်ဟင်းဆုံးရှုံး ရသည်ဟု ယူဆကာ၊ ဖျက်မရသည့် ဆေးခိုင်တံဆိပ်ခေါင်းရိုက်နှိပ်နည်းကိုထွင်ခဲ့၏။ ထို့ပြင် ခဲတံခဲလုပ်ငန်း၊ ရွှေမင်ဆေးလုပ်ငန်း၊ ခဲစာလုံး သွန်းနည်းသစ်စသည်တို့သည်လည်းဗက်ဆီမာ၏ တီထွင်မှုများ ဖြစ်သည်။

ဗက်ဆီမာ၏ အထင်ရှားအကြီးကျယ်ဆုံး တီထွင်မှုမှာ ဗက်ဆီမာနည်းဟု တွင်သော သံမဏိကျိုနည်းပင် ဖြစ်သည်။ ကရိုင်းမီးယားစစ်ပွဲဖြစ်ပွားစဉ်က အသုံးပြုသော အမြောက်ကြီးများ၏ သံမဏိများပျော့ပုံကို အားမရသော ဗက်ဆီမာသည် ပိုမိုကောင်းမွန်သော သေနတ်အမြောက်များ တီထွင်ပြုလုပ်ရန် စမ်းသပ်လိုသည်။ သို့ရာတွင် ဗြိတိသျှ အာဏာ

ပိုင်တို့က အားမပေးသဖြင့် ပြင်သစ်ဘုရင် တတိယနပိုလီယန်၏ဖိတ်ခေါ် ချက်ကိုလက်ခံကာ ပြင်သစ်နိုင်ငံတွင်သွားရောက် စမ်းသပ်လုပ်ကိုင်သည်။ ဗက်ဆီမာ၏ စမ်းသပ်ချက် အောင်မြင်၍ ယခုတိုင်ဗက်ဆီမာနည်းမှာကျော်ကြားလျက်ရှိသည်။ ဗက်ဆီမာသည် သံစိမ်းမှ သံမဏိ မည်သို့ ကျိချက်ရရှိနိုင်သည်ကို ပြသခဲ့သည်။ သံမဏိချက် စက်ရုံကြီးတခုသို့ သွားရောက်လည်ပတ်ခဲ့လျှင် စက်ရုံထဲ၌ စဥ့်အိုးသဏ္ဍာန် ရှိသော သံမဏိအိုးကြီးတခု၏ထိပ်ဝမှ မီးရှူးမီးပွားတို့ တရှူးရှူးပန်းထွက်နေသည်ကို တွေ့ရပေလိမ့်မည်။ အောက်ဖက်၌ အပေါက်များ ပါရှိသော ကွန်ဗာတာခေါ် စဥ့်အိုးသဏ္ဍာန် သံမဏိအိုးကြီးတွင် အရည်ပျော်ပြီး သံစိမ်းများ ထည့်ကာ အောက်ဖက်မှ ပြင်းထန်သော လေကိုမှုတ်ပေးခြင်းဖြင့် သံစိမ်းမှ ကာဗွန်ဓာတ်ကို ထုတ်ဖယ်ပစ်ခြင်းဖြစ်သည်။ လေလုံးရိုက်သည့်အရှိန်ကြောင့် ကွန်ဗာတာထဲရှိ သံ၏အပူရှိန်သည် အလွန်မြင့်တက်လာ၍ ကာဗွန်ဓာတ်သည် လောင်ကျွမ်းလွင့်ပါးသွားခြင်းဖြင့် မိနစ် ၂၀ အတွင်း သံစိမ်းမှသံမဏိဖြစ်လာနိုင်သည်။ သံမဏိတွင် အစေးသတ္တိဖြစ်ပေါ်လာစေရန် သံနှင့် မန်ဂနိစ်ရောစပ်ထားသော စပီဂယ်လိုင်ဇင်ခေါ် သတ္တုရောကို သံစိမ်းအရေကျိုထဲသို့ ပေါင်းထည့်ပေးရသည်။ ယခုအခါ ဗက်ဆီမာနည်းကို အခြေခံ၍ ပိုမိုကောင်းမွန်သောနည်းများ တီထွင်ပြီးဖြစ်သော်လည်း ကမ္ဘာ့သိပ္ပံလောကတွင်စထွင်ခဲ့သူ ဗက်ဆီမာ၏ကျေးဇူးကား ကြီးပါဘိသည်။ ဗက်ဆီမာသည် အင်္ဂလန်ပြည်ရှက်ဖီးမြို့တွင် သူ၏စမ်းသပ်မှုများကို ပြုလုပ်ရာ အကြိမ်ကြိမ် မအောင်မြင်ခဲ့သော်လည်း အားမလျော့ဘဲ ဇွဲလုံ့လဖြင့် ကြိုးစားခြင်းကြောင့် ၁၈၆၅ ခုနှစ်တွင် သံမဏိလုပ်နည်းကို ရရှိခဲ့လေသည်။ အင်္ဂလန်ပြည် ရှက်ဖီးမြို့၌ ဗက်ဆီမာသံမဏိလုပ်ငန်းတည်ထောင်၍ လုပေါင်းများစွာကို အလုပ်ပေးနိုင်ရုံမက တကမ္ဘာလုံးကိုပါ ပညာ ဖြန့်နိုင်ခဲ့သည်။

၁၈၅၉ ခုနှစ်တွင် ဗက်ဆီမာသည် မြို့ပြ အင်ဂျင်နီယာ အသင်း၏ တဲလဖို့တံဆိပ်ကိုရရှိ၍ ၁၈၇၂ ခုနှစ်တွင် အနုပညာ အသင်းမှ အဲလဗတ်ရွှေတံဆိပ်ကို ရရှိသည်။ ၁၈၇၁ ခုနှစ်မှ ၁၈၇၃ ခုနှစ်အတွင်း ဂရိတ်ဗြိတိန်နိုင်ငံ သံနှင့်သံမဏိလုပ်ငန်း ဥက္ကဋ္ဌဖြစ်၍ ၁၈၇၉ ခုနှစ်တွင် တော်ဝင်အသင်း၏ အမြဲတမ်း အသင်းဝင် ဖြစ်လာသည်။ ထိုနှစ်တွင်ပင် ဝိတိုရိယဘုရင်မက ဗက်ဆီမာအား ဆာဘွဲ့ဖြင့် သူကောင်းပြုသည်။

ဆာဟင်နရီဗက်ဆီမာသည် ၁၈၉၈ ခုနှစ် မတ်လ ၁၅ ရက်နေ့တွင် လန်ဒန်မြို့ ဒိန်းမတ်ဟီးရပ်ကွက်တွင် ကွယ်လွန်သည်။

**ဗက်တီကင် နန်းမြို့**။ ။ဗက်တီကင် နန်းမြို့သည် ခရစ်ယန် အယူဝါဒရေးဆိုင်ရာမြို့ဖြစ်သည်။ ယင်းသည် သီးခြားလွတ်



ပုပ်ရဟန်းမင်း သီတင်းသုံးရာဖြစ်သော ဗက်တီကင်နန်းမြို့ရှိ ဗက်တီကင်နန်းတော်

လပ်သော အချုပ်အချာအာဏာပိုင် နိုင်ငံကလေးတခု သဖွယ် တည်ရှိနေသည်။

ဗက်တီကင်နန်းမြို့သည် ဣတလီနိုင်ငံရောမမြို့တော်၏ အနောက်မြောက်ပိုင်း၌ တိုင်းဗားမြစ်၏ အနောက်ဖက်ကမ်း၊ ဗက်တီကင်ကုန်းမြင့်ပေါ်တွင် တည်ရှိသည်။ အကျယ်အဝန်းအားဖြင့် ၁၀၈.၇ ဧက ရှိသည်။ ကမ္ဘာပေါ်တွင် အသေးငယ်ဆုံးသော နိုင်ငံများအနက် တနိုင်ငံ ဖြစ်လေသည်။

ခရစ် ၇၅၄-၅၆ ခုနှစ်များတွင် ဖရင့်ဘုရင် ပစ်ပင်သည် ခရစ်ယန်သာသနာပိုင် ပုပ်ရဟန်းမင်းကြီးအား ဣတလီနိုင်ငံတွင် မြေယာများပေးလှူ၍ သီးခြားအုပ်ချုပ်ရေး အာဏာများပေးခဲ့သည်။ မူလက ပုပ်ရဟန်းမင်းကြီးများသည် နေရာအတည်တကျ ဟူ၍ မရှိခဲ့သော်လည်း၊ ဧကဒဿမ ပုပ်ရဟန်းမင်းကြီး ဂရက်ဂရီလက်ထက်၊ ခရစ် ၁၃၇၇ ခုနှစ်မှစ၍ ယခုဗက်တီကင်နန်းမြို့တည်ရာ အရပ်တွင် စတင်အတည်တကျ နေထိုင်ခဲ့သည်။ ထိုခေတ်က သာသနာပိုင် ပုပ်ရဟန်းမင်းကြီးပိုင် နယ်မြေမှာ စတုရန်းမိုင် ၁,၆၀၀ ရှိ၍ လူဦးရေ ၃,၁၂၅,၀၀၀ ခန့်ပင် ရှိခဲ့သည်။ သို့ရာတွင် ခရစ်ယန်ဂိုဏ်းများ ကွဲသွားခြင်းနှင့် ဣတလီနိုင်ငံသွေးစည်းမှုအရေးတော်ပုံပေါ်ပေါက်ခြင်းတို့ကြောင့် ၁၈၇၀ ခုနှစ်တွင် ပုပ်ရဟန်းမင်းကြီးသည် ဗက်တီကင် ဥယျာဉ်၌ အကျယ်ချုပ်သဖွယ်မိမိအလိုအလျောက်နေထိုင်ခဲ့သည်မှစ၍ ပုပ်ရဟန်းမင်း၏နိုင်ငံရေး အာဏာ လျော့ကျရလေသည်။ ၁၉၂၉ ခုနှစ် ဖေဖွာရီလ ၁၁ ရက်နေ့တွင် လက်တာရမ်စာချုပ်ဖြင့် ဣတလီအာဏာရှင်မူဆိုလီနီက ပုပ်ရဟန်းမင်းကြီးအား ယခု ဗက်တီကင်နန်းမြို့နေရာကို လုံးဝအာဏာပိုင်အဖြစ် အုပ်ချုပ်ရန် လွှဲအပ်ရာမှ အစ ဗက်တီကင်နန်းမြို့ပေါက်ဖွားလာသည်။ လက်ရှိ ဗက်တီကင်နန်းမြို့တွင် စိန်ပီတာနန်းတော်၊ ဗက်တီကင်နန်းတော်ဥယျာဉ်များနှင့် ပြတိုက်၊ စာကြည့်တိုက်စသည့် အဆောက်အအုံ ၁၃ ခု ရှိလေသည်။

၁၉၅၁ ခုနှစ်ခန့်မှန်းခြေ သန်ကောင်စာရင်းအရ ဗက်တီကင်နန်းမြို့၏ လူဦးရေသည် ၇၉၀ ယောက်ဖြစ်သည်။ ယင်းတို့အနက် ၈၅ ရာခိုင်နှုန်းသည် ဣတာလျံလူမျိုးများ ဖြစ်၍ ၁၅ ရာခိုင်နှုန်းသည် ဆွစ်နှင့် အခြားလူမျိုးဖြစ်သည်။

ဗက်တီကင်နန်းမြို့၏ အချုပ်အချာအာဏာပိုင်သည် ဗရင်ဂျီဂိုဏ်းသာသနာပိုင်ပုပ်ရဟန်းမင်းကြီးဖြစ်သည်။ သို့ရာတွင် အုပ်ချုပ်ရေး ကိစ္စများကို လူပုဂ္ဂိုလ်ဘုရင်ခံတဦးအား တာဝန်လွှဲအပ် အုပ်ချုပ် စေသည်။ ပုပ်ရဟန်းမင်းကြီးအောက် တန်ခိုးအာဏာ အရှိဆုံးမှာ ကာဒင်နယ် ဂိုဏ်းချုပ်များဖြစ်သည်။ ထိုကာဒင်နယ် ဂိုဏ်းချုပ်များသည် ပုပ်ရဟန်းမင်းကြီး၏ အတိုင်ပင်ခံ ပုဂ္ဂိုလ်များဖြစ်သည်။ ၁၅၀၉ ခုနှစ်မှစ၍ ကာဒင်နယ် ကောလိပ်ခေါ် ကာဒင်နယ်ဂိုဏ်းချုပ်အဖွဲ့သည် ပုပ်ရဟန်းမင်းတပါး ပျံလွန်လျှင် အရိုက်အရာကို ဆက်ခံမည့် ပုဂ္ဂိုလ်အား မိမိတို့အထဲမှ မဲစံနစ်ဖြင့် ရွေးချယ် တင်မြှောက်ရသည်။ (ကာဒင်နယ်ဂိုဏ်းချုပ် — ရှု။)

ဗက်တီကင် နန်းမြို့တော်တွင် သီးခြား အုပ်ချုပ်သော မီးရထားဌာန၊ ကြေးနန်းနှင့်စာပို့လုပ်ငန်းဌာန၊ ငွေကြေးဌာန၊ အသံလွှင့် ဌာန၊ ပြည်သူ့လုပ်ငန်း ဌာန၊ ပုံနှိပ်ဌာနစသည်တို့ ရှိသည်။ ပုပ်ရဟန်းမင်းကြီး၌ နိုင်ငံခြားသို့ သံတမန်များစေလွှတ်ခြင်း၊ နိုင်ငံခြားမှ သံတမန်များလက်ခံနိုင်ခြင်း စသောအခွင့်အရေးနှင့် အာဏာရှိလေသည်။ ကိုယ်ပိုင်လေယာဉ်ကွင်းတခုဆောက်လုပ်ရန်ပင် အစီအစဉ် ရှိလေသည်။ နိုင်ငံတော်၏ ဘဏ္ဍာရေးအတွက်မှာ ကမ္ဘာ အရပ်ရပ်မှ ဗရင်ဂျီဂိုဏ်းဝင်များ လှူဒါန်းသော အလှူငွေနှင့် ဗက်တီကင်နန်းမြို့တွင်းမှ ကောက်ခံရရှိသော အခွန်တော်ပေါ်တွင် အမှီပြုလေသည်။ ထို့ပြင် ဣတလီအစိုးရက ယခင် သာသနာ့မြေများကို သိမ်းပိုက်ထားခဲ့သည့်အတွက် လျော်ကြေး သဘောဖြင့် ပေးသော ငွေလည်းရှိသည်။

ဗက်တီကင်နန်းမြို့သည် ကမ္ဘာပေါ်ရှိ ဗရင်ဂျီဂိုဏ်းဝင်တို့၏ အထွတ်အမြတ် ထားရာဌာနဖြစ်သည်။ ပဌမ ပုပ်ရဟန်းမင်းလည်းဖြစ်၍ သခင်ယေရှုနှင့် အရင်းနှီးဆုံး တမန်တော်ကြီးလည်းဖြစ်သော စိန်ပီတာ (ရှင်ပေတရု) သည် ရောမဘုရင်နီးရိုးလက်ထက် ခရစ် ၆၇ ခုနှစ်တွင် ဤအရပ်၌ ကားစင်တင်၍ အသတ်ခံရသည်ဟု ဗရင်ဂျီဂိုဏ်းဝင်များက ယုံကြည်ကြသဖြင့် နှစ်စဉ် ဗရင်ဂျီဂိုဏ်းဝင်များ အမြောက်အမြား လာရောက်ကြသည်။

ဗက်တီကင်နန်းမြို့သည် ကမ္ဘာ့ရှေးဟောင်း စာပေနှင့်အနုပညာလက်ရာများ စုဝေးရာဒေသ အဖြစ်ဖြင့်လည်း ကျော်ကြားသည်။ ရှေးဟောင်းပြတိုက်ကြီး ၅ ခု၊ ပန်းချီပြတိုက် ၂ ခုနှင့် စာကြည့်တိုက်ကြီးတခုတို့မှာ ကမ္ဘာကျော်များဖြစ်သည်။ ရှေးဟောင်း ပြတိုက်ကြီးများတွင် ရှေး ဂရိ၊ ရောမနှင့် အီဂျစ်လက်ရာရုပ်တုများ၊ နှစ်ထောင်ပေါင်းများစွာ မပုပ်မသိုးစေရန် ဆေးဖြင့် စီမံပြုလုပ်ထားသော မံမိရုပ်ကလာပ်များစသည်တို့ကို တွေ့နိုင်၍၊ပန်းချီပြတိုက်တွင်မူကမ္ဘာကျော် ပန်းချီပညာရှင်ကြီးများ ဖြစ်သော ဖိလစ်ပိုလစ်ပိ၊ လီယိုနာဒိုဒါဗင်ချီ၊ ရက်ဖီအယ်၊ တစ်ရှန်၊ မိုက်ကယ်အန်ဂျလို စသည်တို့၏ လက်ရာများနှင့် တကွ အခြားထင်ရှားသော ပန်းချီကျော်တို့၏ အယူဝါဒရေးရာပန်းချီကားများရှိသည်။ဗက်တီကင် စာကြည့်တိုက်ကြီးမှာမူ ကမ္ဘာပေါ်တွင် ရှားပါး၍ အဖိုးတန်လှသောရှေးဟောင်းစာပေများစုဝေးရာ ဌာနဖြစ်သည်။ ရှေးဂရိစာမူများ၊ ရောမစာမူများ၊ အရှေ့တိုင်း ဆိုင်ရာစာမူများ၊ ၄ ရာစုခေတ်လောက်ကပညာရှိကြီးဆီဆရိုရေးသားခဲ့သော "ဒီရီပတ်ဗလိကာ" ကျမ်း လက်ရေးစာမူကဲ့သို့သော ရှားပါးသည့် စာမူများ၊ ဘာသာရပ် အမျိုးမျိုးနှင့် ကျမ်းဂန်အမျိုးမျိုးရှိသည်။ စုစုပေါင်း စာအုပ်စာတမ်း ၃

သိန်း ၅ သောင်းခန့်ရှိ၍ လက်ရေးစာမူ ၅ သောင်းကျော် ရှိသည်။

ဗက်တီကင်နန်းမြို့၏ ထူးခြားချက်တရပ်ကား စစ်တပ်ပင်ဖြစ်သည်။ စစ်တပ်သည် မြို့ကိုကာကွယ်ရန် အဓိကထား၍ ဖွဲ့စည်းထားသည်မဟုတ်ဘဲ၊ ပုပ်ရဟန်းမင်းကြီး၏ ကိုယ်ရံတော်တပ်အဖြစ် အမှုထမ်းဆောင်ရန်နှင့် အယူဝါဒရေး အခမ်းအနားများတွင် လိုက်ပါဆင်နွှဲရန်သာ အဓိကဖြစ်သည်။ စစ်သားများမှာ နိုင်ငံခြားစစ်သားများ ဖြစ်သည်။ လွန်ခဲ့သောနှစ်ပေါင်း ၄၅၀ ခန့်က လူဇန်းနှင့် ဇူးရစ်နယ် ၂ နယ်နှင့် ပုပ်ရဟန်းကြီးတို့ချုပ်ဆိုခဲ့သောစာချုပ်အရ ထိုနယ် ၂ နယ်မှ စစ်သားများလာရောက်အမှုထမ်းရခြင်းဖြစ်သည်။စစ်ဝတ်တန်ဆာမှာ အလယ်ခေတ်ပန်းချီကျော် မိုက်ကယ်အန်ဂျလိုတီထွင်ခဲ့သော ပုံစံမျိုးကို ယခုတိုင် ဝတ်စားသုံးစွဲလျက်ပင်ရှိသည်။ စစ်တပ်တွင် စစ်သား ၁၀၀ ခန့်ရှိလေသည်။

**ဗက်တီးရီးယား။** ။ဗက်တီးရီးယားဆိုသည်မှာ သာမန်မျက်စိဖြင့် ကြည့်၍မမြင်နိုင်သော ဆဲတခုသာရှိသည့် အပင်ငယ်ကလေးများဖြစ်သည်။ မိုက္ကရိုစကုပ်ခေါ် မှန်ဘီလူးဖြင့် ကြည့်မှသာ မြင်နိုင်သည်။ ယင်းတို့သည် ရိုးရိုး ဆဲကလေးများဖြစ်၍ အပင်လောကတွင် အဆင့်အတန်းအနိမ့်ဆုံးနှင့် အရေအတွက် အများဆုံးဖြစ်သည်။ သို့ရာတွင် အခြား အပင်များမှာကဲ့သို့ ကလိုရိုဖီးခေါ် စိမ်းရောင်ဒြပ် မပါရှိချေ။ ဗက်တီးရီးယားတွင် ပရိုတိုပလာဇမ်ခေါ် သက်ဦးရုပ်ဖြင့် ပြီးသော ဆဲတခုစီ ရှိသည်။ အရွယ်အားဖြင့် ဗက်တီးရီးယား အဝိုင်းတခုသည် တလက်မ၏၂၅,၄၀၀ ပုံတပုံသာကြီးသည်။



လူကြီးလူငယ်မရွေး ဖြစ်ပွားလေ့ရှိသော ဒစ်ဖသီးရီးယား ဆုံဆို့နာ(ဝဲ) နှင့် အဆုတ်ရောင်နာ(ယာ)တို့၏ ဗက်တီးရီးယားများ။ (အဆပေါင်းများစွာ ပုံကြီးချဲ့ထားသည်)။

ယင်းကို အဆပေါင်း ၁,၀၀၀ အကြီးချဲ့၍ ကြည့်မှ ခဲတံထိပ်ဖျားခန့်ရှိသည်ကို တွေ့ရသည်။

ဗက်တီးရီးယားကို ပုံသဏ္ဌာန်အလိုက် ၄ မျိုး ခွဲထားသည်။ အဝိုင်း၊ သို့မဟုတ် အလုံးပုံရှိသည့် ဗက်တီးရီးယားကို ကော့ဆိုင်ဟုခေါ်၍၊ တုတ်ချောင်းပုံ ဗက်တီးရီးယားကို ဗက်ဆီလိုင်ဟုခေါ်သည်။ ဝက်အူကဲ့သို့ ကွေးကောက်နေသော ဗက်တီးရီးယားကို စပိုင်ရီလာဟုခေါ်၍၊ ဝက်အူပုံ ဗက်တီးရီးယားအဆန်းတမျိုးကို စပိုင်ရိုကိဟု ခေါ်သည်။ ဝက်ခြံနှင့် အပူဖုများကိုဖြစ်စေတတ်သော စတက်ဖီလိုကော့ဆိုင်၊ နျူမိုးနီးယားခေါ် အဆုတ်ရောင်နာကို ဖြစ်စေတတ်သော နျူမိုကော့ဆိုင်၊ တိုက်ဖွိုက်ခေါ် အူရောင်ဖျားကိုဖြစ်စေတတ်သော ဗက်ဆီလိုင်၊ အဆုတ်ကျောရိုး နာဗ်ကြောအဆစ် အမြစ်စသည်တို့၌ ရောဂါဖြစ်စေတတ်သော စတြက်တိုကော့ဆိုင်စသည်တို့မှာအားလုံးဗက်တီးရီးယားများဖြစ်ကြသည်။

ရောဂါဖြစ်စေတတ်သော ဗက်တီးရီးယားများသည် လူ၊ တိရစ္ဆာန်နှင့် အပင်တို့တွင် သွေး၊ အရိုး၊ ပျော့ပျောင်းသော တစ်ရှူး၊ ပင်စည်နှင့်အသီးများအတွင်း၌နေတတ်၍ တိုးပွားလာကြသည်။ ယင်းတို့သည် အသွေး၊ ကြွက်သား၊ တစ်ရှူးတို့ကို စားသောက်၍ အလွန်အဆိပ်ပြင်းသော ဓာတ်ကိုထုတ်ပစ်ကြသဖြင့် ယင်းတို့မှီတင်းနေထိုင်ရာ သစ်ပင်၊ တိရစ္ဆာန်နှင့် လူတို့အား ရောဂါကျရောက် စေတတ်သည်။ ဤဗက်တီးရီးယားမျိုးကို ကပ်ပါးဟု ခေါ်သည်။ ဒစ်ဖသီးရီးယားဆုံဆို့နာ၊ အဆုတ်ရောင်နာ၊ဂိုနိုညောင်းကျရောဂါ၊ကုတ်ဟီးချောင်းဆိုး၊ တက်တနတ်ရောဂါ၊ တျူဗာကယ်ပိုးစွဲနာ၊ ဆစ်ဖလစ်ရောဂါ၊ ဦးနှောက်မြှေးရောင်ရောဂါ၊ ဒေါင့်သန်းနာ၊ ကူဋ္ဌနူနာ၊ ပလိပ်ရောဂါ စသည်တို့မှာ အဆိုပါ ဗက်တီးရီးယားများမှ ထွက်သော အဆိပ်ကြောင့်ဖြစ်လာသော ရောဂါများဖြစ်ကြသည်။ သီးနှံပင်များသို့ အထက်ပါ ဗက်တီးရီးယားများဝင်လာသောအခါ ကွင်းလိုက် ခြံလိုက် ပျက်ပြုန်းတတ်သည်။ အစားအသောက်များ ပုပ်သိုးခြင်း၊ စည်သွတ်ဗူးမှ အစားအစာများ အဆိပ်ဖြစ်ခြင်းတို့သည်လည်း ဤဗက်တီးရီးယားတို့ကြောင့်ပင် ဖြစ်လေသည်။

သစ်ပင်၊ တိရစ္ဆာန်နှင့် လူတို့အား အကျိုးများစွာ ပြုသော ဗက်တီးရီးယားများလည်းရှိ၍ ယင်းတို့ကို ဆက်ပရိုဖိုက်ဟုခေါ်သည်။ ယင်းတို့သည် မြေဆီလွှာတွင် အသင့်ရှိသော သြဂဲနစ်ပစ္စည်းများကို အစာအဖြစ်ဖြင့် အသုံးပြု၍ ယင်းမှရသော စွမ်းအင်ဖြင့် လေထဲမှ နိုက်ထရိုဂျင်ကို မြေဆီလွှာထဲသို့ ရောက်အောင်သွင်းယူကြသည်။ သို့ဖြင့် သီးနှံပင်များကို ကြီးထွားသန်စွမ်းအောင် အကျိုးပြုပေးကြသည်။ အလားတူ ဗက်တီးရီးယားတို့၏ အခြားအကျိုးပြုနည်း တခုမှာ အပင်သေနှင့် တိရစ္ဆာန်သေများကို အမှိုက်ရှင်းသမားကဲ့သို့ သုတ်သင်ရှင်းလင်းပေးခြင်းပင် ဖြစ်သည်။ ယင်းအပုပ်

အသိုးများကို အဆိပါဗက်တီးရီးယားများကသာ စားမပစ်ပါက ကမ္ဘာမြေပေါ်တွင် အပင်ရှင်နှင့် တိရစ္ဆာန်ရှင်တို့ထက် အပင်သေ တိရစ္ဆာန်သေတို့က များ၍နေမည်မှာ မုချဖြစ်ပေသည်။ ထိုပြင် ဒိန်ခဲ၊ ထောပတ်၊ ဆေးတံသောက်ဆေး၊ လက်ဖက်ခြောက်၊ ကိုကိုးမှုန့် စသည်တို့ကို အနံ့အရသာ တိုးတက်ကောင်းမွန်အောင်ပြုပြင်ရာ၌ အသုံးပြုရသော ဗက်တီးရီးယားမျိုးလည်း ရှိပေသည်။

ရောဂါဖြစ်စေတတ်သော ဗက်တီးရီးယားတို့၏ ထူးခြားချက်တရပ်မှာ အပူအအေးဒဏ်နှင့် အစာရေစာ ခေါင်းပါးခြင်းဒဏ်ကို ထူးထူးကဲကဲခံနိုင်ရည်ရှိခြင်းပင် ဖြစ်သည်။ ယင်းတို့သည် အသက်တည်တံ့နေနိုင်ရန် အခြေအနေ မသာယာသောအခါ ယင်းတို့မှ စပိုး (ရောဂါအောင်းပိုး) ဟုခေါ်သော ဆဲများ ပေါက်ပွားလာသည်။ စပိုးတို့၌ ထူထဲသော နံရံများရှိ၍ အပူ အအေး ဒဏ် စသည်များကို ကြံ့ကြံ့ ခံနိုင်သည်။ ဆူနေသော ရေတွင် ရိုးရိုးဗက်တီးရီးယားများ ချက်ခြင်းလိုပင် သေဆုံးသွားသော်လည်း စပိုးများမှာမူ ၁၆ နာရီတိုင်အောင် မသေဘဲနေနိုင်ကြသည်။ အပူချိန် သုညအောက် ၃၂၀ ရှိသော အရည်တွင် စပိုးများကိုထည့်၍ အအေးခံထားသောအခါ အသက်ရှင်မြဲရှင်လျက်ရှိသည်ကို တွေ့ရသည်။ စပိုးတို့သည် အံ့သြဖွယ် ကောင်းလောက်အောင် ကြာမြင့်စွာ အသက်ရှင် နေနိုင်ပြီးလျှင် အခြေအနေ ကောင်းလာသည်နှင့် တပြိုင်နက် ဗက်တီးရီးယားများ ပြန်၍ ဖြစ်လာကြပြန်သည်။

ဗက်တီးရီးယားတို့သည် အခြေအနေကောင်းလျှင် အလွန်လျင်မြန်စွာ ကြီးပြင်းပေါက်ပွားတတ်သည်။ ဗက်တီးရီးယားအချို့တွင် နာရီဝက် အချိန်အတွင်း ဗက်တီးရီးယားတခုမှ ကြီးပြင်းလာ၍ နှစ်ခုအဖြစ်သို့ ကွဲထွက်နိုင်သည်။ ဤကဲ့သို့ တနာရီတွင် တကြိမ်ကွဲထွက်မည်ဆိုပါက ဗက်တီးရီးယား တခုမှ ၂၄ နာရီအတွင်း ဗက်တီးရီးယား ပေါင်း ၁၇,၀၀၀,၀၀၀ အထိ တိုးပွားလာနိုင်၍ ၄၇ နာရီကြာသော် ဗက်တီးရီးယားပေါင်း ကုဋေ ကုဋာဖြစ်လာနိုင်ပေသည်။

ဗက်တီးရီးယားတို့ကို နည်းအမျိုးမျိုးဖြင့် သေစေနိုင်သည်။ လေထဲ၌ရှိသော ဗက်တီးရီးယားများကို သေစေရန်အတွက် နေရောင်နှင့် အာလထြာဝိုင်အိုလက်ခေါ် ခရမ်းဘေးရောင်ခြည်တို့ကို အသုံးပြုလေ့ရှိကြသည်။ အစား အသောက်များကို မီးနှင့်ချက်ပြုတ်ခြင်း၊ ပေါင်းခြင်းတို့သည် ယင်းတို့တွင်ရှိသော ဗက်တီးရီးယားများကို သတ်ရန် အကောင်းဆုံးနည်းများပင်ဖြစ်သည်။ အအေးခံခြင်းနှင့် အခြောက် လှန်းခြင်းတို့ဖြင့် ဗက်တီးရီးယားအားလုံးကို မသေစေနိုင်၊ ယင်းတို့ မကြီးပွားအောင်သာ တားဆီးနိုင်ပေသည်။

# အနာရောဂါ ကာကွယ်ရေးအတွက် လေ့လာရသော ဆေးပညာတရပ်

**ဗက်တီးရီးယားများသည် နေရာတကာတွင် ရှိနေရာ၊ ယင်းတို့သည် လူသတ္တဝါတို့အား ကောင်းကျိုးကိုပေးနိုင်သည့်နည်းတူ သေစေလောက်သော အနာရောဂါများ စွဲကပ်စေသည့် ဆိုးကျိုးများကိုလည်း ပေးနိုင်ကြသည်။ ဗက်တီးရီးယားဗေဒသည် ဗက်တီးရီးယားတို့၏အကြောင်းကို လေ့လာ၍၊ ဆေးပညာနှင့် ရောဂါဝေဒနာများကို ကာကွယ်သည့် ပညာရပ်များအတွက် အခြေခံပညာအဖြစ် အကျိုးရှိစွာ အသုံးချနိုင်သည်။**

**ဗက်တီးရီးယားဗေဒ။** ။ဗက်တီးရီးယားဗေဒသည် ဗက်တီးရီးယားကို လေ့လာသော ပညာရပ် ဖြစ်သည်။ (ဗက်တီးရီးယား — ရှု။) ယင်းပညာရပ်သည် သာမန်မျက်စိဖြင့် မမြင်နိုင်သော အပင်နှင့် သတ္တဝါကလေးများကို လေ့လာသော မိုက္ကရိုဗိုင်ဩလိုဂျီ ပညာရပ်တွင် အကျုံးဝင်သည်။ ဗက်တီးရီးယားဗေဒကို ဆေးပညာ၌ ရောဂါဝေဒနာများကို ကာကွယ်ရေးအတွက်သော်၎င်း၊ ဝိုင်အရက် လုပ်ငန်းမျိုးကဲ့သို့သောဗက်တီးရီးယားနှင့်သက်ဆိုင်သည့် စက်မှုလက်မှုလုပ်ငန်းများအတွက်သော်၎င်း၊ တိရစ္ဆာန်များတွင်ဖြစ်ပွားသော ရောဂါများကို လေ့လာရန်အတွက်သော်၎င်း၊ အပင်များ၌ ဖြစ်ပွားသော ရောဂါကို လေ့လာရန်အဘွက် သော်၎င်း အသုံးပြုနိုင်သည်။ ၁၉ ရာစုနှစ် အလယ်လောက်တွင် ဗက်တီးရီးယားဗေဒသည် လူဝီပါးစတား၏ လုပ်ကိုင်ကြိုးစားမှုကြောင့် တိုးတက် ကြီးပွားလာသော သိပ္ပံပညာရပ် ဖြစ်သည်။ (ပါးစတား, လူဝီ — ရှု။)

ဗက်တီးရီးယားတိုင်း ရောဂါ သက်ရောက်စေသည်မဟုတ်ချေ။ လူ၏ကိုယ်ခန္ဓာ အတွင်း အပြင်တွင် ရောဂါ မဖြစ်စေဘဲရှိနေသော ဗက်တီးရီးယားများလည်း ရှိသေးသည်။ ထိုပြင် အချို့သော ဗက်တီးရီးယားများသည် ယင်းတို့ မှီခိုနေထိုင်သောသူအတွက် အကျိုးရှိသော အလုပ်ကိုပင် ဆောင်ရွက်ပေးလေ့ရှိသည်။ ပုံပမာ - လူတို့အတွက်အသုံးဝင်သော ဗီတာမင် ဘီများကို အူထဲတွင်ရှိသော အချို့သော ဗက်တီးရီးယားတို့က ဖော်ထုတ်ပေးကြသည်။

ဗက်တီးရီးယားများကြောင့် ကူးစက်တတ်သော ရောဂါ

အများပင်ဖြစ်တတ်ချေသည်။ (ကူးစက်တတ်သော ရောဂါများ — ရှု။) ယင်းအထဲတွင် အလွန်သေးငယ်သည့် ဗိုင်းရပ်များကြောင့် ဖြစ်သောရောဂါလည်း ရှိသည်။ ပိုပမာ - ကျောက်ကြီး ရောဂါ၊ ဝက်သက်ရောဂါ၊ ပိုလီယိုရောဂါများ ဖြစ်သည်။ မြန်မာနိုင်ငံတွင် ဗက်တီးရီးယားကြောင့် ဖြစ်သော ထင်ရှားသည့် ရောဂါအချို့တို့မှာ တိုက်ဖွိုက်အူရောင်ဖျား၊ ဝမ်းကိုက်ရောဂါ၊ တျူဗာကယ်ပိုးစွဲနာရောဂါ (တီဘီရောဂါ)၊ ပလိပ်ရောဂါ၊ ကာလဝမ်းရောဂါနှင့် ဒစ်ဖသီးရီးယား ဆုံဆို့နာရောဂါများ ဖြစ်လေသည်။ ယင်းရောဂါများ မဖြစ်ပွားစေရန် ဗက်တီးရီးယားဗေဒကို အခြေခံထားသော ကာကွယ်နည်းများရှိလေသည်။

ဗက်တီးရီးယားဗေဒတွင် ယင်းရောဂါပိုးများ အကြောင်းကို စုံလင်စွာသင်ကြား လေ့လာရသည်။ ထိုပြင်ယင်းရောဂါပိုးများသည် လူ၏ကိုယ်ခန္ဓာတွင် မည်သို့ မည်ပုံ ရောဂါဖြစ်ပွားစေပုံ၊ ယင်းတို့ကြောင့် ဖြစ်ပွားသော ရောဂါများကို မည်ကဲ့သို့ စမ်းသပ်ကြည့်ရှု၍ ရောဂါ၏အကြောင်းရင်းကို မည်သို့ ဖော်ရပုံနှင့် ယင်းရောဂါများကို မည်သို့ကုသ၍ မည်သို့ ကာကွယ်ရန်လိုအပ်ပုံတို့ကို အကျဉ်းချုပ်အားဖြင့် သင်ကြား လေ့လာရလေသည်။




စမ်းသပ်ကြည့်သော စတက်ဖလိုကော့ကပ် အောရိယ ရောဂါပိုးသည် ပင်နီဆလင် အစရှိသော ပတိဇီဝနဆေးများနှင့် ကုသ၍ရနိုင်မည့် အကြောင်း အထက်ပါပုံတွင် တွေ့ရသည်။ ရောဂါပိုးမှာ ဆေးနှင့် ထိတွေ့သည့်နေရာတွင် မပေါက်မပွား၍၊ သက်ဆိုင်ရာ ပတိဇီဝနဆေးပါသော ရေစစ်စက္ကူဝိုင်းပတ်လည်တွင် ကြည်လင်သော အဝိုင်းများကို တွေ့နိုင်သည်။

သောက်ရေ၊ နွားနို့ စသော လူတို့မှီဝဲသည့် အစား အစာများမှလည်း ကူးစက်တတ်သော ရောဂါများ ပြန့်ပွားနိုင်ရကား၊ သန့်ရှင်းသောသောက်ရေ၊ နွားနို့ စသည်တို့ ရရှိစေရန် ဗက်တီးရီးယားဗေဒကို အသုံးပြု၍ စစ်ဆေးရပေသည်။ ဗက်တီးရီးယားသည် အနာရောဂါများကို ဖြစ်စေနိုင်သောကြောင့် အနာရောဂါတို့မှ ကာကွယ်နိုင်ရန် ဗက်တီးရီးယားဇီဇမျိုးကို စင်ကြယ်စေရန် ပြုလုပ်နည်း အမျိုးမျိုးရှိသည်။ ယင်းနည်းများကို အသုံးပြုခြင်းအားဖြင့် ခွဲစိတ် ပညာသည်များစွာ ထမြောက်အောင်မြင်ခဲ့ရုံမက လူနာ အမြောက်အမြား၏ အသက်ကိုလည်း ကယ်ဆယ် နိုင်ခဲ့ပေသည်။ ဗက်တီးရီးယားဗေဒသုတေသီများ၏ ကျေးဇူးကြောင့် အစွမ်းထက်သော ပင်နီဆလင် စသော ပတိဇီဝနဆေးများ ပေါ်ခဲ့ရပေသည်။

ဗက်တီးရီးယားဗေဒကို လေ့လာရာတွင် ရောဂါသိဒ္ဓိဗေဒကိုလည်း နားလည်ရပေသည်။ သို့မှသာလျှင် ဆေးပညာနှင့် ရောဂါဝေဒနာများကို ကာကွယ်သည့် ပညာရပ်တို့အတွက် ဗက်တီးရီးယားဗေဒကို အခြေခံပညာအဖြစ် အကျိုးရှိစွာ အသုံးချနိုင်ပေမည်။

ကူးစက်တတ်သော ရောဂါဖြစ်ပွားလာသည့်အခါ ရောဂါ၏အကြောင်းရင်းကို ရှာဖွေရာတွင် ဗက်တီးရီးယားဗေဒကို အသုံးချရသည်။ ယင်းကဲ့သို့ ရောဂါပိုးကို စုံစမ်းရှာဖွေသည့်အခါ အောက်ပါ နည်းစံနစ်ကို အသုံးပြုရသည်။ ဖတ်ရှုသူ လွယ်ကူစွာ နားလည်နိုင်စေခြင်းငှာ အဆုတ်နာရောဂါကို ပုံစံထား၍ရှင်းလင်း ဖော်ပြပါအံ့။

(က) လူနာ၏ ရောဂါရာဇဝင်ကို စုံစမ်းပြီးလျှင် စမ်းသပ်ကြည့်ရမည့် ပစ္စည်းမှာ အဆုတ်နာရောဂါသည်ဟု ထင်ရသော လူနာ၏ သလိပ်ဖြစ်သည်။

(ခ) တီဘီ ရောဂါပိုးရှိ မရှိ ယင်းသလိပ်ကို မှန်ပြားပေါ်တွင်တင်၍ ဆေးရောင်ဆိုးပြီးလျှင် မိုက္ကရိုစကုပ်မှန်ပြောင်းနှင့် ကြည့်ရှု စစ်ဆေးခြင်း။

(ဂ) သလိပ်ဘွင် တီဘီရောဂါပိုးရှိ မရှိ သိနိုင်ရန် ပိုးကို မျိုးပွား၍ ကြည့်ခြင်း။

(ဃ) ယင်းမှ တီဘီရောဂါပိုးဟု ထင်ရသောပိုးပေါက်ပွားလာပါက ယင်း၏ ဓာတုဗေဒဓာတ် သဘာဝကို စစ်ဆေး ကြည့်နိုင်ခြင်း။ တီဘီရောဂါပိုးအတွက် ဤစစ်ဆေးမှုကို အသုံးမပြုတတ်ချေ။

(င) ယင်းတီဘီရောဂါပိုးကို ပတိပစ္စည်းပါရှိသော သွေးကြက်တက်ရည်နှင့် စစ်ဆေး ကြည့်ခြင်း။ ရောဂါအကြောင်းရင်း ရှာဖွေရာတွင် ဤနည်းကို မသုံးချေ။

(စ) လူနာ၏ သလိပ်ကို သင့်တော်သလို ပြုပြင်ကာ တိရစ္ဆာန်များ၌ ထိုးသွင်း၍ လက်တွေ့ စမ်းသပ်စစ်ဆေးခြင်း။

ရောဂါ၏ အကြောင်းရင်းကို ရှာဖွေသည့်အခါ စုံလင်စေခြင်းငှာ အထက်ပါ စုံစမ်းမှုနည်းစံနစ်ကို ဖော်ပြထားသော်လည်း၊ အချို့သော ရောဂါများအတွက် အထက်ဖော်ပြပါ နည်းအားလုံးကို အသုံးပြုရန်မလိုပေ။

စစ်ဆေးသော သလိပ်မှ တျူဗာကယ် ဗက်ဆီလပ်ခေါ် တီဘီရောဂါပိုးကို ရှာဖွေတွေ့ရှိပါက လူနာတွင် တျူဗာကယ်

ပိုးစွဲနာ အဆုတ်တွင် ဖြစ်ပွားကြောင်း သိရသဖြင့် သင့်တော်သောဆေးများနှင့် အမြန်ဆုံးကုသနိုင်ပေမည်။

တခါတရံတွင် ရောဂါပိုးကို ရှာဖွေမွေးမြူ၍မရသည့်အခါ၊ လူနာ၏ သွေးကို ဖောက်ထုတ်စစ်ဆေး၍ ရောဂါ၏ အကြောင်းရင်းကို ရှာဖွေရသည်။ ပုံပမာ - ကာလသားရောဂါဖြစ်သောဆစ်ဖလစ်ရောဂါကို စစ်ဆေးရန် ဗီ၊ ဒီ၊အာ၊အယ်ဟု မှည့်ခေါ်ထားသော သွေးစစ်နည်းတမျိုးဖြင့် စစ်ရသည်။ လူ၏ အရေပြားတွင် သက်ဆိုင်ရာ ရောဂါပိုးမှ ထုတ်ထားသောအရာဖြင့် စစ်ဆေးခြင်းဖြင့်လည်း ရောဂါ၏အကြောင်းရင်းကို သိနိုင်လေသည်။ တျူဗာကယ်ပိုးစွဲနာရှိမရှိ စမ်းသပ်နည်း တမျိုးဖြစ်သော တျူဗာကလင်စမ်းသပ်နည်းသည် အရေပြားတွင်းသို့ ရောဂါပိုးသွင်း၍ စမ်းသပ်နည်းတမျိုးဖြစ်သည်။

ရောဂါ ကာကွယ်ရေးတွင် ဗက်တီးရီးယားဗေဒကို အသုံးပြုခြင်းအားဖြင့် ရောဂါဖြစ်နိုင်သောသူများကို ယင်း ရောဂါပြီးသောသူများမှ ခွဲထုတ်နိုင်ပြီးလျှင် ကာကွယ်ဆေးများကို ထိုးပေးခြင်းဖြင့် ရောဂါမှ ကာကွယ်ပေးနိုင်သည်။ကျောက်ကြီး ရောဂါမဖြစ်စေရန် ကျောက်ဆေးထိုးပေးခြင်း သဘောမျိုးဖြစ်သည်။ (ကျန်းမာရေး — ရှု။) ထို့ပြင် ရောဂါကို ပြန့်ပွားစေသောသူများကိုလည်း စုံစမ်းရှာဖွေ၍ သင့်လျော်သလို အရေးယူခြင်းအားဖြင့် ကူးစက်တတ်သောရောဂါ ဝေဒနာများ ပြန့်ပွားခြင်းမရှိအောင် နှိမ်နင်းနိုင်လေသည်။

ရောဂါရရှိပြီးသောအခါတွင်လည်း ပျောက်ကင်းစေရန် သင့်လျော်သော ဆေးဖြင့် ကုသရလေသည်။ ပုံစံ အားဖြင့် ဒစ်ဖသီးရီးယား ဆုံဆို့နာရောဂါဖြစ်နေသော လူနာအတွက် အန်တီတော့ဆင် အဆိပ်ဖြေဆေး ထိုးပေး၍ ကုသရန် လိုသည်။ (ဆေးပေးပညာနှင့် ခွဲစိတ်ပညာ — ရှု။)

သင့်လျော်သော ပတိဇီဝနဆေးကို လူနာသို့ ပေးရန် အတွက် ဗက်တီးရီးယားဗေဒကို အသုံးပြုနိုင်သည်။ ယခုအခါတွင် ပတိဇီဝနဆေးအများအပြားပင် ပေါ်ထွက်နေပြီဖြစ်၍၊ ရောဂါပိုးနှင့် သင့်လျော်သော ပတိဇီဝနဆေးကို ဗက်တီးရီးယားဗေဒဖြင့်စမ်းသပ်ရှာဖွေနိုင်သည်။ ပုံတွင်ကြည့်ပါ။ယင်းသို့လျှင် အနာနှင့်ဆေး ကိုက်အောင်ပေးနိုင်ခြင်းကြောင့် ရောဂါလျင်မြန်စွာပျောက်ကင်းကာ လူနာလည်းသက်သာ၊ ဆေးဖိုးငွေလည်း အကုန်အကျနည်းသည့်အကျိုးကျေးဇူး ခံစားရသည်။ ထို့ပြင် လူနာ၏ အရေပြားတွင် စမ်းသပ်ခြင်းအားဖြင့် လူနာနှင့် မသင့်သော ပတိဇီဝနဆေးကိုလည်း သိနိုင်သောကြောင့် မလိုလားအပ်သောဝေဒနာခံစားမှုများကို ရှောင်ရှား နိုင်ပေသည်။ ပုံပမာ - ပင်နီဆလင်နှင့် မသင့်ကြောင်းစမ်းသပ်တွေ့ရှိရသောသူအားပင်နီဆလင်မထိုးခြင်းအားဖြင့် လူနာ၏အသက်ကိုပင် ကယ်ဆယ်ရာ ရောက်နိုင်ပေသည်။

ယင်းသို့လျှင် ဗက်တီးရီးယားဗေဒကို ကာကွယ်ရေး၊ကုသရေး၊စူးစမ်းရေးတို့တွင် အဖက်ဖက်မှ တိုးတက်ကြီးပွားစေရန် ဆောင်ရွက်ခြင်းဖြင့် ကမ္ဘာပေါ်ရှိ လူတို့အတွက် အကျိုးဖြစ်ထွန်းစေခြင်းကြောင့် ပါးစတား၊ ကော့စသော ပုဂ္ဂိုလ်ကြီးများအား ကမ္ဘာ့ကျေးဇူးရှင်ကြီးများ အဖြစ် မှတ်တမ်းတင်ရပေသည်။

**ဒေါက်တာ ဒေါ်မေ့**

**ဗက်ထရီအိုး။** ။မော်တော်ကားတွင် အသုံး ပြုသော လျှပ်စစ်ဓာတ်အိုးကို အင်္ဂလိပ်ဘာသာဖြင့် ဗက်ထရီအိုးဟု ခေါ်သည်။ မြန်မာမော်တော် အလုပ်ရုံတို့တွင်လည်း ဗက်ထရီဟူသော ဝေါဟာရကို လူသုံးများသည်။ သို့သော် ထိုအိုးကို စတိုးရိတ်ဗက်ထရီ၊ သို့မဟုတ် အက်ကျူမူလေးတား၊ သို့မဟုတ် လျှပ်စစ်ဓာတ်လှောင်အိုးဟု သိပ္ပံပညာ ဝေါဟာရ အလို ခေါ်တွင်သင့်သည်။

အဆိုပါ ဗက်ထရီအိုးများကို မော်တော်ကား၊ ရေဒီယိုအသံဖမ်းစက်များ၌သာမက ဓာတ်မီးထွန်းရာ၌လည်း အသုံးပြုနိုင်သည်။ ထိုမျှမကသေး၊ အချို့လျှပ်စစ်ဓာတ်နှင့် သွားသောယာဉ်များကိုလည်း ဗက်ထရီအိုးဖြင့် သွားလာ ခုတ်မောင်းနိုင်၍၊ ရေငုပ်သင်္ဘောများသည်လည်း ရေအောက်၌ သွားလာလျက်ရှိစဉ် ဗက်ထရီအိုးများကိုသာလျှင် လုံးလုံးလျားလျားမှီခိုကြရသည်။ ဤဓာတ်အိုးမျိုးကို အသုံးပြုရသည့် အခြားကိစ္စများလည်း အမြောက်အမြားပင် ရှိပေသေးသည်။

ဗက်ထရီအိုးဟု ဆိုသည့်အတွက် လျှပ်စစ်ဓာတ်ကို သိုလှောင်ထားသောအိုးဟူ၍ ထင်မှတ်ကောင်း ထင်မှတ်ကြပေမည်။ အမှန်မှာ မည်သည့်လျှပ်စစ်ဓာတ်အိုး၊ လျှပ်စစ်ဓာတ်ခဲမျိုးပင်မဆို အတွင်းရှိ ဓာတ်ပစ္စည်းများ လှုပ်ရှား ဖောက်ပြန်မှုဖြင့် လျှပ်စစ်ဓာတ်ကို ဖန်တီးထုတ်ပေးသည့်အရာချည်းပင်ဖြစ်လေသည်။ ဗက်ထရီအိုးနှင့် အခြားသာမန် ဗက်ထရီအိုး၊ လျှပ်စစ်ဓာတ်ခဲတို့၏ ခြားနားချက်မှာ ဤသို့ဖြစ်သည်။ သာမန် ဗက်ထရီအိုး၊သို့မဟုတ် ဓာတ်ခဲတို့သည် အားကုန်ခန်းသွားသောအခါ အတွင်းရှိဓာတ်ပစ္စည်း(အရည်၊ သို့မဟုတ်အဖတ်)အပြင် လျှပ်စစ်ဓာတ်ဖို သတ္တုပြားများကို အသစ်လဲပေးမှသာလျှင် အားသစ် ပြန်ရနိုင်သည်။ ဗက်ထရီအိုးဖြစ်မူကား ဓာတ်အိုးအတွင်းသို့လျှပ်စစ်ဓာတ်ကို ပြောင်းပြန်ဖြတ်စီးစေခြင်းဖြင့် ထပ်တလဲလဲအားပြန်သွင်း ပေး နိုင်လေသည်။

ဗက်ထရီအိုးများကို ကြည့်လျှင် အတွင်း၌ လျှပ်စစ်ဓာတ်လှောင်ခန်းကလေးများ တခုနှင့်တခု ပူးတွဲလျက် တည်ရှိသည်ကို တွေ့ရှိရလိမ့်မည်။ အဆိုပါ ဓာတ်လှောင်ခန်းများတွင် များသောအားဖြင့် ဆာလဖျူရစ်အက်ဆစ် အပျော့ရည်ကို ထည့်ထား၍၊ ထိုအရည်ထဲတွင် နှစ်ထားသော လျှပ်

စစ်ဓာတ်ဖို ဓာတ်မသတ္တုပြားမှာ ခဲပြားများဖြစ်ကြသည်။ ဓာတ်ဖိုသတ္တုပြားအဖြစ် ခဲပြားများကို လက်ပါရောက် ဆိုက်နှင့် ဖုံးအုပ်ထားသည်။ ဓာတ်မသတ္တုပြားအဖြစ် အသုံးပြုသော ခဲပြားမှာကား ရေမြှုပ်ကဲ့သို့ ပွယောင်းယောင်း ရှိသည်။ ထိုခဲပြားများကို အဖိုတခု အမတခု အစဉ်လိုက် ချထား၍၊ တခုနှင့်တခု စပ်ကြားတွင် များသောအားဖြင့် သစ်ပြားခံထားလေ့ ရှိသည်။

ထိုနောက် လျှပ်စစ်ဓာတ်လှောင်ခန်းများကို ဖန်၊ သို့မဟုတ် ကျွဲကော်ဖြင့် ပြုလုပ်ထားသော ကိုယ်ထည်အိုးတွင် အစဉ်လိုက် ပူးတွဲ၍ ထည့်ထားရသည်။ ထိုအပြင် အခန်း အသီးအသီး၏အထက်၌ ဓာတ်အားစမ်းသပ်ရန်အတွက်နှင့် အငွေ့ ပျံ့သွားသောရေအစား ရေသစ်ဖြည့်ပေးရန်အတွက် အဖုံးရှင်တပ်ထားသော အပေါက်တခုစီလည်း ပါရှိမြဲဖြစ်သည်။ ဓာတ်အား ၆ ဗို့ရှိသော လျှပ်စစ်ဓာတ်လှောင်အိုးများတွင် ဓာတ်အား ၂ ဗို့ခန့်စီရှိသော ဓာတ်လှောင်ခန်း ၃ ခန်း ပါလေ့ရှိ၍၊ ၁၆ ခန်း၊ အခန်း ၆၀ အထိပါဝင်သော ဓာတ်အိုးကြီးများလည်း ရှိလေသည်။

လျှပ်စစ်ဓာတ်လှောင်အိုးမှ လျှပ်စစ်ဓာတ်ကို အသုံးပြုနေချိန်တွင် ခဲပြားများအပေါ်၌ လက်ဆာလဖိတ်စွဲကပ်လာ၍ အက်ဆစ်၏ အားလည်း တဖြည်းဖြည်း လျော့သွားလေသည်။ လျှပ်စစ်ဓာတ် လှောင်အိုးအတွင်းတွင် အက်ဆစ်ရည်၏သိပ်သည်းဆသည် ဓာတ်အိုး၌အားပြည့်ချိန်တွင် ၁.၃၉ မျှရှိ၍ အားနည်းသွားချိန်တွင် ၁.၁၁ ခန့်ရှိကြောင်းသိရသည်။ ဓာတ်အိုးရှိ အခန်းအသီးအသီးတို့၏ ဓာတ်အားသည် အားပြည့်နေလျှင် ၂ ဗို့မှ ၂½ ဗို့အတွင်းရှိ၍ ၁.၈ ဗို့အထိ အားလျော့သွားလျှင် ဓာတ်အိုးကို အားသစ် ပြန်သွင်းရန်လိုအပ်ပြီဟုသိရသည်။

ဗက်ထရီအိုးကို အားပြန်သွင်းသည်ဟု ဆိုရာမှာ ဂတ်အိုးအတွင်းရှိ ဓာတ်ပစ္စည်းများကို မူလအခြေသို့ ပြန်ရောက်အောင် ပြုလုပ်ပေးခြင်းပင်ဖြစ်သည်။ အားပြန်သွင်းသောအခါ၊ ဒီ-စီ-ကားရင့်ခေါ် လျှပ်စစ်ဓာတ်တဖက်သတ်စီးသော ဓာတ်ကြိုးအဖိုကို ဓာတ်အိုးဓာတ်ဖိုတိုင်သို့ရင်း၊ဓာတ်ကြိုး အမကို ဓာတ်မတိုင်သို့ရင်း ဆက်ပေးခြင်းဖြင့် လျှပ်စစ်ဓာတ်ကို ပြောင်းပြန်စီးဝင်စေရလေသည်။



လျှပ်စစ်ဓာတ်အား အသုံးချနည်းကို စတင်တွေ့ရှိချိန်မှစ၍ မျက်မှောက်ခေတ်တိုင်အောင် တီထွင်အသုံးပြုခဲ့သော ဗက်ထရီအိုး အမျိုးမျိုး အဆင့်ဆင့် တိုးတက်ပြောင်းလာပုံကို တွေ့မြင်နိုင်ပေသည်။

# အနောက်တိုင်းယဉ်ကျေးမှု မပေါ်ပေါက်မီက ထွန်းကားခဲ့သောနိုင်ငံကြီး

**မက်ဆိုပိုတေးမီးယား (အီရက်) နိုင်ငံ၏ နေရာ၌ နှစ်ပေါင်း ၅,၀၀၀ ခန့်က၊ ဘုန်းတောက်ခဲ့သော နိုင်ငံကြီးဖြစ်သည်။ တူးဖော်တွေ့ရှိရသောကျောက်တုံးများ၊ စဉ့်အုတ်များမှ ပန်းချီပန်းပုလက်ရာများ၊ ပိဋကတ်တိုက်မှ ရွှံ့စာချပ်များကို လေ့လာရခြင်းဖြင့် အလွန်ကြီးကျယ်ခမ်းနားသော ရှေးခေတ် နိုင်ငံကြီးတနိုင်ငံဖြစ်ကြောင်း သိရလေသည်။**

**ဗက်ဗီလုံးနီးယားနိုင်ငံ။** ။ကမ္ဘာ့သမိုင်းတွင် ရှေးခေတ်ယဉ်ကျေးမှုစတင် ထွန်းကားရာ ဒေသများအနက် တခုအပါအဝင်ဖြစ်သော ဗက်ဗီလုံးနီးယားနိုင်ငံသည် အာရှတိုက် အနောက်ပိုင်း တိုင်းဂရစ်မြစ်နှင့် ယူဖရေးတီးမြစ် ၂ သွယ်တို့ ယှဉ်ပြိုင် စီးဆင်းရာ တောင်ဖက်မြစ်ဝှမ်း ဒေသတွင် တည်ရှိခဲ့၍၊ ယခု အီရက်နိုင်ငံ၏ တောင်ပိုင်း ဖြစ်လေသည်။ (တိုင်းဂရစ်မြစ်။ ယူဖရေးတီးမြစ် — ရှု။)

ရှေးရှေး အခါက ပါးရှင်းပင်လယ်ကွေ့သည် ယခုဗဂ္ဂဒက်မြို့တည်ရာ အရပ်အထိ ရောက်သည်ဟု သိပ္ပံနည်းစံနစ်များဖြင့် လေ့လာစူးစမ်းသူတို့က ဆိုကြသည်။ နှစ်ပရိစ္ဆေဒ ရှည်ကြာသော် မြစ် ၂ မြွာမှ ပါလာသော သဲမြေများ ပို့တက်၍ ပေါ်လာသော ကုန်းမြေသည် တဖြည်းဖြည်း ကျယ်ပြန့်လာသည်။ ထိုပြင် မြစ် ၂ သွယ်တို့သည် နှစ်စဉ် ရေလွှမ်းမိုးလေ့ရှိသောကြောင့် နုံးမြေများ ကမ်းခြေပေါ်တင်၍ တင်၍ ကျန်ခဲ့သည်။ ထိုနုံးမြေများသည် မြေသြဇာထက်သန်ကောင်းမွန်၍၊ မြစ် ၂ သွယ်မှ ရေကိုလည်း လုံလောက်စွာ ရနိုင်သဖြင့် ထိုဒေသတဝိုက်သည် စိုက်ပျိုး ဖြစ်ထွန်းသည်။ ထိုကြောင့် အာရှအလယ်ပိုင်းမှ မြေသစ် နေရာသစ် ရှာဖွေသူများသည် မြစ် ၂ မြွာဒေသတွင် အခြေစိုက် နေထိုင်ကြခြင်း ဖြစ်သည်။ မိုးပါးသော်လည်း မြစ် ၂ သွယ်မှ ရေသွယ်တူးမြောင်းများဖြင့် စိုက်ပျိုးလုပ်ကိုင် နိုင်သဖြင့် ထိုဒေသတွင်လာရောက် နေထိုင်သူများ တစတစ များပြားလာလေသည်။

မြစ်နှစ်မြွာ ဒေသတွင် လူတို့စတင် ဝင်ရောက်နေထိုင်သည့်ခေတ်မှာ ဘီစီ ၅၀၀၀ ခန့်ကဖြစ်သည်။ယင်းတို့သည် တောင်ကုန်း၊ တောင်ပူစာများပေါ်တွင်၎င်း၊ ကုန်းဖို့၍၎င်း အိုးအိမ်တည်ဆောက်နေထိုင်ကြသည်။ ထိုဒေသတွင် စတင် လာရောက်နေထိုင်သူများသည် ဆီးမိုက်နှင့် ဆီးမိုက်မဟုတ်သော လူမျိုးများ ဖြစ်ကြသည်။

ဆီးမိုက်မဟုတ်သော လူမျိုးအုပ်စုထဲတွင် ဆူမားရီးယန်းလူမျိုးတို့ကား ယဉ်ကျေးမှုအရာတွင် ခေါင်းဆောင်များ ဖြစ်ကြသည်။ ဘီစီ ၃၀၀၀ ကျော်ခန့်တွင် မြစ်နှစ်မြွာဒေသ တလျှောက်၌ ဆူမားရီးယန်းတို့သည် ဗက်ဗီလုံးအပါအဝင် မြို့ရိုးဖြင့် ဝန်းရံထားသော သီးခြားလွတ်လပ်သည့် မြို့ကလေးပေါင်း မြောက်မြားစွာ တည်ထောင် နေထိုင်ကြသည်မှာ ဘီစီ ၂၅၀၀ ခန့်တိုင်အောင်ဖြစ်သည်။ (ဗက်ဗီလုံးမြို့ — ရှု။) ထိုစဉ်က ထိုဒေသတလျှောက်ကို ဆူမားဟု ခေါ်ဝေါ်ကြလေသည်။

ဘီစီ ၂၅၀၀ ခန့်တွင် ဆူမားမြို့ကလေးများ၏မြောက်ဖက် အက်ကတ်ဒေသမှ ဆာဂွန်အမည်ရှိ ဆီးမိုက်လူမျိုးသိုးထိန်းခေါင်းဆောင်ကြီး တဦးသည် စစ်ရေးစစ်ရာ၌ ကျွမ်းကျင်သဖြင့် မြို့ကလေးများကို တမြို့ပြီးတမြို့တိုက်ခိုက်သိမ်းပိုက်ကာ၊ ဗက်ဗီလုံးမြို့ကို အခြေပြုပြီးလျှင်၊ ဗက်ဗီလုံးနီးယား နိုင်ငံကို စတင် ထူထောင်လေသည်။ ဆီးမိုက်တို့သည် ဆူမားတို့လောက် ယဉ်ကျေးမှုအဆင့်အတန်း မရှိပေ။ ထိုကြောင့် ဆူမားတို့၏ ယဉ်ကျေးမှုကို အတုယူကျင့်သုံးကြသည်။ သို့သော် မြောက်ဖက်ပိုင်းတွင်ဆီးမိုက်လူမျိုးတို့၏ ဓလေ့ထုံးစံများလည်း လွှမ်းမိုးခဲ့သည်ဖြစ်၍၊ ဗက်ဗီလုံးနီးယား နိုင်ငံမြောက်ပိုင်းကို အက်ကတ်ဟူ၍၎င်း၊ တောင်ပိုင်းကို ဆူမားဟူ၍၎င်း ခေါ်ဝေါ်ကြခြင်း ဖြစ်လေသည်။ သို့သော် နောင်အခါ ဗက်ဗီလုံးနီယားဟူ၍ ခေါ်ဝေါ်လာကြလေသည်။

ဆာဂွန်၏လက်ထက်လွန်ပြီးသည့်နောက်တွင် ဗက်ဗီလုံးနီးယားနိုင်ငံသည် ညှိုးမှိန်လာလေသည်။ နိုင်ငံတွင်းသို့ အခြား လူမျိုးများ ဝင်ရောက် တိုက်ခိုက်ခြင်း ပြုကြသဖြင့် နောက်ဆုံးတွင် နိုင်ငံကြီးပြိုကွဲပျက်စီးရလေသည်။

သို့သော် ဘီစီ ၂၀၀၀ ခန့်တွင် ဆာဂွန်၏အနွယ်တော် ဖြစ်သော ဟမ္မူရာဗီမင်းသည် ပြိုကွဲနေသော ဗက်ဗီလုံးနီးယားနိုင်ငံကို ပြန်လည်စုစည်းသည်။ နိုင်ငံကို မော်ကွန်းတင်လောက်အောင် စံနစ်ကျနစွာ အုပ်ချုပ်သည်။ အုပ်ချုပ်ရေးစံနစ်ကောင်းများကိုလည်း ထွင်ခဲ့သည်။ အထူးသဖြင့် ဟမ္မူရာဗီမင်းကြီးသည် ယင်း ပြုစုခဲ့သော ဥပဒေများအတွက် နိုင်ငံသမိုင်းတွင် ထင်ရှားကျော်ကြားသော မင်းတပါး ဖြစ်ခဲ့လေသည်။

ဟမ္မူရာဗီမင်းကြီးကံကုန်ပြီးနောက်တွင် အရှေ့မြောက်ဖက်ဒေသများမှ ကက်ဆိုက် လူရိုင်းမျိုးတို့သည် ချဉ်းနင်းတိုက်ခိုက်ပြီးသော်၊ဗက်ဗီလုံးနီးယားနိုင်ငံအတွင်း ဝင်ရောက်နေထိုင်ကြသည်။ တစတစနှင့် နိုင်ငံအတွင်း၌ စိုးမိုးမင်းမူခဲ့ကြသည်မှာ ဘီစီ ၁၇၅၀ မှ ၁၂၀၀ ခန့်တိုင်အောင်ပင် ဖြစ်၏။



ယခုအခါ ပျက်စီးလျက်ရှိ၍ ဗက်ဗီလုံးနီးယားနိုင်ငံ ကောင်းစားစဉ်က တည်ဆောက်ခဲ့သော အဒ်ရှတာ အဆောက်အအုံ

သို့သော် ဗက်ဗီလုံးနိုင်ငံတွင်းမှ ရှိရင်းစွဲလူမျိုးများက ကက်ဆိုက်တို့ကို တဖြည်းဖြည်း ပြန်လည် လွှမ်းမိုးပြီးနောက် ဗက်ဗီလုံး နီးယားတွင် မူလတိုင်းရင်းသားမင်းတို့ ပြန်လည်အုပ်စိုးကြလေသည်။

ထိုအချိန်တွင် မြောက်ဖက်မှ နိုင်ငံနီးချင်းဖြစ်သော အဆီးရီးယားသည် တစတစ ထင်ရှားလာသည်။ (အဆီးရီးယား — ရှု။) ဗက်ဗီလုံးနီးယားနှင့် အဆီးရီးယားနိုင်ငံတို့သည် အချင်းချင်းထိပါးတိုက်ခိုက်မှုများ ရှိလာကြရာမှ အင်အားပြိုင်လာကြလေသည်။ ထိုအတွင်း ဗက်ဗီလုံးနီးယားနိုင်ငံအတွင်း၌လည်း ရှိရင်းစွဲ တိုင်းရင်းသား လူမျိုးများနှင့် သဲကန္တာရဖက်မှ ချဉ်းနင်းဝင်ရောက်လာသော ကောလဒီးယန်းလူမျိုး၊ အာရမီးယန်း လူမျိုးတို့သည် တိုက်ခိုက်လျက်ရှိသည်။

ကောလဒီးယန်းနှင့် အာရမီးယန်းတို့သည် ဗက်ဗီလုံးနီးယား၌ အရေးသာလာကြသည်။ အဆီးရီးယားကလည်း ဗက်ဗီလုံးနီးယားကိုလွှမ်းမိုးနိုင်အောင် ကြိုးစားသည်။ ဗက်ဗီလုံးနီးယားနှင့် အဆီးရီးယားတို့သည် အင်အားပြိုင်ကြပြန်သည်။ အဆီးရီးယားနိုင်ငံ၏ ဆင်နာကရစ်မင်းသည် ဘီစီ ၆၈၉ ခုနှစ်တွင် ဗက်ဗီလုံးမြို့တော် ကြီးကို တိုက်ခိုက် ဖျက်ဆီးသည်။ သို့သော် သားတော် အီဆာဟက်ဒင်က မြို့တော်ကြီးကို ပြန်လည်ပြုပြင်လေသည်။

ဘီစီ ၆၀၆ ခုနှစ်တွင် ဗက်ဗီလုံးနီးယား နိုင်ငံသားများနှင့် မိဒလူမျိုးတို့ ပူးပေါင်း၍အဆီးရီးယားနိုင်ငံ၏ကြီးကျယ်ခမ်းနားလှပသော မြို့တော်နင်းနိဗ (နင်းနိဗမြို့။ မိဒလူမျိုး — ရှု။) ကို တိုက်ခိုက်သိမ်းပိုက်၍ ဖျက်ဆီးလိုက်ကြသည်မှစ၍ အဆီးရီးယန်းတို့ တန်ခိုးမှေးမှိန်သွားကာ ခေါင်းမထူနိုင်ကြတော့ချေ။ ဗက်ဗီလုံးနီးယား နိုင်ငံတော်ကြီးကား ကောလဒီးယန်းလူမျိုး ဒုတိယ နက်ဗျူခက်နက်ဇာဘုရင်၏ လက်အောက်တွင် ပြန်လည် စည်ကား သာယာဝပြောလာပြန်သည်။ ထိုအခါ ဒုတိယဗက်ဗီလုံးနီးယားနိုင်ငံတော်ကြီးဟူ၍၎င်း၊ ကောလဒီးယန်းနိုင်ငံတော်ဟူ၍၎င်း ခေါ်ဝေါ်ကြသည်။ နက်ဗျူခက်နက်ဇာမင်းကြီးသည် မြို့ကြီးများကို ပြန်လည် တည်ဆောက်စေသည်။ ကုန်သွယ်မှုနှင့် လုပ်ငန်းဆောင်တာတို့ကိုလည်း တိုးတက်ဖွံ့ဖြိုးစေသည်။ ဆည်၊ တူးမြောင်းများကို ပြုပြင်ပေးသဖြင့် စိုက်ပျိုးရေးလည်းကောင်းမွန် ဖြစ်ထွန်းလာလေသည်။ နက်ဗျူခက်နက်ဇာသည် ဗက်ဗီလုံးနီးယား နိုင်ငံကြီး ကျယ်ပြန့်အောင်လည်း ဆောင်ရွက်ခဲ့

ရာ၊ ထိုစဉ်က နယ်နိမိတ်တွင် ဆီးရီးယားနိုင်ငံနှင့် ပယ်လက်စတိုင်နိုင်ငံတို့ ပါဝင်သည်သာမက အီဂျစ်နိုင်ငံနယ်စပ်တိုင်အောင်ပင် ရောက်ခဲ့လေသည်။

နက်ဗျူခက်နက်ဇာ မင်းကြီးလွန်ပြီးနောက်တွင် ဆက်ခံသောမင်းများမှာ ဘုန်းလက်ရုံး နည်းပါးသောမင်းများသာအများအားဖြင့် ဖြစ်ကြ၍၊ နိုင်ငံတော်ကြီးအင်အား ဆုတ်ယုတ်လာသည်။ထိုကြောင့်ဘီစီ ၅၃၉ ခုနှစ်တွင် ပါးရှင်းဘုရင်ဆိုင်းရပ်၏ တပ်များက တိုက်ခိုက်လာသောအခါ အပြင်းအထန် ခုခံမှုမရှိဘဲ၊ ပါးရှင်းတို့၏ လက်အောက်သို့ ကျရောက် ရလေသည်။ (ဆိုင်းရပ် — ရှု။) ဗက်ဗီလုံးနီးယားသည် ပါးရှင်းတို့၏စိုးမိုးမှုကို အနှစ် နှစ်ရာကျော်ခံခဲ့ရသည်။ ဘီစီ သုံးရာမှ လေးရာအတွင်း၌ ဗက်ဗီလုံးနီးယားအပါအဝင် ပါးရှင်းပြည်နယ်များတန်ခိုးမှေးမှိန်လာသည်။ ဂရိဘုရင်အယ်လက်ဇန္ဒာ-သ-ဂရိတ်သည် ပါးရှင်းတပ်များကို အောင်နိုင်၍ ဗက်ဗီလုံးနီးယားသို့ ရောက်ရှိလာသောအခါ ဗက်ဗီလုံးနီးယားတွင် အယ်လက်ဇန္ဒာအားခုခံတွန်းလှန်သူမရှိဘဲ၊ ဘုရင်အဖြစ်လက်ခံကြလေသည်။ အယ်လက်ဇန္ဒာသည်လည်း ဗက်ဗီလုံးမြို့တော်ကို မိမိ လက်နက်နိုင်ငံတော်ကြီး၏ မြို့တော်အဖြစ် ထားရန်ပင် ရည်ရွယ်ခဲ့သေးသည်။ (အယ်လက်ဇန္ဒာ-သ-ဂရိတ် — ရှု။)

အယ်လက်ဇန္ဒာအား ဆက်ခံသူများသည် ဗက်ဗီလုံးနီးယားအား ဖိနှိပ် ချုပ်ချယ်ခြင်းမပြုဘဲ သင့်တင့်လျောက်ပတ်သော ခြီးမြှင့်မြှောက်စားမှုကို ပြုခဲ့သည်။ သို့သော်ဟယ်လင်နစ်စတစ်ခေတ်၏ လှုပ်ရှားထကြွမှုများ၏ ဒဏ်ကို ဗက်ဗီလုံးနီးယားကဲ့သို့ ရှေးခေတ်ဟောင်းနိုင်ငံကြီးသည် ခံနိုင်ရည်မရှိပေ။ ထိုကြောင့် တဖြည်းဖြည်း အခြေအနေ ဆုတ်ယုတ်လာခဲ့ရာ အေဒီ ၂၀၀ ပြည့်နှစ်လွန် နှစ်များတွင်မူ ရှေးခေတ်ဟောင်း ဗက်ဗီလုံးနီးယား နိုင်ငံကြီးသည် တဖြည်းဖြည်း ခေတ်တိမ်လာရာမှ တိမ်မြုပ် ကွယ်ပျောက်သွားတော့သည်။

ဗက်ဗီလုံးနိုင်ငံကြီးသည်ယင်းသို့ကွယ်ပျောက်သွားခဲ့သော်လည်း၊ ဗက်ဗီလုံးယဉ်ကျေးမှု၏ လက်စလက်နတို့ကို ယဟူဒီယဉ်ကျေးမှု၌၎င်း၊ ဂရိယဉ်ကျေးမှု၌၎င်း တွေ့ရှိကြရသည်။ ထိုကြောင့် ဗက်ဗီလုံးယဉ်ကျေးမှု၏ အမွေအနှစ်ကို ခေတ်သစ်ယဉ်ကျေးမှုတို့က ဆက်ခံရကြောင်း သိရသည်။ ယင်းသို့ခေတ်သစ်ယဉ်ကျေးမှုတို့က လက်ခံနိုင်လောက်အောင်လည်း ဗက်ဗီလုံးယဉ်ကျေးမှုသည် အဆင့်အတန်း မြင့်ခဲ့သည်။ ဘီစီ ၃၅၀၀ ခန့်ကပင် ဗက်ဗီလုံးနီးယားနိုင်ငံ ဖြစ်လာမည့် မြစ်နှစ်မြွာ ဒေသတလျှောက်တွင် နေထိုင်သော ဆူမားလူမျိုးတို့သည် စာရေး စာဖတ်တတ်ကြသည်။ ဆူမားတို့၏ အက္ခရာ



ဗက်ဗီလုံးနိုင်ငံသားတို့သည် ဗေဒင်ကျမ်းဂန်များကို ဤသို့၌ပြားထက်အက္ခရာတင်ကာ မှတ်သားထားခဲ့ကြသည်။

များမှာ မြားဦးပုံသင်္ကေတန်ရှိ၍ ရွှံ့ပြားကလေးများ ပေါ်တွင် သုံးမြှောင့်ပုံ ကျူရိုးအရင်းနှင့် ဖိနှိပ် ရေးသားကြသည်။ ရေးသားပြီးသော ရွှံ့ချပ်များကို နေလှန်း မီးဖုတ်သော ကြောင့် နှစ်ပေါင်းများစွာ ကြာအောင် ခိုင်ခံ့လေသည်။

ဆူမားတို့၏ စာရေးနည်းကို နောင်အခါ မြစ် ၂ မြွာဒေသကို ဝင်ရောက်စိုးမိုးသော ဆီးမိုက်လူမျိုးများ၊ အဆီးရီးယန်းလူမျိုးများ၊ အယ်လမိုက်လူမျိုးများ၊ ဟစ်တိုက်လူမျိုးများ၊ ပါးရှင်းလူမျိုးများကလည်း လက်ခံကြလေသည်။

ယဉ်ကျေးစ လူမျိုးတို့၏ အလေ့အထအတိုင်း ဆူမားတို့သည် မြေရေလေ စသော သဘာဝတ္ထုများကို ကိုးကွယ်ကြသည့်ပြင် လယ်သမားများဖြစ်ကြသည့်အတိုင်း ကျေးဇူးရှင်နွားမများကိုလည်း ကိုးကွယ်ကြသည်။

လက်မှုအနုပညာရပ်နှင့် စပ်လျဉ်း၍ ဗက်ဗီလုံးနီးယားနိုင်ငံသားတို့ပြုလုပ်ခဲ့သော လက်မှုပစ္စည်းများအနက် ရှေးအကျဆုံးပစ္စည်းများမှာ ဘီစီ ၃၀၀၀ ကျော်ခန့်က အိုးခွက်များဖြစ်သည်။ ယင်းသည့် အိုးခွက်များကို ဆေးရောင်များခြယ်၍ ပုံစံဒီဇိုင်းများ ဖော်ထားသည်ကို တွေ့ရသည်။

ဘီစီ ၃၀၀၀ ခန့်တွင် ကျောက်တုံးများကို ထုထွင်းခြင်း၊ ရုပ်တုများ ထုလုပ်ခြင်း၊ ရွှေငွေတို့ဖြင့် အဆင်တန်ဆာများ လုပ်ကိုင်ခြင်းကိုလည်း ပြုလုပ် ကြသည်။ ထို့ပြင် စာချုပ် စာတမ်းများအတွက် တံဆိပ်တုံးများ အသုံးပြုသည်ကိုလည်း တွေ့ရလေသည်။

ဆူမားတို့သည် မူလက ရွှံ့နှင့်ကျူပြင်များဖြင့် ပြုလုပ်သည့် တဲအိမ်များဖြင့် နေထိုင်ခဲ့ရာမှ၊ နောင်အခါ နေလှန်းအုတ်၊ မီးဖုတ်အုတ်များဖြင့် ပြုလုပ်သော တထပ်အုတ်တိုက်များဖြင့် နေထိုင် လာကြသည်။ ထို့ပြင် ယင်းတို့ကိုးကွယ်ရာ နတ်အမျိုးမျိုးတို့အတွက် ဗိမာန်ဖြစ်သော တန်ဆောင်းမြင့်မြင့်ကြီးများကိုဆောက်လုပ်ကြသည်။ မြို့ရိုးတန်တိုင်းများ ပြုလုပ်ရာ၌လည်း ဗက်ဗီလုံးနီးယားနိုင်ငံသားတို့ လက်မြောက်ကြပေသည်။ ယင်းသို့ဖြင့် ဗက်ဗီလုံးနီးယား နိုင်ငံသား တို့သည် နိုင်ငံနှင့် ယဉ်ကျေးမှုနှင့် အစောဆုံး နေထိုင်လာကြသူများတွင် ပါဝင်ခဲ့ လေသည်။

ကမ္ဘာ့သမိုင်းတွင် အစောဆုံး ပေါ်ထွက်ခဲ့သော ယဉ်ကျေးမှုများအနက် ဗက်ဗီလုံးနီးယန်းနှင့် အီဂျစ်ယဉ်ကျေးမှုတို့သည် မည်သည်က ရှေးကျ၍ မည်သည်က နောက်ကျသည်ဟူသော ပြဿနာအတွက် ပညာရှင်တို့ အငြင်းပွားနေကြဆဲပင်ဖြစ်၏။ သို့သော် ယဉ်ကျေးမှုဆိုင်ရာ အရေးပါသော တိုးတက်မှုတို့သည် ဗက်ဗီလုံးနီးယား၌ ဦးစွာ စတင်ခဲ့သည်။ သိပ္ပံပညာ၊ အုပ်ချုပ်ရေးစံနစ်၊ အယူဝါဒရေး၊ လက်မှုပညာရပ် စသည်တို့သည် ဗက်ဗီလုံးနီးယား၌ အစပျိုးခဲ့၍ ဗက်ဗီလုံးနီးယန်းယဉ်ကျေးမှုသည် နှောင်းခေတ် အာရှတိုက် အနောက်ပိုင်း ယဉ်ကျေးမှုများ၏ မြစ်ဖျားခံရာ ဖြစ်ခဲ့လေသည်။

**ဗက်ဗီလုံးမြို့။** ။ဗက်ဗီလုံး မြို့သည် အာရှတိုက်၏ ရှေးဟောင်းမြို့ကြီးဖြစ်၍ ကမ္ဘာပေါ်၌ ရှေးအကျဆုံးမြို့ကြီး တမြို့ဖြစ်သည်။ ဗက်ဗီလုံးနီးယားနိုင်ငံမြို့တော်ကြီးအဖြစ် ဘီစီ ၁၇၀၀–၅၃၉ အတွင်း ထင်ရှားခဲ့၍ ယူဖရေးတီးမြစ်သည် ယင်းမြို့ကိုဖြတ်၍စီးဆင်းသည်။အီရက်နိုင်ငံဗဂ္ဂဒက်မြို့တောင်ဖက် မိုင် ၆၀ ခန့်အကွာတွင် တည်ရှိသည်။

ဗက်ဗီလုံးမြို့ကို ခရစ်မပေါ်မီ အနှစ် ၃၀၀၀ ကျော်ခန့်က စတင် တည်ထောင်သည်ဟုဆိုသည်။ ဗက်ဗီလုံးဟူသော အဓိပ္ပါယ်မှာ 'နတ်တံခါးဝ' ဟု ဖြစ်သည်။ နောင်တွင်ယူဖရေးတီးနှင့် တိုင်းဂရစ်မြစ် ၂ ခုအကြား မြစ် ၂ မြွာဒေသ၌ နိုင်ငံတည်ထောင်သောအခါ ယင်းမြို့အမည်ကို အစွဲပြု၍ ဗက်ဗီလုံးနီးယား နိုင်ငံဟု မှည့်ခေါ်သည်။ (ဗက်ဗီလုံးနီးယားနိုင်ငံ—ရှု။) ဘီစီ ၂၀၀၀ ခန့်တွင် ဟမ္မူရာဗီမင်းလက်ထက်၌ ဗက်ဗီလုံးမြို့သည် ဗက်ဗီလုံးနီးယားနိုင်ငံတော်၏ မြို့တော်ဖြစ်လာသည်။ဟမ္မူရာဗီမင်းကြီး ဘီစီ ၁၉၂၅ ခုနှစ်တွင် ကွယ်လွန်ပြီးနောက် ဟစ်တိုက်နှင့်ကက်ဆိုက်လူမျိုးများဗက်ဗီလုံးမြို့တော်ကို ဝင်ရောက်တိုက်ခိုက်ကြသည်။ ထိုနောက်မြစ်ဖျားဒေသရှိ အဆီးရီးယန်းလူမျိုးတို့က အကြိမ်ကြိမ်ဝင်ရောက်တိုက်ခိုက်ရာ ဘီစီ ၆၈၉ ခုနှစ်တွင် ဗက်ဗီလုံးမြို့ကြီး ပျက်စီးသွားလေသည်။ အဆီးရီးယားဘုရင် အီဆာဟက်ဒင် လက်ထက်သို့ရောက်သော် ဗက်ဗီလုံး မြို့တော်ကို ပြန်လည်တည်ထောင်



ဗက်ဗီလုံးမြို့ရှိ ရှေးဟောင်းမျှော်စင်ကြီးကို အထက်ပါ ပုံအတိုင်း တည်ဆောက်ခဲ့ကြလေသည်။

သည်။ ဘီစီ ၆၀၂ ခုနှစ်တွင် အဆီးရီးယားနိုင်ငံကြီးပျက်စီး၍ ဒုတိယ ဗက်ဇီလုံးနီးယားနိုင်ငံ ပြန်လည် ထွန်းကားလာသော အခါ ဗက်ဇီလုံးမြို့သည် ကြီးကျယ် ထင်ရှားလာပြန်သည်။

ဘီစီ ၆၀၄ မှ ၅၆၁ အထိ ထီးနန်းတက်သော ဒုတိယ နက်ဗျူခက်နက်ဇာဘုရင်သည် ဗက်ဇီလုံးမြို့တော်ကြီးကို ရှေးကထက် သာလွန်ခမ်းနားအောင် တည်ဆောက်သည်။ ဗက်ဇီလုံးမြို့တော်ကို ဆောက်လုပ်ရာ၌ အထူးသဖြင့် မြို့ရိုးကြီးများနှင့် ဥယျာဉ်ပျံများကို စီမံလေသည်။ မြို့ရိုးကြီးများကို ခိုနန်းချိုးများဖြင့် လှပအောင် ဆောက်လုပ်သည်။ မြို့ရိုးနံရံများပေါ်၌လည်း တိရစ္ဆာန် ရုပ်များဖြင့် ခြယ်လှယ်ထားသည်။ မြို့ရိုးကြီးများအတွင်းဖက်တွင် ကောင်းကင်၌တွဲလွဲဆွဲနေဟန် ထင်မှတ်ရသော ဥယျာဉ်ပျံများ စီမံထားသည်။ ယင်းသည့် ဥယျာဉ်ပျံများသည် လှပဆန်းကြယ် လှသဖြင့် ရှေးကမ္ဘာ့အံ့ခြီးဖွယ်ရာ ခုနစ်ဖြာတွင် အပါအဝင်ဖြစ်သည်။ နန်းတော်ကြီးတွင်မူ ရှေးမြန်မာဘုရင်များ တည်ဆောက်ခဲ့သော အာလိန်များဖြင့် ပြုလုပ်ထားသည့် မျှော်စင်ကြီးများကဲ့သို့ အဆင့်ဆင့် အရစ်ရစ်ပြုလုပ်ထားသော မျှော်စင်များ ရှိသည်။ ထိုမျှော်စင်ကြီးများ၏ အဆင့်များ အရစ်များတွင် အရောင်မျိုးစုံ ပွင့်သော ပန်းပင်အမျိုးမျိုး စိုက်ပျိုးထားရာ ပန်းများဖြင့် ဝေဆာမြိုင်ဆိုင်နေသောအခါ ထိုမျှော်စင်ကြီးသည် တောင်ကြီးများကဲ့သို့ ထင်မှတ်ရသည်။ ကောင်းကင်တွင် ဥယျာဉ်ကြီးများနှင့် ပန်းမျိုးစုံ ယိမ်းနွဲ့ နေသကဲ့သို့ပင် ထင်မှတ်ရသည်။ နက်ဗျူခက်နက်ဇာ ဘုရင် ကံကုန်ပြီးနောက် ဘီစီ ၅၃၉ ခုနှစ်တွင် ယခု အီရန် (ပါးရှား) လူမျိုးဟု ထင်ရှားသော အာရီယန်လူမျိုးတို့သည် ဗက်ဇီလုံးမြို့တော်ကြီးကို သိမ်းယူသည်။ ထိုနောက်တွင် ကုန်သွယ်မှု ဗဟိုဌာနအဖြစ်မှလျော့ကျခဲ့၍ မြို့ကြီးလည်း တဖြည်းဖြည်း ပျက်သုန်းသွားလေသည်။

ဗက်ဇီလုံးမြို့ကို စတုရန်းပုံ တည်ဆောက်ထားသည်။ မြို့ရိုးနှစ်ထပ်ရှိ၍ တထပ်က ၁၀ ပေထူပြီးလျှင်၊အခြား တထပ်က ၁၂ ပေထူသည်။အတွင်းမြို့ရိုးပတ်လည်တွင်ကျုံးရှိသည်။ ရန်သူများ မြို့ကို ဝင်ရောက်တိုက်ခိုက်သည့်အခါ ရိက္ခာအခက်အခဲမရှိစေရန် မြို့ရိုး ၂ ခုကြားတွင် လယ်ယာမြေ ပြုလုပ်၍ ကောက်ပဲသီးနှံများစိုက်ပျိုးကြသည်။ အတွင်းမြို့ရိုးတွင် ကြေးညိုတံခါးများ တပ်ဆင်ထား၍ ယင်းတံခါးများသို့ ဦးတိုက်၍ မြို့တွင်းသို့သွားသောလမ်းများ ဖောက်ထားသည်။ မြို့တွင်း၌ လူအများအပြားနေထိုင်ကြ၍ လူနေအိမ်များသည် ရွှံ့အုတ်ဖြင့် ဆောက်ထားသည်ကို တွေ့ရသည်။ ဗက်ဇီလုံးမြို့၏ ကြီးကျယ်ခမ်းနားသော အဆောက်အအုံများမှာ ဘုရင်များစံမြန်းသည့် နန်းတော် အဆောက်အအုံများနှင့် ဗက်ဇီလုံးမြို့တော်ရှင် မားဒပ်ဖဲနတ်မင်း၏ ကျောင်းဆောင်တို့ ဖြစ်သည်။

ဗက်ဇီလုံးမြို့သည် နှစ်ပေါင်းများစွာ တိမ်ကောခဲ့ပြီးနောက် မြေပုံကြီးသို့ ဖြစ်နေခဲ့ရာ ၂၀ ရာစုနှစ် အစလောက်က စတင်၍ ရှေးဟောင်းပစ္စည်းနှင့် ကမ္ပည်းကျောက်စာ သုတေသီတို့၏ ကျေးဇူးကြောင့် တခါက ကမ္ဘာတွင် ထင်ရှားကြီးကျယ်ခဲ့သော မြို့ကြီးအကြောင်း သိရှိနိုင်ခဲ့ကြသည်။

ဗက်ဇီလုံးမြို့၏ တောင်ဖက်ပိုင်းနေရာတွင် ၁၁ ရာစုနှစ်ခန့်က ဟီလာမြို့ တည်ထားသည်။ ဟီလာမြို့မှ အဆောက်အအုံများကို ဗက်ဇီလုံးမြို့ပျက်မှ တူးဖော်ရရှိသည့် အုတ်များဖြင့် ဆောက်လုပ်ထားလေသည်။

**ဗက်သလီဟမ်မြို့။** ။ခရစ်ယန် သမ္မာကျမ်းတွင် ဗက်လင်မြို့ဟု ဖော်ပြပါရှိသော ဗက်သလီဟမ်မြို့သည် ခရစ်တော်ဖွားမြင်ရာအရပ်ဟု ယူဆကြသည့် အတိုင်း၊ အယူဝါဒရေးတွင် အထွတ်အမြတ်ထားရာ သေဉ်မြေအဖြစ် အသိအမှတ်ပြုကြသည်။ ထိုစဉ်က ပယ်လက်စတိုင်နိုင်ငံ ဂျူဒါနယ်၏ မြို့တမြို့ ဖြစ်သည်။ ယခုမူ ဂျော်ဒန်နိုင်ငံ၏ မြို့ကလေးတမြို့ ဖြစ်နေ၍ ဗိတ်လမ်ဟု ခေါ်တွင်သည်။

ဗက်သလီဟမ်မြို့သည် ဂျရုဆလမ်မြို့၏ အနောက်တောင်ဖက် ၆ မိုင်ခန့်အကွာတွင် တည်ရှိ၍ ခရစ်ယန် အယူဝါဒရေးရာတွင် ဂျရုဆလမ်မြို့မှလွဲလျှင် ဒုတိယအရေးအပါဆုံးသော ဌာနဖြစ်သည်။ ထို့ကြောင့် နှစ်စဉ်ခရစ်ယန် အယူဝါဒီတို့ ထောင်သောင်းချီ၍ ဘုရားဖူးလာရောက်ကြလေသည်။

ခရစ်ယန်သမ္မာကျမ်းစာများ၌ ထင်ရှားသော ယဟူဒီလူမျိုး ဒေးဗစ်ဘုရင်သည်လည်း ဗက်သလီဟမ်၌ပင် ဖွားမြင်ခဲ့သည်။ နောင်တွင် ဒေးဗစ်သည် ဘုရင်အဖြစ် ထိုမြို့၌ပင် ဘိသိက်ခံခဲ့လေသည်။ ခရစ်ယန်အယူဝါဒီတို့က ထိုမြို့ကို အထွတ်အမြတ်ထားလေသဖြင့် ရောမကေရာဇ် ဟေဒရီယန်က အေဒီ ၁၃၂ ခုနှစ်တွင် မြို့ကိုဖျက်ဆီးပစ်သည်။ နောက်အနှစ် ၂ ရာခန့် ကြာသော်၊ ကွန်စတန်တင်း-သ-ဂရိတ် ဘုရင်ကြီးသည် အိပ်မက်အရ ခရစ်တော်ဖွားမြင်တော်မူသည့်နေရာဟု ယူဆသောအရပ်တွင် ဖွားတော်မူဝတ်ကျောင်း (ချပ်အော့သနက်တစ်ဗီတီ)ကို တည်ဆောက်ခဲ့သည်။ ထိုဝတ်ကျောင်းသည် ကမ္ဘာပေါ်တွင် ရှေးအကျဆုံးဟု ဆိုကြသည်။ ၆ ရာစု နှစ်ခန့်တွင် ပဋ္ဌမ ဂျပ်စတင်းနီးယန်း ဘုရင်ကြီးက ထပ်မံမွမ်းမံ၍ အဆောက်အအုံသစ်များကိုလည်း တိုးချဲ့ဆောက်လုပ်သည်။ ထို့ပြင် မြို့ကိုလည်း မြို့ရိုးတန်တိုင်းများဖြင့် ဝိုင်းရံထားစေသည်။ နောင်အခါများတွင် ဖွားတော်မူ ဝတ်ကျောင်းကို ဝိုင်းရံ၍ လက်တင်၊ ဂရိ၊ အာမေးနီးယန်း ဝတ်ကျောင်းတို့ကိုလည်း အများအပြားဆောက်လုပ်ကြလေသည်။

ရောမတို့က ပယ်လက်စတိုင်ကို စိုးမိုးသည့်အခါ၊ ဗက်သလီဟမ်သည်လည်း ရောမတို့ လက်အောက်တွင် ကျရောက်နေခဲ့



ခရစ်တော်ဖွားမြင်ရာဒေသဖြစ်သော ဗက်သလီဟမ်မြို့

ရသည်။ ထိုနောက်တွင် ပယ်လက်စတိုင်သည် တူရကီတို့ လက်အောက်သို့ကျရောက်ခဲ့ရပြန်သည်။ ခရစ်ယန်အယူဝါဒီတို့သည် မိမိတို့ အထွတ်အမြတ်ထားရာဖြစ်သော သော်မြေများကို ပြန်လည်သိမ်းပိုက်ထားရန် ကရူးဆိတ်စစ်ပွဲများ အကြိမ်ကြိမ်ဆင်နွှဲကာ ကြိုးပမ်း တိုက်ခိုက်ခဲ့ကြလေသည်။ (ကရူးဆိတ်စစ်ပွဲများ — ရှု။)ပဌမကမ္ဘာစစ်ကြီး ပြီးသည့်နောက်တွင် ဗက်သလီဟမ်မြို့သည် ဂျူရူးဆလမ်မြို့နှင့် အတူ ဗြိတိသျှသြဇာခံဖြစ်ခဲ့သည်။ သို့သော် ဗြိတိသျှသြဇာခံအုပ်ချုပ်ရေး သက်တမ်းကုန်ဆုံး၍ ၁၉၄၉ ခုနှစ်တွင် ပယ်လက်စတိုင်ကို (အာရပ်) ဂျော်ဒန်နိုင်ငံနှင့် (ယဟူဒီ)အစ္စရီးယယ်နိုင်ငံဟူ၍ ပိုင်းခြားလိုက်သောအခါ၊ ဗက်သလီဟမ်မြို့သည် ဂျော်ဒန်နိုင်ငံအတွင်း၌ ပါဝင်ခဲ့လေသည်။

ဗက်သလီဟမ်မြို့တွင် လူဦးရေ ၆,၈၁၅ ယောက်ခန့် ရှိ၍ များသောအားဖြင့် ခရစ်ယန် အယူဝါဒီများ ဖြစ်ကြသည်။ မြို့၏ပတ်ဝန်းကျင်တွင် ပြောင်းခင်းများ၊ သံလွင်၊ တည်နှင့် စပျစ်ခြံများ ရှိလေသည်။

**ဗဂ္ဂဒက်မြို့။** ။ပသီပုံပြင်များကို ဖတ်ဖူးသူတိုင်း ရှေးခေတ်အခါက အလွန်ခမ်းနား ကြီးကျယ် သာယာဝပြောလှသော ဗဂ္ဂဒက်ရွှေမြို့တော်ကြီး အကြောင်းကို ကြားဘူးနားဝရှိကြပေလိမ့်မည်။ ဗဂ္ဂဒက်မြို့သည် အီရက်နိုင်ငံ (ယခင်-မက်ဆိုပိုတေးမီးယားပြည်) ၏ မြို့တော်လည်း ဖြစ်သည်။ ထိုနိုင်ငံ၏ အကြီးဆုံးမြို့လည်း ဖြစ်သည်။ ဗဂ္ဂဒက်မြို့၏ လက်ရှိ အခြေအနေမှာ ရှေးခေတ်က ကြီးကျယ်ခမ်းနားမှု၊ ကျော်ကြားထင်ရှားမှုကို မမှီသေးသည့်တိုင်အောင် တစတစနှင့် ကမ္ဘာ့ အဆင့်အတန်းမှီ မြို့ကြီးတမြို့ အဖြစ်သို့ တိုးတက်လျက် ရှိလေသည်။

ဗဂ္ဂဒက်မြို့တည်ရာ ဒေသသည် တိုင်းဂရစ်မြစ်ကမ်း ပေါ်တွင် တည်ရှိ၍ ရှေးနှစ်ပေါင်း ၄,၀၀၀ ကျော်ခန့်ကပင် အစဉ်အဆက် မြို့ကုန်းမြို့နေရာ ဖြစ်ခဲ့သည်။ ရှေးခေတ်ဗဂ္ဂဒက်မြို့တော်ကြီးသည် မြစ်၏အနောက်ဖက်ကမ်းပေါ်တွင် တည်ခဲ့၍ လူဦးရေ နှစ်သန်းကျော်နေထိုင်ခဲ့သည်ဟု ဆိုကြသည်။ ထိုစဉ်က မြို့ရိုးကြီးသည် အဝန်း ၆ မိုင်မျှရှိရာ၊ ယခုအခါ ပျက်စီးယိုယွင်း နေလေပြီ။ ယခု ဗဂ္ဂဒက်မြို့သည် တိုင်းဂရစ်မြစ်၏ ကမ်းနှစ်ဖက်လုံးပေါ်တွင် မြို့တည်ထား၍ လူဦးရေ ၇၃၀,၅၄၉ (၁၉၅၆ ခုနှစ်) ယောက်ရှိလေသည်။

မြို့ကို ခရစ် ၇၆၄ ခုနှစ်တွင် စတင်တည်ထောင်ခဲ့ သူမှာ ကေးလစ်ဘုရင် အော-မန်ဇာဖြစ်သည်။ ၉ ရာစုနှစ်ခန့်တွင် ထိုခေတ် ထိုအခါက ထိပ်တန်းခမ်းနားကြီးကျယ် လှပသော မြို့ကြီးတမြို့အဖြစ်သို့ရောက်အောင် ကေးလစ်ဘုရင်ကြီး ဟာရွန်-အယ်-ရာရှစ်က ပြုပြင်မွမ်းမံခဲ့သည်။ "တထောင့်တည" ပသီပုံပြင်ထဲတွင် ရွှေမြို့တော်ကြီး၏ နတ်ဘုံနတ်နန်းပမာကြီး

ကျယ်ခမ်းနား စည်ကားဝပြောပုံတို့ကို ဖတ်ရှုကြရသည်။ မြို့တည်ထားသောနေရာတဝိုက်မှာ ထိုစဉ်က မြေသြဇာထက်သန်ကောင်းမွန်သောဒေသဖြစ်သည်။ ထို့ပြင် ကောင်းမွန်သောရေသွင်း တူးမြောင်းစံနစ်လည်း ရှိခဲ့၍ အလွန်စိုက်ပျိုးဖြစ်ထွန်းသည်။

သို့သော် ခရစ် ၁၂၅၈ ခုနှစ်ခန့်တွင် တာတာလူမျိုးတို့ ဝင်ရောက်တိုက်ခိုက်ချေမှုန်းမှုကြောင့် မြို့တော်ကြီး ပျက်စီးခဲ့ရသည်။နောင်အခါတွင်လည်း ပြည်တွင်းစစ်များကြောင့်၎င်း၊ မွန်ဂိုများ၊ တူရကီများ၊ ပါးရှင်းများ၏ စစ်တလင်း ဖြစ်ခဲ့ရ၍၎င်း မြို့တော်ကြီးမှာ ပျက်စီးသည်ထက် ပျက်စီးခဲ့ရသည်။ နှစ်ပေါင်း ရာထောင်မက အကျိုးပြုခဲ့သော ရေသွယ် တူးမြောင်း စံနစ်လည်း ပျက်စီးခဲ့၍ ဗဂ္ဂဒက်မြို့တော်ကြီးတဝိုက်သည် သဲကန္တာရ ပမာ ခန်းခြောက်နေခဲ့သည်။ ထို့ပြင် အာဖရိကတိုက်ကို ကွေ့ပတ်၍ ကမ္ဘာအရှေ့နှင့်အနောက်ကို ဆက်သွယ်သည့် ရေလမ်းခရီးများကို တွေ့ရှိလာကြသောအခါ၊ ဗဂ္ဂဒက်မြို့၏ကုန်သွယ်ရေးဖွံ့ဖြိုးမှုသည်လည်း အတော်အတန်ကျဆင်းလာလေသည်။ ထို့ကြောင့် ၁၆၃၈ ခုနှစ်တွင် အော့တိုမန် (တူရကီ) အင်ပိုင်ယာအတွင်းသို့ သိမ်းသွင်းခံရသောအခါ၊ ယခင်က လူဦးရေ နှစ်သန်းကျော်ရှိခဲ့သော မြို့ကြီးတွင် လူဦးရေ ၁၄,၀၀၀ မျှသာရှိတော့သည်ဟု ဆိုကြသည်။ ဆူးအက်ဘူးမြောင်းဖွင့်လှစ်ပြီးသည့် နောက်ပိုင်းတွင် ဗဂ္ဂဒက်မြို့၏ကုန်သွယ်မှုသည် ပိုမိုဆုတ်ယုတ်လာခဲ့လေသည်။

ပဌမကမ္ဘာစစ်အတွင်းက ဗြိတိသျှတပ်များသည် တူရကီတပ် တတပ်ကို တိုက်ခိုက်အောင်မြင်ပြီးနောက်တွင်၊ ဗဂ္ဂဒက်မြို့ကိုသိမ်းပိုက်ထားခဲ့သည်။ စစ်ပြေငြိမ်းစာချုပ် ချုပ်ဆိုပြီး၍ မကြာမီ ဆိုပိုတေးမီးယားပြည်သည် ဗြိတိသျှ သြဇာခံ အီရက်ပြည်ဖြစ်လာသောအခါ ဗဂ္ဂဒက်မြို့ကို မြို့တော်အဖြစ်ပြန်လည်ထားရှိသည်။ ၁၉၃၀ ပြည့်နှစ်တွင် အီရက်သည် လွတ်လပ်သော နိုင်ငံအဖြစ်ရောက်ရှိလာသောအခါတွင်လည်း ဗဂ္ဂဒက်မြို့ကိုပင် မြို့တော်အဖြစ် ဆက်လက်ထားရှိလေသည်။

အီရက်ပြည်၏ မြို့တော်ဖြစ်လာပြီးသည့်နောက် ၁၉၂၀ ပြည့်နှစ်ခန့်မှစ၍ ဗဂ္ဂဒက်မြို့သည် ပြန်လည် စည်ကားလာပြန်သည်။ ယခင်က အရှေ့နှင့် အနောက်နိုင်ငံများကို ဆက်သွယ်ခဲ့သည့် ကုလားအုပ်လမ်းကြောင်းဟောင်းများတွင် မော်တော်ကားများ သွားလာစေခြင်းဖြင့် ကုန်သွယ်မှု အတွက် ဆက်သွယ်ရေးလမ်းကြောင်းများကို ပြန်၍ ဖော်သည်။ ၁၈၈၈ ခုနှစ်တွင် စတင်ခဲ့၍ ၁၉၄၀ ပြည့်နှစ်တွင် ပြီးဆုံးသွားသော ဗဂ္ဂဒက်-ဘာလင် (ဂျာမနီနိုင်ငံ) မီးရထားလမ်းသည် တူရကီနိုင်ငံကို ဖြတ်၍ ဥရောပမီးရထားလမ်းများနှင့် ဆက်သွယ်နိုင်သဖြင့် အရေးပါသော အရှေ့အနောက် ဆက်သွယ်ရေးကုန်းလမ်းခရီးတခုဖြစ်သည်။ ၁၉၄၇ ခုနှစ်တွင် ဗဂ္ဂဒက်မြို့၌ တိုင်းဂရစ်မြစ်ကိုဖြတ်ကျော်ထားသော တန်တားကို မီးရထားများသွားလာနိုင်စေရန်၎င်း၊ပါးရှင်းပင်လယ်ကွေ့ပေါ်မှ အီရက်နိုင်ငံ၏ သင်္ဘောဆိပ်မြို့ ဖြစ်သော ဗာဆရာမြို့၊ မိုဆာ



သဲမုန်တိုင်း ဒဏ်ကို ခံနိုင်ရန်အတွက် ဗဂ္ဂဒက်မြို့တွင် အိမ်များကို အမိုးပြားများပြုလုပ်၍ တည်ဆောက်ထားလေ့ရှိကြသည်။

မြို့နှင့် တူရကီနိုင်ငံမှလာသော မီးရထားလမ်းများကို ပါးရှား (အီရန်)နိုင်ငံမှ မီးရထားလမ်းများ၊ကာကွတ်ရေနံမြေမှလာသော မီးရထားလမ်းများနှင့် အဆက်အသွယ် ပြုနိုင်ရန်ရင်း ပြုပြင်ခဲ့သည်။ ၁၉၃၃ ခုနှစ်တွင် ဖွင့်လှစ်ခဲ့သော ဗဂ္ဂဒက်မြို့ လေယာဉ်ကွင်းသည် အရှေ့နိုင်ငံများတွင် အကောင်းဆုံးလေယာဉ်ကွင်းတခုဖြစ်သည်။ ယင်းသို့ဖြင့် ဗဂ္ဂဒက် မြို့၏ ကုန်သွယ်ရေးလမ်းကြောင်းများ ပြန်လည်ကောင်းမွန် လာသဖြင့် ကုန်သွယ်မှု တိုးတက် ဖွံ့ဖြိုး၍ ပြန်လည်စည်ကား ဝပြောလာသည်။ ၁၉၃၉ ခုနှစ်တွင် ကွတ်ဗာရှေ အမည်ရှိ ဆည်ကြီး ပြီးစီးသွားလေရာ၊ မြို့၏မြောက်ဖက်ရှိ သဲကန္တာရ ဖြစ်နေသောမြေများကို ရေသွင်း၍ ပြန်လည်စိုက်ပျိုး နိုင်ခဲ့သည်။ ဗဂ္ဂဒက်မြို့တွင် အီရက်နိုင်ငံတွင်း အရပ်ရပ်မှ ထွက်ကုန်များကို အရောင်းအဝယ်ပြုကြသည်။ ယင်းထွက်ကုန်များမှာ စွန်ပလွံသီး၊ ဂျုံ၊ သိုးမွေးနှင့် ရေနံစသည်တို့ ဖြစ်လေသည်။

ခေတ်မီသယ်ယူပို့ဆောင်ရေး လမ်းများပွင့်လာသဖြင့် ဗဂ္ဂဒက်မြို့သည်လည်း ရှေးဟောင်းမြို့ကြီးတမြို့အဖြစ်မှ ခေတ်မီမြို့ကြီးတမြို့အဆင့်အတန်းသို့ တိုးတက်လာလျက် ရှိလေပြီ။ ခေတ်မီ အဆောက်အအုံများ၊လျှပ်စစ်အသုံးအဆောင်များ၊ လမ်းပန်းအဆက်အသွယ်များဖြင့် ခမ်းနားသိုက်မြိုက်လျက် ရှိလာလေပြီ။ (ဒါဝှပါးရှား ဆောက်လုပ်သော ဈေးကြီးမှာ ကြီးကျယ် ခမ်းနားလှသဖြင့် ယခုတိုင် အကောင်းဆုံး ကမ္ဘာ့ ဈေးကြီးများထဲတွင် အပါအဝင် ဖြစ်နေလေသေးသည်။) ဗဂ္ဂဒက်မြို့တွင် အာရပ်များ၊ တူရကီများ၊ ပါးရှင်းများ၊ ကတ်များ၊ အာမေးနီးယန်းများ၊ ယဟူဒီ (ဂျူး)များ စသည်ဖြင့် လူမျိုးပေါင်းစုံ နေထိုင်လျက်ရှိရာ၊ အာရပ်လူမျိုး ဦးရေမှာ အများဆုံး ဖြစ်လေသည်။

ယခုအခါ ဗဂ္ဂဒက်မြို့သည် အီရက်နိုင်ငံ၏ ကုန်သွယ်မှုနှင့် စက်မှုလုပ်ငန်း အချက်အချာ မြို့ကြီးလည်းဖြစ်သည်။တိုင်းဂရစ် မြစ်ကမ်းတလျှောက် လှပသော ရှုခင်းသာများသည် နိုင်ငံခြား ဧည့်သည်များအား ဆွဲဆောင် နိုင်ကြလေသည်။

**ဗင်္ဂလားဆီးသီး။** ။ဗင်္ဂလားဆီးသီးကို အင်္ဂလိပ်လို အေပရီကော့ဟုကမ္ဘာအနှံ့အပြား သိရှိကြသည်။ရုက္ခဗေဒအလိုအားဖြင့် ရိုဇေးစီအီးမျိုးရင်းတွင်ပါဝင်သောယင်းအပင်သည် သစ်ပင်လတ်စားမျိုး ဖြစ်၍၊ တရုပ်နိုင်ငံတွင် စတင်ပေါက်ရောက်သည်ဟု ယူဆကြသည်။ အရွက်မှာ ဘဲဥ ပုံသဏ္ဌာန်ရှိ၍၊အနားတွင် ခပ်ကျဲကျဲအထစ်များရှိပြီးလျှင်၊ထိပ်ဖျား ချွန်သည်။ တနှစ်သားခန့်ရှိပြီဖြစ်သော အကိုင်းပေါ်တွင် အပွင့်များသည်စုံ၍သော်၎င်း၊တပွင့်ချင်းသော်၎င်း ပွင့်ကြသည်။ ပန်းသည် အဖြူတွင် ပန်းရောင်သွေးစွန်းလျက် ရှိတတ်သည်။ အရွက်ညွန့်များ မထွက်မီသော်၎င်း၊ အရွက်ညွန့်များနှင့် တချိန်တည်းသော်၎င်း ထွက်ပေါ်လာတတ်သည်။ပွင့်ဖတ်များ ကြွေရာမှ သီးကင်းများဖြစ်လာသည်။ အသီးမှာ အရည်ရွှမ်းသောအကာသား၊ ယင်း၏အတွင်း အလွန်မာသောအစေ့ခွံနှင့် အစေ့ခွံအတွင်း၌ တခုတည်းသောအစေ့ရှိသည်။ အစေ့ခွံမှာ ချောမွတ်၍ နခမ်းသည် ထူပြီးလျှင် အရစ်ရှိသည်။

ဗင်္ဂလားဆီးသီးပင်ကို အပူပိုင်း ဒေသ၌ အောင်မြင်စွာ စိုက်ပျိုး၍ မရရှိနိုင်ဟု ယခုအချိန်ထိ ယူဆကြသည်။ အိန္ဒိယနိုင်ငံမြောက်ပိုင်းရှိ ပေတသောင်းခန့်မြင့်သော တောင်ပေါ်ဒေသများ၊ တိဗက်နိုင်ငံ၊ တရုပ်နိုင်ငံ၊ ဆီးရီးယား နိုင်ငံ၊ အီရန်နိုင်ငံ၊ အင်္ဂလန်ပြည် အစရှိသော ဒေသများတွင် အသီးစားပင်အဖြစ် အောင်မြင်စွာ စိုက်ပျိုးကြသည်။ ယင်းအပင်ကို ရေကောင်းစွာ စီးဆင်းသည့် ထုံးကျောက်နုံးမြေတွင် အောင်မြင်စွာ စိုက်ပျိုး နိုင်သည်။ ရေကောင်းစွာ စီးဆင်းသည့် ၃ ပေခန့်နက်သော သဲနုံးမြေတွင် စိုက်ပျိုးပါက အသီးကောင်းစွာ ရရှိနိုင်သည်။ မသင့်လျော်သောမြေတွင် စိုက်ပျိုးပါက ခေါင်ညွန့်ကိုင်း ခြောက်ခြင်း၊ အမြစ်တွင် ကရောင်းဂေါခေါ် ရောဂါကျရောက်ခြင်းများ တွေ့ရှိသည်။ စကလာရိုတီးနီးယား ဖရက်တီဂျီနားခေါ် မှိုမျိုးကြောင့်အသီးပုပ်ခြင်း၊ စကလာရိုတီးနီယား လာဇာကြောင့် ပန်းပွင့်နှင့် ကိုင်းညွန့်များ ညှိုးခြင်း ရောဂါများလည်း ဖြစ်ပေါ်တတ်သည်။ ပုပ်သောအသီးများကို မြေမြှုပ်ခြင်း၊ ညှိုးသောပန်း၊ အကိုင်းများကို ဖြတ်၍ မီးရှို့ဖျက်စီးခြင်းဖြင့် ထိုရောဂါများ ပြန့်ပွားမှုကို ကာကွယ်နိုင်သည်။ အပင်များပျိုးရန် ကိုင်းကူး၍ ပြန်လည် စိုက်ပျိုးနိုင်သည်။

ဗင်္ဂလားဆီးသီးသည် အရသာ အလွန်ကောင်း၍ အခြောက်ခံထားသော အသီးများကို ကမ္ဘာအနှံ့ စားသုံးရန် တင်ပို့ရောင်းချကြသည်။ အသားသာမဟုတ် အစေ့ခွံတွင်းမှ အစေ့ကလည်း အရသာဆိမ့်သဖြင့် လူတို့နှစ်သက်ကြသည်။

**ဗင်္ဂလားပြည်နယ်။** ။ဗုဒ္ဓစာပေ ကျမ်းဂန်တို့၌ အင်္ဂတိုင်း၊ ဝင်္ဂတိုင်းဟု ခေါ်ဆိုသော ဗင်္ဂလားပြည်နယ်သည် ဗြိတိသျှ အစိုးရတို့၏ လက်ထက်အခါက ကြီးမားကျယ်ဝန်း၍ အရေးပါသောပြည်နယ်ကြီးတခု ဖြစ်သည်။ အိန္ဒိယနိုင်ငံ၏ အရှေ့ဖက်စွန်းဖြစ်၍ ဗင်္ဂလားပင်လယ်အော်၏ထိပ်၌ တည်ရှိသည်။ အိန္ဒိယ ကျွန်းဆွယ် အပိုင်းသည် ဗင်္ဂလား ပြည်နယ်၏ အနောက်ဖက်၌ရှိ၍၊ ဟိမဝန္တာတောင်ခြေရှိ ဆစ်ကင်နှင့်ဘူတန်ပြည်တို့သည် မြောက်ဖက်၌၎င်း၊ အာသံတောင်ကုန်းများနှင့် မြန်မာနိုင်ငံ တို့သည် အရှေ့ဖက်၌၎င်း တည်ရှိကြသည်။ ထိုပြည်နယ်သည် ဟိမဝန္တာ၌မြစ်ဖျားခံသော ဂင်္ဂါ၊ ဗြဟ္မပုတ္တရနှင့် မေဃနာမြစ်ကြီး ၃ သွယ်တို့ ဗင်္ဂလားပင်လယ်အော်တွင်းသို့ စီးဝင်ခြင်းမပြုမီ ပေါင်းဆုံ၍ကျယ်ပြန့်သော မြစ်ဝကျွန်းပေါ် ကို ဖြစ်စေခဲ့သော ဒေသဖြစ်ပေသည်။ ထိုကြောင့် ဗင်္ဂလားပြည်နယ်၏ မြေမျက်နှာပြင်သည် ဟိမဝန္တာ တောင်



ဗင်္ဂလားပြည်နယ် ကာလကတ္တားမြို့ရှိ ထင်ရှားကျော်ကြားသော ဝိတိုရိယဘုရင်မ အထိမ်းအမှတ်အဆောက်အအုံ

ခြောင်းဖြစ်သောမြောက်ဖက်ပိုင်း၌သာမြင့်၍ ကျန်ဒေသတို့တွင် မြေနိမ့်ဒေသများဖြစ်လေသည်။

ဗင်္ဂလားပြည်နယ်၏ ရာသီဥတုသည် ပူအိုက်၍ စိုစွတ်ထိုင်းမှိုင်းသည်။ ပျမ်းမျှအပူချိန် ဖာရင်ဟိုက် ၇၀° မှ ၈၀° အထိ ရှိသည်။ ပျမ်းမျှမိုးရေချိန်သည် ၇၈ လက်မဖြစ်သည်။ မိုးအများဆုံးအပိုင်းသည် မြောက်ဖက်စွန်းနှင့် အရှေ့ဖက်စွန်း ဒေသများ ဖြစ်ကြလေသည်။ ဗင်္ဂလားပြည်နယ်သည် မြေနုကျွန်းပေါ် ဒေသဖြစ်၍၊ ပူအိုက်စိုစွတ်သော ရာသီဥတုရှိသဖြင့် အိန္ဒိယနိုင်ငံတွင် ဆန်စပါးအများဆုံး စိုက်ပျိုးလုပ်ကိုင်သော ပြည်နယ်ဖြစ်လေသည်။

၁၉၄၇ ခုနှစ်တွင် အိန္ဒိယ ဒိုမီနီယန်နိုင်ငံနှင့် ပါကစ္စတန် ဒိုမီနီယန်နိုင်ငံဟူ၍ ခွဲခြား တည်ထောင်လိုက်ပြီးနောက်၌၊ ဗင်္ဂလားပြည်နယ်ကိုလည်း အနောက်ဗင်္ဂလားပြည်နယ်နှင့် အရှေ့ဗင်္ဂလားပြည်နယ် ( အရှေ့ပါကစ္စတန် ) ဟု ခွဲခြား လိုက်သည်။ အနောက်ဗင်္ဂလားပြည်နယ်သည် အိန္ဒိယ ဒိုမီနီယန်နိုင်ငံ၌ ပါဝင်၍ အရှေ့ ဗင်္ဂလားပြည်နယ်သည် ပါကစ္စတန်ဒိုမီနီယန်နိုင်ငံအတွင်း၌ ပါဝင်လေသည်။

**အနောက်ဗင်္ဂလားပြည်နယ်။** ။၁၉၅၀ ပြည့်နှစ်တွင် ပူးပေါင်းလိုက်သော ကူးချ-ဗီဟားနယ်ကြီးနှင့် ၁၉၅၆ ခုနှစ်ပြည်နယ်များ ပြန်လည်ဖွဲ့စည်းရေး အက်ဥပဒေအရ ထပ်မံထည့်သွင်းသော ခရိုင်နယ်အချို့တို့ အပါအဝင်၊ အနောက်ဗင်္ဂလားပြည်နယ်၏ အကျယ်အဝန်းသည် ၃၃,၈၀၅ စတုရန်းမိုင်ဖြစ်၍၊ လူဦးရေသည် ၂၆.၂၅ သန်းခန့်ရှိမည်ဟု ခန့်မှန်းရသည်။ ထိုလူဦးရေ၏ ၂၀ ရာခိုင်နှုန်းခန့်သည် အစ္စလမ်အယူဝါဒီများ ဖြစ်ကြသည်။ မြောက်ဖက်ပိုင်းကျသော ကူးချ-ဗီဟားနယ်၊ ဒါဂျီလင်၊ ဂျပိုင်ဂူရီခရိုင်တို့သည် အနောက် ဗင်္ဂလားပြည်နယ်၏ ပြည်မမှ အရှေ့ပါကစ္စတန်နှင့် ဗီဟားပြည်နယ်တို့ဖြင့် ခြားလျက်ရှိသည်။ အိန္ဒိယနိုင်ငံတွင် အကြီးဆုံးဖြစ်သော ကာလကတ္တားမြို့သည် အနောက် ဗင်္ဂလားပြည်နယ်၏ မြို့တော်ဖြစ်လေသည်။ (ကာလကတ္တား — ရှု။)အခြား ထင်ရှားသော မြို့ကြီးများမှာ ကာလကတ္တားနှင့် တဆက်တည်း ဖြစ်၍ ဂုံလျှော်လုပ်ငန်းဌာနချုပ်ဖြစ်သော ဟောင်ရာမြို့နှင့် နွေရာသီစခန်းဖြစ်သော ဒါဂျီလင်မြို့တို့ဖြစ်လေသည်။

အနောက် ဗင်္ဂလားပြည်နယ်သည် များသော အားဖြင့် လယ်ယာစိုက်ပျိုးရာ ဒေသဖြစ်သည်။ သို့သော် လူဦးရေများပြားလှသဖြင့် ပြည်နယ်ထွက်ဆန်စပါးသည် ပြည်နယ်လူထုအဖို့ပင် မလုံလောက်ချေ။ အနောက်ဗင်္ဂလားပြည်နယ်တွင် စက်မှုလုပ်ငန်းဖွံ့ဖြိုးထွန်းကားသည်။ အိန္ဒိယနိုင်ငံထွက် ကျောက်မီးသွေး သုံးပုံတပုံသည် ဤပြည်နယ်မှ ထွက်သည်။ ဂုံလျှော်စက်ရုံ၊ ဝါဂွမ်းစက်ရုံများ၊ သံနှင့် သံမဏိစက်ရုံများ လည်းရှိသည်။ အဆန်ဆိုးမြို့ရှိ သံမဏိစက်ရုံကြီးသည် ခေတ်မီစက်ရုံကြီးဖြစ်သည်။ ဒါဂျီလင်နှင့် ဂျပိုင်ဂူရီမြို့များသည်

လက်ဖက်စိုက်ပျိုးရာ ဒေသအတွင်း၌ တည်ရှိကြသဖြင့် ထိုမြို့များတွင် လက်ဖက်ခြောက်စက်ရုံများ ရှိလေသည်။

အနောက်ဗင်္ဂလားပြည်နယ်၏ လမ်းပန်း ဆက်သွယ်ရေးမှာ မော်တော်ကားလမ်း ၁,၄၅၃ မိုင်၊ မီးရထားလမ်း ၁,၀၇၇ မိုင်ရှိ၍၊ ကူးသန်းသွားလာနိုင်သော တူးမြောင်းမိုင်ပေါင်း ၄၇၄ ရှိလေသည်။

**အရှေ့ဗင်္ဂလားပြည်နယ်။** ။ယင်းသည် အရှေ့ ပါကစ္စတန်ပြည်နယ်ဖြစ်သည်။ယခင်ဗင်္ဂလားပြည်နယ်၏ အရှေ့ပိုင်းနယ်များနှင့် အာသံပြည်မှ ဆီးလဟက်ခရိုင်တို့ ပါဝင်၍ အကျယ်အဝန်းသည် ၅၄,၅၀၁ စတုရန်းမိုင်ရှိသည်။ ၁၉၅၁ ခုနှစ် သန်ကောင် စာရင်းအရ လူဦးရေ ၄၂ သန်းကျော်ရှိသည့်အနက်၊ ၃၂ သန်းကျော်သည် အစ္စလမ် အယူဝါဒီများ၊ ၉ သန်းကျော်သည် ဟိန္ဒူအယူဝါဒီများဖြစ်၍ ခရစ်ယန်အယူဝါဒီ တသိန်းကျော်ခန့်ရှိသည်။ ဗုဒ္ဓအယူဝါဒီများလည်းရှိ၏။ အနောက်ပါကစ္စတန်ပြည်နယ်မှ မိုင်ကိုးရာခန့်မျှသော အိန္ဒိယနယ်မြေ ကြားခံလျက်ရှိသည်။မြို့တော်သည် ဒက္ကားမြို့ဖြစ်၍ ပင်လယ်ဆိပ်ကမ်းမြို့ကြီးများမှာ စစ်တကောင်းနှင့် ချာလနာ မြို့တို့ ဖြစ်ကြသည်။

အရှေ့ဗင်္ဂလားပြည်နယ်သည် ဂင်္ဂါမြစ်၊ ဗြဟ္မပုတ္တရမြစ်နှင့် မေဃနာမြစ်တို့ ယူဆောင်လာသော နုံးမြေများကြောင့် မြေ ဩဇာထက်သန် ကောင်းမွန်သဖြင့်၊ စိုက်ပျိုးရေး ဖြစ်ထွန်းသည်။ ဆန်စပါးအပြင်၊ ဝါဂွမ်း၊ သကြားနှင့် လက်ဖက်ခြောက်များထွက်သည်။ အရှေ့ဗင်္ဂလားပြည်နယ်မှ ထွက်သော ဂုံလျှော်သည် ကမ္ဘာလုံးသုံး ဂုံလျှော်၏ ၇၀ မှ ၈၀ ရာခိုင်နှုန်းဖြစ်သည်။ ကြီးကျယ်သော စက်မှုလုပ်ငန်းတို့သည် ဒက္ကားမြို့နှင့် စစ်တကောင်းမြို့များ၌သာရှိကြသည်။ဗင်္ဂလားပြည်နယ်တွင် ရှေးအစဉ်အဆက်က လုပ်ကိုင် လာသည့် အိမ်တွင်းလက်မှုပညာလုပ်ငန်းများကို ဆက်လက်ထိန်းသိမ်း လုပ်ကိုင်ခဲ့ကြရာ၊ ပိုးနှင့် ခြည် လက်ရက်ထည် လုပ်ငန်းများလည်း ပါဝင်သည်။ ဒက္ကားမြို့မှ မာလကျင်ပိတ်သည် ဥရောပတိုက်တွင် ၁၆ ရာစုနှစ်ခန့်ကပင် လူကြိုက်များခဲ့လေသည်။

တိရစ္ဆာန်ရုံများ၌ တွေ့ကြရသော နာမည်ကျော် ဗင်္ဂလားကျားသည် အရှေ့ဗင်္ဂလားပြည်နယ်တွင် နေထိုင်ကျက်စားကြသော တိရစ္ဆာန်ဖြစ်လေသည်။

အရှေ့ဗင်္ဂလားပြည်နယ်အတွင်း လမ်းပန်းအဆက်အသွယ်များ ခေတ်မမှီလှသေးချေ။ အများအားဖြင့် ရေကြောင်းကို အသုံးပြုကြရလေရာ၊ ပြည်တွင်း ရေကြောင်းခရီး မိုင်ပေါင်းမှာ ၂,၀၀၀ ခန့် ရှိလေသည်။

ဗင်္ဂလားပြည်နယ်၏ နောက်ကြောင်း သမိုင်းကို ပြန်၍ကြည့်လျှင်၊ ဗင်္ဂလားပြည်နယ်သည် ရှေးနှစ်ပေါင်း ၁,၀၀၀ ခန့်ကစ၍ ဗင်္ဂါလီစကား ပြောဆိုသောလူမျိုးတို့ နေထိုင်ရာ ဒေသဖြစ်ခဲ့သည်။ အေဒီ ၈ ရာစုမှ ၁၂ ရာစုနှစ်အထိ ဟိန္ဒူမင်းရိုးဖြစ်သော ပါလမင်းတို့ စိုးမိုးခဲ့သည်။ နောင်အခါ ဒေလီမြို့မှ မဂိုမင်းများ၏လက်အောက်သို့ ကျရောက်ခဲ့သည်မှာ ၁၃ ရာစုနှစ်မှသည် ပလက်ဆီစစ်ပွဲအပြီး ဗြိတိသျှတို့၏ လက်အောက်ကျရောက်သည်အထိ ဖြစ်လေသည်။ ဗြိတိသျှ အစိုးရ၏ လက်အောက်တွင် နှစ်ပေါင်း နှစ်ရာခန့် ကြာခဲ့ပြီးနောက်၊ ၁၉၄၇ ခုနှစ် ဩဂုတ်လတွင် အိန္ဒိယနှင့် ပါကစ္စတန်ဟူ၍ နှစ်နိုင်ငံ ပိုင်းခြားလိုက်သောအခါ၊ ဗင်္ဂလားပြည်နယ်ကိုလည်း နှစ်ပိုင်းခွဲလိုက်လေသည်။ အနောက်ဗင်္ဂလားပြည်နယ်သည် အိန္ဒိယနိုင်ငံ၏ပြည်နယ်ဖြစ်လာ၍၊ အရှေ့ ဗင်္ဂလားပြည်နယ်သည်အစ္စလမ်အယူဝါဒီတို့ များပြားသဖြင့် ပါကစ္စတန် နိုင်ငံ၏ပြည်နယ်တခု ဖြစ်လာကာ အရှေ့ပါကစ္စတန်ဟု ခေါ် ဝေါ် ကြလေသည်။

**ဗင်္ဂလားအော်။** ။ဗင်္ဂလားအော်သည် ထိပ်ပိုင်းချွန်၍ အောက်ပိုင်းကားသော တြိဂံပုံသဏ္ဌာန်ရှိ အိန္ဒိယသမုဒ္ဒရာ မြောက်ပိုင်း ရေပြင်ဒေသဖြစ်သည်။ အရှေ့ဖက်တွင် ပါကစ္စတန်၊ မြန်မာ၊ ယိုးဒယားနှင့်မလ္လာယုနိုင်ငံများရှိ၍ အနောက်ဖက်တွင် အိန္ဒိယ နိုင်ငံတို့ရှိပြီးလျှင် တောင်ဖက်သို့ သီဟိုဠ်ကျွန်းနှင့် ဆူမတြားကျွန်းတို့အထိ ကျယ်ပြန့်သည်။

ဗင်္ဂလားအော်တွင်းသို့ စီးဝင်သော မြစ်ကြီးများမှာ မြောက်ဖက်မှ ဂင်္ဂါမြစ်နှင့် ဗြဟ္မပုတ္တရမြစ်၊ အနောက်ဖက်မှ မဟာနဒီ၊ ဂိုဒါဝရီ၊ ကစ္စနာနှင့် ကော်ဗရီမြစ်၊ အရှေ့ဖက်မှ ဧရာဝတီမြစ်တို့ဖြစ်သည်။ ဂင်္ဂါမြစ်ဝနှင့် ခပ်လှမ်းလှမ်းတွင် ရေမြုပ် သောင်ခုံကြီးတဖြည်းဖြည်းကျယ်ပြန့်စွာ ဖြစ်ထွန်းတည်ရှိသည်။ ရခိုင်ရိုးမတောင်တန်း၏ အဆက်ဖြစ်၍ ဗင်္ဂလားအော်အတွင်း၌ကျွန်းအဖြစ်ပေါ် နေသော ကပ္ပလီကျွန်းနှင့် နီကိုဗာကျွန်းတဝိုက်တွင် ပေ ၆၀၀ ခန့်သာနက်သော ရေပြင်ဒေသရှိသည်။ ဗင်္ဂလားအော်ကမ်းရိုးတန်း အနီးရှိ ထင်ရှားသောမြို့ကြီးများမှာ ကာလကတ္တား၊ ရန်ကုန်နှင့်မဒရပ်မြို့များဖြစ်ကြသည်။ အရှေ့ဖက်ကမ်းရိုးတန်းတွင် မြန်မာနိုင်ငံမှ စစ်တွေ၊ မော်လမြိုင်နှင့် ရန်ကုန်မြို့များအပါအဝင် ဆိပ်ကမ်းကောင်းများ အများအပြားရှိသလောက်၊ အနောက်ဖက်ကမ်းရိုးတန်းတွင်ကား ဗိုက်ဇက်ဂပတန်မြို့မှတပါး ဆိပ်ကမ်းကောင်းများ မရှိလှချေ။ ကပ္ပလီနှင့် နီကိုဗာကျွန်းများအပြင် ပရီပါရစ်ကျွန်း၊ ကိုကိုကျွန်းစု၊ မြိတ်ကျွန်းစု စသည်တို့လည်းရှိသည်။ မြန်မာနိုင်ငံကမ်းရိုးတန်းနှင့် မနီးမဝေး၌တည်ရှိနေသော မန်အောင်ကျွန်း စသည့်အချို့ ကျွန်းငယ်ကလေးများတွင် နဂါးဗွက်အိုင်များရှိသည်။

ဗင်္ဂလားအော်အတွင်း ရာသီဥတုသည် အပူပိုင်း ရာသီဥတုမျိုးဖြစ်၍၊ ဆောင်းအခါတွင် အရှေ့မြောက် မုတ်သုန်လေ တိုက်၍ နွေအခါတွင် အနောက်တောင် မုတ်သုန်လေ တိုက်ခတ်သည်။

**ဗင်တူရီပြွန်။** ။သိပ္ပံပညာရပ်များသည် တနေ့တခြား တိုးတက်လာသည်နှင့်အမျှ သိပ္ပံပညာရပ်များတွင် အသုံးပြုကြသည့် ကရိယာတန်ဆာပလာ အသုံးအဆောင်များသည်လည်း တိုးတက်၍ လာရပေသည်။ ရူပဗေဒပညာတွင် ထိုကဲ့သို့ တိုးတက်လာသော ကရိယာများအနက် ဗင်တူရီပြွန်သည် တခု အပါအဝင် ဖြစ်၏။

ဗင်တူရီပြွန်ဆိုသည်မှာ ခါးကျဉ်းသော ပြွန်ဖြစ်၍ အငွေ့နှင့် အရည်များစီးဖြတ်သော အရှိန်၊ အထူးသဖြင့် ရေ အမြောက်အမြားစီးဖြတ်သော အရှိန် (စီးရှိန်) ကို တိုင်းတာသောအခါ "ဗင်တူရီမီတာ" ခေါ် ဗင်တူရီပြွန်နှင့် စီမံပြုလုပ်ထားသည့် ကရိယာဖြင့် တိုင်းတာကြရလေသည်။

၁၈ ရာစုနှစ်အတွင်းက "ဗင်တူရီ" အမည်ရှိသော ဣတာလျံလူမျိုးရူပဗေဒပညာရှင်တဦးရှိခဲ့၍၊ ထိုပုဂ္ဂိုလ်က "ဗင်တူရီနိယမ" ဟု တွင်သည့် နိယမတရပ်ကိုပြဋ္ဌာန်းခဲ့သည်။ ထိုနိယမ၌ဆိုထားသည်မှာ "အငွေ့နှင့်အရည်တို့သည် ပြွန်လုံးအတွင်း၌ ခါးကျဉ်းသောနေရာကို စီးဖြတ်စဉ် ဖိအားလျော့၍ စီးရှိန်မြန်သွားသည်။ အပြန်အလှန်အားဖြင့် ခါးကျယ်သောနေရာကို စီးဖြတ်လျှင်လည်း၊ဖိအားတိုး၍ စီးရှိန်လျော့သွားသည်"ဟူ၍ ဖြစ်၏။ အထက်ဖော်ပြပါပြွန်နှင့် မီတာတို့တွင် ဤနိယမကိုအခြေပြု အသုံးချထားသည်။ ထိုကြောင့် ယင်းတို့ကို ဗင်တူရီပြွန်၊ ဗင်တူရီမီတာဟူ၍ ခေါ် တွင်ကြခြင်းဖြစ်လေသည်။

အရည်တို့၏ စီးရှိန်ကိုတိုင်းသော ဗင်တူရီမီတာတွင် ဗင်တူရီပြွန်တချောင်းရှိ၏။ ပြွန်တွင် ခါးကျဉ်းသည့် နေရာနှင့် ခါးပြန်ကျယ်လာသည့် နေရာတို့၌ ဖိအားခြားနားပုံအလိုက် ရေမျက်နှာပြင် အတက်အကျရှိသော ပြွန်နှစ်ခု တပ်ဆင်ထားသည်။ ထိုပြွန်များမှ တဖန် ပြွန်တွင်းရှိ အရည်၏စီးရှိန်နှင့် တကွ စီးသွားသော အရည်ပမာဏကို ပြသည့် ကရိယာရှိရာသို့ ကြိုးများဖြင့် ဆက်သွယ်ထားလေသည်။

**ဗင်တမ်,ဂျယ်ရီမီ**(ခရစ် ၁၇၄၈–၁၈၃၂)။ ။အများအကျိုးဖြစ်ထွန်းရေး (ယူတီလီတေးရီးယန်းနစ်ဇင်း) ဟူသော ယထာဘူတ ဝါဒကို စတင်ခဲ့သူဖြစ်၍ "အစိုးရကောင်းတို့မည်သည် အများကောင်းကျိုးကို အများဆုံးပေးနိုင်ရမည်" ဟူသော ဆောင်ပုဒ်ကို လက်ကိုင်ပြုပြီးလျှင် ဥပဒေပြုပြင်ရေး၊ လူမှုပြုပြင်ရေးတို့ကို လှုံ့ဆော်တိုက်တွန်းခဲ့သော အင်္ဂလိပ်လူမျိုးယထာဘူတပညာကျော်ကြီးတဦးကား ဂျယ်ရီမီဗင်တမ်ဖြစ်လေသည်။ အင်္ဂလန်ပြည်တွင် အရွယ်ရောက်သူတိုင်း မဲဆန္ဒပေးရေး၊ လျှို့ဝှက် မဲပေးနိုင်ရေး၊ အကျဉ်းထောင် ပြုပြင်ရေး၊ ပါလီမန်အမတ်များ လစာပေးရေးစသော ဥပဒေများသည် ဗင်တမ်၏လှုံ့ဆော်တိုက်တွန်းမှုများကြောင့် တစတစပြုပြင်ပေါ် ပေါက်လာခဲ့သော ဥပဒေများဖြစ်လေသည်။



လန်ဒန်တက္ကသိုလ်၌ သိမ်းဆည်းပြသထားသည့် ဂျယ်ရီမီဗင်တမ်၏ ပုံတူရုပ်လုံးနှင့်ဆေးရည်စိမ်ထားသော ယင်း၏ဦးခေါင်း

ဗင်တမ်၏အယူအဆမှာ လူတို့သည် အကျိုးရှိအောင် နေထိုင်ရမည်ဟူ၏။ လူတို့၏အခြေခံရည်ရွယ်ချက်နှစ်ခုမှာ သုခကိုရှာ၍ ဒုက္ခကိုရှောင်ရန်ဖြစ်သည်။ ဗင်တမ်သည် ထိုအယူအဆများကို အခြေခံပြုကာ "အများအကျိုးဖြစ်ထွန်းရေး" ဝါဒကို ဖော်ထုတ်ခဲ့လေသည်။

ဗင်တမ်သည်လန်ဒန်မြို့၌ ၁၇၄၈ ခုနှစ် ဖေဖွာရီလ ၁၅ ရက်နေ့တွင် ဖွားမြင်သူဖြစ်သည်။ အသက် ခုနစ်နှစ်အရွယ်မှစ၍ ဝက်စမင်စတာကျောင်း၌ ပညာစတင်ဆည်းပူးခဲ့ပြီးနောက်၊ ဆယ့်သုံးနှစ်အရွယ်တွင် အောက်စဖို့တက္ကသိုလ် ဘုရင်မကောလိပ်၌ ဆက်လက်သင်ကြားသည်။ မဟာဝိဇ္ဇာဘွဲ့ကို ၁၈ နှစ်သားအရွယ်၌ရရှိပြီးနောက်တွင် ဝတ်လုံ အတတ်ကို သင်ယူပြန်ရာ၊ ဝတ်လုံဘွဲ့ရရှိခဲ့သည်။ သို့သော် ဝတ်လုံလိုက်ခြင်းကို ခေတ္တမျှသာပြုခဲ့လေသည်။

ဗင်တမ်၏အာသီသသည် နိုင်ငံရေးနှင့် လူမှုရေးစံနစ်၊ ဥပဒေစံနစ်တို့ကိုလေ့လာပြုပြင်ရန်ဖြစ်သည်။ ဖခင်ဖြစ်သူ ဝတ်လုံတော်ရကြီး ကွယ်လွန်ပြီးနောက်တွင် အမွေအနှစ်များစွာ ကျန်ခဲ့သဖြင့် ဗင်တမ်သည် သူ့အာသီသရှိသောလုပ်ငန်းများကို ဆောင်ရွက်နိုင်ခဲ့သည်။ သူ၏ဥပဒေပြုပြင်ရေးလှုံ့ဆော်မှုများကြောင့် ဗင်တမ်၏အမည်သည် ၁၉ ရာစုနှစ်အတွင်း ယထာဘူတပညာရှင်များထဲတွင် ထင်ပေါ် ခဲ့သည်။ ဗင်တမ်

သည် ပေါ်တူဂယ်၊ ဩစတြေးလီးယား၊ ကနေဒါနှင့် အမေရိကန်ပြည်ထောင်စုမှ ပြည်နယ်အချို့အတွက် ဥပဒေရေးဆွဲရာတွင် ပါဝင်ကူညီခဲ့သည်။ ဗင်တမ်သည်အကျဉ်းထောင် ပြုပြင်ရေးကို အလွန်စိတ်ထက်သန်သည့်အလျောက် "ပါနော့ပတီကွန်" ခေါ် စံပြအချုပ်ထောင်ပုံစံတခုကို နှစ်ရှည်လများပုံစံထုတ်၍ အစိုးရအားတင်ပြခဲ့သည်။ထိုပုံစံသည် စရိတ်အကုန်အကျများလွန်း၍ အစိုးရက လက်လျှော့လိုက်ရသော်လည်း ဗင်တမ်အား ဥဏ်ပူဇော်ခ ပေါင် စတာလင် ၂၃,၀၀၀ ချီးမြှင့်ခဲ့သည်။

ဗင်တမ်သည် လူမှုပြုပြင်ရေး၊ ဥပဒေပြုပြင်ရေး ဆိုင်ရာ စာအုပ်စာတမ်း မြောက်မြားစွာကို ပြုစုထုတ်ဝေခဲ့သည်။ "ဝက်စမင်စတာရီဗျူးမဂ္ဂဇင်း" ကိုလည်း ကူညီတည်ထောင်ပေးခဲ့သည်။ လန်ဒန်တက္ကသိုလ် ထူထောင်ရာတွင်လည်း ပါဝင်ကူညီခဲ့သည်။

ဗင်တမ်သည် အိမ်ထောင်မပြုဘဲ လူပျိုကြီးဘဝနှင့် အသက် ၈၄ နှစ်အရွယ်တွင်ကွယ်လွန်သည်။ သူ၏ရုပ်အလောင်းကို ဆေးသိပ္ပံပညာထွန်းကားမှုကို ရှေးရှုလျက် ခွဲစိတ်ကြည့်နိုင်ရန် လှူဒါန်းခဲ့ရာ၊ သူ၏အရိုးစုတို့ကို ရုပ်တုပြုလုပ်၍၎င်း၊ သူ၏ ဦးခေါင်းကိုဆေးရည်စိမ်၍၎င်း လန်ဒန်တက္ကသိုလ်၌ ပြသထားလေသည်။

**ဗင်ထရီလိုကွစ်ဇင်း။** ။လူတဦးတည်းက အသံအမျိုးမျိုး ပြောင်းကာ အခြားသူများပြောနေသည်ဟု ထင်ရအောင် စကားပြောသည့်အတတ်ကို ဗင်ထရီလိုကွစ်ဇင်းဟု ခေါ်သည်။ ဗင်ထရီလိုကွစ်ဇင်းဟူသော စကားလုံးသည် လက်တင်ဘာသာဗင်တာနှင့် လိုကွီဆိုသော စကား ၂ လုံးပေါင်း၍ ဖြစ်ပေါ်လာခြင်းဖြစ်သည်။ ဗင်တာ၏ အဓိပ္ပါယ်မှာ ဝမ်းပိုက်ဖြစ်၍၊ လိုကွီ၏အဓိပ္ပါယ်သည် စကားပြောခြင်းဖြစ်ရာ ဗင်ထရီလိုကွစ်ဇင်းဟူသည်မှာ ဝမ်းပိုက်မှ စကားပြောခြင်းဟု အနက်ထွက်သည်။

ဗင်ထရီလိုကွစ်ဇင်း အတတ်ကို ဂရိနှင့်အီဂျစ်လူမျိုးတို့ စတင်ခဲ့သည်။ ယခုအခါ အက်စကီးမိုး၊ မာအိုရီ၊ ဇူးလူးစသော မဖွံ့ဖြိုးသေးသည့်လူမျိုးများလည်း ယင်းအတတ်ကို တတ်မြောက် ကျွမ်းကျင်လျက်ရှိကြသည်။ ယင်းအတတ်သည်အလွန်အလေ့အကျင့်လိုသော အတတ်မျိုးဖြစ်သည်။ ရိုးရိုး စကားပြောစဉ်အသံထွက်နည်းကဲ့သို့ ထွက်ရသော်လည်း၊ နှုတ်ခမ်းကို တတ်နိုင်သမျှ မလှုပ်ရှားအောင် နေရသည်။လျှာကိုလည်း လျှာဖျားကလေးသာ၊ လှုပ်၍ ကျန်အပိုင်းကိုငြိမ်နိုင်သမျှငြိမ်ငြိမ်ထားရသည်။ ယင်းသို့ စကားပြောစဉ် အသက်ရှူရာ၌ ဝင်သက်ကို ရှည်လျားစွာသွင်း၍ ထွက်သက်ကို တိုနိုင်သမျှ ညင်ညင်သာသာတိုစေရသည်။ အသံကို အမျိုးမျိုးပြောင်းနိုင်စေရန် လေပြွန်ကိုအစ်ထားရလေသည်။ နှုတ်ခမ်းချင်းထိပြီးမှ ထွက်သော ပဖဗဘ အသံများကိုမူ နှုတ်ခမ်းလှုပ်ရှားမပြောရသဖြင့် က ဂ အသံများဖြင့်ထွက်ယူရသည်။

တခါတရံ အနောက်နိုင်ငံ ပြဇာတ်ပွဲများတွင် အရုပ် တခုကို ရှေ့တွင်ထား၍ အပြန်အလှန် စကားပြောဟန် အသုံးတော်ခံကြသည်။ အရုပ်က အသက်ရှိကဲ့သို့ ပြန်လှန်စကားပြောဟန် ပြုသည့်အခါ၊ အနားရှိ လူကပင် အသံတမျိုးဖြင့်ပြောနေသော်လည်း ပွဲကြည့်ပရိသတ်က အရုပ်ကပင် ပြောနေသကဲ့သို့ အာရုံရောက်နေအောင် ဆွဲဆောင်ထားရသည်။ အရုပ်ကိုလည်း မျက်နှာအနေအထား ဟန်အမူအယာမှအစ အပြန်အလှန်စကား ပြောနေသကဲ့သို့ ဖြစ်အောင် အရုပ်ကို လှုပ်ရှားစေသည့် စက်ခလုတ်နှိပ်ပေးရသည်။ သို့မှသာ အနားမှလူက စကားပြောနေသည်ဟု သိလျက်၊ အရုပ်ကပင် ပြောနေသည်ဟု အာရုံလှည့်စားသွားနိုင်ပေသည်။ အရုပ်အနေနှင့်စကားပြောပြီးလျှင်၊ မိမိအနေနှင့်တလှည့် စကားပြောသည့်အခါ၊ အရုပ်စကားပြောသည့်အခါက အသံလေယူလေသိမ်းစသည်တို့နှင့် လုံးဝမတူအောင်ပြောင်းပေးရသည်။ ယင်းသို့ တယောက်တည်းက အသံလေယူလေသိမ်းမှ စ၍ အမျိုးမျိုးပြောင်းလဲ ပြောဆိုနိုင်ရန် ပါရမီခံလည်းရှိ၍ စိတ်ရှည်ရှည်လေ့ကျင့်ဖို့လိုသည်။ ထိုအတတ်မျိုးနှင့် ခပ်ဆင်ဆင်တူသော မြန်မာတို့အလေ့အထကို ကွက်စိပ်ဟောပြောရာ၌ တွေ့ရပေသည်။

**ဗင်နီဇွဲလားနိုင်ငံ။** ။ဗင်နီဇွဲလားနိုင်ငံသည် တောင်အမေရိကတိုက်၏ မြောက်ဖက်အကျဆုံးသော နိုင်ငံဖြစ်သည်။ ယင်းကို ဗင်နီဇွဲလား ပြည်ထောင်စု သမတနိုင်ငံဟု ခေါ်သည်။ မြောက်ဖက်တွင် ကယ်ရစ်ဗျန် ပင်လယ်၊ အရှေ့ဖက်တွင် ဂီယားနားနယ်များ၊ အရှေ့တောင်ဖက်တွင် ဗရာဇီးနိုင်ငံ၊ အနောက်ဖက်နှင့် အနောက်တောင်ဖက်တွင် ကိုလံဘီးယားနိုင်ငံတို့ရှိသည်။ အရှေ့မှ အနောက်သို့ ၉၂၈ မိုင်ကျယ်၍ တောင်မှ မြောက် ၇၉၀ မိုင်ရှည်သည်။ ကမ်းရိုးတန်းသည် ၁,၇၅၀ မိုင်ရှည်၍တနိုင်ငံလုံး၏အကျယ်အဝန်းမှာ ၃၅၂,၁၄၃ စတုရန်းမိုင်ဖြစ်လျက် ပြည်ထောင်စု မြန်မာနိုင်ငံ၏ တဆခွဲနီးနီးရှိသည်။ တောင်အမေရိကတိုက်ရှိ နိုင်ငံများအနက် ဆဋ္ဌ အကြီးဆုံး နိုင်ငံဖြစ်သည်။

ဗင်နီဇွဲလားဟူသောအမည်မှာ စပိန်ဘာသာဖြင့် ဗင်းနစ်မြို့ကလေးဖြစ်သည်။ ၁၄၉၉ ခုနှစ်တွင် စပိန်လူမျိုး အလွန်းဆိုသေအိုဇေဒါခေါင်းဆောင်သော စွန့်စားရှာဖွေသူ တစုသည် ယခု-မာရာကိုင်းဗိုအိုင်အတွင်း ရေတိမ်ရာ၌ တိုင်များစိုက်၍ တဲအိမ် ခြေတံရှည်များ ဆောက်လုပ်ထားသော အင်ဒီးယန်းရွာကိုတွေ့မြင်ရသောအခါ၊ ဗင်းနစ်မြို့၏ရှုခင်းနှင့်ဆင်ဆင်တူသဖြင့် ဗင်နီဇွဲလားဟုမှည့်ခေါ် ခဲ့သည်။ ယင်းမှ တနိုင်ငံလုံးကို ဗင်နီဇွဲလားဟုခေါ် ဝေါ် ခဲ့ကြလေသည်။

တောင်အမေရိကတိုက် အနောက်ဖက်ကမ်းရိုးတလျှောက် တန်းလျက်ရှိသော အန်းဒီးတောင်တန်းကြီးမှ တောင်တန်းခွဲကလေးများသည် ဗင်နီဇွဲးလားနိုင်ငံအနောက်တောင်ဖက် အလယ်ဖက်နှင့်မြောက်ဖက်တို့သို့ ဖြာထွက် လာလေသည်။ တောင်အမေရိကတိုက်၏ တတိယ အကြီးဆုံး မြစ်ဖြစ်သော အော်ရင်နိုးကိုးမြစ်နှင့် ယင်း၏ မြစ်လက်တက်ပေါင်း ၄၃၆ ခုတို့သည် ဗင်နီဇွဲးလားနိုင်ငံ အကျယ်အဝန်း၏ ၅ ပုံ ၄ ပုံ




ဗင်နီဇွဲးလားနိုင်ငံ တည်နေရာပြမြေပုံ

တွင် ပိုက်ကွန်ကြီးသဖွယ်ဖြန့်၍ စီးဆင်းလျက်ရှိသည်။ အော်ရင်နိုးကိုးမြစ်သည် မိုင် ၁,၇၀၀ ခန့်ရှည်၍ ပွားတိုအယာကူချိုမြို့တည်ရာမြစ်ဝမှမိုင် ၁,၀၀၀ ခန့် အထိလှေသင်္ဘောများသွားလာနိုင်သည်။ အော်ရင်နိုးကိုးမြစ်ဝှမ်းဒေသ၏ ထူးခြားချက်တရပ်မှာ အမ္မဇုန်မြစ်၊ နီးဂရိုးမြစ်တို့နှင့် အော်ရင်နိုးကိုးမြစ်ကို သဘာဝတူးမြောင်းကြီးသဖွယ် ဆက်လျက်ရှိသော ကာဆီကွီးယားရေးမြစ်ပင် ဖြစ်သည်။ အတ္တလန္တိတ် သမုဒ္ဒရာမှ အော်ရင်နိုးကိုးမြစ်ကို ဆန်တက်လာသည့် သင်္ဘောများသည် ကာဆီကွီးယားရေးမှ တဆင့် နီးဂရိုးမြစ်၊ ယင်းမှ အမ္မဇုန်မြစ်ကို စုန်ဆင်းကာ အတ္တလန္တိတ် သမုဒ္ဒရာထဲသို့ပြန်ထွက်နိုင်လေသည်။

ဗင်နီဇွဲးလားနိုင်ငံကို သဘာဝအားဖြင့် ၄ ပိုင်းခွဲခြားနိုင်သည်။ ပင်လယ်ကမ်းရိုးတန်းဒေသ၊ တောင်တန်း ဒေသ၊ ကုန်းပြင်မြင့်ဒေသနှင့် အီလာနော့ခေါ် လွင်ပြင်ဒေသတို့ဖြစ်သည်။ ပင်လယ်ကမ်းရိုးတန်းဒေသတွင် ကမ်းရိုးလွန်ရှိ ကျွန်းကလေးများပါဝင်သည်။ စတုရန်းမိုင် ၂၀,၀၀၀ ကျော် ကျယ်ဝန်းသည်။ ပုလဲဖမ်းလုပ်ငန်း အများအပြား လုပ်ကိုင်သည်။ ဗင်နီဇွဲးလားနိုင်ငံထွက် ရေနံအများဆုံး ထွက်ရာ ဒေသဖြစ်သည်။ ရာသီဥတုမှာ ပူ၍ စိုစွတ်သည်။ တောင်တန်း ဒေသသည် ဗင်နီဇွဲးလားမြောက်ပိုင်းနှင့် အနောက်မြောက်ပိုင်းရှိ အန်းဒီးတောင်တန်းမှ ဖြာထွက်သော တောင်တန်းများနှင့် မိုင်ပေါင်း ၅၀၀ ခန့် ကမ်းရိုးတန်းနှင့်ပြိုင်၍ တန်းဆင်းသွားသော တောင်တန်းများရှိရာ ဒေသဖြစ်သည်။ ယင်းဒေသသည် စတုရန်းမိုင်ပေါင်း ၄၀,၀၀၀ ခန့်ကျယ်ဝန်း၍၊ နိုင်ငံရေးနှင့် စီးပွားရေးလောက၏ အာရုံစူးစိုက်ရာ ဒေသဖြစ်သည်။ အော်ရင်နိုးကိုးမြစ်၏ လက်ျာဖက်ကမ်းမှ ဗင်နီဇွဲးလား-ဗရာဇီးနိုင်ငံနယ်နိမိတ်အတွင်းရှိ ဂီယားနားကုန်းပြင်မြင့် ဒေသသည် ဗင်နီဇွဲးလားနိုင်ငံ၏ တဝက်ခန့်ရှိသည်။ သစ်တောများ အလွန်ထူထပ်၍ အချို့နေရာများသို့ ယခုတိုင် လူသူရောက်ပေါက်ခြင်းမရှိသေးချေ။ တွင်းထွက် သတ္တုများနှင့် အဖိုးတန်သစ်တောများရှိရာ ဒေသဖြစ်သည်။ လူနေအလွန်နည်း၍ အင်ဒီးယန်းလူမျိုးများသာရှိသည်။ အီလာနော့ လွင်ပြင်ဒေသသည် ကိုလုံးဘီးယားနှင့် ဗင်နီဇွဲးလားနိုင်ငံများ၏ နယ်စပ်မှ ကယ်ရစ်ဗျန်ပင်လယ်အထိ တောင်တန်းဒေသနှင့် ဂီယားနားကုန်းပြင်မြင့် ဒေသအကြားတွင် တည်ရှိသည်။ ယင်းဒေသ၏ များစွာသော အပိုင်းသည် ပင်လယ်ရေမျက်နှာပြင်အထက်ပေ ၆၅၀ သာမြင့်သောမြေနိမ့်ပိုင်း ဖြစ်သည်။ မိုးရာသီတွင် ရေလွှမ်းမိုးသည်။ မြက်ခင်းပေါ၍ ကျွဲ နွားမွေးမြူရာ ဒေသဖြစ်သည်။

ဗင်နီဇွဲးလားနိုင်ငံသည် အပူပိုင်းဇုန်တွင်လုံးလုံးကျရောက်နေသဖြင့် အပူပိုင်းရာသီဥတုရှိသည်။ သို့ရာတွင် မြေမျက်နှာပြင်အနိမ့်အမြင့်နှင့် တိုက်ခတ်သော လေကိုလိုက်၍ ရာသီဥတုအပိုင်းကြီး ၃ ပိုင်းခွဲနိုင်သည်။ ပင်လယ်ရေမျက်နှာပြင်အထက်ပေ ၁,၇၀၀ ခန့်မြင့်သော ပင်လယ်ကမ်းရိုးတန်း ဒေသနှင့် အီလာနော့လွင်ပြင်ဒေသသည် အပူချိန် ဖာရင်ဟိုက် ၇၅° မှ ၈၇° အတွင်းရှိ၍ပူအိုက်သည်။ ပေ ၁,၇၀၀ မှ ၆,၀၀၀ အထိမြင့်သောအန်းဒီးနှင့် ကမ်းရိုးတောင်တန်းဒေသသည် အပူချိန် ဖာရင်ဟိုက် ၅၀° မှ ၇၅° အတွင်းရှိသည်။ ကုန်သည်လေမှန်တိုက်ခတ်ရာဒေသဖြစ်သဖြင့် ရာသီဥတု သမ မျှတသည်။ ထင်ရှားသောမြို့ကြီးများနှင့် လူနေအိမ်ခြေ ပေများရာ၊ အရောင်းအဝယ် ဖွံ့ဖြိုးရာ ဒေသဖြစ်သည်။ ပေ ၆,၀၀၀ အထက်မြင့်သော ဒေသသည် အေးသောအပိုင်းဖြစ်၍ လူနေနည်းသည်။ ဗင်နီဇွဲးလားနိုင်ငံတွင် စိုစွတ်သော ရာသီဥတုနှင့် ခြောက်သွေ့သော ရာသီဥတုဟူ၍ တနှစ်လျှင် ရာသီဥတု ၂ မျိုးသာရှိသည်။ မေလမှ နိုဝင်ဘာလအတွင်း မိုးများစွာရွာသွန်းသည်။ ယင်းသည် ပူအိုက်စိုစွတ်သော ရာသီဖြစ်သည်။ ဒီဇင်ဘာမှ ဧပြီလအတွင်း ခြောက်သွေ့သော ရာသီဖြစ်သည်။ မြောက်ဖက်မှ တိုက်ခတ်သော ကုန်သည်လေမှန်ကြောင့် ရာသီဥတုမှာ ပိုမိုမျှတသည်။ ယေဘုယျအားဖြင့်မူ ဗင်နီဇွဲးလားနိုင်ငံ၏ ရာသီဥတုသည် ကျန်းမာရေးနှင့် ညီညွတ်ကောင်းမွန်သော ရာသီဥတုဖြစ်သည်။

၁၉၅၀ ပြည့်နှစ် သန်းကောင် စာရင်းအရ ဗင်နီဇွဲးလားနိုင်ငံ၏ လူဦးရေသည် ၅,၀၁၄,၇၃၁ ယောက်ဖြစ်၍ ၁၉၅၃ ခုနှစ်

ခန့်မှန်းခြေအရ ၆,၆၀၇,၀၀၀ ခန့်ရှိသည်။ ယင်းတို့အနက် ရာခိုင်နှုန်း ၂၀ ခန့်သည် လူဖြူများဖြစ်၍ ၆၅ ရာခိုင်နှုန်းခန့်သည် လူဖြူနှင့် တိုင်းရင်းသားလူမျိုးတို့မှ ပေါက်ဖွားသော ကပြားများဖြစ်သည်။ ကျန် ၁၅ ရာခိုင်နှုန်းသည် တိုင်းရင်းသား အင်ဒီးယန်း လူမျိုးများနှင့် နီးဂရိုးလူမျိုးများ ဖြစ်သည်။ မြောက်နှင့် အနောက်မြောက်တောင်တန်း ဒေသတွင် လူအများဆုံးနေထိုင်၍၊ ဂီယားနားကုန်းပြင်မြင့် ဒေသသည် လူနေအနည်းဆုံးဖြစ်သည်။ အများအားဖြင့် စပိန်ဘာသာစကားကို ပြောဆိုကြ၍၊ ဗရင်ဂျီဂိုဏ်းဝင်များ ဖြစ်ကြသည်။

လယ်ယာစိုက်ပျိုးခြင်းနှင့် ကျွဲ နွား တိရစ္ဆာန်မွေးမြူခြင်းသည်ဗင်နီဇွဲးလားနိုင်ငံ၏ အဓိကလုပ်ငန်းဖြစ်သည်။ တနိုင်ငံလုံးရှိ လူဦးရေ၏ ၄၀ ရာခိုင်နှုန်းသည် လယ်ယာစိုက်ပျိုးခြင်းဖြင့် အသက် မွေးမြူကြသည်။ အထူးသဖြင့် မြောက်ပိုင်းတွင် စိုက်ပျိုးရေးကို ပိုမိုလုပ်ကိုင်ကြသည်၊ ကာဖီပင်ကို အများဆုံး စိုက်ပျိုးလုပ်ကိုင်၍ ကကေးအိုးသည် ဒုတိယအကြီးကျယ်ဆုံးစိုက်ပျိုးရေးထွက်ကုန်ဖြစ်သည်။ သကြား၊ပြောင်း၊ ပဲ၊ အုန်းနှင့် အပူပိုင်းဇုန် အသီးအနှံ များကိုလည်း စိုက်ပျိုးကြသည်။ လွင်ပြင်ဒေသရှိ မြက်ခင်းများတွင် ကျွဲ နွား တိရစ္ဆာန်များ မွေးမြူ၍ သားရေများကို တင်ပို့ရောင်းချကြသည်။ သစ်တောဒေသမှလည်း ကြက်ပေါင်စေးနှင့် ဘယဆေးပင် များစွာထွက်သည်။ ယခုအခါ ဗင်နီဇွဲးလား နိုင်ငံတွင် စက်မှုလုပ်ငန်းများကို အစိုးရကငွေကြေးအကူအညီဖြင့် အားပေးသောကြောင့် စက်မှုလုပ်ငန်းများ ဖွံ့ဖြိုးလာသော်လည်း၊ နိုင်ငံရေးလှုပ်ရှားမှုများ မကြာခဏပေါ် ပေါက်သောကြောင့်၊ တိုးတက်သင့်သလောက် မတိုးတက် သေးချေ။ ချော့ကလက်၊ဗိလတ်မြေ၊ဗီယာ၊စီးကရက်၊ဖိနပ်၊ ဘယဆေး၊ ဖယောင်းတိုင်၊ မီးခြစ်၊ ဆပ်ပြာ၊ အထည်အလိပ်နှင့် အသားဗူးလုပ်ငန်းစသည့် လုပ်ငန်းများလုပ်ကိုင်ကြသည်။

ဗင်နီဇွဲးလားနိုင်ငံသည် ကမ္ဘာပေါ်တွင် ရေနံဒုတိယ အများဆုံးထွက်၍ အများဆုံး တင်ပို့ရောင်းချသော နိုင်ငံ ဖြစ်သည်။ အထူးသဖြင့် မာရာကိုင်းဗို ဒေသတွင် အများဆုံးထွက်သည်။ နိုင်ငံခြား ကုမ္ပဏီများက လာရောက်၍ ရေနံလုပ်ငန်းကို အကြီးအကျယ် လုပ်ကိုင်ကြသည်။ ဗင်နီဇွဲးလားနိုင်ငံထွက်ကုန်၏ ၉၀ ရာခိုင်နှုန်းသည် ရေနံဖြစ်သည်။ဗင်နီဇွဲးလားနိုင်ငံထွက် အခြားတွင်းထွက် သတ္တုများမှာ ရွှေ ၊ ကြေးနီ၊ မန်ဂနိ၊ ကျောက်မီးသွေး၊ ကတ္တရာ၊ သံနှင့်ဆားတို့ ဖြစ်သည်။

၁၉၅၃ ခုနှစ်တွင် ဗင်နီဇွဲးလားနိုင်ငံ၌ တနှစ်ပတ်လုံး သွားလာနိုင်သော ကားလမ်းသည် မိုင်ပေါင်း ၁၀,၂၄၃ ရှိ၍၊ မီးရထားလမ်းမကြီး ၁၁ လမ်းရှိရာမိုင်ပေါင်း ၆၄၀ ရှိသည်။ ယင်းမီးရထားလမ်းမကြီးများမှ သတ္တုတွင်းနှင့် လယ်ယာစိုက်ပျိုး



ဗင်နီဇွဲးလားနိုင်ငံ၏ မြို့တော်ဖြစ်သော ကရကပ်မြို့၏ ရှုခင်း



ကရကပ်မြို့ကို ရံနေသော ကရကပ် တောင်တန်းနှင့်မြို့ခြင်း တစိတ်တဒေသ

ဒေးဒေသများသို့ မိုင်ပေါင်း ၂,၆၄၀ ရှိ လမ်းခွဲများဖြင့် ဆက်သွယ်ထားသည်။ ရေလမ်းအားဖြင့်မူ နွေအခါ၌ နိုင်ငံတွင်းရှိ မြစ်များတွင် မိုင်ပေါင်း ၁၂,၀၀၀ ခန့် ကူးသန်းသွားလာနိုင်လေသည်။

ခရစ္စတိုဖာကိုလံဗပ်သည် တတိယအကြိမ် ခရီးထွက်ခဲ့ရာ၌ ၁၄၉၈ ခုနှစ် ဩဂုတ်လ ၁ ရက်နေ့တွင် အော်ရင်နိုးကိုးမြစ်ဝအနီး ကုန်းမြေကိုတွေ့ရှိခဲ့ခြင်းဖြင့် တောင်အမေရိကတိုက်ကို တွေ့ရှိခဲ့ပြီးနောက်၊ ၁၄၉၉ ခုနှစ်တွင် အမေရိဂို ဗက်စပွတ်ချီ ပါဝင်၍ အလွန်းဆို သေ အိုဇေဒါ ခေါင်းဆောင်သော စပိန်စွန့်စားရှာဖွေသူများ အဖွဲ့က မာရာကိုင်း ပိုအိုင် ဒေသသို့ ရောက်ရှိကြရာမှအစ စပိန်လူမျိုးများလာရောက် နေထိုင်ကြသည်။ စတင် ဝင်ရောက်နေထိုင်စဉ်က စပိန်လူမျိုးတို့နှင့် တိုင်းရင်းသား အင်ဒီးယန်းလူမျိုးတို့ မကြာခဏတိုက်ပွဲများ ဖြစ်ပွားကြသည်။ ၁၅၂၅ ခုနှစ်တွင် စပိန် ဧကရာဇ်ပဉ္စမချားဘုရင်က ဂျာမနီပြည်၊ အော့စဗတ်မြို့မှ ကြွယ်ဝချမ်းသာသော ကုန်သည် များဖြစ်သည့် ဗဲလဆားဆွေမျိုးစုအား ဗင်နီဇွဲးလား နိုင်ငံကို အငှါးချလိုက်သည် မှအစ ယင်းနိုင်ငံသည် ကမ္ဘာသစ်တွင် ပဌမဆုံးသော ဂျာမန်ကိုလိုနီ ဖြစ်လာသည်။ သို့ရာတွင် ဗဲလာဆားတို့က စာချုပ်ပါ ဝန်ခံချက်အတိုင်း မလိုက်နာသဖြင့် စာချုပ်ကို ဖျက်သိမ်းခြင်းခံရသည်။ ထိုနောက် စပိန်တို့က ထိုနယ်မြေကို ပြန်လည်အုပ်ချုပ်သည်။ ၁၈၁၀ ခုနှစ်တွင် ဗင်နီ ဇွဲးလား နိုင်ငံသည် စပိန်အား တော်လှန်သည်။ ၁၈၁၁ ခုနှစ်တွင် လွတ်လပ်ရေးရသည်။ ယင်းသည် တောင်အမေရိက နိုင်ငံများအနက် လွတ်လပ်ရေးကို ရှေးဦးဆုံး ရယူခဲ့သောနိုင်ငံဖြစ်သည်။ ပဌမသော် အက်ကွာဒေါနှင့် ကိုလံဘီယား နိုင်ငံများနှင့် ပေါင်း၍ ကိုလံဘီယားပြည်ထောင်စုဟု ဖွဲ့စည်းထားသော်လည်း၊ ၁၈၃၀ ပြည့်နှစ်တွင် ကိုလံဘီယားပြည်ထောင်စုမှ ခွဲထွက်ကာ ဗင်နီဇွဲးလား သမတနိုင်ငံ ထူထောင်လေသည်။

ဗင်နီဇွဲးလားနိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေကို ၁၉၅၃ ခုနှစ် ဧပြီလ ၁၅ ရက်နေ့တွင် နောက်ဆုံးပြင်ဆင် အတည်ပြုလိုက်သည်။ အခြေခံဥပဒေအရ အမတ် ၄၀ ပါဝင်သော အထက်လွှတ်တော်နှင့် အမတ် ၁၆၀ ပါဝင်သော အောက်လွှတ်တော်ဟူ၍ ဥပဒေပြုလွှတ်တော် ၂ ရပ်ပါဝင်သည့် အမျိုးသား ကွန်ဂရက်ရှိသည်။ ၄ နှစ်တကြိမ် ရွေးကောက်ပွဲကျင်းပ၍ အမတ်များကို တင်မြှောက်ကြသည်။ အသက် ၂၁ နှစ်မှ ၆၅ နှစ်အတွင်း ကျား၊ မ တိုင်း မဲမပေးမနေရချေ။ သမတကိုမူ ၅ နှစ်တကြိမ် ရွေးကောက်တင်မြှောက်

သည်။အသက် ၁၈ နှစ်ပြည့်သူတိုင်း စစ်ပညာသင်ရ၍ စစ်မှုကို မထမ်းမနေရ သတ်မှတ်ထားသည်။ မူလတန်းပညာကို မသင်မနေရ အခမဲ့ သင်ကြားပေးသည်။ အထက်တန်းပညာ သင်ကြားရန်အတွက် တက္ကသိုလ်ကျောင်းကြီး ၅ ကျောင်းရှိ၍ ၁၉၄၇ ခုနှစ်က ဥပဒေပြု၍ တည်ထောင်ထားသော အလုပ်သမား တက္ကသိုလ်တခု ရှိသည်။

ဗင်နီဇွဲလားနိုင်ငံ၏ မြို့တော်မှာ ကရကပ်မြို့ဖြစ်၍၊ ၁၉၅၉ ခုနှစ် ခန့်မှန်းသန်ကောင်စာရင်းအရ လူဦးရေ ၁,၂၀၀,၀၀၀ ယောက်ရှိသည်။ အခြားထင်ရှားသော မြို့ကြီးများမှာ မာရကိုင်းဗိုမြို့၊ ဗာကွီဆီမီတိုမြို့၊ မာရကေးမြို့၊ ဗလန်းရှားမြို့၊ ဆန်ခရစ္စတိုဗောမြို့တို့ ဖြစ်လေသည်။

**ဗင်းဒေါ် လူမျိုး။** ။ဗင်းဒေါ် လူမျိုးသည် တျူတန်နစ် လူမျိုးစုမှ ဆင်းသက်လာသူများ ဖြစ်၍၊ ဂေါလ လူမျိုးများနှင့်လည်း အဆက်အနွယ်ချင်း နီးသည်။ ယင်းတို့သည် ဦးစွာ ဉ်ဂျာမနီနိုင်ငံအရှေ့မြောက်ဖက် ဒေသများ၌ နေထိုင်သူများ ဖြစ်၍၊ ဥရောပ နယ်ပယ်များကို တိုက်ခိုက် လုယက်လေ့ ရှိသည်။

အေဒီ ၄၀၆ ခုနှစ်တွင် ဂျာမနီနိုင်ငံမှ လူရိုင်းမျိုးများနှင့် ပေါင်းကာ အနောက်ဖက်သို့ ရွှေ့လာကြရာမှ ရိုင်းမြစ်ကို ဖြတ်၍၊ ဂေါလပြည်နယ်တွင်းသို့ ဝင်ရောက်ကြလေသည်။ သို့သော် ဖရန့်လူမျိုးတို့က ယင်းတို့အား တိုက်ခိုက်နှိမ်နင်းလိုက်သဖြင့်၊ ဂေါလပြည်နယ်မှ ပီးရနီးကိုဖြတ်ကျော်၍ စပိန်နိုင်ငံတွင်းသို့ ဝင်ရောက် နေထိုင်ခဲ့ကြသည်။

စပိန်နိုင်ငံတွင် နှစ်ပေါင်း ၂၀ ခန့်မျှ အခြေစိုက် နေထိုင်ကြပြီးနောက် ၄၂၉ ခုနှစ်တွင် ရောမအစိုးရအား မကျေမနပ်ဖြစ်နေသော ရောမဘုရင်ခံ တဦး၏ ဖိတ်ခေါ်ချက်အရ ရောမလက်အောက်ခံ အာဖရိက ပြည်နယ်များဖက်သို့ ရွှေ့ပြောင်းကြပြန်သည်။ ထိုအချိန်က ဗင်းဒေါ်လူမျိုးတို့၏ ဘုရင်မှာဂေးဆာရစ်ဖြစ်၍၊ ထိုသူမှာ နောင်အခါတွင် ရောမမြို့တော်နှင့် ကားသေ့ မြို့ကြီးများကို ဒလကြမ်း မွှေနှောက်မည့် သူပင်တည်း။

အာဖရိကတိုက်ရှိ ရောမနယ်ပယ်များကို ဗင်းဒေါ်တို့က နှောင့်ယှက် ဖျက်ဆီးလေရာ၊ ထိုစဉ်က ရောမကေရာဇ် တတိယ ဗလင်တင်းနီးယန်းက ဂေးဆာရစ်ဘုရင်နှင့် ၄၃၅ ခုနှစ်တွင် သဘောတူစာချုပ် ချုပ်၍၊ အာဖရိကတိုက်ရှိ အချို့ ရောမနယ်ပယ်များကို ပေးရလေသည်။ သို့သော် ၄၃၉ ခုနှစ်တွင် ဂေးဆာရစ်သည် ထိုပြည်နယ်များရရုံဖြင့် မကျေနပ်ဘဲ၊ ရောမလက်အောက်ဖြစ်နေသေးသော ကားသေ့မြို့ကြီးကို တိုက်ခိုက် သိမ်းပိုက်ပြန်သည်။ ထိုအခါမှစ၍ ကားသေ့မြို့ကြီးသည် ဗင်းဒေါ်တို့လက်အောက်သို့ နှစ်ပေါင်း ၁၀၀ ခန့် ကျရောက်ခဲ့ရလေသည်။

ဂေးဆာရစ်သည် ကားသေ့မြို့ကြီးကို မိမိတို့၏ ပင်လယ်ဓားပြရေတပ်ဌာနချုပ်ပြုလုပ်ကာနှစ်ပေါင်း ၃၀ ခန့်မျှမြေထဲပင်လယ်တွင် တိုက်ခိုက်မင်းမူနေခဲ့လေသည်။ ၄၅၅ ခုနှစ်တွင် ကား ဗလင်တင်းနီးယန်း ကေရာဇ်၏ မိဖုရား ယူဒိုရှားဖိတ်ခေါ်ချက်အရ၊ ရောမမြို့တော်ကြီးကို တိုက်ခိုက်၍၊ အဖိုးတန်ပစ္စည်းဟူသမျှနှင့် ယူဒိုရှားမိဖုရားနှင့် သမီးတော်နှစ်ပါးကို ကားသေ့မြို့သို့ ယူဆောင်ခဲ့လေသည်။ ရောမမြို့တော်ရှိ ဗရင်ဂျီဂိုဏ်းဝင်များအားလည်း သတ်ဖြတ်ညှဉ်းဆဲခြင်းများ ပြုလေသည်။ဂေးဆာရစ်အားနှိမ်နင်းရန် ဥရောပပြည်နယ်များမှ စစ်တပ်များလွှတ်သော်လည်း မအောင်မြင်ပေ။ ဤသို့ဖြင့် ဂေးဆာရစ်နှင့်သူ၏ အဆက်အနွယ်များသည် ထင်သလို မင်းမူနေကြလေသည်။

ရောမအရှေ့နိုင်ငံတော် ဖြစ်သော ဗိုင်ဇင်းတိုင်နိုင်ငံတော်တွင် ဘုန်းလက်ရုံးနှင့်ပြည့်စုံသော ပဌမ ဂျပ်စတင်းနီးယန်း ဘုရင်၏ လက်ထက်တွင်မှ ဗင်းဒေါ်များကို နှိမ်နင်းနိုင်လေသည်။ ၅၃၃ ခုနှစ် စက်တင်ဘာလတွင် ဂျပ်စတင်းနီးယန်းဘုရင်၏ စစ်ဗိုလ်ချုပ်ကြီး ဗယ်လီဆာရီးယပ်သည် အင်အားတောင့်တင်းသော ရေတပ်ကြီးနှင့် ဗင်းဒေါ်တို့၏ ဌာနချုပ်ဖြစ်သော ကားသေ့မြို့ကို တိုက်ခိုက် သိမ်းပိုက်လိုက်လေသည်။ (ဂျပ်စတင်းနီးယန်း၊ ပဌမ — ရှု။)

ထိုစဉ်က ဗင်းဒေါ်တို့၏ဘုရင်သည် လက်လွတ် ထွက်ပြေးသော်လည်း နောင်အခါတွင် လက်နက်ချကာ အမိခံသည်။ ဖမ်းဆီးရမိသော ဗင်းဒေါ်သုံ့ပန်းများကိုလည်း ကွန်စတင်တီနိုပယ်မြို့တော်သို့ ခေါ်ဆောင်သွားရာ အချို့သည် ဂျပ်စတင်းနီးယန်း ဘုရင်၏ စစ်တပ်များတွင် ဝင်ရောက် အမှုထမ်းကြသည်။ အာဖရိကတိုက်တွင် ကျန်ရစ်သော ဗင်းဒေါ်အချို့သည် ဆက်လက် ပုန်ကန်လျက်ရှိရာ၊ ဗယ်လီဆာရီးယပ်က အပြီးတိုင် နှိမ်နင်းလိုက်သည်။ ထိုအချိန်မှစ၍ ဗင်းဒေါ်တို့သည် ရောမတို့နှင့် မျိုးချင်းရောကာ ကမ္ဘာ့သမိုင်းမှ ပျောက်ကွယ်သွားကြလေသည်။

**ဗင်းနက်၊ အာနို** (ခရစ် ၁၈၆၇ — ၁၉၃၁) ။ ။အင်္ဂလိပ် ဝတ္ထုပြဇာတ်နှင့် စာနယ်ဇင်းဆရာ အီးနော့အာနိုဗင်းနက်ကို အင်္ဂလန်ပြည်ရှိ အိုးခွက်လုပ်ကိုင်ရာ နာမည်ကြီး စတက်ဖို့ရှိုင်ယာနယ် ဟန်လီမြို့အနီး ရှယ်လတန်မြို့ကလေးတွင် ၁၈၆၇ ခုနှစ်မေလ ၂၇ ရက်နေ့၌ ဖွားမြင်သည်။ ဖခင်ဖြစ်သူမှာ ဝတ်လုံတော်ရကြီးဖြစ်သည်။

အာနိုဗင်းနက်သည် နျူးကပ်ဆဲမြို့ အလယ်တန်းကျောင်းတွင် ပညာသင်ပြီးနောက် ဖခင်ထံတွင် အခကြေးငွေမရသော ဝတ်လုံစာရေးဝင်လုပ်ယင်း ဥပဒေပညာကိုလေ့လာသည်။ ယင်းသို့ လေ့လာနေစဉ် လန်ဒန်တက္ကသိုလ်မှ ကျင်းပသောဌာနေမဟုတ်သော ကျောင်းသားများအတွက်

တက္ကသိုလ်ဝင် စာမေးပွဲကို ဝင်ရောက် ဖြေဆိုရာ အောင်မြင်သည်။ ၁၈၈၅ ခုနှစ်တွင် လန်ဒန်မြို့သို့တက်၍ ဝတ်လုံကြီးတဦး၏ စာရေးအဖြစ် လုပ်ကိုင်သည်။

ဝတ်လုံစာရေး လုပ်နေစဉ်အတွင်း၌ ဗင်းနက်သည် ဝါသနာအလျောက် ဝတ္ထုတိုနှင့် ဆောင်းပါးများကို ရံဖန်ရံခါ ရေးသားခဲ့သည်။ သူ၏ဝတ္ထုတိုတခုကို စာအုပ်ဝါ ဂျာနယ်မှ ရွေးချယ် ထည့်သွင်းလိုက်သည်မှစ၍ စာရေးဆရာအဖြစ် အသက်မွေးရန် ၁၈၉၃ ခုနှစ်တွင် ရှေ့နေစာရေးအလုပ်မှ ထွက်လိုက်ကာ၊ လန်ဒန်မြို့မှ ထုတ်ဝေသော 'အမျိုးသမီး' အမည်ရှိ မဂ္ဂဇင်းတိုက်တွင် လက်ထောက် စာတည်းအဖြစ် ဝင်ရောက်လုပ်ကိုင်လေသည်။ ၁၈၉၆ ခုနှစ်တွင် ထိုမဂ္ဂဇင်း၏ တာဝန်ခံစာတည်း ဖြစ်လာသည်။

၁၈၉၈ ခုနှစ်တွင် အာနိုဗင်းနက်သည် "အညာသား" အမည်ရှိ ဝတ္ထုရှည်ကြီးကို ရေးဦးစွာ ရေးသားထုတ်ဝေခဲ့သည်။ ထိုဝတ္ထုကို ထုတ်ဝေသည့်အချိန်တွင် အာနိုဗင်းနက်မှာ အသက် ၃၀ ခန့်ရှိလေပြီ။

၁၉၀၀ ပြည့်နှစ်တွင် အာနိုဗင်းနက်သည် အမျိုးသမီး ဂျာနယ်စာတည်းအဖြစ်မှ လုံးဝနုတ်ထွက်လိုက်ပြီးလျှင်၊ ပြင်သစ်နိုင်ငံဖောင်တိန်ဗလိုးမြို့၌ ၈ နှစ်ခန့်သွားရောက်နေထိုင်၍၊ မိမိဖာသာဝတ္ထုများ၊ ဆောင်းပါးများနှင့် စာပေဝေဖန်ချက်များကို ရေးသားခဲ့လေသည်။ တနှစ်လျှင် စာလုံးရေ ငါးသောင်းခန့် ရေးခဲ့သည်ဟု ဆိုသည်။ ၁၉၀၇ ခုနှစ်တွင် ပြင်သစ် ကချေသည် မာဂရစ်ဟီဗတ်နှင့် လက်ထပ်သည်။

၁၉၀၈ ခုနှစ်တွင်ထုတ်ဝေသော "အိမ်ရှင်မများပုံပြင်" အမည်ရှိ ဝတ္ထုမှာ ဗင်းနက်၏အကောင်းဆုံး လက်ရာဟုပင် ဆိုရပေမည်။ ထိုဝတ္ထုထွက်လာသည့်အချိန်မှစ၍ ဗင်းနက်သည် သူ့ခေတ် အင်္ဂလိပ်စာပေလောကတွင် ထိပ်တန်း ဝတ္ထုရေးဆရာကြီးအဖြစ် အသိအမှတ်ပြုခြင်းခံရလေသည်။ ယင်းဝတ္ထု၌ သူမွေးဖွားရာ စတက်ဖို့ရှိုင်ယာ မြောက်ပိုင်းကို နောက်ခံထား၍ ရေးသားလေသည်။

ဗင်းနက်ရေးသားခဲ့သော ဝတ္ထုများစွာရှိသည့် အနက် ထင်ရှားသော ဝတ္ထုများမှာ "ကလေးဟင်းဂါး" (၁၉၁၀)၊ "ဟီလဒါလက်စဝေး" (၁၉၁၁) နှင့် "ဤနှစ်ဦး" (၁၉၁၅) အစရှိသော ဝတ္ထုများဖြစ်လေသည်။ ထို့ပြင် ဗင်းနက်သည် "ဂျကော့တွန်ဆန်" ဟူသော ကလောင်အမည်ဖြင့် "ခေတ်သစ်" စာစောင်တွင် ဝေဖန်ရေးဆောင်းပါးများကို အပတ်စဉ် ရေးသားထည့်သွင်းခဲ့သေးသည်။ဗင်းနက်၏လက်ရာ စာအုပ် ၅၀ ခန့်ရှိခဲ့သည့်အနက် ပြဇာတ် ၁၃ ခု ပါဝင်သည်။ သူ၏ ထင်ရှားသော ပြဇာတ်များမှာ "လူထုဘာလိုချင်သလဲ" (၁၉၀၉)၊ "စွန့်စားခန်းကြီး" (၁၉၁၃) စသည်တို့ဖြစ်သည်။

အာနိုဗင်းနက်သည် နေ့စဉ် တွေ့မြင်နေကျ အဖြစ်အပျက်ကလေးများကို အဆန်းသဖွယ်ဖြစ်အောင် ရေးနိုင်၍ အထူး



ဗြိတိသျှစာပေလောကတွင်ထင်ရှားသော ဝတ္ထုရေးဆရာအာနိုဗင်းနက်

အဆန်းကလေးများကိုလည်း မြင်နေကျ အရာများကဲ့သို့ ထင်မှတ် လာအောင် ရေးနိုင်သောစွမ်းရည်ရှိသည်ကို တွေ့ရပေသည်။ ၁၉၃၁ ခုနှစ် မတ်လ ၂၇ ရက်နေ့တွင် လန်ဒန်မြို့၌ အာနိုဗင်းနက် ကွယ်လွန်ခဲ့လေသည်။

**ဗင်းနက်ရှ,အီး** ( ခရစ် ၁၈၈၄–၁၉၄၈)။ ။ချက်ကိုဆလိုဗားကီးယားနိုင်ငံ၏ နိုင်ငံပြုသူခမိန်ကြီး အက်ဒွပ် ဗင်းနက်ရှကို ၁၈၈၄ ခုနှစ်မေလ ၂၈ ရက်နေ့တွင် ဗိုဟီးမီးယားပြည်နယ် ကော့ဇလာနီရွာ၌ မွေးဖွားသည်။ သူ၏ဖခင်မှာ ဆင်းရဲသားလယ်သမားတဦးမျှသာဖြစ်သော်လည်း သူ့အား ပရာဟာမြို့ရှိ တက္ကသိုလ်သို့ပို့၍ ပညာသင်စေခဲ့သည်။ ထို့နောက် ပါရစ်၊ လန်ဒန်နှင့် ဒီဇွန်းတက္ကသိုလ်များတွင် ဆက်လက်၍ ပညာသင်ကြားခဲ့သည်။ ၁၉၀၈ ခုနှစ်တွင် ပြင်သစ်နိုင်ငံ ဒီဇွန်းတက္ကသိုလ်မှ ဥပဒေဆိုင်ရာ ပါရဂူဘွဲ့ကို ရရှိခဲ့ပြီးနောက်၊ ပရာဟာမြို့သို့ပြန်၍ ကောလိပ်ကျောင်းတခုတွင် ပါမောက္ခအဖြစ် လုပ်ကိုင်ခဲ့သည်။

ပဌမ ကမ္ဘာစစ် မဖြစ်မီက၊ ဩစတြီးယား–ဟန်ဂေရီနိုင်ငံ၏ တစိတ်တဒေသမျှသာဖြစ်နေသေးသော ချက်ကိုဆလိုဗားကီးယားပြည် သီးခြားလွတ်လပ်ရေးအတွက် ကြိုးပမ်းကြရာတွင်၊ ဒေါက်တာ ဗင်းနက်ရှလည်း ပါဝင်သည်။ ပါရစ်မြို့တွင် ပါမောက္ခအဖြစ် လုပ်ကိုင်နေယင်းကပင် ချက်လူမျိုးတို့၏ လွတ်လပ်ရေးတိုက်ပွဲတွင် ကိုယ်ထိလက်ရောက် ပါဝင်

ကူညီခဲ့၍၊ နောင်အခါတွင် ခေါင်းဆောင်ကြီး ဒေါက်တာ တာမတ်မာဆာရစ်၏ လက်ရုံးတဆူ ဖြစ်လာသည်။ (မာဆာရစ်,တီ၊ဂျီ — ရှု။) ပဌမကမ္ဘာစစ် ဖြစ်ပွားနေစဉ် ၁၉၁၅ ခုနှစ်က ပါရစ်မြို့၌ ချက်ကိုဆလိုဗက် အမျိုးသားကောင်စီ ဖွဲ့စည်း တည်ထောင်ရေးကို ဒေါက်တာမာဆာရစ်နှင့်အတူ ကြိုးပမ်းခဲ့ပြီးလျှင် ထိုကောင်စီ၏ အတွင်းရေးမှူးချုပ်အဖြစ် ဆောင်ရွက်သည်။

ပဌမကမ္ဘာစစ် ပြီးဆုံးချိန်တွင် ဩစတြီးယား နိုင်ငံသည် စစ်ရှုံးနိုင်ငံဖြစ်သဖြင့် စစ်ပြေငြိမ်းစာချုပ် ချုပ်ဆိုသောအခါ၊ ချက်လူမျိုးတို့ အခွင့်သာ၍ သီးခြားလွတ်လပ်ရေး ရကြသည်။ ချက်ကိုဆလိုဗားကီးယား သမတနိုင်ငံ၏ ပဌမဆုံး ဖွဲ့စည်းသော အစိုးရအဖွဲ့တွင် ဒေါက်တာ ဗင်းနက်ရှသည် နိုင်ငံခြားရေးဝန်ကြီးအဖြစ် ပါဝင်ခဲ့ရပြီးလျှင်၊ ထိုရာထူး၌ ၁၉၃၅ ခုနှစ်အထိတဆက်တည်း ရွက်ဆောင်ခဲ့သည်။ (၁၉၂၁ ခုနှစ် အောက်တိုဘာလမှ ၁၉၂၂ ခုနှစ် ဇူလိုင်လအထိ ဝန်ကြီးချုပ်ရာထူးကိုပါ ပူးတွဲဆောင်ရွက်ခဲ့ရသည်။) ချက်ကိုဆလိုဗားကီးယားနှင့် ယူဂိုစလားဗီးယား၊ ရူမေးနီးယား နိုင်ငံတို့ မဟာမိတ်အဖြစ် ပူးပေါင်းရေးကို ဗင်းနက်ရှဆောင်ရွက်ခဲ့၏။ နိုင်ငံပေါင်းချုပ် အသင်းကြီး၏ လုပ်ငန်းများတွင်လည်း အရေးပါ အရာရောက်သူတဦးအဖြစ် ပါဝင်ဆောင်ရွက်ခဲ့သည်။ ၁၉၃၂ ခုနှစ်တွင် ပြင်သစ်နှင့်၎င်း၊ ၁၉၃၅ ခုနှစ်တွင် ရုရှားနှင့်၎င်း မဟာမိတ်စာချုပ်များ ချုပ်ဆိုခဲ့သည်။

၁၉၃၅ ခုနှစ်တွင် သမတဒေါက်တာမာဆာရစ် နုတ်ထွက်သဖြင့် ဒေါက်တာဗင်းနက်ရှ သမတအဖြစ် ဆက်ခံသည်။ ၁၉၃၈ ခုနှစ်တွင် ချက်ကိုဆလိုဗားကီးယားနိုင်ငံ မြောက်ပိုင်းရှိ ဂျာမန်များစွာနေထိုင်သည့် ဆူဒေတန်နယ်သည် ဂျာမနီနိုင်ငံ၏ အစိတ်အပိုင်းတခုဖြစ်သင့်သည်ဟူ၍ ဂျာမန်အာဏာရှင်ဟစ်တလာက တောင်းဆိုလိုက်ရာ၊ ဗင်းနက်ရှသည် ပြင်သစ်နှင့် ရုရှတို့၏ အကူအညီကိုမြော်ကိုးခဲ့သော်လည်း၊ အဆိုပါ နိုင်ငံကြီးများအဖို့ ဤကိစ္စသည် ဂျာမနီအား စစ်ရေးဆင်ရန် လုံလောက်သော အကြောင်းမဟုတ်သဖြင့် အကူအညီ မရခဲ့ချေ။ ထိုကြောင့် ဒေါက်တာ ဗင်းနက်ရှသည် အင်အားနှင့် ခြိမ်းခြောက်လျက်ရှိသော ဂျာမန်တို့အလိုအတိုင်းလိုက်လျောခဲ့ရသည်။ ၁၉၃၈ ခုနှစ်အောက်တိုဘာလ ၅ ရက်နေ့တွင် သမတအဖြစ်မှ နုတ်ထွက်၍ အမေရိကန်ပြည်ထောင်စုသို့ သွားရောက်ခဲ့သည်။ ထိုအတောအတွင်း ရှီကာဂိုးတက္ကသိုလ်တွင် စာပေပို့ချနေလေသည်။ ၁၉၃၉ ခုနှစ် မတ်လတွင် ဂျာမန်တို့သည် ချက်ကိုဆလိုဗားကီးယား နိုင်ငံကို သိမ်းပိုက်လိုက်၍၊ ချက်မျိုးချစ်ပုဂ္ဂိုလ်ကြီးများသည် အင်္ဂလန်ပြည်သို့ ထွက်ပြေးခိုဝင်နေစဉ်၊ ဒေါက်တာဗင်းနက်ရှသည် လန်ဒန်မြို့သို့ ရောက်ရှိလာပြီးလျှင် ချက်ကိုဆလိုဗားကီးယားနိုင်ငံ စစ်ပြေးအစိုးရကို ဖွဲ့စည်းသည်။

၁၉၄၅ ခုနှစ်တွင် ဂျာမန်တို့အား လုံးဝနှိမ်နင်းပြီးသောအခါ၊ ဗင်းနက်ရှသည် ပရာဟာမြို့သို့ ပြန်လည်ရောက်ရှိလာရာ၊ တိုင်းသူပြည်သားတို့သည် သူ့အား ဝမ်းမြောက်ဝမ်းသာ ကြိုဆိုကြသည်။ ထိုနှစ်အောက်တိုဘာလ ၂၈ ရက်နေ့တွင် ယာယီ အမျိုးသားလွှတ်တော်မှ သူ့အား သမတအဖြစ် ပြန်လည် တင်မြှောက်သည်။ ၁၉၄၆ ခုနှစ် ဇွန်လ ၁၉ ရက်နေ့တွင် တိုင်းပြုပြည်ပြု လွှတ်တော်မှ သူ့အား သမတ အဖြစ် တဖန် ရွေးကောက်တင်မြှောက်ပြန်သည်။ သို့သော် ၁၉၄၈ ခုနှစ် ဖေဖွာရီလတွင် ကွန်မြူနစ်တို့ အာဏာလွှမ်းမိုးခဲ့ရာ၊ သမတ ဗင်းနက်ရှသည် အချက်အခြာ နေရာဟူသမျှကို ကွန်မြူနစ်ဝန်ကြီးများကိုင်ထားသော အစိုးရအဖွဲ့နှင့် ပူးတွဲဆောင်ရွက်နေရသဖြင့် ထိုနှစ် ဇွန်လ ၇ ရက်နေ့တွင် ရာထူးမှ နုတ်ထွက်သည်။ ရာထူးမှထွက်၍ ၄ လမျှ အကြာ စက်တင်ဘာလ ၃ ရက်နေ့တွင် ကွယ်လွန်လေသည်။

**ဗင်းနစ်မြို့။** ။ကမ္ဘာပေါ်တွင် ရှုခင်းအလှဆုံးနှင့် ကြည်နူးဖွယ်အကောင်းဆုံးမြို့ တမြို့အဖြစ် ကျော်ကြားသော ဗင်းနစ်မြို့သည် ဣတလီနိုင်ငံ၏ အရှေ့မြောက်ဖက် အေဒြီယက်တစ်ပင်လယ်ထိပ်ရှိ ဗီဗာပင်လယ်ထုံးထဲဝယ် ကျွန်းကလေးပေါင်း ၁၂၀ ခန့်ပေါ်တွင် လှပဆန်းကြယ်စွာ တည်ရှိသည်။ ထိုကြောင့်လည်း ဗင်းနစ်မြို့အား 'အေဒြီယက်တစ်၏ ဘုရင်မ' ဟုပင် တင်စားခေါ် ဝေါ်ကြသည်။ ယင်းမြို့သည် မီလန်မြို့၏ အရှေ့ဖက်တွင် တည်ရှိ၍၊ မီးရထားလမ်းအားဖြင့် ၁၆၄ မိုင် ကွာဝေးသည်။ ဗင်းနစ်မြို့၏အရှေ့ဖက်တွင် လီဒိုကျွန်းခေါ် သဲသောင်ခုံသဖွယ် ကျွန်းရှည်ရှည်တခုရှိရာ၊ ယင်းသည် ဗင်းနစ်မြို့သူ မြို့သားများ၏အနားယူ အပန်းဖြေစခန်းဖြစ်သည်။

ဗင်းနစ်မြို့ကို ခရစ် ၄၅၂ ခုနှစ်တွင် စတင်တည်ထောင်သည်။ ဥရောပတိုက်မြောက်ပိုင်းမှ ဣတလီမြောက်ပိုင်းသို့ ဝင်ရောက်တိုက်ခိုက်လာကြသော ဟန်းလူမျိုးများ၏ ဘေးရန်မှ တိမ်းရှောင်ထွက်ပြေးကြရသူများက ပင်လယ်တွင်းရှိ ကျွန်း ကလေးများပေါ်၌ ယာယီ တဲအိမ်ကလေးများ ဆောက်လုပ်နေထိုင်ရာမှ တဖြည်းဖြည်း စည်ကားကြီးကျယ်လာခြင်းဖြစ်သည်။

ဗင်းနစ်မြို့ကို တည်ဆောက်စဉ်က ရွှံ့နွံ ထူထပ်သော ကျွန်းမြေ၌ သစ်သားတိုင်များစိုက်၍ မြဲအောင်စွဲပြီးမှ အဆောက်အအုံများတည် ဆောက်ကြသည်။ ကျွန်းကလေး တကျွန်းနှင့်တကျွန်းကြားရေပြင်ကို တူးမြောင်းသဖွယ် ဖောက်လုပ်ထားရာ မြို့ထဲ၌ တူးမြောင်း ၁၇၀ ခန့်ရှိ၍၊ ယင်းတို့ကို ဖြတ်ကျော်ကာ ကျောက်သားဖြင့် ဆောက်လုပ်ထားသော တန်တား ၄၀၀ ကျော်ခန့်ရှိသည်။ မြို့ကိုအင်္ဂလိပ်စာလုံး S သဏ္ဌာန် ကွေ့ဖောက်ထားသော ဂရင်းကနယ်သည် အကြီးဆုံး တူးမြောင်းဖြစ်၍ ရီယယ်လတိုတန်တားနှင့် ဆိုင်းတန်တားကြီး

တို့မှာ ကမ္ဘာကျော်သည်။ ရီယယ်လတိုတန်တားသည် ဂရင်းကနယ်ကို ဖြတ်၍ ဆောက်လုပ်ထားလျက်၊ တန်တား တဖက်တချက်တွင် ဈေးဆိုင်ကြီးများရှိသည်။ ဆိုင်းတန်တားမှာမူ ဒိုဂျနန်းတော်အထက်ထပ်နှင့် အကျဉ်းထောင်ကြီးကို ဆက်သွယ်ဆောက်လုပ်ထားသော တန်တားဖြစ်သည်။

ဗင်းနစ်မြို့သည် အခြားမြို့များကဲ့သို့ လမ်းကြီးများနှင့် ဖောက်လုပ်ထားသည်မဟုတ်ဘဲ၊လမ်းများအစားတူးမြောင်းများသာရှိသောကြောင့်၊ ဗင်းနစ်မြို့သူမြို့သားများသည် တနေရာမှ တနေရာသို့ လှေသမ္ဗန်များနှင့်သာ ကူးသန်းကြရသည်ဖြစ်ရာ၊မော်တော်ကား သံ၊ မီးရထားသံများကို မကြားရဘဲ အဆောက်အအုံများကို လှိုင်းဂယက်များ တဖြတ်ဖြတ်ရိုက်ခတ်သံများနှင့်တကွ လှေသမ္ဗန်ကြီးများ လှော်ခတ်သံနှင့် လှေသမားများ၏ သီချင်းသံများကိုသာ ကြားရ၏။ ယာဉ်စက်သံဟူ၍ တခါတရံမော်တော်ဗုတ်များ ခုတ်မောင်းသံနှင့် ဣတလီကမ်းမကြီးမှနေ၍ ဆက်သွယ်ဆောက်လုပ်ထားသော တန်တားကြီးပေါ်၌ ခုတ်မောင်းလာသော မီးရထားကြီး၏ ဥသြသံများကိုသာ ကြားရသည်။

ဗင်းနစ်မြို့၌ ကမ္ဘာကျော် စိန်မတ်၊ဆန်ဆာလဗားတော၊ ဆန်ကက်ဆီးယားနိုး၊ ဆန်ဆီဗတ်စတီယာနိုး စသော ဘုရားရှိခိုးကျောင်းကြီးများ၊ စာကြည့်တိုက်ကြီးများ၊ ဒိုဂျနန်းတော်စသောရှေးဟောင်း အဆောက်အအုံကြီးများ အများအပြားရှိသည်။ ဗင်းနစ်မြို့သည် ဗိုင်ဇင်းတိုင်အင်ပိုင်ယာကြီးနှင့်နှစ်ပေါင်းတထောင်ကျော်ခန့် ဆက်သွယ်ခဲ့သဖြင့် ဗင်းနစ်အဆောက်အအုံနှင့် မြို့အနေအထားသည် ဣတလီဟန် မဆန်ဘဲ၊ ဂရိဟန် ဆန်သည်။ အဆောက်အအုံကြီးများကို အပြင်ရော အတွင်းပါ ခမ်းနားစွာ ပြင်ဆင်ထားသည်။ နန်းတော်များ၏ အတွင်းဖက်နံရံများတွင် ဗင်းနစ်မြို့သား ပန်းချီကျော်တို့၏ လက်ရာများ ဖြစ်သော နံရံကပ်ပန်းချီများဖြင့် ရေးခြယ်ထားလေသည်။

ဗင်းနစ်မြို့သည် ဆိပ်ကမ်းကောင်းတခု ဖြစ်၍ ဆိပ်ကမ်းရှခင်းမှာလည်း အလွန်လှပသည်။ ရှေးအခါက မြေထဲပင်လယ်ထဲတွင် ဗင်းနစ်မြို့သည် ကူးသန်းရောင်းဝယ်ရေး ဗဟိုအချက်အခြာ မြို့ကြီး ဖြစ်ခဲ့သော်လည်း၊ ယခုမူ ဣတလီနိုင်ငံ၏ သတ္တမအကြီးဆုံး မြို့သာ ဖြစ်တော့သည်။ လူဦးရေ ၃၀၃,၀၀၀ ရှိသည်။ ဗင်းနစ်မြို့၏ ထင်ရှားသော ထွက်ကုန်များမှာ ပါးလွှာနုနယ်သောဖန်ထည်၊ လက်ထိုးဇာ၊ ဗရိုကိတ်ထည်တို့ဖြစ်သည်။ ဗင်းနစ်မြို့သားတို့သည် သစ်သားပန်းပု၊ ကြေးရုပ်တု၊ မှန်စီရွှေချ ပစ္စည်း စသည့် အနုပညာလက်ရာများ၌ အထူးပင် ပြောင်မြောက်ကြသည်။ ဒုတိယကမ္ဘာစစ်မဖြစ်မီက ဗင်းနစ်မြို့တွင် သင်္ဘောများ တည်ဆောက်ခဲ့၍ တိုပီဒိုပြုလုပ်သည့် စက်ရုံပင်ရှိခဲ့ဘူးသည်။



ဗင်းနစ်မြို့တွင် ရေလမ်းများဖြင့်သာ ခရီးသွားလာကြသည်။

**ပေါင်တုတ်ငှက်။** ။ပေါင်တုတ်ငှက်သည် ဂရူးအီးဖေါမီးမျိုးစဉ်၊ ရယ်လီဒီးမျိုးရင်းတွင် ပါဝင်သော ငှက်မျိုးဖြစ်သည်။ ယင်းကို ပါဏဗေဒအလိုအားဖြင့် ဂယ်လီကရက် စီနီရီးယားဟု ခေါ်သည်။

ပေါင်တုတ်ငှက်၏ အလျားမှာ ၁၇ လက်မဖြစ်သည်။ ပေါင်တုတ်ငှက်မထက် ပေါင်တုတ်ငှက်ဖိုတွင် အမောက်အောက်ခြေပို၍ ကျယ်ပြန့်သည်။ သားပေါက်ချိန်တွင် ထိုအမောက်အောက်ခြေသည် အသားဆိုင်ဖြင့် ပြီးသော ဦးချိုကဲ့သို့ ငေါ်ထွက်နေ၍၊ အနီရောင်ဖြစ်နေပြီးလျှင်၊ နုတ်သီးသည် အဝါရောင် ဖြစ်သည်။ သားပေါက်ချိန်မဟုတ်သည့်အခါတွင် ငှက်ဖိုသည် ငှက်မနှင့် ခပ်ဆင်ဆင်တူသည့်ပြင်၊ ကျောဖက်တွင် အညိုရောင်နုနှင့် အညိုရောင်ရင့် အကွက်များရှိသည်။ အောက်ပိုင်း၌မူ အညိုရောင်ဖျော့ဖျော့ရှိပြီးလျှင်၊ အညိုရင့်ရောင်ရှိသော ကောက်ကွေးသည့် အစင်းကြောင်းများရှိသည်။မျက်စိနှင့် နှုတ်သီး ဝါသည်။အမောက်မပါရှိချေ။ ခြေထောက်နှင့် ခြေချောင်းများမှာ အစိမ်းရင့်ရောင်သန်းသော အညိုရောင်ဖြစ်သည်။ ပျံသန်းနေစဉ် အတောင်များမှာ မွဲပြာရောင်သန်းသော အညိုရောင် ဖြစ်ပြီးလျှင်၊ လည်တံနှင့်အမြီးမှာ အနက်ရောင်ဖြစ်သည်။ ငှက်ကလေးများမှာ ငှက်မနှင့်တူသော်လည်း၊ နီညိုရောင်ပို၍ သန်းလျက်ရှိပြီးလျှင်၊ အောက်ပိုင်းတွင် အစင်းကြောင်း အနည်းငယ်သာ ပါရှိသည်။



အမွေးအတောင်ညို၍ မျက်လုံးဝါသည့် ဗောင်တုတ်ငှက်

ငှက်ဖိုသည် ခပ်မြန်မြန် ဆင့်ကာဆင့်ကာ ဘွတ်ဘွတ်ဘွတ်ဟုအသံခပ်အောအောနှင့် အော်တတ်သည်။ အော်သည့် အခါလည်ချောင်းပွလာပြီးလျှင်၊ နှုတ်သီးသည် အောက်သို့ စိုက်နေလေသည်။ ထိုသို့ အော်စဉ် အသံမှာ ပြတ်တောင်း ပြတ်တောင်းနှင့် နိမ့်ကျသွားပြီးလျှင်၊ထိုအသံသည် ရေထဲသို့ မှုတ်သွင်းသော အသံမျိုးနှင့် တထေရာတည်း တူလေသည်။ ဗောင်တုတ်ငှက်တို့ အများအားဖြင့် အော်တတ်သော အသံတမျိုးမှာ ဖော့ဆို့ပေါက်၍ ထွက်လာသောအသံမျိုး ဖြစ်သည်။ ယင်းသို့ အသံပြုရာတွင် ငှက်၏ လည်တံသည် ရှေ့ဖက်သို့ ကိုင်းလာ၍ နှုတ်သီးသည် ဟလျက် လည်ချောင်းမှ အသံထွက်ပေါ်လာသည်။

ဗောင်တုတ်ငှက်သည် ကိုင်းပင်များ ပေါက်ရောက်ရာ ညွန်ပျောင်းအင်းအိုင်၊ ရေလွှမ်းမိုးသော မြက်ခင်းနှင့် လယ်ကွက်များတွင် ကျက်စားတတ်သည်။ လယ်ကွက်များတွင် စပါးပင်ကလေးများကို ဖျက်ဆီးလေ့ ရှိသည်။ လယ်ကွင်း ပတ်လည်ရှိ ကိုင်းတောများတွင် မြက်ဖြင့်ပြုလုပ်သော အသိုက်များကို ဆောက်လုပ်လေ့ရှိသည်။ မြစ်မခရေဆင်းနယ် တလျှောက် ကိုင်းပင်များပေါက်ရောက်ရာတွင် ဗောင်တုတ်ငှက်ဥများကို တွေ့ရသည်။ တမြုံလျှင် ဥ ၃ လုံးမှ ၈ လုံးအထိ ရှိသည်။ ဗောင်တုတ်ငှက်ဥသည် ရေကြက်ဥနှင့် တူသည်။ ဥများသည် မြေကြီးရောင်တွင် အနီရောင်သန်းသည့် အညိုရောင်နှင့် ခရမ်းရောင်အကွက်များ ပါရှိသည်။

ဗောင်တုတ်ငှက်ကို တရုပ်နိုင်ငံ ယူနန်နယ်မှတပါး အရှေ့တိုင်းနိုင်ငံများတွင် အနှံ့အပြား တွေ့ရသည်။ မြန်မာနိုင်ငံတွင်လည်း အနှံ့အပြားတွေ့ရသည်။ အထူးသဖြင့် ရှမ်းပြည်အင်းလေးကန်နှင့် မြစ်မခရေဆင်းဒေသများတွင် တွေ့ရသည်။ ဗောင်တုတ်ငှက်ကို ဆောင်းရာသီတွင် တွေ့ရသည်ဟု မှတ်တမ်းမရှိသော်လည်း၊ မန္တလေး ခရိုင်ရှိ ရေတိမ်သောအင်းအိုင်များ၌ ဒီဇင်ဘာလတွင် တွေ့ရတတ်သည်။

**ဗောင်လောင်ညိုပင်။** ။ဗောင်လောင်ညိုပင်သည် ဆော်လင်နေစီအီးမျိုးရင်းတွင် ပါဝင်၍ ယင်းကို ရုက္ခဗေဒအမည်အားဖြင့် ဆော်လင်နမ် နိဂရမ်ဟု ခေါ်သည်။

ဗောင်လောင်ညိုပင်သည် မြေနှင့်ကပ်လျက် ပေါက်တတ်သော အပင်ပုမျိုးဖြစ်သည်။ အမြင့် ၁ ပေမှ ၂ ပေခွဲခန့်ရှိတတ်သည်။ အခက်အလက်ဝေဆာသည့် အလေ့ကျပေါက်ပေါင်းပင်ဖြစ်သည်။ မွေးနုကလေးများမှတပါး အမွေးအမှင်ကင်းရှင်းသောအခက်အလက်များသည် အပေါ်သို့ ထောင်၍ ထွက်ကြသည်။ အရွက်များသည် အနားညီရွက်ထီးဖြစ်၍ ရွက်ညှာပါရှိသည်။ ပုံသဏ္ဌာန်မှာအများအားဖြင့် ဥဖျားသွယ်၊ သို့မဟုတ် လှံစွပ်ပုံဆန်ဆန်ဖြစ်သည်။ အလျား ၂ လက်မမှ ၅ လက်မအထိရှိသည်။ ရွက်ဖျားချွန်သည်။ အပွင့်သည် အဖြူရောင်ဖြစ်၍ ထီးပုံပွင့်ခိုင်များဖြင့် အစုလိုက်အပြုံလိုက် တွဲချရွဲပွင့်တတ်သည်။ အပွင့်၏အရွယ်မှာ အချင်း ⅜ လက်မ၊ သို့မဟုတ် ထိုထက်ပင်ငယ်သေးသည်။ အောက်တိုဘာလမှ ဧပြီလအထိ အပွင့်ပွင့်သည်။ ဗောင်လောင်ညိုသီးသည် စေ့များခွံပျော့(ဗယ်ရီ) သီးမျိုးဖြစ်သည်။ အသီးအရောင်မှာ အမည်းလည်းရှိသည်။ အနီလည်းရှိသည်။ အဝါလည်းရှိသည်။ အချင်း ⅜ လက်မခန့်ရှိသည်။ ဂရုတစိုက်စိုက်ပျိုးထားသော အပင်တွင် အသီး၏ အရွယ်သည် နှစ်ဆခန့်ရှိ၍ အရွက်သည်လည်း ၅ လက်မထက်ပို၍ ရှည်လျားသည်။ အသီးများကို ကလေးများစားပါက အဆိပ်ဖြစ်တတ်သည်။ အပူပိုင်းဒေသနိုင်ငံများတွင် ဗောင်လောင်ညိုရွက်ကို ဟင်းရွက်တမျိုးအဖြစ် စားသုံးကြသည်။ သို့သော် အရွက်ကို အစိမ်းစားသော တိရစ္ဆာန်များ အဆိပ်သင့်သည်ဟု ဆိုသည်။ အရွက်ကိုချက်ပြုတ် လိုက်သည့်အခါတွင်မူ အဆိပ်ပျက်ပြယ်သွားဟန် တူလေသည်။

ဗောင်လောင်ညိုပင်ကို ကမ္ဘာ့အရပ်ရပ်တွင် တွေ့ရ၍ မျိုးစိတ်များစွာ ရှိသည်။ ယင်းမျိုးစိတ်ဝင်အချို့သော အပင်မျိုးသည် အဆိပ်ပင်များ ဖြစ်ကြသည်။ ဗောင်လောင်ညိုပင်သည် တနှစ်ခံအပင်မျိုး ဖြစ်သော်လည်း အပူပိုင်းဒေသတွင် တနှစ်ထက်ပို၍ ကြာကြာခံသည်။ ချောင်းကမ်းနဖူးစသောရေနှင့် နီးစပ်ရာ နေရာများတွင် အလေ့ကျ ပေါက်တတ်လေသည်။

# အာရှတိုက်မှ ပြိုလာမည့်ရန်အပေါင်းကို မြေကတုတ်သဖွယ် ခံခဲ့သော ဥရောပအင်ပိုင်ယာကြီး

ရောမအင်ပိုင်ယာကြီး နှစ်ခြမ်းကွဲပြီးနောက်၊ အရှေ့ခြမ်းကို ဗိုင်ဇင်းတိုင် အင်ပိုင်ယာဟု ခေါ်တွင်ခဲ့သည်။ ခရစ်နှစ် ၃၃၀ ခန့်မှစ၍ အနှစ်တထောင်ကျော်ခန့် အာရှတိုက်မှ လွှမ်းမိုးလာမှုများကို ကာဆီးထားနိုင်ခဲ့သော်လည်း၊ နောက်ဆုံးတွင် တူရကီတို့ လက်အောက်သို့ ကျရောက်ခဲ့လေသည်။

ဗိုင်ဇင်းတိုင် အင်ပိုင်ယာ။ ။ခရစ်နှစ် ၃၀၀ ကျော်မှ ၁၄၅၃ ခုနှစ်အထိ ကွန်စတင်တီနိုပယ်မြို့ကို နေပြည်တော်ပြုကာ၊ ပင်လယ်နက်နှင့် မြေထဲပင်လယ်ကမ်းခြေ တဝိုက်တွင် သိုက်မြိုက်စွာ ထွန်းကားစည်ပင်လာကြသော နိုင်ငံစုကို ဗိုင်ဇင်းတိုင်အင်ပိုင်ယာဟု ခေါ်သည်။ ကွန်စတင်တီနိုပယ်မြို့တော်ကို ဗိုင်ဇင်းရှမ်မြို့ဟု ယခင်က ခေါ်တွင်ခဲ့သည်ကို အကြောင်းပြု၍ အင်ပိုင်ယာတခုလုံးကိုလည်း ဗိုင်ဇင်းတိုင်အင်ပိုင်ယာဟုခေါ်တွင်ခြင်းဖြစ်သည်။ ယင်းကို အရှေ့ပိုင်းရောမနိုင်ငံတော်ဟူ၍လည်း ခေါ်ကြသည်။ ဗိုင်ဇင်းတိုင် အင်ပိုင်ယာသည် ဥရောပတိုက်သမိုင်းနှင့် ယဉ်ကျေးမှုရေးရာတို့တွင် အထူးအရေးပါခဲ့၏။ အဘယ်ကြောင့် ဆိုသော် လူရိုင်းတို့၏ ဖိနှိပ်တိုက်ခိုက်မှုတို့ကို ဗိုင်ဇင်းတိုင် အင်ပိုင်ယာကြီးက ကြံ့ကြံ့ခိုင်ခိုင် ခုခံကာကွယ်နိုင်ခဲ့သဖြင့်သာ ဥရောပသမိုင်းတမျိုးတမည်ဖြစ်ခဲ့ရ၍ ဂရိ ရောမစသော ရှေးခေတ်ယဉ်ကျေးမှုတို့သည်လည်းမပျောက်မပျက် တည်ရှိခဲ့ခြင်းဖြစ်သည်။ ဗိုင်ဇင်းတိုင် အင်ပိုင်ယာခေတ်တွင် ခရစ်ယန် အယူဝါဒသည် နေရောင် လရောင်သဖွယ် ထွန်းပြောင်ခဲ့၍ ရှေးဟောင်းယဉ်ကျေးမှုကိုလည်း ထိန်းသိမ်းနိုင်ခဲ့သည်။

ဗိုင်ဇင်းတိုင်အင်ပိုင်ယာစတင်ပေါ်ပေါက် လာသည့်ခုနှစ်သက္ကရာဇ်နှင့် စပ်လျဉ်း၍ နိုင်ငံသမိုင်းပညာရှင်များ အယူအဆကွဲပြားခဲ့ကြသည်။ သို့ရာတွင် ဗိုင်ဇင်းတိုင်အင်ပိုင်ယာ ပေါ်ပေါက်ရေးအတွက် ထူးခြားသော ပြောင်းလဲချက်များမှာ ရောမကေရာဇ် ကွန်စတန်တင်းလက်ထက်၌ ဖြစ်ပေါ်ခဲ့သည်။ (ကွန်စတန်တင်းဘုရင်ကြီး — ရှု။)

ကွန်စတန်တင်း ဘုရင် လက်ထက်တွင် အာရှမိုင်းနားရှိ လက်အောက်ခံ နိုင်ငံများ မကြာခဏ ထကြွကြသဖြင့် အရှေ့ပိုင်းနယ်များနှင့် နီးစပ်စိမ့်သောငှါ နေပြည်တော်ကို ရောမမြို့မှအရှေ့ဖက် ဗော့စပရပ်မြစ်ပေါ်ရှိ ဗိုင်ဇင်းရှမ်မြို့သို့ ခရစ်နှစ် ၃၃၀တွင် ရွှေ့ပြောင်းလိုက်၏။ နေပြည်တော်သစ်ကို ခမ်းနားကြီးကျယ်စွာ တည်ဆောက်ပြီးလျှင် ကွန်စတင်တီနိုပယ်ဟု မှည့်ခေါ်ခဲ့သည်။ ယခုခေတ်တွင်မူ အစ္စတန်ဗူမြို့ဟုခေါ်တွင်လျက် ရှိသည်။ (အစ္စတန်ဗူမြို့ — ရှု။)

ကွန်စတန်တင်းသည် နေပြည်တော်သစ်ကို အိပ်မက်အရ ရွေးချယ်သည်ဟုဆို၏။ ထိုသို့ရွေးချယ်တည်ဆောက်ခဲ့သော မြို့တော်ကြီးဖြစ်သည့်အတိုင်း အနောက်ပိုင်း ရောမနိုင်ငံတော် ယိမ်းယိုင် ပျက်စီးပြီးသည့်နောက်၊ နှစ်ပေါင်း တထောင်ကျော်ခန့် ကြာသည်တိုင်အောင် တည်မြဲစည်ကားနေခဲ့၏။ ဗိုင်ဇင်းတိုင် အင်ပိုင်ယာကြီးသည် အလယ်ခေတ်တွင် တောင့်တင်း ခိုင်မြဲဆုံးသော အင်ပိုင်ယာကြီး ဖြစ်ခဲ့လေသည်။

ကွန်စတန်တင်း ဘုရင်သည် အင်ပိုင်ယာ နိုင်ငံတော်၏ တရား ဥပဒေများကို ခရစ်ယန်အယူဝါဒတရားနှင့် အညီအညွတ် ဖြစ်စေရန် ပြုပြင်စီမံခဲ့သည်။ ခရစ်ယန် အယူဝါဒကိုလည်း ဗိုင်ဇင်းတိုင် အင်ပိုင်ယာ၏ နိုင်ငံတော် အယူဝါဒ အဖြစ် ပြုလုပ်လေသည်။ ကွန်စတန်တင်း ဘုရင်လက်ထက်တွင် ဗိုင်ဇင်းတိုင်အင်ပိုင်ယာကြီးသည် စည်ပင်ဝပြောလျက်ရှိ၏။ ကွန်စတန်တင်း ဘုရင်သည် ၃၃၇ ခုနှစ်တွင် နတ်ရွာစံ၍ သားတော် ၃ ပါးလက်ထက် ရောက်သောအခါ တွင်လည်း ခမည်းတော်၏ဝါဒများကို လက်ခံကျင့်သုံးခဲ့ကြ၍ ၃၆၁ နှစ်တွင် နောက်ဆုံး သားတော် ကွယ်လွန်သောအခါ အုပ်ချုပ်ရေးသစ်သည် ကောင်းစွာ အမြစ်တွယ်မိပြီဖြစ်လေသည်။ ၃၉၅ ခုနှစ်တွင် ကေရာဇ်ဘုရင် သီအိုဒိုးဆီးယပ် ကံကုန်သောအခါ ဗိုင်ဇင်းတိုင်အင်ပိုင်ယာကြီးသည် အစိတ်စိတ် ကွဲရလေသည်။ သားတော် ဟိုနိုရီးယပ်က အနောက်ပိုင်းရောမနိုင်ငံကို အုပ်စိုး၍၊ သားတော်အာကေးဒီးယပ်က အရှေ့ပိုင်းရောမနိုင်ငံကို အုပ်စိုးသည်။ ဟော်နိုရီးယပ်ဘုရင် လက်ထက်၌ပင် ရောမမြို့တော်ကို အရိုင်း အစိုင်းတို့သည် ဝင်ရောက် ဖျက်ဆီးကြရာ မကြာမီပင် အနောက်ပိုင်း ရောမနိုင်ငံတော်သည် ဝါးအစည်းပြေသကဲ့သို့ ဖရိုဖရဲဖြစ်ကာပြိုကွဲသွားလေတော့၏။ အရှေ့ပိုင်းရောမနိုင်ငံတော်ဟုခေါ်သော ဗိုင်ဇင်းတိုင်နိုင်ငံတော်လည်း ရန်သူများ၏ ထိပါးတိုက်ခိုက်ခြင်းကို ခံရ၏။ သို့သော် အင်အားနည်းပါးရုံမျှသာဖြစ်ခဲ့၍ လိပ်လည်း ပျက်စီးခြင်း မဖြစ်ခဲ့ချေ။

ဤသို့ ရန်သူများ နှောင့်ယှက် တိုက်ခိုက်ခြင်းကြောင့် အားနည်း လာသော ဗိုင်ဇင်းတိုင် နိုင်ငံတော်ကြီးသည် ပဋ္ဌမ ဂျပ်စတင်းနီးယန်း (၄၈၃–၅၆၅) ဘုရင်လက်ထက်တွင် အင်အားတောင့်တင်းလာပြန်သည်။ (ဂျပ်စတင်းနီးယန်း၊ ပဋ္ဌမ — ရှု။) ထိုမင်းသည်ရှေးမင်းများလက်ထက်၌ဆုံးရှုံးခဲ့သော

ဣတလီ၊ မြောက်အာဖရိကနှင့် စပိန်ပြည်တို့၌ ရှိသည့်နယ်ပယ်များကို ပြန်လည်သိမ်းပိုက်ကာ ဗိုင်ဇင်းတိုင်နိုင်ငံတော်တွင်းသို့ သွတ်သွင်းလိုက်သည်။ အရှေ့ဖက်နယ်စပ်မှ ပါးရှင်းတို့အားလည်း တိုက်ခိုက်နှင်ထုတ်လိုက်၏။ လက်တင်စာပေနှင့် ရောမအုပ်ချုပ်ရေးစံနစ်ကို လေးစားသော ဘုရင်ဖြစ်၍၊ ရောမဥပဒေပေါင်းချုပ်ဖြစ်သော ကော်ပပ် ဂျူးရစ် စီဗီလစ်ကို ပြုစုစီရင်ခဲ့၏။ ထိုမင်းလက်ထက်တွင် ဗိုင်ဇင်းတိုင် နိုင်ငံတော်ကြီးသည်အထွတ်အထိပ်သို့ရောက်ခဲ့လေသည်။

အနောက်ဖက် ဥရောပတခွင်တွင် ဥပဒေလက်လွတ်တရားမဲ့ဖြစ်နေကြစဉ် ဗိုင်ဇင်းတိုင် နိုင်ငံတော်သည် သာယာ စည်ကားလျက် ရှိခဲ့၏။ လူမျိုးပေါင်းစုံပင် ထိုနိုင်ငံတော်ကြီး အတွင်းသို့ ဝင်ရောက်နေထိုင်ကြ၍၊ အတတ်အမျိုးမျိုးတို့လည်း ထွန်းကားခဲ့၏။ ရှေးဂရိတို့၏ ရုပ်ထုပညာ၊ ပန်းချီပညာ၊ ဗိသုကာပညာများသည် ကွန်စတင်တီနိုပယ်မြို့၌ ပြန်လည် ကြီးပွားတိုးတက်ခဲ့၏။ ကမ္ဘာကျော် စိန်ဆိုဖိုင်းယာ ခရစ်ယာန်ဘုရားရှိခိုးကျောင်းကြီးသည် ထိုမင်းလက်ထက်တွင် ဆောက်လုပ်ပြီးစီးခဲ့၏။ ယင်းသို့ဖြင့် ထိုခေတ်က ဗိုင်ဇင်းတိုင် နိုင်ငံတော်ကြီးတွင် လှပဆန်းကြယ်သော အထည်အဝတ်များ၊ ကျောက်မျက်ရတနာများ၊ အိမ်ထောင်ပရိဘောဂများပေါ်ထွက်ခဲ့လေသည်။ နိုင်ငံသူ နိုင်ငံသားတို့သည် ယဉ်ကျေးမှုပညာရပ်များကို လိုက်စားကာ ပျော်ရွှင်ချမ်းမြေ့စွာ နေထိုင်ခဲ့ရလေသည်။ ဂျပ်စတင်းနီးယန်း ဘုရင်နောက် ဆက်ခံသောဘုရင်များလက်ထက်တွင် ဗိုင်ဇင်းတိုင် နိုင်ငံတော်ကြီးသည် ဒုက္ခအမျိုးမျိုးနှင့် ရင်ဆိုင်လာရလေသည်။ ဒုတိယဂျပ်စတင်း ဘုရင် (၅၆၅–၅၇၈) လက်ထက်မှ စ၍ နှစ်ပေါင်းအတန်ကြာသည့်တိုင်အောင် အဗာလူမျိုး၊ဆလဗ်လူမျိုးနှင့် ဗူလဂါ လူမျိုးတို့သည် ဗိုင်ဇင်းတိုင် နိုင်ငံတော်ကို မြောက်ဖက်မှ တိုက်ခိုက် နှောင့်ယှက်ကြ၏။ အရှေ့ဖက်တွင်မူ ပါးရှင်း လူမျိုးတို့သည် အောင်ပွဲ အမျိုးမျိုးကို ခံယူနေကြလေသည်။ သို့ရာတွင် ဟာရာကလီယပ် (၆၁၀–၆၄၁) ဘုရင်



ဗိုင်ဇင်းတိုင်အင်ပိုင်ယာ ကောင်းစားစဉ်က တူရကီနိုင်ငံ အစ္စတန်ဗူမြို့၌ စိုက်ထူထားရှိခဲ့သော အထိမ်းအမှတ် ကျောက်တိုင်

လက်ထက်သို့ ရောက်လာသောအခါ အခြေအနေ အနည်းငယ် ပြန်ကောင်း လာလေသည်။ ထိုဘုရင်သည် ပါးရှင်းတို့ကို နှိမ်နင်း၍ နိုင်ငံတော် အခြေခိုင်စေရန် ကြိုးစားခဲ့၏။ သို့သော် အာရှတိုက်ရှိ နယ်များကား ပုန်ကန်တော်လှန်၍ နေကြသေးသည်။ ထိုမင်းလွန်သောအခါတွင် ဗိုင်ဇင်းတိုင် နိုင်ငံတော်ကြီးသည် ရန်သူများ ဝိုင်းဝိုင်းလည်လျက် ရှိလေတော့၏။

ရန်သူအသစ် ဖြစ်သော မွတ်စလင်တို့သည် ပယ်လက်စတိုင်၊ ဆီးရီးယား၊ အီဂျစ်၊ အာဖရိကမြောက်ပိုင်းနှင့် စပိန်တို့ကို တိုက်ခိုက်သိမ်းပိုက်ကြ၏။ ကွန်စတင်တီနိုပယ်မြို့တော်ကြီးကိုပင် ၆၇၃–၇ ခုနှစ်တွင် တကြိမ်၊ ၇၁၇ ခုနှစ်တွင် တကြိမ် ပေါင်းနှစ်ကြိမ်မျှ ဝိုင်းရံ လုပ်ကြံခဲ့ကြသည်။ သို့သော် မအောင်မြင်ခဲ့ချေ။ အိုင်ဆောရိယန် မင်းဆက်ကို တည်ထောင်ခဲ့သော တတိယ လီအိုဘုရင် (၇၁၇–၇၄၀) လက်ထက်တွင် ဗိုင်ဇင်းတိုင် နိုင်ငံတော်ကြီးသည် ရှေးခေတ်နီးပါး တမျှ ပြန်လည် စည်ကားလာသည်။ သို့ရာတွင် ဗူလဂါလူမျိုးတို့၏ ရန်မီးကား မငြိမ်းခဲ့ချေ။ လီအိုဘုရင်သည် ၇၂၆ ခုနှစ်တွင် အယူဝါဒဆိုင်ရာ အဆောက်အအုံများ၌ မွမ်းမံထားသော ရုပ်တုများကို ပယ်ဖျက်သုတ်သင်ရန် စီမံခဲ့၏။ ထို အစီအမံသည် ၈၆၇ ခုနှစ်တွင် ပေါ်ပေါက်လာသည့် အရှေ့ဂိုဏ်း



ဗိုင်ဇင်းတိုင် အနုပညာ လက်ရာမွန်တခုဖြစ်သော ဆေးရေး မှန်ကူကား တချပ်

အနောက်ဂိုဏ်းဟူသော သာသနာဂိုဏ်းကွဲမှုကြီးကို ဖန်တီးပေးသည့် အကြောင်းတရပ် ဖြစ်လာလေသည်။

၉ ရာစုနှစ်များတွင် ဗိုင်ဇင်းတိုင်အင်ပိုင်ယာသည် ပြန်လည်စုစည်းမိကာ၊ စည်ပင်သာယာလာပြန်၏။ ဆာရဆင်တို့၏ ရန်ကိုလည်း နေရာ အနှံ့အပြားတွင် တွန်းလှန် နှိမ်နင်းနိုင်လာ၏။ ဗိုင်ဇင်းတိုင်အင်ပိုင်ယာကြီး ပြန်လည် စည်ပင်၍ အကျယ်ပြန့်ဆုံးဖြစ်လာသောအချိန်ကား ဒုတိယ ဗက်ဆီးဘုရင် (၉၇၆–၁၀၂၅) လက်ထက်ပင် ဖြစ်သည်။ သို့ရာတွင် ၁၁ ရာစုနှစ်များအတွင်း၌ ဗိုင်ဇင်းတိုင် နိုင်ငံတော်ကို ရန်သူသစ်များက ခြိမ်းခြောက်လာပြန်တော့၏။ ဆဲလဂျုတ်တရက်တို့သည် အရှေ့ဖက်မှ ဝင်ရောက်တိုက်ခိုက်လာကာ အာရှမိုင်းနားနယ်ပယ်များကို သိမ်းပိုက်လိုက်ကြ၏။ ဗိုင်ဇင်းတိုင် နိုင်ငံကိုပင် ထိုဆဲလဂျုတ်တရက်တို့ ဝင်ရောက် တိုက်ခိုက်အံ့လောဟု စိုးရိမ်နေရ၏။ အလက်ဇီယပ်ကွမ်နီနပ်ဘုရင် (၁၀၈၁–၁၁၁၈) လက်ထက်သို့ ရောက်သည့်အခါ ထိုဘုရင်သည် တရက်တို့၏ရန်ကို ခုခံကာကွယ်နိုင်ရန် ခရစ်ယန်ကိုးကွယ်သော အနောက် ဥရောပနိုင်ငံများအား အကူအညီတောင်းခံလေသည်။ သို့နှင့်ရက်ရှည်လများသွေးချောင်းစီးမျှ တိုက်ခိုက်ကြသော ကရူးဆိတ်စစ်ပွဲများ စတင်ပေါ်ပေါက်ခဲ့လေသည်။ (ကရူးဆိတ်စစ်ပွဲများ — ရှု။)

ကရူးဆိတ် စစ်ပွဲများကား ဗိုင်ဇင်းတိုင် နိုင်ငံတော်ကို ကောင်းကျိုး မပေး၊ ဆိုးကျိုးသာပေးခဲ့ကြ၏။ ကရူးဆိတ်စစ်သားများသည် တရက်တို့ကဲ့သို့ပင် လောဘဇောကပ်နေကြသူများဖြစ်ကြ၏။ အချင်းချင်း စစ်ပြိုင်သတ်ဖြတ်နေကြသဖြင့် ပျက်စီးနေသော အနောက်နိုင်ငံများမှလာသည့် ကရူးဆိတ်စစ်သားများသည် စည်ပင်တိုးတက်နေသော ကွန်စတင်တီနိုပယ်မြို့တော်ကြီးကို တွေ့မြင်လာကြသော အခါ၊ မတရား တပ်မက်သော စိတ်ကို မချုပ်တည်းနိုင်ကြတော့ချေ။ ဗင်းနစ်မြို့သားများ ခေါင်းဆောင်လာသော စတုတ္ထ ကရူးဆိတ်စစ်သားများသည် ၁၂၀၄ ခုနှစ်တွင် ကွန်စတင်တီနိုပယ်မြို့တော်ကို လုယက်ဖျက်ဆီးကြရာ၊ ဗိုင်ဇင်းတိုင် နိုင်ငံကြီးသည် အစိတ်စိတ် အမြွာမြွာ ပြိုကွဲသွားပြီးလျှင်၊ နိုင်ငံငယ်ကလေးများစွာ ပေါ်ပေါက်လာတော့၏။ ထိုအခါ ဖလန်းဒါးပြည်မှ ဗော်လဒွင် သည် ပဌမလက်တင်ဘုရင် အဖြစ်ဖြင့် ကွန်စတင်တီနိုပယ်ကို မြို့တော်ပြုကာ၊ စိုးမိုးအုပ်ချုပ်လိုက်လေသည်။

လက်တင်မင်းဆက်တို့ကို ဂရိစစ်ဗိုလ်ချုပ်ကြီး မိုင်ကယ်ပေလီယိုလိုဂပ်သည် ၁၂၆၁ ခုနှစ်တွင် တွန်းလှန်ဖြိုဖျက်ပြီးနောက်၊ ဗိုင်ဇင်းတိုင်နိုင်ငံကို ပြန်လည်ထူထောင် ပြန်သည်။ သို့ရာတွင် အခြေအနေမှာ မခိုင်မြဲလှချေ။ မကြာမီ အတွင်း၌ အော့တိုမန်တရက် တို့သည် အာရှမိုင်းနားသို့ ဝင်ရောက်နှောင့်ယှက်ကြ၏။ ၁၄ ရာစုနှစ် နောက်ပိုင်းသို့ရောက်သည့်



ဗိုင်ဇင်းတိုင် ဗိသုကာ လက်ရာမြောက်လှသည့် အော့တိုမန်တရက်တို့၏ ပလီအဆောက်အအုံကြီး

အခါ ဗိုင်ဇင်းတိုင် နိုင်ငံတော်ဟူ၍ ကွန်စတင်တီနိုပယ်မြို့သာလျှင် ကျန်ရှိနေလေတော့၏။ ထိုကြွင်းကျန် နေသေးသော ကွန်စတင်တီနိုပယ်မြို့ကြီးလည်း ၁၄၅၃ ခုနှစ်တွင် မွတ်စလင် အော့တိုမန်တရက်တို့၏ လက်တွင်းသို့ကျရောက်သွားလေသည်။ နောက်ဆုံး ဗိုင်ဇင်းတိုင် ဧကရာဇ်ဖြစ်သော ကွန်စတန်တင်းပေလီယိုလိုဂပ်ဘုရင်သည်လည်း စစ်ပွဲတွင်ကျဆုံးလေသည်။

ဗိုင်ဇင်းတိုင်နိုင်ငံတော်သည် ရောမနိုင်ငံတော်မှပေါက်ဖွားလာခဲ့၍၊ ခရစ်ယန်အယူဝါဒထွန်းကားရာ ဒေသဖြစ်ခဲ့သော်လည်း၊ အရှေ့တိုင်း နိုင်ငံများနှင့် ဆက်ဆံမှုများပြားသဖြင့်၊ ဘုရင်များအုပ်စိုးပုံနှင့် လူတို့၏ အယူအဆများမှာ အရှေ့တိုင်းဆန်လေသည်။ သို့သော် ထိုခေတ်တွင် ထွန်းကားသည့် ယဉ်ကျေးမှုပညာရပ်များကား ဂရိအနုပညာရပ်များဖြစ်၏။ ဗိုင်ဇင်းတိုင် နိုင်ငံပျက်သုဉ်း၍ အော့တိုမန်တရက်တို့ ကြီးစိုးသောအခါ ကွန်စတင်တီနိုပယ်မြို့မှ ခရစ်ယန် ပညာရှိ အပေါင်းတို့သည် ဥရောပဖက်သို့ ပြေးဝင်သွားကြ၏။ ထိုသူတို့ ရောက်လေရာ နိုင်ငံများတွင် ရှေးဂရိပညာရှိတို့၏ အတတ်ပညာအမျိုးမျိုးကို ဖြန့်ဖြူးကြ၏။ ထိုသူတို့ ဆောင်ရွက်မှုကို အကြောင်းပြု၍ ဥရောပတိုက်၌ ဥာဏ်သစ် အရေးပုံဟုခေါ်သော အထင်အမြင် အတွေးအကြံ ပြောင်းလဲခြင်း တရပ်ပေါ်နောင်တွင် ပေါ်ပေါက်လာလေသည်။ (ဥာဏ်သစ်အရေးပုံ — ရှု။)

**ဗိုင်ရွန်,ဂျော့**(ခရစ် ၁၇၈၈—၁၈၂၄)။ ။အင်္ဂလိပ်စာပေသမိုင်းတွင် ကိ၊ ရှယ်လီစသော စာဆိုကြီးများနှင့် တခေတ်တည်းထွန်းကားခဲ့သူ စာဆိုကြီး ဂျော့ဂေါ်ဒင် ဗိုင်ရွန်သည် ၁၇၈၈ ခုနှစ် ဇန္နဝါရီလ ၂၂ ရက်နေ့တွင် လန်ဒန်မြို့၌ ဖွားမြင်သည်။ ဗိုင်ရွန်၏ဖခင်မှာ ကက်ပတိန် ဂျွန် ဗိုင်ရွန်ဖြစ်၍ မိခင်မှာ အလွန်ချမ်းသာကြွယ်ဝသော ကက်သရင်း ဂေါ်ဒင်ဖြစ်သည်။ ဖခင်ဖက်မှ အဖိုးဖြစ်သူ ဆာ ဂျွန် ဗိုင်ရွန်အားအင်္ဂမဟင်နရီဘုရင်က ဗဲရွန်ရော့ခဒေးဘွဲ့ကို ချီးမြှင့်ခဲ့သည်။ ထိုဘွဲ့ကို အဆင့်ဆင့် ဆက်ခံခဲ့ရာမှ ၁၇၉၈ ခုနှစ်တွင် ဗိုင်ရွန်၏ အဖိုးလေး ကွယ်လွန်သောအခါ စာဆိုကြီး ဗိုင်ရွန်သည် ဆဋ္ဌမြောက်ဗဲရွန်ဗိုင်ရွန် ဖြစ်လာခဲ့လေသည်။

ဗိုင်ရွန်သည် ၇ နှစ်သား အရွယ်မှစ၍ စကော့တလန်ပြည် အဗာဒင်းမြို့ရှိ သဒ္ဒါကျောင်းသို့ သွားရောက် ပညာသင်ကြားသည်။ ၁၁ နှစ်သားအရွယ်တွင် အဖိုးလေးဖြစ်သူ ကွယ်လွန်သောအခါ နော့တင်ဂမ်မြို့အနီးရှိ နယူးစတက် အက်ဗေး

သို့ သားအမိနှစ်ယောက် ပြောင်းရွှေ့နေထိုင်ပြီးနောက် ဗိုင်ရွန်သည် ဟယ်ရိုကျောင်းတွင် ပညာဆက်လက် သင်ယူသည်။ ၁၈ဝ၅ ခုနှစ်တွင် ကိမ်းဗရစ်တက္ကသိုလ် ထရင်နီတီကောလိပ်တွင် ဝင်ရောက်ပညာသင်ယူပြန်သည်။ ၁၈ဝ၆ ခုနှစ်တွင် ဗိုင်ရွန်သည် သူရေးသား စီကုံးထားသော ကဗျာများကို စုပေါင်း၍စာအုပ်ရိုက်နှိပ်ထုတ်ဝေသည်။ ထိုအချိန်၌ဗိုင်ရွန်၏အသက်မှာ ၁၈ နှစ်သာ ရှိသေးသည်။ အသက် ၁၉ နှစ်အရွယ်တွင် 'ပျင်းသည့်ချိန်ခါ' အမည်ရှိ ကဗျာစာအုပ်ကို ရေးသား ထုတ်ဝေပြန်သည်။ အက်ဒင်ဗာရာရီဗျူး စသော စာစောင်များနှင့် ဝေဖန်သူများက "ညံ့သေးသည်၊ လက်သင်စဖြစ်၍ အဆင့်အတန်းမရှိ" ဟု ရေးသားကြသဖြင့် ဗိုင်ရွန်သည် စိတ်ဆိုးကာ 'အင်္ဂလိပ်စာဆိုများနှင့် စကော့ဝေဖန်ရေးဆရာများ" ဟူသော ခေါင်းစဉ်ရှည်ဖြင့် ဝေဖန်ချက်ကို ပြန်လှန်ချေပသည့် ကဗျာတပုဒ်ကို ရေးသားလိုက်သည်။ ယင်းသည်ကား ဗိုင်ရွန်၏ ပဌမဆုံး နာမည်ကျော် ကဗျာကြီး ဖြစ်သည်။

ဤမျှ ပြန်လှန်ရေးသားရုံဖြင့် မကြေနပ်နိုင်အောင် ဒေါသထွက်နေသေးသော ဗိုင်ရွန်သည် ဥရောပတိုက် မြေထဲပင်လယ်ဖက်သို့ မိတ်ဆွေတယောက်နှင့်အတူ ခရီးထွက်ခဲ့သည်။ ၁၈၁၁ ခုနှစ် ဇူလိုင်လ ၁၄ ရက်နေ့တွင် အင်္ဂလန်ပြည်သို့ ဗိုင်ရွန်ပြန်လာ၍ မိခင်ရှိရာ နယူးစတက် အက်ဗေးသို့မရောက်မီ မိခင်ကွယ်လွန်သည်။ ၁၈၁၂ ခုနှစ်တွင် "ချိုင်း ဟဲရိုး ပီးလဂရင်းမိတ်" အမည်ရှိ ကဗျာအုပ်တွဲ ၂ တွဲကို ထုတ်ဝေလိုက်ရာ အလွန်ပင် လူကြိုက်များလေသည်။ နောက် ၂ နှစ်အတွင်း 'သ ဂီယားအား ' 'အဗိုင်းဒေါ့ သတို့သမီး' 'သ ကော့ဆဲ' စသောအရှေ့တိုင်း ပုံပြင်ကဗျာများကိုထုတ်ဝေသည်။ ချိုင်းဟဲရိုစာအုပ်ထက်ပင် လူကြိုက်များလေသည်။ သ ကော့ဆဲကဗျာစာအုပ်ကို ထုတ်ဝေသည့်နေ့၌ပင် အုပ်ရေ ၁၀,ဝဝဝ ရောင်းရသောဟူ၏။

၁၈၁၅ ခုနှစ်တွင် ဗိုင်ရွန်သည် ဆာ ရပ် မီးလဗန့်၏ သမီး အန္နာ အစ္စဗဲလာ မီးလဗန့်နှင့် လက်ထပ်သည်။ သို့ရာတွင် နောက်နှစ်တွင် အိမ်ထောင်ရေးအဆင် မပြေမှုကြောင့် ကွဲကြသည်။ ဗိုင်ရွန်၏ အိမ်ထောင်သည်ဘဝ မကောင်းသတင်းများသည် အဘော်ပျံ့နှံ့ခဲ့၍ လူအပေါင်းက သူ့အား ရှုံ့မုန်းခြင်းဖြစ်ကာ ရှောင်ကြဉ်ကြသည်။ နောက်ဆုံးတွင် ဗိုင်ရွန်သည် သူ့အားဆေးဖော်ကြောဖက် မပြုသည့် အင်္ဂလိပ်တို့နေထိုင်ရာ အင်္ဂလန်ပြည်ကို စိတ်နာ၍ တသက်ပြန်မလာဟူသော သန္နိဋ္ဌာန်ဖြင့် ၁၈၁၆ ခုနှစ်တွင် ထွက်ခွါလာခဲ့ပြီးနောက်၊ ပြင်သစ်၊ ဆွစ်ဇာလန်၊ ဣတလီ စသော နိုင်ငံများသို့ လှည့်လည်သွားရောက်ခဲ့လေသည်။ ဣတလီနိုင်ငံ၌ နေထိုင်စဉ် စာဆိုကြီး ရှယ်လီနှင့် သိကျွမ်းခဲ့သည်၊ ရှယ်လီနှင့် မသိကျွမ်းမီကပင် ရှယ်လီ၏ခယ်မ ကလဲဂေါ် ဒွင်နှင့် တိတ်တဆိတ်



ဗြိတိသျှ ကဗျာစာဆိုကျော် ဂျော့ဗိုင်ရွန်

ရင်းနှီးဘူးရာမှ သမီးကလေးတဦးပင် ရရှိခဲ့ဘူးလေသည်။ ဗိုင်ရွန်သည် ယင်းသို့ခရီးလှည့်လည်ယင်း ချိုင်း ဟဲရို တတိယနှင့် စတုတ္ထအုပ်၊ "ရှီလွန်အကျဉ်းသမား"၊ "အိပ်မက်"၊ "မန်းဖရက်" စသော စာအုပ်များကို ရေးသားထုတ်ဝေခဲ့သည်။ ၁၈၁၇ ခုနှစ်နှင့် ၁၈၂၂ ခုနှစ်အတွင်း ဗိုင်ရွန်သည် သူ၏ အကောင်းဆုံး လက်ရာဖြစ်သော "ဒွန်ဂျွန်း" စာအုပ် ၅ တွဲနှင့် ပြဇာတ်များကို ရေးသားခဲ့လေသည်။

၁၈၂၃ ခုနှစ်တွင် လွတ်လပ်မှုကို လိုလားသော ဗိုင်ရွန်သည် ဂရိပြည်လွတ်လပ်ရေးတိုက်ပွဲတွင် ကိုယ်တိုင် ပါဝင်ဆင်နွှဲခဲ့သည်။ ၁၈၂၄ ခုနှစ်တွင် ဂရိနိုင်ငံ မစ်ဆိုလွန်ဂီမြို့သို့ရောက်သောအခါ ဗိုင်ရွန်အားလူထုက သောင်းသောင်းဖျဖျ ကြိုဆိုကြသည်။ ဗိုင်ရွန်သည် မိုးထဲ လေထဲတွင် မြင်းစီး၍ မြို့လှည့်ခဲ့ရာမှ အအေးမိကာဖျားခဲ့ရာ ၁၀ ရက်ခန့်အကြာ ၁၈၂၄ နှစ် ဧပြီလ ၁၉ ရက်နေ့တွင် ထိုမြို့၌ပင် ကွယ်လွန်သည်။ ဗိုင်ရွန်သည် ဂရိလွတ်လပ်ရေးတိုက်ပွဲ အတွက် ဒေါ်လာ ၅ဝ,ဝဝဝ ကို ရန်ပုံငွေအဖြစ်လည်း လှူဒါန်းခဲ့လေသည်။

ဗိုင်ရွန်ကား အချို့အချို့ စာဆိုများကဲ့သို့ ကွယ်လွန်ပြီးနောက်မှသာ ကျော်ကြားသူမဟုတ်၊ အသက်ရှင်နေစဉ်ပင် ထင်ရှားခဲ့သူဖြစ်သည်။ အချို့အချို့ စာဆိုများကဲ့သို့လည်း အသက်ရှင်စဉ်သာ ကျော်ကြား၍ ကွယ်လွန်ပြီးနောက် နာမည်မှေးမှိန်သွားသူလည်း မဟုတ်ဘဲ၊ ယခုခေတ်တိုင် ကျော်ကြားနေသော စာဆိုကြီးဖြစ်သည်။ဗိုင်ရွန်သည် ထုံးတမ်းစဉ်

လာကိုပယ်၍ သူ့စိတ်ကြိုက်သူရေးသူဖြစ်သည်၊ စိတ်ကူးဉာဏ်ကောင်းသလောက် အရေးအသား ကောင်းသူလည်း ဖြစ်သည်။ စက်ဆုပ်ဖွယ် အကြောင်းရပ်ကိုလည်း နှလုံးနာစရာကောင်းအောင် ရေးစွမ်းနိုင်သူ ဖြစ်သည်။ ထို့ကြောင့် အချို့ဝေဖန်သူတို့က ဗိုင်ရွန်သည် "နတ်ကလောင်အအပ်ခံရသည့်အရူး" ဟု ဆိုကြသည်။

ဗိုင်ရွန်သည် တော်သလောက်လည်း မာနကြီးသည်။ သူ့အား ခြီးကျူးသည်ကို အလွန်အမင်းလိုလားသလောက်လိုသေးသည်ဟု ဝေဖန်သူအား ဒေါသထွက်တတ်သူ ဖြစ်သည်။ သို့ရာတွင် စိတ်ရင်းကောင်းလေသည်။

**ဗိုင်ဩလိုဂျီ။** ။ဇီဝဗေဒ — ရှု။

# သက်ရှိတို့၏ ဓာတ်သဘောကိုလေ့လာသည့်သိပ္ပံပညာ

**ပဉ္စမကမ္ဘာစစ်အတွင်းကမှ တိုးတက်လာသော သိပ္ပံပညာ ဖြစ်သည်။ သက်ရှိတို့၏ ဖြစ်ပျက်ဖောက်ပြန်မှုသဘောတို့ကို ဗိုင်အိုကင်မစ္စတြီပညာဖြင့် လေ့လာ၍ ယင်းတို့ကို ထိန်းသိမ်းခြင်း၊ တားဆီးခြင်းတို့ကို ဆောင်ရွက်ရာ၊ အောင်မြင်မှုများလည်း ရှိခဲ့သည်။ ယင်းတို့ဖြင့် ဆရာဝန်များသည် အနာရောဂါ တားဆီးကာကွယ်ရေးများကို ဆောင်ရွက်နိုင်ခဲ့၍၊ လူနှင့်သတ္တဝါတို့ကျန်းမာတောင့်တင်းရေးအတွက် မည်သို့မည်ပုံ နေထိုင်စားသောက်ရန် လိုအပ်ကြောင်းကိုလည်း သိရှိလာခဲ့ကြသည်။**

**ဗိုင်အိုကင်မစ္စတြီ။** ။တိရစ္ဆာန် ပိုးမွှား သစ်ပင် စသော သက်ရှိတို့တွင် ပါရှိနေသည့်ဓာတ်များနှင့် ယင်းဓာတ်သဘောတရားတို့၏ သက်ဝင်ပုံ၊ ဖောက်ပြန်ပုံ အကြောင်းများကို လေ့လာသော သိပ္ပံပညာကို ဗိုင်အိုကင်မစ္စတြီဟု ခေါ်သည်။ ယင်းသည် ဗိုင်အိုနှင့်ကင်မစ္စတြီဟူသော စကား ၂ လုံးပေါင်းစပ်ထားခြင်းဖြစ်သည်။ ဗိုင်အိုသည် အသက်၊ သို့မဟုတ် ပါဏဟု အဓိပ္ပါယ်ရ၍၊ ကင်မစ္စတြီသည် ဓာတုဗေဒ ဖြစ်သဖြင့် အချို့က ဗိုင်အိုကင်မစ္စတြီကို ပါဏဓာတုဗေဒဟုလည်း ခေါ်ကြသည်။ ခန္ဓာကိုယ်၏ ဖြစ်ပျက်ပုံဓာတ်သဘောတရားကို လေ့လာမှုလည်း အကျုံးဝင်နေသဖြင့် အချို့က ဖီဇီဩလော်ဂျစ်ကယ်ကင်မစ္စတြီဟု ခေါ်ကြသေးသည်။

ဗိုင်အိုကင်မစ္စတြီကို အကြမ်းအားဖြင့် ၂ ပိုင်းခွဲနိုင်သည်။ ပဉ္စမပိုင်းမှာ လူ၊ တိရစ္ဆာန်၊ ပိုးမွှားနှင့် သစ်ပင်များ၌ ပါရှိနေသောဓာတ်များနှင့် သက်ဆိုင်၍ ၊ ဩဂဲနစ်ဓာတုဗေဒပညာရပ်၏ သီးသန့်ဘာသာခွဲတရပ်ဖြစ်သည်။ ဒုတိယပိုင်းမှာ လူ၊ တိရစ္ဆာန်၊ ပိုးမွှားနှင့် သစ်ပင်များ၌ ပါရှိသော ဓာတ်များ၏ သက်ဝင်ပုံ ဖောက်ပြန်ပုံသဘောတရားနှင့် ယင်းဓာတ်အချင်းချင်းတွေ့ရှိသောအခါ ဖြစ်လာသည့် ပြောင်းလဲမှု သဘောတရားများဖြစ်သည့် မက်တာဗော်လစ်ဇင်ခေါ် ဇီဝရုပ်အဖြစ်အပျက်ကိုလေ့လာသော ဘာသာခွဲဖြစ်သည်။

ဗိုင်အိုကင်မစ္စတြီ ပညာသည် ၁၉ ရာစုနှစ်နောက်ပိုင်းတွင် စတင်ပေါ်ပေါက်လာသည်။ ပေါ်ပေါက်စက ထိုခေတ်လူတို့အယူသည်းမှု စသော အခက်အခဲအမျိုးမျိုးနှင့် ရင်ဆိုင်ခဲ့ရသည်။ ယင်း အခက်အခဲများကို ခံယူဦးစွာ တွန်းလှန်နိုင်ပြီးမှ ယခုကဲ့သို့ လူအများလက်ခံလာသော ပညာတရပ် ဖြစ်လာခဲ့ရသည်။ ၂၀ ရာစုနှစ်အစလောက်တွင် ဗိုင်အိုကင်မစ္စတြီပညာရှင်ကြီး ဆာ ဖရက်ဒရစ် ဂိုလန်းဟော့ပကင်း၏ ကြိုးစားမှုကြောင့် လူအများလက်ခံလာသော ပညာရပ် တခုအဖြစ်တိုးတက်လာခဲ့သည်ဟု ဆိုရပေမည်။

ပဉ္စမကမ္ဘာစစ်ကြီးအတွင်းကစ၍ ဗိုင်အိုကင်မစ္စတြီ ပညာရပ်သည် များစွာတိုးတက်လာခဲ့သည်။ ယင်းသို့ တိုးတက်စဉ်အချိန်က အရေးကြီးသော အခြေခံဗိုင်အိုကင်မစ္စတြီ ပညာအပိုင်းကို လူတိုင်းအရေးမထားလှကြဘဲ လက်တွေ့ချက်ခြင်းအသုံးကျသော ဗိုင်အိုကင်မစ္စတြီ ပညာပိုင်းလောက်ကိုသာ လူအများ အားပေးခဲ့ကြသည်။ အာဟာရဓာတ်များ အကြောင်း၊ အင်ဇိုင်းခေါ် သက်ရှိနှင့် ဆိုင်သော ဓာတ်ကူ အကြောင်းတို့ကို ပဉ္စမ ကမ္ဘာစစ်အတွင်းက လေ့လာတွေ့ရှိသည်။ ယခုမူ လူတို့၏အသိဉာဏ်တိုးတက်လာသည်နှင့် အမျှအခြေခံ ဗိုင်အိုကင်မစ္စတြီပညာပိုင်းကို အားပေးလာကြပြီးလျှင် ယင်းပညာကို လူနှင့် တိရစ္ဆာန်ဆေးကုဌာန၊ အာဟာရဌာန၊ လယ်ယာ စိုက်ပျိုးရေးဌာန စသည်တို့တွင် များစွာအသုံးပြုနေကြလေသည်။

ဗိုင်အိုကင်မစ္စတြီကို အခြား သိပ္ပံပညာရပ်များ ကဲ့သို့ပင် ကဏ္ဍများ ခွဲထားလေသည်။ တိရစ္ဆာန်များနှင့် သက်ဆိုင်သော ဗိုင်အိုကင်မစ္စတြီ၊ ပိုးမွှားများနှင့် သက်ဆိုင်သော ဗိုင်အိုကင်မစ္စတြီ၊ သစ်ပင်နှင့် ဆိုင်သော ဗိုင်အိုကင်မစ္စတြီစသည်ဖြင့် ဖြစ်သည်။ ယင်းတို့ကိုပင် တဖန် အသေးစိတ် ခွဲခြားလေ့လာကြသေးသည်။

လေ့လာမှတ်သား၍ လွယ်ကူစေရန်အတွက်သာ ဤကဲ့သို့ကဏ္ဍအလိုက် ခွဲထားသော်လည်း၊ ယင်းတို့အားလုံးသည် တကဏ္ဍနှင့်တကဏ္ဍ ဆက်သွယ်လျက်ရှိကြလေသည်။ တိရစ္ဆာန်နှင့် ဆိုင်သော ဗိုင်အိုကင်မစ္စတြီ ပညာရပ်တွင် အကျုံးဝင်သည့် တိရစ္ဆာန်တို့၏ ကြွက်သားဆဲနှင့် ပိုးမွှားနှင့် ဆိုင်သော ဗိုင်အိုကင်မစ္စတြီ ပညာရပ်တွင် အကျုံးဝင်သည့် တဆေး၏

ဆဲတို့ကိုလေ့လာရာမှ အသက် နှင့် ခန္ဓာကိုယ်တည်မြဲ သမျှ လှုပ်ရှား သွားလာမှုအတွက် လိုအပ်သော စွမ်းအင်ကို ပေး နိုင်သည့် ကာဗိုဟိုက်ဒရိတ် ဓာတ်ကို တွေ့ရှိခဲ့ကြခြင်းကို ထောက်၍ တကဏ္ဍနှင့်တကဏ္ဍ အဆက်အသွယ် ရှိကြောင်း သိသာသည်။

ဤကဲ့သို့လေ့လာခြင်းဖြင့် လူ၊ တိရစ္ဆာန်၊ ပိုးမွှား၊ သစ်ပင် စသည်တို့သည် ပုံသဏ္ဌာန်ကွဲပြားသော်လည်း ဗိုင်အိုကင်မစ္စ တြီပညာရပ်အားဖြင့်တူညီချက်များရှိသည်ဆိုသော အချက် ကို တွေ့ရှိရလေသည်။ ထို့ကြောင့် အသက်သည် ဗိုင်အိုကင် မစ္စတြီပညာရပ်ပေါ်တွင် ဦးစွာအခြေပြုသည်ဟု ယူဆစရာ ဖြစ်ပေါ်လာပေသည်။

ယခုလက်ရှိ ဗိုင်အိုကင်မစ္စတြီ ပညာရပ်သည် ဇီဝဗေဒနှင့် ရောဂါဗေဒပညာရပ်များမှ တိုးတက်လာခြင်း ဖြစ်ပေသည်။ (ဇီဝဗေဒ။ ရောဂဗေဒ — လည်းရှု။) အချို့ရောဂါများ ဖြစ်ပေါ် လာသည့်အခါ အပင်ပန်းမခံရဘဲ ဗိုင်အိုကင်မစ္စတြီ ပညာဖြင့် အလွယ်တကူ သိရှိနိုင်လေသည်။ ကျောက်ကပ် ရောင်ရောဂါ၊ ဆီးချိုရောဂါတို့ ဖြစ်သည့်အခါ ဗိုင်အိုကင် မစ္စတြီနည်းဖြင့် စစ်ဆေးက အလွယ်တကူ တွေ့ရှိနိုင်သည်။

သက်ရှိတို့၏ လှုပ်ရှားမှုမှန်သမျှသည် စွမ်းအင်ကို သုံးကြရ သည်။ သက်ရှိတို့၏ ကြီးထွားမှု၊ လှုပ်ရှားသွားလာမှု စသည် တို့အတွက် စွမ်းအင်ကို အထူးလိုအပ်လှသည်။ အကြမ်းအား ဖြင့် သက်ရှိတို့ကို ၂ စုခွဲနိုင်သည်။ ပြင်ပ သက်ကင်းလောက၊ သို့မဟုတ် နိဇီဝများမှ စွမ်းအင်ကို ဆွဲယူအသုံးပြုကြသည့် အစိမ်းရောင်ရှိသော သစ်ပင်များအပါအဝင်ဖြစ်သည့် အော် တိုထရိုဖီခေါ် အစုနှင့် စားသုံးသော အစားအစာမှသာ စွမ်း အင်ကို ရယူနိုင်သော လူ၊ တိရစ္ဆာန်၊ မှို၊ မိုက္ကရုပ်ပိုးစသည် တို့ ပါဝင်သည့် ဟီတာရိုထရိုဖီခေါ် အစုတို့ဖြစ်သည်။

သက်ရှိလောက (သဇီဝလောက) တွင် ဖြစ်ပျက် ဖောက် ပြန်သောအပြောင်းအလဲများကို သက်ကင်းလောက (နိဇီဝ လောက) ၌လည်း တွေ့ရှိရပေသည်။ သို့သော် ပြောင်းလဲမှု နှုန်းသည် အလွန်နှေးသည်။ သက်ရှိလောကတွင် ပြောင်းလဲ မှု မြန်ဆန်ခြင်းမှာ အင်ဇိုင်းဓာတ်ကြောင့်ဖြစ်သည်။ အင် ဇိုင်းဓာတ်မရှိလျှင် သက်ရှိတို့၏ ပြောင်းလဲမှုများသည် အ လွန်နှေးကွေး၍ အသက်သည်ကြာရှည်စွာ တည်နိုင်တော့ မည် မဟုတ်ချေ။ အစာခြေရာ၌ ပါဝင်သော အစာအိမ်ရည်၊ သရက်ရွက်ရည် စသည်တို့သည် လူနှင့် တိရစ္ဆာန်တို့တွင် အ ရေးကြီးသော အင်ဇိုင်းများ ဖြစ်သည်။

အင်ဇိုင်းဓာတ်ကို ဟန်းဇဗူးခနာနှင့် အက်ဒွပ် ဗူးခနာဆို သူ ညီအစ်ကိုနှစ်ယောက်တို့က ၁၈၉၇ ခုနှစ်တွင် စတင်တွေ့ရှိ ကြသည်။ တဆေးကို ညှစ်ထုတ်ရာမှရသောအရည်သည် တ ဆေးကဲ့သို့ပင် သကြားဓာတ်ကို အရက်အဖြစ်သို့ ပြောင်းလဲ ပေးနိုင်သည်ကို တွေ့ရှိခဲ့ရာမှ တဆေးသည် သတ္တဝါ များတွင် တွေ့ရှိရသောဆဲတမျိုးဖြစ်သဖြင့် ဆဲအတွင်းမှ အင်ဇိုင်းခေါ် ဓာတ်ကူတမျိုးကို ထုတ်ယူနိုင်ကြောင်း သိလာသည်။ ယင်း အင်ဇိုင်းဓာတ်သည် အစစ်ဖြင့် စစ်လိုက်လျှင် ယင်း၌ပါဝင် သော တွဲဖက်အင်ဇိုင်းခေါ် သေးငယ်သည့် မော်လီကျူ က လေးများ ထွက်ကုန်သောကြောင့် ယင်း၌ပါရှိသော ပြုပြင် ပြောင်းလဲနိုင်သည့်အရည်အချင်းများ ကုန်သွားတတ်သည်။

ဆဲများသည် ဤကဲ့သို့ အင်ဇိုင်း၊ တွဲဖက်အင်ဇိုင်းများနှင့် အားဖြစ်ပေါ် ရာ ဓာတ်များစသည်တို့ကို စည်းကမ်းကျနစွာ စုရုံး၍ ဖြစ်ပေါ်လာသော သက်ရှိ ပစ္စည်းပင်ဖြစ်သည်။ လူ၊ တိရစ္ဆာန်၊ အပင်တို့ကို ဖွဲ့စည်းထားသော ဆဲများတွင် ဓာတု ဒြပ်ပေါင်းထောင်ပေါင်းများစွာ ပါဝင်သည်။ ဓာတုဗေဒ ပညာရှင်များသည် ယင်းဓာတုဒြပ်ပေါင်းများကိုဓာတ်ခွဲခန်း ၌ ဖန်တီးယူနိုင်၍ အချို့ကိုမူတည်ဆောက်ထားပုံကို တတ် အပ်သေချာစွာ မသိသဖြင့် ဖန်တီးယူရန်မလွယ်ကူချေ။ လူ၊ တိရစ္ဆာန်၊ အပင်တို့၌ ပါရှိသော အရေးပါသည့် ဓာတုဒြပ် ပေါင်းများမှာ ကာဗိုဟိုက်ဒရိတ်၊ အဆီ၊ ပရိုတင်းတို့ ဖြစ် သည်။ သက်ရှိ တစ်ရှူးများထဲတွင် အထက်ပါ ဒြပ်ပေါင်း များသာမက အခြားဓာတ်ပစ္စည်း၊ သတ္တုဓာတ်များလည်း ပါဝင်သေးသည်။ ယင်းတို့ကို ဗိုင်အိုကင်မစ္စတြီ ပညာဖြင့် လေ့လာကြသည်။

လူ၊ တိရစ္ဆာန်နှင့် အပင်တိုင်းသည် အသက်ရှင် နေနိုင်ရန် အာဟာရကို မှီဝဲ နေကြရသည်။ အများအားဖြင့် လိုအပ် သော အာဟာရကို အချင်းချင်း အလဲအလှယ်ပြု၍ မှီတင်း နေထိုင် ကြလေသည်။ နေ့အခါတွင် လူ တိရစ္ဆာန်တို့ အ သက်ရှူထုတ်လိုက်သော ကာဗွန်ဒိုင်အောက်ဆိုက် ဓာတ်ကို အပင်များက မှီဝဲနေရ၍ အပင်တို့ ရှူထုတ်သော အောက် ဆီဂျင်ကို လူနှင့်တိရစ္ဆာန်တို့ ရှူသွင်းကြရသည်ကို ထောက် ၍ သက်ရှိလောက၌ အချင်းချင်း အလဲအလှယ်ပြု၍ မှီတင်း နေထိုင်ကြပုံကို သိမြင်နိုင်လေသည်။

သက်ရှိ အများစုသည် ဖြစ်မှု၊ ပျက်မှု၊ ဖောက်ပြန်မှုကို ခံ စားသွားရသည်ချည်းဖြစ်သည်။ ယင်းသို့သော အဖြစ် အ ပျက်များကို ဗိုင်အိုကင်မစ္စတြီပညာဖြင့် လေ့လာကြသည်။

အပင် လောကကို လေ့လာလျှင်လည်း အပင်များသည် မိမိတို့၏ စွမ်းအင်ကို မိမိတို့ဖာသာ ဖန်တီးနိုင်ကြောင်း တွေ့ရ သည်။ ယင်းသို့ ဖန်တီးယူပုံကို အတုခိုး၍ ဓာတုဗေဒ ပညာ ရှင်များက တီထွင်မှု ပြုကြသေးသည်။ အပင်လောက၌ စွမ်း အင်ဖန်တီးယူမှုကို ဖိုတိုဆင်းသစ်ခေါ် အလင်းဖြင့် ဖွဲ့စည်း ခြင်းဟု ခေါ်သည်။ ဖိုတိုဆင်းသစ်သည် အစိမ်းရောင် အ ပင်တို့တွင်ရှိသော ကလိုရိုဖီးခေါ် အစိမ်းရောင်ဓာတ် ပစ္စည်း ပေါ်၌ အမှီပြုနေသည်။ ကလိုရိုဖီးဓာတ်ဖြင့် ဖွဲ့စည်းထား သော အာဟာရအပေါ်၌ သက်ရှိတို့ အမှီပြုနေရသဖြင့် ယခု ခေတ် ဗိုင်အိုကင်မစ္စတြီ ပညာရှင်တို့သည် ကလိုရိုဖီးဓာတ်

၏ သဘောနှင့် ယင်း၏ အစွမ်းကို စိတ်ဝင်စားစွာ လေ့လာကြသည်။ ကာလီဖိုးနီးယား တက္ကသိုလ်မှ ဒန်နယဲ အိုင်အာနွန်ခေါင်းဆောင်သော သိပ္ပံပညာရှင် တစုသည် သက်ရှိဆဲပြင်ပ၌ဖိုတိုဆင်းသစစ်အောင်မြင်စွာပြုလုပ်ရနိုင်ကြောင်းကို ၁၉၅၅ ခုနှစ်က ပြသခဲ့ကြသည်။ အာနွန်သည် ဟင်းနုနွယ်ရွက်မှ ကလိုရိုဖီးဓာတ် ပါသော ကလိုရိုပလတ်ဝတ္ထုကို ထုတ်၍ ဖိုတိုဆင်းသစစ် သက်သက် ပြုပြင်ယူ၍ပြသည်။ ထို့ကြောင့် တမင်လုပ်ယူသော ဖိုတိုဆင်းသစစ်ပြု၍ အာဟာရတို့ကို တနေ့နေ့တွင် ဖန်တီးယူနိုင်လိမ့်မည်ဟု သိပ္ပံပညာရှင်တို့က ယုံကြည်ခဲ့ကြသည်။

ဗိုင်အိုကင်မစ္စတြီ ပညာဖြင့် အထူးသဖြင့် လူတို့ ကျန်းမာသန်စွမ်းရန်လိုအပ်သည့် အစားအစာများကို စူးစမ်း လေ့လာလျက် ရှိကြသည်။ လူတို့သည်လိုအပ်သော ပရိုတင်း၊ ကာဗိုဟိုက်ဒရိတ်၊ လိုက်ပွိုက်ခေါ် ဆီတု၊ ဗီတာမင်၊ သတ္တုဓာတ်၊ ရေစသော ဓာတ်များ မမှီဝဲရပါက ကျန်းမာရေး ချို့တဲ့လျှင်လည်း ချို့တဲ့တတ်၍ အသက်ဆုံးရှုံးသည်အထိ ဖြစ်လျှင်လည်း ဖြစ်တတ်ကြောင်းကို သိလာကြသည်။ ထို့ပြင် လူတို့အား ဒုက္ခပေးနေသော ဗက်တီးရီးယားများကို လူ့ခန္ဓာကိုယ်အား အန္တရာယ်မဖြစ်စေဘဲ တိုက်ဖျက်ရန် ဓာတ်ပစ္စည်းများကို ဗိုင်အိုကင်မစ္စတြီပညာဖြင့် ဖန်တီးယူနိုင်ကြသဖြင့် ဗိုင်အိုကင်မစ္စတြီသည် ဆေးလောကတွင် အကျိုးပြုသော ပညာရပ်ဖြစ်လာသည်။ လူတို့အတွက်သာ မဟုတ်၊ တိရစ္ဆာန်နှင့် အပင်များအတွက်ပါ မည်သည့်အစား အစာ၊ ဓာတ်စသည်တို့လိုသည်ကို ဗိုင်အိုကင်မစ္စတြီပညာဖြင့် စူးစမ်းသိရှိနိုင်သဖြင့် စိုက်ပျိုးရေးနှင့် တိရစ္ဆာန်မွေးမြူရေး လောကကို အထူးပင် အထောက်အပံ့ပြုသော ပညာရပ်တခုလည်း ဖြစ်သည်။

ထို့ကြောင့် ဗိုင်အိုကင်မစ္စတြီပညာသည် သက်ရှိတို့၏ တည်ဆောက်ထားပုံနှင့် သက်ရှိတို့တွင် ပေါ်ပေါက် နေသော ဓာတ်ဖြစ်စဉ်များကို လေ့လာသော ပညာရပ်ဖြစ်ရုံမက သဘာဝအလျောက် ဖြစ်ပေါ်လာသော ဓာတ်များကို အတုခိုးကာ ကျရောက်မည့် ရောဂါတို့မှ ကာကွယ်နိုင်ခြင်း၊ ဖြစ်ပေါ်လာသည့် ရောဂါကို ကုသနိုင်ခြင်းတို့ကြောင့် ဆေးပညာတွင် အထူးအသုံးဝင်သော အကျိုးပြုပညာရပ်ဖြစ်ပေသည်။

**ဒေါက်တာ ဦးမြင့်သိန်း**

**ဗိုင်းတိုင်ငှက်။** ။ဥဗျိုင်း — ရှု။

**ဗိုင်းမားမြို့။** ။ဗိုင်းမားမြို့သည် ဂျာမနီနိုင်ငံအလယ်ပိုင်း သူရင်းဂျီးယားနယ်၏မြို့တော်ဖြစ်သည်။ အမ်းမြစ်ကမ်းဘေး အက်တာစဗတ် တောင်ခြေရင်း၌ ပင်လယ်ရေမျက်နှာပြင် အထက် ပေ ၇၅၀ အမြင့်တွင် တည်ရှိ၍ အာဖတ်မြို့ အရှေ့ဖက် ၁၃ မိုင်အကွာတွင်ရှိသည်။ ဘာလင်-ဖရင့်ဖတ်မီးရထားလမ်းဆုံမြို့ ဖြစ်ရုံမက လေဆိပ်ရှိသောမြို့လည်း ဖြစ်သည်။

ဗိုင်းမားမြို့သည် အနုပညာဗဟို ဌာနကြီး အဖြစ်ကျော်ကြားသည်။ ကမ္ဘာတွင် ထင်ရှားကျော်ကြားသော ဂျာမန် အနုပညာရှင်ကြီးများဖြစ်သည့် ဂါတာ၊ရှီးလား၊ ဗီလန်၊ ဟာဒါ၊ ဟမ်မယ်စသူတို့ နေထိုင်ခဲ့ရာ မြို့ဖြစ်၍ ယင်းတို့နှင့် စပ်



ဂျာမနီနိုင်ငံ ဗိုင်းမားမြို့၏ သာယာ ကြည်နူးဖွယ်ကောင်းသည့် ရှုခင်းတစိတ်တဒေသ

လျဉ်းသော အဆောက်အအုံများကို ကောင်းစွာ စောင့်ရှောက်ထိန်းသိမ်းကာ ပြတိုက်သဖွယ် ပြသထားသည်။ ထို့ကြောင့် ဗိုင်းမားမြို့အား စာဆိုမြို့ဟု အချို့ကခေါ် စမှတ်ပြုကြသည်။ ဗိုင်းမားမြို့၏အခြားထင်ရှားသော အဆောက်အအုံများမှာ နယ်စားကြီးများ စံရာနန်းတော်၊ ယခု အစိုးရဌာနများထားရှိရာ ရဲတိုက်နီနှင့် ရဲတိုက်ငါ၊ မြေပုံအမြောက်အမြားနှင့် စာအုပ်စာတမ်းပေါင်း ၃၀၀,၀၀၀ ကျော် သိမ်းဆည်းထားရှိရာ စာကြည့်ပိဋကတ်တိုက်ကြီး၊ ပြတိုက်၊ လူးကတ် ကရာနက်၏ လက်ရာ ဘုရားပလ္လင်ရှိရာ ဘုရားရှိခိုးကျောင်း၊ ၁၉၁၉ ခုနှစ်က ဂျာမန်သမတနိုင်ငံ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေ စုဝေးရေးဆွဲရာနှင့် ဗာဆေးစာချုပ်အတည်ပြုရာ အမျိုးသား ဇာတ်ရုံစသည်တို့ဖြစ်သည်။ ထို့ပြင် အနုပညာရှင်ကြီးများအား ဂုဏ်ပြုသည့် အနေဖြင့် ရိုက်ထုထားသော ယင်းတို့၏ ကြေးရုပ်တု၊ ကျောက်တိုင်အများအပြားကိုလည်း တွေ့ရှိနိုင်လေသည်။

ဗိုင်းမားမြို့၏ ထင်ရှားသော လုပ်ငန်းများမှာ ဖိနပ်၊ အထည်အလိပ်နှင့် ယာဉ် ဆောက်လုပ်သည့် လုပ်ငန်းများဖြစ်သည်။ သို့ရာတွင် ဗိုင်းမားမြို့သည် ရှေးဟောင်း အဆောက်အအုံနှင့် အနုပညာများကို လေ့လာလိုက်စားသူ ခရီးသည်များ၏ အာရုံစိုက်ရာ မြို့အဖြစ် ပို၍ထင်ရှားသည်။

ဗိုင်းမားမြို့ကို ခရစ် ၉၇၅ ခုနှစ်တွင် စတင်တည်ထောင်၍ ၁၂၅၃ ခုနှစ်တွင် မြို့ကြီးအဆင့်သို့ရောက်ရှိလာသည်။ ၁၅၇၂ ခုနှစ်မှစ၍ ဆက်ဆီဗိုင်းမားနယ်၏ မြို့တော် ဖြစ်လာသည်။ ဆက်ဆီဗိုင်းမား နယ်စားများအနက် အထင်ရှားဆုံး ဖြစ်သော ချားဩဂတ်စတပ်သည် စာပေအနုပညာရှင်ကြီးများအား အလွန်အားပေး မြှောက်စားသဖြင့် ဗိုင်းမားမြို့တွင် စာပေအနုပညာများ ထွန်းကားခဲ့သည်။ ၁၉၁၈ ခုနှစ်မှစ၍ ဗိုင်းမားမြို့သည် သူရင်းဂျီးယားနယ်၏ မြို့တော်ဖြစ်ခဲ့ရာ ဒုတိယကမ္ဘာစစ်အပြီး ဂျာမန်တို့ လက်နက်ချ၍၊ ဂျာမနီနိုင်ငံသည် အနောက်ဂျာမနီနိုင်ငံနှင့် အရှေ့ဂျာမနီနိုင်ငံဟူ၍ ကွဲသွားသောအခါ ဗိုင်းမားမြို့သည် အရှေ့ဂျာမနီနိုင်ငံအဝင် မြို့အဖြစ်သို့ ရောက်ရှိသွားသည်။

၁၉၃၉ ခုနှစ် သန်ကောင်စာရင်းအရ ဗိုင်းမားမြို့၏ လူဦးရေသည် ၆၅,၉၈၉ ဖြစ်သည်။

**ဗစ္စတျူလမြစ်။** ။ဥရောပ အလယ်ပိုင်းတွင် ထင်ရှား အရေးပါသောရေကြောင်း ခရီးလမ်းကြီး ဖြစ်သည့် ဗစ္စတျူလမြစ်သည် ချက်ကိုဆလိုဗားကီးယားနိုင်ငံမြောက်ပိုင်းရှိ ကာပေသီယန်တောင်တန်းတွင် မြစ်ဖျားခံ၍ ပိုလန်နိုင်ငံကို ဖြတ်သန်းကာ ဗောလတစ်ပင်လယ်တွင်းသို့ မြစ်ခွဲပေါင်းများစွာဖြင့် စီးဝင်လေသည်။ အရှေ့ဖက်ဆုံး မြစ်ခွဲဖြစ်သော နိုဂက်မြစ်သည် ဖရစ်ရှက်ဟပ် ပင်လယ်ထုံးတွင်းသို့ စီးဝင်သည်။ ဒန်းဇစ်မြို့ဖက်သို့ ဖြာထွက်သော အနောက်မြစ်ခွဲ၌ ကူးသန်းသွားလာမှု ပိုမိုများသည်။ မြစ်ခွဲများ ဖြာထွက်ရာ မြစ်ဝကျွန်းပေါ် ဒေသတွင် စိုပြည်သော သစ်တောများဖြင့် သာသာယာယာ ရှိနေသော ကျွန်းများကို တွေ့နိုင်ပေသည်။ မြစ်ခွဲများသည် မကြာခဏ ရေစီးကြောင်း ပြောင်းလဲတတ်သဖြင့် သင်္ဘောများ သွားလာရေးတွင် အနှောင့်အယှက် မဖြစ်စေရန်နှင့် မြစ်ဝကျွန်းပေါ်ဒေသတွင် ရေမကြီးစေရန် အစဉ်မပြတ် ပြုပြင် ထိန်းသိမ်းပေးရလေသည်။

ဗစ္စတျူလမြစ်သည် မိုင်ပေါင်း ၇၅၀ ရှည်၍ ကရားကုမြို့အထိ လှေသင်္ဘောများသွားလာနိုင်သည်။ ဝါဆောမြို့ အနီး၌ကား အသွားအလာနည်းပါးသည်။ ယင်းမြစ်သည် တနှစ်တွင် ၃ လခန့် ရေခဲနေတတ်သော်လည်း ပိုလန်နိုင်ငံ၏ အရေးပါသော ပို့ဆောင်ရေးလမ်းကြောင်းကြီး ဖြစ်သည်။ ယင်း၏ ထင်ရှားသော မြစ်လက်တက်တို့မှာ ဆန်းမြစ်၊ ဗုမြစ်နှင့် ပီလီကာမြစ်များ ဖြစ်ကြ၏။ ပို့ဆောင်ရေး အတွက် ကောင်းမွန်သော အိုဒါ၊ နီးပါး၊ နီးမန်းမြစ်များနှင့် ဗစ္စတျူလမြစ်သည် တူးမြောင်းများဖြင့် ဆက်သွယ်ထားသဖြင့် ဥရောပနိုင်ငံ အသီးအသီးသို့လည်း ရောက်ပေါက် ဆက်ဆံလွယ်သည်။ သို့ရာတွင် ယင်းမြစ်သည် ဒေသအမျိုးမျိုးတို့ကို ဖြတ်သန်းစီးဆင်းရသည့် အလျောက် ဂျုံ ပြောင်း စသော ကောက်သီး ကောက်နှံများ၊ ကျွဲ၊ နွား၊ ဝက်၊ မြင်း စသော တိရစ္ဆာန်များ၊ ကျောက်မီးသွေး၊ သံ၊ သွပ်၊ ဆားစသော တွင်းထွက်ပစ္စည်းများ၊ သစ်များ၊ စက်မှုလက်မှုပစ္စည်းများ စသည်ဖြင့် အမျိုးမျိုး တင်ပို့ဖောက်ကားရာခရီးလမ်းကြီးဟု ဆိုချပေမည်။

၁၉၁၉ ခုနှစ်၌ ဗာဆေးစာချုပ် အရ ဗစ္စတျူလမြစ်ဝပေါ်ရှိ ဒန်းဇစ်မြို့သည် လွတ်လပ်သောမြို့ဖြစ်လာပြီးလျှင် မြစ်တလျှောက်တွင် ကော်ရီဒါခေါ် မြေလက်ကြားနယ်ပေါ်ပေါက်လာသည့်အတွက် ပိုလန်နိုင်ငံသည် ဒုတိယကမ္ဘာစစ်မတိုင်မီက ဗောလတစ်ပင်လယ်သို့ ထွက်ပေါက်ရရှိသွားခဲ့လေသည်။

**ဗစ်ဇမတ်,အော့တို ဖွန်** (ခရစ် ၁၈၁၅–၁၈၉၈)။ ။ဂျာမနီ နိုင်ငံတော်ဟူ၍ မယ်မယ်ရရဖြစ်ပေါ် လာစေရန်နှင့် ယင်းနိုင်ငံကို ပဌမတန်း နိုင်ငံကြီးအဖြစ်သို့ ရောက်အောင်ဆောင်ရွက်ခဲ့သော အော့တို ဖွန် ဗစ်ဇမတ်သည် ပရပ်ရှင်းလူမျိုး ထိပ်တန်းနိုင်ငံပြုသုခမိန် ဖြစ်သည်။ ဂျာမနီ နိုင်ငံ၏ နန်းရင်းဝန်အဖြစ် အနှစ် ၂၀ ထမ်းဆောင်သွားသူလည်း ဖြစ်သည်။ ဗစ်ဇမတ်ကို ၁၈၁၅ ခုနှစ် ဧပြီလ ၁ ရက်နေ့တွင် ရှန်ဟောင်ဇင်မြို့ကလေး၌ မွေးဖွားသည်။ သူ၏အမည် အပြည့်အစုံမှာ အော့တို အက်ဒွပ် လီအိုပို ဖွန်ဗစ်ဇမတ် ရှန်ဟောင်ဇင်ဖြစ်သည်။ ဗစ်ဇမတ်၏ မိဖများမှာ ဆင်းရဲသော်လည်း ထင်ရှားသည့် မှူးမတ်မျိုးနွယ်များဖြစ်သည်။



ဂျာမနီနိုင်ငံကို စည်းလုံးပေးခဲ့သောနန်းရင်းဝန်ကြီး ဖွန် ဗစ်ဇမတ် (ယာ)ကို တတိယ နပိုလီယန်ဘုရင်နှင့်အတူ တွေ့ရစဉ်

ဗစ်ဇမတ်သည် ရဲစွမ်းသတ္တိနှင့် ပြည့်စုံသော ဗရင်ဒင်ဗတ် မှူးမတ်မျိုးနွယ်မှ ဆင်းသက်သူပီပီ ဂေါ့တင်းဂျင်း တက္ကသိုလ်၌နေစဉ် ကျောင်းသားများတဦးချင်း ယှဉ်ပြိုင်တိုက်ပွဲပေါင်း ၂၇ ပွဲကို အနိုင်စွဲခဲ့သူဖြစ်သည်။ တက္ကသိုလ်တွင် ဥပဒေနှင့် နိုင်ငံရေး ပညာရပ်များကို လေ့လာပြီးနောက် ၁၇၃၅ ခုနှစ်တွင် ဝတ်လုံဖြစ်လာသည်။ ထိုနောက် စစ်တပ်တွင် ခေတ္တ အမှုထမ်းပြီးလျှင် မကြာမီ ဇာတိမြို့သို့ပြန်၍ မြို့ရွာအရေး ဆောင်ရွက်ယင်း ယာယီလွှတ်တော်တွင် တနှစ်ခန့် ဝင်ရောက် ထမ်းဆောင်သည်။ ၁၇၄၇ ခုနှစ်တွင် ပရပ်ရှား ဒိုင်းယက် လွှတ်တော်အမတ်အဖြစ် ရွေးကောက်တင်မြှောက်ခံရသည်။ ၁၇၄၇ ခုနှစ်တွင် ဥရောပတိုက်၌ မငြိမ်မသက် ဖြစ်စဉ် ပရပ်ရှားဘုရင် စတုတ္ထဖရက်ဒရစ်ဝီလျံသည် လူထုအား အုပ်ချုပ်မှု အခြေခံဥပဒေဖြင့် အုပ်ချုပ်ရန် အလျှော့ပေးလိုက်သည်ကို ဗစ်ဇမတ်က မနှစ်သက်ချေ။ ဘုရင်တွင် တန်ခိုးအာဏာ ပိုမိုရှိသင့်သည်ဟု အရေးဆိုရာမှ ဗစ်ဇမတ်အား လူသိများလာသည်။ ၁၇၅၁ ခုနှစ်တွင် ဖရင့်ဖတ်မြို့ရှိ ဂျာမန်ဒိုင်းယက်လွှတ်တော်၌ ပရပ်ရှားပြည် ကိုယ်စားလှယ် အဖြစ် ခန့်ထားခြင်း ခံရသည်။

ဗစ်ဇမတ်သည် ညီညွတ်ရေးကို လိုလား၍ ထကြွလှုံ့လ ရှိသူလည်း ဖြစ်သည်။ ပရပ်ရှားနိုင်ငံက ခေါင်းဆောင်၍ ဂျာမန်နိုင်ငံတော်ကြီး ထူထောင်ရန် အမြဲ ကြံစည်နေသောသူ ဖြစ်သည်။ ယင်းသို့ ထူထောင်နိုင်ရန် ဦးစွာ နိုင်ငံငယ်ကလေးများသွေးစည်းပူးပေါင်းမိဖို့ အတွက် ဩစတြီးယားကို "သွေးနှင့် သံဝါဒ" အတိုင်း နှိမ်ရမည်ဟု ကြုံးဝါးလေသည်။ ထိုကြောင့် ပရပ်ရှားစစ်တပ်များကို အသစ်တဖန် တိုးချဲ့ပြုပြင်စီမံလေရာ ပရပ်ရှားလွှတ်တော်က လိုအပ်သော ငွေကို ခွင့်မပြုသဖြင့် ဗစ်ဇမတ်သည် ပဌမ ဝီလျံဘုရင်နှင့် တိုင်ပင်ကာ လွှတ်တော်နှင့် ဆန့်ကျင်ဖက်ပြု၍ အခွန် ကောက်ခံပြီးလျှင် စစ်တပ်များကို တိုးချဲ့ ပြုပြင်သည်။ ၁၇၆၄ ခုနှစ်တွင် မြို့စားကြီးများ အုပ်ချုပ်သည့် နယ်ကလေး ၂ နယ်အတွက် ဒိန်းမတ်နိုင်ငံနှင့် ပိုင်ဆိုင်မှု အငြင်းပွားရာမှအစ အင်အားတောင့်တင်းပြီး ဖြစ်သော ပရပ်ရှားစစ်တပ်များသည် ဩစတြီးယားနိုင်ငံနှင့် ပေါင်းကာ ဒိန်းမတ် နိုင်ငံကို စစ်ချီတိုက်ခိုက်သည်။ ဒိန်းမတ်နိုင်ငံကို အောင်မြင်သော အခါ ယင်းနယ်များကို မသင့်မတင့် ဖြစ်အောင် ဝေခြမ်းရာမှအစ ၁၇၆၆ ခုနှစ်တွင် ဩစတြီးယားနိုင်ငံနှင့် စစ်ဖြစ်ပြန်သည်။ ဩစတြီးယားတို့ စစ်ရှုံးသွားရာ ပရပ်ရှား နိုင်ငံသည် ဗစ်ဇမတ်ရည်ရွယ်သည့်အတိုင်း ဂျာမန်နိုင်ငံများ၏ ခေါင်းဆောင် အဖြစ် ရောက်လာသည်။ ဗစ်ဇမတ် သည် ဩစတြီးယား၏ အပေါင်းပါ နိုင်ငံငယ်များကို ပချပ်ရှားနိုင်ငံတွင်းသို့ သွတ်သွင်း

ပြီးနောက် မန်းမြစ် မြောက်ဖက်ရှိ အခြား ဂျာမန် နိုင်ငံငယ်ကလေးများနှင့် ပေါင်းကာ မြောက်ဂျာမန်ပြည်ထောင်စုကို ၁၈၆၇ ခုနှစ်တွင် ဖွဲ့စည်းသည်။

၁၈၇၀ ပြည့်နှစ်တွင် ပရပ်ရှား နိုင်ငံနှင့် ပြင်သစ်နိုင်ငံတို့သည် ဗစ်ဇမတ်၏ ပရိယာယ်ကြောင့် စစ်ဖြစ်ရာ ပြင်သစ်ပိုင် အားလဆားနှင့်လိုရိန်းနယ်များကို ပရပ်ရှားတို့ရလိုက်သည်။ ဂျာမနီနိုင်ငံ တောင်ဖက်ပိုင်းရှိ နိုင်ငံငယ်အများသည်လည်း ပရပ်ရှားနိုင်ငံနှင့် လာရောက် ပူးပေါင်းသဖြင့် ၁၈၇၁ ခုနှစ်တွင် ဂျာမနီနိုင်ငံတော်ကြီး စတင်ပေါ်ပေါက်လာကာ ပရပ်ရှားဘုရင်သည် ဂျာမန်ကေရာဇ်ဖြစ်လာပြီးလျှင် ဗစ်ဇမတ်သည် ဂျာမနီနိုင်ငံတော်ကြီး၏ နန်းရင်းဝန် ဖြစ်လာသည်။ ထိုနှစ်တွင်ပင် ဗစ်ဇမတ်သည် မင်းသားဘွဲ့ကိုပါ ရရှိသည်။

ဗစ်ဇမတ်သည် ဂျာမနီ နိုင်ငံ၏ နန်းရင်းဝန်အဖြစ် အနှစ် ၂၀ တိုင်တိုင်ဆောင်ရွက်စဉ် နိုင်ငံတော်ကြီးအား အင်အားလျင်မြန်စွာကြီးမားလာစေ၍ စက်မှုလက်မှုနှင့် ကူးသန်းရောင်းဝယ်ရေးတွင် ထွန်းကားစေရန် ဆောင်ရွက်သည်။ အာဖရိကတိုက်၊ တရုပ်နိုင်ငံနှင့် ပစိဖိတ်သမုဒ္ဒရာတို့၌ ဂျာမန်ပိုင်နယ်များပင်ရှိခဲ့သည်အထိ ဆောင်ရွက်ခဲ့သည်။ ပြင်သစ်နှင့် ရုရှနိုင်ငံတို့ပူးပေါင်းကာ ဂျာမနီအားရန်ပြုမည့်ဘေးကိုမြင်သော ဗစ်ဇမတ်သည် ၁၈၇၉ ခုနှစ်တွင် ဩစတြီးယား-ဟန်ဂေရီနိုင်ငံနှင့် မဟာမိတ်ပြု၏။ တဖန် ၁၈၈၂ ခုနှစ်တွင် သေးစည်းတိုးတက်လာသော ဣတလီ နိုင်ငံနှင့် မဟာမိတ်ပြုပြန်သည်။ ယင်းသို့ဖြင့် ဥရောပတိုက်တွင် များစွာအရေးပါခဲ့သော သုံးနိုင်ငံ မဟာမိတ် ပေါ်ပေါက်လာခဲ့သည်။

ဗစ်ဇမတ်သည် ပဌမဝီလျံနှင့် တတိယဖရက်ဒရစ် ဘုရင်များလက်ထက်တွင် တန်ခိုးတက်ခဲ့သလောက် ၁၈၈၈ ခုနှစ်တွင် နန်းတက်သောဒုတိယ ဝီလျံဘုရင်လက်ထက်တွင် ဩဇာမှေးမှိန်ခဲ့သည်။ ဒုတိယ ဝီလျံဘုရင်သည် အုပ်ချုပ်ရေးတွင် ဝင်ရောက်စွက်ဖက်ရာမှ အစ ဗစ်ဇမတ်နှင့် သဘော ကွဲလွဲရာ ၁၈၉၀ ပြည့်နှစ်တွင် ဗစ်ဇမတ်အားရာထူးမှထွက်စေသဖြင့် နုတ်ထွက်လိုက်ရသည်။ ၁၈၉၈ ခုနှစ် ဇူလိုင်လ ၃၀ ရက်နေ့တွင် ဗစ်ဇမတ်သည် ပဌမဝီလျံဘုရင်က သူ့အားပေးအပ်ထားသော ဖရိုက်ဒရစ်ဆရာနယ်မြေ၌ ကွယ်လွန်သည်။ ဗစ်ဇမတ်၏အသုဘကို ပြည်သူ့ဈာပနအဖြစ် အခမ်းအနားဖြင့် ချရန်နှင့် ဘာလင် ဘုရားရှိခိုးကျောင်း၌ ဂူသွင်း သင်္ဂြိုဟ်ရန် ဒုတိယဝီလျံဘုရင်၏ ပေးလှာချက်ကို လက်မခံချေ။ သူ၏ဂူ၌ 'ကေရာဇ်ဘုရင် ပဌမဝီလျံ၏ သစ္စာရှိသော ဂျာမန် ကျေးကျွန်ကြီး' ဟုရေးထိုးရန် မှာခဲ့သဖြင့် ထိုအတိုင်း ရေးထိုးထားသည်ကို တွေ့နိုင်သည်။

**ဗစ်တာအီမန်းနျူအယ်၊ ဒုတိယ** (ခရစ် ၁၈၂၀–၁၈၇၈)။ ။ဣတလီနိုင်ငံ၏ ပဌမဆုံးနှင့် အကျော်ကြားဆုံး ဘုရင် ဖြစ်သော ဒုတိယ ဗစ်တာ အီမန်းနျူအယ်သည် မူလက ဆာဒင်နီးယား-ပီးဒမွန့်ပြည် ဘုရင်သာ ဖြစ်သည်။ ဆာဒင်နီးယား-ပီးဒမွန့် ပြည့်ရှင်ဘုရင် ချားအဲလဗတ်၏ သားတော်ကြီးဖြစ်၍ ၁၈၂၀ ပြည့်နှစ် မတ်လ ၁၄ ရက်နေ့တွင် တျူးရင်းမြို့၌ ဖွားမြင်သည်။

၁၈၄၈ ခုနှစ်တွင် ဆာဒင်နီးယားနှင့် ဩစတြီးယားတို့စစ်ဖြစ်ရာ ဆာဒင်နီးယား စစ်ရှုံးလေသည်။ ထိုအခါ ဩစတြီးယန်း မင်းသမီးတပါးနှင့် လက်ဆက်ထားသော သားတော်ကြီး ဗစ်တာအီမန်းနျူအယ်အား ထီးနန်းလွှဲအပ်ပါမူ ဩစတြီးယားနှင့် ဆာဒင်နီးယားတို့ ဆက်ဆံရေးပြေပြစ်မည်ဟု သဘောပိုက်ကာ၊ ခမည်းတော် ဘုရင်ကြီးက ၁၈၄၉ ခုနှစ်တွင် ထီးနန်းစွန့်လိုက်သဖြင့် ဒုတိယ ဗစ်တာအီမန်းနျူအယ် ဘုရင်အဖြစ် နန်းတက်သည်။

ခမည်းတော် ချားအဲလဗတ်ဘုရင် ရည်မှန်းသည့် အတိုင်း သားတော် အီမန်းနျူအယ်ဘုရင်နှင့်ဩစတြီးယန်းအစိုးရတို့၏ ဆက်ဆံရေးသည် ပြေပြစ်လာသည်။ ဗစ်တာအီမန်းနျူအယ်သည် လုံးဝအလျှော့မပေးရဘဲ မိမိအလိုရှိသည့် အရေးပါသော အချက်များကို ရအောင်ယူ၍ စာချုပ် ချုပ်ဆိုသည်။ ဤသို့ဖြင့် နိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံ ဥပဒေအတိုင်း ဆောင်ရွက် နိုင်ခွင့်နှင့် ဣတလီပြည်ထောင်စု အထိမ်းအမှတ် သုံးရောင်ခြယ်အလံကို သုံးနိုင်ခွင့်ရရှိလေသည်။ ဗစ်တာ အီမန်းနျူအယ်သည် အကွဲကွဲ အပြားပြား ဖြစ်နေသော ဣတလီနိုင်ငံအား စည်းလုံးသွားအောင် ဆောင်ရွက်လိုသည်။ အီမန်းနျူအယ်ဘုရင်သည် နိုင်ငံသူနိုင်ငံသားတို့၏ ဆန္ဒကို လိုက်လျော၍ စံနစ်တကျ အုပ်ချုပ်သောကြောင့် နိုင်ငံသူ နိုင်ငံသားတို့က ဘုရင်အပေါ် အထူးပင် အားကိုးမြှော်လင့်ကြသည်။

သို့ရာတွင် ဒုတိယ ဗစ်တာ အီမန်းနျူအယ် ဘုရင်သည် ပြည်ပျက်တွင် ဘုရင်တက်ဖြစ်ရသူ ဖြစ်သည်။ ထို့ကြောင့် တိုင်းပြည်၏ အခြေအနေ ပြန်လည်ကောင်းမွန်အောင် များစွာပင် ကြိုးစားရလေသည်။တိုင်းပြည်ပြု လုပ်ငန်းတွင် ကျွမ်းကျင်လိမ္မာလှသော ကောင့်ကဗူးသည် အီမန်းနျူအယ်၏ အစိုးရအဖွဲ့တွင် ဝန်ကြီးချုပ်အဖြစ် ၁၈၅၂ ခုနှစ်တွင် ပါဝင်လျက်ရှိခြင်းမှာ သူ၏ ဣတလီနိုင်ငံ သွေးစည်းရေး အကြံအောင်ဖို့ ဖြစ်လာသည်။ ထိုပုဂ္ဂိုလ်ကြီး၏ အကူအညီဖြင့် အီမန်းနျူအယ် ဘုရင်သည် ခန်းခြောက်နေသော ဘဏ္ဍာရေး၊ စိတ်ဓာတ်ပျက်ပြားနေသော တိုင်းသူ ပြည်သား၊ ဖရိုဖရဲဖြစ်နေသော တပ်မတော်တို့ဖြင့် အခြေအနေ ဆိုးနေသည့် တိုင်းပြည်ကို အခြေအနေ ကောင်းမွန်၍ ခေတ်မှီလာရန် ကြိုးစားရလေသည်။ (ကဗူး,စီ၊ ဗီ — ရှု။) နိုင်ငံတွင်း အခြေအနေကောင်းမွန်လာသောအခါ အီမန်းနျူအယ် ဘုရင်သည် ဩစတြီးယန်းတို့အား ဣတလီကျွန်းဆွယ်မှ မောင်းထုတ်ရန် ကြိုး



အကွဲကွဲအပြားပြားဖြစ်နေသော ဣတလီနိုင်ငံကို စည်းလုံး အုပ်ချုပ်ခဲ့သည့် ဒုတိယ ဗစ်တာအီမန်းနျူအယ်ဘုရင်

စားရပြန်သည်။ ထို အရေးတွင် ပြင်သစ်နှင့် အင်္ဂလိပ်တို့၏ အကူအညီရစေရန် ၁၈၅၄ ခုနှစ်၌ ဖြစ်ပွားသော ကရိုင်းမီးယန်း စစ်ပွဲတွင် ဆာဒင်းနီးယားပြည်သည် အင်္ဂလိပ်နှင့် ပြင်သစ်တို့ဖက်မှ ဝင်၍ကူညီတိုက်ခိုက်လေသည်။ ထိုမှ တပါး အီမန်းနျူအယ်သည် ဣတလီ သွေးစည်းရေးကို လိုလားဆောင်ရွက်နေကြသူ မတ်ဇီနီနှင့် ဂယ်ရီဗော်ဒီး စသော လူငယ်အရေးတော်ပုံ တပ်သားများအားလည်း အကူအညီပေးခဲ့သည်။ ( မတ်ဇီနီ,ဂျီ။ ဂယ်ရီဗော်ဒီး,ဂျီ — ရှု။)

၁၈၅၉ ခုနှစ်တွင် ပြင်သစ်နှင့် မဟာမိတ်ပြုကာ ဩစတြီးယားကို တိုက်ခိုက်အောင်မြင်ခဲ့သောကြောင့် ၁၈၆၀ ပြည့်နှစ်တွင် စစ်ပြီးသောအခါ လောင်ဗာဒီပြည်နယ်ကို သိမ်းယူရရှိသည်။

၁၈၆၁ ခုနှစ်တွင် ဣတလီအလယ်ပိုင်းနယ်များ ဖြစ်သော တပ်စကန္နီ၊ မိုဒီနား၊ ပါမားစသော ပြည်နယ်များသည် ဆားဒင်းနီးယား-ပီးဒမွန့်နိုင်ငံနှင့် လာရောက် ပူးပေါင်းကြသည်။ ထိုနောက် စစ္စလီကျွန်းနှင့် နေပယ်မြို့များကို တိုက်ခိုက်သိမ်းပိုက်ခဲ့သော ဂယ်ရီဗော်ဒီးက ယင်းဒေသများကို အီမန်းနျူအယ်အား ပေးအပ်ပြန်ရာ၊ ရောမနှင့် ဗင်းနစ်ပြည်နယ်များမှအပ ဣတလီတနိုင်ငံလုံးသည် ဒုတိယ ဗစ်တာ အီမန်းနျူအယ် ဘုရင်၏ တအုပ်တချုပ်အောက်တွင် သွေးစည်းမိကြသည်။ ၁၈၆၁ ခုနှစ် ဖေဖွာရီလ ၁၆ ရက်နေ့တွင် ပါလီမန်က အီမန်းနျူအယ်ဘုရင်အား ဣတလီပြည်ထောင်စု၏ ဘုရင်အဖြစ် ကျေညာလေသည်။ ၁၈၆၆ ခုနှစ်တွင် အီမန်းနျူအယ်ဘုရင်သည် ပရပ်ရှားနှင့် မဟာမိတ်ဖွဲ့၍ ဩစတြီးယားနှင့် စစ်ဖြစ်ရာ စစ်အပြီး၌ ဗင်းနစ်ကိုသိမ်းသွင်းနိုင်ခဲ့သည်။ သို့ရာတွင် ပုပ်ရဟန်းမင်းပိုင် ရောမမြို့တော်တွင် ပြင်သစ်တပ်များ ရှိနေသေးသဖြင့် ပြင်သစ်နှင့် မဟာမိတ်ပျက်မည်စိုး၍ အရိပ်ကြည့်နေစဉ် ၁၈၇၀ ပြည့်နှစ်တွင်ပရပ်ရှားနှင့်ပြင်သစ်စစ်ဖြစ်ရာ ပြင်သစ်တပ်များ ရောမမှ ဆုတ်ခွာသွားသဖြင့် ဣတလီတပ်များက ဝင်ရောက်သိမ်းယူလိုက်သည်။ ၁၈၇၁ ခုနှစ်တွင် အီမန်းနျူအယ် ဘုရင်သည် ရောမမြို့တော်သို့ပြောင်းရွှေ့ နန်းစိုက်သည်။ ယင်းသို့ဖြင့် ဒုတိယ ဗစ်တာ အီမန်းနျူအယ်၏ ဣတလီနိုင်ငံ သွေးစည်းရေးအကြံသည် အောင်မြင်ခဲ့သည်။ ၁၈၇၈ ခုနှစ် ဇန္နဝါရီလ ၉ ရက်နေ့တွင် ရောမမြို့တော်၌ အီမန်းနျူအယ်ဘုရင် နတ်ရွာစံသောအခါ တနိုင်ငံလုံး ယူကျုံးမရ ဖြစ်ခဲ့ရလေသည်။

**ဗတ်,ရစ်ချတ်**(ခရစ် ၁၈၈၈–၁၉၅၇)။ ။အသက် ၁၂ နှစ်အရွယ်ကပင် အဖော်မပါ တယောက်တည်း ကမ္ဘာ့တပတ်ခရီးထွက်ခဲ့ဘူးသူ အမေရိကန် ရေတပ် ဗိုလ်ချုပ်ကြီး ရစ်ချတ်အက်ဗလင် ဗတ်သည် ပျံသန်းသည့်ဖက်တွင် ထူးချွန်သူဖြစ်ပေသည်။ ဗတ်သည် တောင်ဝင်ရိုးစွန်းနှင့် မြောက်ဝင်ရိုးစွန်းနှစ်ခုစလုံးကို လေယာဉ်ပျံဖြင့် ပဌမဦးဆုံး ဖြတ်သန်းပျံခဲ့သူ ဖြစ်ရုံမက၊ လူသူ အရောက် အပေါက်နည်းသော ထိုရေခဲကန္တာရအရပ်များသို့ အခေါက်ခေါက် စွန့်စွန့်စားစား ရောက်ရှိခဲ့သူလည်း ဖြစ်ပေသည်။

ရစ်ချတ် အက်ဗလင် ဗတ်သည် ၁၈၈၈ ခုနှစ် အောက်တိုဘာလ ၂၅ ရက်နေ့တွင် အမေရိကန်ပြည်ထောင်စုဗာဂျင်းနီးယားပြည်နယ် ဝင်ချက်စတာမြို့၌ မွေးဖွားသည်။ ဗာဂျင်းနီးယား တက္ကသိုလ်နှင့် အမေရိကန် ရေတပ်မတော်ဆိုင်ရာ စစ်တက္ကသိုလ်တို့တွင် ပညာသင်ကြားပြီးနောက် ၁၉၁၂ ခုနှစ်တွင်ရေတပ်အရာရှိအဖြစ် အမှုထမ်းခဲ့သည်။ ၁၉၁၆ ခုနှစ်တွင် ရေတပ်၏ လေကြောင်း လက်ရုံးတပ်သို့ ပြောင်းရွှေ့အမှုထမ်းလေသည်။

၁၉၂၅ ခုနှစ်တွင် မက်မီလန်စူးစမ်းရှာဖွေရေးအဖွဲ့နှင့်အတူ လေတပ်မှူးအဖြစ်ဖြင့် ဂရင်းလန်ကျွန်းမြောက်ပိုင်းသို့ လိုက်ပါခဲ့သည်။ ၁၉၂၆ ခုနှစ် တွင် အဖော်လေသူရဲ ဖလွိုက်ဗင်းနက်နှင့်အတူ နော်ဝေးနိုင်ငံမြောက်ဖက်ရှိ စပစ်ဗားဂင်ကျွန်းစု ကင်းစဗေးပင်လယ်အော်မှ မြောက်ဝင်ရိုးစွန်း အပေါ်သို့ လေယာဉ်ပျံဖြင့် ပဌမဆုံးအကြိမ် ဖြတ်သန်းကာ ပျံသန်းခဲ့လေသည်။ ယင်းခရီးကို ၁၅ နာရီဖြင့် ပျံသန်း နိုင်ခဲ့သည်။

တဖန် ၁၉၂၇ ခုနှစ် ဇွန်လတွင် ဗတ်နှင့် အဖော် ၃ ဦးတို့သည် နယူးယော့မြို့မှ အတ္တလန္တိတ် သမုဒ္ဒရာကို ဖြတ်၍ ပြင်သစ်နိုင်ငံ ပါရစ်မြို့သို့အရောက် ပျံသန်းခဲ့ရာ ရာသီဥတု အဆင်မသင့်သဖြင့် ပြင်သစ်ကမ်းလွန်ပင်လယ်ထဲသို့ ထိုးဆင်းရသော်လည်း အသက်ချမ်းသာခဲ့ပေသည်။ ထိုခရီးမှာ မိုင်ပေါင်း ၄,၂၀၀ ရှိ၍ ၄၂ နာရီသာသာမျှ ပျံသန်းခဲ့သည်။

၁၉၂၈ ခုနှစ်တွင် ဗတ်ခေါင်းဆောင်သော နယ်သစ်စူးစမ်းရှာဖွေရေးအဖွဲ့သည် အန္တာတိတ်ဒေသဖြစ်သော တောင်ဝင်ရိုးစွန်းဖက်သို့ သင်္ဘောနှစ်စင်းဖြင့် သိပ္ပံပညာရှင် ၃၂ ဦးနှင့် အတူ ခရီးထွက်ခဲ့ရာ ဝေလပင်လယ်အော်ရှိ ရေခဲပြင်သို့ ဆိုက်ရောက်လေသည်။ ထိုနေရာကို "လစ်တီးအမေရိက" ဟု အမည်မှည့်ကာ အခြေခံစခန်းအဖြစ်တည်ထောင်ခဲ့သည်။ သူစတင် တွေ့ရှိခဲ့သည့် ကုန်းမြေကို "မာရီဗတ်မြေ"ဟူ၍ သူ၏ ဇနီးကို အစွဲပြုကာ အမည်ပေးခဲ့သည်။ ထိုနောက် ၁၉၂၉ ခုနှစ် နိုဝင်ဘာလတွင် ဗတ်သည် လစ်တီးအမေရိကမှ တောင်ဝင်ရိုးစွန်းပေါ်သို့ လေယာဉ်ပျံဖြင့် ပဌမဆုံး အကြိမ် ဖြတ်ကျော်နိုင်ခဲ့ပြန်သည်။ ယင်းအသွားအပြန် ခရီးကို ၁၉ နာရီဖြင့် ပျံသန်းနိုင်ခဲ့သည်။ ဗတ်၏ စွန့်စားမှုကို ချီးကျူးသော အနေဖြင့် အမေရိကန်ကွန်ဂရက် လွှတ်တော်က သူ့အား ရေတပ်ဗိုလ်ချုပ်ကြီး အဆင့်အတန်းသို့ တိုးမြှင့် ပေးလေသည်။

၁၉၃၃ ခုနှစ်တွင် ဗတ်သည် အန္တာတိတ် ဒေသသို့ ဒုတိယအကြိမ် ခရီးထွက်ခဲ့၍ "လစ်တီးအမေရိက"၌ပင် စခန်းချလေသည်။ ၁၉၃၄ ခုနှစ် မတ်လမှ ဩဂုတ်လအထိ ဗတ်သည် "လစ်တီးအမေရိက" တောင်ဖက် ၁၂၃ မိုင်အကွာ၌ တယောက်ထီးတည်း မိုးလေဝသအခြေအနေကို မှတ်သားလေ့လာနေခဲ့လေသည်။ သူ၏အဖော်များသည် ယင်းဒေသ၏ ရာသီဥတုဒဏ်ကို ခံနိုင်ကြမည် မဟုတ်ကြောင်း သိသဖြင့် ၉ ပေကျယ်၍ ၁၃ ပေရှည်သော တဲဆောက်ကာ တဦးတည်း စွန့်စား နေထိုင်ခဲ့ခြင်းဖြစ်သည်။ ဗတ်၏ တဲကလေးမှာ ဆီးနှင်းအောက်တွင် နစ်မြုပ်သွားသည်အထိ အအေးပြင်းထန်သော ဒေသ ဖြစ်လေသည်။ သူရောက်ရှိနေသော အရပ်မှာ တောင်ဝင်ရိုးစွန်းမှ မိုင်ပေါင်း ၇၀၀ မျှသာ ဝေး၏။တဲထဲတွင် ဆီမီးတိုင်ကို အမြဲထွန်းညှိထားရသဖြင့် မျှားမကြာမီ ကာဗွန်မွန်အောက်ဆိုက် အဆိပ်ငွေ့သင့်ကာ အိပ်ရာမှ မထနိုင်တော့ချေ။ အစာကို ချက်ပြုတ်မစားနိုင်သဖြင့် ရှိသမျှစည်သွတ်အစာတို့ဖြင့်သာ တင်းတိမ်နေရလေသည်။ ထိုမျှလောက် အားအင် ဆုတ်ယုတ်နေသော်လည်း သူ၏အလုပ်ဝတ်တရားများကို မလစ်ဟင်းစေရဘဲ အခြေခံ စခန်းနှင့် ဝိုင်ယာလက်ဖြင့် အမြဲ ဆက်သွယ်လျက်ရှိ၏။ အခြေခံစခန်းသို့ အကူအညီ မတောင်းဘဲ နေခဲ့သော်လည်း သူ၏ အချက်ပေးလွှင့်ချက်များမှာ ပျော့ညံ့၍ မမှန်မကန် ဖြစ်လာသောကြောင့် ဘူထံသို့ ကယ်ဆယ်ရေး အဖွဲ့တခု စေလွှတ်လိုက်ရ




၁၉၂၆ ခုနှစ် မေလတွင် ရစ်ချတ် ဗတ် (အလယ်) နှင့် အဖွဲ့သားများ မြောက်ဝင်ရိုးစွန်းသို့ လေယာဉ်ပျံဖြင့် ဦးစွာရောက်ခဲ့စဉ်



မြောက်ဝင်ရိုးစွန်း၌ ရောက်ရှိစဉ် ရစ်ချတ် ဗတ် ကိုယ်တိုင် ချက်ပြုတ်ခဲ့ရသည်။

သည်။ ထိုအဖွဲ့သည် ဗတ်ထံသို့ ဩဂုတ်လ ၁၁ ရက်နေ့တွင် ရောက်ရှိလာ၍ သူ့အား လစ်တီးအမေရိကသို့ ပြန်လည်ခေါ် ဆောင်ခဲ့လေသည်။

၁၉၃၉ ခုနှစ်တွင်အမေရိကပိုင်နယ်ပယ်များသတ်မှတ်ရေး အတွက် အစိုးရ၏ စေလွှတ်ချက်အရ ဗတ်သည် အန္တာတိတ် ဖက်သို့ နောက်တကြိမ် ခရီးထွက်ခဲ့လေသည်။ ၁၉၄၆ ခုနှစ် တွင် တဖန် သင်္ဘော ၁၃ စင်းနှင့်လေယာဉ်ပျံများ၊ ရေခဲပြင် ပေါ်၌ အသုံးပြုနိုင်သော ယာဉ်များကို ယူဆောင်၍ တောင် ဝင်ရိုးစွန်းဖက်သို့ ထွက်ခဲ့လေသည်။ ဗတ်သည် ၁၉၄၇ ခုနှစ် တွင်လည်း အန္တာတိတ်ဒေသသို့ တကြိမ်ထွက်ခဲ့သေးသည်။ ၁၉၅၅ ခုနှစ်တွင် မြေတိုင်းအဖွဲ့၏ တာဝန်ခံ အရာရှိ အဖြစ် ဗတ်အား ခန့်အပ်ခဲ့သည်။ ဗတ်သည် ၁၉၅၇ ခုနှစ်မတ်လ ၁၁ ရက်နေ့တွင် မက်ဆချူးဆက် ပြည်နယ် ဗေ့စတန်မြို့၌ ကွယ်လွန်သည်။ ဗတ်၏ စွန့်စားမှုများကြောင့် နယ်သစ် မြေသစ်များ ရခဲ့ရုံမက ရေကြောင်းနှင့် လေကြောင်းခရီး သွားလာရာ၌ အရေးကြီးသောနည်းသစ်နှင့် ပစ္စည်းကရိယာ များပါ ထွင်နိုင်ခဲ့သည်။ ဗတ်သည် "လစ်တီးအမေရိက"၊ "ရှာဖွေတွေ့ရှိချက်"၊ "တကိုယ်တည်း" စသည့်ကိုယ်တွေ့ စာအုပ်များ ရေးသားထုတ်ဝေခဲ့လေသည်။

**ဗတ်, အက်ဒမန်** (ခရစ် ၁၇၂၉–၁၇၉၇)။ ။ဗြိတိသျှနိုင်ငံ ပြု သုခမိန်နှင့် နိုင်ငံရေး စာရေးဆရာ အက်ဒမန်ဗတ်ကို အိုင် ယာလန်ပြည် ဒဗ္ဗလင်မြို့တွင် ၁၇၂၉ ခုနှစ် ဇန္နဝါရီလ ၁၂ ရက်နေ့တွင် ဖွားမြင်သည်။ ဗတ်၏ ဖခင်သည် ပရိုတက် စတန့် ဂိုဏ်းဝင် ရှေ့နေတဦးဖြစ်၍ မိခင်မှာမူ ဗရင်ဂျီဂိုဏ်းဝင် ဖြစ်သည်။ ငယ်စဉ်က ဗာလတီမိုးကျောင်းတွင် ပညာ သင် ယူပြီးနောက် ထရင်နီတီ ကောလိပ်မှ ၁၇၄၈ ခုနှစ်တွင် ဘွဲ့ ရရှိသည်။ ထိုနောက် ဥပဒေ ပညာဆည်းပူးရန် အင်္ဂလန် ပြည်သို့ သွားရောက်ရာ ဥပဒေဘွဲ့ကို မရရှိသော်လည်း လန်ဒန်မြို့၌ပင် ဆက်လက် အခြေစိုက် နေထိုင်လေသည်။ ဗတ်သည် စာပေ ရေးရာ၌သာ စိတ်ဝင်စား၍ စာရေးဆရာ ဖြစ်ရန်သာ စိတ်အားထက်သန်သူ ဖြစ်သည့် အလျောက် ၁၇၅၆ ခုနှစ်တွင် "သဘာဝ အဖွဲ့အစည်းများ ခိုင်မြဲစေရေး" နှင့် "မွန်မြတ်ခြင်းနှင့် လှပခြင်းတို့အပေါ် ကျွန်ုပ်တို့အမြင်" ဟူသည့် စာအုပ် ၂ အုပ်ကို ရေးသား ထုတ်ဝေသည်။

မကြာမီ ဒေါက်တာ ဂျွန်ဆင်တို့၏ စာရေးဆရာ ကလပ်၌ ပါဝင်ခွင့်ရသည်။ ၁၇၅၇ ခုနှစ် မတ်လ ၁၂ ရက်နေ့တွင် ဗတ် သည် ဗရင်ဂျီ ဂိုဏ်းဝင် ဂျိန်း နျူဂျင့် ဆိုသူနှင့် လက်ထပ်ရာ ဂျိန်းလည်း ပရိုတက်စတန့်ဂိုဏ်းဝင်အဖြစ် ပြောင်းလဲလာ



ဗြိတိသျှနိုင်ငံပြုသုခမိန် အက်ဒမန်ဗတ်

သည်။ ၁၇၅၉ ခုနှစ်တွင် ဒေါ့စလေ၏ နှစ်လည် မှတ်တမ်း ထုတ်ဝေရာ၌ ပူးတွဲ အဖြစ်၎င်း၊ စာတည်း အဖြစ်၎င်း ဆောင်ရွက်ခဲ့ရလေရာ၊ ၁၇၈၈ ခုနှစ်အထိ ယင်းမှတ်တမ်း ထုတ်ဝေရေးနှင့် အဆက်မပြတ်ခဲ့ချေ။ ၁၇၆၅ ခုနှစ်တွင် ဗတ်သည် ဝှစ်ပါတီဝင်ဖြစ်လာပြီးနောက် ဝန်ကြီးချုပ်လော့ ရော့ကင်ဟမ်၏ အတွင်းရေး အတွင်းဝန် ဖြစ်လာသည်။ ထိုနောက် ဝင်ဒိုဗာနယ်၏ ပါလီမန်အမတ် ဖြစ်လာ၍ ရက်သတ္တ ၂ ပတ်ခန့် အကြာတွင် တံဆိပ်တော်ခေါင်း အက်ဥပဒေ ပယ်ဖျက်ရေးနှင့် စပ်လျဉ်း၍ မိန့်ခွန်း ၂ ရပ် ပြောကြားရာ အထူးပင် နာမည်ထွက်လာသည်။ ထို့ပြင် ပါလီမန်၌ အရေးကြီးသော ကိစ္စမှန်သမျှတွင် ဗတ်သည် ရှေ့တန်းမှ ပါဝင် ပြောဆို ဆွေးနွေးခဲ့လေသည်။

၁၇၆၆ ခုနှစ်တွင် ရော့ကင်ဟမ် အစိုးရ ပြုတ်ကျသောအခါ ဗတ်သည် ဝှစ်ပါတီ၏ စည်းရုံးရေးမှူးအဖြစ် ဆောင်ရွက်ယင်း 'ပြီးခဲ့သော အချိန်တို့ အုပ်ချုပ်ရေး ခေတ်အကြောင်း အကျဉ်း' နှင့် 'ယခု မကျေမနပ် ဖြစ်ကြခြင်း၏ အကြောင်းရင်း အပေါ် ထင်မြင်မှု' စသော နိုင်ငံရေး စာအုပ်စာတမ်းများ ထုတ်ဝေသည်။ ယင်းသို့ဖြင့် တတိယ ဂျော့ဘုရင်၏ ဘုရင့် မိတ်ဆွေများမှတဆင့် ပါလီမန်အား ချုပ်ကိုင်ရေး မူကို တွန်းလှန်ကာ ပါတီအစိုးရသည် နိုင်ငံတနိုင်ငံကို အုပ်ချုပ်ရန် အကောင်းဆုံး အစိုးရဖြစ်ကြောင်း ထုတ်ဖော် ပြသနိုင်ခဲ့သည်။

အမေရိကန် ကိုလိုနီများနှင့် ဗြိတိသျှ အစိုးရတို့ အပေးအယူ မသင့်မြတ်ခဲ့ကြရာ ၁၇၇၁ ခုနှစ်တွင် ဗတ်အား နယူးယော့နယ်က သူတို့၏ ကိုယ်စားလှယ်အဖြစ် ခန့်အပ်သည်။ ၁၇၇၄ ခုနှစ်တွင် ဗတ်သည် အမေရိကန် အခွန်အတုတ်များ အကြောင်း မိန့်ခွန်းတရပ် ပြောကြားခဲ့၍ ၁၇၇၅ ခုနှစ်တွင် အမေရိကန် နယ်သစ်များနှင့် ချစ်ကြည်စွာ ဆက်ဆံရေး မိန့်ခွန်းတရပ် ပြောကြားခဲ့ရာ အထူးပင် ထင်ရှားခဲ့သည်။ ဗတ်၏ အယူအဆမှာ နယ်သစ်များ၏ လွတ်လပ်ရေးကို ထိခိုက်လျှင် ဗြိတိသျှတို့၏ လွတ်လပ်ရေးကိုလည်း ထိခိုက်မည် စိုးရိမ်စရာရှိသည် ဟူ၍ ဖြစ်သည်။ သို့ဖြစ်၍ ပါလီမန် လွတ်လပ်လိုလျှင် နယ်သစ်များကိုလည်း လွတ်လပ်ရေးပေးရမည် ဟူ၍ ဟောပြောခဲ့သည်။ ထိုအချိန်က အကယ်၍ ဗြိတိသျှအစိုးရသည် အက်ဒမန်ဗတ်၏ အကြံပေးချက်ကို လိုက်နာခဲ့ပါမူ အမေရိကန် နယ်သစ်များကို ဆုံးရှုံးချင်မှ ဆုံးရှုံးပေလိမ့်မည်ဟု နိုင်ငံရေး အမြင်ကျယ်သူ အချို့က ဆိုကြသည်။ ဗတ်သည် ဗြိတိသျှအစိုးရအား အမေရိကန် နယ်သစ်များနှင့် သင့်တင့်စွာ ဆက်ဆံ၍ ဥမကွဲ သိုက်မပျက် ဖြစ်ရန် အလွန် လိုလားသူဖြစ်သည်။

၁၇၇၄ ခုနှစ်တွင် ဗတ်သည် အင်္ဂလန်ပြည်၏ ဒုတိယ အကြီးဆုံးမြို့ ဖြစ်သည့် ဗရစ္စတိုမြို့မှ ပါလီမန် အမတ် အဖြစ် ဝင်ရောက် အရွေးခံသည်။ လော့နော့ အစိုးရ တက်စဉ်တွင် ဗတ်သည် လော့ဖော့နှင့် ပူးပေါင်း၍ အတိုက်အခံ အဖြစ် ဆောင်ရွက်သည်။ ၁၇၈၀ ပြည့်နှစ်တွင် မာလတန်မြို့မှ ဝင်ရောက် အရွေးခံသည်။

ဗတ်၏ မိန့်ခွန်းများနှင့် သူရေးသားခဲ့သော နိုင်ငံရေးဆိုင်ရာ စာရွက်စာတမ်းများသည် အကြောင်းအချက်များ ခိုင်လုံ၍ အရေးအသား အစီအစဉ် ကောင်းခြင်းတွင် ပြိုင်ဖက် ကင်းလှသည်။ ထို့ကြောင့် သူနှင့် တန်းတူလိုက်နိုင်သူသည် သူ၏အလျင်ကသော်၎င်း၊ နောက်တွင်၎င်း မပေါ်ခဲ့သေးဟုပင် အချို့က ဆိုကြလေသည်။ ဒေါက်တာ ဂျွန်ဆင်က "ဗတ်နှင့် ၅ မိနစ်ခန့်မျှ စကားပြောခဲ့ရလျှင် ယခင်က သူ့အကြောင်း မသိ မကြားဘူးသူများသည်ပင် ဗတ်သည် သူများနှင့်မတူ ထူးခြားသူ ဖြစ်ကြောင်း ဝန်ခံကြရမည် ဖြစ်သည်" ဟု ပြောခဲ့လေသည်။ ယင်းသို့ အရည်အခြင်းနှင့် ပြည့်စုံသူ ဖြစ်သော်လည်း ထိပ်တန်း ရာထူးကြီးများတွင် ၂ ကြိမ်သာ ဆောင်ရွက်ခဲ့ရ၏။ ရော့ကင်ဟမ် အစိုးရ အဖွဲ့ လက်ထက်တွင် (၁၇၈၂) တကြိမ်၊ ဖော့နှင့် နော့တို့၏ ညွန့်ပေါင်းအစိုးရအဖွဲ့ လက်ထက်တွင် (၁၇၈၃) တကြိမ် လက်နက်ကိုင် တပ်များ၏ လစာရိက္ခာတော်ဆိုင်ရာ အရာရှိချုပ် အဖြစ် ဆောင်ရွက်ခဲ့ရလေသည်။ သို့ရာတွင်

ကက်ဗိနက် အစိုးရ အဖွဲ့ဝင် ဝန်ကြီးအဖြစ်မှု ခန့်အပ်ခြင်း မခံခဲ့ရချေ။ ထိုအစိုးရအဖွဲ့များ ကျသောအခါ ဗတ်သည် အတိုက်အခံဖက်မှ အမြဲ ခေါင်းဆောင် ထမ်းရွက်ရသည်။

ထိပ်တန်း ရာထူးကြီးများတွင် တာရှည် မထမ်းရွက်ခဲ့ရသော်လည်း ဗတ်သည် အောက်လွှတ်တော်၌ စကားပြောအကောင်းဆုံး ပုဂ္ဂိုလ်တဦးအဖြစ်ကား အသိအမှတ်ပြုခြင်း ခံခဲ့ရလေသည်။ ထိုသို့ ထူးခြားလှသည့် သူ၏ အရည်အခြင်းကို ဗတ်သည် သူ၏ စိတ်၌ တရားမျှတမှု ရှိသည်ဟု ထင်မြင်ယူဆသည့် ကိစ္စများ၌သာ အချက်ကျကျ အသုံးပြုလေ့ရှိလေ၏။ လူတို့ ကြီးပွား တိုးတက်ရေးအတွက် ဖြစ်သည်ဟု ထင်မြင်သော ကိစ္စများတွင်လည်း ဗတ်သည် အားကိုးမာန်တက် ဆောင်ရွက်လေ့ ရှိ၏။ သူသည် ငွေဝယ်ကျွန်စံနစ်ကို အတိုက်အခံပြုခဲ့သူ ဖြစ်သည်။ အကူအညီမဲ့နေသော တိုင်းရင်းသားများကို နှိပ်စက်ကလူ ပြုပြီးလျှင် ကိုယ်ကျိုးရှာခဲ့သည်ဟု ဆိုကာ အိန္ဒိယပြည် ဘုရင်ခံချုပ် ဝေါရန်းဟေ့စတင်းအား စွပ်စွဲပြစ်တင် စစ်ဆေးရာတွင်လည်း ခေါင်းဆောင်ခဲ့၏။ နောင်အခါတွင် ဝေါရန်းဟေ့စတင်းသည် အပြစ်မရှိ လွတ်မြောက်သွားသော်လည်း ထိုကိစ္စနှင့် စပ်လျဉ်း၍ ဗတ်ပြောဆိုခဲ့သော မိန့်ခွန်းများကြောင့် "အအုပ်အချုပ်ခံ တိုင်းသူပြည်သားတို့၏ အခွင့်အရေးများကို ရိုသေလေးစားရမည်" ဟူသည့် ဝါဒသဘောသည် အကောင်အထည် ကျန်ခဲ့လေသည်။

သို့သော် ပြင်သစ်တော်လှန်ရေးကဲ့သို့ အကြမ်းဖက်သည့်ကိစ္စကိုကား မလိုလားချေ။ ထိုကြောင့် ပြင်သစ်တော်လှန်ရေးကို မထောက်ခံခဲ့ပေ။

၁၇၉၀ ပြည့်နှစ်တွင် 'ပြင်သစ်တော်လှန်ရေး အပေါ်ထင်မြင်ချက်များ' ခေါ် စာအုပ်ကို ရေးသား ထုတ်ဝေသည်။ ဗတ်သည် ပြည်ပိုင် အစိုးရ၏ မတရားခြင်း ဖိနှိပ်ချုပ်ချယ်ခြင်း ခံရသည့် ပြည်သူလူထုအား အခွင့်အရေး ရအောင် ဆောင်ရွက် ပေးသော်လည်း လူထုအာဏာဖြင့် အုပ်ချုပ်သည့် အုပ်ချုပ်ရေး စံနစ်ကိုကား မလိုလားသောသူ ဖြစ်ပေသည်။ သို့ဖြစ်၍ ပါလီမန်အား ပြုပြင်ရေးကို ကန့်ကွက်ခဲ့လေသည်။ ပြင်သစ် တော်လှန်ရေးနှင့် စပ်လျဉ်း၍ ထားရှိအပ်သော သူ၏ သဘောထားကြောင့် ၁၇၉၁ ခုနှစ်တွင် ဖော့နှင့်၎င်း၊ ဝှစ်ပါတီနှင့်၎င်း ဗတ်သည် သဘောချင်းကွဲခဲ့လေသည်။ ယင်းသို့ကွဲပြီးမှ 'ဝှစ်ပါတီသစ်မှ ပါတီဟောင်းသို့ အယူခံချက်' ဟူသော စာအုပ်ကို ရေးသား၍ သူ၏ နိုင်ငံရေး ဝါဒကို ရှင်းပြသည်။ ဗတ်အား ဘုရင်နှင့် တိုရီပါတီတို့က အရေးယူ မြှောက်စားကာ ပီးယား အဆင့်အတန်းသို့ ပင် တိုးမြှင့်ပေးရန် ကြံရွယ်ခဲ့၏။ သို့သော် ဗတ်က လက်မခံဘဲ ကရုဏာတော်ကြေးကိုသာ လက်ခံခဲ့လေသည်။ ၁၇၉၂ ခုနှစ်တွင် အာဏာရ ပစ်တို့နှင့် ဗတ်သည်ပေါင်းမိသော်လည်း ပစ်အစိုးရသည် ဗတ်၏ အကြံပေးချက်များကို လက်မခံသဖြင့် ဗတ် စိတ်မကောင်း ဖြစ်ရသည်။ ထိုအတွင်း သူ၏ တဦးတည်းသောသား ကွယ်လွန်သွား၍ ပို၍ စိတ်မကောင်း ဖြစ်ခဲ့ရသဖြင့် ၁၇၉၄ ခုနှစ်တွင် နိုင်ငံရေးမှ အနားယူကာ သူပိုင် ဗီးကွန်စဖီးအရပ်ရှိ ခြံမြေတွင် နေထိုင်စဉ် ၁၇၉၇ ခုနှစ် ဇူလိုင်လ ၈ ရက်နေ့တွင် ကွယ်လွန်သွားလေသည်။

**ဗတ်ကန်, ဂျွန်** (ခရစ် ၁၈၇၅–၁၉၄၀)။ ။ဂျွန်ဗတ်ကန်သည် စကော့ လူမျိုး စာရေးဆရာနှင့် နိုင်ငံပြု သုခမိန်တဦး ဖြစ်သည်။ အင်္ဂလိပ် စာပေလောကတွင်၎င်း၊ အုပ်ချုပ်ရေးတွင်၎င်း နှစ်ဖက်လုံး၌ ထင်ရှား ကျော်ကြားခဲ့သည်။ ခရစ်ယန် ဓမ္မဆရာ တဦး၏သားဖြစ်၍ စကော့တလန်ပြည် ပတ်မြို့၌ မွေးဖွားခဲ့သည်။ ဂလပ်စဂိုး တက္ကသိုလ်နှင့် အောက်စဖို့ တက္ကသိုလ်တို့တွင် ပညာသင်ကြားခဲ့လေသည်။

၁၉၀၁ ခုနှစ်တွင် ဝတ်လုံဘွဲ့ကို ရရှိခဲ့၍၊ ထိုနှစ်တွင်ပင် တောင်အာဖရိကတိုက် ဆိုင်ရာ မဟာမင်းကြီး လော့မီလနာ၏ အပါးတော်မြဲ အဖြစ် ခန့်အပ်ခြင်း ခံရသည်။ ၁၉၀၃ ခုနှစ်တွင် အင်္ဂလန်ပြည်သို့ ပြန်လာပြီးနောက် အက်ဒင်ဗာရာမြို့၌ စာအုပ်ထုတ်ဝေရေး ကုမ္ပဏီတခုတွင် အကြီးအကဲ အဖြစ် ဆောင်ရွက်ခဲ့သည်။ ပဌမ ကမ္ဘာစစ်ကြီး ဖြစ်လာ



နာမည်ကျော် ဗြိတိသျှဝတ္ထုရေးဆရာ ဂျွန် ဗတ်ကန်

သောအခါ စစ်ဌာနချုပ်တွင် စစ်မှုရေးရာ အတိုင်ပင်ခံအဖြစ် ဆောင်ရွက်ရ၍၊ နောင်အခါ ပြန်ကြားရေး ဝန်ကြီးဌာန တွင် ဝင်ရောက် အမှုထမ်းရပြန်သည်။

ဂျွန်ဗတ်ကန်သည် ၁၉၂၇ ခုနှစ်မှ ၁၉၃၅ ခုနှစ်တိုင်အောင် စကော့ တက္ကသိုလ်များ၏ ကိုယ်စားလှယ် အမတ်အဖြစ် ပါလီမန်၌ ဝင်ရောက် ဆောင်ရွက်ခဲ့သည်။ ၁၉၃၅ ခုနှစ်တွင် ကနေဒါနိုင်ငံ ဘုရင်ခံချုပ်အဖြစ် ခန့်အပ်၍ ဗဲရွန်ဘွဲ့ဖြင့် ချီး မြှင့်ခြင်း ခံရလေသည်။

ဂျွန်ဗတ်ကန်သည် တာဝန် ဝတ်တရား အများအပြားကို ဆောင်ရွက်နေသည့် အကြားမှပင် စာအုပ်ပေါင်း ၅၀ ကျော်ခန့်ကို ရေးသား ပြုစုနိုင်ခဲ့သည်။ သူ၏ စာအုပ်များ တွင် ကြိုးပမ်းတကုတ် ရေးသား ပြုစုရသော စာအုပ် အများ အပြား ပါဝင်သည်။ ဂျွန်ဗတ်ကန်၏ စာအုပ်များတွင် ပဌမ ကမ္ဘာစစ်ကြီး၏ သမိုင်း၊ အာဖရိကရေးရာ စာအုပ် အများ အပြား၊ အတ္ထုပ္ပတ္တိများနှင့် လျှို့ဝှက်သည်းဖို စွန့်စားခန်း ဝတ္ထုများ ပါဝင်ကြသည်။ အတ္ထုပ္ပတ္တိ များအနက် "ဆာ ဝေါလတာစကော့"၊ "အော်လီဗာကရွမ်းဝဲ"နှင့် "အော်ဂတ် စတပ်" တို့၏ အတ္ထုပ္ပတ္တိ စာအုပ်များသည် ထူးခြားကောင်း မွန်လှသည်။ သူ၏ စွန့်စားခန်း ဝတ္ထုများတွင် "သာတီနိုင်း စတက်"၊ "မစ္စတာစတန်းဖတ်" နှင့် "ဝတ်ရုံစိမ်း" ဝတ္ထု များကား အင်္ဂလိပ် စာပေ လောကတွင် လူသိများပြား ထင်ရှားလှပေသည်။

ဂျွန်ဗတ်ကန်သည် ကနေဒါနိုင်ငံ ဘုရင်ခံချုပ် အဖြစ် ဆောင်ရွက်နေဆဲတွင် ကနေဒါနိုင်ငံ မွန်းထရီးအော်မြို့၌ ၁၉၄၀ ပြည့်နှစ်တွင် ကွယ်လွန်လေသည်။

**ဗတ်ဂျက်။** ။ဗတ်ဂျက် ဟူသည်မှာ သတ်မှတ်ထားသော ကာလ အပိုင်းအခြားအတွင်း ရငွေမည်မျှ၊ သုံးငွေမည်မျှ၊ ရင်းနှီးမြှုပ်နှံငွေမည်မျှ၊ ချေးငှါးငွေမည်မျှ ရှိမည် စသည် တို့ကို ခန့်မှန်း၍ တင်ပြသည့် မှန်းခြေ ငွေစာရင်းဖြစ်သည်။

ဗတ်ဂျက် ဟူသော စကားသည် ပြင်သစ် ဝေါဟာရ ဗော်ဂျေမှ ဆင်းသက်လာ၍ အိတ်ကလေးဟု အဓိပ္ပါယ်ရ သည်။ အင်္ဂလန်ပြည်တွင် ဥပဒေနှင့် အလုပ်ရုံးဆိုင်ရာ စာ ချုပ်စာတမ်းများထည့်၍ သယ်သည့်အိတ်ကို ဗတ်ဂျက်ဟု စ၍ ခေါ်ခဲ့သည်။ ထို့နောက် ကာလရွေ့လျောလာသည့် အခါ ရွှေတိုက်စိုးဝန်ကြီး၏ စာရွက်စာတမ်းများ ထည့်ရာ သေတ္တာငယ်ကို ဗတ်ဂျက်ဟု ခေါ်ကြပြန်သည်။ ရွှေတိုက်စိုး ဝန်ကြီးသည် နိုင်ငံတော်၏ ဘဏ္ဍာတော် အခြေအနေကို သိလိုသည့်အခါ ဗတ်ဂျက်ကို ဖွင့်၍ စာရွက်စာတမ်းများ ကြည့်ခဲ့သည်ကို တင်စား၍ နိုင်ငံတော် ရသုံး ခန့်မှန်းခြေ စာရင်းကို ဗတ်ဂျက်ဟု မှည့်ခေါ်ခဲ့ကြသည်။

ဗတ်ဂျက်သည် နိုင်ငံတနိုင်ငံ၏ ရသုံးမှန်းခြေ ငွေစာရင်း မှသည် အသင်းအဖွဲ့တခု၊ စီးပွားရေး လုပ်ငန်းတရပ်၊ အိမ် ထောင်တခုတို့၏ ရသုံး ခန့်မှန်းခြေ ငွေစာရင်းအထိ ဖြစ် နိုင်သည်။

နိုင်ငံတော် ဗတ်ဂျက်သည် နိုင်ငံ၏ အုပ်ချုပ်မှု စက်ယန္တ ရားတွင် အရေးပါ အရာရောက်ဆုံး အစိတ်အပိုင်းတရပ် ဖြစ် ရုံမက နိုင်ငံတော် အစိုးရ၏ ဝါဒနှင့် စီမံကိန်းကို ရုပ်လုံး ဖော်သည့် ရှင်းတမ်းကဲ့သို့လည်းဖြစ်၍ ထိုနိုင်ငံ၏ စီးပွားရေး၊ ကူးသန်းရောင်းဝယ်ရေး၊ လူမှုကြီးပွား တိုးတက်ရေး၊ ပြန် လည် ထူထောင်ရေး စသော လုပ်ငန်းများ၏ အချက်အခြာ လည်း ဖြစ်သည်။ နိုင်ငံတနိုင်ငံ၏ ဗတ်ဂျက်မှုသည် အခြား တနိုင်ငံ၏ ဗတ်ဂျက်မှုနှင့် မတူနိုင်ချေ။ ဆိုရှယ်လစ် နိုင်ငံ တွင် ဆိုရှယ်လစ် ဗတ်ဂျက်၊ အရင်းရှင် နိုင်ငံတွင် အရင်းရှင် ဗတ်ဂျက်၊ ဖက်ဆစ်နိုင်ငံတွင် ဖက်ဆစ် ဗတ်ဂျက် စသည်ဖြင့် အမျိုးမျိုးရှိသည်။ နိုင်ငံတနိုင်ငံ၏ အစိုးရဝါဒအရ ဗတ်ဂျက် ရသုံးစရိတ် ခွဲဝေသုံးစွဲသည်အလျောက် ဗတ်ဂျက်တခုကို ကြည့်၍ နိုင်ငံ၏ ဝါဒနှင့် အစိုးရ၏ အသွင်သဏ္ဍာန်ကို အကဲ ခတ်နိုင်ပေသည်။

ဗတ်ဂျက်တွင် အကြမ်းအားဖြင့် အဓိက မူ ၂ မျိုး ရှိ သည်။ တမျိုးကို ပုလိပ်ဗတ်ဂျက်ဟုခေါ်၍၊ တမျိုးကို လူထု ကောင်းစားရေး ဗတ်ဂျက် (ဝါ) ပြည်တော်သာ ဗတ်ဂျက် ဟု ခေါ်သည်။ ပုလိပ်ဗတ်ဂျက် ဟူသည်မှာ တိုင်းပြည် ဖွံ့ဖြိုးကောင်းစားရေး လုပ်ငန်းများ ဖြစ်သည့် ပညာရေး၊ ကျန်းမာရေး စသည်တို့အတွက် အသုံးစရိတ်ကို လူကြား ကောင်းရုံမျှ ထည့်၍၊ ပုလိပ်၊ စစ်တပ်စသော ငြိမ်ဝပ်ပိပြား ရေး အသုံးစရိတ်၊ အုပ်ချုပ်ရေး အသုံးစရိတ်များ ကိုသာ လျှင် အသားပေး ထည့်ခြင်း၊ အခွန် စည်းကြပ် ကောက် ခံရာတွင် တိုင်းသူပြည်သား များကသာ အဓိက ကျခံ ရသည့် မြေခွန်၊ ယစ်မျိုးခွန်၊ သစ်တောခွန်၊ ဆိပ်ကမ်း အကောက်ခွန်၊ ရောင်းခွန်၊ အစိုးရထီ စသည်တို့ကို အရင်းခံ ထား ကောက်ယူ၍၊ အရင်းရှင်ကုမ္ပဏီကြီးများ ကျခံရသည့် အမြတ်တော်ခွန်၊ တံဆိပ်တော်ခေါင်းခွန်၊ မှတ်ပုံတင်ခွန် စသည့်အခွန်များကို လျှော့ထည့်ခြင်း စသည်တို့ ပြုသည့် ဗတ်ဂျက်မျိုးဖြစ်သည်။ ယင်းသို့ လူထုကောင်းစားရေးထက် ဖိနှိပ် ချုပ်ချယ်ရေးကိုသာ အဓိကထားသော ဗတ်ဂျက် မျိုးကို လက်အောက်ခံ ကိုလိုနီနိုင်ငံတို့မှအပ အခြားနိုင်ငံ များတွင် အသုံးပြုလေ့ မရှိကြချေ။

ပြည်တော်သာ ဗတ်ဂျက်သည် ပြည်သူလူထု၏ ပညာ ရေး၊ ကျန်းမာရေး၊ စာရိတ္တတိုးတက်ရေး၊ စီးပွားရေးဖွံ့ဖြိုးမှု၊ နိုင်ငံစည်းလုံးရေး စသည့် အချက်ကြီး ၅ ချက်တို့ကို ရှေးရှု ရေးဆွဲသော ဗတ်ဂျက်ဖြစ်သဖြင့် ခေတ်မှီ နိုင်ငံများတွင် အသုံးပြုသော ဗတ်ဂျက်မျိုး ဖြစ်သည်။

ဗြိတိသျှ လက်အောက်ခံ မြန်မာနိုင်ငံ၏ ဗတ်ဂျက်များ

သည် ပုလိပ်ဗတ်ဂျက်မျိုးသာ ဖြစ်ခဲ့၍ လွတ်လပ်ရေးရပြီးသည့်နောက် ၁၉၅၀-၅၁ ခုနှစ်တိုင်အောင် ရှေးအစဉ်အလာအတိုင်း ရေးဆွဲ အသုံးပြုခဲ့ကြသေးသည်။ ၁၉၅၀-၅၁ ခုနှစ်ကမှ ပြည်တော်သာ ဗတ်ဂျက်မူသို့ ပြောင်းလဲ ရေးဆွဲ လုပ်ဆောင်ခဲ့ကြသည်။

ဗတ်ဂျက် ရေးဆွဲရာတွင် စံနစ်တကျ အချိန်ယူ ရေးဆွဲရသည်။ ယင်းကို အဆင့်ဆင့် စစ်ဆေး၍ စာအုပ် ရိုက်နှိပ်ကာ ပါလီမန်သို့ တင်ပြမပြီးမခြင်း ပေါက်ကြားမှု မရှိအောင် ထိန်းသိမ်းထားရသည်။ ထိုသို့ လျှို့ဝှက်ထားခြင်း မပြုပါက ပြည်တွင်း ပြည်ပ စီးပွားရေး သောင်းကျန်း သူများသည် အခွန် အကောက်နှုန်း အတိုးအလျော့ကို ကြည့်၍ ကုန်ဈေးကစားကာ အမြတ်ထုတ်ကြမည် စိုးသောကြောင့် ဖြစ်လေသည်။

အစိုးရ ဗတ်ဂျက် ရေးဆွဲသည့်အခါ အစိုးရဌာန အသီးအသီးတို့သို့ မိမိတို့ဌာနအတွက် ဗတ်ဂျက်ခန့်မှန်းခြေ စာရင်းပေးပို့ရန် ဘဏ္ဍာရေး ဌာနက ဦးစွာ ညွှန်ကြားရသည်။ အစိုးရဌာန အသီးအသီးမှ လွန်ခဲ့သည့်နှစ်နှင့် လက်ရှိနှစ် အတွင်း ရသုံး စရိတ်များကို ညှိနှိုင်း၍ ရှေ့လာမည့်နှစ်အတွင်း ဝင်ငွေ သုံးငွေ မှန်းခြေစာရင်း တင်ပြရသည်။ ထိုသို့ ဌာနအသီးအသီးမှ ရောက်ရှိလာသော ရသုံးမှန်းခြေ စာရင်းများကို ဘဏ္ဍာရေး ဌာနမှ ညှိနှိုင်း စစ်ဆေးရသည်။ ယင်းသို့ ညှိနှိုင်းခြင်းမပြုဘဲ ရသုံး ခန့်မှန်းခြေတွင် အရဖက်က လျှော့ထားသရွေ့ လက်ခံပြီးလျှင် အသုံးဖက်ကလည်း တောင်းသရွေ့ သတ်မှတ်ပေးပါက ဗတ်ဂျက်သည် ထိန်းမရ သိမ်းမရ ကမောက်ကမ ဖြစ်နိုင်သည်။ ဌာနအသီးအသီးမှ ဗတ်ဂျက်များကို ညှိနှိုင်းပြီး စုပေါင်း ရေးဆွဲထားသော ယာယီ ဗတ်ဂျက်ကို ကက်ဗိနက် အစိုးရ အဖွဲ့သို့ တင်ပြ ဆွေးနွေးရသည်။ အစိုးရအဖွဲ့တွင် ဆိုင်ရာဌာန အသီးအသီးတို့က မိမိတို့ အစိုးရ အဖွဲ့၏ ဝါဒ ရည်မှန်းချက်များ စီမံကိန်းများကို အကောင်အထည် ဖော်ရန် နိုင်ငံ အခြေအနေအလျောက် တိုးသင့် လျှော့သင့် ဆွေးနွေးရသည်။

ယာယီဗတ်ဂျက်ကို အစိုးရ အဖွဲ့တွင် ဆွေးနွေးပြီးနောက် အစိုးရ အဖွဲ့မှ ခန့်ထားသော ဘဏ္ဍာတော် ရှာဖွေရေး ကော်မီတီနှင့် ပြည်သူ့လွှတ်တော်မှ ခန့်ထားသော အမြဲတမ်း ဘဏ္ဍာရေး ကော်မီတီများသို့ ဘဏ္ဍာတော် ခွဲဝေသတ်မှတ်ချက်များကို စိစစ်စဉ်းစားရန် လွှဲအပ်သည်။ ထိုကော်မီတီများက ညှိနှိုင်း ဆွေးနွေးပြီးနောက် အစိုးရအဖွဲ့သို့ ပြန်လည်တင်ပြသည်။ တင်ပြချက်ကို အစိုးရအဖွဲ့က မကျေနပ်ပါမူ ကော်မီတီသို့ ပြန်လည်လွှဲအပ်၍ ကျေနပ်သည်အထိ ညှိနှိုင်း အစီရင်ခံစေသည်။ အစိုးရ အဖွဲ့က ဗတ်ဂျက်ကို ကျေနပ်ပါမူ အတည်ပြုကာ ဘဏ္ဍာရေး ဝန်ကြီးအား ပြည်သူ့လွှတ်တော် ဗတ်ဂျက် စည်းဝေးပွဲသို့ တင်ပြစေရသည်။ ပြည်သူ့လွှတ်တော်တွင် လွှတ်တော် အမတ်များသည် ဗတ်ဂျက်၏ မူနှင့် အခြေခံ သဘောမှတပါး အခြား အသေးစိတ် အချက်အလက်များကို ဆွေးနွေးခြင်း မပြုရချေ။ လွှတ်တော် အမတ်များ ဆွေးနွေး ဝေဖန်ပြီးနောက် ဘဏ္ဍာရေး ဝန်ကြီးက ဝေဖန်ချက်ကို ပြန်ကြားရသည်။ ထိုနောက် မဲခွဲအတည်ပြုရသည်။

ဗတ်ဂျက်တွင် လွန်ခဲ့သည့်နှစ်များက အမှန် ဝင်ငွေနှင့် ထွက်ငွေများ၊ ပြုပြင် ခန့်မှန်းထားသည့် ဝင်ငွေနှင့် ထွက်ငွေများ၊ လာမည့် ဘဏ္ဍာတော်နှစ်အတွက် ခန့်မှန်းခြေ ဝင်ငွေ ထွက်ငွေများကို နှိုင်းယှဉ်ဖော်ပြထားလေသည်။

ဗတ်ဂျက်သည် တနှစ်လျှင် တကြိမ်တင်ရုံဖြင့် မပြီးချေ။ ဘဏ္ဍာတော်နှစ်ဝက်သို့ ရောက်သည့် အခါတွင် ဗတ်ဂျက် တောင်းဆိုချက် အသုံးစရိတ် ငွေမလုံလောက်မှုများ တွေ့ကြုံရတတ်သည်။ ထိုအခါ ဖေဖွာရီလတွင် ကျင်းပသော လွှတ်တော်စည်းဝေးပွဲ၌ ဖြည့်စွက်တောင်းဆိုငွေများကို ထပ်မံတောင်းဆို၍ လွှတ်တော်၏အတည်ပြုချက်ကို ယူရသည်။

ဗတ်ဂျက်တွင် ခွင့်ပြုထားသော အရပ်ရပ်အသုံးစရိတ်များကို ဘဏ္ဍာရေး စည်းမျဉ်းနှင့် အညီ လိုက်နာ အသုံးပြုသည် မပြုသည်ကို စစ်ဆေးရန် ပြည်သူ့လွှတ်တော်က ခန့်ထားသော ပြည်သူ့ငွေစာရင်း ကော်မီတီရှိသည်။ ဗတ်ဂျက်၌ သတ်မှတ်ထားသည်ထက် ပို၍ငှင်း၊ လျော့၍ငှင်း၊ ခေါင်းစဉ်ပြောင်း၍ငှင်း သုံးစွဲသည်ရှိသော် သက်ဆိုင်ရာ တာဝန်ခံအကြီးအကဲများအား ထိုကော်မီတီက ခေါ်ယူ၍ ထုချေလွှာ တောင်းရသည်။ ရရှိသော ထုချေလွှာများကို စဉ်းစားပြီးသောအခါ ကော်မီတီက ပြည်သူ့လွှတ်တော်သို့ အစီရင်ခံစာတင်သွင်း၍ အသုံးစရိတ်ကို ပိုမို ခွင့်ပြုရန် တောင်းယူရသည်။ အသုံးစရိတ် တောင်းဆိုချက်ကို မကျေနပ်သည့် အမတ်များသည် ဖြတ်တောက်ရေး အဆို တင်သွင်း၍ ဗတ်ဂျက်ကို ဝေဖန်နိုင်သည်။ ဖြတ်တောက်ရေး အဆို ရှုံးသော် အစိုးရ တောင်းဆိုသော အသုံးစရိတ်သည် အတည်ဖြစ်သည်။ ဖြတ်တောက်ရေးအဆို အောင်မြင်သော် ထိုအမတ်၏ တောင်းဆိုချက်ကို လိုက်လျောရရုံသာမက အစိုးရအပေါ် အယုံအကြည် ကင်းမဲ့သည့်သဘောသို့ပင် သက်ရောက်နိုင်သည်။

ဗတ်ဂျက်တိုင်းတွင် အရှုံးအမြတ် ဟူ၍ ရှိသည်။ ရငွေထက် သုံးငွေက ပိုသည့်အခါ အရှုံးဗတ်ဂျက်ဖြစ်၍၊ ရငွေက သုံးငွေထက် ပိုသည့်အခါ အမြတ် ဗတ်ဂျက် ဖြစ်သည်။ အစိုးရသည် နိုင်ငံ ကြီးပွားတိုးတက်ရေးကိုရှေးရှု၍ စီမံကိန်းများ လုပ်ဆောင်လိုသဖြင့် ငွေလုံး ငွေရင်း အသုံးစရိတ်ကို ပို၍ သုံးစွဲရန် ခန့်မှန်းခြင်းဖြင့်လည်း အရှုံးဗတ်ဂျက် ထွက်တတ်ပေသည်။ ယင်းသို့သော ဗတ်ဂျက်သည် အရှုံးဗတ်ဂျက်ဖြစ်စေကာမူ သာမန် အဝင်အထွက် မမျှသော အရှုံး

ဗတ်ဂျက်နှင့် အခြေခံ သဘောချင်း မတူချေ။ လွတ်လပ်စ နိုင်ငံများသည် အရှုံးဗတ်ဂျက်ဖြင့်သာ လုပ်ဆောင်ကြရ လေသည်။

ဗတ်ဂျက်တွင် ပြည်တွင်းငွေအားဖြင့် အရှုံးအမြတ်၊ပြည်ပ ငွေအားဖြင့် အရှုံးအမြတ် ဟူ၍ သီးခြား ဖော်ပြခြင်း မရှိ ချေ။ ထွက်ကုန် တန်ဖိုးက ဝင်ကုန် တန်ဖိုးထက် ပိုသည့်အခါ တွင်၎င်း၊ နိုင်ငံခြားတွင် အသုံးစရိတ်နည်း၍ ပြည်ပ ရငွေက သုံးငွေထက် ပိုသည့်အခါတွင်၎င်း ပြည်ပငွေအားဖြင့် အမြတ် ဗတ်ဂျက်ဟု သိရသည်။ ပြည်ပဝင်ကုန် တန်ဖိုးနှင့် အသုံး စရိတ်က ပြည်ပ ရငွေထက်ပိုသော် ပြည်ပငွေအားဖြင့် အရှုံး ဗတ်ဂျက်ဖြစ်သည်။ ဗတ်ဂျက် လေ့လာသူသည် ပြည်တွင်း ငွေ ဗတ်ဂျက် အရှုံးအမြတ်နှင့် ပြည်ပငွေ ဗတ်ဂျက် အရှုံး အမြတ်ကို ကြည့်၍ နိုင်ငံစီးပွားရေး၊ ကြီးပွားရေးနှင့် လူမှု ရေး အခြေအနေ အတိုးအဆုတ်ကို ခန့်မှန်းနိုင်သည်။

အရှုံးဗတ်ဂျက်ကို (၁) ငွေချေးယူခြင်း (၂) အခွန်သစ် များ စည်းကြပ် ကောက်ခံခြင်း၊ အခွန်တော်များ တိုးတက် စည်းကြပ်ခြင်း (၃) ငွေစက္ကူ ထပ်မံ ထုတ်ဝေခြင်း (၄) အစိုးရ သီးသန့် ရံပုံငွေမှ ထုတ်နုတ်သုံးစွဲခြင်းတို့ဖြင့် ကုစား နိုင်သည်။ သို့ရာတွင် ထိုနည်းများသည် နိုင်ငံ အပေါ်၌ အကျိုးကိုသာမက အပြစ်ကိုပါ သက်ရောက်စေနိုင်သဖြင့် မလွဲမရှောင်သာသည့် အခါမှသာ နိုင်ငံအစိုးရတို့ သတိ ကြီးစွာဖြင့် လုပ်ဆောင်လေ့ ရှိကြသည်။



အင်္ဂလိပ်လူမျိုး ဘောဂဗေဒ ပညာရှင် ဝေါလတာ ဗတ်ဂျတ်

**ဗတ်ဂျတ်, ဝေါလတာ** (ခရစ် ၁၈၂၆–၁၈၇၇)။ ။အင်္ဂလိပ်လူမျိုး ဘောဂဗေဒပညာရှင်နှင့်စာရေးဆရာဝေါလတာ ဗတ်ဂျတ်ကို ဆမ္မားဆက်နယ် လန်းဂပို့မြို့၌ ၁၈၂၆ ခုနှစ် ဖေ ဖွာရီလ ၃ ရက်နေ့တွင် ဖွားမြင်သည်။ သူ၏ ဖခင်မှာ လန်း ဂပို့မြို့မှ သင်္ဘောပိုင်ရှင်နှင့် ဘဏ်သဌေး တဦးဖြစ်သည်။ ဗရစ္စတိုနှင့် လန်ဒန်တက္ကသိုလ်တို့၌ပညာသင်ကြားပြီးနောက် ၁၈၄၆ ခုနှစ်တွင် သင်္ချာ၊ စိတ္တဗေဒနှင့် ဘောဂဗေဒ ပညာရပ် တို့၌ ဂုဏ်ထူးဖြင့် ဝိဇ္ဇာဘွဲ့ထူးကို ရရှိသည်။ ၁၈၄၈ ခုနှစ်တွင် ဘောဂဗေဒ ပညာရပ်ဆိုင်ရာ မဟာဝိဇ္ဇာဘွဲ့ထူးကို ဆွတ်ခူး၍ ၁၈၅၂ ခုနှစ်တွင် ဝတ်လုံ စာမေးပွဲကို အောင်မြင်သည်။ သို့ရာတွင် ဗတ်ဂျတ်သည် ဖခင်၏ ဘဏ်လုပ်ငန်းတွင် ဝင် ရောက် လုပ်ကိုင်ရာ မကြာမီ ဖခင်နှင့်အကျိုးတူ စီးပွားဖက် ဖြစ်လာသည်။

၁၈၅၈ ခုနှစ်တွင် စီးပွားရေး သတင်းစာကို စတင် တည် ထောင်သူ ဂျိမ်းဝီလဆန်၏ သမီးနှင့် လက်ထပ်လေသည်။ ၁၈၆၀ ပြည့်နှစ်တွင် ဂျိမ်းဝီလဆန် အနိစ္စရောက်သွားသော အခါ ဗတ်ဂျတ်သည် စီးပွားရေး သတင်းစာ၏ အယ်ဒီတာ (စာတည်း) အဖြစ် ဝင်ရောက် ဆောင်ရွက်ရာ ၁၈၇၇ ခုနှစ် မတ်လ ၂၄ ရက်နေ့တွင် ကွယ်လွန်သည်အထိ ဖြစ်သည်။

သူ ရေးသားခဲ့သော အကြောင်းအရာများမှာ နိုင်ငံရေး သဘောတရား၊ ငွေချေး၊ စီးပွားရေးပြဿနာနှင့် အကဲဖြတ် စာပေများ ဖြစ်၍ မလွယ်ကူလှချေ။ သို့ရာတွင် ဗတ်ဂျတ် သည် ကောင်းစွာ တတ်ကျွမ်းနိုင်နင်းသည့်အပြင် စာအရေး အသားလည်း တိကျ ပြတ်သား၍ ပေါ်လွင်လှသောကြောင့် သူ ရေးသော စာများကို လူအများ ဂရုစိုက်၍ ဖတ်ရှု မှတ် သားကြရလေသည်။

ဗတ်ဂျတ်၏ ထင်ရှားသော စာပေလက်ရာများမှာ အင်္ဂ လိပ် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေ (၁၈၆၇)၊ ရူပဗေဒ နှင့် နိုင်ငံရေး (၁၈၇၂)၊ လွမ်းဗတ်လမ်း (၁၈၇၃)၊ စာပေ လေ့လာချက်နှင့် စီးပွားရေး လေ့လာချက်များ ဖြစ်သည်။ ဗတ်ဂျတ်၏ အင်္ဂလိပ် ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံ ဥပဒေ စာအုပ်မှာ ယခုခေတ်တိုင် ခေတ်မှီ တိကျလှသဖြင့် အမြဲ လက်ကိုင်ပြုရသော စာအုပ်ဖြစ်၍ ဘာသာပေါင်း များစွာ ဖြင့် ဘာသာပြန်ဆိုထားလေသည်။

**ဗတ်စကက်ဘော ကစားခြင်း။** ။ဗတ်စကက် ဘော ကစားခြင်းသည် ဘောလုံးကို လက်ဖြင့်ပုတ်၍၎င်း၊ ပစ်၍၎င်း ဂိုးသွင်းကာ အဖွဲ့နှင့်ယှဉ်ပြိုင်ကစားရသည့် ကစားနည်း ဖြစ် သည်။ ကစားရုံအတွင်း၌ ဖြစ်စေ၊ ကွင်းပြင်၌ဖြစ်စေ ကစား

နိုင်သော ကစားနည်းမျိုးလည်း ဖြစ်သည်။ သံကွင်းတွင် တပ်ထားသည့် ခြင်းကဲ့သို့ ကြိုးဖြင့် ခက်ထားသော ပိုက်ထဲသို့ဘောလုံးကို ပစ်သွင်း ကစားခြင်းဖြစ်၍ အင်္ဂလိပ်ဘာသာဖြင့် ဗတ်စကက် (ခြင်း) ဘော (ဘောလုံး) ကစားခြင်း ဟုတွင်သည်။

ဗတ်စကက်ဘောကစားနည်းကို ၁၈၉၁ ခုနှစ်တွင် အမေရိကန် ပြည်ထောင်စု မက်ဆချူးဆက် ပြည်နယ် စပရင်ဖီးမြို့ရှိ ဝိုင်၊ အမ်၊ စီ၊ အေ၊ ကောလိပ်မှ ကာယပညာ နည်းပြဆရာ ဒေါက်တာ ဂျိမ်း နေးစမစ် ဆိုသူက စတင် တီထွင်ခဲ့သည်။ ၁၆ ရာစုနှစ်လောက်က မက္ကဆီကို ပြည်နယ်တွင် မာယာ လူမျိုးတို့သည် ယခုခေတ် ဗတ်စကက်ဘောကစားနည်းနှင့် ခပ်ဆင်ဆင် ကစားနည်းမျိုးကို ကစားခဲ့ဘူးသည် ဟု ဆိုသော်လည်း ဒေါက်တာ နေးစမစ် တီထွင်သော ကစားနည်းမျိုးလောက် စံနစ်ကျခဲ့ဟန် မတူချေ။

ဗတ်စကက်ဘော ကစားခြင်းသည် ဘောလုံး ကန်ခြင်းကဲ့သို့ လဟာပြင်၌သာ ကစားနိုင်သော လူအများနှင့် ကစားနည်းမျိုးကို မကစားနိုင်သည့် ရာသီတွင် ကစားရုံတွင်း၌ လူအများနှင့် ကစားနိုင်၍ ကစားရာ၌ ကိုယ်လက် လှုပ်ရှားမှု ရှိသလောက် ကြမ်းတမ်းမှု၊ ထိခိုက်ဒဏ်ရာရစေမှု မရှိနိုင်သော ကစားနည်းကို စဉ်းစား တီထွင်ရာမှ စတင် ပေါ်ပေါက်လာခြင်း ဖြစ်သည်။ ယင်းကစားနည်းကို စတင်တီထွင်စက လူမည်မျှ ပါဝင် ကစားရမည်ဟု အကန့်အသတ် မရှိ၊ ဘောလုံး အရွယ်အစား အလေးချိန်ကိုလည်း သတ်မှတ်ခြင်း မရှိခဲ့ချေ။ ၁၈၉၂ ခုနှစ်တွင်မှ ဝိုင်၊ အမ်၊ စီ၊ အေ၊ အသင်းက ပဌမဆုံးသော ဗတ်စကက်ဘော စည်းမျဉ်းဥပဒေ ၁၃ ချက်ကို ချမှတ် ပြဌာန်းလိုက်လေသည်။ ယင်းကစားနည်းများကို ဝိုင်၊ အမ်၊ စီ၊ အေ၊ အတွင်းရေးမှူးများက ကမ္ဘာ့အနှံ့ ပျံ့နှံ့အောင် ဖြန့်လိုက်ရာ မျှော်လင့်သည်ထက် လူကြိုက်များသည်ကို တွေ့ရသည်။ ယခုအခါ ကမ္ဘာပေါ်ရှိ လူပေါင်း သန်း ၂၀ ခန့် ကစားနေသော ကစားနည်းတခု ဖြစ်နေလေပြီ။ ကစားရုံကလေး အတွင်း လူတစု အပျင်းပြေ ကစားရန် ရည်မှန်းချက် ထားခဲ့သော ကစားနည်းသည် ကမ္ဘာသို့ ပျံ့နှံ့၍ လူများစု ပျော်ရွှင်စွာ လက်ခံကစားလာသော ကစားနည်းတခု ဖြစ်လာခဲ့သည်။ ထိုမျှသာမက ယခုအခါ ကမ္ဘာ့ အိုလင်းပစ် အားကစားပြိုင်ပွဲများ၌ ပါဝင်သော ကစားနည်းတမျိုးပင် ဖြစ်နေလေပြီ။ ၁၉၃၆ ခုနှစ် ဂျာမနီနိုင်ငံ ဘာလင်မြို့တွင် ကျင်းပသော အိုလင်းပစ်ပွဲတွင် ယင်းကစားနည်းကို ပဌမဆုံး အကြိမ် ထည့်သွင်းခဲ့ရာ နိုင်ငံ



ဗတ်စကက်ဘော အကျိတ်အနယ် ယှဉ်ပြိုင်ကစားနေကြစဉ်




အမျိုးသမီးများသည် ဗတ်စကက်ဘော ကစားခြင်းအားဖြင့် ကိုယ်လက်ဖွံ့ဖြိုးကြံ့ခိုင်လာစေနိုင်ပေသည်။

ပေါင်း ၂၁ နိုင်ငံမှ ယှဉ်ပြိုင်ကစားကြ၍ ပဌမဆုကို အမေရိကန် ပြည်ထောင်စုက ရရှိလေသည်။

မြန်မာနိုင်ငံသို့ ဗတ်စကက်ဘောကစားနည်းသည် ၁၉၁၅ —၁၆ ခုနှစ်များတွင် စတင် ရောက်ရှိလာသည်။ ပဌမဆုံး ဗတ်စကက်ဘောကစားကွင်း ဖွင့်ပွဲကို ယခု ယူနီယန် ခရစ်ယန် အထက်တန်းကျောင်း (ယခင် ကူရှင် အထက်တန်းကျောင်း) နှင့် တွဲလျက်ရှိသော ဂျပ်ဆင် ကောလိပ်ကျောင်းဟောင်းကြီးတွင် ကျင်းပခဲ့သည်။ ထိုဖွင့်ပွဲတွင် ပညာမင်းကြီးဟောင်း ဦးချို ကိုယ်တိုင် ကစားသူတဦးအဖြစ် ပါဝင်ကစားခဲ့သည်။ ဗတ်စကက်ဘော ကစားနည်းကို တဖြည်းဖြည်း အထက်တန်းကျောင်းများ၊ ရဲအုပ်အတတ်သင်ကျောင်းစသည်တို့တွင် ကစားနည်းတရပ်အဖြစ် သင်ကြားပေးရာမှအစ မြန်မာနိုင်ငံ ကျောင်းများ၌လည်း ခေတ်စားလာခဲ့သည်။ ၁၉၄၇ ခုနှစ်တွင် မြန်မာနိုင်ငံ အပျော်ထမ်း ဗတ်စကက်ဘောအဖွဲ့ချုပ်ကို တည်ထောင်၍ အပြည်ပြည်ဆိုင်ရာ ဗတ်စကက်ဘောအဖွဲ့ချုပ်နှင့် ဆက်သွယ်ထားသည်။ မြန်မာနိုင်ငံ အမျိုးသား ကိုယ်လက် ကြံ့ခိုင်ရေးကောင်စီကလည်း ဗတ်စကက်ဘော အထူး စည်းရုံးရေးမှူး ခန့်ကာ မြန်မာတနိုင်ငံလုံး၌ ဗတ်စကက်ဘော ကစားနည်းများ ပိုမိုစံနစ်ကျ၍ တိုးတက်လာအောင် ဆောင်ရွက်လျက်ရှိသည်။

အမျိုးသား ဗတ်စကက်ဘော စည်းမျဉ်း ဥပဒေဆိုင်ရာ ကော်မီတီက သတ်မှတ်ထားသော ဗတ်စကက်ဘောကစားကွင်း အကျယ်အဝန်းမှာ အကြီးဆုံး ၉၄ ပေနှင့် ပေ ၅၀ ရှိ၍ အငယ်ဆုံး ၇၄ ပေနှင့် ၄၂ ပေရှိရမည် ဖြစ်သည်။ သို့ရာတွင် ထိုထက်ငယ်သော ကစားကွင်း၌လည်း ကစားနိုင်သည်။ ကစားကွင်း၏ ထိပ် ၂ ဖက် အလယ်တည့်တည့်၌ မြေကြီးမှ ၉ ပေအမြင့်တွင် ထောင့်မှန် စတုဂံပုံ ပျဉ်ပြားကြီးတခုကို တိုင်စိုက် ကပ်ရိုက်၍ ထောင်ထားရသည်။ သို့မဟုတ် နံရံတွင် ကပ်ရိုက်၍သော်၎င်း၊ မျက်နှာကြက်၌ ထောက်တန်းများအားဖြင့် ချိတ်ဆွဲ၍သော်၎င်း ထောင်ထားရသည်။ ယင်းပျဉ်ပြားကြီးသည် အလျား ၆ ပေ အနံ ၄ ပေ ရှိသည်။ အချင်း ၁၈ လက်မရှိသော သံခွေကို ယင်းပျဉ်ပြားကြီးအလယ်မှ ၆ လက်မ အပြင်ထုတ်၍ မြဲမြံစွာတပ်ထားရသည်။ ထိုသံခွေတွင် ကြိုးခိုင်ခိုင်ဖြင့် ခက်ထားသော ပိုက်တခုစီစွပ်ထားရသည်။ယင်းပိုက်သည်အထက်အောက်အပွင့်ဖြစ်၍ ပိုက်အဖျားသည် မြေကြီးမှ ၁၀ ပေ ကွာရသည်။

ကစားရာ၌ သုံးသော ဘောလုံးသည် ဘောလုံးကန်ရာ၌ သုံးသော ဘောလုံးကဲ့သို့ အတွင်းလေလုံ ရော်ဗာ ဘောလုံးဖြစ်ပြီးလျှင် အပြင်က သားရေဖြင့် ပတ်ချုပ်ထားသည်။ ဘောလုံး၏အဝန်းသည် ၂၉ လက်မမှ လက်မ ၃၀ အထိရှိ၍ အလေးချိန်အားဖြင့် အောင်စ ၂၀ မှ ၂၂ အောင်စအထိ ရှိသည်။ ဘောလုံးထဲသို့ လေချိန် ၁၃ ပေါင် ထိုးရသည်။

ကစားပွဲတပွဲတွင် အဖွဲ့ ၂ ဖွဲ့ ယှဉ်ပြိုင် ကစားနိုင်၍ တဖက် ၅ ယောက်စီ ကစားရသည်။ ကွင်းအလယ်ရှိ ဗဟို စည်းဝိုင်းတွင် တယောက်စီ၊ ဂိုးစောင့် ၂ ယောက်စီနှင့် ရှေ့တန်း ၂ ယောက်စီ ကစားရသည်။ အဖွဲ့ တဖွဲ့တွင် ပါဝင် ကစားနေသူ ၅ ယောက်အပြင် အရံ လူ ၇ ယောက်စီ ထားနိုင်၍ အလဲအလှယ် ဝင်ကစားနိုင်သည်။

ပါဝင်ကစားသူသည် ဘောလုံးကို သယ်ဆောင် မပြေးရချေ။ အဖွဲ့ဝင် အချင်းချင်းထံသို့ ဘောလုံးရောက်အောင် ပစ်ပေးခြင်း၊ ပြေးယင်း ပုတ်၍ပုတ်၍ပို့ခြင်း၊ လှိမ့်ပေးခြင်း ပြုရသည်။ လူချင်း တွန်းထိုးတိုက်ခိုက်ခြင်း လုံးဝမရှိအောင် ကစားရသည်။

ဗတ်စကက်ဘော ကစားသည့်အခါ တပွဲလျှင် မိနစ် ၄၀ ကစားရသည်။ ပဌမ မိနစ် ၂၀ ပြီးလျှင် ၁၀ မိနစ်ခန့် နားပြီးနောက် ဖက်ပြောင်း၍ နောက်ထပ်မိနစ် ၂၀ ကစားရသည်။ ဤကား အပြည်ပြည်ဆိုင်ရာ ဗတ်စကက်ဘော စည်းမျဉ်းဥပဒေအရ ဖြစ်သည်။ အမေရိကန် ပြည်ထောင်စု၌ကား ၁၀ မိနစ်တခါ ၄ ကြိမ်နား၍ ကစားလေ့ရှိကြသည်။

ကစားနည်းမှာ ကွင်းအလယ်ရှိ လူ ၂ ယောက်ကြားမှ နေ၍ ဒိုင်လူကြီးလုပ်သူက ဘောလုံးကို အပေါ်သို့ ၂ ကိုက်သာသာခန့် မြှောက်၍ ပေးရသည်။ ကျလာသော ဘောလုံးကို အလယ်လူ ၂ ဦးက သူ့ရကိုယ်ရ ခုန်ဖမ်း၍ ဘောလုံးရသူက မိမိဂိုးရှိရာဖက်နေ မိမိအဖွဲ့ဝင်ထံ ရောက်အောင် ပို့ရသည်။ ဘောလုံးရနေသည့်ဖက်က ဂိုးသွင်းနိုင်အောင် ကြိုးစားသကဲ့သို့ ကျန်အဖွဲ့မှ လူများကလည်း ဂိုးမသွင်းနိုင်အောင် လိုက်ဖျက်၍ မိမိတို့ အဖွဲ့ဝင်များ လက်ထဲသို့ ဘောလုံး ရောက်လာအောင် ကြိုးစားရသည်။ ဂိုးသွင်းသည်ဆိုသည်မှာ ပိုက်တပ်ထားသော သံကွင်းထဲသို့ ဘောလုံးကို ပစ်သွင်း၍ ပိုက်ပေါက်မှ ဘောလုံး ကျလာအောင် ပြုလုပ်ခြင်းပင် ဖြစ်သည်။ တဖက်နှင့် တဖက် ယှဉ်ပြိုင် ကစားရာ၌ ဂိုးအရေအတွက်၊သို့မဟုတ် အမှတ်အများဆုံးရသောအဖွဲ့က အနိုင်ရသည်။ ရိုးရိုးသွင်းသော ဂိုးအတွက် တဂိုးလျှင် ၂ မှတ်ရ၍ ပြစ်မှုကြောင့်ပေးသည့် အသားလွတ် သွင်းရသော ဂိုးအတွက် ၁ မှတ်ရသည်။

ဗက်စကက်ဘောကစားရာ၌ အခြေခံ တတ်မြောက်အပ်သော ပညာရပ်များ ရှိသည်။ ယင်းတို့မှာ (၁) ဘောလုံးပေးခြင်း နည်းအမျိုးမျိုး (၂) ဘောလုံး ဖမ်းခြင်း နည်းအမျိုးမျိုး (၃) ဘောလုံးပုတ်ခြင်း နည်းအမျိုးမျိုး (၄) ဂိုးသွင်းနည်း အမျိုးမျိုးတို့ ဖြစ်သည်။

ဗတ်စကက်ဘောကစားခြင်းဖြင့် လျင်မြန် ဖျတ်လတ်ခြင်း၊ သန်မာကြံ့ခိုင်ခြင်း၊ ဇွဲရှိခြင်း၊ ပါးနပ်လိမ္မာခြင်း၊ အချိန်အဆ ကောင်းခြင်း စသော အကျိုးကျေးဇူးများ ခံစားရသည်။

**ဗတ်ဇတ်သိမ်း။** ။ဗတ်ဇတ်သိမ်း ငှက်သည် သိမ်းငှက် အငယ်စားမျိုးပင် ဖြစ်လေသည်။ ယင်းသည် လင်းယုန်နှင့် ပို၍ တူသည်။ အမြီးနီ၊ တောင်ပံရှင်း နီ၍ တောင်ပံကြီးသော သိမ်းမျိုးကို ဗတ်ဇတ်သိမ်းဟု ခေါ်ကြသည်။

ကမ္ဘာဟောင်းတွင် ဗတ်ဇတ်သိမ်းဟု ခေါ်သော ငှက်များသည် အက်စီပီတြီဒီး မျိုးရင်းဝင် ငှက်များ ဖြစ်ကြ၍ ကမ္ဘာသစ်ဖက်တွင်မူ ကာသာတီဒီး မျိုးရင်းဝင် ငှက်များ ဖြစ်ကြသည်။

ဗတ်ဇတ်သိမ်းငှက်များသည် သာမန် သိမ်းငှက်များကဲ့သို့ပင် အသားစားသော ငှက်မျိုးဖြစ်သည်။ လယ်ကြွက်၊ ရှဉ့်၊ ငှက်ပေါက်စကလေးများ၊ တီကောင်များ၊ ကုန်းတပိုင်း ရေတပိုင်း ကျက်စားသော သတ္တဝါကလေးများနှင့် ပိုးမွှားများသည် သူတို့၏ အစာများပင် ဖြစ်လေသည်။ ဗတ်ဇတ်သိမ်းများသည် လုပသော ငှက်ကြီးများ ဖြစ်သော်လည်း ပျံသန်းရာ၌ အလွန် လေးဖင့်၏။ အသိုက်များကို သစ်ကိုင်းများဖြင့် သစ်ပင် အမြင့်ကြီးများပေါ်၌၎င်း၊ တောင်စောင်းများ၌၎င်း ပြုလုပ်တတ်ကြသည်။ ဥများမှာ ကြီးမား၍ ဖြူဖွေးနေကာ အနီပြောက်များ ဖုံးလွှမ်းနေသည်။

ဗတ်ဇတ်သိမ်းငှက်များကို ဩစတြေးလီးယားတိုက်မှ လွဲ၍ တကမ္ဘာလုံး၌ အနှံ့အပြား တွေ့ရှိရသည်။ ဗြိတိသျှကျွန်းစုတွင် နှစ်မျိုးနှစ်စား ရှိသည်။ တောင်နှင့်မြောက် အမေရိကတိုက်များတွင် တွေ့ရှိရသော ကြက်ဆင်ဗတ်ဇတ် သိမ်းငှက်များမှာကား အမှန်စင်စစ်အားဖြင့် သိမ်းငှက်မျိုး မဟုတ်ချေ။ လင်းတမျိုးစုတွင် ပါဝင်သော ငှက်များသာ ဖြစ်ချေသည်။

**ဗတ်မြို့။** ။အင်္ဂလန်ပြည် ဗရစ္စတိုမြို့၏ အရှေ့တောင်ဖက် ၁၂ မိုင်ခန့် အကွာ ဧဝွန်မြစ် လက်ျာဖက်ကမ်းပေါ်တွင် ဗတ်မြို့တည်ရှိ၍ ဆမ္မားဆက်ရှိုင်ယာနယ်တွင် အကြီးဆုံးမြို့ဖြစ်လေသည်။ ဗတ်မြို့သည် လန်ဒန်မြို့၏ အနောက်ဖက် ၁၁၇ မိုင်ဝေး၍ ဂရိတ်ဝက်စတင်းနှင့် လန်ဒန် မစ်ဒလင်းစကော့တစ် မီးရထားလမ်းပေါ်တွင် တည်ရှိသည်။ ဗြိတိသျှကျွန်းတွင် သဘာဝ ရေပူစမ်းများရှိသည့် တခုတည်းသောမြို့ဖြစ်ရုံမက အင်္ဂလန် တပြည်လုံးတွင် အကောင်းဆုံး တည်ဆောက်ထားသည့်မြို့ဟုလည်း ခေါ်နိုင်သည်။ မြို့၏အကျယ်အဝန်းသည် ၈ စတုရန်းမိုင်ရှိသည်။ ကျန်းမာရေးအတွက် လူ အရောက်အပေါက်များသော မြို့ဖြစ်၏။ ဗတ်မြို့ကို ဘီစီ ၈၆၃ ခုနှစ်တွင် ဗလာဒတ် ဆိုသူက သဘာဝ ရေပူစမ်းကို တွေ့ရှိသဖြင့် ယင်းအနီး၌ မြို့စတည်သည်ဟု ဆိုသည်။ ရောမလူမျိုးတို့ အုပ်ချုပ်စဉ်က ယင်းမြို့ကို အက်ကွာဆူလစ်



ဗတ်မြို့ရှိ ရောမလူမျိုးများ ဆောက်လုပ်ခဲ့သော ရောဂါဝေဒနာပျောက်ကင်းစေသည့် ရေပူစမ်းရေချိုးကန်ကြီး

မြို့ဟု ခေါ်သည်။ ဗတ်မြို့ရှိ မြို့တော် ခန်းမကြီးနှင့် ထောင့်မှန် စတုဂံပုံ ရေချိုးကန် အပျက်အစီးများသည် ဗြိတိန်နိုင်ငံ၌ ကျန်ရစ်ခဲ့သော ရောမခေတ် အဆောက်အအုံပျက်များတွင် အလှပဆုံး ဖြစ်လေသည်။

အလယ်ခေတ်တွင် ဗတ်မြို့သည် မြို့ရိုးဖြင့် ဝန်းရံထားသော အရေးပါသည့် မြို့ဖြစ်သည်။ ယခု တွေ့ရှိရသော မြို့ရိုးနေရာ၏ အတွင်းဖက်သည် အေဒီ ၂၅၀ ပြည့်နှစ်လောက်က ဗတ်မြို့နေရာဖြစ်သည်။ မြို့ပေါ်ရှိ ရေပူစမ်းများသည် ဘုရင်မင်းမြတ်ပိုင် ဖြစ်သော်လည်း သာသနာဖက်မှ စီမံအုပ်ချုပ်ခဲ့လေသည်။ အလယ်ခေတ် အဆောက်အအုံများ အနက် ယခုအခါ ဗတ်အက်ဗေး ဘုန်းကြီးကျောင်းတကျောင်းသာ ကျန်တော့သည်။ ၁၈ ရာစုနှစ် စောစောပိုင်းတွင် ယင်းမြို့သည် ဗိုး နက်ရှ ဆိုသူ၏ စည်းရုံးတတ်မှု စွမ်းရည်ကြောင့်၎င်း၊ ရပ်ဖအယ်လင် ဆိုသူ၏ စီးပွားရေးလာဘ်မြင်မှုကြောင့်၎င်း၊ ဗိသုကာ ဂျွန်ဝုဒ် သားအဖတို့၏ လက်မှုပညာစွမ်းကြောင့်၎င်း ကျန်းမာရေးစခန်းမြို့အဖြစ် အထူး ထင်ရှားလူသိများလာသည်။ ဝုအငယ် ပုံစံရေးကာ ဆောက်လုပ်ခဲ့သော စည်းဝေးခန်းမကြီးကို ၁၇၇၁ ခုနှစ်တွင် ဖွင့်လှစ်ခဲ့ရာ ၁၈ ရာစုနှစ် အင်္ဂလန်ပြည်တွင် အလှဆုံး ညှော်ခံ ခန်းဆောင်တခုဖြစ်လာသည်။ ထိုမြို့၏ ထင်ရှားသော ပူတင်စီတန်တား နံဘေးနှစ်ဖက်တွင် အိမ်များ၊ ဆိုင်များကို တည်ဆောက်ထား၏။

ဗတ်မြို့ ရေပူစမ်းများသည် ရောဂါဝေဒနာများ ပျောက်ကင်းစေတတ်သည် ဟူသည့် အယူအဆမှာ ယခုတိုင် မေတ်စားနေပေသည်။ ရေပူစမ်း ၃ ခုရှိ၍ စမ်းတခုနှင့် တခုရှိ ရေအပူချိန်ချင်း မတူချေ။ အပူဆုံးစမ်းသည် ဖာရင်ဟိုက် ဒီဂရီ ၁၂၀ ပူသည်။ ယင်းရေပူစမ်းများမှ တနေ့လျှင် ဂါလံ ၅ သောင်း ထွက်လျက်ရှိသည်။ ကမ္ဘာအရပ်ရပ်မှ ဘုရင်၊ မှူးမတ်၊ သူဌေး စသည်ဖြင့် လူတန်းစားမျိုးစုံ လာရောက်အနားယူရာ ဖြစ်သည်။ ရှုမက်တစ်၊ ဂေါက်စသော ရောဂါသည်များ၊ ချည့်နဲ့ မသန်စွမ်းသော ကလေးများအား ယင်းရေပူဖြင့် ကုသပျောက်ကင်းသည်ဟု ဆိုသည်။ ဗတ်မြို့သည် ဒုတိယ ကမ္ဘာစစ်အတွင်းက ဂျာမန်တို့ လေကြောင်းမှ အပြင်းအထန် တိုက်ခိုက်သဖြင့် အဆောက် အအုံပေါင်း ၁,၀၁၀ ကျော် ပျက်စီးဆုံးရှုံး၍ လူ ၄၀၀ ခန့်သေဆုံးခဲ့သည်။ ဒုတိယ ကမ္ဘာစစ်အတွင်းက ဗတ်မြို့သည် ဗြိတိသျှ ရေတပ်ဌာနကြီး ရုံးစိုက်ရာမြို့ဖြစ်၍ ရေတပ်ဖက်ဆိုင်ရာ ပစ္စည်းများ တီထွင်ပြုလုပ်ရာမြို့လည်း ဖြစ်သည်။ ၁၉၅၆ ခုနှစ် ခန့်မှန်းသန်ကောင်စာရင်းအရ ဗတ်မြို့၏ လူဦးရေသည် ၇၉,၁၀၀ ဖြစ်သည်။

ဗတ်မြို့၏ အခြား ထင်ရှားသော လုပ်ငန်းများမှာ ဖိနပ်ချုပ်ခြင်းနှင့် ကျောက်ခွဲခြင်း ဖြစ်သည်။ ဗတ်ကျောက်ခေါ် ဗတ်မြို့အနီးအနားမှ ခွဲယူရရှိသော ကျောက်သည် ထင်ရှားသည်။ ဗတ်မြို့မှအဆောက်အအုံများကို ယင်းကျောက်ဖြင့် ဆောက်လုပ်ကြသည်။ ဗတ်မြို့ကို အကြောင်းပြု၍ ဗတ်ကုလားထိုင်ခေါ် ရေပူစမ်းသို့ လူနာများ တင်ဆောင်သည့် ကုလားထိုင်မျိုး၊ ဗတ်ဗန်းမုံ့၊ ဗတ်အော်လစ်ဗာဗီစကွတ် (၁၈ ရာစုနှစ်က ဆရာဝန် အော်လစ်ဗာ တီထွင်သော လူနာများအတွက် ဗီစကွတ်) စသည်တို့ ပေါ်ပေါက်ခဲ့သည်။

**ဗိဿဏိုးမြို့ဟောင်း။** ။ဗိဿဏိုး မြို့ဟောင်းသည် မကွေးခရိုင် တောင်တွင်းကြီးမြို့၏ အနောက်ဖက် ၁၁ မိုင်ခန့်ကွာဝေးသော ကုက္ကိုခွရွာ၏ မြောက်ဖက်တွင် ကပ်လျက်တည်ရှိ၏။ တောင်တွင်းကြီးမှ မကွေးသို့ သွားသော မော်တော်ကားလမ်းသည် ဗိဿဏိုးမြို့၏ အရှေ့ တောင်ထောင့်၌ရှိသည့် မြို့ရိုးနှစ်ဖက်ကို ဖောက်ထွင်းသွား၏။ ၅ ပေခန့် အမြင့်သာလျှင် ကျန်ရစ်သော အုတ်မြို့ရိုးသည် ဗိဿဏိုးမြို့၏ မြောက်ဖက်၊ အရှေ့ဖက်နှင့် တောင်ဖက်တို့၌သာ စတုရန်းမကျတကျ ဝိုင်းရံလျက် ရှိလေသည်။ မြို့ရိုးတဖက်၏ အလျားသည် ၁ မိုင်နှင့် ၆ ဖာလုံခန့်မျှ ရှည်လျား၏။ အနောက်ဖက်၌ကား မြို့ရိုးအစအနကိုမျှ မတွေ့ရချေ။ ယခုအခါ တွေ့ရသော အင်းကြီးနှင့် ကြိုးကြာကန်တို့သည် ရှေးယခင်က ဆက်စပ်နေ၍ အနောက်ဖက်မှ ရေကျူးသဖွယ်တည်ရှိခဲ့ဟန်တူ၏။ မြို့တွင်း၌ ကုန်းမြေသည် အရှေ့မှ အနောက်သို့ အတန်ငယ် လျှောဆင်းနေသည်မှအပ ပတ်ဝန်းကျင်တဝိုက်မှာ ပြန့်ပြူးလျက် ရှိလေသည်။ မြို့ရိုးအတွင်း၌ကား အနောက်မြောက်ထောင့်၌ တည်ရှိသော အင်းရွာကြီးသာလျှင် လူနေရပ်ကွက် အဖြစ် မြင်ရလေသည်။ မြို့ရိုးမှာ မူလ၌ တဖက်တွင် မြို့ပေါက် ၃ ပေါက်စီ ရှိသော်လည်း ယခုအခါ လှည်းလမ်းကြောင်းများ ဖောက်ထားသော အပေါက်ငယ်များကြောင့် ပျက်စီး ပိုင်းပြတ်လျက် ရှိ၏။ မြို့၏ အလယ်ဗဟိုမှ အနောက်မြောက်သို့ အနည်းငယ် ယွန်းသော နေရာတွင် တောင်မြောက် အလျားကိုက် ၅၀၀ နှင့် အရှေ့ အနောက် အနံကိုက် ၄၀၀ ခန့် ရှိသည့် အုတ်ရိုးဟောင်းမှမို ဝိုင်းရံနေသော နေရာမှာ နန်းတော်ကုန်း ဖြစ်သည်ဟု အဆိုရှိလေသည်။ နန်းတော်ကုန်းပေါ်၌ အုတ်ရိုးအကန့်များနှင့် အဆောက် အအုံဟောင်း နေရာများဖြစ်သော အုတ်ကုန်းနိမ့်နိမ့် အနည်းငယ်ရှိ၍ မြို့ရိုးကြီး အတွင်းတွင် နေရာအနှံ့အပြား၌ အဆောက်အအုံ အပြိုအပျက်များ ဖြစ်သည့် ကုန်းဟောင်းဦးရေ ၁၀၀ နီးပါးရှိလေသည်။ မြို့ရိုး၏ အပြင်ပတ်လည် တဝိုက်တွင် သင်းချိုင်းကုန်း အမြောက်အမြား တည်ရှိ၏။

ဗိဿဏိုးမြို့သမိုင်း ဟူ၍ သီးခြား မတွေ့ရသော်လည်း တောင်တွင်းကြီး သမိုင်း၏ ရှေ့ပိုင်းတွင်ကား ဗိဿဏိုးမြို့



ဗိဿကိုးမြို့ဟောင်း မြို့ရိုးအပြင်ဖက်ရှိ အုတ်ကုန်းများကို စံနစ်တကျ တူးဖော်ရာ၌ အမြင့်မားဆုံး ကုန်းကြီးဖြစ်သည့် အမှတ် ၂ ကုန်းကြီးကို မတူးဖော်မီ ဤသို့ရှုမြင်ရသည်။

အကြောင်းကို အကျယ်တဝင့် ဖော်ပြထားသည်ကို ဖတ်ရှုနိုင်၏။ ထိုသမိုင်း၏ အဆိုအရ မဟာသမ္ဘဝနှင့် စူဠသမ္ဘဝမင်းသား နှစ်ပါးတို့ကို စက္ခုအလင်းရအောင် ကုစားပေးသော စန္ဒမုခိ ဘီလူးမတွင် လက်ကို ကိုင်တွယ်ခြင်း အစွန်းအညီကြောင့် ပဋိသန္ဓေ တည်ရှိခဲ့ရာ၊ တောင်တွင်းကြီးမြို့အနောက်ဖက် ၅ တိုင်ကွာသော တောအရပ်တွင် သားမိန်းမတယောက် ဖွားမြင်သည်ဆို၏။ ထိုသမီးငယ်ကို ရသေ့ကြီးတပါးက မွေးစားထား၍ ကြီးပြင်းလာသောအခါတွင် ထိုတောအရပ်၌ နေသည့် ဗိဿကိုးနတ်မင်းက ရွှေဘဝ၌ မောင်နှမတော်သဖြင့် ပန်ထွာပြည် ဗိဿကိုးမြို့ကို ဖန်ဆင်း၍ အမျိုးသမီးအား အပ်နှင်းလေသည်။ ပန်ထွာမင်းသမီး စိုးစံသော ဗိဿကိုးမြို့ကို သရေခေတ္တရာမြို့ကို အုပ်စိုးသည့် ဒွတ္တပေါင်မင်းကြီးက ဥပါယ်တံမျဉ်ဖြင့် ကြံစည်၍ မင်းသမီးကိုပါ ခေါ်ဆောင်သွားကြောင်း ဖော်ပြပါရှိလေသည်။

သရေခေတ္တရာမြို့တွင် ဗိဿကိုး မိဖုရား သင်းချိုင်းနေရာ တည်ရှိခြင်း၊ မြို့ဟောင်း နှစ်ရပ်လုံးတွင်လည်း မြို့ရိုး၊ ပြအိုးအပြိုအပျက်တို့ကို ဒိဋ္ဌတွေ့မြင်နိုင်ခြင်းတို့ကို ထောက်လျှင် တချိန်တခါက ဤမြို့နှစ်မြို့သည် အပြိုင်အဆိုင် ထွန်းကားခဲ့သည်ဟု ယူဆရ၏။ သရေခေတ္တရာမြို့၌ မှီတင်းနေထိုင်ကြသူများ အနက်တွင် ပျူလူမျိုးတို့ ပါဝင်ကြောင်းနှင့် ထိုပျူလူမျိုးများ၏ ယဉ်ကျေးမှုဆိုင်ရာ ဓလေ့ထုံးတမ်းတွင် အမိကအချက်များမှာ လူများ သေဆုံးပြီးနောက်တွင် မီးသင်္ဂြိုဟ်၍ အရိုးနှင့် ပြာများကို မြေအရိုးအိုးတို့တွင် ထည့်သွင်း မြှုပ်နှံခြင်းနှင့် ပျူဒင်္ဂါးဟု ယခု ခေါ်စမှတ်ပြုသည့် အမှတ်လက္ခဏာများ ပါရှိသည့် ငွေပြားဝိုင်းကလေးများကို အသုံးပြုခြင်းကို အထောက်အထား ခိုင်လုံစွာ လေ့လာသိရှိပြီး ဖြစ်ချေသည်။ ဗိဿကိုးမြို့ဟောင်း ဒေသတွင် ကွင်းဆင်းသုတေသနပြုရာ၌ မြို့ရိုး အပြင်ဖက်တွင် အရိုးအိုးမြှုပ်နှံသည့် အုတ်ကုန်းငယ်များကို တွေ့ရပြီးလျှင် မြို့တွင်းမှလည်း ပျူဒင်္ဂါး အနည်းငယ်ကို တွေ့ရှိခဲ့ရလေသည်။ ဤအခြင်းအရာတို့သည် သရေခေတ္တရာမှ ပျူယဉ်ကျေးမှု ပြန့်နှံ့ခြင်း၏ သဲလွန်စများ ဖြစ်ပေရာ၊ ဗိဿကိုးမြို့သည် သရေခေတ္တရာနှင့် အကယ်ပင် ခေတ်ပြိုင် ထွန်းကားခဲ့ခြင်း ဟုတ်မဟုတ်၊ ဟုတ်လျှင် မည်သည့် သက္ကရာဇ် အပိုင်းအခြားတွင် ထွန်းကားခဲ့သည်ကို အနီးစပ်ဆုံး သိရှိရန်နှင့် အုတ်ကုန်းဟောင်း အမြောက်အမြား တည်ရှိနေသည့် ဗိဿကိုးမြို့ဟောင်းမှ ယဉ်ကျေးမှု အထောက်အထားများကို တတ်နိုင်သမျှ ဖော်ထုတ်ရန် ဟူသော ရည်ရွယ်ချက်တို့ဖြင့် ထိုမြို့ဟောင်း အတွင်း၌ စံနစ်တကျ တူးဖော် သုတေသနပြုမှုကို စတင် ဆောင်ရွက်ခဲ့သည်။

၁၉၅၉ ခုနှစ် ဇွန်လအတွင်းမှတူးဖော်မှုကို စတင်ခဲ့ရာ ယခုအချိန်အထိ အုတ်ကုန်းပေါင်း ၉ ခုကို ဖော်ထုတ်ပြီး ဖြစ်

သည်။ အုတ်ကုန်းတခုစီမှ ပေါ်ပေါက်တွေ့ရှိရသော အခြင်းအရာများမှာ အောက်ပါအတိုင်း ဖြစ်၏။

ကုန်းအမှတ် (၁)။ ဤကုန်းငယ်သည် မြောက်ဖက်မြို့ရိုး၏ အပြင်တွင် ကျရောက်နေသည်။ အရိုးအိုး ၇ လုံးကို တူးဖော်ရရှိသဖြင့် သင်းချိုင်းကုန်းဟုပင် ယူဆရ၏။ ထိုအရိုးအိုးများကို အုတ်ရိုးနိမ့်နိမ့်တို့ဖြင့် လေးထောင့်ကွက်များ ပြုလုပ်ထားသော အဆောက်အအုံတွင် မြှုပ်နှံထားခြင်း ဖြစ်လေသည်။

ကုန်းအမှတ် (၂)။ ဤကုန်းသည် မြေပြင်မှ ၁၃ ပေမြင့်၍ မြို့တွင်း၌ အမြင့်မားဆုံး ကုန်းကြီး ဖြစ်သည်။ နန်းတော်ရာဟု ခေါ်တွင်သော အတွင်းမြို့ရိုး၏ မြောက်ဖက် ကိုက် ၃၀၀ ခန့်တွင် တည်ရှိသည်။ တူးဖော်သည့်အခါတွင် ဆင်ဝင်တခု၊ အခန်းရှည်ကြီးတခုနှင့် တောင်မြောက် တန်းလျက်နေသော အခန်းငယ်ပေါင်း ဂ ခန်း ပါဝင်သည့် အရှေ့ဖက်လှည့် အုတ်တိုက်အဆောက်အအုံ အောက်ပိုင်းကို တွေ့ရသည်။ အဆောက်အအုံသည် မီးလောင်ပြီးမှ ပြိုပျက်သွားကြောင်း သိရှိရ၏။ အတွင်း၌ မြေအိုးမြေခွက် မြောက်မြားစွာ ကွဲအက်ပျက်စီး ကျန်ရစ်သော အပိုင်းအစတို့ကို အဓိကအားဖြင့် ဖော်ထုတ်နိုင်လေသည်။ အခြားပစ္စည်းများမှာ အဆောက်အအုံနှင့် ဆိုင်ရာ သံမှိုပွင့်ကြီးများ၊ သံချောင်းများ၊ အင်္ဂတေပြားများ၊ ကြက်ငှက် တိရစ္ဆာန်အရိုးများ၊ လူရိုးအနည်းငယ်နှင့် လူအသုံးအဆောင်များဖြစ်သည့် မြေပုတီး၊ ကျောက်ပုတီးများ၊ ကြေးစေ့များ၊ သေးငယ်ပါးလွှာသော ရွှေဆီးခွံ ငွေဆီးခွံများ စသည်တို့ ဖြစ်၏။ ရှေးဟောင်းပစ္စည်းများအနက် သမိုင်းအထောက်အထားအတွက် အဖိုးထိုက်တန်သော ပစ္စည်းတခုမှာ တံဆိပ်နှိပ်ရာ ပါရှိသော ရွှံ့တုံးကလေးတခုပင် ဖြစ်၏။ ထိုတံဆိပ်တွင် ရေးသားထားသော အက္ခရာကို ထောက်ခြင်းဖြင့် လွန်ခဲ့သော နှစ်ပေါင်း ၁၂၀၀ မှ ၁၅၀၀ ခန့်အတွင်းက အသုံးပြုခဲ့သော အိန္ဒိယ တောင်ပိုင်း အက္ခရာမှ ပေါက်ပွားလာသည့် အရေးအသား ဖြစ်ကြောင်း ခန့်မှန်း နိုင်လေသည်။ အုတ်တိုက်ကြီးသည် ရှေးဘုန်းကြီးကျောင်းသင်္ဃာန် ဖြစ်ဟန်ရှိသော်လည်း ဘာသာရေးနှင့် ဆိုင်သော ဝတ္ထုပစ္စည်း တစုံတရာမျှ မတွေ့သဖြင့် ဘုန်းကြီးကျောင်းလော၊ လူနေ တိုက်တာလောဟူ၍ အတိအကျ ပိုင်းခြား မသိနိုင်သေးချေ။

ကုန်းအမှတ် (၃)။ အမှတ် (၃) နှင့် (၄) ကုန်းတို့မှာ အမှတ် ၂ ၏ အရှေ့ဖက်တွင် ဖိုခနောက်ဆိုင် တည်နေသည်။ အမှတ် ၂ အုတ်တိုက်ကြီးကို မူလက မည်သို့ အသုံးပြုခဲ့ကြောင်းကို နီးစပ်လျက်နေသော ကုန်းများမှ အထောက်



အမှတ် ၂ ကုန်းကြီးကို တူးဖော်လျက်ရှိစဉ် ပေါ်၍ လာသော ဆင်ဝင်နှင့် အခန်းရှည်ကြီး

အထား ရနိုင်ကောင်းသည်ကို မြော်မှန်း၍ အမှတ် (၃)နှင့် (၄) တို့ကို တူးဖော်သည်။ သို့သော် အမှတ် (၃) တွင် တမူ ထူးခြားသော အဆောက်အအုံကိုတွေ့ရ၏။ ပုံသဏ္ဌာန်မှာ အလယ်တွင် စက်ဝိုင်းပန္နက်ရှိ၍ ၄ မျက်နှာတွင် လေးထောင့် အုတ်ခုံများ စွန်းထွက်လျက် တည်ဆောက်ထား၏။ ထိုအဆောက်အအုံ တခုလုံးကို စက်ဝိုင်း အုတ်တံတိုင်း ၂ ထပ် ကာရံထားလေသည်။ စံနစ်ပုံအရ မြေပေါက်စေတီနှင့် တူဟန် ရှိသော်လည်း အုတ်ခုံများ စွန်းထွက်နေပုံနှင့် မူလကပင် မြေပေါ်၌ စိုက်ထူထားခြင်း မဟုတ်ကြောင်း မြေလှန်ရာ အနေအထားမှ သိရှိရသဖြင့်၎င်း၊ သာသနာရေးဆိုင်ရာ ဝတ္ထုပစ္စည်း တစုံတခုကိုမျှ မတွေ့ရခြင်းကြောင့်၎င်း စေတီပုထိုးအဖြစ် တည်ထားခဲ့ဟန် မတူကြောင်း ယူဆဖွယ်ရာ ဖြစ်နေချေသည်။

ကုန်းအမှတ် (၄)။ ဤကုန်းမှာ အမှတ် (၃)၏ မြောက်ဖက်တွင် ကပ်လျက်ရှိ၏။ ဤနေရာတွင် လေးထောင့် အုတ်တိုက်၏ အခြေပိုင်းကို တူးဖော် တွေ့ရှိရသည်။ အဆောက်အအုံမှာ နံရံ ၂ ထပ်ပြုလုပ်ထားရှိခြင်းဖြင့် အတွင်းခန်းမနှင့် ပတ်လည် စင်္ကြံကို စီမံထားသည်။ ဤပန္နက် ပုံစံမှာ ပုဂံဘုရားပန္နက်ပုံများ၏ ရှေ့ပြေး ပုံစံအဖြစ် ဦးစွာ တွေ့ရှိရလေသည်။

ကုန်းအမှတ် (၅) (၆) (၇) (၈) တို့မှာ နန်းတော်ကုန်းဟုဆိုသော အတွင်းမြို့ရိုး၏ အရှေ့အနောက် အုတ်ရိုးများနှင့် အလယ်ပိုင်း ကုန်းမြင့်များတွင် တူးဖော်သည့် နေရာများဖြစ်သည်။ အမှတ်(၅)တွင် အုတ်မြစ် အခြေသာကျန်ရစ်သော အခန်းပေါင်း များစွာ ပါဝင်သည့် အဆောက်အအုံကို၎င်း၊ အမှတ် (၇) တွင် အလားတူ အဆောက်အအုံယ်တခုကို၎င်း ဖော်ထုတ်တွေ့မြင်ရ၏။ အမှတ် (၆) မှာ အနောက်ဖက် အုတ်ရိုးနှင့် ကပ်လျက်ရှိသော ပြအိုးသဏ္ဌာန် အဆောက်အအုံဖြစ်၍၊ အမှတ် (၈) မှာ အတွင်းမြို့ရိုး၏ အရှေ့ဖက် တံခါးဝ ဖြစ်လေသည်။ အရှေ့ဖက် အုတ်မြို့ရိုးကို ထိုအပေါက်ဝ၌ အတွင်းပိုင်းမှ အုတ်တံတိုင်းတို့ဖြင့် ထောက်ခံထားလေသည်။ ထိုတံတိုင်းများတွင် တံခါးစောင့်ခိုရန် ဂူတခုစီ ပြုလုပ်ထားဟန်လည်း ပါဝင်၏။ အပေါက်ဝအပြင်ဖက်တွင် အစောင့် ကျောက်ရုပ်ကြီး ၂ ရုပ် စိုက်ထူထားရာ ယင်းတို့၏ အခြေအမြစ်ပိုင်းများကို တူးဖော်တွေ့ရှိရသည်။

ကုန်းအမှတ် (၉)သည် အထက်ဖော်ပြပါ နန်းတော်ကုန်း၏ တောင်ဖက်တွင် တည်ရှိ၏။ ယခု တူးဖော် ပြီးစီးသမျှ တွေ့ရသည်မှာ တောင်မြောက် အလျား ၈၄ ပေ၊ အရှေ့အနောက် ပေ ၄၀ ခန့်ရှိသော အုတ်တိုက် အဆောက်အအုံကြီး ဖြစ်၏။ အတွင်းပိုင်းတွင် အခန်းများ ဖွဲ့ထားခြင်းမရှိ၊ မြောက်ဖက် နံရံတွင် ဝင်ပေါက်ကြီး တခုသာ ရှိ၏။ အဆောက်အအုံ၏ အတွင်း၌ပင် မူလက သစ်သားတိုင်ကြီး



အမှတ် ၂ ကုန်းကြီးကို တူးဖော်ပြီးနောက် ရုပ်လုံးပေါ်လာသောအဆောက်အအုံကြီးကို ဤသို့ရှုမြင်ရသည်။



အမှတ် ၂ ကုန်းနှင့် ဖိုခနောက်ဆိုင်တည်ရှိသည့် အမှတ် ၃ ကုန်းကို မတူးဖော်မီ

၈ တိုင် စိုက်ထူ ဆောက်လုပ်ထားကြောင်း သိရှိရသည်။ ဤတိုက်ကြီး အတွင်းတွင် ပုံစံ အမျိုးမျိုး ပါဝင်သော အရိုးအိုး မြောက်မြားစွာ မြှုပ်နှံထားသည်ကို တွေ့ရှိရလေရာ မြို့တွင်း၌ အထူးတလည် စီမံ၍ အရိုးအိုးများ မြှုပ်နှံခြင်းမှာ စိတ်ဝင်စားဖွယ်ရာသော ဓလေ့ ထုံးတမ်း တရပ်ပင် ဖြစ်လေသည်။

အထက်ပါ အုတ်ကုန်းများ၌ တူးဖော်ရာမှ ပေါ်ပေါက်သော အထောက်အထားများအရ ဗိဿနိုးမြို့သည် သရေ



အမှတ် ၃ ကုန်းကို တူးဖော်ပြီးနောက် ရုပ်လုံးပေါ်လာသော အဆောက်အအုံ

ခေတ္တရာမြို့နှင့် ယဉ်ကျေးမှု ဓလေ့ထုံးတမ်းအားဖြင့် ဆက်စပ်မှု အတော်အတန် ရှိခဲ့ကြောင်း သိသာ၏။ သို့သော် သရေခေတ္တရာကဲ့သို့ ဗုဒ္ဓသာသနာ ထွန်းကားသော အထောက်အထားများကို မတွေ့ရသေးချေ။သရေခေတ္တရာနှင့် ခေတ်ပြိုင်၊ သို့မဟုတ် အနည်းငယ် နှောင်းသော ကာလတွင် ဗိဿဏိုးမြို့ ထွန်းကားခဲ့ပါက သာသနာရေးဆိုင်ရာ ယဉ်ကျေးမှု အစိတ်အပိုင်းများ မည်သည့်အကြောင်းကြောင့် ကူးယက် ပြန့်နှံ့ခြင်း မရှိခဲ့သည်ကို အဖြေရှာရဦးချေမည်။ ဗိဿဏိုးမြို့သည် သရေခေတ္တရာထက်ပင် ရှေးကျသလော ဟူသော ပြဿနာလည်း ပေါ်ပေါက်လာလေသည်။ စင်စစ်အားဖြင့် စံနစ်တကျ တူးဖော် သုတေသန လုပ်ငန်းကို ဗိဿဏိုးမြို့မှာပင် အစပြုခဲ့ရ၏။ ဤစံနစ်အတိုင်း အခြားမြို့ဟောင်း ၂ နေရာ ၃ နေရာမျှ ဆောင်ရွက်ပြီးမှသာလျှင် အခြေအမြစ် ခိုင်လုံသော ညှိနှိုင်းမှုတို့ကို ပြုလုပ်နိုင်ချေမည်။ ဗိဿဏိုးမြို့ဟောင်းတွင် ဆက်လက် တူးဖော်နေဆဲ ဖြစ်လေသည်။

**ဦးအောင်သော်**

**ဗုဒ္ဓ။** ။ဗုဒ္ဓဟူသော အမည်ကို တလောကလုံး သိရှိ နားလည်နေကြသည်မှာ ဘုရားဟု သိရှိနားလည်နေကြ၏။ သိရှိ နားလည်နေကြသည့် အတိုင်းပင် မြတ်စွာဘုရား ကိုယ်တော်တိုင်ကလည်း ဗြဟ္မာယု ပုဏ္ဏားကြီးအား "ငါဘုရားသည် သိသင့် သိထိုက်သော တရားအလုံးစုံကို သိအပ်ပေပြီ။ ပယ်သင့် ပယ်ထိုက်သော တရားအလုံးစုံကို ပယ်အပ်ပေပြီ။ ထိုကြောင့် ငါဘုရားသည် ဗုဒ္ဓဖြစ်တော်မူပေ၏။" ဟောကြားတော်မူသည်ကို ထောက်၍ ဗုဒ္ဓဟူသော အမည်ကား ဘုရား၏ အမည်တော် ဖြစ်ကြောင်း သိအပ်၏။

သို့ရာတွင် ထိုဗုဒ္ဓဟူသော အမည်သည် ဘုရားနှင့်သာ သက်ဆိုင်သည်မဟုတ်၊ ပိဋကတ်တော် အချို့တို့၌ တတ်သိလိမ္မာသော ပညာရှိ ပုဂ္ဂိုလ်များကိုလည်း ဗုဒ္ဓဟူသော အမည်ဖြင့်ပင် ဟောတော်မူထားရာကား၊ ပညာရှိ ပုဂ္ဂိုလ်များနှင့်လည်းသက်ဆိုင်နေပြန်၏။ ထိုကြောင့်ယင်းဗုဒ္ဓသည်-

(၁) သုတဗုဒ္ဓ .... ပိဋကတ် ကျမ်းဂန်တို့၌ အကြားအမြင်များသော ရဟန်း

(၂) စတုသစ္စဗုဒ္ဓ .... သစ္စာ လေးပါးကို သိသော ရဟန္တာ (တနည်း) အနုဗုဒ္ဓ၊ မြတ်စွာဘုရား ဟောကြားတော်မူသော နည်းဖြင့် သစ္စာလေးပါးကို သိသော ရဟန္တာ(သာဝက)

(၃) ပစ္စေကဗုဒ္ဓ .... နှစ်သင်္ချေနှင့် ကမ္ဘာ တသိန်း ပါရမီဖြည့်၍ သစ္စာ လေးပါးကို ကိုယ်တိုင် ထိုးထွင်း၍ သိသော ပစ္စေကဗုဒ္ဓါ (ဘုရားငယ်)

(၄) သဗ္ဗညုဗုဒ္ဓ .... လေးသင်္ချေနှင့် ကမ္ဘာတသိန်း၊ (သို့မဟုတ်) ရှစ်သင်္ချေနှင့်ကမ္ဘာတသိန်း၊ (သို့မဟုတ်) တဆဲ့ခြောက်သင်္ချေနှင့်ကမ္ဘာတသိန်း ပါရမီဖြည့်၍ တရားအလုံးစုံကို ကိုယ်တော်တိုင် ထိုးထွင်း၍ သိသောဘုရား

ဟူ၍ လေးပါး ဖြစ်လာသည်။ ထိုသို့ ဖြစ်လာငြားသော်လည်း ဗုဒ္ဓဘုရားကား တရားအလုံးစုံကို အကုန်အစင် တတ်သိ လိမ်မာသော ပညာတော်ဖြင့် ဗုဒ္ဓအမည် ခေါ်တွင်ခြင်းဖြစ်၏။ ပစ္စေက ဗုဒ္ဓါ၊ ရဟန္တာ၊ သာဝကတို့မှာကား တရားတစိတ်တဒေသကိုတတ်သိလိမ်မာသောပညာဖြင့် ဗုဒ္ဓအမည်ခေါ်တွင်ခြင်းဖြစ်၏။ သို့အတွက် ယင်းတို့မှာကား ဗုဒ္ဓဘုရားနှင့် မနှိုင်းယှဉ်အပ်၊ မနှိုင်းယှဉ်ကောင်း။သီလ၊ သမာဓိ၊ ပညာစသော အရာရာသော ဂုဏ်ကျေးဇူးမှာပင် ဗုဒ္ဓဘုရားနှင့် အလွန် ကွာခြားလှ၏။ ဗုဒ္ဓဘုရားကား လောကသုံးပါးတွင် တုဖက် ပြိုင်ဖက် မရှိသော ပုဂ္ဂိုလ်ထူး ဖြစ်သည်။

လောကသုံးပါးတွင် တတ်သိလိမ်မာသော ပညာရှိ ပုဂ္ဂိုလ်တိုင်း ဗုဒ္ဓဘုရား အမည်ကို ခံယူထိုက်သည်မဟုတ်။ (၁) ဇာတိမဟတ္တ– အမျိုးဇာတ်၏ ကြီးကျယ် မြင့်မြတ်ခြင်း၊ (၂) ပုညမဟတ္တ–ဘုန်းသမ္ဘာ ကုသိုလ် ပါရမီတော်၏ ကြီးကျယ်မြင့်မြတ်ခြင်း၊ (၃) သီလမဟတ္တ–အကျင့်သီလတော်၏ ကြီးကျယ် မြင့်မြတ်ခြင်း၊ (၄) သမာဓိမဟတ္တ–တည်ကြည် ခိုင်ခံ့သော သမာဓိတော်၏ ကြီးကျယ် မြင့်မြတ်ခြင်း၊ (၅) ဣဒ္ဓိ မဟတ္တ–တန်ခိုးတော်၏ ကြီးကျယ် မြင့်မြတ်ခြင်း၊ (၆) ဗုဒ္ဓိမဟတ္တ–ဉာဏ်ပညာတော်၏ ကြီးကျယ် မြင့်မြတ်ခြင်း၊ ဤသို့ ကြီးကျယ် မြင့်မြတ်ခြင်း အမျိုးမျိုးနှင့် ပြည့်စုံသော ပုဂ္ဂိုလ်ထူးသည်သာ လောကသုံးပါးတွင် ဗုဒ္ဓဘုရားဟူသော အမည်တော်ခံယူထိုက်သည်။ ယင်းပုဂ္ဂိုလ်ထူးမှသာ လူနတ်ဗြဟ္မာ သတ္တဝါ အများကို သံသရာဝဋ်ဆင်းရဲမှ ကယ်တင်နိုင်၏။ ထိုဗုဒ္ဓဘုရား၏ ဂုဏ်တော် ကျေးဇူးတော်တို့ကား အောက်ပါအတိုင်း ဖြစ်သည်။

(၁) ဗုဒ္ဓတ္တဝေသာရဇ္ဇ ဉာဏ်တော် (၂) အာသဝက္ခယဝေသာရဇ္ဇ ဉာဏ်တော် (၃) အန္တရာယ ဝေသာရဇ္ဇ ဉာဏ်တော် (၄) နိယျာန ဝေသာရဇ္ဇ ဉာဏ်တော်၊ ဤလေးပါးသော ဝေသာရဇ္ဇ ဉာဏ်တော်တို့ကား ပစ္စေကဗုဒ္ဓါ၊ ရဟန္တာ၊ သာဝကတို့နှင့် မသက်ဆိုင်၊ ဗုဒ္ဓဘုရားနှင့်သာ သက်ဆိုင်သော ဉာဏ်တော်တို့တည်း။

(၁) အာသယာနုသယ ဉာဏ်တော် (၂) ဣန္ဒြိယပရော ပရိယတ္တိ ဉာဏ်တော် (၃) ယမက ပါဋိဟာရိယ ဉာဏ်တော် (၄) မဟာကရုဏာ သမာပတ္တိ ဉာဏ်တော် (၅) သဗ္ဗညုတဉာဏ်တော် (၆) အနာဝရဏ ဉာဏ်တော်၊

ဤခြောက်ပါးသော အသာဓာရဏ ဉာဏ်တော်တို့ကား ပစ္စေကဗုဒ္ဓါ၊ ရဟန္တာ၊ သာဝကတို့နှင့် မသက်ဆိုင်၊ ဗုဒ္ဓဘုရားနှင့်သာ သက်ဆိုင်သော ဉာဏ်တော်တို့တည်း။

(၁) ဌာနာဌာနဉာဏ်တော် (၂) ကမ္မန္တရ ဝိပါကန္တရ ဉာဏ်တော် (၃) သဗ္ဗတ္ထဂါမိနီပဋိပဒါ ဉာဏ်တော် (၄) အနေကဓာတု နာနာဓာတု ဉာဏ်တော် (၅) ဣန္ဒြိယပရောပရိယတ္တိဉာဏ်တော် (၆) နာနာဓိမုတ္တိက ဉာဏ်တော် (၇) ဈာနာဒိသံကိလေသဝေါဒါနဝုဋ္ဌာန ဉာဏ်တော် (၈) ပုဗ္ဗေနိဝါသ ဉာဏ်တော် (၉) ဒိဗ္ဗစက္ခုစုတူပပါတ ဉာဏ်တော် (၁၀) အာသဝက္ခယ ဉာဏ်တော်၊ ဤဆယ်ပါးသော ဒသဗလ ဉာဏ်တော်တို့ကား ပစ္စေကဗုဒ္ဓါ၊ ရဟန္တာ၊ သာဝကတို့နှင့် မသက်ဆိုင်၊ ဗုဒ္ဓဘုရားနှင့်သာ သက်ဆိုင်သော ဉာဏ်တော်တို့တည်း။

(၁) ယောကျ်ားတကျိပ်အားကို ဆောင်နိုင်သော ကာဠာဝကဆင် (၂) ကာဠာဝကဆင် ဆယ်စီးအားကို ဆောင်နိုင်သော ဂင်္ဂေယျဆင် (၃) ဂင်္ဂေယျ ဆင် ဆယ်စီးအားကို ဆောင်နိုင်သော ပဏ္ဍရဆင် (၄) ပဏ္ဍရဆင် ဆယ်စီးအားကို ဆောင်နိုင်သော တမ္ဗဆင် (၅) တမ္ဗဆင် ဆယ်စီးအားကို ဆောင်နိုင်သော ပိင်္ဂလဆင် (၆) ပိင်္ဂလဆင် ဆယ်စီးအားကို ဆောင်နိုင်သော ဂန္ဓဆင် (၇) ဂန္ဓဆင် ဆယ်စီးအားကို ဆောင်နိုင်သော မင်္ဂလဆင် (၈) မင်္ဂလဆင် ဆယ်စီးအားကို ဆောင်နိုင်သော ဟေမဆင် (၉) ဟေမဆင် ဆယ်စီးအားကို ဆောင်နိုင်သော ဥပေါသထဆင် (၁၀) ဥပေါသထဆင် ဆယ်စီးအားကိုဆောင်နိုင်သော ဆဒ္ဒန္တဆင်၊ ဤဆဒ္ဒန္တဆင် ဆယ်စီးအားဟူသော ဒသဗလအားတော်တို့ကား ပစ္စေကဗုဒ္ဓါ၊ ရဟန္တာ၊ သာဝကတို့နှင့် မသက်ဆိုင်၊ ဗုဒ္ဓဘုရားနှင့်သာ သက်ဆိုင်သော အားတော်တို့တည်း။

အတိတ်၊ အနာဂတ်၊ ပစ္စုပ္ပန် တရားစုဌ် အပိတ်အပင် မရှိသော ဉာဏ်တော် (၃) ပါး၊ ကာယကံမှု၊ ဝစီကံမှု၊ မနောကံမှုသည် ဉာဏ်တော်ရှေ့သွားရှိခြင်း၊ ဉာဏ်တော်သို့ အစဉ်လိုက်ခြင်း (၃) ပါး။ ဆန္ဒ၊ ဝီရိယ၊ ဓမ္မဒေသနာ၊ သမာဓိ၊ ပညာ၊ ဝိမုတ္တိ ယုတ်လျော့မှု မရှိခြင်း (၆) ပါး။ ဒဝါ၊ ရဝါ၊ အဖုဋ္ဌ၊ ဝေဂါယိတတ္တ၊ အဗျာဝဋမန၊ အပ္ပဋိသင်္ခါ နုပေက္ခာ မရှိခြင်း (၆) ပါး။ ဤဆဲ့ရှစ်ပါးသော အာဝေဏိက ဂုဏ်တော်တို့ကား ပစ္စေကဗုဒ္ဓါ၊ ရဟန္တာ၊ သာဝက တို့နှင့် မသက်ဆိုင်၊ ဗုဒ္ဓဘုရားနှင့်သာ သက်ဆိုင်သော ဂုဏ်တော်တို့တည်း။

(၁) ပုဗ္ဗေနိဝါသာနုဿတိ ဉာဏ်တော် (၂) ဒိဗ္ဗစက္ခု ဉာဏ်တော် (၃) အာသဝက္ခယ ဉာဏ်တော်၊ ဤသုံးပါးသော ဝိဇ္ဇာ ဉာဏ်တော်တို့ကား ဗုဒ္ဓဘုရား၏ ဝိဇ္ဇာ ဉာဏ်တော်တို့တည်း။

(၁) ဝိပဿနာဉာဏ်တော် (၂) မနောမယိဒ္ဓိ ဉာဏ်တော် (၃) ဣဒ္ဓိဝိဓ ဉာဏ်တော် (၄) ဒိဗ္ဗသောတ ဉာဏ်တော် (၅) ပရစိတ္တဝိဇာနန ဉာဏ်တော် (၆) ပုဗ္ဗေနိဝါသာနုဿတိ ဉာဏ်တော် (၇) ဒိဗ္ဗစက္ခု ဉာဏ်တော် (၈) အာသဝက္ခယ ဉာဏ်တော်၊ ဤရှစ်ပါးသော ဝိဇ္ဇာဉာဏ်တော်တို့ကား ဗုဒ္ဓဘုရား၏ ဝိဇ္ဇာဉာဏ်တော်တို့တည်း။

(၁) သီလသံဝရ (၂) ဣန္ဒြိယဂုတ္တ (၃) ဘောဇနေ မတ္တညု (၄) ဇာဂရိယာနုယောဂ (၅) သဒ္ဓါ (၆) သတိ (၇) ဟိရီ (၈) ဩတ္တပ္ပ (၉) သုတ (၁၀) စာဂ (၁၁) ပညာ (၁၂) ပဌမဈာန် (၁၃) ဒုတိယဈာန် (၁၄) တတိယဈာန် (၁၅) စတုတ္ထဈာန်၊ ဤတဆဲ့ငါးပါးသော စရဏတို့ကား ဗုဒ္ဓဘုရား၏ စရဏတော်တို့တည်း။

(၁) ဝိသဋ္ဌ-သန့်ရှင်းစင်ကြယ်ခြင်း (၂) မဉ္ဇူ-သာယာခြင်း (၃) ဝိညေယျ-သိလွယ်ခြင်း (၄) သဝနိယ-နာချင်ဖွယ်ရှိခြင်း (၅) ဝိသာရီ-ပြန့်နှံ့ခြင်း (၆) ဗိန္ဒု-လုံးစည်းခြင်း (၇) ဂမ္ဘီရ-နက်ရှိုင်းခြင်း (၈) နိန္နာဒီ-ပဲ့တင်ထပ်ခြင်း၊ ဤရှစ်ပါးသော အင်္ဂါရှိသော အသံတော်ကား ဗုဒ္ဓဘုရား၏ အသံတော်တည်း။

(၁) နီလ-စိမ်းညိုသော ရောင်ခြည်တော် (၂) ပီတ-ဝါရွှေသော ရောင်ခြည်တော် (၃) လောဟိတ-နီသော ရောင်ခြည်တော် (၄) ဩဒါတ-ဖြူဖွေးသော ရောင်ခြည်တော် (၅) မဉ္ဇိဋ္ဌ-မောင်းသော (ပန်းရောင်နုကဲ့သို့သော) ရောင်ခြည်တော် (၆) ပဘဿရ-ပြိုးပြိုးပြက်သော ရောင်ခြည်တော်၊ ဤခြောက်ပါးသော ရောင်ခြည်တော်တို့ကား ဗုဒ္ဓဘုရား၏ ရောင်ခြည်တော်တို့တည်း။ (ရောင်ခြည်တော်ခြောက်ပါး — ရှု။)

(၁) ဣဿရိယ (၂) ဓမ္မ (၃) ယသ (၄) သိရိ (၅) ကာမ (၆) ပယတ္တ၊ ဤခြောက်ပါးသော ဘုန်းတော်တို့ကား ဗုဒ္ဓ ဘုရား၏ ဘုန်းတော် တို့တည်း။

သုံးဆဲ့နှစ်ပါးသော လက္ခဏာတော်ကြီး၊ ရှစ်ဆယ်သော လက္ခဏာတော်ငယ်၊ တရာ့နှစ်ကွက် စက်လက္ခဏာတော်တို့ကား ဗုဒ္ဓဘုရား၏ လက္ခဏာတော်တို့တည်း။ (လက္ခဏာတော်ကြီးငယ် — ရှု။)

ဤသို့ မရေမတွက်နိုင်သော ဘုန်းတော် ကံတော် ဉာဏ်တော် တန်ခိုးတော် အပေါင်းနှင့် ပြည့်စုံတော်မူသော ဗုဒ္ဓဘုရားသည် လောကသုံးပါး၌ ပွင့်တော်မူရန် အလွန် ရခဲသည့်အတွက် ဒုလ္လဘ ငါးပါးတွင် တပါးအပါအဝင် ဖြစ်တော်မူ၏။ ဗုဒ္ဓဘုရား ဆိတ်သုဉ်းသည့် သုညကမ္ဘာတွေ အကြားဝယ် တရံတခါမျှသာ ပွင့်တော်မူ၏။ ပွင့်တော်မူသောအခါ၊ လူနတ်၊ ဗြဟ္မာ သတ္တဝါ အလုံးစုံတို့၏ လောကီ၊ လောကုတ္တရာ နှစ်ဖြာသော အကျိုးစီးပွားကိုသာ ဆောင်ရွက်တော်မူ၏။

ထိုဗုဒ္ဓဘုရားသည် (၁) ပညာဓိက (၂) သဒ္ဓါဓိက (၃)

ဝိရိယာဓိက ဟူ၍ သုံးပါးရှိသည်။ ထိုသုံးပါးတို့တွင် ပညာဓိကသည် နိယတဗျာဒိတ်ခံယူပြီးနောက် ဘုရားဖြစ်ကြောင်း အကျင့်တို့ကို လေးသင်္ချေနှင့် ကမ္ဘာတသိန်း ဖြည့်ကျင့်ဆည်းပူးရ၏။ သဒ္ဓါဓိကသည် နိယတဗျာဒိတ် ခံယူပြီး နောက် ဘုရားဖြစ်ကြောင်း အကျင့်တို့ကို ရှစ်သင်္ချေနှင့် ကမ္ဘာတသိန်း ဖြည့်ကျင့်ဆည်းပူးရ၏။ ဝိရိယာဓိကသည် နိယတဗျာဒိတ် ခံယူပြီးနောက် ဘုရားဖြစ်ကြောင်း အကျင့်တို့ကို တဆဲ့ခြောက်သင်္ချေနှင့် ကမ္ဘာတသိန်း ဖြည့်ကျင့် ဆည်းပူးရ၏။

ဘုရားဖြစ်ကြောင်း အကျင့်တို့ကား– (၁) ဒါနပါရမီ (၂) သီလပါရမီ (၃) နေက္ခမပါရမီ (၄) ပညာပါရမီ (၅) ဝီရိယ ပါရမီ (၆) ခန္တီပါရမီ (၇) သစ္စာပါရမီ (၈)အဓိဋ္ဌာန် ပါရမီ (၉) မေတ္တာ ပါရမီ (၁၀) ဥပေက္ခာပါရမီ ဟူ၍ ဆယ်ပါး ဖြစ်သည်။

ထိုပါရမီ ဆယ်ပါးကိုပင် မိမိ၏ ခန္ဓာကိုယ်မှအပ ဗာဟိရ ဖြစ်သော ပစ္စည်းဥစ္စာ ပြည်ရွာတိုင်းကား စသည်တို့ကို မငဲ့ ကွက်ဘဲ ဖြည့်ကျင့် ဆည်းပူးရသော သာမန် ပါရမီ ဆယ်ပါး။ ခန္ဓာကိုယ်၏ အစိတ်အပိုင်းဖြစ်သော မျက်စိ၊ နား၊ နှာ၊ ခြေ၊ လက်စသော အင်္ဂါတို့ကို မငဲ့ကွက်ဘဲ ဖြည့်ကျင့် ဆည်းပူးရသော ဥပပါရမီ ဆယ်ပါး။ မိမိ၏ အသက်ကိုပင် မငဲ့ကွက်ဘဲ ဖြည့်ကျင့် ဆည်းပူးရသော ပရမတ္ထ ပါရမီဆယ်ပါးအားဖြင့် အပြား သုံးဆယ် ဖြစ်လာသည်။ ထိုအပြား သုံးဆယ်ကို ဖြည့်ကျင့် ဆည်းပူးရ၏။

(၁) ဓနပရိစ္စာဂ- မိမိ၏ အသက်နှင့် ကိုယ်အင်္ဂါ အစိတ်အပိုင်းမှအပ ဗာဟိရဖြစ်သော စွန့်နိုင်ခဲသော ပစ္စည်းဥစ္စာတို့ကို စွန့်ခြင်း (၂) အင်္ဂပရိစ္စာဂ- မိမိ၏ ကိုယ်အင်္ဂါ အစိတ်အပိုင်းကို စွန့်ခြင်း (၃) ပုတ္တပရိစ္စာဂ- သားသမီးကိုစွန့်ခြင်း (၄) ဘရိယပရိစ္စာဂ-မယားကို စွန့်ခြင်း (၅)ဇီဝိတပရိစ္စာဂ- မိမိအသက်ကို စွန့်ခြင်း၊ ဤစွန့်ခြင်းကြီး ငါးပါးကိုလည်း စွန့်ရ၏။

(၁) လောကတ္ထ စရိယ-လူ၊ နတ်၊ ဗြဟ္မာ သတ္တဝါ ခပ်သိမ်းတို့ အကျိုးစီးပွားအတွက် ဖြည့်ကျင့် ဆည်းပူးရခြင်း (၂) ဉာတတ္ထစရိယ-ဆွေတော်မျိုးတော်တို့ အကျိုးစီးပွား အတွက် ဖြည့်ကျင့် ဆည်းပူးရခြင်း (၃) ဗုဒ္ဓတ္ထစရိယ- ဘုရားဖြစ်ရန် အကျိုးစီးပွားအတွက် ဖြည့်ကျင့် ဆည်းပူးရခြင်း၊ ဤသုံးပါးသော စရိယတို့ကို ဖြည့်ကျင့် ဆည်းပူးရ၏။

ဤသို့ ပါရမီ ဆယ်ပါး၊ အပြား သုံးဆယ်၊ စွန့်ခြင်းကြီး ငါးပါး၊ စရိယ သုံးပါးတို့ကား ဘုရားဖြစ်ကြောင်း အကျင့်တို့တည်း။ ထိုအကျင့်တို့ကို ပညာဓိက၊ သဒ္ဓါဓိက၊ ဝိရိယာဓိက ဘုရားသုံးပါးလုံးပင် မိမိတို့ အသီးအသီး ပိုင်းခြား သတ်မှတ်ထားသော အခါကာလ ကုန်ဆုံးအောင် ဖြည့်ကျင့် ဆည်းပူးကြရ၏။ ထိုသို့ ဖြည့်ကျင့်ဆည်းပူးမှသာ ဘုရားဖြစ်နိုင်ကြသည်။

အထူးအားဖြင့် ဘုရားသုံးပါးတို့ နိယတဗျာဒိတ် ခံယူပြီး နောက် ဘုရားဖြစ်ကြောင်း အကျင့်တို့ကို ဖြည့်ကျင့် ဆည်းပူးရာ ပါရမီဖြည့်ရာ ပိုင်းခြားသတ်မှတ်ထားသော အခါကာလချင်း မတူသော်လည်း ဘုရားဖြစ်လာသောအခါ၌ကား (သဗ္ဗေဗုဒ္ဓါ သမသမာ) ဟု ဟောတော်မူသည့်အတိုင်း သီလ၊ သမာဓိ၊ ပညာစသော ဘုရားတို့ ရသင့်ရထိုက်သော ဂုဏ်ကျေးဇူးတော်တို့ကား အတူတူ အညီအမျှပင် ဖြစ်ပေသည်။

**ဦးကြီးဖေ**

**ဗုဒ္ဓဂယာ**။ ။ကမ္ဘာပေါ်၌ အယူဝါဒ အမျိုးမျိုးရှိကြရာ၊ မိမိတို့ အယူဝါဒဆိုင်ရာ မင်္ဂလာရှိသော မြေမြတ်ဟု တနေရာ ရာကို ရိုသေမြတ်နိုးစွာ သတ်မှတ်ပိုင်းခြားမှု ပြုကြမြဲဖြစ်သည်။ ဗုဒ္ဓဝါဒီတို့သည်လည်း သဗ္ဗညု ဘုရားရှင်နှင့် စပ်လျဉ်း၍ ထူးမြတ်သော မင်္ဂလာအောင်မြေ အရပ်များကို သတ်မှတ်ထားလေသည်။ ထိုအောင်မြေ အရပ်များတွင်

(၁) ဂေါတမ ဘုရားအလောင်းတော် ဖွားမြင်ရာ လုမ္ဗိနီ ဥယျာဉ်၊

(၂) သဗ္ဗညုတ ဉာဏ်တော် ရရှိတော်မူရာ မဟာဗောဓိ အောင်မြေ၊

(၃) ဓမ္မစကြာ တရားဦး ဟောတော်မူရာ မိဂဒါဝုန် တော၊

(၄) ပရိနိဗ္ဗာန် စံတော်မူရာ ကုသိနာရုံ အင်ကြင်း တောတို့ ပါဝင်လေသည်။ အဆိုပါ လေးဌာနကို ဘုရားဖူး လာသူ အပေါင်းတို့အား ဓမ္မသံဝေဂ ဖြစ်စေကာ နတ်ရွာ သုဂတိသို့ လားရောက်စေတတ်သော ဌာနထူး ဌာနမြတ် များ ဖြစ်ကြသည်ဟု ဆိုသည်။ တဖန် ယင်းဌာန လေးခု အနက် မဟာဗောဓိ အောင်မြေအရပ်သည် အထူးမြတ် အလွန်ကဲဆုံး ဖြစ်သည်။ ကမ္ဘာဦးအခါ နိမိတ်ပြကြာရုံကြီး များသည် မဟာဗောဓိပင်နေရာမှ ပေါက်၍၊ မြေပြင် ပေါ် ထွန်းရာတွင်လည်း ဦးစွာ ပေါ် ထွန်းပြီးလျှင်၊ကမ္ဘာပျက်ရာ၌ လည်း နောက်ဆုံးမှ ပျက်သည်ဟု ကျမ်းဂန်များ၌ လာရှိ သည်။ ထိုပြင် ဗောဓိပင်နှင့် ပလ္လင်တော်နေရာသည် ပွင့် လေသော ဘုရားရှင်တိုင်း မစွန့်လွှတ်အပ်သော၊ သို့မဟုတ် လွှဲပြောင်းခြင်း မရှိသော အဝိဇဟိတဌာန လေးပါးတွင် တပါးအပါအဝင် ဖြစ်သည်။

ယင်းကဲ့သို့ ဗုဒ္ဓအယူဝါဒီတို့အဖို့ လွန်ကဲထူးမြတ်သော မဟာဗောဓိ အောင်မြေ၊ သို့မဟုတ် ဗောဓိပင်နှင့် ရွှေပလ္လင် တို့ တည်ရှိခဲ့သော နေရာဒေသ ပတ်ဝန်းကျင်တဝိုက်ကို ဗုဒ္ဓဂယာဟု ခေါ်သည်။ ဗုဒ္ဓဂယာသည် အိန္ဒိယနိုင်ငံ ဗီဟား ပြည်နယ်တွင် တည်ရှိသည်။ ကာလကတ္တားမြို့မှ မီးရထား



ဗုဒ္ဓဂယာရှိ မဟာဗောဓိ စေတီတော်

လမ်းအားဖြင့် ၂၈၂ မိုင် ကွာဝေးသော ဂယာခရိုင်ထဲတွင် တည်ရှိ၍ ဂယာမြို့မှ တောင်ဖက် ၇ မိုင်ဝေးသည်။ ဂယာဘူတာမှ ဗုဒ္ဓဂယာသို့ တက္ကစီမော်တော်ကား၊ မြင်းလှည်း စသည်တို့ဖြင့် လွယ်ကူစွာ သွားရောက်နိုင်သည်။ ရှေးယခင်က ထိုနေရာဒေသတဝိုက်ကို မဟန့်ခေါ် ဟိန္ဒူ ဘုန်းကြီးများ ကြီးစိုးခဲ့ရာ၊ ဗုဒ္ဓအယူဝါဒီ ဘုရားဖူးများအတွက် များစွာ အနှောင့်အယှက် တွေ့ကြရသည်။ ယခုအခါတွင်မူ အိန္ဒိယပြည်ထောင်စု အစိုးရက ဗုဒ္ဓဂယာကို ၁၉၄၉ ခုနှစ် ဘုရားကျောင်းကန် အက်ဥပဒေအရ ၁၉၅၃ ခုနှစ် မေလ ၂၇ ရက်နေ့မှစ၍ အုပ်ချုပ်ရေး အဖွဲ့ဖြင့် အုပ်ချုပ်လျက် ရှိသည်။ ထိုပြင် အစိုးရက ငွေမြောက်မြားစွာ အကုန်အကျခံ၍ သာသနာ့ အဆောက်အအုံများကို ပြင်ဆင်မွမ်းမံပေးလေသည်။

ဗုဒ္ဓဂယာသည် ဗုဒ္ဓအယူဝါဒီ အပေါင်းတို့၏ အထွတ်အမြတ်ဆုံး ဖြစ်ခြင်းမှာ ထိုဒေသ၌ မြတ်စွာဘုရားသခင်သည် သဗ္ဗညုတ ရွှေဉာဏ်တော်ကို ရရှိ၍ မာရ်ငါးပါးကို အောင်မြင်ခဲ့သော အောင်မြေ ဖြစ်သောကြောင့်တည်း။ ထိုအရပ်ကို မြန်မာတို့က ဗောဓိမဏ္ဍာ၊ သို့မဟုတ် ဗောဓိမဏ္ဍိုင်ဟု ခေါ်ဝေါ်လေသည်။

ဘုရားရှင်သည် ဘုရားအဖြစ်ကို ပွင့်တော်မူပြီးနောက်တွင် ထိုဒေသတဝိုက်ရှိ ဌာနခုနစ်ဌာနတွင် တဌာနလျှင် ခုနစ်ရက်စီ သတ္တသတ္တာဟ စံတော်မူခဲ့သည်။ (သတ္တဌာန — ရှု။) ထိုဌာနတို့သည် ဗုဒ္ဓဂယာ၌ အဓိက ဖူးမျှော်ဖွယ်ရာများတွင် ပါဝင်ကြပေသည်။ ဗုဒ္ဓဂယာ၌ အဓိက ဖူးမျှော်ရန် ဌာနများမှာ—

**(၁) မဟာဗောဓိ စေတီတော်။** ။ထိုစေတီတော်သည် နှစ်ပေါင်း နှစ်ထောင်ကျော် ကြာခဲ့ပြီးဖြစ်၍၊ သီရိဓမ္မာသောက မင်းကြီး နန်းစံ ၁၀ နှစ် ၁၁ နှစ်ခန့်တွင် စတင်တည်ထားသော ဘုရားရှင် ပွင့်တော်မူရာ အထိမ်းအမှတ် စေတီဖြစ်သည်။ သီရိဓမ္မာသောက မင်းကြီး၏ နောက် ဗုဒ္ဓဝါဒီ မင်းများက ထပ်မံမွမ်းမံကြ၍၊ ဗြိတိသျှ အစိုးရ လက်ထက်တွင် မြန်မာဘုရင် မင်းတုန်းမင်း၏ အလိုအရ ဗြိတိသျှ အစိုးရက မွမ်းမံပြင်ဆင်ပေးသည်။ အိန္ဒိယအစိုးရ လက်ထက်တွင် ဘုရားကျောင်းကန် အုပ်ချုပ်ရေး အဖွဲ့က အုပ်ချုပ်၍ မွမ်းမံပြင်ဆင်ခြင်းများ ပြုလုပ်ပေးသည်။ ထိုစေတီတော်ကြီးသည် ဉာဏ်တော်အမြင့် ပေ ၁၇၀ ခန့် ရှိသည်။ အရင်းကားပြီးလျှင် အဖျားရှူးသော လေးထောင့်ပုံသဏ္ဍာန်ရှိ၍ ဗိသုကာလက်ရာ ထူးခြား ကောင်းမွန်လှသည်။ စေတီတော်သည် နှစ်ဆင့်ဖြစ်သည်။ အောက်ပိုင်းသည် ဂူကျောင်းပုံဖြစ်၍ အတွင်း၌ ရုပ်ပွားတော်တဆူ ကိန်းဝပ်လျက် ရှိသည်။ အပေါ်ပိုင်းသည် စေတီဖြစ်သည်။ စေတီတော်၏ ဖိနပ်တော် ထောင့်လေးထောင့်၌ စေတီမကြီး၏ ပုံသဏ္ဍာန်မျိုး အငယ်စေတီတဆူစီ ရှိသည်။

**(၂) မဟာဗောဓိပင်။** ။ဗုဒ္ဓအယူဝါဒီ ဘုရားဖူးများအတွက် ဗုဒ္ဓဂယာ၌ အဓိက ဖူးမျှော်ကြသော မဟာဗောဓိပင်သည် ပေတရာခန့် မြင့်သည်။ မဟာဗောဓိစေတီ၏ အနောက်ဖက်တွင် ရှိသည်။ မြတ်စွာဘုရားသခင်၏ ဖွားဖက်တော်တပါးဖြစ်၍၊ သဗ္ဗညုတ ရွှေဉာဏ်တော်ကို ရရှိခဲ့ရာဖြစ်သည့် မူလဗောဓိပင်ကား မဟုတ်ပေ။ သမိုင်းများအဆိုအရ ဟိန္ဒူဘုရင် သသင်္ကသည် ထိုဗောဓိပင်ကို ခုတ်လှဲဖျက်ဆီးခဲ့သည်။ သို့သော် ထိုမဟာဗောဓိပင်၏ အမြစ်နေရာမှပင် ဗောဓိပင်တပင် ပေါက်လာသည်။ ထိုဗောဓိပင်သည်လည်း ၁၇၇၀ ပြည့်နှစ်တွင် အပင်လဲသွားရာ၊ ထိုအချိန်က မဟာဗောဓိစေတီကို ဗြိတိသျှ အစိုးရ အမိန့်ဖြင့် ပြင်ဆင် မွမ်းမံလျက်ရှိသော ဆာ အယ်လက်ဇန္ဒာ ကန္နင်ဂမ်က မူလ ဗောဓိပင်နေရာ၌ လဲကျသွားသော ပင်မကြီးမှ အကိုင်းတကိုင်းကို ပြန်၍ စိုက်ပျိုးထားခဲ့ရာ၊ ယခု ဖူးတွေ့ကြရသော မဟာဗောဓိပင်သည် ထိုဗောဓိပင်ပွား ဖြစ်လေသည်။

**(၃) သတ္တသတ္တာဟ ဌာနများ။** ။(က) ဝဇီရာသနပလ္လင်တော်။ ထိုပလ္လင်တော်သည် မဟာဗောဓိပင်၏ ခြေရင်း၌ရှိ၍၊ မြတ်စွာဘုရားသခင် သဗ္ဗညုတ ရွှေဉာဏ်တော်

ရရှိသည့် အပရာဇိတပလ္လင်၏ နေရာဟု ဆိုသည်။ ထိုနေရာသည် စကြဝဠာ၏ ဗဟိုချက်ဟုလည်း ဆိုကြသည်။ ဝဇိရာသနပလ္လင်သည် အနုပညာ လက်ရာမြောက်လှစွာ ထုထွင်းထားသော ကျောက်သား ပလ္လင်တော် ဖြစ်သည်။ ထိုပလ္လင်တော်သည် မဟာဗောဓိပင်နှင့် မဟာဗောဓိစေတီတို့၏အကြား မဟာဗောဓိပင်၏ အရှေ့ဖက်၌ ရှိလေသည်။

ဘုရားရှင်သည် ဘုရားအဖြစ်ကို ရတော်မူပြီးသည်မှစ၍ အပရာဇိတပလ္လင်ပေါ်မှ မထဘဲ ခုနစ်ရက်တိုင်တိုင် အရဟတ္တဖိုလ် ချမ်းသာကို ခံစားတော်မူသည်။ ယင်းသို့ ပလ္လင်ထက်၌ ခုနစ်ရက်စံတော်မူခဲ့သည့် ပဌမသတ္တာဟကို ပလ္လင်သတ္တာဟဟု ခေါ်လေသည်။

(ခ) အနိမိသ ဌာန။ ။ခုနစ်ရက်မြောက်၍ ပလ္လင်ထက်မှ ထလျှင် နတ်ဗြဟ္မာအပေါင်းတို့စိတ်၌ ဘုရားအဖြစ်သို့ ရောက်ခြင်းတွင် သံသယ ရှိနေသည်ကို ပယ်ဖျက်ရန်ကောင်းကင်သို့ တက်၍ တန်ခိုးပြာဋိဟာ ပြတော်မူသည်။ ယင်းသည့်နောက် ပလ္လင်၏ အရှေ့မြောက်ထောင့် ၁၀၄ ပေခန့်အကွာတွင် ရပ်တော်မူ၍သဗ္ဗညုတ ရွှေဉာဏ်တော်ကို ရရာပလ္လင်တော်နှင့် ဗောဓိပင်ကို မမှိတ်မသုံ ကြည့်၍ ခုနစ်ရက်စံတော်မူခဲ့သည့်နေရာကို အနိမိသသတ္တာဟဟုခေါ်၍ ဒုတိယသတ္တာဟ ဖြစ်သည်။ ထိုနေရာတွင် အထိမ်းအမှတ် တည်ထားသော အနိမိသ စေတီတဆူ ရှိသည်။

(ဂ) ရတနာ စင်္ကြံတော်။ ။မဟာဗောဓိ စေတီတော်ကြီး မြောက်ဖက်တွင် ကပ်လျက်၊ အရှေ့အနောက် ပေခြောက်ဆယ်ခန့်အတွင်း ကျောက်ကြာပွင့် ဆဲ့တပွင့်ရှိရာ ဌာနသည် အနိမိသသတ္တာဟ စံတော်မူပြီးနောက် ရတနာစင်္ကြံကို ဖန်ဆင်းကာ ခုနစ်ရက်ပတ်လုံး စင်္ကြံကြွလျက် တတိယ သတ္တာဟကို သိတင်းသုံးခဲ့သော နေရာ ဖြစ်သည်။ ထိုနေရာကို ရတနစင်္ကမနသတ္တာဟဟု ခေါ်သည်။

(ဃ) ရတနာဃရ ရွှေအိမ်တော်။ ။မဟာ ဗောဓိစေတီတော်ကြီး၏ အနောက်မြောက် ပေ ၇၀ ခန့်တွင် နတ်တို့ ဖန်ဆင်းအပ်သော ရတနာဃရ ရွှေအိမ်၌ ပဌာန်းကျမ်းကို သုံးသပ်လျက်၊ ခုနစ်ရက် စံတော်မူခဲ့သည်။ ထိုနေရာကို ရတနဃရသတ္တာဟဟု ခေါ်သည်။ စတုတ္ထသတ္တာဟ စံခဲ့သော ထိုနေရာတွင် ယခုအခါ အုတ်တိုက် စေတီငယ်တဆူရှိ၍၊ အနုပညာ လက်ရာမြောက်သော ထုပါကျောက်တိုင်များဖြင့် ဝန်းရံလျက် ရှိသည်။

(င) အဇပါလ ညောင်ပင်။ ။မဟာဗောဓိ စေတီတော်ကြီး၏ အရှေ့မျက်နှာ ပေ ၇၀ ခန့်တွင် မြတ်စွာဘုရားသခင်သည် မာရ်နတ်သမီးတော် သုံးပါးနှင့် ဟုံဟုံကပုဏ္ဏားတို့ကို ဆုံးမ၍ ခုနစ်ရက် သိတင်းသုံးတော်မူခဲ့သော အဇပါလဆိတ်ကျောင်း ညောင်ပင် ရှိခဲ့သည်။ ထိုနေရာတွင် ကျောက်စာ ဌာနက အထိမ်းအမှတ် စိုက်ထူထားသော ကျောက်တိုင်ရှိသည်။ ပဥ္စမ သတ္တာဟ စံခဲ့သော ထိုနေရာကို အဇပါလသတ္တာဟဟု ခေါ်သည်။

(စ) မုစလိန္ဒာအိုင်။ ။ဘုရားရှင် ဆဋ္ဌ သတ္တာဟကို စံတော်မူခဲ့သည့် နေရာ ဖြစ်သည်။ မဟာဗောဓိ စေတီတော်ကြီး၏ အရှေ့တောင်ဖက် ပေ ၁၇၀ ခန့်တွင် မုစလိန္ဒာအိုင်ရှိခဲ့ရာ၊ ထိုအိုင်အနီး ကျည်းပင်ရင်း၌ ခုနစ်ရက် စံနေစဉ်မိုးကြီးစွေသဖြင့် မုစလိန္ဒ နဂါးမင်းက မိမိပါးပျဉ်းဖြင့်မိုး၍ကိုယ်ကိုခွေလျက် ပလ္လင်ပြုကာ လျှုဒါန်းခြင်းကို ခြီးမြှောက်စံနေတော်မူခဲ့သည်။ ထိုနေရာကို အထိမ်းအမှတ်ပြုသော အဆောက်အအုံ မတွေ့ရတော့သော်လည်း တခါက ရှိခဲ့ဘူးဟန်တူ၍ မြေအောက် မြုပ်နေဟန် ရှိကြောင်း အထောက်အထား အစအနများ တွေ့ရသည်။ ထိုသတ္တာဟကို မုစလိန္ဒသတ္တာဟဟု ခေါ်သည်။

(ဆ) ရာဇာယတန လင်းလွန်းပင်။ ။မဟာဗောဓိစေတီတော်ကြီး၏ တောင်ဖက် ပေ ၇၀ ခန့်တွင် ဘုရားရှင်သတ္တမသတ္တာဟ စံတော်မူခဲ့သော လင်းလွန်းပင်နေရာ ဖြစ်ခဲ့သည်။ ထိုနေရာတွင် ယခု အထိမ်းအမှတ် အုတ်တိုက်စေတီရှိသည်။ ထိုနေရာကို ရာဇာယတနသတ္တာဟဟု ခေါ်သည်။

ထိုနေရာ၌ ခုနစ်ရက် စံတော်မူပြီး၍၊ ဘုရားအဖြစ် ရရှိပြီးသည်မှ ၄၉ ရက်မြောက်တွင် ထိုလင်းလွန်းပင်ရင်း၌ပင် ဥက္ကလာ ဇနပုဒ်မှ တပုဿ-ဘလ္လိက ကုန်သည် ညီနောင်တို့အား ဆံတော်ရှစ်ဆူ ပေးသနားတော်မူ၍ သရဏဂုံ နှစ်ပါးတည်စေခဲ့သည်။ ဆံတော်များကို ရွှေတိဂုံ စေတီ၌ ဌာပနာထားလေသည်။ (ရွှေတိဂုံဘုရား၊ ဘလ္လိကနှင့် တပုဿ — ရှု။)

ဆိုခဲ့သော အဓိက ဌာနများ အပြင်၊ အလောင်းတော် ဆံတော်ပယ်ရာ အနေ်ာမာ သောင်ကမ်းနေရာ၊ ဒုက္ကရစရိယ ၆ နှစ်ကျင့်ရာ ဥရုဝေဠ တောတန်း (မဟာဗောဓိစေတီတော်မှ အရှေ့ မြောက်ဖက်၊ နေရဉ္စရာမြစ်၏ အရှေ့ဖက် ၆ မိုင်ခန့်)၊ သေနနိဂုံးရွာမှ သဌေးသမီး သုဇာတာ ဃနာနို့ဆွမ်းချက်ရာဌာန၊ ဃနာနို့ဆွမ်းကို ဘုရားရှင် ဘုဉ်းပေးရာဌာန၊ နို့ဆွမ်းထည့်သော ရွှေခွက်ကို အဓိဋ္ဌာန်ဖြင့် မျှောရာဖြစ်သော နေရဉ္စရာမြစ် စသည်တို့ကိုလည်း အနီးပတ်ဝန်းကျင် တဝိုက်၌ လှည့်လည် ဖူးမျှော်နိုင်ကြလေသည်။

ဆိုခဲ့ပြီးသော မဟာဗောဓိပင်နှင့်တကွ သတ္တဌာနတို့တည်ရှိရာ နယ်မြေကို ဘုရားရှင် လက်ထက်တော်အခါက ဂယာဟု မခေါ်သေး။ ထိုစဉ်က ဂယာဟူသည် သီးခြားဒေသတခု၏ အမည်ဖြစ်သည်။ မြတ်စွာဘုရားသည် ဘုရားဖြစ်တော်မူပြီးနောက် ဓမ္မစကြာ တရားဦး ဟောတော်မူရန် မဟာဗောဓိပင်မှ တဆဲ့ချစ်ယူဇနာ ကွာဝေးသော မိဂဒါဝုန်တောသို့ ခြေလျင် ကြွတော်မူရာ မဟာဗောဓိပင်နှင့် ဂယာ

၏စပ်ကြား၌ ဥပကအမည်ရှိ တက္ကတွန်းနှင့် တွေ့ဆုံကြောင်း ဝိနည်းမဟာဝါ ပါဠိတော်နှင့် အဋ္ဌကထာတို့၌ လာရှိသည်။ ဋီကာ၌လည်း မဟာဗောဓိနှင့် ဂယာသည် သုံးဂါဝုတ် ကွာကြောင်း ပြဆိုသည်။ မဟာဗောဓိပင်ရှိရာ နယ်မြေသည် ဂယာနယ်တွင် အပါအဝင်ဖြစ်ခဲ့သော် ဤသို့ပြဆိုရန် မရှိပေ။ သို့ဖြစ်၍ မြတ်စွာဘုရား ပွင့်တော်မမူမီကပင် မဟာဗောဓိပင်နှင့် သုံးဂါဝုတ် ဝေးသော အရပ်၌ ဂယာဟု ခေါ်သော အရပ် သီးခြားရှိသည်။ ဘုရား ပရိနိဗ္ဗာန်ပြုပြီးနောက်တွင် ဂယာနယ် ကျယ်ပြန့်လာ၍ မဟာဗောဓိပင်ရှိသော အရပ်သည် ဂယာနယ်အတွင်းဝင်သွားပြီးလျှင်၊ ဗုဒ္ဓဘုရားရှင် သဗ္ဗညုတ ရွှေဉာဏ်တော် ရခြင်းနှင့် စပ်လျဉ်းသော ဒေသတဝိုက်ကို ဗုဒ္ဓဂယာဟု ခေါ်တွင်လာသည်။ ဗုဒ္ဓဂယာ၌ ဘုရားရှင် သဗ္ဗညုတဉာဏ် ရရှိခြင်းနှင့် စပ်လျဉ်းသောနေရာများတွင် အဓိကရ အထိမ်းအမှတ်များ ပဌမဆုံး စတင်စိုက်ထူခဲ့သူမှာ အသောကခေါ် သီရိဓမ္မာသောကမင်းကြီး ဖြစ်လေသည်။



ရန်ကုန်မြို့ ဗိုလ်တထောင်ရပ်၊ ၆၂-လမ်းရှိ ဗုဒ္ဓဘာသာ ကလျာဏယုဝတီအသင်းတိုက်

**ဗုဒ္ဓဘာသာ ကလျာဏယုဝ ကုမာရီအသင်း။** ။မြန်မာကုမာရီ အသင်းများ — ရှု။

**ဗုဒ္ဓဘာသာ ကလျာဏယုဝတီအသင်း။** ။တွဲရေး ခွဲရေးပြဿနာများ ပေါ်ပေါက် လာခဲ့ပြီးနောက် ဗုဒ္ဓဘာသာ မြန်မာ မိန်းမများအသင်း စခန်းသိမ်းသွားသောအခါ အမျိုးသမီး အဖွဲ့ကြီး ဟူ၍ မည်မည်ရရ မရှိတော့သဖြင့် ၁၉၃၁ ခုနှစ်ခန့်တွင် မင်းကြီးကတော် ဒေါ်မြမေ၊ ဝတ်လုံကတော် ဒေါ်စောတင်တို့က ကြိုးမှူး၍ မြန်မာ အမျိုးသမီးအဖွဲ့ကို တည်ထောင်ကြသည်။ ယင်းအဖွဲ့သည် လူမှုရေးကိုသာ ဦးစားပေး၍ ဆောင်ရွက်ခဲ့ကြရုံမက အဖွဲ့ဝင်များသည် ဘာသာမျိုးစုံ ဖြစ်နေသဖြင့် ဗုဒ္ဓဘာသာနှင့် သာသနာရေးကိုပါ ဆောင်ရွက်နိုင်ရန် အမျိုးသမီး အသင်းတခု ရှိသင့်သည်ဟု ယူဆသည်က တကြောင်း၊ ဗုဒ္ဓဘာသာ ကလျာဏယုဝ အသင်း ဟူ၍ ရှိသော်လည်း၊ ဗုဒ္ဓဘာသာ ကလျာဏယုဝတီ အသင်း ဟူ၍ သီးခြား မရှိခြင်း၊ ဗုဒ္ဓဘာသာ ကလျာဏယုဝ အသင်းတွင်လည်း အမျိုးသမီးများ အသင်းသူအဖြစ် ပါဝင်နိုင်ခွင့်မရှိခြင်းကြောင့်တကြောင်း ဗုဒ္ဓဘာသာ ကလျာဏ ယုဝတီ အသင်းဟူ၍ သီးခြားတည်ထောင်ခဲ့ကြသည်။

ဗုဒ္ဓဘာသာ ကလျာဏ ယုဝတီ အသင်းကြီးကို ၁၃၁၂ ခုနှစ်၊ တပို့တွဲလပြည့်ကျော် ၃ ရက်၊ (၁၉၅၁ ခုနှစ်၊ ဖေဖွာရီလ ၂၄ ရက်)နေ့တွင် တည်ထောင်သည်။ အသင်း၏ ရည်ရွယ်ချက်များမှာ ဗုဒ္ဓဘာသာ စာပေ ပရိယတ္တိများကို သီးခြား လေ့လာဆည်းပူး ရှာမှီးရေးနှင့် အနှံ့ အပြား ပြန့်ပွားထွန်းကားရေးတို့အတွက် ဆောင်ရွက် ကြိုးပမ်းရန်၊ ရှင်တော်ဘုရား ဟောကြားခဲ့သည့် တရားတော်များကို ကိုယ်တွေ့အားဖြင့် နည်းမှန်လမ်းကျ အားထုတ် ဆည်းပူး၍ ပေါင်းသင်းအားပေးရန်၊ ဗုဒ္ဓဘာသာဝင် အချင်းချင်း ကူညီယိုင်းပင်း ညီညွတ်ခြင်းနှင့် အဆင့်အတန်း တိုးတက်စေမည့် အကြောင်းကို အားပေးကူညီရန်နှင့် အသင်းသူများနှင့် အခြား ဗုဒ္ဓဘာသာဝင် ပုဂ္ဂိုလ်များ၏ ကာယဗလ၊ ဉာဏဗလ တိုးတက်ရေးအတွက် ပေါင်းသင်းဆက်ဆံမှု၏ အကြောင်းကို ဖြစ်ထွန်းရေးများအတွက် ဆောင်ရွက်ရန်တို့ဖြစ်သည်။

အသင်းကြီး၏ ဥက္ကဋ္ဌမှာ အငြိမ်းစား နိုင်ငံတော် တရားဝန်ကြီးချုပ် ဦးသိမ်းမောင်၏ ဇနီး ဒေါ်စောတင် ဖြစ်ပြီးလျှင် မြို့တော်ရှိ အမျိုးသမီးများက အမှုဆောင်အဖြစ် ပါဝင်ဆောင်ရွက်ကာ အသင်း စတင်တည်ထောင်သည့်နေ့မှစ၍ အထက်ပါ ရည်ရွယ်ချက်များ အောင်မြင်ရန် ဗုဒ္ဓဘာသာနှင့် စပ်လျဉ်းသည့် ကိစ္စများကို ဆောင်ရွက်ခဲ့သည်သာမက၊ ၁၉၅၂ ခုနှစ် စက်တင်ဘာလတွင် ဂျပန်နိုင်ငံ၌ ကျင်းပခဲ့သော ကမ္ဘာ့ ဗုဒ္ဓဘာသာ ကွန်ဖရင့်သို့လည်း ကိုယ်စားလှယ် စေလွှတ်ခဲ့သည်။ နှစ်စဉ် ကထိန်သင်္ကန်း ကပ်လှူခြင်း၊ ပျက်စီးယိုယွင်းလျက်ရှိသော ဘုရားကျောင်းများကို ပြုပြင်ရှင်းလင်းခြင်း စသည့် ဝေယျာဝစ္စကိစ္စများကို ဆောင်ရွက်ခဲ့သည်သာမက ဆဋ္ဌသင်္ဂါယနာတင် ပွဲတော်ကြီး၌လည်း အသင်းအနေဖြင့် ငွေအား လုပ်အား ကူညီဆောင်ရွက်ခဲ့လေသည်။ ထို့ပြင် ဗုဒ္ဓဘာသာ ကလျာဏယုဝ အသင်းမှ ကြိုးမှူး ကျင်းပသည့် မင်္ဂလာ တရားတော် စာမေးပွဲများတွင် စကောလားရှစ် ဆုရကြသူများအား စကောလားရှစ်ဆုပေးသည့် အခမ်းအနားတိုင်းတွင် အသင်းကြီးမှ

အကျွေးအမွေးဖြင့် ဧည့်ခံလေသည်။ အသင်းကြီးသည် ဗုဒ္ဓဘာသာဝင် အမျိုးသမီး အလုပ်သမားများ၏ ကာယဗလ၊ ဉာဏဗလ တိုးတက်ရေးနှင့် ပေါင်းသင်းဆက်ဆံမှု ပြေပြစ်စွာနှင့် အဖိုးနှုန်းသက်သာစွာဖြင့် တည်းခိုနိုင်မည့် ဂေဟာ ဖြစ်မြောက်ရန်အတွက် ကြိုးစားခဲ့သည့်အလျောက် ရန်ကုန်မြို့ ၆၂ လမ်းတွင် အသင်းပိုင် တိုက်တလုံးကို ဝယ်ယူ၍ ဗုဒ္ဓဘာသာအမျိုးသမီး အလုပ်သမားများအတွက် တည်းခိုသည့် ဂေဟာနှင့် အသင်းတိုက်ကြီးကို ဖွင့်လှစ်ထားလေသည်။

**ဗုဒ္ဓဘာသာ ကလျာဏ ယုဝအသင်း။** ။ဝိုင် ၊ အမ်၊ ဘီ၊ အေအသင်းဟု မြန်မာတို့အသိများနေသောဗုဒ္ဓဘာသာကလျာဏယုဝ အသင်းသည် ဗြိတိသျှ လက်အောက်ခံ မြန်မာနိုင်ငံအား နိုင်ငံရေး လှုပ်ရှားမှုကို အစပျိုး လမ်းထွင်ပေးခဲ့သော အသင်းကြီး ဖြစ်သည်။ ခရစ်ယန် လူငယ်များ၏ အသင်းကို ဝိုင်၊အမ်၊စီ၊အေဟု ခေါ်သကဲ့သို့ ဗုဒ္ဓဘာသာလူငယ်များ၏ အသင်းကို အတိုကောက်အားဖြင့် ဝိုင်၊အမ်၊ဘီ၊အေဟု ခေါ်သည်။ အရှည်အားဖြင့်မူ ယန်းမင်း ဗုဒ္ဓစ်အက်စိုစီအေရှန်းဟု ဖြစ်သည်။

ဗုဒ္ဓဘာသာ ကလျာဏယုဝ အသင်းကို ၁၉ဝ၆ (မြန်မာသက္ကရာဇ် ၁၂၆၇) ခုနှစ်တွင် မျိုးချစ်စိတ် ထက်သန်ကြသော ထိုစဉ်အခါက လူငယ်များ ဖြစ်ကြသည့် ဦးဘဖေ၊ အမ်အေ ဦးမောင်ကြီးနှင့် ဒေါက်တာ ဦးဘရင်တို့ ရန်ကုန်မြို့ လန်ကတ်စတာလမ်းတွင် စတင် တည်ထောင်ခဲ့ကြသည်။ ထိုအချိန်က မြန်မာတို့သည် အဖိနှိပ်ခံဘဝ ရောက်နေရာ အသင်းအပင်းဖွဲ့မှုကို မပြုရဲအောင် ရှိနေချိန် ဖြစ်သဖြင့် အလွန် ထက်သန်သော မျိုးချစ် စိတ်ဓာတ် ကြောင့်သာ အောင်မြင်စွာ ဖွဲ့စည်းနိုင်ခဲ့ခြင်း ဖြစ်သည်။ အသင်း၏ ရည်ရွယ်ချက်မှာ အမျိုး၊ ဘာသာ၊ သာသနာ၊ ပညာဟူသော အကြောင်း ၄ ပါးကို လူမှုဝန်ထမ်း လုပ်ငန်းတို့ဖြင့် ဖွံ့ဖြိုးအောင် ဆောင်ရွက်ရန် ဖြစ်သည်။ မျိုးချစ်စိတ် ထက်သန်သော လူငယ်များ၏ ဇွဲလုံ့လကြောင့် အသင်းကြီးသည် တစတစကြီးပွားလာခဲ့ရာ၊ မော်လမြိုင်၊ ပဲခူး၊ ပုသိမ်၊ ညောင်လေးပင်၊ ဟင်္သာတ၊ ပြည်၊ မန္တလေး၊ ပျဉ်းမနား စသော မြို့ကြီးများတွင် အသင်းခွဲများ ပေါ်ပေါက်ခဲ့လေသည်။ မြန်မာတနိုင်ငံလုံးတွင် အသင်းခွဲပေါင်း ၄ဝဝ ကျော်အထိ ပေါ်ပေါက်ခဲ့လေသည်။ ယင်းသို့ အသင်းကြီးသည် တစတစ ကြီးပွားလာသည့်အလျောက် ၁၉၁၁ ခုနှစ်တွင် လန်ကတ်စတာလမ်းမှ လွှတ်စ္စလမ်းသို့၊ ထိုမှ ၁၉၂ဝ ပြည့်နှစ်တွင် ဆူးလေဘုရားလမ်းသို့ အဆင့်ဆင့် ပြောင်း၍ အသင်းတိုက် ငှါးကာ ဖွင့်လှစ်နိုင်လာခဲ့သည်။ ခေတ်ပညာတတ် လူငယ်များ ဖြစ်ကြသော ဦးပု၊ ဦးသိမ်းမောင်၊ ဦးစု၊ ဦးမေအောင်၊ ဦးမောင်မောင်အုန်းခိုင်၊ ဦးဘစီ၊ ဦးသင်းမောင်၊ ဦးဘလှိုင်၊



ဗုဒ္ဓဘာသာ ကလျာဏယုဝအသင်းကြီးကို စတင် ပျိုးထောင်ရာတွင် ပါဝင်ခဲ့သောမျိုးချစ်ပုဂ္ဂိုလ်ကြီး ဦးဘဖေ

ဦးစိန်လှအောင် စသူတို့လည်း အသင်းကြီးတွင် ဝင်ရောက်ဆောင်ရွက်လာခဲ့ကြသည်။

၁၉၁၁ ခုနှစ်နှင့် ၁၉၁၄ ခုနှစ်များတွင် ဗုဒ္ဓဘာသာကလျာဏယုဝအသင်း၏ ပဌမနှင့် ဒုတိယအကြိမ် ညီလာခံများကို ရန်ကုန်မြို့၌ ကျင်းပနိုင်ခဲ့သည်။ ၁၉၁၅ ခုနှစ်တွင် မန္တလေးမြို့၌ တတိယ အကြိမ်မြောက် ညီလာခံကိုရင်း၊ ၁၉၁၆ ခုနှစ်တွင် ဟင်္သာတမြို့၌ စတုတ္ထ အကြိမ်မြောက် ညီလာခံကိုရင်း၊ ၁၉၁၇ ခုနှစ်တွင် ပျဉ်းမနားမြို့၌ ပဥ္စမ အကြိမ်မြောက် ညီလာခံကိုရင်း မပျက်မကွက် နှစ်ဆက်ကျင်းပနိုင်ခဲ့သည်။ ၁၉၁၇ ခုနှစ်တွင် ဗြိတိသျှ ပါလီမန်အောက်လွှတ်တော်၌ အိန္ဒိယပြည် ဆိုင်ရာ ဝန်ကြီး မွန်တေဂူသည် ဗြိတိသျှ အင်ပိုင်ယာနှင့် တပေါင်းတည်းဖြစ်သော အိန္ဒိယပြည်ကို ကိုယ်ပိုင် အုပ်ချုပ်ရေး တစတစ ပေးအပ်ရမည် ဟူသော ပြဋ္ဌာန်းချက်ကို ကျေညာလိုက်သည်။ ထိုကျေညာချက်ကို စိတ်ဝင်စားမိသော ဗုဒ္ဓဘာသာကလျာဏယုဝအသင်းသည် နိုင်ငံရေး နယ်ထဲသို့ စတင် ဝင်ရောက်လာခဲ့သည်။ ၁၉၁၇ ခုနှစ် ဒီဇင်ဘာလတွင် အိန္ဒိယပြည်ဆိုင်ရာ ဝန်ကြီး မွန်တေဂူ၊ အိန္ဒိယပြည် ဘုရင်ခံချုပ် လော့ချမ်းစဖို့တို့နှင့် တွေ့ဆုံ၍ မြန်မာ့ အခွင့်အရေး တောင်းဆိုရန် ဝိုင်၊ အမ်၊ ဘီ၊ အေ အသင်းမှ ကိုယ်စားလှယ်များ ဖြစ်သော ဦးဖေ၊ ဦးဘဖေ၊ ဦးမေအောင်၊ ဦးစုတို့အား ကာလကတ္တား





ဝိုင်၊ အမ်၊ ဘီ၊ အေ ခေါ် ဗုဒ္ဓဘာသာကလျာဏယုဝအသင်းကြီးကို ရှေ့ဆောင်တည်ထောင် ပေးခဲ့ကြသည့် မျိုးချစ်ပုဂ္ဂိုလ်
အမ်၊အေ ဦးမောင်ကြီး(ဝဲ)နှင့် ဒေါက်တာ ဦးဘရင်(ယာ)

မြို့သို့ စေလွှတ်သည်။ သို့ရာတွင် ၁၉၁၈ ခုနှစ် ဇွန်လတွင် ထွက်ပေါ်လာသော မွန်တေဂူ-ချမ်းစဖို့ အစီရင်ခံစာ၌ မြန်မာပြည်အတွက် အုပ်ချုပ်မှု ပြုပြင်ပြောင်းလဲရေး ထောက်ခံချက်များ မပါရှိသဖြင့် ၁၉၁၉ ခုနှစ် မေလ ၁၈ ရက်နေ့တွင် ဝိုင်၊ အမ်၊ ဘီ၊ အေ ကိုယ်စားလှယ်များ ဖြစ်သော ဦးဘဖေ၊ ဦးပုနှင့် ဦးထွန်းရှိန်တို့အား ဗိလတ်သို့ စေလွှတ်၍ တောင်းဆိုစေပြန်သည်။ သို့ရာတွင် ဗြိတိသျှတို့က မြန်မာတို့၏ တောင်းဆိုချက်ကို လျစ်လျူပြုမြဲပြုလျက် ရှိသည်။ ထို့ကြောင့် ၁၉၂၀ ပြည့်နှစ်တွင် ဦးဘဖေ၊ ဦးပု၊ ဦးသိမ်းမောင်တို့အား စေလွှတ် တောင်းဆိုပြန်ရာ အိန္ဒိယပြည်နှင့် တန်းတူအုပ်ချုပ်ရေးပေးပါမည်ဆိုသော ကတိကို ဗိလတ်အစိုးရထံမှ ရရှိခဲ့လေသည်။

ဗုဒ္ဓဘာသာ ကလျာဏယုဝ အသင်းသည် ယင်းသို့ တစတစ နိုင်ငံရေးနယ်ပယ်တွင်းသို့ ဝင်ရောက်ခဲ့ရာ၊ မြန်မာတနိုင်ငံလုံး ပျံ့နှံ့ကျော်ကြားခဲ့သည်။ ၁၉၁၇ ခုနှစ် ပဉ္စမအကြိမ်မြောက် ညီလာခံကို ပျဉ်းမနားမြို့တွင် ကျင်းပပြီးနောက် ၁၉၁၈ ခုနှစ်တွင် ဆဋ္ဌအကြိမ်မြောက် ညီလာခံကို မော်လမြိုင်မြို့၌၎င်း၊ ၁၉၁၉ ခုနှစ်တွင် သတ္တမအကြိမ်မြောက် ညီလာခံကို ပုသိမ်မြို့၌၎င်း၊ ၁၉၂၀ ပြည့်နှစ်တွင် အဋ္ဌမအကြိမ်မြောက်ညီလာခံကို ပြည်မြို့၌၎င်း ကျင်းပခဲ့ကြသည်။ အဋ္ဌမအကြိမ်မြောက် ညီလာခံကြီး၌ပင် ဗုဒ္ဓဘာသာကလျာဏယုဝ အသင်းထက် နိုင်ငံရေးကို ပိုမို ကျယ်ပြန့်စွာ ဆောင်ရွက်နိုင်ရန် ယင်းနှင့် အလားတူ အသင်းပေါင်း ၂,၀၀၀ ကို စုပေါင်း၍ ဂျီ၊ စီ၊ ဘီ၊ အေခေါ် မြန်မာအသင်းချုပ်ကြီး တည်ထောင်ရန် ဆုံးဖြတ်လိုက်ကြသည်။ (ဂျီ၊စီ၊ဘီ၊အေ — ရှု။ )

ဂျီ၊စီ၊ဘီ၊အေ၊ အသင်းကြီး ပေါ်ပေါက် လာပြီးနောက် ၁၉၂၁ ခုနှစ်တွင် မန္တလေးမြို့၌ နဝမ အကြိမ်မြောက် ညီလာခံကြီး ကျင်းပပြီးသည်မှစ၍ ဗုဒ္ဓဘာသာ ကလျာဏယုဝ အသင်းနှင့် ယင်း၏ လုပ်ငန်းတို့သည် တဖြည်းဖြည်း မှေးမှိန်လာခဲ့သည်။ ဝိုင်၊အမ်၊ဘီ၊အေ အသင်း အမှုဆောင် လူကြီးများပင် ဂျီ၊စီ၊ဘီ၊အေ အသင်း၌ ပါဝင်နေသဖြင့် ဂျီ၊စီ၊ဘီ၊အေ အသင်း လုပ်ငန်းနှင့်ပင် မအားမလပ် ရှိနေကြသောကြောင့် ဝိုင်၊အမ်၊ဘီ၊အေ အသင်းမှာ လောင်းရိပ်မိသော သစ်ပင်ငယ်ကဲ့သို့ညှိုးမှိန်လာခဲ့ရသည်။ ယင်းသို့ကံဇာတာ မှေးမှိန်သော အချိန်ပိုင်းတွင် ၁၉၂၇-၂၈ ခုနှစ် ဥက္ကဋ္ဌကြီး ဝတ်လုံတော်ရ ဦးဘစီ လက်ထက်၌ ဝိုင်၊အမ်၊ဘီ၊အေ အသင်းတိုက်ကို လူစည်ကားရာ ဆူးလေဘုရားလမ်းမှ စပတ်လမ်းသို့ ပြောင်းရွှေ့ခဲ့ရသည်။ ၁၉၂၉ ခုနှစ် ဥက္ကဋ္ဌကြီး ဦးမောင်မောင်အုန်းခိုင် လက်ထက်တွင် ပန်းဆိုးတန်းသို့ ပြောင်းရွှေ့ခဲ့၍၊ ၁၉၃၅ ခုနှစ်အထိ တည်ရှိခဲ့သည်။ ၁၉၃၅ ခုနှစ်တွင် ဥက္ကဋ္ဌ ဝတ်လုံတော်ရ ဦးသိမ်းမောင် လက်ထက်၌ စပတ်လမ်းနှင့် ဒါလဟိုဇီလမ်းထောင့်သို့ တဖန် ပြောင်းရွှေ့ကာ ၃ နှစ် ဖွင့်လှစ်ခဲ့

ပြီးနောက် ၁၉၃၁ ခုနှစ်တွင် ယခု လက်ရှိ ရေကျော်လမ်း အသင်းတိုက် နေရာသို့ ပြောင်းရွှေ့ခဲ့သည်။ ၁၉၅၂ ခုနှစ်တွင် အဆောက်အအုံသစ် ဆောက်လုပ်နိုင်ခဲ့သည်။

ဗုဒ္ဓဘာသာ ကလျာဏယုဝ အသင်း၏ လုပ်ငန်းများကို လည်း ၁၉၃၂ ခုနှစ် ဇူလိုင်လ ၅ ရက်နေ့တွင် ကျင်းပသော အစည်းအဝေးကြီးက အတိအကျ ဆုံးဖြတ်ချက်ချခဲ့သည်။ ဝိုင်၊အမ်၊ဘီ၊အေ အသင်းသည် မည်သည့်အခါမျှ တိုင်းရေး ပြည်မှုတွင် ဆောင်ရွက်ရန် ရည်ရွယ်၍ ဖွဲ့စည်းသောအသင်း မဟုတ်ခဲ့ခြင်းကြောင့် အသင်း၏ စည်းကမ်းဥပဒေတွင် ဖော်ပြထားသော သာသနာရေး၊ ဘာသာရေး၊ ပညာရေး နှင့် ကျန်းမာရေးတို့ကိုသာလျှင် ဆောင်ရွက်မည် ဖြစ်ကြောင်း ဆုံးဖြတ်၍ တိကျစွာ ဆောင်ရွက်ခဲ့ကြသည်။ ထိုဆုံးဖြတ်ချက်နှင့်အညီ ဆက်လက် ဆောင်ရွက်ခဲ့ရာ၊ စစ်အပြီးတွင် ထိုအသင်း၏ လုပ်ငန်းများ ပိုမို ခရီးရောက်ခဲ့သည်။ စာရိတ္တ မဏ္ဍိုင် ပြန်လည်ထူထောင်ရန် မင်္ဂလာ တရားတော် စာမေးပွဲများ ကျင်းပခြင်း၊ ကျန်းမာရေးအတွက် ပြေးပွဲ ပြိုင်ပွဲများ ပြုလုပ်ခြင်း၊ ပညာရေးအတွက် ဘာသာရေးနှင့် ပညာရေး စာအုပ်စာတမ်းများ ထုတ်ဝေခြင်း၊ ဟောပြောပွဲများ ကျင်းပခြင်းတို့ကို ဆောင်ရွက်ရာ ဗုဒ္ဓဘာသာ ကလျာဏယုဝ အသင်းသည် နိုင်ငံအဝှန်း၌ ထင်ရှားလာခဲ့သည်။ အသင်းကြီးမှ ကြီးမှူး၍ မြန်မာနိုင်ငံ တဝှန်းတွင် မင်္ဂလာတရားတော် စာမေးပွဲများကို နှစ်စဉ်နှစ်တိုင်း ကျင်းပခဲ့ရာ၊ ၁၂ ကြိမ်မြောက် မင်္ဂလာစာမေးပွဲ ပြီးစီးချိန်၌ စာမေးပွဲ ဝင်ရောက် ဖြေဆိုပြီးသူပေါင်း ၂၅၇,၅၁၁ ယောက် ရှိပြီး ဖြစ်လေသည်။ မင်္ဂလာ စကောလားရှစ် စာသင်ဆုပေးပွဲများကို နိုင်ငံတော် သမတကြီးက နှစ်စဉ် ချီးမြှောက်ခဲ့သည်။

ဗုဒ္ဓဘာသာကို နိုင်ငံတော် ဘာသာအဖြစ် ပြဋ္ဌာန်းရန် ဗုဒ္ဓဘာသာ ကလျာဏယုဝ အသင်းသည် မြန်မာနိုင်ငံ လွတ်လပ်ရေး မရမီကပင် ကြိုးစား ဆောင်ရွက် ခဲ့သည်။ ၁၉၆၀ ပြည့်နှစ် မေလ ၁၆ ရက်နေ့တွင် နိုင်ငံတော် အစိုးရက ခန့်အပ်ဖွဲ့စည်းသော နိုင်ငံတော် ဘာသာ ဖြစ်မြောက်ရေး အကြံပေးအဖွဲ့တွင် ဤအသင်းကြီးမှ နာယကကြီးဖြစ်သော သတိုးသီရိသုဓမ္မ အဂ္ဂမဟာသရေစည်သူ အငြိမ်းစား တရားလွှတ်တော် တရားဝန်ကြီးချုပ် ဦးသိမ်းမောင်၊ ဥက္ကဋ္ဌ ချုပ်သင်းသဒ္ဓေး စည်သူဦးဘတင်၊ မဟာသရေစည်သူ အငြိမ်းစား တရားဝန်ကြီး ဦးအုန်းဖေ၊ ဒုတိယ ဥက္ကဋ္ဌ သီရိပျံချီ မြို့တော်ဝန်ဟောင်း ဦးမောင်မောင် စသော အသင်းဝင် လူကြီးများ ပါဝင် ဆောင်ရွက်ခဲ့သည်။ ထို့နောက် ဝိုင်၊အမ်၊ဘီ၊အေ အသင်းကြီးကပင် ခေါင်းဆောင်၍ ရန်ကုန်မြို့လုံး ဆိုင်ရာ ဗုဒ္ဓဘာသာ အသင်းပေါင်းစုံ၏ အစည်းအဝေးများကို ခေါ်၍ ဗဟိုကော်မီတီ ဖွဲ့ပြီးလျှင် ဝိုင်၊အမ်၊ဘီ၊အေ အသင်းတိုက်၌ နိုင်ငံတော်ဘာသာဖြစ်မြောက်ရေးကို ဆောင်ရွက်ကြသည်။ ဗဟိုကော်မီတီတွင် ဥက္ကဋ္ဌနှင့် အတွင်းရေးမှူးများအဖြစ် ဝိုင်၊အမ်၊ဘီ၊အေမှ ဥက္ကဋ္ဌ ချုပ်သင်းသဒ္ဓေး စည်သူ ဦးဘတင်နှင့် အတွင်းရေးမှူး ဦးအုန်းခိုင်တို့ကပင် ဆောင်ရွက်ကြသည်။ နိုင်ငံတော်ဘာသာ ဖြစ်မြောက်ရေးအတွက် ကျောင်းထိုင်ဆရာတော်များ အဖွဲ့၏ ဩဝါဒကို ခံယူ၍ ဆရာ ဒါယကာ ပူးပေါင်း ဆောင်ရွက်ကြသည်။ ရှမ်းပြည်နယ်နှင့် ကရင်ပြည်နယ်များသို့ ဆရာတော်များ ကြွရောက်၍ ပြည်နယ်လူထု၏ နိုင်ငံတော်ဘာသာ ဖြစ်မြောက်ရေး ထောက်ခံမှုကို အလှူခံခြင်း၊ ပြည်နယ် အမတ်များ၏ ထောက်ခံချက်တို့ကို ရယူခြင်း စသော ကိစ္စများကို ဆောင်ရွက်ခဲ့သည်။ ယင်းသို့ မြန်မာနိုင်ငံ အရပ်ရပ်တွင် နိုင်ငံတော်ဘာသာ ဖြစ်မြောက်ရေးကို တညီတညွတ်တည်း ဝင်ရောက် ကြိုးပမ်း ဆောင်ရွက်နိုင်ခဲ့မှုကြောင့် မြန်မာသက္ကရာဇ် ၁၃၂၃ ခုနှစ်(၁၉၆၁) ဝါခေါင်လပြည့် စနေနေ့တွင် ဗုဒ္ဓဘာသာကို နိုင်ငံတော် ဘာသာအဖြစ် လွှတ်တော် ၂ ရပ်ပေါင်း အစည်းအဝေးက မဲ ၃၂၄ မဲဖြင့် အောင်မြင်စွာ အတည်ပြုနိုင်ခဲ့လေသည်။

ဗုဒ္ဓဘာသာ ကလျာဏယုဝ အသင်းကြီးတွင် ယခုအခါ အသင်းသား တထောင်ကျော်မျှ ရှိ၍ ခေတ်ကာလအလျောက် နိုင်ငံ၌ လိုအပ်သော ကိစ္စများကို မီးရှူးတန် ဆောင်သဖွယ် ရှေ့ဆောင်လမ်းပြ ပြုလုပ်ခဲ့သော တနိုင်ငံလုံးတွင် ထင်ရှားသည့် အသက် ဝါရင့် အသင်းကြီးဖြစ်လေသည်။

**ဗုဒ္ဓဝါဒ**။ ။ဗုဒ္ဓဝါဒဟူသည် မြတ်စွာဘုရား ကိုယ်တော်တိုင် ခွဲခြမ်းစိတ်ဖြာ၍ ဟောကြားတော်မူအပ်သော တရားဒေသနာတော်မြတ် ဖြစ်ပေသည်။ တရားဒေသနာတော်ကို ခွဲခြမ်းစိတ်ဖြာ၍ ဟောကြားတော် မူတတ်သောကြောင့် မြတ်စွာဘုရားသည် ဝိဘဇ္ဇဝါဒီ ဖြစ်တော်မူကြောင်းကို အရှင်မဟာ မောဂ္ဂလိပုတ္တတိဿမထေရ်မြတ်က သီရိဓမ္မာသောကမင်းကြီးအား မိန့်တော်မူဘူးလေသည်။ မြတ်စွာဘုရားသည် ဟုတ်မှန်တိုင်းသော သဘောတရားများကို ခွဲခြမ်းစိတ်ဖြာ၍ တရား ဒေသနာတော်ကို မည်သို့မည်ပုံ ဟောကြားထားသည်ကို ထင်ရှားစေဦးအံ့။

မြတ်စွာဘုရား မပွင့်မီ အလွန် ရှေးကျသော ကာလမှစ၍ ဇမ္ဗူဒိပ်ကျွန်းအပြင်၌ အထူးအားဖြင့် မဂဓတိုင်းတွင် ဘုရားအမည်ကို ခံယူလျက် အထူးထူးသော အယူဝါဒများကို တီထွင် ဟောကြားနေကြသော တိတ္ထိဆရာကြီးတို့ အများအပြား ပေါ်ထွက်ခဲ့ကြလေသည်။ အထူးအားဖြင့် တိတ္ထိဆရာကြီး ၆ ဦးတို့သည် သူ့ထက်ငါသာ ဝါဒပြိုင်နေကြလေသည်။ တိတ္ထိဆရာကြီးတို့၏ ထိုအယူဝါဒတို့သည် မည်မျှပင် များပြားသော်လည်း အကျဉ်းအားဖြင့် သဿတ

ဒိဋ္ဌိ၊ ဥစ္ဆေဒဒိဋ္ဌိ ဟူသော အစွန်းတခုခုသို့ သက်ရောက်သော အတ္တဝါဒမျိုးသာ ဖြစ်လေသည်။

ဘုရားအလောင်းတော်သည် ထို အယူဝါဒများကို စူးစမ်း ဆင်ခြင်တော်မူ၍ မိစ္ဆာအယူဝါဒများဖြစ်ကြောင်း သိတော်မူပြီးလျှင် ထိုအယူဝါဒမှားကြီး နှစ်ပါးနှင့်တကွ ထိုအယူဝါဒ ရှိသူတို့၏ ကျင့်စဉ်များ ဖြစ်ကြသော

(က) ကာမသုခလ္လိကာနုယောဂ ခေါ် ကာမချမ်းသာကို ခံစားခြင်းနှင့် ယှဉ်သော အကျင့်၊

(ခ) အတ္တကိလမထာနုယောဂ ခေါ် မိမိကိုယ်ကို ပင်ပန်း ဆင်းရဲစေခြင်းနှင့် ယှဉ်သော အကျင့်၊

ဟူသော ဤအကျင့် နှစ်မျိုးစလုံးကိုပင် ပယ်ရှား၍ မဇ္ဈိမပဋိပဒါခေါ် အလယ်အလတ် ကျင့်စဉ်ကို ကျင့်တော်မူ၍ ဘုရားအဖြစ်သို့ ရောက်တော်မူလေသည်။

ဘုရားဖြစ်တော်မူပြီးနောက် လေးဆဲ့ငါးဝါ ကာလပတ်လုံး ဟောကြားတော်မူသော တရားဒေသနာတော်တို့ကား အလွန်ကျယ်ဝန်း များပြားလင့်ကစား အကျဉ်းချုံး သေတ္တုစစ်လိုက်လျှင်

(၁) ဆင်းရဲခြင်း အမှန်တရား

(၂) ဆင်းရဲခြင်းကို ဖြစ်စေသော အမှန်တရား

(၃) ဆင်းရဲခြင်း ချုပ်ငြိမ်းရာ အမှန်တရား

(၄) ဆင်းရဲခြင်း ချုပ်ငြိမ်းရာသို့ ရောက်ကြောင်း အကျင့် အမှန်တရား

ဟူသော အမှန်တရား လေးချက်သို့သာ သက်ဝင်ပေသည်။ ထိုအမှန်တရား လေးချက်ကို ပါဠိဘာသာဖြင့် ဒုက္ခသစ္စာ၊ သမုဒယသစ္စာ၊ နိရောဓသစ္စာ၊ မဂ္ဂသစ္စာဟု ခေါ်ဆိုလေသည်။ ထို့ကြောင့် ဤသစ္စာလေးပါးသည်ပင်လျှင် အခြေခံ ဗုဒ္ဓဝါဒဖြစ်သည်။

## ဒုက္ခသစ္စာ

ထိုလေးပါးတို့တွင် ဒုက္ခသစ္စာဝင်ဖြစ်သော လောကီနာမ်ရုပ်တရား ဟူသမျှသည် မရပ်မစဲ မတည်မမြဲ ချုပ်ပျောက်ပျက်စီးလျက်ရှိ၏။ ချုပ်ပျောက်ပျက်စီးရာ၌ အသစ်အသစ်အစားဝင်ရောက် ဖြစ်ပေါ်လာသောကြောင့်သာ ချုပ်ပျောက်ပျက်စီးလျက်နေကြောင်း မသိမမြင်နိုင် ရှိကြသည်။ ဤသို့ဖြစ်သမျှ ပျက်ရခြင်း မမြဲသော သဘောတရားကို အနိစ္စခေါ်၏။ ဖြစ်ပေါ်လာရ၌၎င်း၊ ပျက်စီးရာ၌၎င်း သူ၏ သဘာဝအတိုင်းသာ ဖြစ်သည်။ မည်သူ တဦးတယောက်ကမျှ အစိုးတရ ပြုပြင် လုပ်ကိုင် စီမံရသည်မဟုတ်၊ ပြုပြင် စီမံ လုပ်ကိုင်နိုင်သူ အစိုးရသူ ဟူ၍လည်း မရှိ၊ ထို့ကြောင့် ငါ သူတပါး ယောကျ်ား မိန်းမ လူ နတ် ဗြဟ္မာ သတ္တဝါ အတ္တ အသက် လိပ်ပြာတို့ မရှိနိုင်တော့ချေ။ ဤသဘောတရားကို အနတ္တခေါ်သည်။ ဤသို့ ငါ သူတပါး ယောကျ်ား မိန်းမ အတ္တ အသက် လိပ်ပြာ အစိုးရသူ မရှိဘဲ သဘာဝအတိုင်း ဖြစ်ပေါ်လာသမျှ ပျက်ရခြင်းသည် ချမ်းသာ ဟူ၍ မြူမျှမရှိ၊ ဆင်းရဲအတိသာ ဖြစ်ရကား ဆင်းရဲခြင်း အမှန်တရား ဖြစ်တော့၏။ ယင်းကို "ဒုက္ခသစ္စာ" ဟု ခေါ်သည်။

## သမုဒယသစ္စာ

ထိုဒုက္ခသစ္စာသည် မည်သည့် အကြောင်းကြောင့် ဖြစ်ပေါ်လာသနည်းဟု စိစစ်ရန် လိုအပ်ပေသည်။ ထိုဒုက္ခသစ္စာကို ဖြစ်စေသည့် အကြောင်းတရား အများအပြားပင် ရှိသော်လည်း အရင်းခံ ဦးစီး အကြီးအမားဆုံးသော အကြောင်းမှာ တဏှာလောဘပင် ဖြစ်ပေ၏။

လောက၌ သတ္တဝါ ဟူသမျှသည် ထိုတဏှာလောဘ အစွမ်းဖြင့် ရူပါရုံ စသော ကာမဂုဏ် အာရုံအမျိုးမျိုး လူဘဝ နတ်ဘဝ စသော ဘဝအမျိုးမျိုးတို့၌ အလိုလိုက် အကြိုက်ရှာကာ တွယ်တာမက်မော ရချင်ယူချင်ကြသောကြောင့် အပင်ပန်း အဆင်းရဲခံကာ ကောင်းကောင်းဆိုးဆိုး အမျိုးမျိုးသော အလုပ်များကို ပြုလုပ်ကြရာ၊ ကောင်းသော အလုပ်ကြောင့် ကောင်းသော အာရုံ ကောင်းသော ဘဝတို့ကို ရရှိကြ၏။ မကောင်းသော အလုပ်ကြောင့် မကောင်းသော အာရုံ မကောင်းသော ဘဝတို့ကို ရရှိကြ၏။ ယင်းတို့ရရှိကြသည့် အကောင်းအဆိုး အမျိုးမျိုးသော အာရုံများ၊ အမျိုးမျိုးသော ဘဝများသည် အစိုးမရ ပျက်စီးတတ်သည့် ဆင်းရဲတုံး ဆင်းရဲခဲ ဆင်းရဲအစုကြီးတွေသာ ဖြစ်သောကြောင့် ထိုတွယ်တာမက်မောခြင်း တဏှာလောဘသည် ဆင်းရဲဖြစ်ကြောင်း အမှန်တရား ဖြစ်ပေသည်။ ယင်းကို "သမုဒယသစ္စာ" ဟုခေါ်သည်။

## နိရောဓသစ္စာ

ချမ်းသာဟူသည် စိတ်အလိုကျ ကောင်းသောအာရုံ သာယာဖွယ် ကာမဂုဏ် စည်းစိမ်များ ရရှိခံစား၍ ချမ်းသာသည့် ဝေဒယိတသုခခေါ် ခံစားခြင်း ချမ်းသာတမျိုး၊ ဘာတခုမျှ ခံစားရခြင်းမရှိ၊ ခံစားရန်လည်း အလိုမရှိ၊ ခံစားရန်အတွက် ကြောင့်ကြ စိုက်ထုတ် ပြုလုပ်ဖွယ်လည်း မရှိသော သန္တိသုခခေါ် ငြိမ်းအေးခြင်း ချမ်းသာတမျိုးဟူ၍ နှစ်မျိုးနှစ်စား ရှိ၏။ ထိုနှစ်မျိုးနှစ်စားတို့တွင် ခံစားမှု ဝေဒနာလျှင် အကြောင်းရင်းရှိသည့် တွယ်တာမက်မောခြင်း တဏှာလောဘသည် ခံစားမှု ချမ်းသာ ဟူသော ဝေဒယိတ သုခကိုသာ အာရုံပြု၏။ မက်မောတွယ်တာ၏။ ငမ်းငမ်းတက် ကပ်ငြိလိုချင်၏။ သန္တိသုခခေါ် ငြိမ်းအေးခြင်း ချမ်းသာကိုကား ရဲရဲညီ ပူလောင်နေသည့် သံတွေခဲကို ယင်ကောင် မနားနိုင်သကဲ့သို့ အာရုံမပြုနိုင်၊ ထိုငြိမ်းအေးခြင်း ချမ်းသာခြင်းကို စွဲ၍ မက်မော တွယ်တာခြင်း

တဏှာလောဘသည် ချုပ်ရလေသည်။ အကြောင်းရင်း တဏှာလောဘ ချုပ်ပျောက်သဖြင့်ပင် အကျိုးဖြစ်သော ဆင်းရဲခြင်း အမျိုးမျိုး အသစ်တဖန် မဖြစ်ပြန်ဘဲ ချုပ်ပျောက်လေရကား ငြိမ်းအေးခြင်း ချမ်းသာ သန္တိသုခသည် ဆင်းရဲခြင်း ချုပ်ငြိမ်းရာ အမှန်တရား ဖြစ်လေသည်။ ယင်းကို "နိရောဓသစ္စာ" ဟုခေါ်သည်။ ဗုဒ္ဓဝါဒီတို့အမြတ်ဆုံး ထားအပ်သည့် နိဗ္ဗာန်တရားကြီးပေတည်း။

**မဂ္ဂသစ္စာ**

ဤသို့ ခံစားမှုမရှိ၊ ပြုပြင်စီရင်မှုမရှိ၊ ဖြစ်ပျက်မှု မရှိဘဲ ငြိမ်းအေးခြင်း သဘောတရားသာ ဖြစ်သည့် သန္တိသုခဓာတ် နိဗ္ဗာန် အမြတ်တရားကြီးသည် ပြုလုပ် စီမံတတ်သော အကြောင်းတရား မရှိသော်လည်း၊ ယင်းသို့ ဆိုက်ရောက်စေနိုင်သည့် အကြောင်းတရားကား ရှိပေသေး၏။ ထိုအကြောင်းတရားကား အခြားမဟုတ် မဇ္ဈိမ ပဋိပဒါခေါ် အလယ်အလတ် ကျင့်စဉ်ပင်ဖြစ်၏။

ထိုအလယ်အလတ် ကျင့်စဉ်ကိုပင် နိဗ္ဗာန်သို့ သွားရာ လမ်းသဖွယ်ဖြစ်၍ မဂ္ဂဟု ခေါ်ပြန်သည်။ ယင်းမဂ္ဂသည် အစိတ်အင်္ဂါအားဖြင့် ခွဲလိုက်လျှင် ရှစ်မျိုး ပါဝင်၏။ ထိုရှစ်မျိုး ဟူသည်မှာ

(၁) သမ္မာဒိဋ္ဌိ—ကောင်းမြတ် စင်ကြယ်သော ဉာဏ်အမြင်၊
(၂) သမ္မာသင်္ကပ္ပ—ကောင်းမြတ် စင်ကြယ်သော အကြံအစည်၊
(၃) သမ္မာဝါစာ—ကောင်းမြတ် စင်ကြယ်သောဝစီကံမှု၊
(၄) သမ္မာကမ္မန္တ—ကောင်းမြတ် စင်ကြယ်သော ကာယကံမှု၊
(၅) သမ္မာအာဇီဝ—ကောင်းမြတ် စင်ကြယ်သော အသက်မွေးမှု၊
(၆) သမ္မာဝါယာမ—ကောင်းမြတ် စင်ကြယ်သော အားထုတ်မှု၊
(၇) သမ္မာသတိ—ကောင်းမြတ်စင်ကြယ်သော အောက်မေ့မှု၊
(၈) သမ္မာသမာဓိ—ကောင်းမြတ် စင်ကြယ်သော တည်ကြည်မှု၊

ဤတရား ရှစ်ပါးသည် နိဗ္ဗာန်သို့ရောက်ရန် အကျင့်တရားများ ဖြစ်၍ ဆင်းရဲခြင်း ချုပ်ငြိမ်းရာသို့ ရောက်ကြောင်း အကျင့်မှန် တရားဖြစ်သည်။ ယင်းကို "မဂ္ဂသစ္စာ" ဟုခေါ်သည်။

ဤသို့လျှင် ဗုဒ္ဓဝါဒဖြစ်သည့် အမှန်တရား လေးပါးဖြစ်သတည်း။

ဆရာဉာဏ်

**ဗုဒ္ဓဝင်**။ ။ဗုဒ္ဓဝင်ဟူသော အမည်မှာ ဗုဒ္ဓဝံသဟူသော စကားမှ ဆင်းသက်၍ အဓိပ္ပါယ်မှာ ဘုရားရှင်တို့၏ အတ္ထုပ္ပတ္တိဖြစ်သည်။

ဘိုးတော်အဥ္စနမင်းကြီး ဖွားကြင်း သက္ကရာဇ် ၁၀၄ ခုနှစ် ကဆုန်လတွင် ဂေါတမဘုရားရှင်သည် ကပိလဝတ်ပြည်၊ နိဂြောဓာရုံ ကျောင်းတော်ကြီး၌ ကြွရောက် စံတော်မူစဉ်၊ ကောင်းကင်ယံ၌ စင်္ကြံဝင်္ကာအရွေမှုသည် အနောက် စင်္ကြံ ဝင်္ကာသို့အရောက် ရှည်လျား၍ ရတနာအတိပြီးသော စင်္ကြံကို ဖန်ဆင်းတော်မူပြီးနောက် ယင်းသည့် ရတနာစင်္ကြံ၌ စင်္ကြံ ကြွဘော်မူယင်း ဗုဒ္ဓဝင် ဒေသနာကို ဟောတော်မူလေသည်။

ဂေါတမဘုရားရှင်သည် ဗောဓိပင်နှင့် ရွှေပလ္လင်၌ မာရ် ၅ ပါးကို အောင်တော်မူ၍ ဘုရားအဖြစ်သို့ ရောက်တော်မူကြောင်းကို ခမည်းတော် သုဒ္ဓေါဒန မင်းကြီးသည် ကောင်းစွာသိရသော်လည်း၊ သားတော်ဘုရားကို မဖူးမြော်ရဘဲ သတင်းကြားမျှဖြင့်သာ တင်းတိမ်တော် မူရရှာ၏။ တနေ့သော် ယင်းသို့ တင်းတိမ်တော် မမူနိုင်တော့သဖြင့် အမတ်ကြီး တယောက်စီအား စစ်သည်ပေါင်း ၁,၀၀၀ စီခြံရံကာ၊ မြတ်စွာဘုရား သိတင်းသုံးရာ ရာဇဂြိုဟ်ပြည်သို့ ကိုးကြိမ်ကိုးခါ အပင့် လွှတ်ပါသော်လည်း၊ အပင့်သွားသူများသည် ဘုရား၏ တရားတော်ကိုနာရ၍ အကျွတ်တရားရကာ၊ ခမည်းတော် မှာစကားကို မလျှောက်ထားဘဲ၊ ဘုရားထံ၌သာမြဲနေကြလေသည်။ သုဒ္ဓေါဒနမင်းကြီးသည် ယင်းသို့ သတင်းစကား မည်သို့မျှ မကြားရသဖြင့် နောက်ဆုံး ဆယ်ကြိမ်မြောက်၌ ကာဠုဒါယီ အမတ်အားခေါ်၍ အခြွေအရံ ၁,၀၀၀ နှင့် စေလွှတ်ပြန်သည်။ (ကာဠုဒါယီထေရ် — ရှု။)

ကာဠုဒါယီ အမတ်ကြီးမှုကား ဘုရားတရားတော်ကို နာရ၍ ရဟန္တာဖြစ်သော်လည်း မင်းကြီး မှာကြားလိုက်သော စကားကို မမေ့လျော့ဘဲ ကပိလဝတ်ပြည်သို့ ကြွရောက်ရန် လျှောက်ထားရာ မြတ်စွာဘုရားသခင်သည် ဆွေတော် မျိုးတော်တို့အား ထောက်ပင့် ချီးမြှင့်တော်မူလိုသည်ဖြစ်၍ အင်္ဂတိုင်း၊ မဂဓတိုင်းမှ ရဟန္တာတသောင်း၊ ကပိလဝတ်ပြည်မှ ရောက်လာ၍ အကျွတ်တရားရကြသော ရဟန္တာတသောင်း ပေါင်း ရဟန္တာ ၂သောင်းခြံရံ၍ ရာဇဂြိုဟ်ပြည်သို့ တနေ့လျှင် တယူဇနာ၊ နှစ်လကြာမျှ ကြွသွားတော်မူလေသည်။

မြတ်စွာဘုရားသည် ကပိလဝတ်ပြည်သို့ ရောက်တော်မူသော် နိဂြောဓမင်းသား၏ အရံဉယျာဉ်တွင် ပြုပြင်ထားသော နိဂြောဓာရုံ ကျောင်းတော်ကြီး၌ သိတင်းသုံးတော်မူသည်။ ဆွေတော်မျိုးတော် အပေါင်းသည် မြတ်စွာဘုရား ကြွလာကြောင်း သိကြ၍ နိဂြောဓဉယျာဉ်သို့ လာရောက်ဖူးမြော်ကြသော်လည်း ငယ်သူတို့ကသာဦးချကန်တော့၍၊ကြီးသူတို့ကမူ နောက်နားကသာ တိမ်းရှောင် နေကြလေသည်။

သာကီဝင်မင်းမျိုးတို့၏ အဖြစ်ကို မြတ်စွာဘုရား သိတော်မူသော် ဆွေတော်မျိုးတော်တို့၏ မာန်မာနကျစိမ့်သောငှါ စင်္ကြံတော်မူရာ ပလ္လင်ထက်၌ စတုတ္ထစျာန်ကို ဝင်စားတော်မူပြီးလျှင် ကောင်းကင်အပြင်သို့ ပျံတက်၍ ရတနာစင်္ကြံ ဖန်ဆင်းကာ လှုးလာတုံ့ခေါက် စင်္ကြံလျှောက်တော် မူသည်။ ယင်းသို့ စင်္ကြံလျှောက်ယင်း ရေမီးအစုံစုံဖြင့် ယမိုက်ပြာဋိဟာ ပြတော်မူပြီးသော် ရောင်ခြည်တော် ကွန့်မြူးကာ တရားဒေသနာများ ဟောပြလေသည်မှ ဆွေတော် မျိုးတော် အပေါင်း ရှိခိုးဦးချကြသည်။ ထိုအခိုက်ဝယ် ဂိဇ္ဈကုဋ်တောင်၌ သီတင်း သုံးနေတော်မူသော လက်ျာတော်ရံ ရှင်သာရိပုတ္တရာသည် အကြောင်းအလုံးစုံကို သိတော်မူသဖြင့် ဘုရား၏ ကျေးဇူးဂုဏ်ကို စုံအောင်ပြသော ဗုဒ္ဓဝင်ဒေသနာကို ဟောကြားရန် လျှောက်ရပါမူ သတ္တဝါအပေါင်းတို့ဘုရား၌ ကြည်ညိုခြင်း ဖြစ်လာကြမည်ဟု ကြံကာ ဘုရားထံကြွ၍ လျှောက်ထားတောင်းပန်လေသည်။ ရှင်သာရိပုတ္တရာမထေရ်မြတ်၏ တောင်းပန်မှုကြောင့် ရတနာစင်္ကြံမှနေ၍ နတ်လူအများ၏ အကျိုးစီးပွားအလို့ငှါ ဗုဒ္ဓဝင်ဒေသနာကို ဘုရားသခင်ဟောကြားခဲ့လေသည်။

ဗုဒ္ဓဝင်ဒေသနာတော်ဘွင် လေးသင်္ချေနှင့် ကမ္ဘာတသိန်း ကာလက ဂေါတမဘုရားအလောင်း သုမေဓာရှင်ရသေ့သည် ဒီပင်္ကရာ ဘုရားရှင်အထံတော်ဝယ် နိယတ ဗျာဒိတ်ကို ခံယူ ရရှိသည်မှ သဗ္ဗညုတရွှေဉာဏ်တော်ကို ရတော်မူကာ သတ္တဝါအပေါင်း၏ အကျိုးစီးပွားအလို့ငှါ ၄၅ ဝါပတ်လုံး တရားဒေသနာတော်များ ဟောကြားခဲ့ပြီးနောက်၊ပရိနိဗ္ဗာန် ပြုတော်မူသည်အထိ အကြောင်းချင်းရာများ ပါရှိသည်။ ထိုကြောင့် ဗုဒ္ဓဝင်တွင် ဂေါတမဗုဒ္ဓဝင်သာမက ဂေါတမ ဘုရားအလောင်းတော်၏ နိယတဗျာဒိတ်ခေတ်ဟု ဆိုအပ်သော နိယတဗျာဒိတ်ပန်းကို ဆင်မြန်းတော် မူရသောအခါမှ စ၍ ပါရမီတော် ဖြည့်ဆည်းဖူးသည့် လေးသင်္ချေနှင့် ကမ္ဘာ တသိန်း ကာလအတွင်း ပွင့်တော်မူကြသော ဒီပင်္ကရာ အစ ကဿပအဆုံး နှစ်ကျိပ်လေးဆူသော ဘုရားရှင်တို့၏ နွယ်တော်စဉ် အတ္ထုပ္ပတ္တိများလည်း ပါဝင်လေသည်။ (ကကုသန်မြတ်စွာဘုရား။ကောဏာဂုံမြတ်စွာဘုရား။ကဿပ မြတ်စွာဘုရား။ ဂေါတမမြတ်စွာဘုရား — လည်းရှု။)

ယင်းဗုဒ္ဓဝင် ဒေသနာတော်ကို ရှင်သာရိပုတ္တရာ၊ ရှင်အဿဇိ၊ ရှင်တိဿ၊ ရှင်သိဂ္ဂဝ၊ ရှင်မောဂ္ဂလိပုတ္တတိဿ၊ ရှင်သုဒတ္တ၊ ရှင်ဒါသက၊ ရှင်သောနက၊ ရှင်ရေဝတ စသော မထေရ်မြတ်တို့သည် တတိယသင်္ဂါယနာ တင်သည်တိုင်အောင် အဆင့်ဆင့် ဆောင်ခဲ့၍ ယခုခေတ်တိုင်အောင် ဆရာမြတ်ဘို့၏ တပည့်အဆက်ဆက်တို့ ဆောင်ခဲ့ကြကုန်သည်။ ယခုအခါ ဗုဒ္ဓဝင် ပဋ္ဌိဘော်၊ ဗုဒ္ဓဝင် အဋ္ဌကထာတို့မှ ထုတ်နုတ်၍ ဗုဒ္ဓဝင်ဝတ္ထုတော်ကြီးများကို ရာနာသုံးပါး၌ မွေ့လျော်ကုန်ကြသောလူအပေါင်းတို့ လွယ်ကူစွာ ကြည်ညိုနိုင်စေခြင်းအကျိုးငှါ ပြုစုရေးသားထား ကြလေပြီ။

**ဗုဒ္ဓသရဏပင်။** ။ထူးထွေ ဆန်းပြား လှပသော ရောင်စုံပန်းပွင့်များ တဆုပ်တခဲ ပွင့်တတ်၍ ပန်းခြံဥယျာဉ်များ၏ ကျက်သရေဆောင်တခု ဖြစ်သောဗုဒ္ဓသရဏပင်သည် ကန္နာစီအီးမျိုးရင်းဝင်ဖြစ်၍ ရုက္ခဗေဒအမည်အားဖြင့် ကန္နာအင်ဒိကာဟု ခေါ်သည်။ ဗုဒ္ဓသရဏ အပင်မျိုးစိတ်ပေါင်း ၅၀ ကျော် ရှိလေသည်။

မူလက ဗုဒ္ဓသရဏပင်တို့သည် အပူပိုင်းဇုန် ဒေသများ၌ အလေ့ကျပေါက်သော အပင်မျိုး ဖြစ်သည်။ အရွက်ဖားဖားကြီးများ ထူထပ်များပြား၍၊ အရွက်ရောင်တို့သည် အစိမ်းရင့်ရောင်၊ ကြေးညိုရောင် ရှိသဖြင့် အမေရိကတိုက်နှင့် ဥရောပတိုက် သမပိုင်း ဒေသများတွင် ရွက်လှပင်များ အဖြစ် မျိုးယူ စိုက်ပျိုးခဲ့ကြသည်။ ထိုဗုဒ္ဓသရဏပင်မျိုးတို့၏အပွင့်သည် အနီရောင်ဖြစ်၍ အပွင့်လည်း သေးငယ်လေသည်။

၁၈၆၃ ခုနှစ်တွင် ပြင်သစ်ဥယျာဉ်မှူးများသည် ဗုဒ္ဓသရဏပင်များကို ကူးယှက် မျိုးစပ် စိုက်ပျိုးခြင်းဖြင့် အပွင့်ကြီး၍ ကြက်သွေးရောင်၊ ရွှေဝါရောင် အပွင့်များပွင့်သည့် မျိုးစပ် ဗုဒ္ဓသရဏပင်တို့ကို တီထွင်လိုက်သည်။ ဣတာလျံစိုက်ပျိုးရေး ပါရဂူများကမူ ၄ ပေခန့်သာမြင့်သော အပင်မျိုးကို တီထွင်လိုက်ကြရာ၊ အမေရိကန် ပြည်ထောင်စု၌ ထိုအပင်မျိုး အလွန် ခေတ်စားခဲ့သည်။ အချို့ ဗုဒ္ဓသရဏပင်မျိုးတို့သည် ၁၀ ပေမှ ၁၄ ပေခန့်အထိမြင့်သည်။

အချို့ မျိုးစပ် ဗုဒ္ဓသရဏပင်မျိုးတို့၏ အပွင့်တို့သည် မူလဗုဒ္ဓသရဏပင် အပွင့်များ၏ ၄ ဆခန့် ရှိသည်။ အချင်း ၆ လက်မခန့်ပင် ကြီးမားတတ်ကြသည်။ အရောင်အသွေးတို့လည်း စုံလင်လာသည်။ ပန်းရောင်၊ လိမ်မော်ရောင်၊ အဖြူ၊ နှင်းဆီရောင်၊ အနီရင့်၊ အနီဖျော့၊ အဝါနု၊ အဝါရင့် စသည်ဖြင့် ချစ်စဖွယ် အသွေးအရောင် ဆန်းပြားစုံလင်ပေသည်။ ထိုပြင် အပွင့်အပြာ၊ အပြောက်၊ အစက် စသည်ဖြင့်လည်း ဆန်းကြယ်လှပကြပေသည်။ အချို့ အပွင့်ပုံသဏ္ဌာန်တို့သည် သစ်ခွပန်းကလေးများနှင့် ဆင်တူ၍၊ အချို့ အပွင့်များသည် သစ္စာပန်းများနှင့် ဆင်ဆင်တူသည်။ ထိုပြင် အရွက်များ၏ အရောင်သည်လည်း ခရမ်းရောင်၊ လိမ်မော်ရောင်၊ အဝါရောင်များ ရှိလာလေသည်။

ဗုဒ္ဓသရဏပင်သည် နှစ်ကြာခံ သစ်နုပင်မျိုး ဖြစ်သည်။ အပင်တွင် ရိုင်ဇုမ် အတက်ဖုများ ပါရှိသည်။ အပင်ပွားရန်နှင့် စိုက်ပျိုးရန် လွယ်ကူသည်။ အရွက်တို့သည် ထိပ်ချွန်၍ အလျား ရှည်လျားသော အရွက်ဖားကြီးများ ဖြစ်သည်။ အချို့ အရွက်များသည် ၂ ပေမှ ၄ ပေကျော်ခန့်ပင်

ရှိတတ်၍ ပြက် ၈ လက်မခန့် ရှိတတ်သည်။ အပွင့်တို့သည် အသားပျော့ ပင်စည်ရိုးတံ၏ ထိပ်များတွင် အဆုပ်အခဲ ပွင့်ကြသည်။ ယင်းအပွင့်များသည် ရိုးရိုး (အခြေခံ) ရေစိမ့်၊ သို့မဟုတ် ရေစီမိုဖြာ ဖြစ်သည်။ အစိမ်းရောင် ပွင့်ခံရွက်တို့သည် ဥဖျားသွယ်ပုံသဏ္ဌာန်ရှိ၍ အလျား ၅ လက်မခန့်ရှိသည်။ ပွင့်ဖတ် ၃ ဖတ်ရှိ၍ သေးငယ်သည်။ ယင်းတို့သည် လုံ့စွပ်သဏ္ဌာန်၊ သို့မဟုတ် ရှည်လျားလျား ပုံသဏ္ဌာန်ရှိသည်။ ပွင့်ချပ်လည်း ၃ ချပ်ရှိ၍ စိမ်းလဲ့လဲ့အရောင်ရှိပြီးလျှင် လုံ့စွပ် ပုံသဏ္ဌာန်ပင် ဖြစ်သည်။ ပွင့်ချပ် အောက်ပိုင်းသည် ပင်စည်ကို ရစ်ပတ်ကာ တချပ်နှင့်တချပ်ဆက်စပ်လျက်ရှိသည်။လုပသောအသွေးအရောင်ရှိသည့်အစိတ်အပိုင်းများကိုပွင့်ချပ်များဟု ထင်မှတ်မှားနေကြသည်။ စင်စစ် ထိုအစိတ်အပိုင်းတို့သည် ဝတ်ဆံဖိုများဖြစ်ကြ၍ ဝတ်ဆံဖိုတခုထဲ၌ သာလျှင် ဝတ်မှုန်အိတ် ပါရှိလေသည်။ အစေ့တို့သည် ကျည်စေ့တို့ကဲ့သို့ မဲမဲမာမာ အလုံးကလေးများဖြစ်သည်။ ထို့ကြောင့် ဗုဒ္ဓသရဏပင်ကို အင်္ဂလိပ်ဘာသာဖြင့် အင်ဒီးယန်းရှော့ (အိန္ဒိယကျည်စေ့) ပင်ဟုလည်း ခေါ်ကြလေသည်။

ဗုဒ္ဓသရဏပင်သည် အပူပိုင်း ဒေသ အပင်ဖြစ်သည့်အတိုင်း ပူနွေး စိုစွတ်သော ရာသီဥတုမျိုးနှင့် မြေသြဇာကောင်းကို နှစ်သက်သည်။ အစေ့မတည်စေရန် အပွင့်တို့မနွမ်းမီ ဆွတ်ခူးပေးလျှင်၊ တနွေလုံး အပွင့်များဝေဝေဆာဆာပွင့်သည်။ ရာသီဥတု အေးမြသော ဒေသများတွင် ပွင့်ချိန်ကုန်လျှင် အမြစ်များကို တူးဖော်၍ ဆောင်းကုန်သည်အထိ သိမ်းဆည်းထားရသည်။ အကြောင်းမူ ဗုဒ္ဓသရဏပင်သည် အအေးဒဏ်၊ ဆီးနှင်းဒဏ်ကို မခံနိုင်ချေ။ အေးမြသည့် ရာသီအတွင်း စိုက်ပျိုးလိုလျှင် မှန်ပျိုးအိမ်များထဲတွင် စိုက်ပျိုးကြရသည်။

မြန်မာနိုင်ငံတွင် အလှစိုက် ဗုဒ္ဓသရဏပင်များကို မိုးဦးကျအခါတွင် တူး၍ အသစ် ပြန်စိုက်ကြသည်။ ဗုဒ္ဓသရဏပင်များကို ရုံကြီးများ အဖြစ်ငင်း၊ အတန်းလိုက်စီ၍ငင်း စိုက်ပျိုးကြသည်။ အလှစိုက် အပင်နိမ့်များ၏ နောက်ခံအပင်များအဖြစ် စိုက်ပျိုးကြလေသည်။

မြန်မာနိုင်ငံတွင် ဗုဒ္ဓသရဏ အပွင့်အနီနှင့် အဝါမျိုးတို့ အလေ့ကျ ပေါက်ရောက်သည်။ နေအိမ် ပန်းခြံနှင့် ဥယျာဉ်ပန်းခြံများတွင် အရောင်စုံ ဗုဒ္ဓသရဏပင်များကို အလှစိုက်ပျိုးကြလေသည်။

ဗုဒ္ဓသရဏပင်၏ အမြစ်နှင့် အရွက်သည် အချို့ အရပ်ဒေသများတွင် ဆေးဖက်ဝင်ကြောင်း သိရသည်။ အမြစ်ဖုကို ချွေးထုတ်ဆေးနှင့် ဆီးရွှင်ဆေးအဖြစ် သုံးကြသည်။ အိန္ဒိယ နိုင်ငံတွင် အတက်ဖုများကို ပြုတ်၍ လူအတွက်ငင်း၊ တိရစ္ဆာန်များ အတွက်ငင်း ဆေးများတွင် ထည့်သုံးကြသည်။ ဂျားဗားကျွန်းတွင် အတက်ဖုများကို ခြစ်၍ အရည်ညှစ်ပြီးလျှင် ဝမ်းဖောဝမ်းယောင်ပျောက်ဆေးအဖြစ် အသုံးပြုကြသည်။ အချို့ ဗုဒ္ဓသရဏမျိုးစိတ်ဝင် အပင်များ၏ အမြစ်ဖု၊ အတက်ဖုများကို စားသုံးကြသည်။ သင်္ဘောအာဒါလွှတ်ပင်သည် ဗုဒ္ဓသရဏ မျိုးစိတ်တမျိုးပင် ဖြစ်လေသည်။

ဗုဒ္ဓသရဏပင်မှ အစေ့ကို ကော်ဖီစေ့အစား အသုံးပြုကြခြင်းလည်း ရှိသည်။ ဂျားဗားကျွန်းတွင် ခေါင်းကိုက်လျှင် အစေ့များကို ကြိတ်၍ အုံကြသည်။ အစေ့များကို ရေစိမ်ပြီးလျှင် နာခေါင်းသွေးတိတ်ဆေးအဖြစ်လည်း အသုံးပြုကြသည်။ ထိုအစေ့များမှ ခရမ်းရောင်နု ဆိုးဆေး ထုတ်ယူရနိုင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ထိုအစေ့များကို စိပ်ပုတီးများ သီကုံးကြလေသည်။

# သာသနာတော် ပျံ့နှံ့ပုံ သမိုင်း

**ဗုဒ္ဓဘုရားရှင်၏ သာသနာတော်သည် အိန္ဒိယနိုင်ငံ မဇ္ဈိမဒေသ၌ စတင်ရာမှ အာရှတိုက် နိုင်ငံများသို့ ပျံ့နှံ့ခဲ့ရာ ဂိုဏ်းကြီးဂိုဏ်းငယ် ဖြစ်ပေါ်လာပုံနှင့်တကွ သာသနာတော် အတိုးအဆုတ် အတက်အကျကို အကျဉ်းချုပ် ဖော်ပြသည်ကိုတွေ့နိုင်သည်။**

**ဗုဒ္ဓသာသနာဝင်။** ။ဗုဒ္ဓသာသနာဝင် ဆိုသည်မှာ ဗုဒ္ဓသာသနနှင့် ဝံသဟူသော စကား ၂ ရပ် ပေါင်းစပ်ထားခြင်းဖြစ်၍ ဗုဒ္ဓဘုရားသခင်၏ သာသနာသုံးရပ်ကို လိုက်နာကျင့်ကြံအားထုတ်သူ အဆက်အနွယ်များဟု အဓိပ္ပါယ်ရသည်။ တနည်းအားဖြင့် ဗုဒ္ဓသာသနာ သုံးရပ်၏ အစဉ်အဆက် ဖြစ်ပျက်ပုံ သမိုင်းစဉ်ဟု ဆိုရပေမည်။

ဗုဒ္ဓဘုရားသခင်၏ သာသနာ သုံးရပ်ကား (၁) ဘုရားသခင်၏ အဆုံးအမ ဩဝါဒ စကားများဖြစ်သည့် ပိဋကတ်ကျမ်းစာများ တည်းဟူသော ပရိယတ္တိသာသနာ၊ (၂) ယင်းပိဋကတ်ကျမ်းစာများအတိုင်း လိုက်နာ ကျင့်ကြံအားထုတ်သည့် ကျင့်ဝတ် ပဋိပတ်များ တည်းဟူသော ပဋိပတ္တိသာသနာ၊ (၃) ယင်းကျင့်ဝတ် ပဋိပတ်များကို လိုက်နာကျင့်ကြံအားထုတ်သဖြင့် ရရှိသည့် မဂ်ဖိုလ်နိဗ္ဗာန်တရားကို သိမှုအကျိုးတည်းဟူသော ပဋိဝေဓ သာသနာတို့ ဖြစ်သည်။

## မဇ္ဈိမဒေသမှ သာသနာစတင်ပုံ

ဗုဒ္ဓသာသနာတော်သည် လွန်ခဲ့သည့် နှစ်ပေါင်း ၂၅၀၀ ကျော်မှ စတင်၍ ယခု အိန္ဒိယ နိုင်ငံ အလယ်ပိုင်းဖြစ်သော မဇ္ဈိမဒေသ၌ ထွန်းကားခဲ့လေသည်။ မဟာသက္ကရာဇ် ၁၀၃ ခုနှစ် (ဘီစီ ၆ ရာစုနှစ်) တွင် မဇ္ဈိမဒေသ မဂဓတိုင်း၌ ဂေါတမ ဘုရားသခင် ပွင့်တော်မူသည်မှစ၍ ဗုဒ္ဓသာသနာ စတင် ပေါ်ပေါက်ခဲ့ခြင်း ဖြစ်သည်။ ဘုရားသခင်သည် ၄၅ ဝါ ပတ်လုံး တရားဒေသနာများ ဟောကြားပြသ ဆုံးမတော်မူခြင်းဖြင့် ဗုဒ္ဓသာသနာတော်ကိုအခြေချခဲ့လေသည်။

ဂေါတမဘုရားရှင် ပရိနိဗ္ဗာန် စံတော်မူပြီးနောက် ဘုရားသခင် ဟောကြားတော်မူခဲ့သည့် ဓမ္မနှင့် ဝိနယတို့သည် ဘုရားသခင် ကိုယ်စား ဗုဒ္ဓသာသနာအဖြစ် ကျန်ခဲ့လေသည်။ ဘုရားသခင် ရှိစဉ်ကတည်းကပင် ပရိယတ်အားလုံးကို အားလုံးသော ရဟန်းများ နှုတ်တက်ဆောင်နိုင်ကြသည် မဟုတ်ချေ။ အချို့က ဝိနည်း၊ အချို့က သုတ်၊ အချို့က အဘိဓမ္မာကို ဆောင်ကြလေသည်။ ဘုရား ပရိနိဗ္ဗာန်စံတော်မူ၍ ခုနစ်ရက်ရှိလျှင်ပင် ဘုရားရှင် ပရိယတ္တိ သာသနာတော် ကွယ်ပျောက် မှေးမှိန်ခြင်း၏ အကြောင်း နိမိတ် အရိပ်အယောင် ပေါ်လာလေသည်။ အဓမ္မဝါဒီ အလဇ္ဇီ၊ ပါပဘိက္ခုတို့ အားမကြီးသေးမီ ပရိယတ္တိ သာသနာဟူသော ဓမ္မနှင့် ဝိနယကို သင်္ဂါယနာတင်မှ ဖြစ်မည်ဟု ထေရ်ကြီးများ သိမြင်တော်မူလာသောကြောင့် မဟာသက္ကရာဇ် ၁၄၈ ခု ဝါခေါင်လပြည့်ကျော် ၅ ရက်နေ့မှစ၍ ရာဇဂြိုဟ်ပြည်၌ အဇာတသတ်မင်း လက်ထက်တွင် ရှင်မဟာကဿပ အမှူးပြု၍ ရဟန္တာ၅၀၀ နှင့် ပဌမ သင်္ဂါယနာတင်၍ ဓမ္မနှင့် ဝိနယတို့ကို စုပေါင်းသိမ်းရုံး မှတ်တမ်းတင်ကာ ထိန်းသိမ်းထားကြသည်။ ထိုအချိန်က မှတ်တမ်းတင်သည် ဆိုသော်လည်း စာဖြင့် ရေးသားထားခြင်းမဟုတ်၊ ဆရာစဉ်အလိုက် အာဂုံရွတ်ပြီး ကျက်မှတ် ထိန်းသိမ်းထားကြခြင်း ဖြစ်သည်။

## အိန္ဒိယနိုင်ငံအနှံ့ပြန့်ပွားခြင်း

ပဌမ သင်္ဂါယနာတင်ပြီးသည့်နောက် အိန္ဒိယ မြောက်ပိုင်းနှင့် အလယ်ပိုင်းမှ မင်းများ၏ စောင့်ရှောက် ထောက်ပံ့မှုကြောင့် ဗုဒ္ဓသာသနာသည် အနှစ် ၁၀၀ တိုင် စည်ပင်ဝပြောလာခဲ့သည်။ သို့ရာတွင် သံဃာအဖွဲ့ထဲ၌ ဝိနည်းအကျင့် ယိုယွင်းလျော့ပေါ့မှုကြောင့် ပဌမ သင်္ဂါယနာတင်ပြီး အနှစ် ၁၀၀ အကြာတွင် ဝေသာလီပြည် ကာဠာသောက မင်းကြီး လက်ထက်၌ ဒုတိယ သင်္ဂါယနာ တင်ရပြန်သည်။ ထိုအချိန်တွင် ဗုဒ္ဓသာသနာသည် မဇ္ဈိမဒေသ၌ သာမက အိန္ဒိယ နိုင်ငံ အရပ်ရပ်သို့ ပျံ့နှံ့နေပြီဖြစ်သဖြင့် အရှေ့တိုင်း ရဟန်း ကိုယ်စားလှယ် ၄ ပါး၊ အနောက်တိုင်း ရဟန်းကိုယ်စားလှယ် ၄ ပါး၊ ပေါင်း ၈ ပါး ပါဝင်သော ဦးစီးအဖွဲ့နှင့် ရှင်သဗ္ဗကာမီ မထေရ်တို့က အမှူးပြု၍ ရဟန်း ၇၀၀ နှင့် သင်္ဂါယနာ တင်ကြကာ တရားတော် အယူအဆ ချွတ်ချော်သည်များကို ညှိနှိုင်း အတည်ပြုကြသည်။

## သာသနာဂိုဏ်းကွဲခြင်း

ယင်းသို့ ဗုဒ္ဓသာသနာတော်ကို မပျက် မယွင်းအောင် ဆရာ အစဉ်အဆက်တို့ ထိန်းသိမ်းသည့်ကြားမှပင် ရဟန်းတို့ မကျင့်သုံးအပ်သော အဓမ္မတရား ၁၀ ပါးကို ကျင့်သုံးအပ်သည်ဟု အယူရှိခဲ့ကြသော ဝဇ္ဇီတိုင်းသား အလဇ္ဇီများသည် ဒုတိယ သင်္ဂါယနာ၏ အဆုံးအဖြတ်ကို လက်မခံဘဲ ရဟန်းတသောင်း ပါဝင်သော မဟာသံဃိက အဖွဲ့တခု စင်ပြိုင် ဖွဲ့စည်းကြသည်။ ဓမ္မအယူအဆကြောင့် မဟုတ်ဘဲ ဝိနည်းတော် အယူအဆကွဲ၍ ကွဲခဲ့ရသော ဂိုဏ်း ၂ ဂိုဏ်း ရှိသည့်အနက် တဂိုဏ်းကို သမရိုးကျဂိုဏ်း၊ အခြား တဂိုဏ်းကို ပြုပြင်ရေးဂိုဏ်းဟု ခေါ်သည်။ မဟာသံဃိက ဂိုဏ်းဝင်များက သူတို့၏ ဂိုဏ်းကို သမရိုးကျဂိုဏ်းဟု ယူဆခဲ့ကြသော်လည်း ပြည့်ရှင်မင်းများက ထောက်ပံ့ ကိုးကွယ်မှု မပြုခဲ့ကြ၍ သာသနာတွင် မလွှမ်းမိုးနိုင်ခဲ့ကြချေ။ ဒုတိယ သင်္ဂါယနာတင်ပြီးနောက် အနှစ် ၁၀၀ ကျော်အတွင်း ဗုဒ္ဓသာသနာတော် ဆက်လက် ပြန့်ပွားခဲ့သော်လည်း သံဃာ ဂိုဏ်းကြီး ကွဲမှုမှ အစပြု၍ ဂိုဏ်းငယ်ကလေးများ တစတစ ကွဲသာပြန်သည်။

သာသနာ သက္ကရာဇ် ၂၁၁ ခုနှစ်တွင် မောရိယ နိုင်ငံ ထီးနန်းကို ဆက်ခံသော သီရိဓမ္မာသောက မင်းကြီးသည် မိမိ ကိုးကွယ်ရင်းဖြစ်သော ဗြာဟ္မဏ အယူဝါဒကို စွန့်ကာ ဗုဒ္ဓအယူဝါဒကို ကူးပြောင်း ကိုးကွယ်သည့် အချိန်မှစ၍ ဗုဒ္ဓသာသနာကို အလွန် ချီးမြှောက်တော်မူသော ဘုရင် ဖြစ်သည်။ နိုင်ငံတော် အတွင်း၌ တရားဓမ္မများ ဟောပြောစေခြင်း၊ ဓမ္မတရားတော်အတိုင်း ဆုံးမသော အမိန့်တော်များကို ကြာရှည်စွာ မပျောက်မပျက် တည်တံ့စိမ့်သောငှါ ကျောက်တိုင်များ၊ ကျောက်ပြားများ၊ ကျောက်ဂူလိုဏ်၏နံရံများပေါ်တွင် ကမ္ပည်းထွင်း၍ စိုက်ထူခြင်း၊ ဘုရား၏ မွေတော် ဓာတ်တော်များကို စုဆောင်း ရှာဖွေ၍ ထုပါရုံစေတီပေါင်း ရှစ်သောင်း လေးထောင်ကို အနယ်နယ်၌ တည်ခြင်းတို့ဖြင့် သာသနာကို ချီးပင့်တော်မူသည်။ သို့ရာတွင် သီရိဓမ္မာသောက မင်းကြီးသည် တကယ့် သမရိုးကျဂိုဏ်းကိုသာ အားပေးချီးမြှောက်ပြီးလျှင် တိတ္ထိများကို နှိမ်နင်းတော်မူသောအခါ တိတ္ထိများသည် စားရာမဲ့သောက်ရာမဲ့ ဖြစ်ကြလေသည်။ ထိုအခါ တိတ္ထိများသည် သင်္ကန်းဝတ်၍ ရဟန်းကောင်းတို့နှင့် ရောနှောနေသဖြင့် ရဟန်းကောင်းတို့သည် တိတ္ထိရဟန်းတို့နှင့် အတူတကွ ပဝါရဏာ မပြုဘဲ နေကြလေသည်။ ဥပုသ်မပြုသော ရဟန်းတို့အား အမတ်

မိုက်တို့က သတ်ပစ်သဖြင့် ရဟန်းကောင်းများစွာ သေကြေပျက်စီးခဲ့ရသည်။ ထိုနောက်မှ မောဂ္ဂလိပုတ္တတိဿ မထေရ်ကို ပင့်၍ ရဟန်းကောင်း ရဟန်းဆိုး ရွေးချယ် စိစစ်ကာ သာသနာတော်ကို သန့်စင်စေရသည်။

## ကိုးတိုင်းကိုးဌာနသို့ သာသနာပျံ့နှံ့ပုံ

သာသနာတော်၏ ကြီးစွာသော ဘေးရန်ကို ဤသို့ ငြိမ်းစေပြီးသော် သီရိဓမ္မာသောက မင်းသည် သာသနာသက္ကရာဇ် ၂၃၅ ခုနှစ်တွင် ပရိယတ္တိ သာသနာတော်ကြီးကို တစုံတယောက်သော ရန်သူတို့ ဝင်ရောက် နှောင့်ယှက်ခြင်းငှါ မစွမ်းနိုင်အောင် တားမြစ် စောင့်ရှောက်သော အနေဖြင့် ပါဋလိပုတ်ပြည် အာသောကာရုံ ကျောင်းတော်၌ ရှင်မောဂ္ဂလိပုတ္တတိဿ မထေရ်အား အမှူးထား၍ သံဃာ ပေါင်း ၆ သန်းတို့ဖြင့် တတိယ သင်္ဂါယနာ တင်တော်မူလေသည်။ တတိယ သင်္ဂါယနာသဘင်ကို သမရိုးကျဂိုဏ်းဖြစ်သော ထေရဝါဒဂိုဏ်းဝင်များကသာ သီးသန့် ကျင်းပသကဲ့သို့ ဖြစ်ကာ မဟာသံဃိကဂိုဏ်းဝင်တို့က အသိအမှတ် မပြုဘဲ နေကြလေသည်။ သို့ရာတွင် ပြည့်ရှင်မင်းက ခြီးမြှောက် ထောက်ပံ့သော သဘင်ဖြစ်သဖြင့် တတိယ သင်္ဂါယနာပွဲသည် အထူးပင် အောင်မြင်ခဲ့လေသည်။ ယင်း သင်္ဂါယနာ သဘင်မှ ပေါ်ပေါက်လာသော အကျိုးကျေးဇူးမှာ အီဂျစ်၊ ဂရိ၊ အရှေ့ ဥရောပ နိုင်ငံများ၊ အိန္ဒိယ အနောက်မြောက် နိုင်ငံများ၊ တောင်ဖက်စွန်းရှိ ပြည်နယ်များနှင့် သီဟိုဠ်ကျွန်း၊ မြန်မာနိုင်ငံနှင့် အာရှအရှေ့တောင် ဖက်ကျွန်းစုများ စသည့် ကိုးတိုင်းကိုးဌာနတို့သို့ ဓမ္မဒူတ ခေါ် သာသနာ့ တမန်များ စေလွှတ်၍ သာသနာပြုစေခြင်း ဖြစ်သည်။ ထိုအချိန်တွင် ဇမ္ဗူဒိပ်ကျွန်းအလုံးသည် သက်န်းရောင်ဖြင့် ပြောင်ပြောင်တောက်၍ ဗုဒ္ဓသာသနာ သုံးရပ်သည် နေဝန်းကြီးပမာ အလွန်ပင် ထွန်းလင်းတောက်ပသောခေတ် ဖြစ်ခဲ့သည်။

## သီဟိုဠ်ကျွန်းသို့ ဗုဒ္ဓသာသနာရောက်ရှိပုံ

ယင်းသို့ သာသနာပြု လွှတ်သည်တို့အနက် သီရိဓမ္မာသောကမင်းကြီး၏ သားတော် ရှင်မဟိန္ဒ အမှူးရှိသည့် သီဟိုဠ်ကျွန်း သာသနာပြု ဓမ္မဒူတ လုပ်ငန်းသည် အအောင်မြင်ဆုံး ဖြစ်သည်။ ထိုကြောင့်ပင် ဗုဒ္ဓသာသနာ စတင်ပေါက်ဖွားရာ အိန္ဒိယနိုင်ငံတွင် ထေရဝါဒဂိုဏ်း၏ အစဉ်အလာများ၊ စာပေ ပရိယတ္တိများ နောင်အခါ လုံးဝ ပျောက်ကွယ်သည့်အခါတွင် သီဟိုဠ်ကျွန်း၌ ထွန်းကားကျန်နိုင်ခဲ့ခြင်း ဖြစ်သည်။ ရှင်မဟိန္ဒ၏ ဟောပြော ဆုံးမမှုကြောင့်ပင် မင်းနှင့်တကွ တိုင်းသူပြည်သားများ ဗုဒ္ဓအယူဝါဒကို သက်ဝင် ကြည်ညိုလာကြသည်။ ရှင်မဟိန္ဒသည် နှမတော် သင်္ဃမိတ္တာထေရီကို သီဟိုဠ်ကျွန်းသို့ပင့်၍ အနုဠာ မင်းသမီးနှင့် ရံရွေတော်များအား ဘိက္ခုနီအဖြစ် သွတ်သွင်းစေခဲ့သည်။ ထိုကြောင့် အိန္ဒိယပြည်မမှ အပတွင် ဘိက္ခုနီသံဃအဖွဲ့ တည်သောဒေသသည် သီဟိုဠ်တနိုင်ငံသာ ရှိသည်ကို တွေ့ရသည်။

ထေရ်အရှင် အဆက်ဆက်တို့ နှုတ်တက်အာဂုံဆောင်၍ ထိန်းသိမ်းခဲ့သော ပိဋကတ်သုံးပုံကို တိမ်းပါး ပျောက်ပျက်မည်စိုးသဖြင့် သာသနာ သက္ကရာဇ် ၄၅၀ ပြည့်နှစ်တွင် သီဟိုဠ်ကျွန်း၌ ဝဋ္ဋဂါမဏိမင်းကြီး လက်ထက်၌ ရဟန္တာ မထေရ်ကြီး ၅၀၀ အမှူးထား၍ မလယ ဇနပုဒ်၊ အာသောက လိုဏ်တွင် သင်္ဂါယနာသဘင် ကျင်းပ၍ အဋ္ဌကထာနှင့်တကွ ပိဋကတ်တော်ကို ပေထက်အက္ခရာတင်သည်။ ယင်းသင်္ဂါယနာသဘင်ကို အိန္ဒိယပြည်မရှိ မဟာသံဃိကဂိုဏ်းဝင်တို့က အသိအမှတ် မပြုသော်လည်း ထေရဝါဒဂိုဏ်း၏စတုတ္ထသင်္ဂါယနာ သဘင်အဖြစ် ဗုဒ္ဓသာသနာဝင်တွင် ထင်ရှားသည်။

## မဟာယာနဂိုဏ်း သီးခြားပေါ်လာခြင်း

သာသနာ သက္ကရာဇ် ၂၅၅ ခုနှစ်တွင် သီရိဓမ္မာသောက မင်းကြီး နတ်ရွာစံတော်မူသောအခါ အရိုက်အရာကို ဆက်ခံကြသော မင်းအဆက်ဆက်သည် ဗုဒ္ဓသာသနာ၌ ကြည်ညိုခြင်း ယုတ်လျော့လာကြသည်။ အချို့ သုတေသီတို့၏ အဆိုအရ၊ ထိုမင်းများသည် သာသနာတော်ကို အကြည်ညိုပျက်သည်မဟုတ်ဘဲ သာသနာ့ဝန်ထမ်း ရဟန်းများကို အကြည်ညိုပျက်ခြင်းသာ ဖြစ်သည်ဟု သိရသည်။ ယင်းသို့ဖြင့် အလွန် ထွန်းလင်းခဲ့သည့် ဗုဒ္ဓသာသနာတော်ကြီးသည် တဖြည်းဖြည်း ညှိုးမှိန်သွားလေသည်။ သို့ရာတွင် မင်းကြီး နတ်ရွာစံပြီးနောက် အနှစ် ၂၀၀ ခန့် အကြာ အိန္ဒိယ အနောက် မြောက်ပိုင်းကို ဂရိလူမျိုးတို့ သိမ်းပိုက်သောအခါ ဂရိတို့၏ သဘောထားကြီးမှုကြောင့် သာသနာတော် ထွန်းကားလာပြန်သည်၊ ဂရိဘုရင် အဆက်အနွယ်ဖြစ်သော မေနန္ဒခေါ် မိလိန္ဒဘုရင်သည် ရှင်နာဂသေန မထေရ်နှင့် တွေ့ပြီးနောက် ဗုဒ္ဓတရားတော်ကို ဆွေးနွေးကြားနာရသည့်အခါ သာသနာ့ ဒါယကာဖြစ်လာသည်။ မိလိန္ဒနှင့် ရှင်နာဂသေနတို့၏ ဆွေးနွေးချက်များကို စုပေါင်း၍ မိလိန္ဒပဥှာကျမ်းဟု ထင်ရှားလျက် ရှိသည်။ မိလိန္ဒပဥှာကျမ်းသည် သမရိုးကျ ဂိုဏ်းဝင် မဟုတ်သူများကို သမရိုးကျဂိုဏ်းဝင် ပြန်ဖြစ်လာနိုင်စေသော ကျမ်းကြီးဟု ဗုဒ္ဓသာသနာဝင်ဆိုင်ရာ သုတေသီတို့က မှတ်ချက်ချကြသည်။

မိလိန္ဒ မင်းကြီး နတ်ရွာစံပြီးနောက် မှေးမှိန်သွားသော အိန္ဒိယပြည်မမှ ဗုဒ္ဓသာသနာသည် သာသနာ သက္ကရာဇ် ၆၂၂ ခုနှစ်တွင် ကနိသိကမင်း လက်ထက်သို့ရောက်သော် ပြန်လည်ထွန်းလင်းလာပြန်သည်။ ကနိသိကမင်းသည် သီရိဓမ္မာ

သောကမင်းကဲ့သို့ပင် အိန္ဒိယနိုင်ငံကို ဗုဒ္ဓဘာသာ နိုင်ငံတော် ဖြစ်လာအောင် ဆောင်ရွက်တော်မူသည်။ ထိုခေတ်တွင် အထူးသဖြင့် ထီးနန်းစိုက်ရာ ပုရုသျှပုရ (ယခုပက်ရှဝါမြို့) နေပြည်တော်မှစ၍မြောက်ဖက်တလွှား အာရှတိုက်အလယ်ပိုင်းနှင့် တရုပ်နိုင်ငံသို့ ဗုဒ္ဓသာသနာ ပြန့်ပွားခဲ့လေသည်။ ကနိသိကမင်းသည် ကျမ်းဂန်တတ် သံဃာတော်များကို ပင့်၍ ဗုဒ္ဓသာသနာတော်၌ တင်ရှိသော အညစ်အကြေးနှင့် အယူအဆ မှားယွင်းချက် ပေါ်ပေါက် လာသည်များကို သုတ်သင်ရန် သင်္ဂါယနာသဘင် ကျင်းပခဲ့သည်။ယင်းသင်္ဂါယနာသဘင်ကို သမရိုးကျဂိုဏ်း၏ ဂိုဏ်းခွဲဖြစ်သော သဗ္ဗတ္တိဂိုဏ်းက ကြီးမှူးကျင်းပသည်။ ဘုရားတရားတော်များနှင့် စပ်လျဉ်းသော အဋ္ဌကထာသစ်များကို ထေရဝါဒ အစဉ်အလာအရ ပါဠိဘာသာဖြင့် မဖွင့်ဘဲ သသ်ကရိုဋ် ဘာသာဖြင့် ဖွင့်သည်ကို ထောက်၍ ယင်းသင်္ဂါယနာသဘင်သည် ထေရဝါဒဂိုဏ်းနှင့် ဆန့်ကျင်ကြောင်း သိသာသည်။

ထိုအချိန်တွင် အချင်းချင်းလည်း သဘောကွဲလွဲ၍ ထေရဝါဒဂိုဏ်းနှင့် ဆန့်ကျင်နေသော ဂိုဏ်းအားလုံးသည် ကွဲလွဲနေသည့် အယူအဆများကို ညှိနှိုင်း၍ သဘောတူညီချက်ပြုလုပ်ကာ မဟာယာနဂိုဏ်းဟူသော ဗုဒ္ဓသာသနာဂိုဏ်းတဂိုဏ်း ထူထောင်ကြသည်။ သဗ္ဗတ္တိဂိုဏ်းက ကြီးမှူးကျင်းပသော သင်္ဂါယနာသဘင်ကို ထေရဝါဒဂိုဏ်းဝင်တို့က အသိအမှတ် မပြုသော်လည်း မဟာယာနဂိုဏ်းဝင်တို့က ယင်းတို့၏ စတုတ္ထ သင်္ဂါယနာသဘင်အဖြစ် အသိအမှတ်ပြုကြသည်။ ဤသည်ကို ထောက်၍ ယင်းအချိန်တွင် ထေရဝါဒ ဗုဒ္ဓသာသနာသည် သီဟိုဠ်ကျွန်း၌သာ ထွန်းကားလျက်ရှိ၍ အိန္ဒိယပြည်မ၌ မဟာယာန ဗုဒ္ဓသာသနာ ထွန်းကားချိန်ဖြစ်ကြောင်း သိသာသည်။ စတုတ္ထ သင်္ဂါယနာအပြီးတွင် ကနိသိကမင်း အုပ်စိုးသော ဂန္ဓာရတိုင်းသည် မဟာယာန ဗုဒ္ဓသာသနာ စည်ပင်တိုးတက်ရာဌာနတခု ဖြစ်လာသည်။ မဟာယာနဂိုဏ်းက ကြီးမှူး တည်ထောင်သော တက္ကသိုလ အစရှိသည့်မြို့များမှ ဗုဒ္ဓတက္ကသိုလ်များသို့ ရဟန်းများ၊ လူပုဂ္ဂိုလ်များ၊ ဗုဒ္ဓသာသနာဝင် မဟုတ်သော ပုဂ္ဂိုလ်များ၊ တိဗက်နှင့် တရုပ်နိုင်ငံတို့မှ ရဟန်းနှင့် သုတေသီများသည် ဗုဒ္ဓအယူဝါဒကို သင်ယူရန် လာကြသည်။ အိန္ဒိယပြည်မ၌ ကြွင်းကျန်နေသေးသော ထေရဝါဒဂိုဏ်းဝင်များပင် ယင်းတက္ကသိုလ်များတွင် မဟာယာနဂိုဏ်း၏ အဘိဓမ္မာကို လာရောက် လေ့လာကြသည်။ (မဟာယာန — ရှု။)

## အိန္ဒိယနိုင်ငံ၌ သာသနာ လုံးဝမှေးမှိန်သွားပုံ

သာသနာ သက္ကရာဇ် ၉၀၀ ကျော်တွင် ဗုဒ္ဓသာသနာဝင်မင်းများ နတ်ရွာစံ၍ ဟိန္ဒူသာသနာဝင်မင်းများ စိုးစံသော အခါ အိန္ဒိယ မြောက်ပိုင်းတွင် ဗုဒ္ဓသာသနာတော် ညှိုးမှိန်ခဲ့၍ ဟိန္ဒူသာသနာ အယူအဆများ ဗုဒ္ဓသာသနာထဲ၌ ရောနှောလာခဲ့ပြန်သည်။ သာသနာ သက္ကရာဇ် ၁၁၀၀ ခန့်တွင် ထိုဒေသသို့ ဟန်းလူမျိုးများ အလုံးအရင်းနှင့် ချီတက်သိမ်းပိုက်ပြီးနောက် ရဟန်း ကျောင်းတော်များ၊ စာသင်တိုက်များ စသည့် ဗုဒ္ဓသာသနိက အဆောက်အအုံများကို ဖျက်ဆီး၍ ရဟန်းတော်များကို သတ်ခြင်း၊ ပိဋကတ်တော်များကို မီးရှို့ခြင်းတို့ကို ပြုလုပ်ကြသဖြင့် ဗုဒ္ဓသာသနာတော်ကြီးသည် အထူးပင် ညှိုးနွမ်းခဲ့ရသည်။

ယင်းသို့ သာသနာ ညှိုးမှိန်ခဲ့ရာမှ သာသနာ သက္ကရာဇ် ၁၁၄၉ ခုနှစ်တွင် နန်းတက်သော ဟာသျှဘုရင်သည် ဗုဒ္ဓသာသနာဝင် ဖြစ်သည့် အလျောက် သာသနာတော်ကို အလွန် ချီးပင့်သဖြင့် သာသနာတော် ထွန်းလင်းခဲ့ရပြန်သည်။ ထိုမင်းလက်ထက် နလန္ဒ ဗုဒ္ဓတက္ကသိုလ်ကြီးသည် အလွန် ထင်ရှား ကျော်စောလှသည်။ သို့ရာတွင် ဟာသျှမင်း နတ်ရွာစံပြီးနောက် ဗုဒ္ဓသာသနာသည် တဖြည်းဖြည်း ညှိုးမှိန်လာပြန်သည်။ သာသနာ သက္ကရာဇ် ၁၅၀၀ ခန့်တွင် အိန္ဒိယနိုင်ငံ မဂဓတိုင်းကို ပါလမင်းများ အုပ်စိုးသောအခါ ဗုဒ္ဓသာသနာသည် အိန္ဒိယနိုင်ငံ၌ နောက်ဆုံး အနေနှင့် ထွန်းတောက်ခဲ့ပြန်သည်။ ဘုရင်များ ကိုယ်တိုင် သာသနာကို ချီးပင့်ခဲ့ကြသဖြင့် ဗုဒ္ဓသာသနာ ပြန်လည် ထွန်းလင်းခဲ့ခြင်းဖြစ်သည်။ဗုဒ္ဓတက္ကသိုလ်များ၌ ပညာဆည်းပူးကြသော ရဟန်းတော်များသည် အရှေ့တောင်အာရှနိုင်ငံများသို့ သာသနာပြုရန် ကြွရောက်ကြလေသည်။ တိဗက်နိုင်ငံမှ ဗုဒ္ဓသာသနာကိုလည်း ပါလနိုင်ငံမှရဟန်းပညာရှိများပင် ပြုပြင်မွမ်းမံပေးခဲ့ကြသည်။ ယင်းသို့သာသနာတော် ထွန်းလင်းလာခဲ့သော်လည်း သာသနာသက္ကရာဇ် ၁၅၀၀ ကျော်တွင် အစ္စလမ် အယူဝါဒီများ အိန္ဒိယ နိုင်ငံကို အုပ်ချုပ်သောအခါ ဗုဒ္ဓသာသနာတော်သည် အိန္ဒိယ နိုင်ငံ၌ မှေးမှိန်သွားကာ လုံးဝကွယ်ပျောက်သကဲ့သို့ ဖြစ်သွားတော့သည်။

## ထေရဝါဒနှင့် မဟာယာနဂိုဏ်းကွဲလွဲချက်

ဗုဒ္ဓသာသနာ၏ မူလဂိုဏ်းကွဲကြီးဖြစ်သော ထေရဝါဒနှင့် မဟာယာနဂိုဏ်း ၂ ဂိုဏ်းစလုံး၏ အခြေခံ သဘောတရားများသည် သစ္စာ ၄ ပါး၊ မဂ္ဂင် ၈ ပါး၊ ကံ၊ ကံ၏အကျိုးတရား၊ အနတ္တတရား၊ မဂ်တရား၊ ဖိုလ်တရား စသည်ဖြင့် အတူတူပင် ဖြစ်သော်လည်း ဓမ္မအယူအဆတွင် ကွဲလွဲချက်ရှိကြပေသည်။ မြတ်စွာဘုရား ဟောကြားသော တရားတော်သည် သွက္ခာတ ဂုဏ်နှင့်အညီ အစ၊ အလယ်၊ အဆုံး တိတိကျကျ ပြည့်စုံပြီးသား ဖြစ်သဖြင့် ယင်းတရားတော်တို့ကို လိုက်နာကျင့်ကြံ အားထုတ်ခြင်း၊ မပျောက်မပျက်အောင် ကောင်းစွာ စောင့်ရှောက်ခြင်းတို့သာ ပြုဖို့လိုသည်ဟု ထေရဝါဒဂိုဏ်းဝင်များက ယူဆကြသည်။ မဟာယာန

ဂိုဏ်းဝင်များကမူ မြတ်စွာဘုရား ဟောကြားခဲ့သော တရားတော်သည် အရင်းခံ တရားမျှသာ ဖြစ်သည့်အတွက် ယင်းကို အခြေပြုပြီး တိုးတက် ကြံဆနိုင်ဖို့ လိုသည်ဟု ယူဆကြသည်။ ထေရဝါဒဂိုဏ်းဝင်များက မြတ်စွာဘုရား တရားတော် ဝိနည်းတော်တို့ကို လိုက်နာ ကျင့်သုံးသင့်သည်ဟု ယူဆ၍ မဟာယာနဂိုဏ်းဝင်တို့က မြတ်စွာဘုရား အပေါ်၌ သဒ္ဓါယုံကြည်ခြင်း ရှိရုံမျှနှင့် မဂ်ဖိုလ်အထိ အဆင့်ဆင့်ရနိုင်သည်ဟု ယူဆကြသည်။

ယင်းသို့ အခြေခံ သဘောတူလျက် အယူအဆ ကွဲလွဲသော သာသနာဂိုဏ်းကြီး ၂ ဂိုဏ်းသည် အာရှတိုက် ၃ ပုံ ၂ ပုံခန့်တိုင်အောင် ပျံ့နှံ့ခဲ့သည်။ မဟာယာန ဗုဒ္ဓသာသနာဂိုဏ်းသည် ယခု ကသ္မီရပြည်နယ်ကို အခြေပြု၍ ဟိမဝန္တာမြောက်ပိုင်း နီပေါ၊ တိဗက်၊ တရုပ်၊ ဂျပန်၊ ရုရှ၊ တူရကီတို့သို့ ပြန့်၍ ထေရဝါဒ ဗုဒ္ဓသာသနာသည် ဟိမဝန္တာတောင်ပိုင်း မြန်မာ၊ သီဟိုဠ်၊ ယိုးဒယား၊ ကမ္ဘောဇ၊ လာအိုနိုင်ငံတို့သို့ ပျံ့နှံ့သည်။ ထိုကြောင့် မဟာယာနဂိုဏ်းကို မြောက်ပိုင်း သာသနာဂိုဏ်းဟု ခေါ် လေ့ရှိကြ၍ ထေရဝါဒဂိုဏ်းကို တောင်ပိုင်း သာသနာဂိုဏ်းဟု ခေါ်ကြသည်။

## တရုပ်နိုင်ငံသို့ ဗုဒ္ဓသာသနာ ပြန့်ပွားပုံ

အိန္ဒိယနိုင်ငံ မြောက်ပိုင်း၌ ထွန်းကားခဲ့သော မဟာယာန ဗုဒ္ဓသာသနာသည် အာရှတိုက် အလယ်ပိုင်းမှတဆင့် တရုပ်နိုင်ငံသို့ ကေရာဇ်ဘုရင်မင်းတီ လက်ထက် သာသနာသက္ကရာဇ် ၆၀၄ ခုနှစ်တွင် ရောက်ရှိလာသည်။ တရုပ်နိုင်ငံသို့ အိန္ဒိယ နိုင်ငံသား ဗုဒ္ဓအယူဝါဒီဘုန်းကြီး ၂ ပါး ကြွလာသဖြင့် ကေရာဇ် ဘုရင်မင်းမြတ်ကိုယ်တိုင် ကျောင်းဆောက် ကိုးကွယ်သည်။ ထိုကျောင်း၌ပင် သိတင်းသုံးယင်း ဘုန်းတော်ကြီးများသည် သသ်ကရိဋ္ဌ ဘာသာဖြင့်ရှိသော သုတ်တရားကို တရုပ်ဘာသာသို့ ပြန်ဆိုလေသည်။ နောက်ထပ်လည်း အိန္ဒိယနှင့် အာရှအလယ်ပိုင်းသား ဗုဒ္ဓအယူဝါဒီ ဘုန်းတော်ကြီးများ တသုတ်ပြီးတသုတ် ရောက်လာ၍ ဗုဒ္ဓတရားတော်များကို တရုပ်ဘာသာသို့ ပြန်ဆိုရာ ဟန်မင်းဆက် ကုန်ဆုံးသည့်အခါ ဗုဒ္ဓသာသနာဆိုင်ရာ ကျမ်းစာအုပ်ပေါင်း ၃၅၀ ခန့် ပြန်ဆိုပြီးခဲ့သည်။ သို့ရာတွင် သာသနာသက္ကရာဇ် ၇၀၉ မှ ၁၁၃၃ ခုနှစ်အတွင်းဖြစ်သော တရုပ်နိုင်ငံ၏ အမှောင်ခေတ် မတိုင်မီ ဗုဒ္ဓသာသနာသည် တရုပ်နိုင်ငံ၌ ဖွံ့ဖြိုးမှု နှေးသေးသည်။ သာသနာ သက္ကရာဇ် ၉၀၀ ခန့်ကျသောအခါ သာသနာတော်သည် အထူးပျံ့နှံ့၍ တနိုင်ငံလုံး၏ ကိုးကွယ်သော အဓိက အယူဝါဒကြီး ဖြစ်ခဲ့ကြောင်းဖြင့် သုတေသီများက ဆိုကြသည်။ သာသနာသက္ကရာဇ် ၉၀၇ ခုနှစ် မတိုင်မီကလေးတွင်မှ တရုပ်တိုင်းရင်းသားများအား သာသနာ့ဘောင်သို့ ဝင်ခွင့်ကို ရှီချီလန်းဘုရင်က ခွင့်ပြုခဲ့သည်။ အိန္ဒိယနိုင်ငံသို့ လာရောက်၍ ခရီးသွား မှတ်တမ်းများ ရေးသားခဲ့သော တရုပ် ဘုန်းတော်ကြီး ဖာဟီယန်နှင့် ဆွန်ယွန်းတို့သည် ထိုခေတ်က ထင်ရှားသော ဘုန်းတော်ကြီးများ ဖြစ်ကြသည်။

ထိုအချိန်အထိ တရုပ်နိုင်ငံ၌ မဟာယာန ဗုဒ္ဓသာသနာသည် ယန်ဆီမြစ်မြောက်ဖက်၌သာ အထူး ပျံ့နှံ့၍ တောင်ဖက်၌ ကွန်ဖူးဇီးနှင့် တာအို အယူဝါဒများ လွှမ်းမိုးနေသဖြင့် ဖွံ့ဖြိုးမှု မရှိလှချေ။ သာသနာ သက္ကရာဇ် ၁,၀၀၀ ခန့်တွင် တရုပ်နိုင်ငံ မြောက်ပိုင်း၌ သာသနာရေးဆိုင်ရာ အဆောက်အအုံပေါင်း ၁၃,၀၀၀ ကျော်ရှိ၍ သံဃာတော် တသိန်းခန့်ရှိသည်ဟု မှတ်တမ်းများ၌ တွေ့ရသည်ကို ထောက်၍ သာသနာတော် မည်မျှဖွံ့ဖြိုးကြောင်း သိသာသည်။ တရုပ်နိုင်ငံမြောက်ပိုင်း၌ အလွန်ဖွံ့ဖြိုးနေသော ဗုဒ္ဓသာသနာသည်တဖြည်းဖြည်း မြောက်ဖက်သို့ နယ်ချဲ့၍ မန်ချူးရီးယားပြည်၊ ထိုမှတဆင့် ယာလူးမြစ်ကို ကျော်၍ ကိုရီးယားနိုင်ငံတွင်းသို့ သာသနာ သက္ကရာဇ် ၉၁၃ ခုနှစ်တွင် ရောက်လာသည်။

သာသနာသက္ကရာဇ် ၁၀၆၄ ခုနှစ်တွင် ကန်တုံမြို့သို့ ရောက်လာသော ဗောဓိဓမ္မထေရ်သည် တရုပ်နိုင်ငံမြောက်ပိုင်း၌ သာသနာပြုရာ၊ အထူးပင် အောင်မြင်သည်။ ထိုမထေရ်အား ပဌမမြောက် ဆက်ခံသည့် မထေရ်သည် တောင်ပိုင်း တရုပ်နိုင်ငံသို့ ကြွရောက်သာသနာပြုရာမှ ဗုဒ္ဓသာသနာသည် တရုပ်နိုင်ငံ တနိုင်ငံလုံးတွင် မကြုံဖူးအောင် ထွန်းကားလာခဲ့သည်။ တန်မင်းဆက် အစတွင် ကေရာဇ်ဘုရင်များသည် ကွန်ဖူးဇီး အယူဝါဒကို သက်ဝင်သူများဖြစ်သည့်အလျောက် ဗုဒ္ဓသာသနာဝင် ရဟန်း၊ သီလရှင်စသည်များအား လူထွက်စေခဲ့သေးသည်။ တန်မင်းဆက်နောက်ပိုင်းတွင် ဗုဒ္ဓသာသနာသည် တရုပ်နိုင်ငံ၌သာ ထွန်းကားသည်မဟုတ်၊ ဂျပန်နိုင်ငံဖက်သို့ပင် တဆင့် ပျံ့နှံ့သွားသည်အထိ ဖွံ့ဖြိုးခဲ့သည်။ မင်မင်းများနှင့် မန်ချူးမင်းများ လက်ထက်တွင် ဗုဒ္ဓသာသနာသည် တဖန် မှေးမှိန်သွားကာ သမတနိုင်ငံခေတ်ရောက်မှ တဖန် ပွင့်လင်းလာခဲ့သည်။ သို့ရာတွင် ရှေးကကဲ့သို့ စည်းစည်းလုံးလုံး ထွန်းကားသည်ကား မဟုတ်ချေ။ ထိုခေတ်တွင်ပင် တရုပ်ဘာသာဖြင့် ပိဋကတ်သုံးပုံ ပေါ် ပေါက်လာခဲ့သည်။

## ကိုရီးယား ဗုဒ္ဓသာသနာ

တရုပ်နိုင်ငံဖက်၌ သာသနာ ထွန်းလင်းနေစဉ် သာသနာသက္ကရာဇ် ၉၁၃ ခုနှစ်တွင် တရုပ်နိုင်ငံဖက်မှ ဘုန်းတော်ကြီးတပါးသည် ကိုရီးယားနိုင်ငံဖက်သို့ ကြွလာကာ တရားဓမ္မဟောကြားပြသရာ၊ ကိုရီးယားနိုင်ငံသည် မကြာမီ ဗုဒ္ဓသာသနာ နိုင်ငံဖြစ်လာသည်။ သာသနာသက္ကရာဇ် ၁၄၆၂ ခုနှစ် နောက်ပိုင်း ကော်ယူမင်းများ လက်ထက်၌ သား

လေးယောက်ရှိသော မိသားစုတွင် အနည်းဆုံး သားတယောက် သာသနာဘောင်ဝင်ရန်ပင် ဘုရင့်အမိန့်ဖြင့် ထုတ်ထားသည်အထိ ဘုရင်များကိုယ်တိုင် သာသနာကို ခြီးမြှင့်ခဲ့လေသည်။ သာသနာသက္ကရာဇ် ၁၉၃၆ ခုနှစ်တွင် ကော်ယူမင်းဆက်ပြုတ်၍ ယီမင်းဆက် တက်လာသောအခါ နိုင်ငံတွင်း၌ ဗုဒ္ဓအယူဝါဒီဘုန်းတော်ကြီးများ အာဏာထက်နေသည်ကို တဖြည်းဖြည်း ရုပ်သိမ်းကာ ဗုဒ္ဓသာသနာကို မင်းများကိုယ်တိုင် လျစ်လျူရှု၍ အထောက်အပံ့ မပြုဘဲ နေလိုက်သဖြင့် တဖြည်းဖြည်း မှေးမှိန် ပျောက်ကွယ်သွားသည်မှာ ယခုတိုင်ပင် ဖြစ်တော့သည်။

## ဂျပန်နိုင်ငံ ဗုဒ္ဓသာသနာ

တရုပ်နိုင်ငံနှင့် ကိုရီးယား နိုင်ငံတို့တွင် ထွန်းကား ပျံ့နှံ့ခဲ့သော မဟာယာန ဗုဒ္ဓသာသနာသည် သာသနာသက္ကရာဇ် ၇၃၆ ခုနှစ်ခန့်တွင် ပင်လယ်ကို ကူး၍ ဂျပန်နိုင်ငံဖက်သို့ ပြန့်ပွားခဲ့သည်။ ထိုနှစ်တွင် ကိုရီးယားနိုင်ငံ ပိတ်ချေးပြည့်ရှင်ဘုရင်က ပိဋကတ်တော်များကို ဂျပန်ဘုရင့်ထံပို့၍ မဟာမိတ်ဖွဲ့ရာမှ စတင် ရောက်ရှိသည်ဟု ဆိုရပေမည်။ ပိတ်ချေးပြည့်ရှင်သည် လက်ဆောင်များနှင့်အတူ သဝဏ်လွှာတစောင်ပါ ပါးလိုက်သေးသည်။ ယင်းသဝဏ်လွှာတွင် ဗုဒ္ဓတရားတော်၏ မွန်မြတ်ပုံ၊ လိုက်နာကျင့်သုံးပါက ထူးကဲသော အကျိုးကို ရရှိပုံတို့ကို ထည့်သွင်း ရေးသားလိုက်သည်။ သို့ရာတွင် မိရိုးဖလာ ကိုးကွယ်နေသော အယူဝါဒကို ပစ်ပယ်၍ အယူသစ်ကို သက်ဝင်ယုံကြည်ရန် အခက်အခဲ အနှောင့် အယှက်များနှင့် ရင်ဆိုင်နေရသဖြင့် သာသနာတော် ပြန့်ပွားမှု ဖင့်နွှဲခဲ့ရသည်။ ကေရာဇ် ဘုရင်ကိုယ်တိုင်ကမူ ဗုဒ္ဓအယူဝါဒကို နှစ်သက်သော်လည်း အတိုင်ပင်ခံ အမတ်ကြီးများ၏ဆန္ဒကို ယူနေခဲ့သဖြင့် ကြန့်ကြာခဲ့လေသည်။ ဗုဒ္ဓအယူဝါဒကို သက်ဝင် ကြည်ညိုထိုက်သည်ဟု ဆုံးဖြတ်သူတို့က တဖက်၊ မိရိုးဖလာ နတ်ကိုးကွယ်မှုကို မစွန့်ထိုက်ဟု ဆိုသူတို့ကတဖက် အငြင်းပွားကြယင်းဖြင့် သာသနာသက္ကရာဇ် ၁၁၃၁ ခုနှစ်တွင် ပြည်တွင်းစစ်ဖြစ်ရာ အယူဝါဒ မပြောင်းလဲလိုသူတို့ အရေးရှုံးနိမ့်သည်တွင် ဂျပန်နိုင်ငံ၌ ဗုဒ္ဓသာသနာ စတင်ထွန်းလင်းလာသည်။ အထူးသဖြင့် အထက်တန်းလွှာတို့တွင် ထွန်းကားခဲ့လေသည်။

ထိုနောက် ဆုအိကောတင်နော ကေရီ ဘုရင်မ လက်ထက်တွင် ဂျပန်နိုင်ငံ၏ ကြီးပွားတိုးတက်ရေးကို များစွာဆောင်ရွက်သော ရှိုတိုကုတိုင်းရှိ မင်းသားကြီးသည် ဗုဒ္ဓအယူဝါဒကို အထူးကြည်ညိုသူပီပီ ဘုရားကျောင်းကန်များဆောက်လုပ်ခြင်း၊ တရုပ်နိုင်ငံသို့ ဘုန်းတော်ကြီးများကို စေလွှတ်၍ ဗုဒ္ဓအယူဝါဒ တိုးတက်ပြန့်ပွားရေးအတွက် လေ့လာစေကာ ဂျပန်နိုင်ငံ၌ သာသနာတော်ပြန့်ပွားအောင် ဆောင်ရွက်စေခြင်းတို့ကို ပြုသည်။ ရှိုတိုကုတိုင်းရှိ မင်းသားကားဂျပန်နိုင်ငံ၏ သီရိဓမ္မာသောကမင်းဟု ခေါ်ဆိုရလောက်အောင် ဗုဒ္ဓ သာသနာတော်ကို အထူးပင် ချီးပင့်ခဲ့သော ပုဂ္ဂိုလ် ဖြစ်သည်။ ကိုယ်တိုင်လည်း တရားတော်ကို ဟောပြော၍ သာသနာနှင့် ဆိုင်သော ကိစ္စ၌ အားပေးသည်။ ထိုခေတ်တွင် သာသနာတော်သည် ဂျပန်နိုင်ငံ၌ နေလိုလလို ထွန်းလင်းခဲ့သည်။ တရုပ်၊ ကိုရီးယားစသောနိုင်ငံများမှ ဗုဒ္ဓအယူဝါဒီ ရဟန်းများသည် တသုတ်ပြီးတသုတ် ရောက်ရှိလာကြသည်။ ထို့နောက် မင်းအဆက်ဆက်တို့ သာသနာတော်ကို ဆက်လက်ခြီးမြှင့်ကြရာ၊ ဂျပန်နိုင်ငံ ဗုဒ္ဓသာသနာသည် အရှိန်ရလာသည်။

၁၂၈၃ ခုနှစ်တွင် နာရာမြို့ကို နေပြည်တော်ပြု၍ စိုးစံသော ရှောမူတင်နော မင်းလက်ထက် ဗုဒ္ဓသာသနာကို လွန်စွာ ခြီးမြှောက်သည်။ နေပြည်တော်မှစ၍ နယ်အသီးအသီး၌ ဘုန်းကြီးကျောင်းများ၊ သီလရှင် ဇရပ်များကို အမြောက်အမြား ဆောက်လုပ်လှူဒါန်းသည်။ ထိုကျောင်းပေါင်းများစွာကို အုပ်ချုပ်သော သာသနာပိုင် ဆရာတော်ကြီးကျောင်းကိုလည်း နာရနေပြည်တော်၌ ဆောက်လုပ်၏။ ထိုကျောင်းတော်ကြီးတွင် မြတ်စွာဘုရား ရုပ်တုတော်သည် ယခုတိုင် ကျော်ကြားသော နာရာဆင်းတုတော်ကြီးဖြစ်သည်။ ဘုရင်ကိုယ်တိုင် မကြာမီ ရဟန်းဝတ်သည်ဟုပင်ဆိုကြသည်။ သာသနာသက္ကရာဇ် ၁၈၆၈ ခုနှစ် ရှိုဂွန်တို့ကျသော် ဗုဒ္ဓသာသနာသည် မှေးမှိန်၍ ရှင်တိုအယူဝါဒပိုမိုထွန်းကားလာသည်။ ထိုပြင် နိုင်ငံခြားသား တိုင်းတပါးသားများအား ခရစ်နှစ် ၁၈၅၃ ခုနှစ်တွင် တံခါးဖွင့်၍ ဝင်ခွင့်ပြုလိုက်သောအခါ ခရစ်ယန် သာသနာပြုများ ရောက်ရှိလာသဖြင့် ဗုဒ္ဓသာသနာသည် ဂျပန်ပြည်၌ တဖြည်းဖြည်းမှေးမှိန်ခဲ့ရလေသည်။

## အရှေ့တောင်အာရှဗုဒ္ဓသာသနာ

မဟာယာန ဗုဒ္ဓသာသနာသည် အိန္ဒိယနိုင်ငံ မြောက်ပိုင်းမှ ယင်းသို့လျှင် တိဗက်၊ တရုပ်၊ ကိုရီးယား၊ ဂျပန်စသော နိုင်ငံများသို့သာမဟုတ်၊ အိန္ဒိယနိုင်ငံနှင့် ကူးသန်းရောင်းဝယ်မှု အဆက်အသွယ်ရှိသော အရှေ့ အိန္ဒိယကျွန်းစုသို့ပင် ပျံ့နှံ့သွားခဲ့သည်။ ရှေးဦးစွာ သိဃ်ာပူရမြို့ (ယခုစင်္ကာပူမြို့)၊ ထိုမှ ဆူမားတြားကျွန်း၊ ထိုမှ သီရိဝိဇယမည်သော နိုင်ငံတော်၊ ထိုမှ ဂျားဗားကျွန်း၊ ကမ္ဘောဇ နိုင်ငံစသည်တို့သို့ အဆင့်ဆင့် ရောက်ရှိခဲ့ရာ၊ ယခုတိုင် ထင်ရှားလျက်ရှိသော ဗောရောဗုဓော၊ အန်ကောဝတ်စသည့် သာသနိကအဆောက်အအုံကြီးများမှာသာသနာရောက်ရှိထွန်းကားခဲ့ဘူးကြောင်း အထောက်အထားများ ဖြစ်ကြသည်။ (ဗောရောဗုဓော။ အန်ကောဝတ် — လည်းရှု။ )

ယင်းသို့ မဟာယာန ဗုဒ္ဓသာသနာသည် အရှေ့တောင် အာရှနိုင်ငံများသို့ ထိုးဝင်လာသည့် အချိန်တွင် ထေရဝါဒ ဗုဒ္ဓသာသနာသည်လည်း ထိုနိုင်ငံများသို့ ရောက်ရှိပြီးဖြစ်သည်။ သီရိဓမ္မာသောကမင်းကြီး လက်ထက် မြန်မာနိုင်ငံနှင့် အရှေ့တောင် အာရှဒေသများသို့ စေလွှတ်သော သာသနာပြု ဓမ္မဒူတများ၏ လုပ်ငန်းသည် သီဟိုဠ် သာသနာပြုလုပ်ငန်းလောက် ထိုအချိန်က မအောင်မြင်သေးသော်လည်း သာသနာ့မျိုးစေ့ကို ချပေးသကဲ့သို့ ဖြစ်ခဲ့သည်။ ထိုဒေသများ၌ ထေရဝါဒ ဗုဒ္ဓသာသနာလည်း အင်အား ကြီးမားခြင်း မရှိသေးသည့်အတွက် မဟာယာန ဗုဒ္ဓသာသနာ ရောက်လာသည့်အခါ အပြိုင်အဆိုင် ပြင်းပြင်းထန်ထန်ဖြစ်ခြင်း မရှိဘဲ ဝါဒ ၂ ခုစလုံးကို နိုင်ငံသူ နိုင်ငံသားများ စုပေါင်းလက်ခံကြဟန်တူသည်။

## ထေရဝါဒဗုဒ္ဓသာသနာထွန်းကားခြင်း

သို့ရာတွင် သာသနာသက္ကရာဇ် ၉၃၀ ပြည့်နှစ်တွင် ထေရဝါဒ အယူအဆများကို ရှင်းလင်းဖော်ပြနိုင်သော ထေရဝါဒ အာဇာနည် မဟာဗုဒ္ဓဃောသမထေရ် ထွန်းကားပေါ်ပေါက်လာသည့်အတွက်ထိုနိုင်ငံများတွင် ထေရဝါဒသာထွန်းကား ပြန့်ပွား ခိုင်မြဲခဲ့ရသည်။ (မဟာ ဗုဒ္ဓဃောသ၊ရှင် — ရှု)။ သင်္ဂါယနာ အဆက်ဆက် တင်ခဲ့ပြီး၊ ဆရာအစဉ်အဆက် ထိန်းသိမ်းခဲ့သည့် ထေရဝါဒကျမ်းများနှင့် အဋ္ဌကထာကျမ်းများသည် သီဟိုဠ်ဘာသာဖြင့်သာ ရေးပြီးရှိ၍၊ ပါဠိဘာသာဖြင့် မရှိသဖြင့် ရှင်မဟာဗုဒ္ဓဃောသပင် ကျမ်းအားလုံးကို ဘာသာပြန်ဆို၍ ယင်းကျမ်းများ၏ အဖွင့်အဋ္ဌကထာ များကိုပါ ရေးသားပြုစုလေသည်။ ရှင်မဟာဗုဒ္ဓဃောသ၏ အဋ္ဌကထာနှင့် ပါဠိဘာသာပြန်ကျမ်းများသည် ထေရဝါဒဗုဒ္ဓသာသနာရောင်ကို ဒုတိယ အကြိမ် ထွန်းပြောင်စေခဲ့သည်။

သီဟိုဠ်ကျွန်းတွင် တဖန် ထွန်းပြောင်လာခဲ့သော ထေရဝါဒ ဗုဒ္ဓသာသနာသည် အရှေ့တောင် အာရှဒေသများသို့ ပြန့်ပွားလာခဲ့ပြန်သည်။ သို့ရာတွင် သာသနာ သက္ကရာဇ် ၁၅၀၁ ကျော်ခန့်တွင် အိန္ဒိယ တောင်ပိုင်းသားများ ဖြစ်ကြသော (စောဠ) ကျေးကုလားလူမျိုးတို့သည် သီဟိုဠ်ကျွန်းကို ဝင်ရောက်တိုက်ခိုက်ကြသဖြင့် ထေရဝါဒဗုဒ္ဓသာသနာသည် ဘေးအန္တရာယ်နှင့် ကြုံတွေ့ရပြန်သဖြင့် မှေးမှိန်ခဲ့ရပြန်သည်။ ထိုအချိန်တွင် မြန်မာနိုင်ငံ၌ ထီးနန်းစိုးစံနေသော အနော်ရထာမင်းစောသည် မြန်မာနိုင်ငံမြောက်ပိုင်းမှာင်ရောက်လာသော မဟာယာန ဗုဒ္ဓသာသနာ ရောနှောနေသည့် နတ်ကိုးကွယ်မှု အယူဝါဒကို တိုင်းသူပြည်သားတို့ ယုံကြည် ကိုးကွယ်နေသည်ကို မနှစ်သက်သဖြင့် မှန်ကန်သော အယူဝါဒကို ရှာဖွေနေခိုက် ရှင်အရဟံနှင့်တွေ့၍ ထေရဝါဒ ဗုဒ္ဓသာသနာကို သက်ဝင်ယုံကြည်ကာ အထူးပင်စောင့်ရှောက် ချီးမြှောက်သဖြင့် မြန်မာနိုင်ငံ၌ ထေရဝါဒ သာသနာ ထွန်းတောက်နေသည့် အချိန်ဖြစ်သည်။ (ဗုဒ္ဓသာသနာဝင် (မြန်မာနိုင်ငံ)။ အရဟံ၊ ရှင် — လည်း ရှု။)

## ထေရဝါဒ နိုင်ငံ

အနော်ရထာမင်း နောက် ဆက်ခံကြသော ပုဂံမင်းများသည် သီဟိုဠ် ဗုဒ္ဓသာသနာ ပြန်လည် တည်ထောင်ရာတွင် အကူအညီ အထောက်အပံ့ ပေးခဲ့ကြသည်။ ယင်းသို့ဖြင့် သာသနာသက္ကရာဇ် ၁၇၀၀ ကျော်ကျော်ခန့်တွင် မြန်မာနိုင်ငံနှင့် သီဟိုဠ်နိုင်ငံတို့သည် ထေရဝါဒ ဗုဒ္ဓသာသနာ၏ ဗဟိုအချက်အခြာ ဌာနကြီးများ ဖြစ်လာခဲ့ကြသည်။ ရှေးနှစ်ပေါင်း များစွာကပင် တရုပ်၊ တိဗက်နှင့် ကမ္ဘောဇနိုင်ငံများမှတဆင့် ရောက်ရှိလာ၍ မဟာယာန ဗုဒ္ဓသာသနာကို သက်ဝင် ကြည်ညိုနေကြသော ယိုးဒယားနိုင်ငံသည်လည်း ၁၃ ရာစုနှင့် ၁၄ ရာစုနှစ်များတွင် ထေရဝါဒ ဗုဒ္ဓသာသနာ အခြေကျ၍ ထွန်းကားနေရာ မြန်မာနိုင်ငံနှင့် ကူးလူးဆက်ဆံမှု များလာရာမှ ထေရဝါဒ ဗုဒ္ဓသာသနာ၏ ဗဟိုအချက်အခြာ ဌာနကြီးတခုအဖြစ်သို့ တိုးတက်လာခဲ့သည်။ အယုဒ္ဓယမြို့ပျက်နှင့် ဇင်းမယ်မြို့တော်တို့ရှိ ဗုဒ္ဓသာသနာဆိုင်ရာ အဆောက်အအုံများကို ထောက်ခြင်းဖြင့် ယိုးဒယားနိုင်ငံ၌ ထေရဝါဒ ဗုဒ္ဓသာသနာ မည်မျှ ထွန်းတောက်ခဲ့ကြောင်း သိနိုင်သည်။ တခါက တန်ခိုးထွားခဲ့၍ ယိုးဒယားတို့ အပေါ်သို့ပင် လွှမ်းမိုးနိုင်ခဲ့သည့် ကမ္ဘောဇနိုင်ငံသည် ၁၅ ရာစုနှစ်တွင် ယိုးဒယား လက်အောက်သို့ ကျရောက်ခဲ့သည်။ ယင်းသို့ဖြင့် ဟိန္ဒူ အယူဝါဒနှင့် မဟာယာန ဗုဒ္ဓသာသနာ ထွန်းကားရာ ကမ္ဘောဇ နိုင်ငံသည်လည်း ထေရဝါဒ ဗုဒ္ဓသာသနာ၏ အချက်အခြာ ဌာနအဖြစ် ပြောင်းလဲခဲ့သည်။ လာအိုနိုင်ငံသို့လည်း ဤနည်းပင် တဆင့်မှ တဆင့် သာသနာတော် ရောက်ရှိသွားခဲ့ပြန်သည်။ ယင်းသို့ဖြင့် မြန်မာ၊ ယိုးဒယား၊ ကမ္ဘောဇ၊ လာအို၊ သီဟိုဠ် နိုင်ငံကြီး ၅ နိုင်ငံသည် ထေရဝါဒ ဗုဒ္ဓသာသနာ ထွန်းကားရာ နိုင်ငံကြီးများ အဖြစ် ရောက်ရှိခဲ့ကြသည်။

ထေရဝါဒ ဗုဒ္ဓသာသနာသည် အရှေ့တောင် အာရှတွင် တဖြည်းဖြည်း ထွန်းကားခဲ့ရာ၊ သာသနာသက္ကရာဇ် ၂၄၁၅ ခုနှစ်တွင် မြန်မာနိုင်ငံ မင်းတုန်းမင်းတရားကြီး လက်ထက်တွင် ထေရဝါဒ ဗုဒ္ဓသာသနာ၏ ပဥ္စမသင်္ဂါယနာသဘင်ကို မန္တလေး နေပြည်တော်၌ သံဃာတော် ၂,၄၀၀ နှင့် ကျင်းပခဲ့သည်။ သီဟိုဠ်၌ ကျင်းပသည့် စတုတ္ထ သင်္ဂါယနာသဘင်တွင် ပိဋကတ်သုံးပုံကို ပေထက်အက္ခရာ တင်သကဲ့သို့ ဤ ပဥ္စမ သင်္ဂါယနာသဘင်တွင် ကျောက်ပြားရေ ၇၂၉ ချပ်ပေါ် ကျောက်ထက်အက္ခရာတင်၍ ဗုဒ္ဓသာသနာတော်ကြီး တည်တံ့ခိုင်မြဲအောင် ဆောင်ရွက်ခဲ့သည်။

ထေရဝါဒ ဗုဒ္ဓသာသနာ ထွန်းကားရာ သီဟိုဠ်ကျွန်းနှင့် မြန်မာနိုင်ငံကို ဗြိတိသျှ အစိုးရကရင်း၊ ကမ္ဘောဒီးယားနှင့် လာအို နိုင်ငံကို ပြင်သစ် အစိုးရကရင်း သိမ်းပိုက်လိုက်သောအခါ သာသနာတော်ကို ခြီးမြှင့်မည့် သာသနာ့ ဒါယကာမင်းများ၏ ထောက်ပံ့မှု မရှိတော့သော်လည်း ယင်းအစိုးရများသည် ဘာသာကိုးကွယ်မှုကို လွတ်လပ်ခွင့်ပေးခဲ့သည့်အတွက် သာသနာတော်ကြီး မပျောက်မကွယ် ဖြစ်ခဲ့လေသည်။ သာသနာ့ဝန်ထမ်း ရဟန်းများက စာပေပရိယတ္တိကို ထိန်းသိမ်းခဲ့ကြသကဲ့သို့ ဗုဒ္ဓသာသနာဝင် နိုင်ငံသူနိုင်ငံသားများကလည်း သာသနာ့ဝတ်ကို မမေ့မလျော့ စောင့်ရှောက် ဆောင်ရွက်ကြသည့်အတွက် မေးမှိန်သွားခြင်း မရှိလှချေ။ ယိုးဒယား နိုင်ငံ၌မူ အစဉ်တစိုက် လွတ်လပ်သော နိုင်ငံဖြစ်သည့်အတွက် သာသနာ့ဒါယကာ ပြည့်ရှင် မင်းတို့၏ အထောက်အပံ့ကို အစဉ်တစိုက် ရရှိခဲ့သည်။

၁၉၄၈ ခုနှစ်တွင် မြန်မာနိုင်ငံ လွတ်လပ်ရေးရပြီးနောက် ဗုဒ္ဓသာသနာတော်သည် မြန်မာနိုင်ငံ၌ ပိုမို စည်ပင်လာလေသည်။ ကျန် ထေရဝါဒ နိုင်ငံတို့သည်လည်း ထိုနည်းအတိုင်းပင် ဖြစ်ကြသည်။ မြတ်စွာဘုရား ဟောကြားတော်မူအပ်သော နိကာယ် ၅ ရပ်တို့ကို အထပ်ထပ် အဆင့်ဆင့် ရေးကူးရာ၌ သတိချွတ်ယွင်း ရေးမှားမိခြင်းကို အထူးသန့်ရှင်း စင်ကြယ်စေလို၍တကြောင်း၊ ထိုစင်ကြယ်သော ပိဋကတ်တော်များကို စက်တင်ပုံနှိပ်၍ ကမ္ဘာအရပ်ရပ်သို့ ပျံ့နှံ့စေခြင်းအားဖြင့် သာသနာတော်ကြီး အဓွန့်ရှည်စေလို၍တကြောင်း၊ မြန်မာနိုင်ငံတော်နှင့်တကွ ဗုဒ္ဓသာသနာဝင် နိုင်ငံအားလုံးက သာသနာတော်ကို စုပေါင်း ခြီးမြှောက်လိုသောကြောင့်တကြောင်း၊ မြန်မာ၊ ယိုးဒယား၊ ကမ္ဘောဇ၊ လာအိုဟူသော ထေရဝါဒ နိုင်ငံများမှ သံဃာတော်များ၏ ဆုံးဖြတ်ချက်အရ သာသနာသက္ကရာဇ် ၂၄၉၈ ခုနှစ်တွင် ပြည်ထောင်စုမြန်မာနိုင်ငံ ရန်ကုန်မြို့ သီရိမင်္ဂလာကမ္ဘာအေးစေတီအနီး ဆဋ္ဌသံဂီတိ မဟာပါသာဏဂုဟာ လိုဏ်ဂူတော်ကြီး၌ ပြည်တွင်းမှသံဃာတော် ၂,၄၇၃ ပါး၊ ကမ္ဘာအရပ်ရပ်မှ ၁၄၄ ပါးတို့နှင့် ၂ နှစ်တိုင်တိုင် ဆဋ္ဌ သင်္ဂါယနာ သဘင်ကို ကျင်းပသည်။ ယင်း သင်္ဂါယနာသဘင်ကို ထေရဝါဒနိုင်ငံများကသာမက၊ အိန္ဒိယ၊ ပါကစ္စတန်၊ တရုပ်စသော အခြား ဗုဒ္ဓသာသနာဝင်များရှိရာ နိုင်ငံများကပါ တက်ရောက်ခြီးမြှင့်ကြသည်။ ထိုပြင် သာသနာ ၂၅၀၀ ပြည့် အထိမ်းအမှတ်ပွဲများကို အရှေ့တောင် အာရှနိုင်ငံအားလုံးနှင့် သီဟိုဠ်နိုင်ငံ၊ အိန္ဒိယ နိုင်ငံ တို့၌လည်း ခမ်းနားကြီးကျယ်စွာ ကျင်းပကြလေသည်။ ယင်းသို့ဖြင့် အရှေ့တောင် အာရှဒေသများတွင် ထေရဝါဒ ဗုဒ္ဓသာသနာတော်ကြီးသည် တတိယအကြိမ် ပြန်လည် ထွန်းပလာခဲ့လေသည်။ (သင်္ဂါယနာ — ရှု။)

မြန်မာနိုင်ငံ အစိုးရသည် သာသနာရေး ဆိုင်ရာ အက်ဥပဒေတခု ပြဋ္ဌာန်းပြီးနောက် ဗုဒ္ဓသာသနာ ရောင်ဝါ ထွန်းလင်းရေးအတွက် ဆောင်ရွက်ရန် ဗုဒ္ဓသာသနအဖွဲ့ကို ဖွဲ့စည်းသည်။ (ဗုဒ္ဓသာသနအဖွဲ့ — ရှု။) ယင်းအဖွဲ့ကြီးက အဘိဓမ္မာ စာမေးပွဲများကျင်းပ၍ ပရိယတ္တိ သာသနာ ပြန့်ပွားအောင် ဆောင်ရွက်ခြင်း၊ နိုင်ငံတွင်း နိုင်ငံပတို့၌ ပဋိပတ္တိဌာန သာသနရိပ်သာများကို ဖွင့်လှစ်၍ ပဋိပတ္တိ သာသနာ ပြန့်ပွားအောင် ဆောင်ရွက်ခြင်း၊ ဓမ္မဒူတခေါ် သာသနာ့တမန် ဌာနများဖွင့်လှစ်၍ သာသနာ မထွန်းကားသေးသော ပြည်တွင်းရှိ တောင်တန်းဒေသများနှင့် ပြည်ပနိုင်ငံကြီးများသို့ သာသနာ ပြုစေခြင်း၊ ဓမ္မရောင်ခြည်ခေါ် တရားတော် စာစောင်ကို အင်္ဂလိပ်ဘာသာဖြင့် ထုတ်ဝေ၍ ကမ္ဘာ အရပ်ရပ်သို့ ဖြန့်ဝေခြင်းတို့ပြုလျက် ရှိသဖြင့် ဗုဒ္ဓသာသနာတော်သည် ကမ္ဘာ အရပ်ရပ်၌ အနည်းနှင့် အများ ဆိုသလို ထွန်းကားလျက် ရှိလေသည်။ ၁၉၆၁ ခုနှစ် ဇူလိုင်လ ၂၆ ရက်နေ့တွင် မြန်မာနိုင်ငံ အစိုးရက ဗုဒ္ဓဘာသာကို နိုင်ငံတော် ဘာသာအဖြစ် ပြဋ္ဌာန်းလိုက်သဖြင့် သာသနာတော် နေလို လလို ထွန်းလင်းဦးမည့် နိမိတ် ဖြစ်လေသည်။

# မြန်မာနိုင်ငံသို့ပျံ့နှံ့ထွန်းလင်းလာသောဗုဒ္ဓသာသနာတော်

မြန်မာနိုင်ငံသို့ ဗုဒ္ဓသာသနာကို တပုဿ၊ ဘလ္လိကညီနောင်တို့ ပဌမဆုံးယူဆောင်ခဲ့ကြသည်။ မြတ်စွာဘုရား သက်တော် ထင်ရှားရှိစဉ်ကပင် ဗုဒ္ဓသာသနာသည် သုဝဏ္ဏဘူမိတိုင်း၊ သုနာပရန္တတိုင်း၊ ယောနကတိုင်းတို့သို့ ပျံ့နှံ့လာသည်။ သထုံခေတ်၊ ပုဂံခေတ်၊မန္တလေးခေတ်စသည်တို့၌ သာသနာကို စောင့်ရှောက်ခဲ့သော ဆရာတော်ကြီးများနှင့် သုဓမ္မာဂိုဏ်း၊ ရွှေကျင်ဂိုဏ်း၊ ဒွါရဂိုဏ်းဟူ၍ ဂိုဏ်းကြီး သုံးဂိုဏ်းပေါ်ပေါက်လာလေသည်။

**ဗုဒ္ဓသာသနာဝင် (မြန်မာနိုင်ငံ)။** ။သာသနာဝင် ဆိုသောစကားမှာ သာသနဝံသ ပါဠိဘာသာမှ ဆင်းသက်လာသည်။ သာသနဝံသ—သာသနာဝင်၊ ဗုဒ္ဓဝံသ—ဗုဒ္ဓဝင်၊ ရာဇဝံသ—ရာဇဝင်၊မဟာဝံသ—မဟာဝင်စသော စကားများကဲ့သို့တည်း။ သာသနဝံသ၌ သာသနတပုဒ်၊ ဝံသတပုဒ် ဖြစ်၍ နှစ်ပုဒ် တွဲစပ်ထားသည်။ သာသန—မြတ်စွာဘုရား၏

အဆုံးအမ ဩဝါဒစကား၊ ဝံသ—အဆက်အနွယ်။ သာသန ဝံသ—မြတ်စွာဘုရား၏ အဆုံးအမ ဩဝါဒစကား အဆက်အနွယ်။ ယင်းအဆုံးအမ ဩဝါဒစကားကို သင်ကြားလိုက်နာကျင့်ကြံအားထုတ်သူအဆက်အနွယ်ဟုအဓိပ္ပါယ်ရသည်။

သာသနာဆိုသော စကားမှာ (၁) ပရိယတ္တိသာသနာ၊ (၂) ပဋိပတ္တိသာသနာ၊ (၃) ပဋိဝေဓသာသနာ ဟူ၍ သုံးပါးဖြစ်သည်။ ယင်းသုံးပါးတို့တွင် ပရိယတ္တိသာသနာကား မြတ်စွာဘုရား၏ အဆုံးအမ ဩဝါဒစကား ဖြစ်သော ပိဋကတ်ကျမ်းစာများ ဖြစ်သည်။ ပဋိပတ္တိသာသနာကား ထိုပိဋကတ်ကျမ်းစာများ၌ ပါရှိသည့်အတိုင်း ထိုပိဋကတ်ကျမ်းစာများ၏ ညွှန်ပြချက်အတိုင်း လိုက်နာ ကျင့်ကြံ အားထုတ်အပ်သော ကျင့်ဝတ် ပဋိပတ်များ ဖြစ်သည်။ ပဋိဝေဓသာသနာကား ထိုကျင့်ဝတ် ပဋိပတ်များကို လိုက်နာကျင့်ကြံ အားထုတ်သဖြင့် ရရှိသော အကျိုးများ၊ မဂ်ဖိုလ်နိဗ္ဗာန်ဖြစ်သည်။ ယင်းသာသနာ သုံးပါးလုံး အဆက်အနွယ်ကို သာသနာဝင်ဆိုသည်။

ထိုသာသနာသုံးပါးကား မြတ်စွာဘုရား ပွင့်တော်မူသောအခါမှစ၍ နှစ်ပေါင်းများစွာ မဇ္ဈိမဒေသ၌ ထွန်းကားခဲ့သည်။ နောက် တစတစ အခြား နိုင်ငံ အရပ်ဒေသများသို့ ဆင်းသက်ပျံ့နှံ့လျက် ထွန်းကားခဲ့သည်။

ထိုသို့ ထွန်းကားခဲ့ရာ မြန်မာနိုင်ငံ၌ ဆင်းသက် ပျံ့နှံ့ခဲ့ပုံကား ဤသို့တည်း။ သုဝဏ္ဏဘူမိတိုင်း၊ အသိတဥ္စန၊ ပေါက္ခရဝတီမြို့သား တပုဿနှင့် ဘလ္လိက ညီနောင်တို့သည် လှည်းငါးရာနှင့် မဇ္ဈိမဒေသသို့ ကုန်ကူးသွားရာ၊ မြတ်စွာဘုရားပွင့်တော်မူ၍ လေးဆဲ့ကိုးရက် အလွန် လင်းလွန်းပင်ရင်း၌ သီတင်းသုံးတော်မူခိုက် သွားရောက် ဖူးမျှော်ကြပြီးလျှင် အသင့် ယူဆောင်လာသော ပျားမုံ့ဆုပ်နှင့် မုံ့ကြွက်ကျစ်တို့ကို လှူဒါန်း၍ ဒွေဝါစိက သရဏဂုံ ဆောက်တည်ကာ ဥပါသကာအဖြစ် ခံယူကြသည်။ နောက် မြတ်စွာဘုရားထံ အမြဲ ဆည်းကပ် ကိုးကွယ်ရာကို တောင်းပန်သောအခါ ဆံတော်ရှစ်ဆူကို ရရှိခဲ့၍၊ မိမိတို့ နေရာ အသိတဥ္စန ပေါက္ခရဝတီမြို့သို့ ရောက်သောအခါ စေတီတဆူတည်ကာ ဆံတော်ရှစ်ဆူကို ဌာပနာ၍ ဆည်းကပ် ကိုးကွယ်ကြသည်။ ယင်းစေတီကား ယခု ဖူးမျှော်နေကြရသော ရွှေတိဂုံစေတီပင် ဖြစ်သည်။ (ဘလ္လိကနှင့် တပုဿ။ ရွှေတိဂုံဘုရား — ရှု။)

မြတ်စွာဘုရားသည် ဝါတော် နှစ်ဆယ်ကျော်တွင် သာဝတ္ထိပြည်မှ ယူဇနာသုံးရာ ကွာဝေးသော သုနာပရန္တတိုင်း (အပရန္တတိုင်း) ဝါဏိဇဂါမရွာ (လယ်ကိုင်းကျောင်းတော်ရာရွာ)၌ စူဠပုဏ္ဏ၊ မဟာပုဏ္ဏ သူကြွယ်ညီနောင် နှစ်ယောက်



ရန်ကုန်မြို့သီရိမင်္ဂလာကုန်းမြေရှိ ဗုဒ္ဓတက္ကသိုလ် ပိဋကတ်တိုက် မှာ ခေတ်အမှီဆုံး အဆောက်အအုံတခုဖြစ်သည်။

တို့ နေကြသည်။ နောက်ပါ ကုန်သည် ငါးရာနှင့် တဝက်တလှည့် ကုန်ကူးသွားလေ့ ရှိကြသည်။

တနေ့သောအခါ မဟာပုဏ္ဏသည် လှည်းငါးရာတို့ဖြင့် မဇ္ဈိမဒေသသို့ ကုန်ကူးသွားရာ၊ သာဝတ္ထိပြည် ဇေတဝန်ကျောင်း မြတ်စွာဘုရားထံသို့ ရောက်၍ တရားတော်ကို နာရသဖြင့် အကျွတ်တရားရကာ လက်ထောက် ကုန်သည်ကြီးကို ခေါ်၍ ဤပစ္စည်းဥစ္စာတို့ကို ညီစူဠပုဏ္ဏအား ပေးပါဟု မှာကြားပြီးလျှင် မြတ်စွာဘုရား အထံတော်၌ ရဟန်းပြုလေသည်။ နောက် မြတ်စွာဘုရားထံ ခွင့်ပန်၍ မိမိနေရာ သုနာပရန္တတိုင်းသို့ ပြန်လာပြီးလျှင် ကမ္မဋ္ဌာန်းတရားကို အားထုတ်ရာ၊ ဝါတွင်း၌ပင်လျှင် ရဟန္တာအဖြစ်သို့ ရောက်လေသည်။

တနေ့သောအခါ စူဠပုဏ္ဏသည် ကုန်သည်ငါးရာနှင့်တကွ သင်္ဘောဖြင့် ကုန်ကူးသွားကြရာ၊ မလယကျွန်းသို့ရောက်၍ အဖိုးများစွာ ထိုက်သော စန္ဒကူးနှစ်တို့ကို ရခဲ့သဖြင့် မဟာပုဏ္ဏ မထေရ်အား လျှောက်ထားသောအခါ မဟာပုဏ္ဏ မထေရ်သည် စူဠပုဏ္ဏနှင့် ကုန်သည်တို့အား မြတ်စွာဘုရား သိတင်းသုံးရန် စန္ဒကူးကျောင်းတော်ဆောက်လျှင် ကောင်းမည်ဟု မိန့်ကြားသောကြောင့် စန္ဒကူး ကျောင်းတော် ဆောက်ကြသည်။ မြတ်စွာဘုရားလည်း ကျောင်းတော် ဆောက်သည်မှစ၍ ပြီးဆုံးသည့်တိုင် ကြွလာ၍ မပြတ် သိတင်းသုံးတော်မူသည်။

ကျောင်းတော် ပြီးသောအခါ မဟာပုဏ္ဏ မထေရ်သည် မြတ်စွာဘုရားထံ သွား၍ ပင့်လျှောက်ရာ၊ ခွင့်ရသဖြင့်၊ ရှေးဦးစွာ ပြန်လာသည်။ မြတ်စွာဘုရားသည် ကိုယ်တော်မြတ်အဝင်အပါ သံဃာတော် လေးရာကိုးဆယ်ကိုးပါးနှင့်တကွ ကြွလာတော်မူ၍ သစ္စဗန္ဓတောင်သို့ ရောက်လျှင် သစ္စဗန္ဓ ရသေ့အား တရားဟော၍ ရဟန္တာအဖြစ်သို့ ရောက်စေပြီးလျှင် ဧဟိဘိက္ခု ရဟန်းပြုတော်မူ၍ သံဃာတော် ငါးရာ ပြည့်စေလျက် ဝါဏိဇဂါမရွာ စန္ဒကူးကျောင်းသို့ ကြွတော်မူ၍ ခုနစ်ရက်ပတ်လုံး သိတင်းသုံးတော်မူသည်။ စူဠပုဏ္ဏမှစ၍ ဒါယကာဒါယိကာမတို့လည်း ဘုရားအမှူးရှိသော သံဃာတော်တို့အား ခုနစ်ရက်ပတ်လုံး အလှူကြီးပေးကာ တရားတော်ကို နာရသဖြင့်၊ ရှစ်သောင်း လေးထောင်သော သတ္တဝါတို့ တရားထူးကို ရကြသည်။

မြတ်စွာဘုရားသည် ဝါဏိဇဂါမရွာမှ ပြန်ကြွတော်မူ၍ နမ္မဒါမြစ်သို့ရောက်သောအခါ အခြွေအရံနှင့်တကွ နမ္မဒါနဂါးသည် မြတ်စွာဘုရားနှင့် သံဃာတော်တို့အား ပူဇော်သက္ကာရပြုပြီးလျှင် အမြဲ ကိုးကွယ်ရာ စေတီကို တောင်းပန်သဖြင့် မြတ်စွာဘုရားသည် နမ္မဒါမြစ်နား၌ ခြေတော်ရာတဆူ ချတော်မူသည်။ သစ္စဗန္ဓတောင်သို့ ရောက်သောအခါ သစ္စဗန္ဓမထေရ် တောင်းပန်သဖြင့် ခြေတော်ရာတဆူ ချတော်မူသည်။ တရံရောအခါ မြတ်စွာဘုရားသည် နောက်ပါ သံဃာတော်အများနှင့် ဒေသစာရီ ကြွချီတော်မူခဲ့ရာ ယောနကတိုင်း ဇင်းမယ်အရပ်သို့ ရောက်၍ မဲပိန်းချောင်းနားတွင်နေသော လဝကြီးသည် ခုနစ်နှစ် အရွယ်ရှိသော မိမိသားငယ်ကို မြတ်စွာဘုရားထံ အပ်နှံ၍ သာမဏေပြုစေသည်။ ရှင်သာမဏေလည်း ကမ္မဋ္ဌာန်း စီးဖြန်းသဖြင့် မကြာမီ ရဟန္တာ အဖြစ်သို့ ရောက်သည်။

ဤသို့လျှင် အထက်ဖော်ပြပါ အကြောင်းများကို ထောက်ထားလျှင် မြတ်စွာဘုရား သက်တော်ထင်ရှားရှိစဉ်ကပင် သာသနာတော်သည် သုဝဏ္ဏဘူမိတိုင်း၊ အပရန္တတိုင်း (သုနာပရန္တတိုင်း)၊ ယောနကတိုင်းအားဖြင့် သုံးကြောင်း သုံးသွယ် ဆင်းသက်လျက် မြန်မာနိုင်ငံသို့ ရောက်လာကြောင်း ထင်ရှားသည်။ ထို့ပြင်လည်း တတိယ သင်္ဂါယနာ မတင်မီအတွင်း ယင်းတိုင်းကြီး သုံးတိုင်းသို့ ရဟန္တာများ အကြိမ်ကြိမ် ရောက်လာကြသည်။ ထိုသို့ ရောက်လာသော်လည်း သာသနာတော်သည် နှစ်ကာလ ရှည်လျားစွာ မတည်မြဲပေ။ အကြောင်းကား ပိဋကတ်တော်ကို နှုတ်ဆောင်သောခေတ်ဖြစ်ခြင်း၊ ပိဋကတ် တတ်မြောက်သော ပုဂ္ဂိုလ်များက အမြဲနေထိုင်လျက် သာသနာတော်၏ အရင်းမူလ ပမာဏဖြစ်သော ပိဋကတ်တော်တို့ကို သင်ကြားချပို့ပေးမှု မရှိခြင်းတို့ကြောင့် ဖြစ်သည်။

သာသနာ ၂၃၅ နှစ်သို့ ရောက်၍ တတိယ သင်္ဂါယနာ တင်ပြီးသောအခါ မောဂ္ဂလိပုတ္တတိဿ မထေရ်ကြီးသည် သာသနာ တည်ထွန်းနိုင်မည့် နေရာဌာနများကို ဆင်ခြင်ကြည့်ရှုတော်မူ၍၊ ကိုးတိုင်းကိုးဌာနသို့ သာသနာပြုစေလွှတ်တော်မူသည်။ ထိုအခါ မြန်မာနိုင်ငံတွင် (၁) အပရန္တတိုင်း (သုနာပရန္တတိုင်း)၊ (၂) ယောနကတိုင်း၊ (၃) သုဝဏ္ဏဘူမိတိုင်း ဟူ၍ သုံးဌာန ပါဝင်ခဲ့သည်။

ထိုသုံးဌာနတို့တွင် ယောနကဓမ္မရက္ခိတ မထေရ်ကို အပရန္တတိုင်း (သုနာပရန္တတိုင်း) သို့ သာသနာပြုရန် စေလွှတ်သည်။ ထိုမထေရ်သည် ခုနစ်သောင်းသော အပရန္တတိုင်းသားတို့အား အဂ္ဂိက္ခန္ဓူပမသုတ္တန်ကို ဟောသည်။ မင်းမျိုးမှ ယောကျ်ားတထောင်နှင့် မိန်းမခြောက်သောင်းတို့ ရဟန်းပြုကြသည်။

မဟာရက္ခိတ မထေရ်ကို ယောနကတိုင်းသို့ သာသနာပြုရန် စေလွှတ်သည်။ ထိုမထေရ်သည် ယောနက တိုင်းသားတို့အား ကာဠကာရာမသုတ္တန်ကို ဟောသည်။ တသိန်းခုနစ်သောင်းသော သတ္တဝါတို့ မဂ်ဖိုလ်ကို ရကြသည်။ ယောကျ်ားတသောင်း ရဟန်းပြုကြသည်။

သုဝဏ္ဏဘူမိတိုင်းသို့ သောဏမထေရ်နှင့် ဥတ္တရ မထေရ်တို့ကို သာသနာပြုရန် စေလွှတ်သည်။ သုဝဏ္ဏဘူမိတိုင်း၌ သီရိမာသောကမင်း မင်းပြုလျက် ရှိသည်။ မင်းမျိုး၌ မွေး



ဗုဒ္ဓတက္ကသိုလ်ပိဋကတ်တိုက်ရှိ ပေစာများထားရာခန်းမဆောင်တွင်နေ့စဉ်လိုပင်သုတေသိဘုန်းတော်ကြီးများပညာရှာဖွေလေ့လာလျက်ရှိကြသည်။

ပွားတိုင်းသော သားသမီးတို့ကို ရေစောင့် ဘီလူးမတယောက် အခြံအရံနှင့်တကွ သမုဒ္ဒရာမှ ထွက်၍ စားလေ့ရှိသည်။

မထေရ်တို့ ကြွရောက်လာခိုက် မင်းမျိုးတွင် သားတယောက် မွေးဖွားသဖြင့် လူတို့သည် ဘီလူးမကို နှိမ်နင်းရန် လက်နက်များ ကိုင်ဆောင်၍လာရာ၊ မထေရ်တို့နှင့် တွေ့လျှင် အကြောင်းစုံ မေးမြန်း ပြောဆိုနေခိုက် အခြံအရံနှင့်တကွ ဘီလူးမ လာသည်။ ထိုအခါ မထေရ်တို့သည် ဘီလူးမဘေးရန်ကို နှိမ်နင်းပြီးနောက် မလာနိုင်အောင် အရံအတား ပြု၍ ရောက်လာသော ပရိသတ်တို့အား ဗြဟ္မဇာလသုတ္တန်ကို ဟောသဖြင့် သရဏဂုံသီလ၌ တည်ကြသည်။ ခြောက်သောင်းသော သတ္တဝါတို့ တရားထူးကို ရကြသည်။ အမျိုးသား သုံးထောင်ငါးရာနှင့် အမျိုးသမီး တထောင်ငါးရာတို့ ရဟန်းပြုကြသည်။

ဤသို့လျှင် မြန်မာနိုင်ငံသို့ မြတ်စွာဘုရား သာသနာတော် သုံးကြောင်း သုံးသွယ် ဆင်းသက်လာခဲ့သည်။ ထိုသို့လာခဲ့ရာ၊ သာသနာဝင်နှင့် စပ်လျဉ်းသော စာအုပ် စာတမ်း မှတ်တမ်း အမျိုးမျိုးတွင် ယောနကဓမ္မရက္ခိတမထေရ်၏ ဆရာတပည့် အဆက်အနွယ်နှင့် မဟာရက္ခိတ မထေရ်၏ ဆရာတပည့် အဆက်အနွယ် တို့သည် မထင်ရှားချေ။ သောဏမထေရ်နှင့် ဥတ္တရမထေရ်တို့၏ ဆရာတပည့် အဆက်အနွယ်တို့သာ ထင်ရှားသည်။ ထိုအတွက် ထင်ရှားသော သောဏ မထေရ်နှင့် ဥတ္တရ မထေရ်တို့၏ ဆရာတပည့် အဆက်အနွယ်တို့ကိုသာ ရေးသားပါအံ့။ ရေးသားရာ၌လည်း မြတ်စွာဘုရား လက်ထက်တော်အခါ ဝိနည်းအရာ၌ ဧတဒဂ်ဘွဲ့ထူးဖြင့် ချီးကျူးခြင်း ခံရသော အရှင်ဥပါလိမှ စ၍ သီပေါမင်းလက်ထက်၌ ထင်ရှားရှိသော သာသနာပြု ဆရာတော်တို့ တိုင်အောင် မြန်မာနိုင်ငံ သာသနာဝင်ကို ရေးသားရန် ဖြစ်သည်။

## (က) မဇ္ဈိမဒေသ သာသနာဝင်

(၁) အရှင်ဥပါလိ၊ (၂) အရှင်ဒါသက၊ (၃) အရှင်သောဏ၊ (၄) အရှင်သိဂ္ဂဝနှင့် အရှင်စန္ဒဝဇ္ဇီ၊ (၅) အရှင်မောဂ္ဂလိပုတ္တတိဿ၊ ဤရဟန္တာ မထေရ်ကြီး ငါးပါးတို့

ကား မြတ်စွာဘုရား ပရိနိဗ္ဗာန်စံလွန်သည်မှစ၍ မဇ္ဈိမဒေသ၌ ဆရာတပည့်ဆက်ကာ သာသနာတော်ကို စောင့်ရှောက်ကြသည်။

## (ခ) သုဝဏ္ဏဘူမိ (သထုံ) သာသနာဝင်

အရှင်မောဂ္ဂလိပုတ္တတိဿ၏ တပည့် (၁) အရှင်သောဏနှင့် အရှင်ဥတ္တရ၊ (၂) အရှင်သောဘိတ၊ (၃) အရှင်သောမဒတ္တ၊ (၄) အရှင်သုမနတိဿ၊ (၅) အရှင်သောပါက၊ (၆) အရှင်သောမဒတ္တ၊ (၇) အရှင်အနောမဒဿီ၊ (၈) အရှင်အဓိသီလ၊ (၉) အရှင်ဗျာနဒဿီ၊ (၁၀) အရှင်သီလဗုဒ္ဓိနှင့် အရှင်မဟာကာလ၊ (၁၁) အရှင်ဓမ္မဒဿီ (အရှင်အရဟံ)၊ ဤရဟန္တာမထေရ်ကြီး တဆဲ့တပါးတို့ကား သုဝဏ္ဏဘူမိ (သထုံ) ၌ ဆရာတပည့်ဆက်ကာ သာသနာတော်ကို စောင့်ရှောက်ကြသည်။

## (ဂ) ပုဂံသာသနာဝင်

အရှင်ဓမ္မဒဿီ (အရှင်အရဟံ) ၏ တပည့် (၁) အရှင်ဂုဏသာရ၊ (၂) ပဌမ အရှင်အဂ္ဂပဏ္ဍိတ၊ (၃) ဒုတိယ အရှင်အဂ္ဂပဏ္ဍိတ၊ (၄) တတိယ အဂ္ဂပဏ္ဍိတ၊ (အရှင်အဂ္ဂဝံသ)၊ (၅) အရှင်ဥတ္တရဇီဝ၊ (၆) ပဌမ ဆပ္ပဒ အရှင်သဒ္ဓမ္မဇောတိပါလ၊ (၇) ဒုတိယ ဆပ္ပဒ အရှင်ဉာဏသဒ္ဓမ္မ (အရှင်သဒ္ဓမ္မဉာဏ)၊ (၈) တတိယ ဆပ္ပဒ အရှင်သဒ္ဓမ္မသီရိ၊ ဤမထေရ်ကြီး ရှစ်ပါးတို့ကား ပုဂံ၌ ဆရာတပည့် ဆက်ကာ သာသနာတော်ကို စောင့်ရှောက်ကြသည်။

## (ဃ) ပခန်းကြီး သာသနာဝင်

တတိယ ဆပ္ပဒ အရှင်သဒ္ဓမ္မသီရိ၏ တပည့် (၁) ပခန်းကြီးမြို့ ခေမကတိုက် အရှင်သုဓမ္မစာရီ၊ (၂) ပခန်းကြီးမြို့ အနောက်လက်ဝဲကျဉမင်ကျောင်း အရှင်အဂ္ဂဓမ္မာလင်္ကာရ၊ (၃) ပခန်းကြီးမြို့ နောင်ဘရွာ အရှင်ဓမ္မနန္ဒ၊ (၄) နွယ်နီမုန်ကျောင်း အရှင်ပုညဝါသီ၊ (၅) ပခန်းကြီးမြို့ အရှေ့လက်ဘုမ္မာဆရာတော် အရှင်စန္ဒမဥ္ဇူသာ၊ ဤမထေရ်ကြီး ငါးပါးတို့ကား ပခန်းကြီးမြို့၌ ဆရာတပည့် ဆက်ကာ သာသနာတော်ကို စောင့်ရှောက်ကြသည်။

## (င) ရွှေဘို၊ အမရပုရ၊ မန္တလေး သာသနာဝင်

ဘုမ္မာဆရာတော် အရှင်စန္ဒမဥ္ဇူသာ၏ တပည့် (၁) သာသနာပိုင် မင်းအိုဆရာတော် အရှင်ဂုဏာသီရိ (ဂုဏာဘိလင်္ကာရ သဒ္ဓမ္မ မဟာဓမ္မရာဇာဓိရာဇဂုရု)၊ (၂) ပဌမ ဗားကရာဆရာတော် အရှင်ဓမ္မာဘိနန္ဒ (တိပိဋကာလင်္ကာရ သိရိဓဇ မဟာဓမ္မရာဇဂုရု)၊ (၃) သာသနာပိုင် သဲအင်း ဆရာတော် အရှင်သူရိယ (သူရိယာဝံသာဘိ သိရိပဝရာလင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု)၊ (၄) သာသနာပိုင် ဒုတိယ ဗားကရာ ဆရာတော် အရှင်ပညာဇောတ (ပညာဇောတာဘိ သိရိပဝရ ဝိဇယာလင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု)၊ (၅) သာသနာပိုင် ဒုတိယ မောင်းထောင်ဆရာတော် အရှင်ဉေယျဓမ္မ (ဉေယျဓမ္မာဘိမုနိပဝရ ဉာဏကိတ္တိ သိရိဓဇ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိ ရာဇဂုရု)၊ (၆) တောင်တော် သာသနာပိုင် ဆရာတော် အရှင်မာလာ (မာလာလင်္ကာရဓဇ ဓမ္မသေနာပတိ အတုလ ဓိပတိ သိရိပဝရ မဟာဓမ္မ ရာဇာဓိ ရာဇဂုရု)၊ ဤဆရာတော်ကြီး ခြောက်ပါးတို့ကား ရွှေဘို၊ အမရပုရ၊ မန္တလေးတို့၌ ဆရာတပည့်ဆက်ကာ သာသနာတော်ကို စောင့်ရှောက်ကြသည်။ ဤကား သီပေါမင်း လက်ထက်တိုင်အောင် သုဓမ္မာဂိုဏ်း သာသနာဝင်ဖြစ်သည်။ (အရှင်ပညာဇောတနှင့် အရှင်ဉေယျဓမ္မတို့ကား ဆရာတပည့် မဟုတ်၊ အရှင်သူရိယ၏ တပည့်များ ဖြစ်ကြသည်။)

ထိုသို့ ဆရာတပည့် ဆက်ကာ မကွဲမပြား သာသနာတော်ကို စောင့်ရှောက် လာကြသော်လည်း သက္ကရာဇ် ၁၂၁၄ ခုနှစ် ပဋ္ဌမ သင်္ဂါယနာတင် မင်းတုန်းမင်း နန်းတက်လာသောအခါ ဒုတိယ မောင်းထောင်ဆရာတော် အရှင်ဉေယျဓမ္မကို သာသနာပိုင် တင်မြှောက်လေသည်။

ထိုအခါ သာသနာပိုင် အမှူးရှိသော သုဓမ္မာ ဆရာတော်ရှစ်ပါးတို့သည် ရွှေကျင်ဆရာတော် အရှင်ဇာဂရကို သုဓမ္မာသို့ လာရန် ဆင့်ခေါ်သည်ကို မင်းတုန်းမင်းတရားကြီး သိတော်မူလျှင် သုဓမ္မာ ဆရာတော်များနှင့် ရွှေကျင်ဆရာတော်ကို ကျေနပ်အောင် လျှောက်ထားပြီးသော် ရွှေကျင်ဆရာတော်ကို နောက်အခါ သုဓမ္မာက ဆင့်ခေါ်ခြင်း မပြုနိုင်အောင် ဂဏဝိမုတ် အမိန့်ထုတ်တော်မူသည်။ ထိုအခါမှစ၍ ရွှေကျင်ဆရာတော်လည်းရွှေကျင်တိုက်မ(မဟာဓမ္မိကာရာမတိုက်)၊ ထရံကာတိုက်၊ ရမည်းသင်းတိုက်၊ မင်းခင်းတိုက်၊ မြတောင်တိုက်၊ ဤရွှေကျင်ငါးတိုက်ကို ဦးစီးဦးခိုင်ပြုကာ သုဓမ္မာ ဆရာတော်များနှင့် မဆက်သွယ်ဘဲဝိနည်းကံ သီးခြားပြု၍နေသည်။ ထိုအခါမှစ၍ သုဓမ္မာဂိုဏ်း၊ရွှေကျင်ဂိုဏ်းဟု သာသနာတော်၌ ဂိုဏ်းကြီး နှစ်ဂိုဏ်းကွဲသည်။

သက္ကရာဇ် ၁၂၁၄ ခုနှစ်မှာပင် ရာမညတိုင်း အုတ်ဖိုမြို့ ကန်ကုန်းကျောင်းတိုက်၌ သီတင်းသုံးတော်မူသော အုတ်ဖိုဆရာတော် အရှင်ဥက္ကံဝံသမာလာနှင့် ရာမညတိုင်းရှိ ဂိုဏ်းအုပ် ဂိုဏ်းထောက် ဆရာတော်တို့သည် ဇာတဿရအိုင် ဥဒကုက္ခေပ သိမ်၌ ဝိနည်းကံပြုခြင်းကို အကြောင်းပြု၍ ဝိနည်းကံမြောက်မမြောက် အငြင်းအခုံဖြစ်ပွားသည့်အတွက် အုတ်ဖိုဆရာတော်က မိမိနှင့် သဘောတူရာ တပည့်ရဟန်းတို့နှင့် ဝိနည်းကံ သီးခြားပြု၍နေသဖြင့် အုတ်ဖိုဆရာတော် တဂိုဏ်း၊ ကျန်ဆရာတော်များက တဂိုဏ်း နှစ်ဂိုဏ်း ကွဲကြ



ဗုဒ္ဓသာသနာ့အဖွဲ့၏ ရည်ရွယ်ချက်အရ ဗုဒ္ဓဝါဒ စာပေ ယဉ်ကျေးမှုတို့ တိုးတက်ရေးအတွက် ဆောင်ရွက်ရန် တည်ထောင် ဖွင့်လှစ်ခဲ့သော ဗုဒ္ဓတက္ကသိုလ် ပိဋကတ်တိုက်တွင် ရှေးဟောင်းပေစာနှင့် ပုရပိုက်များအပြင်၊ ဘာသာစုံ စာအုပ် စာတမ်းများလည်း ပြည့်စုံစွာ ရှိသည်ဖြစ်ရာ နိုင်ငံခြားသုတေသီများ ဦးတိုက်ရာဌာနကြီးဖြစ်သည်။

ပြန်သည်။ ထိုသို့ ဂိုဏ်းကွဲသော်လည်း ဒွါရဂိုဏ်းအမည်ကို မရသေး။

နောက် သက္ကရာဇ် ၁၂၁၇ ခုနှစ်သို့ ရောက်သောအခါ ဒါယကာတို့သည် ကံဖြင့် ရှိခိုးခြင်း မှန်သည်၊ ဒွါရဖြင့် ရှိခိုးခြင်း မှန်သည်ဟု တဖက်နှင့်တဖက် အငြင်းအခုံ ဖြစ်ပွါးပြန်ရာ၊ အုတ်ဖိုဆရာတော်ထံ လျှောက်ထားသောအခါ ဒွါရဖြင့် ရှိခိုးခြင်းမှာ ယထာဘူတ ကျနမှန်ကန်ကြောင်း ဆုံးဖြတ်သည့်အတွက် အုတ်ဖိုဆရာတော်၏ ဂိုဏ်းကို ဒွါရဂိုဏ်းဟု အမည်ပေးကြသည်။ ကျန်ဆရာတော်များဂိုဏ်းကို ကံဂိုဏ်းဟု အမည်ပေးကြသည်။ ဤသို့လျှင် သုဓမ္မာဂိုဏ်း၊ ရွှေကျင်ဂိုဏ်း၊ ဒွါရဂိုဏ်း ဟူ၍ ဂိုဏ်းကြီး သုံးဂိုဏ်း ဖြစ်ပေါ်လာသည်။ ဂိုဏ်းကြီးသုံးဂိုဏ်း ဖြစ်ပေါ်လာသည့် အလျောက် ဆရာတပည့် အဆက်အနွယ် သာသနာဝင်လည်း သုံးမျိုးဖြစ်လာသည်။

ရွှေကျင်ဂိုဏ်း သာသနာဝင်၌ မဇ္ဈိမဒေသ သာသနာဝင်နှင့် သုဝဏ္ဏဘူမိ (သထုံ) သာသနာဝင်ကား သုဓမ္မာဂိုဏ်း သာသနာဝင်နှင့် တူသည်။ ပုဂံသာသနာဝင်၌ ဒုတိယ အဂ္ဂပဏ္ဍိတ—မပါ၊ ခုနစ်ပါးသာ ဖြစ်သည်။ ပခန်းသာသနာဝင်၌ အရှင်ပုညဝါသီ— တိုင်အောင်တူ၍ နောက်ဆယ်အင်းဂိုဏ်းအုပ် အရှင်ဉာဏာလင်္ကာရ၊ ဒီပဲယင်း—နမောရွာ၊ အရှင်ပုညာရမ္မ၊ ဒီပဲယင်း နမောဂိုဏ်းအုပ် အရှင်ဝိစာရိန္ဒ၊ သီးလုံးတောရ ဂဏဝိမုတ် အမိန့်တော်ရ သီးလုံးဆရာတော် အရှင်စန္ဒိမာ၊ ရွှေကျင်ဆရာတော် အရှင်ဇာဂရ (ဇာဂရာဘိဓဇ သဒ္ဓမ္မဝံသ အတုလ ဓိပတိ မဟာဓမ္မရာဇာဓိ ရာဇဂုရု)၊ မဟာဝိသုဒ္ဓါရာမ ဆရာတော် အရှင်ဝိသုဒ္ဓါစာရ (ဝိသုဒ္ဓါစာရာဘိဓဇ ဓိပတိ ပဝရ မဟာဓမ္မ ရာဇာဓိရာဇဂုရု) တိုင်အောင် အဆက်အနွယ် တမျိုးပြသည်။ ဤကား သီပေါမင်း လက်ထက်တိုင်အောင် ရွှေကျင်ဂိုဏ်း သာသနာဝင်တည်း။

ဒွါရဂိုဏ်း သာသနာဝင်၌ မဇ္ဈိမဒေသ သာသနာဝင်ကား သုဓမ္မာဂိုဏ်း သာသနာဝင်နှင့် တူသည်။ သထုံ သာသနာဝင်၌ အရှင်သောဏမုစ၍ အရှင်ဗျာနဒဿီတိုင်အောင် တူ၍၊ နောက် အရှင်မဟာကာလ အရှင်အရိယဝံသထည့်သည်။ ပုဂံ သာသနာဝင်၌ အရှင်ဥတ္တရာဇီဝ၊ အရှင်သဒ္ဓမ္မဇောတိပါလ၊ အရှင်သဒ္ဓမ္မဉာဏ၊ အရှင်သဒ္ဓမ္မသီရိ လေးဆက်သာ ပြသည်။ နောက် ရေငုံဆရာတော်၊ အရှင်မဟာအရိယဝံသ၊ အရှင်သဒ္ဓမ္မကိတ္တိ၊ အရှင်တိသာသနဓဇ၊ အရှင်ဓမ္မရာဇဂုရု၊ အရှင်တိပိဋကာလင်္ကာရ (တောင်ဖီလာပုဂ္ဂိုလ်ကျော်)၊ အရှင်မဟာတိဿ (အမြင့်)၊ အရှင်စန္ဒပညာ (မြို့ကြီး)၊ အရှင်ဂုဏသီရိ (ရေမြိန်)၊ အရှင်ကလျာဏဓဇ (ရေမြိန်)၊ သာသနာပိုင် မင်းအိုဆရာတော် အရှင်ဂုဏသီရိ၊ ပဌမ ဗားကရာဆရာတော် အရှင်ဓမ္မာဘိနန္ဒ၊ သာသနာပိုင် သံအင်း ဆရာတော် အရှင်သူရိယ၊ သာသနာပိုင် ဒုတိယ ဗားကရာ ဆရာတော် အရှင်ပညာဇောတ၊ အုတ်ဖိုဆရာတော် အရှင်ဥက္ကံဝံသမာလာတိုင်အောင် အဆက်အနွယ်တမျိုးပြသည်။ ။ဤကား သီပေါမင်း လက်ထက်တိုင်အောင် ဒွါရဂိုဏ်း သာသနာဝင်တည်း။

**မှတ်ချက်။** ။သာသနာဝင်ကို ရေးသားကြရာ၌ တကျမ်းနှင့်တကျမ်း၊ တဂိုဏ်းနှင့်တဂိုဏ်း၊ ပုဂ္ဂိုလ်တဦးနှင့် တဦး အဆက်အနွယ် မတူပေ။မတူသော်လည်း မှန်ကန်လျှင်ယုတ္တိရှိလျှင် အလေးအမြတ် မှတ်သားအပ်သည်။ အကြောင်းကား ဆရာတဦး၌ တပည့်အများ ထွန်းကားနိုင်သောကြောင့်၎င်း၊ ခေတ်တခေတ်၌ သာသနာတော်စောင့်ပုဂ္ဂိုလ်အများ ပေါ်ထွက်နိုင်သောကြောင့်၎င်း၊ ထိုသို့ ထွန်းကားပေါ်ထွက်ခဲ့ရာ၊ မိမိတို့ ဆရာနှင့် အဆက်အနွယ် အနီးစပ်ဆုံးကို ယူ၍ရေးသားကြသောကြောင့်၎င်း ဖြစ်သည်။

ဤသာသနာဝင်ကို ပါရာဇိကဏ် အဋ္ဌကထာ၊ ဗာဟိရနိဒါန်း၊ ဝံသဒီပနီ၊ သာသနာလင်္ကာရ စာတမ်း၊ ရေစကြိုဆရာတော် ထေရုပ္ပတ္တိ၊ ရွှေကျင်ဆရာတော် ထေရုပ္ပတ္တိ၊ မဟာဒွါရ နိကာယသာသနဝံသ ဒီပနီစသော စာအုပ်စာတမ်းတို့ကို မှီ၍ ရေးသားပါသတည်း။

ဦးကြီးမေ

**ဗုဒ္ဓသာသနာအဖွဲ့။** ။ဤအဖွဲ့ကို သက္ကရာဇ် ၁၃၁၂ (၁၉၅၀) ခုနှစ်တွင်စတင်၍ပြည်ထောင်စု မြန်မာနိုင်ငံ ပါလီမန်တွင် တင်သွင်း ဆုံးဖြတ်အပ်သော ဗုဒ္ဓသာသနာအဖွဲ့ အက်ဥပဒေအရ ဖွဲ့စည်း တည်ထောင်သည်။

### ဤအဖွဲ့ကြီး ဖွဲ့စည်းရခြင်းအကြောင်း

ဤအဖွဲ့ကို ဖွဲ့စည်း တည်ထောင်ရခြင်း၏ အကြောင်းကား ဤသို့တည်း။ မြန်မာပြည်တွင်း သိတင်းသုံး နေထိုင်တော်မူကြသော မဟာထေရ်ကြီးများ၏ စိတ်တွင် ထင်မြင်လာသည်မှာ ယခုအခါ၌

(က) မြတ်စွာဘုရား ဟောတော်မူအပ်သော နိကာယ်ငါးရပ် ပိဋကတ်တော်တို့သည် အထပ်ထပ် အဆင့်ဆင့် ရေးကူး ပုံနှိပ်ကြရာ၊ သတိချွတ်ယွင်း ရေးမှားမိခြင်းကြောင့် မသန့်မရှင်း ဖြစ်လျက် ပါဠိပျက်များ ရောနှော ပါဝင်နေလေသည်။ယင်း ပါဠိပျက်များကို သုတ်သင် ရှင်းလင်း၍ စင်ကြယ်သန့်ရှင်း မှန်ကန်သော ပါဠိများဖြင့်သာ ပိဋကတ်တော်များကို စက်တင် ပုံနှိပ်သင့်သည်။

(ခ) ကမ္ဘာအရပ်ရပ်ရှိ မြတ်စွာဘုရား၏ တရားတော် အရသာကို မခံစားရကုန်သော လူအပေါင်းတို့အားလည်း တရား အရသာကို ခံစားရစိမ့်သော

ငါ ထိုစင်ကြယ် သန့်ရှင်း မှန်ကန်သော ပိဋကတ်တော်များကို ဖြန့်ဝေကာ အဓွန့်ရှည်ကြာ တည်စေသင့်သည်။

(ဂ) ပြည်ထောင်စု မြန်မာနိုင်ငံနှင့် တကွ ဗုဒ္ဓဝါဒီ နိုင်ငံအားလုံးတို့က ဗုဒ္ဓသာသနာတော်ကို စုပေါင်းအားပေးရန်သင့်သည်။

ဤအချက်များကို ဆောင်ရွက်ရန်အတွက် ဆဋ္ဌသင်္ဂါယနာတင်ရန် လိုအပ်ပေသည်။ ဆဋ္ဌသင်္ဂါယနာတင်ရန်မှာလည်း ရှေးအခါ သင်္ဂါယနာ ငါးတန်တင်ရာ၌ အဇာတသတ်မင်းစသော မင်းကောင်း မင်းမြတ်များကို အမှီပြုရသကဲ့သို့ အမှီပြုရမည့် သာသနာ့ဒါယကာ လိုအပ်၏ဟု ထင်မြင်ယူဆတော်မူကြပြီးလျှင် ဝန်ကြီးချုပ် ဦးနုအား သြဝါဒစကားမိန့်ကြား ပြောဆိုတော်မူကြကုန်၏။

မဟာထေရ်ကြီး အရှင်မြတ်များ၏ သြဝါဒ စကားကို ကြားသိရသော ဝန်ကြီးချုပ် ဦးနုသည် နိုင်ငံတော် သမတအမှူးရှိသော အစိုးရအဖွဲ့ ဝန်ကြီးများနှင့်၎င်း၊ ဗုဒ္ဓသာသနာရေးဆိုင်ရာ အသင်းအဖွဲ့များ၊ ရဟန်းပညာရှိ လူပညာရှိ ပုဂ္ဂိုလ်ကြီးများနှင့်၎င်း တိုင်ပင် ညှိနှိုင်း၍ ဆဋ္ဌသင်္ဂါယနာဒါယကာအဖြစ် ခံယူကြရန်နှင့် အခြား ဗုဒ္ဓသာသနာရေးရာများကို ဆောင်ရွက်ကြရန် အတွက် ဗုဒ္ဓသာသနအဖွဲ့ အက်ဥပဒေကို ပြည်ထောင်စု မြန်မာနိုင်ငံပါလီမန်တွင် တင်သွင်း ဆုံးဖြတ်ပြီးလျှင် ထိုဥပဒေအရ ဗုဒ္ဓသာသနအဖွဲ့ကို ဖွဲ့စည်းတည်ထောင် ခဲ့ပေသည်။

## ဖွဲ့စည်းပုံ

ဗုဒ္ဓသာသနအဖွဲ့ ဖွဲ့စည်း တည်ထောင်ပုံမှာ—

(၁) သာသနာရေးဝန်ကြီး၊

(၂) နိုင်ငံတော် သြဝါဒါစရိယ ဆရာတော်ကြီးများ၏ သြဝါဒအရ နိုင်ငံတော် သမတကြီးက ခန့်အပ်သည့် ကိုယ်စားလှယ်တော်ကြီး ၉ ဦး၊

(၃) နိုင်ငံတော် သမတကြီးက ခန့်အပ်သော ကိုယ်စားလှယ်တော်ကြီး ဂ ဦး၊

(၄) ပြည်နယ်၊ ဝိသေသတိုင်းနှင့် ခရိုင် အသီးအသီးရှိ ဗုဒ္ဓသာသနာရေး ဆိုင်ရာ အသင်းအဖွဲ့များမှသတ်မှတ်ထားသည့် အချိုးအတိုင်း ခန့်အပ်စေလွှတ်သည့် ဒေသကိုယ်စားလှယ်တော်ကြီး ၃၃ ဦးဟူ၍

ကိုယ်စားလှယ်တော်ကြီး ၅၁ ဦးပါဝင်စေလျက် ဗုဒ္ဓသာသနအဖွဲ့ကို ဖွဲ့စည်းရပေသည်။

ဤအဖွဲ့သည် သာမန်အခါမျိုး၌ ဗုဒ္ဓသာသနာရေး ကိစ္စများ ဆောင်ရွက်ရန်အတွက် လပိုင်းဖြင့် သတ်မှတ်၍ အစည်းအဝေး ကျင်းပရန် မလွယ်ကူချေ။ နှစ်ပိုင်းဖြင့်သာ ရောက်ဆဲနှစ် ကဆုန်လပြည့်ကျော် တရက်မှ လာမည့်နှစ် ကဆုန်လပြည့်နေ့တိုင်အောင်သော ကာလကို ဗုဒ္ဓနှစ်ဟု သတ်မှတ်ပြီးသော်၊ တနှစ်လျှင် ၂ ကြိမ်သာ အစည်းအဝေး ကျင်းပကာ ဗုဒ္ဓသာသနာရေး ကိစ္စများကို ဆောင်ရွက်နိုင်ပေရာ၊ အမြဲတစေ လပိုင်းအနေဖြင့် ဗုဒ္ဓသာသနာရေး ကိစ္စများကို ဆောင်ရွက်နိုင်ရန်အတွက် ဗုဒ္ဓသာသန အဖွဲ့ဝင် ပုဂ္ဂိုလ်များထည်းမှ

(က) ၁-၂-၃ အမှတ် ကိုယ်စားလှယ်တော်ကြီး ၁ဂ ဦးနှင့်

(ခ) ၄ အမှတ်ပါ ဒေသ ကိုယ်စားလှယ်တော်ကြီးများ အချင်းချင်း ညှိညွတ်၍ တာဝန်လွှဲအပ်သည့် ကိုယ်စားလှယ်တော်ကြီး ၉ ဦး

ပေါင်း ကိုယ်စားလှယ်တော်ကြီး ၂၇ ဦး ပါဝင်သည့် ဗုဒ္ဓသာသန အမှုဆောင်အဖွဲ့ကို တင်မြှောက်ဖွဲ့စည်းရပြန်သည်။

ထိုအမှုဆောင် အဖွဲ့မှ အဖွဲ့၏ ဥက္ကဋ္ဌ၊ ဒုတိယ ဥက္ကဋ္ဌနှင့် အကျိုးဆောင် စာချီ ၂ ဦးတို့ကို ရွေးကောက်တင်မြှောက်ပြီးလျှင်၊ ယင်းတို့ပင်လျှင် ဗုဒ္ဓသာသနအဖွဲ့၏ ဥက္ကဋ္ဌတို့နှင့် အကျိုးဆောင်တို့ ဖြစ်ရလေသည်။

ဗုဒ္ဓသာသန အဖွဲ့နှင့် ယင်း၏ အမှုဆောင်အဖွဲ့ဝင် လူကြီးများ အဖြစ်ကို ပြည်ထောင်စု မြန်မာနိုင်ငံသား ဗုဒ္ဓအယူဝါဒီ ဖြစ်ပြီးလျှင် အရည်အချင်းပြည့်ဝ စာရိတ္တ ကောင်းမွန်လျက် ဗုဒ္ဓသာသနာတော်နှင့် ဗုဒ္ဓသာသနအဖွဲ့၏ ဂုဏ်ကို ဆောင်နိုင်သည့် ပုဂ္ဂိုလ်များသာ ခံယူခွင့် ရှိပေသည်။ အဖွဲ့ဝင် လူကြီးများ ဖြစ်လာတိုင်းလည်း အဂတိ မလိုက်ဘဲ အစွမ်းရှိသမျှ ဗုဒ္ဓသာသနာရေး-ဗုဒ္ဓသာသနာ ထွန်းကားပြန့်ပွားရေးကို ဆောင်ရွက် ပါမည်ဟု ကတိ သစ္စာ ပြုရသေးသည်။

## အဖွဲ့၏ ရည်ရွယ်ချက်များ

အသင်းအဖွဲ့များကို ဖွဲ့စည်း တည်ထောင်ရာ၌ ရည်ရွယ်ချက်၊ လုပ်ငန်းစဉ်များကို ချထား သတ်မှတ်ရပေရာ၊ ဗုဒ္ဓသာသန အဖွဲ့ကို ဖွဲ့စည်း တည်ထောင်ရာ၌လည်း အဖွဲ့၏ ရည်ရွယ်ချက် လုပ်ငန်းစဉ်များကို—

(၁) ပြည်ထောင်စု မြန်မာနိုင်ငံ အတွင်းအပတို့၌ မိမိတဦးတည်း ဖြစ်စေ၊ အခြား အသင်းအဖွဲ့များနှင့် ပူးပေါင်း၍ဖြစ်စေ ဗုဒ္ဓသာသနာ ထွန်းကား ပြန့်ပွားရေးအတွက် ဆောင်ရွက်ရန်၊

(၂) ပြည်ထောင်စု မြန်မာနိုင်ငံ အတွင်းအပတို့၌ ဓမ္မဒူတ ဌာနများ၊ သင်တန်းများ၊ ကျောင်းများ ဖွင့်လှစ် တည်ထောင်ရန်၊

(၃) ပရိယတ္တိ သာသနာ တိုးပွားရေးအတွက် စာမေးပွဲများ ကျင်းပရန်၊ အခြား နည်းများဖြင့်လည်း ဆောင်ရွက်ရန်၊

(၄) ပဋိပတ္တိ သာသနာ တိုးပွားရေးအတွက် ဆောင်ရွက်ရန်၊
(၅) ဗုဒ္ဓဝါဒ စာပေ ယဉ်ကျေးမှု စသည် တိုးတက်ဖွံ့ဖြိုးရေး အတွက် ဆောင်ရွက်ရန်၊
(၆) ဗုဒ္ဓဝါဒီ အချင်းချင်း ချစ်ခင် စည်းလုံး ညီညွတ်ရေး အတွက် ဆောင်ရွက်ရန်၊
(၇) လူ့ခပ်သိမ်းတို့ တရားတော်နှင့် အညီ လိုက်နာနေထိုင် ပြုကျင့်ရေးအတွက် အားပေး ဆောင်ရွက်ရန်၊
(၈) အထက်ပါ ရည်ရွယ်ချက်များ ပြီးမြောက်အောင် ဆောင်ရွက်ရန်နှင့် အခြား ဗုဒ္ဓသာသနာ ရေးရာများကို ဆောင်ရွက်ရန်၊

ဟူ၍ ကျယ်ပြန့်၍ မွန်မြတ်လှစွာ ချထား သတ်မှတ်ခဲ့ကြလေသည်။

## ဤအဖွဲ့ စတင်ပေါ်ထွက်လာပုံ

ဤမျှ စည်းစံနစ်ကျနစွာ ဖွဲ့စည်းထား၍ မွန်မြတ် ကျယ်ပြန့်လှစွာသော လုပ်ငန်းစဉ် ရည်ရွယ်ချက်ရှိသော ဗုဒ္ဓသာသန အဖွဲ့နှင့် ယင်း၏ အမှုဆောင် အဖွဲ့ကို ထိုစဉ်က ပြည်ထောင်စု မြန်မာနိုင်ငံ အစိုးရ ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီး ဦးဝင်းက ကြီးမှူး၍ ၁၉၅၀ ပြည့်နှစ် ဩဂုတ်လ ၂၆ ရက် စနေနေ့ နေ့လည် ၁ နာရီ ၂၅ မိနစ် အချိန်တွင် ရန်ကုန်မြို့ တက္ကသိုလ် ဓမ္မာရုံကြီး၌ ပဌမဆုံး ညီလာခံ သဘင်ကြီးကို ဆင်ယင် ကျင်းပကာ ဖွဲ့စည်း တည်ထောင်ခဲ့လေသည်။

ပဌမဆုံး အမှုဆောင် အဖွဲ့၏ အစည်းအဝေးကိုလည်း နောက်တနေ့ (၂၇-၈-၅၀) တနင်္ဂနွေနေ့ မွန်းလွဲ ၂ နာရီ အချိန်တွင် စတင် ကျင်းပပြီးလျှင်၊ အဖွဲ့၏ ရည်ရွယ်ချက်များကို ထမြောက် အောင်မြင်စွာ ဆောင်ရွက်နိုင်ရန်

(၁) ပရိယတ္တိအဖွဲ့ငယ်၊
(၂) ပဋိပတ္တိအဖွဲ့ငယ်၊
(၃) ဗုဒ္ဓသာသနာ ပြန့်ချီရေး အဖွဲ့ငယ်၊
(၄) ဘဏ္ဍာရေး အဖွဲ့ငယ်၊

ဟူ၍ အဖွဲ့ငယ်များ ဖွဲ့ကာ အသီးအသီး တာဝန်များကို ခွဲဝေယူငင်ကြပြီးသော် ဗုဒ္ဓသာသနာရေး ကိစ္စများကို စတင် ဆောင်ရွက်ခဲ့လေသည်။

## အဖွဲ့၏ဆောင်ရွက်ချက်များ

စတင် တည်ထောင်သည်မှစ၍ အဖွဲ့၏ အဓိက စွမ်းဆောင်ချက်ကြီးမှာ ဆဋ္ဌသင်္ဂါယနာပွဲကြီး ဆင်နွှဲ အောင်မြင်ခဲ့ခြင်းပင် ဖြစ်ပေ၏။ ပါဠိတော်ကို သင်္ဂါယနာတင်ပြီးနောက် အဋ္ဌကထာ ဋီကာများကိုလည်း သင်္ဂါယနာတင်ခဲ့၏။ ထို့ပြင် ပရိယတ္တိသာသနာ ထွန်းကား ပြန့်ပွားရေးအတွက် မြန်မာနိုင်ငံ အနှံ့အပြား၌ အဘိဓမ္မာ စာမေးပွဲများကို ကျင်းပခဲ့ပေ၏။ ပဋိပတ္တိ သာသနာ ထွန်းကား ပြန့်ပွားရေး အတွက် ပြည်ထောင်စု မြန်မာနိုင်ငံ အတွင်းနှင့် ပြည်ပတို့၌ ပဋိပတ္တိဌာန သာသနာ့ ရိပ်သာများကို ဖွင့်လှစ်ခဲ့၏။ ဗုဒ္ဓသာသနာတော်ကြီး ထွန်းကား ပြန့်ပွားရန် အတွက်လည်း ဓမ္မဒူတ ဌာန ဖွင့်လှစ်၍ သာသနာ မထွန်းကားသေးသော ပြည်တွင်းရှိ တောင်တန်း ဒေသများနှင့် အခြား တိုင်းပြည်များသို့ သာသနာပြု ပုဂ္ဂိုလ်များ စေလွှတ်ခဲ့ပေ၏။ ပါဠိ ဘာသာ မတတ်ကျွမ်းသော ပုဂ္ဂိုလ်များ လေ့လာဖတ်ရှုနိုင်ရန် ရည်ရွယ်၍ ပါဠိဘာသာဖြင့် တည်ရှိသော ဘုရားဟော ပါဠိတော်များ၊ အဖွင့် အဋ္ဌကထာ ကျမ်းများကိုလည်း မြန်မာဘာသာသို့ ပြန်ဆိုခဲ့ရုံမက သိသင့် သိထိုက်သော တရားတော်များကိုလည်း မြန်မာဘာသာဖြင့် သာသနာ့ရောင်ခြည် စာစောင်၊ အင်္ဂလိပ်ဘာသာဖြင့် ဓမ္မရောင်ခြည် စာစောင်များကို ထုတ်ဝေလျက် ကမ္ဘာ အရပ်ရပ်သို့ ဗုဒ္ဓသာသနာတော်ကို ဖြန့်ခဲ့ကာ အခြား ဗုဒ္ဓသာသနာရေးကိစ္စများကို ဆောင်ရွက်ခဲ့ပေသည်။

အနာဂတ်ကာလတွင်လည်း ဗုဒ္ဓသာသနအဖွဲ့သည် ကမ္ဘာသူ ကမ္ဘာသား လူအများတို့အား ဗုဒ္ဓရှင်တော်မြတ်၏ တရားတော်များကို ဖြန့်ဖြူးဝေငှ၍ ငြိမ်းချမ်းမှုနှင့် အလင်းရောင်ကို ရစေခြင်းငှါ ကူညီထောက်ပံ့နိုင်လိမ့်မည် ဖြစ်ပေသည်။

ဆရာဥာဏ်

**ဗုဒ္ဓဟူးဂြိုဟ်။** ။ဗုဒ္ဓဟူးဂြိုဟ်သည် နက္ခတ္တဗေဒအရ မာကျူရီဂြိုဟ် ဖြစ်သည်။ ဂရိနှင့် ရောမထုံးဟောင်း ပုံပြင်လာ ခြေနင်းစကြာရသော စေတမန်နတ် မာကျူရီအား အစွဲပြု၍ မှည့်ခေါ် ထားခြင်း ဖြစ်သည်။ ဂြိုဟ် ၉ လုံးအနက် အငယ်ဆုံး ဖြစ်၍ နေနှင့် ကမ္ဘာ့ကြားတွင် တည်ရှိသည်။ ယင်းသည် နေနှင့် အနီးဆုံးဂြိုဟ်လည်း ဖြစ်၍ ပျမ်းမျှခြင်းအားဖြင့် နေနှင့် မိုင်ပေါင်း ၃၆,၀၀၀,၀၀၀ ခန့်ဝေးသည်။ ယင်းသို့ နေနှင့် မည်သည့် အခါမျှ မဝေးကွာသောကြောင့် ထိုဂြိုဟ်သည် နေရောင်တွင် ပျောက်ကွယ်နေလေ့ ရှိသည်။ နေဝင်စတွင် အနောက်ဖက် ကောင်းကင်ယံ၌၎င်း၊ နေထွက်ခါနီး အရှေ့တက်စတွင် အရှေ့ဖက် ကောင်းကင်ယံ၌၎င်း ယင်းကို တခါတရံ တွေ့ရတတ်သည်။ ထို့ကြောင့် ယင်းကို မိုးသောက်ကြယ်ဟူ၍၎င်း၊ နေဝင်ကြယ်ဟူ၍၎င်း အမျိုးမျိုး ခေါ်ကြသည်။ ဂရိ လူမျိုးတို့က မိုးသောက်ချိန်တွင် တွေ့ရှိသည့်အခါ အပေါ်လိုဟု ခေါ်ပြီးလျှင်၊ နေဝင်ခါစတွေ့သော အခါ မာကျူရီဟု တသီးတခြားစီထင်၍ ခေါ်ကြသည်။

မာကျူရီဂြိုဟ်တွင် အရံဂြိုဟ် တလုံးမျှ မရှိချေ။ ယင်း၏ ဖြစ်ထိုကို အခြား ဂြိုဟ်များကဲ့သို့ အတိအကျ မသိရ

သေးသော်လည်း ကျွန်ုပ်တို့ ကမ္ဘာဂြိုဟ် ဒြဗ်ထု၏ ၂၄ ပုံ ၁ ပုံသာ ရှိသည်ဟု ခန့်မှန်းရသည်။ နက္ခတ္တဗေဒ ပညာရှင်များက မာကျူရီဂြိုဟ်လုံး၏ အချင်းသည် မိုင် ၃,၁၀၀ ခန့်ရှိ၍ ကမ္ဘာဂြိုဟ်အချင်း၏ ၃ ပုံ ၁ ပုံ သာသာမျှသာ ရှိသည်ဟု ယုံကြည်ကြသည်။ မာကျူရီဂြိုဟ်၏ မျက်နှာပြင်သည် ကမ္ဘာ့မြေမျက်နှာပြင်၏ ၇ ပုံ ၁ ပုံသာ ရှိ၍၊ ထုထည်မှာ ကမ္ဘာ့ထုထည်၏ ၁၆ ပုံ ၁ ပုံခန့်သာ ရှိသည်။ ယင်း၏ သိပ်သည်းဆသည် ကျွန်ုပ်တို့ ကမ္ဘာမြေပေါ်၌ တွေ့ရှိရသော သာမန်ကျောက်၏ သိပ်သည်းဆခန့် ရှိသည်။ ကမ္ဘာမြေပေါ်၌ ပေါင် ၁၅၀ အလေးချိန် ရှိသော လူတယောက်သည် မာကျူရီဂြိုဟ်ပေါ် ရောက်သော် ပေါင် ၅၀ ခန့်သာ လေးပေမည်။

မာကျူရီဂြိုဟ်သည် နေကို ၈၈ ရက်တွင် တပတ်ပတ်မိသည်။ ထို့ကြောင့် ယင်းဂြိုဟ်၌ တနှစ်တွင် ရက်ပေါင်း ၈၈ ရက်သာ ရှိသည်။ ယင်းသည် မိမိ၏ ဝင်ရိုးပေါ်၌ အကြိမ်မည်မျှလည်သည်ကို နက္ခတ္တဗေဒ ပညာရှင်တို့ အတိအကျ မပြောနိုင်ကြသေးချေ။ နေကို လှည့်ပတ်စဉ် ယင်း၏ မျက်နှာ တဖက်သပ်သပ်သည် နေဖက်သို့ချည်း ကျနေသည်ကို ထောက်ခြင်းဖြင့် ယင်းသည် နေကို တပတ်ပတ်စဉ် ဝင်ရိုးပေါ်၌ တကြိမ်သာ လှည့်သည်ဟု မှတ်ချက်ချကြသည်။ သို့ရာတွင် အချို့ နက္ခတ္တဗေဒ ပညာရှင်တို့က ယင်းသည် မိမိ၏ ဝင်ရိုးပေါ်၌ အလွန် လျင်မြန်စွာ လည်သည်ဟု ယူဆကြသည်။ မာကျူရီဂြိုဟ်သည် လထက် နေနှင့် ပိုနီးသဖြင့် လထက် ပို၍ပူသည်။ လ၏အပူချိန်သည် ဖာရင်ဟိုက် ၂၁၄ ဒီဂရီရှိ၍ နေဖက်လှည့်နေသော မာကျူရီဂြိုဟ် မျက်နှာ၏ အပူချိန် သည် ဖာရင်ဟိုက် ၅၅၀ မှ ၇၇၀ ဒီဂရီအတွင်း ရှိသည်ဟု အချို့က ခန့်မှန်းကြသည်။ ယင်းအပူချိန်သည် ခဲနှင့် သံဖြူတို့ပင် ပျော်သွားစေနိုင်သော အပူချိန်ဖြစ်သဖြင့် မာကျူရီဂြိုဟ်သည် နေစကြဝဠာတွင် အပူဆုံးဂြိုဟ်ဟု ဆိုရပေမည်။ နေဖက်မကျသော မျက်နှာမှာမူ အလွန်အေးသည်။ ယင်းဂြိုဟ်၌ လေ၊ သို့မဟုတ် လေထုမရှိချေ။

မာကျူရီဂြိုဟ်နှင့် ကမ္ဘာဂြိုဟ်သည် နေကို လှည့်ပတ်ယင်း ၁၁၆ ရက်လျှင် တကြိမ် ဆုံကြသည်။ နေ၊ ကမ္ဘာနှင့် မာကျူရီဂြိုဟ်တို့ ၃ ခုစလုံးမှာမူ ၃ နှစ်မှ ၁၃ နှစ်ကြား ကာလအတွင်း တကြိမ် ဆုံတတ်ကြသည်။ ၁၉၀၇၊ ၁၉၁၄၊ ၁၉၂၄၊ ၁၉၂၇၊ ၁၉၃၇၊ ၁၉၄၀၊ ၁၉၅၃ ခုနှစ်တို့က ယင်းဂြိုဟ် ၃ လုံး ဆုံခဲ့ကြသည်။ အထူးသဖြင့် မေလနှင့် နိုဝင်ဘာလများတွင် ဆုံတတ်၍၊ နိုဝင်ဘာလတွင် အဆုံများသည်။ ထိုသို့ဆုံသည့်အခါ နေတွင် အမဲစက် ပေါ်နေသကဲ့သို့ ကျွန်ုပ်တို့ ကမ္ဘာမှ မြင်ရသည်။ မာကျူရီဂြိုဟ်သည် လကဲ့သို့ပင် လှည့်ပတ်ယင်း အခြမ်း၊ အဝိုင်း၊ အကွေးပုံစသည်ဖြင့် အသွင်အမျိုးမျိုး ပြောင်းလျက် ရှိသည်။

မြန်မာကျမ်းဂန်အရ ဗုဒ္ဓဟူးဂြိုဟ်သည် ဂြိုဟ်ကြီး ၉ လုံး အနက် ၄ ခုမြောက်ဂြိုဟ်ဖြစ်သည်။ လှေသင်းအတွင်းဝန် စီရင်သော ဝေါဟာရ လိနတ္ထဒီပနီတွင် ဗုဒ္ဓဟူးဂြိုဟ်သည် နေစာမြက်ကဲ့သို့ စိမ်းရောင်နှင့်ရွှေရွှေအဆင်းရှိသဖြင့် ပိတသဒ္ဒါနှင့် ဟရိသဒ္ဒါတို့ကို အစွဲပြုကာ ပိတဟူးဟု ရေးမှတ်ကြကြောင်းဖြင့် ဆိုသည်။

ဗုဒ္ဓဟူးဂြိုဟ်ကို အစွဲပြုကာ ရက်သတ္တပတ်၏ ၄ ရက်မြောက်နေ့ကို ဗုဒ္ဓဟူးနေ့ဟု ခေါ်၍၊ ဗုဒ္ဓဟူးနေ့သည် ဘုရားအလောင်း သိဒ္ဓတ္ထမင်းသား သစ္စာလေးပါး တရားကို ရကာ ဘုရားအဖြစ်သို့ ရောက်တော်မူသောနေ့ဖြစ်သည်။

ဗုဒ္ဓဟူးဂြိုဟ် နတ်မင်းစီးသော ဂြိုဟ်ကောင်သည် စွယ်စုံဆင်ဖြစ်သည်။ "ဗုဒ္ဓဟူးဆင်၊ ဆဲ့ခွန်ပင်၊ နေလျှင်တောင်ဖြောင့်ဖြောင့်" ဟူသော ဂြိုဟ်လင်္ကာအရ ဗုဒ္ဓဟူးဂြိုဟ်သက်သည် ၁၇ နှစ်ဖြစ်၍၊ တည်ရာ အရပ်သည် တောင်ဖြစ်သည်။ ဗေဒင်အလိုအားဖြင့် ယ၊ ရ၊ လ၊ ဝ၊ ဠ ဟူသော အက္ခရာ ၅ လုံးကို ဗုဒ္ဓဟူးနံ အက္ခရာဟု ခေါ်လေသည်။

**ပန့်ဘွေးပင်။** ။ပန့်ဘွေးပင်သည် မြန်မာနိုင်ငံတွင် စိုစွတ်သော မြေပြန့်ဒေသနှင့် တောင်ကုန်းဒေသ သစ်တောများတွင် ပေါက်ရောက်သော အပင်မျိုး ဖြစ်သည်။ အိန္ဒိယနိုင်ငံ



ပန့်ဘွေးပင်၏ အရွက်များ

နှင့် သီဟိုဠ်ကျွန်း စသည့် အပူပိုင်းဒေသတို့၌လည်း တွေ့ရှိရသည်။ ရုက္ခဗေဒ အမည်အားဖြင့် ကဲရီယာအာဗောရီယဟုခေါ်သည်။ ရာသီလိုက် ရွက်ကြွေပင်မျိုး ဖြစ်သည်။ အကိုင်းအလက်တို့ ထူထပ် များပြားသည်။ ယင်းတို့သည် အညိုရောင်ရှိ၍ ချောမွတ်နေကာ အစင်းမြောင်းများ ပေါ်နေသည်။

အရွက်တို့သည် ကြာယပ်ကဲ့သို့ အဝိုက်များရှိ၍ အပေါ်ပိုင်းတွင် ပို၍ အဝိုက်ကျယ်သည်။ အကိုင်းအလက် အဆုံးနားထိအောင် အရွက်များ ထွက်၍၊ များသောအားဖြင့် အကိုင်းအလက်တို့၏ အရင်းနားတွင် အရွက်များ စုပုံ၍ နေတတ်သည်။ အရွက်များ ကြွေချိန်နီးလာလျှင် အနီရောင် တောက်တောက် ဖြစ်လာလေသည်။

အပွင့်များသည် အဖြူရောင်နှင့် ပန်းရောင် ဖြစ်သည်။ အပွင့်သည် အချင်း ၂ လက်မမှ ၄ လက်မအထိရှိ၍ ပွင့်ချပ်တို့သည် ၁ လက်မ ၂ လက်မခန့် အရှည်ရှိသည်။ အနံ့နံသည်။ ရှည်လျားသော ခရမ်းရောင် ဝတ်ဆံဖိုများ များစွာရှိသည်။ အပွင့်တို့သည် အခက်အလက်များ၏ အရင်းနားတွင် စုခဲ၍ ပွင့်တတ်ကြလေသည်။

အသီးတို့သည် လုံးဝန်း၍ အစိမ်းရောင် ဖြစ်သည်။ အသားများသည်။အချင်း ၂ လက်မ ၃ လက်မခန့်ရှိ၍၊ ထိပ်တွင် အဝိုက် ၄ ခုပါသော ထိပ်ဖုံးပွင့်ချပ်အုံကလေး ပါရှိလေသည်။

ဇန့်ဘွေးသားသည် အနီရင့်ရောင်ရှိ၍ သစ်ကြောညီသည်။ ကြာရှည်ခံသော သစ်သားမျိုးလည်း ဖြစ်သည်။ အရောင်တင်၍လည်း ကောင်းသည်။ ရေထဲတွင် အသုံးပြုလျှင် ပို၍ ကြာကြာခံပြီးလျှင်၊ ပိုးမစားလွယ်ချေ။ သေနတ်ဒင်များ၊ အိမ်တိုင်များ၊ ကြမ်းခင်းပျဉ်များ၊ လှည်းများ၊ အိမ်ထောင်ပရိဘောဂ ပစ္စည်းများ ပြုလုပ်ရန် ဇန့်ဘွေးသားကို အသုံးပြုကြသည်။

ဇန့်ဘွေးပင်၏ အခေါက်ကို ခွဲ၍ ရရှိသော လျှော်မျှင်သည် အလွန် ခိုင်မာ၍ ဆင်ဦးစီးတို့သည် ထိုလျှော်မျှင်ကို ဆင်ကုန်း အောက်ခံ အခင်းများ ပြုလုပ်ရန်အတွက် အသုံးပြုကြသည်။ ထို့ပြင် ရွက်ကြိုးကဲ့သို့ ကြိုးကြမ်းကြမ်းများနှင့် ဂုံအိတ်ကြမ်းများလည်း ရက်လုပ်ကြသည်။ ဇန့်ဘွေးပင်တို့သည် အများအပြား အနှံ့အပြား ပေါက်ရောက်သဖြင့် ဇန့်ဘွေးလျှော်မျှင်များကို များများစားစား ရနိုင်လေသည်။

ဇန့်ဘွေးခေါက်မှ အညိုရင့်ရောင် ဆိုးဆေးကို ထုတ်ယူရရှိနိုင်သည်။ ထို့ပြင် ထိုအခေါက်သည် မြွေကိုက်သည့်အခါ၌ ၎င်း၊ အရွက်သည် ပြည်တည်နာများ ပေါက်လျှင်၎င်း ဆေးဖက်ဝင်သည်။ အရွက်ကို ဆေးလိပ်လိပ်၍ အချို့ သောက်ကြလေသည်။

**ဗန်ကူးဗားမြို့။** ။ဗန်ကူးဗားမြို့သည် ကနေဒါနိုင်ငံ၊ ဗြိတိသျှ ကိုလမ်ဗီယားပြည်နယ်တွင်ရှိ၍၊ ထိုနိုင်ငံ၏ တတိယအကြီးဆုံးမြို့ ဖြစ်သည်။ ဗြိတိသျှ ကိုလမ်ဗီယား ပြည်နယ်၏ ကုန်သွယ် စီးပွားရေးနှင့် စက်မှုလုပ်ငန်း အချက်အခြာလည်း ဖြစ်၍၊ အကြီးဆုံး မြို့လည်းဖြစ်သည်။ မြောက်အမေရိက တိုက် ပစိဖိတ် ကမ်းခြေတွင် ထိပ်တန်း ပင်လယ်ဆိပ်ကမ်းမြို့ကြီးလည်း ဖြစ်လေသည်။

ဂျော့ဂျီးယား ရေလက်ကြား၏ လက်တက်တခုဖြစ်သော ဗားရတ် ရေကျော်နှင့် ဖရေဇာမြစ်ဝတို့၏ အကြား ပစိဖိတ် သမုဒ္ဒရာ ရေပြင်ထဲသို့ ထိုးထွက်နေသော ကျွန်းဆွယ်ပေါ်တွင် မြို့တည်ထားသည်။ ကျွန်းဆွယ်၏ တဖက်တချက်သည် ပင်လယ် သင်္ဘောဆိပ်များ ဖြစ်ကြသည်။ သင်္ဘောဆိပ်များတွင် တရုပ်၊ ဂျပန်၊ ဩစတြေးလီးယား၊ အိန္ဒိယ စသော နိုင်ငံများနှင့် ကူးလူးဆက်ဆံကြသည့် ပင်လယ်ရေကြောင်း ကုမ္ပဏီပေါင်း ၅၀ ကျော်တို့မှ သင်္ဘောများ ဝင်ထွက်သွားလာကြသည်။

မြို့၏ အကျယ်အဝန်းသည် ၄၄ စတုရန်းမိုင်ခန့်ရှိ၍၊ လူဦးရေ ၃၈၅,၀၄၄ ယောက် ရှိသည်။ တောင်များ၊ ပင်လယ်ရေပြင်များဖြင့် ဝန်းရံလျက်ရှိကာ ရှုခင်း သာယာလှပသော မြို့ဖြစ်သည်။ မြောက်ဖက်နှင့် အရှေ့ဖက်တခိုတွင် ဆီးနှင်းများဖြင့် ဖွေးဖွေးဖြူလျက် ရှိပြီးလျှင် စိမ်းလန်းသော သစ်တောများ ဖုံးအုပ်လျက်ရှိသည့် တောင်ကုန်းတောင်တန်းများကို တွေ့မြင်နိုင်သည်။ တောင်ဖက်ဆီသို့ ရှုမျှော်လိုက်လျှင် ဖရေဇာ မြစ်ထဲရှိ ကျွန်းများပေါ်မှ ကျယ်ဝန်းသော လယ်ခင်း ယာခင်းများကို တွေ့ရသည်။ အနောက်ဖက်တွင်မူ ဗန်ကူးဗားကျွန်းမှ တောင်တန်းများကို တသီတတန်း တွေ့ရမည် ဖြစ်လေသည်။

မြို့လယ်ခေါင်တွင် စတန်လီ ဥယျာဉ် တည်ရှိရာ၊ မြို့မတည်မီက ရှိခဲ့သည့် သဘာဝအတိုင်း ကြီးမားသော ထင်းရှူးပင်များ၊ ဆီဒါပင်များ၊ ဧက တထောင်ကျော်ခန့် ရှိသည့် သာယာလှပသော မြို့၏ရှုခင်း၊ မျှတကောင်းမွန်သော ရာသီဥတု၊ ရေချိုးဆိပ်ကောင်းများ၊ တောကစား ထွက်ရန် နေရာများနှင့် ငါးများရန် နေရာကောင်းများ ရှိခြင်းကြောင့် ခရီးသည် အများအပြားပင် ဗန်ကူးဗားမြို့သို့ လာရောက် လည်ပတ်ကြလေသည်။

မြို့၏ ပတ်ဝန်းကျင် တောင်ကုန်း၊ တောင်တန်းများမှ ရေတံခွန်များကို အသုံးချခြင်းဖြင့် ရေအား လျှပ်စစ်ကို လိုသလောက် ရနိုင်သည်။ ဗန်ကူးဗားမြို့၏ အဓိက လုပ်ငန်းများမှာ သစ်စက်လုပ်ငန်း၊ ငါးသေတ္တာလုပ်ငန်းနှင့် သင်္ဘောတည် လုပ်ငန်းများ ဖြစ်ကြသည်။ အခြား လုပ်ငန်းများမှာ သံနှင့် သံမဏိလုပ်ငန်း၊ သကြားချက်လုပ်ငန်း၊ စက်ကရိယာ လုပ်ငန်း စသည်တို့ ဖြစ်ကြသည်။ သစ်၊ ဂျုံစပါး၊



ကနေဒါနိုင်ငံ၏ ပစိဖိတ်ကမ်းခြေ ဆိပ်ကမ်းမြို့ဖြစ်သော ဗန်ကူးဗားမြို့၏သာယာဖွယ် ရှုခင်း

ငါးနှင့် သစ်သီးများကို ဥရောပတိုက် မြောက်အမေရိက တိုက်၊ အာရှတိုက်၊ ဩစတြေးလီးယားတိုက်များသို့ အမြောက်အမြား တင်ပို့ရလေသည်။ ဒုတိယ ကမ္ဘာစစ်ကာလ ၁၉၃၉ ခုနှစ်မှ ၁၉၄၅ ခုနှစ်အတွင်း စစ်မက်ရေးကြောင့် ဗန်ကူးဗားမြို့၏ စက်မှုလုပ်ငန်းများ၊ အထူးသဖြင့် သစ်လုပ်ငန်းနှင့် သင်္ဘောတည် လုပ်ငန်းများ အလွန် တိုးတက်ခဲ့လေသည်။

ဗန်ကူးဗားမြို့ရှိ ဗြိတိသျှ ကိုလမ္ဗီယား တက္ကသိုလ်သည် ကနေဒါ နိုင်ငံတွင် အဆင့်အတန်း အမြင့်ဆုံးသော တက္ကသိုလ်တခု ဖြစ်လာသည်။ ထို့ပြင် ထိုမြို့ကြီး၌ မူလတန်းနှင့် တန်းမြင့်ကျောင်းပေါင်း ၆၀ ကျော် ရှိလေသည်။

ယခု ဗန်ကူးဗားမြို့၏ အခြေအနေကို တွေ့မြင်ကြရသူ အပေါင်းသည် လွန်ခဲ့သော နှစ်ပေါင်း ၇၀ ခန့်က ယခုမြို့တည်ထားသော နေရာသည် တောကြီးမြက်မဲဖြစ်ကြောင်းကို သိရလျှင် ယုံနိုင်ဖွယ်ရာပင် မရှိချေ။ ၁၈၈၅ ခုနှစ်တွင် ကနေဒီးယန်း-ပစိဖိတ် မီးရထားလမ်း၏ လမ်းဆုံးအဖြစ် သတ်မှတ်လိုက်သောအခါ၊ ဗန်ကူးဗားမြို့ကလေးတွင် လူဦးရေ ၂,၀၀၀ ခန့်မျှသာ ရှိသေးသည်။ ၁၈၈၆ ခုနှစ်တွင် မီးအကြီးအကျယ် လောင်ကျွမ်းခဲ့သဖြင့် မြို့သစ်ပြန်၍ တည်ခဲ့ရသည်။ ၁၈၉၁ ခုနှစ်တွင် ကနေဒီးယန်း-ပစိဖိတ် ကုမ္ပဏီက အရှေ့နိုင်ငံများနှင့်ရေကြောင်းဆက်သွယ်မှု စတင်ပြုလုပ်ခဲ့သည်မှစ၍ ဗန်ကူးဗားသည် ဆိပ်ကမ်းမြို့တမြို့ အဖြစ် ထင်ရှားလာသည်။ ဗန်ကူးဗားမြို့သည် နိုင်ငံဖြတ် မီးရထားလမ်းကြီး နှစ်လမ်း၏ လမ်းဆုံးမြို့လည်း ဖြစ်သည်။ နိုင်ငံဖြတ် လေယာဉ်လမ်း၏ လမ်းဆုံးမြို့လည်း ဖြစ်သည်။ မြောက်မြားစွာသော ပြည်တွင်း မီးရထားလမ်းနှင့် လေယာဉ်လမ်းတို့သည် ဗန်ကူးဗားမြို့မှ ကွန်ချာသဖွယ် ယှက်ဖြာထွက်နေကြသည်။ ယင်းသို့ ကုန်းလမ်း၊ ရေလမ်း၊ လေလမ်း ဆက်သွယ်ရေး ကောင်းမွန်သဖြင့်လည်း လျင်မြန်စွာ တိုးတက် စည်ကား၍ သာယာ ဝပြောသော မြို့ကြီးတမြို့ ဖြစ်လာခဲ့ပေသည်။

ယင်းသို့ ကြီးကျယ် စည်ကားသော မြို့ကြီးတမြို့ ဖြစ်လာမည့် ဗန်ကူးဗားမြို့ နေရာကို ၁၇၉၂ ခုနှစ်ခန့်က ထိုဒေသတဝိုက်ရှိ ပင်လယ် လက်ကြားများ၌ လှည့်လည် နယ်သစ်ရှာခဲ့သူ ကပ္ပတိန် ဂျော့ဗန်ကူးဗား ဆိုသူ ဗြိတိသျှလူမျိုး တဦးက စတင် တွေ့ရှိခဲ့သည်။ ၁၈၇၄ ခုနှစ်တွင် ထိုဒေသ၌ လာရောက် အခြေစိုက်ကြသော လူတစုက ဂရန်ဗီးဟူသော မြို့ကို တည်ကြသည်။ ၁၈၈၆ ခုနှစ်တွင်မူ မြို့ကြီးတမြို့အဖြစ်

တည်ထောင် ဖွဲ့စည်း၍၊ ထိုဒေသကို စတင် တွေ့ရှိသူ၏ အမည်ကို ဂုဏ်ပြုကာ ဗန်ကူးဗားမြို့ဟု ခေါ်တွင်စေခဲ့သည်။ ဗန်ကူးဗားသည် သင်္ဘောလမ်း၊ မီးရထားလမ်းများ၊ လေယာဉ်လမ်းဖွင့်ပြီး နောက်တွင် သယ်ယူပို့ဆောင်ရေး၊ ကူးသန်းသွားလာရေးတို့ ကောင်းမွန်သဖြင့် တိုးတက် စည်ကားလာခဲ့ရာ၊ ကနေဒါ နိုင်ငံ၏ ထိပ်တန်းမြို့ကြီးတမြို့ ဖြစ်လာခဲ့လေသည်။

**ဗန်ကောက်မြို့။** ။ယိုးဒယား (ထိုင်း) နိုင်ငံ၏ မြို့တော်ဖြစ်သော ဗန်ကောက်မြို့သည် ထိုနိုင်ငံ၏ အကြီးဆုံးမြို့လည်း ဖြစ်သည်။ ယိုးဒယား ပင်လယ်ကွေ့ထဲသို့ စီးဝင်သော မဲနမ် (ချောင်ဖယား) မြစ်၏ မြစ်ကမ်းပေါ်တွင် တည်ရှိ၍၊ ယိုးဒယား ပင်လယ်ကွေ့မှ ၁၅ မိုင်ခန့် ကွာဝေးသည်။ မဲနမ်မြစ်သည် ယိုးဒယားနိုင်ငံ၏ ကုန်သွယ် စီးပွားရေး အတွက် ပင်မ သွေးကြောသဖွယ် ဖြစ်ပေရာ၊ နိုင်ငံ၏ အလယ်ပိုင်း ဒေသများနှင့် ထိုမြစ်ကြောင်းတလျှောက်မှ ရောက်လာကြသော ဆန်စပါး၊ ကျွန်းသစ်၊ ကြက်ပေါင်စေး၊ သစ်စေး၊ ငြုတ်ကောင်း စသည့် နိုင်ငံ၏ ထွက်ကုန်များကို ဗန်ကောက်မြို့၏ တဖက်ကမ်းရှိ ပင်လယ် သင်္ဘောဆိပ်ကမ်းမှ တဆင့် နိုင်ငံခြားသို့ ပို့ရသည်။ ပိုး၊ ခြည်ထည်၊ စက်ကရိယာ၊ ကုန်မာပစ္စည်း စသော သွင်းကုန်များကိုလည်း ဗန်ကောက်မြို့မှ တဆင့် နိုင်ငံအရပ်ရပ်သို့ ဖြန့်ဖြူးရသည်။ ယိုးဒယားနိုင်ငံ၏ နိုင်ငံခြား ကုန်သွယ်မှု ၇၀ ရာခိုင်နှုန်းခန့်အတွက် ဗန်ကောက်မြို့မှတဆင့် ဆောင်ရွက်ပေးရလေသည်။

ဗန်ကောက်မြို့ကို အနောက်ဖက်မှ ဖြတ်သန်း စီးဆင်းသွားသော မဲနမ်မြစ်၏ တဖက်တချက်မှနေ၍ သွယ်တန်းဖောက်လုပ်ထားသော တူးမြောင်းများစွာတို့သည် မြို့ကို ဖြတ်သန်း စီးဆင်းလျက် ရှိကြရာ၊ ထိုတူးမြောင်းများကို မြို့တွင်း ကူးသန်းသွားလာရေးအတွက်လည်း အသုံးပြုကြသည်။ မြို့တွင်း၌ ယင်းသို့သော တူးမြောင်းများ ရှိသဖြင့်လည်း ဗန်ကောက်မြို့ကို "အရှေ့တိုင်း ဗင်းနစ်မြို့" ဟုခေါ်ဝေါ်ကြခြင်း ဖြစ်သည်။ ထိုတူးမြောင်းများထဲတွင် ဆင်းရဲသားများ နေထိုင်ကြသော လှေအိမ်များနှင့် ရေပေါ်ဆိုင်များလည်း ရှိလေသည်။

ဗန်ကောက်မြို့၏ ရာသီဥတုသည် အပူပိုင်းဇုန် ရာသီဥတုမျိုးဖြစ်၍ ပူပြင်းကာ စိုစွတ် ထိုင်းမှိုင်းသည်။ မိုးရာသီသည် ဇူလိုင်လမှ အောက်တိုဘာလအထိ ဖြစ်၍၊ ဆောင်းရာသီသည် နိုဝင်ဘာလမှ ဖေဖွာရီလအထိ ဖြစ်ပြီးလျှင် နွေရာသီ



ခေတ်မှီတိုးတက်လျက်ရှိသော ဗန်ကောက်မြို့ကို လေယာဉ်ပျံပေါ်မှရှုမြင်ရပုံ

သည် မတ်လမှ ဇွန်လအထိ ဖြစ်သည်။ ဆောင်းရာသီအခါ၌ပင် ချမ်းအေးလွန်းလှသည်ဟူ၍ မရှိပေ။

ဗန်ကောက်မြို့သည် ၁၀ စတုရန်းမိုင်ခန့် ကျယ်ဝန်း၍၊ လူဦးရေ (၁၉၅၇ ခုနှစ် ခန့်မှန်းချက်အရ) ၁.၇ သန်းခန့် ရှိသည်။ ယိုးဒယား ဘုရင်မင်းမြတ် စံမြန်းရာ နန်းတော်ကြီး ရှိသော နန်းမြို့သည် စတုရန်း ၁ မိုင်ခန့် ကျယ်ဝန်း၍ မြို့ရိုးပတ်လည် ဝိုင်းရံထားသည်။ ၁၇၈၂ ခုနှစ်မတိုင်မီက နန်းမြို့နေရာတွင် တရုပ်ကုန်သည်များ နေထိုင်ခဲ့သည်။ ပဉ္စမ ရာမ ဘုရင်မင်းမြတ် လက်ထက်တွင် ထိုနေရာ၌ နန်းတော်များ ဆောက်လုပ်ခဲ့ရာ၊ နန်းတော် ၂ ဆောင်သာ ရှိတော့သည်။ နန်းမြို့အတွင်း မြောက်ဖက်၌ ယိုးဒယားမင်းအဆက်ဆက်တို့ ကိုးကွယ်သော ထင်ရှား ကျော်ကြားသည့် မြသား ဆင်းတုတော် တည်ရှိရာ မြဘုရားတန်ဆောင်းရှိသည်။ မြဘုရား၏ တန်ဆောင်းနံရံတို့တွင် နိပါတ်တော်လာ ပန်းချီခန်းများနှင့် ရာမဇာတ်တော်လာ ပန်းချီခန်းများကို ယိုးဒယား အနုပညာဖြင့် ရှုမငြီးစရာ သရုပ်ဖော်ထားသည်။ ထိုနန်းမြို့တွင်း၌ပင် အမျိုးသား ပြတိုက်၊ အမျိုးသား ပိဋကတ်တိုက်၊ နန်းတွင်းသူ နန်းတွင်းသားတို့ နေထိုင်ရာ အဆောက်အအုံများ ရှိလေသည်။

ဗန်ကောက်မြို့ပေါ်တွင် ဘုရားတန်ဆောင်းနှင့် ဘုန်းကြီးကျောင်းပေါင်း ၄၀၀ ကျော် ရှိပေရာ၊ ယင်းတို့မှ ပြောင်လက်သော စဥ့်အုတ်ကြွပ်မိုးများနှင့် သေးသွယ်ရှည်လျားပြီးလျှင် ဝင်းဝင်းလက်လက် ရှိနေသော စုလစ်မွန်းချွန်တို့ကို လေယာဉ်ပေါ်မှ မြင်ရလျှင် လှံကိုင်တပ်တတပ် ရပ်တည်နေသကဲ့သို့ ထင်ရသည်။ ယိုးဒယား ဗိသုကာ လက်ရာတို့ဖြင့် ပြီးသော ဘုရားတန်ဆောင်း၊ ဘုန်းကြီးကျောင်းနှင့် နန်းတော် အဆောက်အအုံများကား တမျိုးတဖုံ တင့်တယ်လှပကြပေသည်။ မြန်မာဘုရား၊ ကျောင်းတန်ဆောင်းတို့တွင် ခြင်္သေ့ရုပ်နှင့် မကင်းသကဲ့သို့ ဗန်ကောက်မြို့မှ ဘုရားကျောင်း တန်ဆောင်းတို့၌ ခန့်ညားသော ဘီလူးရုပ်ကြီးများကို တွေ့ရတတ်လေသည်။

နန်းမြို့ရိုး၏ အပြင်ဖက်တွင်ကား ခေတ်မှီ တိုက်တာ အဆောက်အအုံများ၊ လမ်းကျယ်ကြီးများ၊ ဥယျာဉ် ပန်းခြံများနှင့် သိုက်မြိုက်ခမ်းနား သပ်ရပ်လှပေသည်။ မြို့၏ အစည်ကားဆုံး နေရာမှာ နယူးရုဒ် လမ်းမကြီးဖြစ်သည်။ နယူးရုဒ် လမ်းမကြီးအပြင်၊ ယောဝရတ် လမ်းမကြီးနှင့် တရုပ် လူမျိုးများ အများအပြား နေထိုင်ရာ တရုပ်ရပ်ကွက်ဖြစ်သော ဆမ်ပင်းရပ်ကွက်တို့သည် အရောင်းအဝယ် အ



ဗန်ကောက်မြို့ရှိ တင့်တယ် ခန့်ညားလှသည့် ဘုရင့်စံနန်းတော်

စည်ကားဆုံး ဖြစ်သည်။ နိုင်ငံထွက်ပစ္စည်း၊ နိုင်ငံခြားပစ္စည်း အမျိုးစုံကို ရနိုင်သည်။ တရုပ်၊ အိန္ဒိယ၊ ဥရောပ၊ အမေရိကန်စသော နိုင်ငံခြား ဆိုင်ကြီး ကန္တားကြီးများလည်း ရှိသည်။ ဗန်ကောက်မြို့၏ ခေတ်အမီဆုံး အလှပ အသပ်ရပ်ဆုံး လမ်းမကြီးမှာ ရာဇဒမ္မဒာန်ရိပ်သာဖြစ်၍ ပါရစ်မြို့မှလမ်းမကြီးတခုသဖွယ် ပြုပြင် ဖန်တီးထားသည်။ ထိုလမ်းမကြီး၏ အဆုံးတဖက်တွင် မြဘုရားတန်ဆောင်းရှိ၍၊ အခြားတဖက်ဆုံးတွင် သမကုမ်း နန်းတော်ကြီးရှိသည်။ ထိုနန်းတော်ကြီးကို ချူလာလောင်ကောင် ဘုရင် စတင်ခဲ့၍ ဝဇီရာ ဝုဓ (ဆဋ္ဌရာမ) မင်းမြတ်က ၁၉၁၇ ခုနှစ်တွင် အပြီးသတ်သည်။ ကျောက်ဖြူသားဖြင့် ဣတာလျံရီနေဆန်း ပုံစံအတိုင်း ဆောက်လုပ်ထား၍ ခန့်ညား လှပသည်။ ယခုအခါ ပါလီမန် လွှတ်တော်အဖြစ် ပြုလုပ်ထားသည်။ ရာဇဒမ္မဒာန် ရိပ်သာကို မျက်နှာပြုလျက်ရှိသော အဆောက်အအုံများမှာ အစိုးရရုံးကြီးများ၊ ပဋ္ဌမတန်းစား ဟိုတယ်များနှင့် ရုပ်ရှင်ရုံများ ဖြစ်လေသည်။

ဗန်ကောက်မြို့သည် မီးရထားလမ်းဆုံမြို့လည်း ဖြစ်သည်။ စက်မှုလုပ်ငန်း ဗဟိုဌာနလည်း ဖြစ်သည်။ နိုင်ငံတွင်းရှိ အခြားမြို့ကြီးများနှင့် လေကြောင်း အဆက်အသွယ်လည်း ရှိသည်။ ဗန်ကောက်မြို့၏ လေဆိပ်ဖြစ်သော ဒုန်မောင်း လေဆိပ်သည် အရှေ့တောင် အာရှ၌ အရေးပါသော လေဆိပ်တခု ဖြစ်လေသည်။

ယိုးဒယား နိုင်ငံသည် ဒုတိယ ကမ္ဘာစစ်အတွင်းက ဂျပန်နှင့် ပူးပေါင်းခဲ့သဖြင့် ဗန်ကောက်မြို့သည် မဟာမိတ်တပ်များ၏ ဗုံးကြဲတိုက်ခိုက်ခြင်းကို ခံခဲ့ရသေးသည်။ ဒုတိယ ကမ္ဘာစစ်ပြီး ကာလတွင် ဗန်ကောက်မြို့သည် အရှေ့တောင် အာရှ ကွန်မြူနစ် နှိမ်နင်းရေး အခြေခံ စခန်းအဖြစ် ထင်ရှားလာသည်။ ကမ္ဘာ့ကုလသမဂ္ဂ၏ လက်အောက်ခံ အဖွဲ့အစည်းအချို့၏ ဌာနချုပ်များကို ဗန်ကောက်မြို့၌ ဖွင့်လှစ်ထားသည်။ အထက်တန်း ပညာရပ်ဆိုင်ရာ အဆောက်အအုံ အဖွဲ့အစည်းများလည်း ရှိပေရာ၊ ယင်းတို့မှာ ချူလာလောင်ကောင် တက္ကသိုလ်၊ ဆေးသိပ္ပံ တက္ကသိုလ်၊ အနုပညာ တက္ကသိုလ်နှင့် စိုက်ပျိုးရေး တက္ကသိုလ်တို့ ဖြစ်ကြလေသည်။

ဗန်ကောက်မြို့သည် မူလက ခံတပ်မြို့ဟောင်း နေရာဖြစ်၍ ၁၇၈၂ ခုနှစ်တွင်မှ ယိုးဒယား နိုင်ငံ၏ မြို့တော်အဖြစ် ထားရှိပြီးလျှင် တိုးချဲ့ဆောက်လုပ် စည်ကားလာလေသည်။

**ဗန်ဂေါက်ဗင်းဆင့်** (ခရစ် ၁၈၅၃–၁၈၉၀)။ ။ပြင်ဆင်မွမ်းမံ၍ လျှမ်းလျှမ်းတောက်နေသော အလှအပကို ရေးခြယ်ခြင်း မပြုဘဲ၊ ရိုးသားခြင်း၊ သန့်စင်ခြင်းတို့မှ ဆက်နွယ်လာသည့် ဇာတိအလှအပကိုသာ အလှစစ်စစ်ဟု ယူဆကာ သရုပ်ဖော် ရေးခြယ်ခဲ့သော ပန်းချီ အနုပညာရှင်ကြီးကား ဗင်းဆင့် ဗန်ဂေါက် အမည်ရှိ ဒပ်ချ် ပန်းချီကျော်ကြီးပေတည်း။ သို့သော် သူ့ခေတ် သူ့အခါက၊ သူ၏ သရုပ်ဖော်ချက်ကို လူအများက သဘောမပေါက်နိုင်ကြသဖြင့် သူ၏ ပန်းချီကားများသည် နှိုနှစ်ပတ္တမြားပမာ ရှိနေခဲ့ရပြီးလျှင် ဗန်ဂေါက်ကိုယ်တိုင်သည်လည်း လောကဓံ၏ ပုတ်ခတ်ခြင်းကို အလူးအလှိမ့်ခံရကာ သူ၏ဘဝကို ကြေကွဲဖွယ်ရာ ဇာတ်သိမ်းခဲ့ရလေသည်။

ဗန်ဂေါက်သည် ဟော်လန်နိုင်ငံ (နယ်သာလန်နိုင်ငံ) ဇွန်းဒက်မြို့၌ ၁၈၅၃ ခုနှစ် မတ်လ ၃၀ ရက်နေ့တွင် မွေးဖွားခဲ့သည်။ ဖခင်ဖြစ်သူသည် ဝင်ငွေ အတော်အသင့်ကောင်းသော ဓမ္မဆရာတဦး ဖြစ်သည်။ ဗန်ဂေါက်၏ ဆွေစဉ်မျိုးဆက်ကို ၁၆ ရာစုနှစ်လောက်အထိ ပြန်ကြည့်လျှင် ဓမ္မဆရာများနှင့် အနုပညာသည်များ ရောနှောပါဝင်နေသည်ကို တွေ့ရသည်။ ထိုကြောင့် ဗန်ဂေါက်၏ ဇာတိသွေးတွင် အယူဝါဒရေးနှင့် အနုပညာရေး နှစ်ခုလုံး ရောနှောနေခြင်း ဖြစ်ဟန်တူပေသည်။

ဗန်ဂေါက်သည် ညီအစ်ကို မောင်နှမ ၆ ယောက်အနက် အကြီးဆုံး ဖြစ်သည်။ ဗန်ဂေါက်အဖို့ ကိုယ်စိတ်ချမ်းသာမှုကို ငယ်ရွယ်စဉ် ကလေးဘဝ၌သာ ရရှိခံစားခဲ့ရဟန်တူပေသည်။ ထိုစဉ်က ခံစားခဲ့ရသော ချမ်းသာမှုကို ဗန်ဂေါက်သည် မမေ့လျော့နိုင်ပေ။ ထိုကြောင့် ထိုစဉ်က သူ ပျော်မွေ့ခဲ့သော ဗရာဗန့်နယ် (နယ်သာလန် တောင်ပိုင်း) ဒေသ၏ရှုခင်းများ၊ ထိုဒေသမှ ရိုးသားသော လယ်သမား အလုပ်သမား ယောကျာ်း မိန်းမတို့၏ ဘဝသရုပ်ဖော်များကို သူ၏ ပန်းချီလက်ရာများတွင် တွေ့ကြရသည်။ ထိုအလုပ်သမား၊ လယ်သမားတို့သည် မိမိတို့ဘဝရပ်တည်နိုင်ရေးအတွက် ရိုးသားသန့်ရှင်းစွာဖြင့် ကြိုးပမ်းတကုတ်အလုပ်လုပ်ကာ နေထိုင်ကြပုံကို ဗန်ဂေါက်၏ စိတ်ဝယ် တကယ့်အလှ၊ တကယ့် သန့်ရှင်းမှုဟု ယုံကြည်ခဲ့သည်။ ထိုအလှ ထိုသန့်ရှင်းမှု မျိုးကိုသာ ဗန်ဂေါက်က ပန်းချီစုတ်ချက်တင်ခဲ့၍၊ တန်ဆာဆင်သော အလှအပမျိုးကို အလှစစ်စစ်၊ တကယ့် အလှအပ ဟူ၍ မယူဆခဲ့ချေ။

ဗန်ဂေါက်၏ ထူးခြားသော လက်ရာများ၏ တန်ဖိုးကို သိသူမှာ ဗန်ဂေါက်၏ညီ တေအိုတဦးတည်းသာ ရှိခဲ့သည်။ ဗန်ဂေါက်သည် စိတ်နေစိတ်ထား အခြားသူများနှင့်မတူ ထူးခြားသူဖြစ်သည်။ အများနှင့် ရောရောနှောနှော မနေဘဲ၊ တကိုယ်တည်းနေတတ်၍၊ တယူသန် တဇွတ်ထိုးလည်း ဖြစ်သည်။ သူ၏ စိတ်နေစိတ်ထားကို နားလည်၍ သူ၏ အနုပညာပါရမီကို ရိပ်စားမိသူ တေအိုကြောင့်သာလျှင်၊ ဗင်းဆင့် ဗန်ဂေါက်သည် ထူးကဲသော ပန်းချီလက်ရာများကို ရေးဆွဲနိုင်ခဲ့ခြင်း ဖြစ်လေသည်။

ဗန်ဂေါက်သည် ၁၆ နှစ်သား အရွယ်တွင် အနုပညာ ပစ္စည်းရောင်းသည့် ကုမ္ပဏီကြီး တခုတွင် ဝင်ရောက်လုပ်ကိုင်သည်။ သို့သော် ထိုကုမ္ပဏီမှ အနုပညာ ပစ္စည်းမပီသဟု သူယူဆသော ပစ္စည်းမျိုးကို ဝယ်သူက ဝယ်ပါလျက် မရောင်းချဘဲ နေတတ်သဖြင့် ကုမ္ပဏီနှင့် အချင်းများကာ အလုပ်နုတ်ထွက်ခဲ့ရသည်။

ထိုအလုပ်မှ နုတ်ထွက်ခဲ့ပြီးနောက်တွင် ယယ်စဉ်ကပင် အယူဝါဒရေးရာ ကိစ္စများ၌ စိတ်ဝင်စားသူ ဖြစ်ခဲ့သည့်အတိုင်း၊ ဗိုရီနတ်ဂျ ကျောက်မီးသွေးတွင်း ဒေသတွင် ဓမ္မဆရာအဖြစ် လုပ်ကိုင်သည်။ သို့သော် ဗန်ဂေါက်သည် ထိုဒေသမှ အလုပ်သမားတို့အား ကျမ်းဂန်လာ တရားဓမ္မများဖြင့် ဟောပြရသည်ကို အားမရပေ။ မိမိရင်တွင်း၌ ဖြစ်ပေါ်သမျှကိုသာ ဟောပြလိုပေရာ၊ အလုပ်သမားများကလည်း ဗန်ဂေါက်၏ တရားကို သဘောမပေါက်နိုင်ကြချေ။ ထို့ကြောင့် ဗန်ဂေါက်သည် မိမိ၏ အယူအဆ သဘောထားတို့ကို လူအများတို့ သဘောပေါက် နားလည်အောင် ဆွဲဆောင် ပြသနိုင်ရန် ပန်းချီရေးဆွဲခြင်းဖက်သို့ စိတ်ဝင်စားလာသည်။ ထို့ကြောင့် ကျောက်မီးသွေး တွင်းတူး သမားများ၏ ရုပ်ပုံများကို ခဲတံတချောင်းဖြင့် ရေးဆွဲကြည့်သည်။ ပဌမတွင် လက်ကျလက်န မမှန်သေး၍ ရုပ်ပုံများမှာ မပီမသ ဖြစ်နေခဲ့သော်လည်း ပြင်းပြသော စိတ်ဓာတ်၊ စူးစိုက်သော အာရုံတို့ဖြင့် လေ့ကျင့် ရေးဆွဲသဖြင့် ဗန်ဂေါက်၏ လက်ရာများသည် တဖြည်းဖြည်း တိုးတက်ကာ ဗန်ဂေါက်သည် ပန်းချီလောကတွင်းသို့ ချဉ်းနင်းဝင်ရောက်လာခဲ့လေသည်။

ပန်းချီပညာကို လေ့လာဆည်းပူး၍ ပန်းချီ လောကတွင်းသို့ ၁၈၈၀ ပြည့်နှစ်မှစပြီးလျှင် လုံးလုံးဝင်ရောက်ခဲ့သော်လည်း၊ ဗန်ဂေါက်သည် ကွယ်လွန်သည့်တိုင်အောင် ပန်းချီပညာဖြင့် ဝင်ငွေ လုံလောက်အောင် မရခဲ့ပေ။ အနုပညာ ပစ္စည်းဆိုင်ရှင်ဖြစ်သောညီဖြစ်သူ တေအိုက ဗင်းဆင့်၏ အနုပညာကိုအားပေးသောအားဖြင့် ငွေကြေးထောက်ပံ့ ပေးနေသဖြင့်သာအငတ်တော်အပြတ်ပြတ်မနေခဲ့ရခြင်းဖြစ်ပေသည်။

၁၈၈၅ ခုနှစ်တွင် ဗန်ဂေါက်သည် အန့်တွပ်မြို့သို့ ပြောင်းရွှေ့နေထိုင်သည်။ ထိုမြို့ရှိ အကယ်ဒမီ အနုပညာကျောင်းကြီးတွင် ဝင်ရောက် ပညာဆည်းပူးသည်။ ၁၈၈၆ ခုနှစ်တွင် ပြင်သစ်နိုင်ငံသို့ ရောက်သွားပြန်သည်။ ပြင်သစ်နိုင်ငံ ပါရစ်မြို့တွင် ပန်းချီအမြင်သစ်ဂိုဏ်းတခုဖြစ်သော အင်ပရက်ရှင်းဂိုဏ်းဝင်များနှင့် တွေ့ဆုံရသည်။ ထိုအခါ ဗန်ဂေါက်သည်လည်း အလင်းရောင်ကို ကစားပြီး ရေးဆွဲသော အင်ပရက်ရှင်း စံနစ်များကို သဘောတွေ့ကာ ယခင်က သုံးလာခဲ့သည့် ဆေးရောင်မှိုင်းမှိုင်းများကိုပင် ပယ်၍ တောက်တောက်လွင်လွင် အရောင်များကို အသုံးပြုလာသည်။

ဗန်ဂေါက်သည် ပြင်သစ် အင်ပရက်ရှင်း စံနစ်ကို လက်ခံခဲ့သော်လည်း သူ ရေးဆွဲပုံ စံနစ်သည် အခြေခံအားဖြင့် ပြင်သစ် အင်ပရက်ရှင်း ပန်းချီဆရာများ၏ လက်ရာများနှင့်မတူ၊ တမူထူးခြားသည်။ ဗန်ဂေါက်သည် အင်ပရက်ရှင်း ပန်းချီဆရာတို့၏ စံနစ်အတိုင်းလည်း မလိုက်ဘဲ သူ့စိတ်ကြိုက်အတိုင်း ပြုပြင်ယူသည်။ ထိုခေတ်က ဂျပန် ပန်းချီကားများလည်း ဥရောပသို့ ဝင်ရောက်လာရာ၊ ဗန်ဂေါက်သည် ဂျပန် ပန်းချီစံနစ်ကိုလည်း သူ၏ ပန်းချီလက်ရာများတွင် ထည့်သွင်း အသုံးပြုသည်။ သူ ရေးခြယ်ပုံ စံနစ်သည် ရှုခင်းတခု၏ မူလအရောင်ကို တဆင့် ဖော်ပြရန်သာ မဟုတ်ဘဲ ထိုရှုခင်းကို ပန်းချီဆရာ၏ စိတ်အမြင်ဖြင့် မြင်ပုံကိုပါ ဖော်ပြသဖြင့် အိတ်စပရက်ရှင်း ပန်းချီစံနစ်လည်း ဆန်လေသည်။

ဗန်ဂေါက်၏ လက်ရာတို့သည် ၁၈၈၀ ပြည့်နှစ်မှ အစပြု၍ ၅-နှစ်အတွင်း၌ အထူး တိုးတက်ကာ ထိပ်တန်းသို့ ရောက်လာသည်။ သို့သော် စံနစ်အတိုင်း မလိုက်ဘဲ သူ့နည်း သူ့မူနှင့် ရေးဆွဲသော ပန်းချီကားများကို အခြားသူများက နားမလည်၊ သဘောမပေါက်၊ ပညာတန်ဖိုး မသိနိုင်ကြသေးသဖြင့် သူ အသက်ရှင်စဉ်အတွင်း ကျော်ကြားမှုကို မရခဲ့ချေ။

ဗန်ဂေါက်၏ ထူးခြားသော လက်စွမ်းများကို သူ့အား ထောက်ပံ့နေသော ညီတယောက်ကသာလျှင် သိမြင် တန်ဖိုးထား၍၊ ထိုညီမှတပါး ဗန်ဂေါက်တွင် ရင်းနှီး ခင်မင်သူ မရှိလှချေ။ ထို့ကြောင့် ဗန်ဂေါက်သည် လောကအပြင်ဖက်သို့ ရောက်နေသူတဦးပမာ စိတ်နေစိတ်ထား တမျိုးဖြစ်နေသည်။ ၁၈၈၈ ခုနှစ်တွင် ပြင်သစ်နိုင်ငံ တောင်ပိုင်းသို့ သွားရောက် နေထိုင်သည်။ ထိုခေတ်က ကျော်ကြားလှသော ပြင်သစ် ပန်းချီကျော်ကြီး တဦးဖြစ်သူ ဂိုဂန်းနှင့်လည်း တွေ့ဆုံရင်းနှီးဖူးသည်။ သို့သော် တခါတွင် ဂိုဂန်းနှင့် အချင်းများကြပြီးသည့် နောက်ပိုင်းမှစ၍ ဗန်ဂေါက်သည် ပို၍ စိတ်ဖောက်ပြန်လာသည်။ မကွယ်လွန်မီ ၂ နှစ်ခန့်အတွင်း စိတ္တဇ ဆေးရုံ၌သာ အနေများခဲ့ရသည်။ ၁၈၉၀ ပြည့်နှစ် ဇူလိုင်လ ၂၉ ရက်နေ့တွင် ဗန်ဂေါက်သည် သူ၏ ဘဝအခြေကို သည်းမခံနိုင်တော့ဘဲ သူ့ကိုယ်သူ သေနတ်ဖြင့် ပစ်သတ်ကာ ကြေကွဲဖွယ်ရာ ဇာတ်သိမ်းခဲ့လေသည်။

**ဗန်ဆင်မီးတိုင်။** ။ဗန်ဆင်မီးတိုင်သည် ဓာတ်ငွေ့ဖြင့် လောင်စေသော ဓာတ်ငွေ့ မီးတိုင်တမျိုး ဖြစ်၍၊ သိပ္ပံဆိုင်ရာ လက်တွေ့စမ်းခန်းများ၌ ပစ္စည်းများကို အပူတိုက်ပေးရန် အတွက် အသုံးပြုလျက် ရှိကြသည်။ ထိုမီးတိုင်ကို ရောဗတ် ဝီလဟမ် ဗန်ဆင် ဆိုသူ ဂျာမန် သိပ္ပံပညာရှင် တဦးက တီထွင်ခဲ့သဖြင့် ဗန်ဆင်မီးတိုင်ဟု တွင်သည်။



ဗန်ဆင်မီးတိုင်တွင် မီးခိုးမထွက်ဘဲ လောင်ရခြင်းအကြောင်းမှာ ဓာတ်ငွေ့(မြှားနက်)နှင့် ပြင်ပမှလေ (မြှားဖြူ)တို့ ဦးစွာရောစပ်ပြီးမှလောင်ကျွမ်းခြင်းကြောင့်ဖြစ်သည်။

ရောဗတ် ဗန်ဆင်သည် ၁၈၁၁ ခုနှစ်တွင် ဂျာမနီနိုင်ငံ ဂေါ့တင်းဂျင်းမြို့၌ ဖွားမြင်သည်။ ၁၈၅၂ ခုနှစ်မှစ၍ ကွယ်လွန်သည့် ၁၈၉၉ ခုနှစ်အထိ ဟိုက်ဒဲလဗတ် တက္ကသိုလ်တွင် ဓာတုဗေဒ ပါမောက္ခအဖြစ် ထမ်းဆောင်ခဲ့သည်။ ဗန်ဆင်မီးတိုင်မျိုး မပေါ်ပေါက်မီက အခြား ဓာတ်ငွေ့ မီးတိုင်မျိုး ပေါ်ပေါက်နေပြီ ဖြစ်သော်လည်း အပူရှိန် မပြင်းသည့်အတွက် ဓာတုဗေဒ ပညာရှင်များ စိတ်တိုင်းမကျခဲ့ကြချေ။ သို့သော် ၁၈၅၃ ခုနှစ်၌ တနေ့တွင် ဗန်ဆင်နှင့် ဆာ ဟင်နရီ ရော့စကို ဆိုသူ အင်္ဂလိပ် လူမျိုး ဓာတုဗေဒ ပါမောက္ခတဦးတို့ တွေ့ဆုံကြရာဝယ် ဗန်ဆင်က ဓာတ်ငွေ့တခုတည်း မဟုတ်ဘဲ ဓာတ်ငွေ့နှင့် လေရောပြီး လောင်စေမည့် မီးတိုင်တမျိုးကို တီထွင်မည့် အကြောင်း ပြောပြလိုက်၏။ ထိုသို့ ပြောကြားသည့်အတိုင်းပင် ဗန်ဆင်သည် ၁၈၅၅ ခုနှစ်၌ အများစိတ်တိုင်းကျဖြစ်သည့် မီးတိုင်တမျိုးကို တီထွင်နိုင်ခဲ့သည်။

ဗန်ဆင်မီးတိုင်သည် သာမန် ဖယောင်းတိုင် အရွယ်ရှိသော သတ္တုပြွန်တချောင်းဖြင့် ပြုလုပ်ထားသည်။ ပြွန်အောက်နားတွင် အပေါက် ၂ ပေါက် ဖောက်ထားသည်။ တပေါက်သည် မီးလောင်နိုင်သည့် ဓာတ်ငွေ့ဝင်ရန် ဖြစ်၍၊ ဓာတ်ငွေ့ကို ရော်ဘာ ပိုက်လုံးကလေးဖြင့် သွင်းပေးသည်။ ကျန်တပေါက်မှာ လေဝင်ရန်ဖြစ်၍၊ ထိုအပေါက်ကို လိုသလို ပိတ်နိုင် ဖွင့်နိုင်အောင် အဖုံးရှင်တပ်ထားသည်။ ပြွန်၏ အောက်ပိုင်းတွင် လေနှင့် ရောသွားသော ဓာတ်ငွေ့သည် ပြွန်ထိပ်သို့ တက်သွား၍ မီးရှို့ပေးသောအခါ ပြွန်ထိပ်၌ လောင်လေသည်။

ဖယောင်းတိုင်မီးနှင့် ရေနံဆီမီးတို့၏ မီးတောက်များကို စေ့စေ့စပ်စပ် ကြည့်လျှင် အရောင်မှာ ဝါနေ၍ မီးခိုးများ ထွက်နေသည်ကိုပါ တွေ့ရပေမည်။ မီးတောက်အတွင်းဖက်ကို ကြည့်လျှင်လည်း ဖယောင်းငွေ့တွင်၎င်း၊ ရေနံငွေ့တွင်၎င်း ပါဝင်နေသော ကာဗွန်မှုန့်ကလေးများသည် လေ၊ သို့မဟုတ် အောက်ဆီဂျင် အလုံအလောက် မရမှု ကြောင့်၊ မီးကောင်းစွာ မလောင်နိုင်သည့်အတွက် မဲမှောင်နေသည်ကို တွေ့ရပေမည်။ မီးတောက်၏ အစွန်းကျ၍ လေနှင့် ထိတွေ့ကာ အောက်ဆီဂျင် အလုံအလောက် ရရှိသည့် နေရာများတွင်မူကား မီးသည် အပြာနုရောင်ဖြင့်၎င်း၊ အပူရှိန်ပြင်းပြင်းဖြင့်၎င်း တောက်လောင်လျက် ရှိ၏။ ထို့ကြောင့် မီးတောက်တခုသည် အပူရှိန် ပြင်းလေလေ အလင်းရောင် ကင်းမဲ့လေလေ ဖြစ်ကြောင်းကို သိရလေသည်။

ဗန်ဆင်၏ အလျှင်ပေါ်ခဲ့သော ဓာတ်ငွေ့ မီးတိုင်များသည် ဖယောင်းတိုင်မီးနှင့်မခြား၊ လေအလုံအလောက် မရရှိသည့်အတွက် အပူရှိန် မပြင်းကြချေ။ ဗန်ဆင်သည် အထက်ပါ မီးတိုင်များ၏ သဘောကို လေ့လာသိရှိခဲ့သည့် အတိုင်း ဓာတ်ငွေ့ကို လေနှင့် လိုသလို ရောစပ်ပေးနိုင်မည့် နည်းများကို တွေးဆရှာကြံရာမှ နောက်ဆုံးတွင် လေဝင်ပေါက် အရှင် ပြုလုပ်ထားသည့် ဗန်ဆင်မီးတိုင်ကို အောင်မြင်စွာ တီထွင်လိုက်လေသည်။

ရေနံငွေ့၊ အဆက်တီလင် ဓာတ်ငွေ့၊ ဟိုက်ဒရိုဂျင်ဓာတ်ငွေ့ စသည်တို့ကို အသုံးပြုထားသော အပူရှိန် ပြင်းထန်လှသည့် နောက်ပေါ် ဓာတ်မီးနှင့် ဓာတ်ငွေ့မီးဖိုများသည် ဗန်ဆင်မီးတိုင်၏ သဘောကိုပင် မူတည်၍ ပြုလုပ်ထားခြင်း ဖြစ်ကြသည်။

**ဗန်ညန့်,ဂျွန်** (ခရစ် ၁၆၂၈–၁၆၈၈)။ ။နာမည်ကျော် "ခရစ်ယန်၏ ထွက်ရပ်လမ်း" (ပီးလဂရင်း ပရိုဂရက်)ခေါ် အယူဝါဒဆိုင်ရာ ဝတ္ထုကြီးကို ရေးသားခဲ့သူ ဂျွန်ဗန်ညန် သည် အင်္ဂလန်ပြည် ဗက်ဖို့မြို့အနီး အဲလစတော့ရွာတွင် မွေးဖွားခဲ့သည်။ မူလက ရွာစဉ်လျှောက်၍ ဒန်အိုးဒန်ခွက် စသည်တို့ကို ဖာထေး ပြုပြင်ပေးရသော သံပြုဆရာဖြစ်သည်။ နောင်အခါတွင်မူ အလွန် ကျော်ကြားသော စာရေးဆရာကြီးနှင့် မေ့မှုဆရာကြီးတဦး ဖြစ်လာလေသည်။

ဗန်ညန်သည် ငယ်စဉ်က အယူဝါဒဖက်တွင် ဝတ်ကြေတန်းကုန်မှုသာ ဆောင်ရွက်ပြီးလျှင် နှုတ်လျှာကြမ်းကြမ်း၊

ပေပေတေတေနှင့် ပျော်ပျော်နေခဲ့သူ ဖြစ်သည်။ အသက် ၁၇ နှစ် အရွယ်တွင် ပဌမ ချားဘုရင်နှင့် ပါလီမန်တို့ အာဏာလုသည့် ပြည်တွင်းစစ်ပွဲ၌ ပါလီမန်ဖက်မှ ၂ နှစ် ခန့် ဝင်ရောက် အမှုထမ်းသည်။ ထိုနောက် နေရပ်သို့ ပြန်လာပြီးသော် မိမိကဲ့သို့ ဆင်းရဲသူ မိန်းကလေးတဦးနှင့် လက်ထပ်သည်။ ထိုမိန်းကလေးတွင် ပါလာသော ဓမ္မစာအုပ် ၂ အုပ်သည် ဗန်ညန်၏ ဘဝကို တမျိုးတဖုံ ပြောင်းလဲသွားစေသည်။ ဇနီးသည်ကလည်း ဗန်ညန်အား အယူဝါဒဖက်တွင် စိတ်ဝင်စားလာအောင် ဖျောင်းဖျ ဆွဲဆောင်ခဲ့လေသည်။

ယင်းသို့ဖြင့် ဗန်ညန်သည် အယူဝါဒရေးရာကို နက်နဲစွာ တွေးတောလာသည်။ ၁၆၅၃ ခုနှစ်တွင် နန်းကွန်ဖောမစ် အသင်းတော် (ဂိုဏ်း) တခုသို့ ဝင်ရောက်ပြီးလျှင် အသိအမှတ်ပြုခံရသော ဓမ္မဆရာတဦး ဖြစ်လာသည်။ သို့သော် နိုင်ငံတော်က အသိအမှတ်ပြု အသင်းတော်မှအပဖြစ်သော ထိုအသင်းတော်အတွက် တရားဟောပြောမှုဖြင့် အဖမ်းခံရသည်။ အာဏာပိုင်တို့က တရားမဟောပါဟု ဝန်ခံချက်ပေးလျှင် လွှတ်မည်ဟု ဆိုကြသော်လည်း "ယနေ့ ထောင်က လွှတ်လျှင်၊ မနက်ဖန် တရားဟောမည်" ဟု ခေါင်းမာနေသဖြင့် ၁၂ နှစ်ကြာမျှ ဗက်ဖို့ထောင်တွင်း၌ နေခဲ့ရသည်။ ထိုအတောအတွင်း ဗန်ညန်သည် စာရေးစာဖတ်ခြင်းပြုနေခဲ့သည်။ ထိုပြင် ဖိနပ်ကြိုးများ ပြုလုပ်၍ ရရှိသည့် အခကြေးငွေဖြင့် မိမိ၏ ဒုတိယ ဇနီးသည် (ပဌမ ဇနီးသည် ကွယ်လွန်သွားပြီး ဖြစ်သည်) နှင့် (ပဌမဇနီးသည်နှင့် ရရှိသည့်) သားသမီးများ ကို ထောက်ပံ့ခဲ့သည်။ ဗန်ညန်၏ နာမည်ကျော် စာအုပ်တခုဖြစ်သော "ဂရေ့အဗောင်းဒင်း" နှင့် အခြား စာအုပ်အချို့ကို ထိုအချိန်က ထောင်ထဲတွင် ရေးသားခဲ့လေသည်။

၁၆၇၂ ခုနှစ်တွင် ထောင်မှ လွှတ်၍ မိမိအသင်းတော်သင်းအုပ်အဖြစ် ခန့်ထားခြင်း ခံရသည်။ သို့သော် ၁၆၇၅ ခုနှစ်တွင် အဖမ်းခံရပြီးလျှင် ထောင်ကျပြန်သည်။ ဒုတိယအကြိမ် ထောင်ကျနေစဉ် ကမ္ဘာတွင် အကောင်းဆုံး စာအုပ်တအုပ် ဖြစ်လာမည့် "ခရစ်ယန်၏ ထွက်ရပ်လမ်း" ဝတ္ထုကြီးကို စတင် ရေးသားခဲ့သည်။ ဒုတိယအကြိမ် ထောင်မှ လွှတ်ပြီးနောက်တွင်လည်း စာပေများ ဆက်လက် ရေးသားခြင်း၊ တရားဓမ္မ ဟောပြောခြင်းတို့ကို ပြုလုပ်သည်။ ထိုအခါမှစ၍ ဗန်ညန်သည် ကျော်ကြားသော စာရေးဆရာကြီးအဖြစ်၎င်း၊ ဓမ္မဆရာကြီးအဖြစ်၎င်း ထင်ရှားလာ



ဗြိတိသျှစာရေးဆရာ ဂျွန် ဗန်ညန်၏ အကောင်းဆုံး လက်ရာဖြစ်သော 'ပီးလဂရင်း ပရိုဂရက်' ဝတ္ထုမှ အခန်းတခန်း

သည်။ ၁၆၇၇ ခုနှစ်တွင် အချင်းများနေကြသော သား အဖနှစ်ဦးကို ဖြန်ဖြေစေ့စပ်ရန်အသွား၊ မုန်တိုင်းမိသည့်ဒဏ်မကြောင့် ဖျားနာ၍ အနိစ္စရောက်သည်။ ဗန်ညန် ကွယ်လွန်ပြီး နှစ်ပေါင်း ၂၀၀ ခန့် လွန်ခဲ့ပြီးမှ ဗက်ဖို့မြို့တွင် ဗန်ညန်၏ ရုပ်တုကို ပြုလုပ်စိုက်ထူ၍ ဂုဏ်ပြုထားကြလေသည်။

ဗန်ညန် ရေးသား ပြုစုခဲ့သော အယူဝါဒဆိုင်ရာ စာအုပ်ပေါင်း ၆၀ ကျော်ခန့်ရှိသည်။ ဗန်ညန်သည် ကျောင်း၌ စာပေပညာကို ဖြစ်မြောက်အောင် သင်ကြားခဲ့ရသူမဟုတ်ချေ။ သို့သော် သူ၏ အရေးအသား ရှင်းလင်း ပြတ်သား၍ ဖတ်ရှု နားလည်ရန် လွယ်ကူမှုကြောင့် "ခရစ်ယန်၏ ထွက်ရပ်လမ်း" ဝတ္ထုကြီးသည် အင်္ဂလိပ် ဂန္ထဝင် စာပေတခုဖြစ်လာသည်။ တကယ်မရှိသော အရာများကို တကယ်ရှိလေဟန် ပုံဆောင်သောနည်းဖြင့် ရေးသားရာ၌ အကောင်းဆုံး ဝတ္ထုတပုဒ်ဖြစ်သည်။ ခရစ်ယန် သမ္မာကျမ်းမှလွဲလျှင် ကမ္ဘာပေါ်တွင် လူအများဆုံး ဖတ်သော စာအုပ်လည်း ဖြစ်ခဲ့သည်။ အခြား ဘာသာပေါင်း တရာနီးပါးခန့်သို့လည်း ဘာသာပြန်ခဲ့ရသည်။ "သာသနာ့စစ်ပွဲ" အမည်ရှိ ဝတ္ထုကြီးသည် "ခရစ်ယန်၏ ထွက်ရပ်လမ်း" နည်းတူ ကောင်းမွန်သော်လည်း မထင်ပေါ်ခဲ့ချေ။ အခြား လက်ရာကောင်းတပုဒ်ဖြစ်သော "မစ္စတာဗက်မန်း၏ဘဝ" ဝတ္ထုကြီးတွင် အင်္ဂလိပ် ဝတ္ထုရေးနည်း၏ စံတင်ဖွယ်ရာ အခြေခံအချက်အလက်များ ပါဝင်သည်ဟု ယူဆကြလေသည်။

# ရန်သူကို ခုခံကာကွယ်နည်း

**အရှေ့အာရှနိုင်ငံများ၌ ခေတ်စားသော ရန်သူကိုခုခံကာကွယ်နည်းသည် လက်နက်ပင်မပါသော်လည်း ရန်သူအားအသက်စိုးရိမ်ရသည်အထိ ဒဏ်ခတ်နိုင်သည်။ မသမာသူများလက်ထဲကို ပညာရောက်မည်စိုး၍ ကတိသစ္စာ ခံဝန်ချက်များပြုကာ သင်ယူရသည်။ အလေ့အကျင့်ရှိမှ ပို၍ ကျွမ်းကျင်သည်။ ကစားပုံ ကစားနည်းအမျိုးမျိုးရှိသည်။**

**ဗန်တိုဗန်ရှည်ကစားခြင်း။** ။ဗန်တို ဗန်ရှည် ကစားခြင်းသည် သိုင်းပညာ၏ ကဏ္ဍတရပ်ဖြစ်၍ ရန်သူကို ခုခံတိုက်ခိုက်နည်းတမျိုး ဖြစ်သည်။ ဗန်တိုသည် လက်နက်မဲ့ ကာကွယ် ခုခံတိုက်ခိုက်ခြင်းဖြစ်၍၊ ဗန်ရှည်သည် လက်နက်တခုခုကို ကိုင်၍ ခုခံကာကွယ်ခြင်းအတတ်ဖြစ်သည်။ မိမိကို ရန်ပြုလာသူအား လက်ထဲတွင် မည်သည့်လက်နက် အရာဝတ္ထုတခုခုကိုမျှ မကိုင်မသုံးဘဲ ခုခံကာကွယ်ခြင်းသည် လက်နက်ပစ္စည်းမဲ့ ခုခံကာကွယ်ခြင်းဖြစ်၍ ဗန်တိုဟု ခေါ်သည်။ မိမိကိုရန်ပြုလာသူအား လက်နက်ပစ္စည်းတခုခုကိုင်ဆောင်၍ ခုခံကာကွယ်ခြင်းသည် လက်နက်ကိုင် ခုခံကာကွယ်ခြင်းဖြစ်၍ ဗန်ရှည်ဟု ခေါ်သည်။

ဗန်တိုဗန်ရှည်ကစားခြင်း အလေ့အထသည် ၇ ရာစုနှစ်ခန့်က မြန်မာနိုင်ငံသို့ ရောက်ရှိလာသည်ဟု အထောက်အထားများက ဆို၏။

ဗန်တိုဗန်ရှည် ကစားခြင်း အတတ်သည် တရုပ်နိုင်ငံမှ စတင်သည်ဟု အချို့က ဆို၏။ အချို့ကမူ ခရစ်နှစ် ၃၀၀ အတွင်းတွင် တောင်ပိုင်း အိန္ဒိယ နိုင်ငံများမှ တရုပ်နိုင်ငံ၊ ထိုမှတဆင့် မြန်မာ၊ ယိုးဒယား၊ ကမ္ဘောဒီးယား၊ ဂျပန် စသော နိုင်ငံများသို့ အဆင့်ဆင့် ပျံ့နှံ့သွားသည်ဟု အထောက်အထားဖြင့် တင်ပြကြသည်။ ဗန်တိုဗန်ရှည် ကစားခြင်း အလေ့အထသည် မြန်မာနိုင်ငံသို့ ဂျပန်နိုင်ငံထက် အရောက် နောက်မကျကြောင်းကိုလည်း တွေ့ရှိရပေသည်။

ဗန်တိုဗန်ရှည်တတ်လျှင် မိမိထက် အင်အားဗလသာသည်လည်းဖြစ်စေ၊လက်နက်သာသည်လည်းဖြစ်စေ၊တယောက်ထက် များသည့် ရန်သူကိုလည်းဖြစ်စေ ကောင်းစွာ ခုခံကာကွယ်နိုင်၏။

ဗန်တိုတတ်လျှင် ဗန်ရှည်တတ်ရသည်။ ဗန်ရှည် တတ်လျှင် ဗန်တိုတတ်ရသည်။ တမျိုးတတ်လျှင် ပညာမစုံသေး၊ ၂ မျိုးစလုံးတတ်မှ စွယ်စုံတတ်သည်ဟု ခေါ်ကြသည်။

ဗန်တိုဗန်ရှည် အတတ်ပညာ၌ ရန်သူကို တချက်တည်းနှင့် မေ့လဲသွားအောင်သော်၎င်း၊အရိုးအဆစ်ကျိုးပဲ့သွားပြီး မလှုပ်နိုင် မထနိုင်အောင်သော်၎င်း ပြုနိုင်စွမ်းရှိသော နည်းများ ပါဝင်၏။ အချို့ နည်းများသည် ရန်ပြုလာသူ တဖက်သား၏ အသက်ကိုပင် စိုးရိမ်ရသည်အထိ ဒဏ်ခတ်နိုင်သော နည်းများ ဖြစ်သည်။ မသမာသူများ လက်ထဲသို့ ဤပညာ ရောက်ရှိသွားကာ မတရား အသုံးချပစ်ကြလျှင် သင်ပေးသူရော အသုံးချသူပါ အပြစ်မကင်းပေ။

ထို့ကြောင့် ဗန်တိုဗန်ရှည် ဆရာကြီးများသည် သူတို့၏ ပညာများကို များစွာ လျှို့ဝှက်ကြ၏။ တန်ဖိုးထားကြ၏။ တပည့်ခံမည့်သူ၏ အကျင့်စာရိတ္တ၊ မျိုးရိုးတို့ကို ကြည့်ပြီးမှ ပညာပေးလေ့ ရှိသည်။ မိမိသားသမီးပင် ဖြစ်စေကာမူ အကျင့်စာရိတ္တမကောင်းက ဤပညာကို သင်မပေးကြချေ။

ရှေးခေတ်က ဤပညာ သင်ကြားမည့်သူများသည် ဥပုသ်သီလများ ရက်ရှည် စောင့်ကြရသည့်ပြင်၊ ကန်တော့ပွဲ အုန်းပွဲများပေး၍ ကတိသစ္စာ ဝန်ခံချက်များကို ပြုကြရသည်။

အသုံးများသော ကတိသစ္စာ ၃ ချက်မှာ (၁) အနန္တော



ဗန်တိုဆိုသည်မှာ လက်နက်မဲ့သူက၊ လက်နက်ကိုင်ဆောင် ရန်မူလာသူအား ဂျွမ်းပြန်အောင် ကိုင်ပစ်နည်း ဖြစ်သည်။

လျှင်ငင်း တဦးမဟုတ်တဦး ထိခိုက်ဒဏ်ရာ အနာတရ ခံကြရတတ်သည်။ အပျော်ကစားသည့် စိတ်ဓာတ်ဖြင့် အလေ့အကျင့် ယူကြမှသာ လေ့ကျင့်ကြသူ အချင်းချင်း အထိအခိုက်မရှိဘဲ စိတ်ချမ်းမြေ့ ပျော်ရွှင်ကြမည် ဖြစ်သည်။ စိတ်ချမ်းမြေ့ ပျော်ရွှင်စရာ ကောင်းမှလည်း အလေ့အကျင့်ကို ခုံမင် နှစ်သက်လာကြမည်။

### ကစားပုံ ကစားနည်း အမျိုးမျိုး

ဗန်တိုဗန်ရှည် ကစားရာ၌ ကစားပုံ ကစားနည်း အမျိုးမျိုး ရှိလေသည်။

ကစားနည်းများသည် တကျောင်းတဂါထာ တရွာတပုဒ်ဆန်း ဖြစ်လင့်ကစား အောက်ပါ ကစားပုံ ၄ မျိုး၌ အကျုံးဝင်ကြသည်ချည်းဖြစ်သည်။

၁။ အကွက်ခင်း၍ ကစားခြင်း၊
၂။ အကွက်ဖျောက်၍ ကစားခြင်း၊
၃။ စည်းဝါး (ဆိုင်း သီချင်း)နှင့် ကစားခြင်း၊
၄။ နည်းသတ်မှတ်၍ ကစားခြင်း ဟူ၍ ဖြစ်သည်။

အကွက်ခင်း၍ ကစားခြင်း— ခြေချရာအကွက် (၁ ကွက်၊ ၂ ကွက်၊ ၃ ကွက်၊ ၄ ကွက်စသည်) ကို မူတည်၍ ကစားခြင်းကို အကွက်ခင်း၍ ကစားခြင်းဟု ခေါ်သည်။

အကွက်ဖျောက်၍ ကစားခြင်း — ခြေကွက်ကို မူမတည်

အနန္တ ၅ ပါးအား ဤပညာဖြင့် မပြစ်မှားပါ၊ (၂) မိမိကိုမျက်ရည်ပေါက်ကြီးငယ် ၃ ကြိမ် ၃ ခါကျအောင် မပြုမူပါဘဲလျက် ဤပညာဖြင့် မတုံ့ပြန်ပါ၊ (၃) သေရည်သေရက်သောက်စားခြင်းနှင့် သူတပါး သားမယားအား ပစ်မှားကျူးလွန်ခြင်း မပြုပါဟု ဖြစ်သည်။

ယခုအချိန်အထိ အထက်ပါ ကတိသစ္စာ ၃ ချက် ပေးဆိုမှ ပညာသင်ပေးကြသည့်ဆရာ အတော်များများ ရှိနေပါသေးသည်။

ခေတ်မှီ ဗန်တိုဗန်ရှည် သင်တန်းများ ဖွင့်လှစ် သင်ကြားပေးနေသော ဗမာနိုင်ငံလုံးဆိုင်ရာ လူငယ်များ အစည်းအရုံး ကပင် ပညာသင်မည့်သူများအား အကျင့်စာရိတ္တ ကောင်းကြောင်း သက်ဆိုင်ရာ ရဲဌာနာ ထောက်ခံစာနှင့် လူကြီးလူကောင်း ၂ ဦး၏ ထောက်ခံစာ တင်ပြစေသည့်ပြင်၊ ကတိဝန်ခံချက်များကို ရေးမူမပျက် ပြုစေသည်။

အခြား ပညာရပ်များနည်းတူ ဗန်တိုဗန်ရှည် ပညာသည်လည်း ကျွမ်းကျင်သည်ထက် ကျွမ်းကျင်လာစေရန် အလေ့အကျင့် များစွာလိုလေသည်။ အလေ့အကျင့် များလေလေ ကျွမ်းကျင်လေလေ ဖြစ်သည်။

အလေ့အကျင့်ယူရာ၌ တဦးနှင့်တဦး ရန်သူလို သဘောထား၍ ခုခံကာကွယ်ကြလျှင်ငင်း၊ တိုက်ခိုက်ရိုက်နှက်ကြ



လက်နက်ချင်း ကိုင်ဆောင် ခုခံကာကွယ်သည့် ဗန်ရှည်အတတ် ပညာ




ဇန်တိုဇန်ရှည် ကစားခြင်း စတင်ခဲ့သော နိုင်ငံနှင့် ပြန့်ပွားဟန်ပြ မြေပုံ

ဘဲ၊ မိမိတို့ ကျွမ်းကျင်သလို လွတ်လွတ်လပ်လပ် ကစားကြခြင်းကို အကွက်ဖျောက်၍ ကစားခြင်းဟု ခေါ်သည်။

စည်းဝါး(ဆိုင်း သီချင်း)နှင့် ကစားခြင်း—သီချင်းတခုခုကို မူတည်၍၎င်း၊ ဆိုင်းအမျိုးအစား (လေးကင်း ချွတ်ဗိန်းဗောင်း စသော) ဆိုင်းအမျိုးအစားကို မူတည်က၁ စည်းသံ ဝါးသံ မောင်းသံ ပုံသံကို အချက်ပြု၍ ကစားခြင်းကို စည်းဝါး (ဆိုင်း သီချင်း) နှင့် ကစားခြင်းဟုခေါ်သည်။

နည်းသတ်မှတ်၍ကစားခြင်း — မည်သည့် ဇန်တိုဇန်ရှည်နည်းကို ကစားကြမည်ဟု ကစားမည့်သူ အချင်းချင်း နည်းသတ်မှတ်၍ ကစားခြင်းမျိုးကို နည်းသတ်မှတ်၍ ကစားခြင်းဟု ခေါ်သည်။

ဇန်တိုဇန်ရှည် ကစားနည်းကို တတ်ထားပါလျက်၊ သာမန် အရပ်သားတို့ အရပ်ထဲတွင် ရန်ဖြစ်ကြသကဲ့သို့ တဦးနှင့်တဦး ထိုးခုတ် ရိုက်နှက်ကြ၍ သွေးထွက်သံယို အနာတရဖြစ်ကြလျှင် ပညာချင်း ယှဉ်ပြိုင်သည်ဟု မခေါ်ကြ၊ အမိုက်ခြင်း ယှဉ်ပြိုင်ကြသည်ဟူ၍သာ ခေါ်ကြသည်။ ပညာချင်း ယှဉ်ပြိုင်သည် ဆိုရာ၌ ဇန်တိုဇန်ရှည် ပညာနှင့် စပ်လျဉ်း၍ သိသင့်သိထိုက်သော သမိုင်း အစဉ်အလာ စည်းကမ်းဥပဒေ၊ ပညာခွင် အကြောင်းအရာများကို အဘယ်မျှ သိနားလည်သည်၊ လေ့လာတတ်မြောက်ထားသည်၊ ကျွမ်းကျင်မှု ရှိသည်ကိုသာ တဦးနှင့်တဦး ယှဉ်ပြိုင်၍ပြောဆိုခြင်း၊ ဆွေးနွေးခြင်း၊ ပြသခြင်းမျိုးကို ခေါ်သည်။

လက်တွေ့ ယှဉ်ပြိုင် ပြသကြသည့်အခါတွင် မည်သူက သာသည်၊ မည်သူက ညံ့သည်ကို မိမိတို့ ဖာသာ အကဲဖြတ်နိုင်ကြရန် အချက် ၅ ချက် ရှိပေသည်။

ယင်းတို့မှာ (၁) နည်း(နိသျည်း)၊ (၂) အကွက်၊ (၃) ကျွမ်းကျင်မှု၊ (၄) အချိုးအစားဟန်ပန်၊ (၅) သက်လုံတို့ ဖြစ်လေသည်။

နည်း(နိသျည်း) အနိုင်အရှုံး — ယှဉ်ပြိုင်သူ ၂ ဦးတွင် တဦးက အဖက်ဖက်တွင် သာနေသော်လည်း လက်တွေ့ပြသ

သည့်အခါ၌ နည်းအရေအတွက် တဖက်သူထက် နည်းပါး နေလျှင် ထိုသူသည်နည်းတွင်ရှုံးပြီဟု ယူဆနိုင်သည်။

အကွက်အနိုင်အရှုံး — ၂ ဦး ယှဉ်ပြိုင်ကစား ပြရာတွင် တဦးက တဦးထက် အကွက်နင်းကစားရာ၌ သာနေလျှင် အကွက်သာသည်ဟု ယူဆနိုင်သည်။

ကျွမ်းကျင်မှု အနိုင်အရှုံး — ၂ဦး ယှဉ်ပြိုင်ကစားနေစဉ်တွင် မိမိကိုင်သည့် လက်နက်နှင့် မိမိကို ပြန်၍ ထိခိုက်ပါလျှင် လက်နက်ကိုင် မကျွမ်းကျင်၍ ထိသည်ဟု ယူဆရသည်။ ထို့ပြင် တဖက်လူက မိမိထက် လက်နက်ကိုင်ပုံ ကိုင်နည်း အသုံးချပုံချနည်း ပိုင်နိုင်ကျွမ်းကျင်နေလျှင် ကျွမ်းကျင်မှု ညံ့သည်၊ ကျွမ်းကျင်မှုဖက်၌ ရှုံးသည်ဟု ခေါ်သည်။

အချိုးအစား ဟန်ပန် အနိုင်အရှုံး—ယှဉ်ပြိုင်သူ ၂ ဦးတွင် တဖက်လူက မိမိထက် ခြေနေလက်ထား ကိုယ်ဟန်အနေအထား ဟန်ပန် အချိုးအစား အချိုးမကျဘဲ ညံ့နေလျှင်မိမိကအချိုးအစားဟန်ပန်သာသည်ဟု ယူဆနိုင်သည်။

သက်လုံ အနိုင်အရှုံး — တဖက်လူ အမောအပန်း မရှိ ဆက်လက် ကစားနိုင်သေးပါလျက် မိမိက အမော နောက်ထပ် မခံနိုင်တော့၍ ဆက်လက် ယှဉ်ပြိုင် မကစားနိုင်လျှင် သက်လုံရှုံးသည်ဟု တွက်ဆကြရသည်။

အထက်ပါ ၅ ချက်ဖြင့် မည်သူက မည်သူထက် သာသည်ကို အကဲဖြတ်နိုင်သည် ဆိုငြားလည်း ၅ ခုစလုံး အပြတ်အသတ် သာမှသာလျှင်၊ သာသည်ဟု ပြောနိုင်သည်။ ၄ ခုသာပြီး၊ တခုညံ့နေလျှင်သာသည်ဟုအဆုံးအဖြတ် မပေးနိုင်ချေ။

ပဌမ အကြိမ်မြောက် နိုင်ငံလုံးဆိုင်ရာ ဗန်တိုဗန်ရှည် ပြိုင်ပွဲကြီးကို နိုင်ငံ အစိုးရက ကြီးမှူး၍ ၁၉၄၇ ခုနှစ်တွင် ဇန္နဝါရီလ ၃ ရက်နေ့မှ ၅ ရက်နေ့အထိ ၃ ရက်တိုင်တိုင် ရန်ကုန်မြို့အမှတ် ၈၊ ကိုယ့်မင်းကိုယ့်ချင်းလမ်းတွင် ကျင်းပခဲ့၏။

ဒုတိယ အကြိမ်မြောက် နိုင်ငံလုံးဆိုင်ရာ ဗန်တိုဗန်ရှည် ပြိုင်ပွဲကြီးကို အစိုးရကပင် ကြီးမှူး၍ ၁၉၅၁ ခုနှစ် ဇန္နဝါရီလ ၄ ရက်နှင့် ၅ ရက်နေ့တွင် ရန်ကုန်မြို့ အောင်ဆန်း ကစားကွင်း၌ ကျင်းပ ပြုလုပ်ပေးခဲ့ဘူးလေသည်။

ဦးချစ်သန်း

**ဗန်ဒိုက်၊ ဆာ အန်တိုနီ** (ခရစ် ၁၅၉၉–၁၆၄၁)။ ။ပုံတူဆွဲ ကမ္ဘာ့ ပန်းချီကျော်ကြီးများအနက်တွင် ဖလန်းဒါးနယ်သား ပန်းချီဆရာကြီး ဆာ အန်တိုနီ ဗန်ဒိုက်လည်း ပါဝင်သည်။ ဗြိတိသျှ ပန်းချီလောကသို့ လာရောက် တွင်ကျယ်နိုင်သူ နိုင်ငံခြားသား ပန်းချီကျော်တို့ နည်းပါးလှသည်တွင် ဗန်ဒိုက်သည် အင်္ဂလန်ပြည့်ရှင် ပဌမ ချားဘုရင်၏ ချီးမြှင့်မြှောက်စား၍ ဂုဏ်ထူး ဘွဲ့ထူး ပေးအပ်ခြင်းကိုပင် ခံယူရရှိကာ၊ အင်္ဂလန်ပြည်တွင် ပန်းချီ အကျော်အမော်ကြီးတဦး




ကမ္ဘာကျော် ပန်းချီဆရာကြီး ဆာအန်တိုနီဗန်ဒိုက်

အဖြစ် ထင်ရှား ခေတ်စားခဲ့ပြီးလျှင် အင်္ဂလန်ပြည်တွင်ပင် ခေါင်းချခဲ့လေသည်။

ဗန်ဒိုက်သည် ဗဲလဂျီယမ် နိုင်ငံ အန့်တွပ်မြို့တွင် ဖွားမြင်ခဲ့သည်။ မိဖတို့သည် ပိုးကုန်သည်များ ဖြစ်ကြ၍၊ သားသမီး ၁၂ ယောက်အနက် သတ္တမမြောက်သားဖြစ်သည်။ ငယ်စဉ်ကပင် ပန်းချီ အစွမ်းအစကို ပြလာသဖြင့်၊ မိဖများက ဗန်ဒိုက်အား ၁၀ နှစ်သား အရွယ်တွင် ထိုခေတ်က ပန်းချီကျော် တဦးဖြစ်သူ ဟင်းဒရစ် ဗန် ဗေလင်ထံအပ်နှံ၍ ပန်းချီပညာကို လေ့လာစေခဲ့သည်။ ၁၆ နှစ်သားအရွယ်တွင်ပင် ဗန်ဒိုက်သည် ပန်းချီဆရာကလေးတဦး ဖြစ်လာသည်။ မကြာမီ ထိုစဉ်က ထင်ရှား ကျော်ကြားသော ပန်းချီကျော်ကြီး ပီတာပေါ်ရူးဗင်းထံ တပည့်ခံယင်း၊ ပန်းချီပညာကို ဆက်လက် ဆည်းပူးရာ၊ ပုံတူပန်းချီဖက်တွင် မကြာမီ ရူးဗင်း၏ လက်ရာနှင့် ယှဉ်ပြိုင်နိုင်လောက်သော လက်ရာကောင်း ပန်းချီကျော်တဦး ဖြစ်လာလေသည်။

ဗန်ဒိုက်၏ ဂုဏ်သတင်းသည် အင်္ဂလန်ပြည့်ရှင် ပဌမဂျိမ်း ဘုရင်၏ နန်းတော်အရောက် ပျံ့နှံ့ခဲ့ရာ၊ အင်္ဂလန်ပြည်သို့ ခေတ္တ သွားရောက်၍ အင်္ဂလန်ပြည့်ရှင်၏ နန်းတော်တွင် ပန်းချီကားများ ရေးသား ဆက်သွင်းခဲ့ရသေးသည်။

၁၆၂၁ ခုနှစ်တွင် ဗန်ဒိုက်သည် ဣတလီ နိုင်ငံသို့ သွားရောက်ပြီးလျှင် ဣတလီပန်းချီများကို လေ့လာသည်။ ဂျီနိုးအာ၊ ဗင်းနစ်၊ စစ္စလီ၊ ရောမ စသောမြို့ကြီးများတွင် ၇ နှစ်ကြာမျှ လှည့်လည်၍ ပန်းချီပညာ ဆည်းပူးခဲ့သည်။ ထိုနှစ်

များအတွင်း ဗန်ဒိုက်သည် နိုင်ငံသမိုင်း ပန်းချီကား၊ အယူဝါဒဆိုင်ရာ ပန်းချီကားနှင့် ပုံပြင် ဒဏ္ဍာရီ ပန်းချီကားများကို ရေးဆွဲခဲ့သည်။ ၁၆၂၆ ခုနှစ်တွင် အလွန်ခေတ်စား၍ ထင်ရှား ကျော်ကြားသော ပန်းချီကျော်ကြီးအဖြစ် အန့်တွပ်မြို့သို့ ပြန်လာခဲ့လေသည်။

အန့်တွပ်မြို့တွင် ၆ နှစ်ခန့်မျှ အထက်တန်းစား မင်းစိုးရာဇာများ၏ လက်သုံး ပန်းချီကျော်ကြီး ဖြစ်နေခဲ့သည်။ ရုံဖန်ရံခါ အခြား မြို့ကြီးများသို့ သွားရောက်၍ အထူးတာဝန်ယူ ဆောင်ရွက်မှုများ ပြုခဲ့ရသေးသည်။

၁၆၃၂ ခုနှစ်တွင် အင်္ဂလန်ပြည့်ရှင် ပဥ္စမ ချားဘုရင်၏ နန်းတော်၌ ဘုရင့်ပန်းချီတော်အဖြစ် သွားရောက် အမှုထမ်းရသည်။ ဘုရင်ကလည်း "ဆာ" ဘွဲ့ဖြင့် ချီးမြှင့်မြှောက်စားပြီးလျှင်၊ လစာ ရိက္ခာတော်များကို ပေးသနားထားသည်။ ဘုရင်၊ မိဖုရားနှင့်တကွ မင်းစိုးရာဇာ နန်းတွင်းသူ နန်းတွင်းသားတို့၏ အသုံးတော်ခံ ဖြစ်သည်သာမက၊ အထက်တန်းစား သဌေး သူကြွယ် လူကုံထံများကလည်း ဗန်ဒိုက်ကို အလွန် အသုံးများခဲ့ကြသည်။ ထို့ကြောင့် ထိုအချိန်တွင် ဗန်ဒိုက်သည် ပန်းချီကားများကို အများအပြား ရေးဆွဲရသဖြင့် မနိုင်မနင်း ဖြစ်ကာ လက်ထောက် တယောက်ကို အကူအညီ ထားရသည်။ ရေးဆွဲရလွန်းသဖြင့် ထိုအချိန်တွင် ရေးဆွဲသော ဗန်ဒိုက်၏ ပန်းချီကားများသည် လက်ရာ ပျက်လာသည်ဟုပင် ဆိုကြသည်။

၁၆၄၀ ပြည့်နှစ်တွင် ပန်းချီကျော်ကြီး ရူးဗင်းကွယ်လွန်သောအခါ အန့်တွပ်မြို့သို့ ပြန်၍ ရူးဗင်း၏ နေရာကို ယူကာ စပိန်ဘုရင်၏ စောင့်ရှောက် ချီးမြှင့်မှုကို ခံယူနိုင်ရန် ကြိုးစားသော်လည်း မရခဲ့ပေ။ သူ၏ ရည်မှန်းချက်တခုဖြစ်သော ပါရစ်မြို့မှ လူးဗရ နန်းတော်တွင် ပန်းချီကားများ ရေးဆွဲပေးရန်အတွက်လည်း အခြား ပန်းချီကျော် တဦးက လက်ခံရရှိသွားသည်။ ဗန်ဒိုက်သည် အင်္ဂလန်သို့ အသည်းအသန် မကျန်းမမာဖြစ်ကာ ပြန်ရောက်လာပြီးနောက်၊ လန်ဒန်မြို့တွင် ၁၆၄၁ ခုနှစ် ဒီဇင်ဘာလ၌ ကွယ်လွန်လေသည်။

ဗန်ဒိုက်သည် ဝင်ငွေကောင်းသလောက်လည်း အသုံးအဖြုန်းကြီးသည်။ သူ ရေးဆွဲသော ပန်းချီကားများကဲ့သို့ ခမ်းခမ်းနားနား နေထိုင်သူလည်း ဖြစ်သည်။ ထို့ကြောင့် သူကွယ်လွန်သောအခါ ကြွေးမြီများစွာ ကျန်ရစ်လေသည်။

ဗန်ဒိုက်၏ ပန်းချီခေတ်ကို ၄ ပိုင်း ခွဲခြားနိုင်သည်။ ၁၆၂၁ ခုနှစ်အထိ ဗန်ဒိုက်၏ လက်ရာတွင် ရူးဗင်း၏ စံနစ်များ လွှမ်းလျက် ရှိသည်ကို တွေ့ရသည်။ ထိုနောက်တွင် ဣတာလျံ ပန်းချီစံနစ်ဆန်သည့် ဒုတိယပိုင်းသို့ ရောက်လာသည်။ တတိယပိုင်းတွင် ရူးဗင်း၏ စံနစ်များ ပြန်၍ ပါလာပြန်သည်။ နောက်ဆုံးခေတ်သည် အင်္ဂလိပ် ပန်းချီခေတ်ဖြစ်၍ ခမ်းခမ်းနားနား ပန်းချီကားများကို အမြောက်အမြား ရေးဆွဲခဲ့သော အပိုင်းလည်း ဖြစ်လေသည်။

ဗန်ဒိုက်၏ ပန်းချီကားများသည် များသောအားဖြင့် မင်းစိုးရာဇာ၊ နန်းတွင်းသူ နန်းတွင်းသားတို့၏ ထီးနန်းဆန်၍ ခမ်းနားလှပသော ပုံတူပန်းချီကားများ ဖြစ်ကြသည်။ ဗန်ဒိုက် လက်ရာများ၏ ထူးခြားချက်မှာ အရောင်ခြယ်ပုံ စံနစ် ထူးခြားခြင်း၊ သိမ်မွေ့နူးညံ့ခြင်း၊ နှစ်လိုဖွယ်ကောင်းခြင်း၊ ပုံတူအဆွဲခံသူ၏ ပင်ကိုယ်စရိုက်ကို အသက်ပါအောင် ဆွဲနိုင်ခြင်း၊ လက်များ ရေးဆွဲပုံ လှပခြင်းတို့ ဖြစ်သည်။ ဗန်ဒိုက်သည် နောင် ပုံတူဆွဲ ပန်းချီကျော်တို့အတွက် ဟန်သစ် တမျိုးကို ထွင်ပေးခဲ့သည်။ သူသည် အက်ချင်းခေါ် စားဆေး ပန်းချီတွင်လည်း ထင်ရှားကျော်ကြားသူ ဖြစ်လေသည်။

# ကမ္ဘာ့တင်းမာမှုလျှော့နည်းရေးကို ဆောင်ရွက်ခဲ့ကြသော ညီလာခံကြီး

**ထိုညီလာခံသို့ အာရှနှင့် အာဖရိကတိုက်မှ လွတ်လပ်သောနိုင်ငံများ တက်ရောက် ကြသည်ဖြစ်၍ အာရှ-အာဖရိကညီလာခံဟုလည်းခေါ်သည်။ ကြီးမှူးဦးစီးကျင်းပသော နိုင်ငံ ၅ နိုင်ငံတွင် မြန်မာနိုင်ငံလည်း ပါသည်။ အင်ဒိုနီးရှားနိုင်ငံ ဗန်ဒေါင်းမြို့၌ကျင်းပသည်။ ညီလာခံကြီး၏ သဘောတူဆုံးဖြတ်ချက်များဖြင့် ကမ္ဘာ့တင်းမာမှု လျှော့နည်းစေခဲ့သည်မှာ ဂုဏ်ယူလောက်ပေသည်။**

**ဗန်ဒေါင်းညီလာခံ။** ။၁၉၅၅ ခုနှစ် ဧပြီလ ၁၁ ရက်နေ့မှ ၂၄ ရက်နေ့အထိ ကျင်းပခဲ့သော အာရှ-အာဖရိက ညီလာခံဖြစ်၍ အင်ဒိုနီးရှား နိုင်ငံ၊ ဗန်ဒေါင်းမြို့တွင် ကျင်းပခဲ့သဖြင့် ဗန်ဒေါင်း ညီလာခံဟု ခေါ်တွင်ခဲ့သည်။ ထိုညီလာခံသို့ ကမ္ဘာ့လူဦးရေ ထက်ဝက်ကျော်ကို ကိုယ်စားပြုသော အာရှနှင့် အာဖရိက နိုင်ငံပေါင်း ၂၉ နိုင်ငံမှ ထိပ်သီးခေါင်းဆောင်ကြီးများ တက်ရောက် တွေ့ဆုံ ဆွေးနွေးခဲ့ကြ၍၊ ရရှိသော အကျိုးအမြတ်များကား ကမ္ဘာ့သမိုင်း

တွင် စာတင်လောက်သော အကျိုးအမြတ်များ ဖြစ်ပေသည်။

ထိုညီလာခံကြီးကို အိန္ဒိယ၊ ပါကစ္စတန်၊ သီဟိုဠ်၊ အင်ဒိုနီးရှားနှင့် မြန်မာနိုင်ငံတို့မှ ဝန်ကြီးချုပ်များက ကြီးမှူးကျင်းပခဲ့သည်။ ညီလာခံကြီး၏ ရည်ရွယ်ချက်မှာ

(က) အာရှ-အာဖရိက နိုင်ငံသားများ တဦးနှင့်တဦး ချစ်ကြည်မှုနှင့် ပူးပေါင်း ဆောင်ရွက်မှု မြှင့်တင်ရန်၊ အဆိုပါ နိုင်ငံများ၏ အကျိုးတူ ကိစ္စများကို စူးစမ်း ရှာဖွေ မြှင့်တင်ရန်နှင့် ချစ်ကြည်မှုကို တည်ထောင် အားပေးရန်၊

(ခ) ညီလာခံသို့ တက်ရောက်သော နိုင်ငံများ၏ လူမှုရေး၊ စီးပွားရေး၊ ယဉ်ကျေးမှု ပြဿနာနှင့်ဆက်ဆံရေးများကို စဉ်းစားရန်၊

(ဂ) အာရှ၊ အာဖရိက လူမျိုးတို့နှင့် အထူး သက်ဆိုင်သော ပြဿနာများကို စဉ်းစားရန်၊ ပုံစံအားဖြင့် အမျိုးသား အချုပ်အချာ အာဏာပိုင်ရေး လူမျိုးရေးနှင့် ကိုလိုနီ နယ်ချဲ့ဝါဒ စသည့် ပြဿနာများ၊

(ဃ) အာရှ၊ အာဖရိက တိုင်းပြည်များနှင့် ယင်းတိုင်းပြည်များရှိ လူများ၏ အခြေအနေသည် မျက်မှောက်ခေတ်၌ မည်မျှ အဆင့်အတန်း ရှိသည်ကို သုံးသပ်၍၊ ကမ္ဘာ့ ငြိမ်းချမ်းရေးနှင့် ပူးပေါင်း ဆောင်ရွက်ရေး၌ မည်မျှ အထောက်အပံ့ပြုနိုင်မည်ကို လေ့လာရန် ဖြစ်သည်။

ညီလာခံကြီးသို့ ပထဝီဝင်ကို အခြေပြု၍၊ အာရှ၊ အာဖရိကတိုက်ရှိ လွတ်လပ်သော နိုင်ငံများကို ဖိတ်ကြားရာ၊ အာဖရိကတိုက်မှ ဖက်ဒရေးရှင်း အော့ဗ်ရိုဒီးဇီးယားနှင့် ညာဆာလန်း နိုင်ငံမှ လွဲလျှင် ၂၄ နိုင်ငံ (ညီလာခံကို ကြီးမှူးကျင်းပသည့် ဦးစီး ၅ နိုင်ငံမပါ) မှ ကိုယ်စားလှယ်ကြီးများ တက်ရောက်သည်။ တက်ရောက်သော နိုင်ငံများမှာ (၁)အာဖဂနစ္စတန်၊ (၂)ကမ္ဘောဒီးယား၊ (၃)တရုပ်ပြည်သူ့သမတနိုင်ငံ၊ (၄) အီဂျစ်၊ (၅) အီသီယိုပီးယား၊ (၆) ဂိုးလကို့ (ဂါနာ)၊ (၇) အီရန်၊ (၈) အီရက်၊ (၉) ဂျပန်၊ (၁၀) ဂျော်ဒန်၊ (၁၁) လာအို၊ (၁၂) လက်ဗနွန်၊ (၁၃) လိုက်ဗီးရီးယား၊ (၁၄) လစ်ဗျား၊ (၁၅) နီပေါ၊ (၁၆) ဖိလစ်ပိုင်၊ (၁၇) ဆအူးဒီအာရေဗျ၊ (၁၈) ဆူဒန်၊ (၁၉) ဆီးရီးယား၊ (၂၀) ထိုင်းလန်း၊ (၂၁) တူရကီ၊ (၂၂) ဗီယက်နမ်မြောက်ပိုင်း၊ (၂၃) ဗီယက်နမ် တောင်ပိုင်း၊ (၂၄) ယီမင်တို့ ဖြစ်ကြသည်။

ညီလာခံသို့ တက်ရောက်ကြသည့် ကိုယ်စားလှယ် ထက်ဝက်ကျော်တို့သည် သက်ဆိုင်ရာ နိုင်ငံများ၏ ဝန်ကြီးချုပ်၊ သို့မဟုတ် နိုင်ငံခြားရေး ဝန်ကြီး အဆင့်အတန်းရှိသူများ ဖြစ်ကြရာ၊ တရုပ်ပြည်သူ့ သမတ နိုင်ငံမှ ဝန်ကြီးချုပ် ချူအင်လိုင်း၊ အီဂျစ်နိုင်ငံမှ ဝန်ကြီးချုပ် နတ်ဆာတို့လည်း ပါဝင်သည်။ ညီလာခံ တက်ရောက်သော ကိုယ်စားလှယ်ကြီးများသည် ကမ္ဘာ့လူဦးရေ ထက်ဝက်ကျော်ကို ကိုယ်စားပြုသော ထိပ်တန်း ခေါင်းဆောင်ကြီးများ ဖြစ်ကြလေသည်။

ဗန်ဒေါင်း ကွန်ဖရင့်ကဲ့သို့သော ညီလာခံတရပ် ကျင်းပရေးကို ၁၉၅၄ ခုနှစ် ဧပြီလ ၂၈ ရက်နေ့တွင် ကျင်းပသော ကိုလံဗို ညီလာခံကြီး၌ တင်ပြ ဆွေးနွေးခဲ့ကြသည်။ ထိုညီလာခံကြီးတွင်အိန္ဒိယ၊ အင်ဒိုနီးရှား၊ ပါကစ္စတန်၊ သီဟိုဠ်၊ မြန်မာနိုင်ငံတို့မှ ဝန်ကြီးချုပ်များ တွေ့ဆုံကြ၍၊ အဆိုပါ ၅ နိုင်ငံ၏ နိုင်ငံရေး၊ လူမှုတိုးတက်ရေးသာမက၊ ကမ္ဘာ့ငြိမ်းချမ်းရေး တည်တံ့ခိုင်မြဲမှုတို့ကို ပွင့်လင်းစွာ ဆွေးနွေးကြပြီးနောက်၊ အာရှ-အာဖရိက နိုင်ငံများ၏ ညီလာခံတရပ် ကျင်းပရန် လိုအပ်ကြောင်းကို သဘောကြိုက်ညီခဲ့ကြသည်။ ယင်းကဲ့သို့သော ညီလာခံကြီးမျိုး ဖြစ်မြောက်ရေးကို အင်ဒိုနီးရှား ဝန်ကြီးချုပ်က နည်းလမ်း ရှာဖွေပေးရန် ဆုံးဖြတ်ကြသည်။ သို့ဖြစ်ရာ ဗန်ဒေါင်း ညီလာခံ ကျင်းပရေးကို ကိုလံဗို ညီလာခံကြီးက စတင် လမ်းခင်းပေးခဲ့လေသည်။

အင်ဒိုနီးရှား ဝန်ကြီးချုပ် မစ္စတာ မိုဟာမက် အလီဆက်စတရိုမစ်ဂျိုဂျိုသည် မြန်မာနိုင်ငံ ဝန်ကြီးချုပ်၏ ဖိတ်ကြားချက်အရ ၁၉၅၄ ခုနှစ် စက်တင်ဘာလတွင် မြန်မာနိုင်ငံသို့ အလည်အပတ် လာရောက်ပြီးနောက်၊ ၂ နိုင်ငံဝန်ကြီးချုပ်တို့ ပူးတွဲ ထုတ်ပြန်သည့် ကြေညာချက်တွင် အာရှ-အာဖရိက ညီလာခံကြီး ဖြစ်မြောက်ရေးကို ပန္နက်ချခဲ့လေသည်။

ယင်းသို့ ပန္နက်ချခဲ့သည်နှင့်အညီ ဦးစီးနိုင်ငံများ ဖြစ်ကြသည့် အိန္ဒိယ၊ အင်ဒိုနီးရှား၊ ပါကစ္စတန်၊ သီဟိုဠ်နှင့် မြန်မာနိုင်ငံတို့သည် အာရှ-အာဖရိက ညီလာခံ ဆောလျင်စွာ ဖြစ်မြောက်ရေးအတွက် အင်ဒိုနီးရှားနိုင်ငံ ဗိုဂိုးမြို့၌ ၁၉၅၄ ခုနှစ် ဒီဇင်ဘာလ ၂၈ ရက်နေ့က ညီလာခံတရပ် ကျင်းပကာ စီစဉ် ဆွေးနွေးကြသည်။ ထိုညီလာခံတွင် အာရှ အာဖရိက ညီလာခံကြီးကို ၁၉၅၅ ခုနှစ် ဧပြီလအတွင်း ကျင်းပရန်၊ ဦးစီးနိုင်ငံများ၏ ကိုယ်စား အင်ဒိုနီးရှားအစိုးရက လိုအပ်သော အစီအစဉ်များ ပြုလုပ်ရန်၊ ဦးစီးနိုင်ငံများကို ကိုယ်စားပြုသော ညီလာခံရုံးကို အင်ဒိုနီးရှား၌ပင် ဖွင့်လှစ်ထားရန် ဆုံးဖြတ်ကြသည်။

ဤသို့ဖြင့် အာရှ-အာဖရိက ညီလာခံကြီးကို အင်ဒိုနီးရှားနိုင်ငံ၏ မြို့တော် ယာကားတားမှ ၇၅ မိုင်ခန့်ဝေးသော ဥတုသပ္ပါယ မျှတသည့် အပန်းဖြေ စခန်းမြို့ကလေးဖြစ်သော ဗန်ဒေါင်းမြို့၌ ၁၉၅၅ ခုနှစ်ဧပြီလ ၁၈-ရက်နေ့မှ

၂၄ ရက်ခန့်အထိကျင်းပရန် စီစဉ်၍ အောင်မြင်စွာကျင်းပနိုင်ခဲ့လေသည်။

ညီလာခံသို့ တက်ရောက်ကြသည့် နိုင်ငံများသည် အုပ်စုကွဲ၊ ဝါဒကွဲ နိုင်ငံများလည်း ပါဝင်သဖြင့်၊ ထိုညီလာခံသည် ချောမော ပြေပြစ်စွာ ပြီးမြောက်နိုင်ပါမည်လော၊ ထိုညီလာခံသည် နယ်ချဲ့ဝါဒဆန့်ကျင်ရေးသက်သက်အတွက် ဝါဒဖြန့် ညီလာခံမျှသာဖြစ်မည်လောဟု ကမ္ဘာက တွေးတောစိုးရိမ်မိကြသည်။ သို့သော် ညီလာခံသည် ချောမော ပြေပြစ်စွာ ပြီးမြောက်အောင်မြင်ခဲ့သည်။ ၂၉ နိုင်ငံမှ ကိုယ်စားလှယ်ကြီးများသည် အပေးအယူ သင့်တင့်စွာဖြင့် ဆွေးနွေးနိုင်ခဲ့ကြသည်။

၇ ရက် တိုင်တိုင် ဆွေးနွေး၍ ဆုံးဖြတ် ချက်များ ချမှတ်ခဲ့ကြရာ၊ ရရှိသော အကျိုးအမြတ်များကား သမိုင်းတွင်လောက်ပေသည်။ ဆုံးဖြတ်ချက်များ မချမှတ်မီ၊ အပြင်းအထန် အခြေအတင် ဆွေးနွေးဝေဖန်ကြရာ၊ ဆုံးဖြတ်ချက်များပင် ချမှတ် နိုင်ပါမည်လောဟု စိုးရိမ်မိကြရသည်။ သို့သော် မိမိတို့၏ အယူအဆ၊ ထင်မြင်ချက်တို့ကို ပွင့်ပွင့် လင်းလင်း တင်ပြခြင်းသာ ဖြစ်၍၊ နောက်ဆုံးတွင် ဆုံးဖြတ်ချက်များ ချမှတ်နိုင်ခဲ့ကြပေသည်။ ထိုဆုံးဖြတ်ချက်များသည် တည်တံ့သည်၊ခိုင်မြဲသည်၊ အမှောင့်ပယောဂကင်းသည်ဟု ကမ္ဘာက အသိအမှတ်ပြုလာကြရလေသည်။

ညီလာခံကြီးတွင် နယ်ချဲ့စံနစ်ရှုတ်ချရေး အဆိုကိုတညီတညွတ်ဆုံးဖြတ်နိုင်ခြင်းသည် ဗန်ဒေါင်းညီလာခံကြီး၏ထူးခြားချက်တရပ်ဖြစ်ပေသည်။ လူမျိုးတမျိုးအား အခြားလူမျိုးတမျိုးက စိုးမိုးချုပ်ချယ်မှု၊ နိုင်ငံတွင်းကိစ္စများ၌ ဝင်ရောက်စွက်ဖက်မှုတို့သည် မကောင်းသောစရိုက်များ ဖြစ်ကြောင်းကို နိုင်ငံတိုင်းလိုလိုက သိရှိသော်လည်း လက်တွေ့ထိန်းသိမ်းရန်ကိုမူ ဝန်လေးကြသည်။ ထိုအချက်ကို ဗန်ဒေါင်းညီလာခံတွင် နိုင်ငံထိပ်သီးခေါင်းဆောင်ကြီးများက ရှုတ်ချကြောင်း အဆိုတင်သွင်း ဆုံးဖြတ်လိုက်သောအခါ ကမ္ဘာ့ထက်ဝက်ကျော် လူဦးရေက ဆုံးဖြတ်ချက်မည်ပေသဖြင့်၊ နယ်ချဲ့ဝါဒီတို့အား နောက်တွန့်သွားစေသည်။ ယင်းသို့ဖြင့် ကမ္ဘာ့တင်းမာမှု လျော့ပါးရေးကို ဖြစ်စေခဲ့လေသည်။

အနုမြူ အင်အားကို အဖျက်သဘော အသုံးမပြုဘဲ၊ အပြုလုပ်ငန်းများအတွက် အသုံးပြုရန် တိုက်တွန်းကြောင်း အဆိုကိုလည်း ပြဋ္ဌာန်းခဲ့ကြသည်။ ထို့ပြင် စီးပွားရေး ပူးပေါင်း ဆောင်ရွက်မှု၊ ယဉ်ကျေးမှု ပူးပေါင်းဆောင်ရွက်မှု၊ လူ့အခွင့်အရေး အသုံးချမှု၊ မလွတ်လပ်သေးသော နိုင်ငံများ ပြဿနာ စသည်တို့ကိုလည်း ဆွေးနွေးကာ ဆုံးဖြတ်ချက်များ ချကြသည်။

ဗန်ဒေါင်း ညီလာခံသည် ကမ္ဘာ့ကုလသမဂ္ဂကို စင်ပြိုင်ယှဉ်ပြိုင်ခြင်းလည်းမပြုပေ။ ညီလာခံသို့ တက်ရောက်သော ၂၉ နိုင်ငံတွင် ကမ္ဘာ့ကုလသမဂ္ဂဝင် ၁၇ နိုင်ငံ ပါဝင်သည်။ ကမ္ဘာ့ကုလသမဂ္ဂဝင် မဟုတ်သော တရုပ်ပြည်သူ့ ကိုယ်စားလှယ်သည်ပင် ကမ္ဘာ့ကုလသမဂ္ဂအား ထောက်ခံရေး အဆိုတွင် ဝင်ရောက် ထောက်ခံ ဆွေးနွေးခဲ့သည်။ ထိုညီလာခံကြီးမှ နောက်ဆုံး ထုတ်ပြန်ချက်တွင် ကမ္ဘာ့ငြိမ်းချမ်းရေး ပူးပေါင်းဆောင်ရွက်မှု မြှင့်တင်ရေးနှင့် စပ်လျဉ်း၍ ကမ္ဘာ့နိုင်ငံအများအပြားသည် ကမ္ဘာ့ကုလသမဂ္ဂသို့ ဝင်ရောက်ခွင့် မရကြသေးပေရာ၊ ကမ္ဘာ့ ငြိမ်းချမ်းရေးအတွက် ထိရောက်စွာ ပူးပေါင်းဆောင်ရွက်ရန် နိုင်ငံအားလုံး ကမ္ဘာ့ကုလသမဂ္ဂသို့ ဝင်နိုင်ရန်ညီလာခံက သဘောကြိုက်ညီကြောင်း၊ထိုကြောင့် အသင်းဝင် အရည်အချင်းနှင့် ပြည့်စုံသော နိုင်ငံများအား ဝင်ခွင့်ပြုရန် ကုလသမဂ္ဂ လုံခြုံရေးကောင်စီသို့ တောင်းဆိုကြောင်းဟုပါရှိရာ၊ အာရှ-အာဖရိက နိုင်ငံတို့သည် ကမ္ဘာ့ငြိမ်းချမ်းရေးအတွက် မည်မျှလိုလား၍၊ ကမ္ဘာ့ကုလသမဂ္ဂကြီးအား ကမ္ဘာ့ငြိမ်းချမ်းရေးကို ထာဝစဉ် ထိန်းသိမ်းထားနိုင်မည့် ကမ္ဘာ့သူ ကမ္ဘာ့သားတို့၏ အားထားဖွယ်ရာ ကမ္ဘာ့မိသားစုအဖွဲ့ကြီးအဖြစ် အသိအမှတ် ပြုခြင်းကိုလည်း ထင်ရှားစေခဲ့သည်။ ထိုကြောင့် ညီလာခံ တက်ရောက်သော ၂၉ နိုင်ငံကိုယ်စားလှယ် ခေါင်းဆောင်ကြီးများ၏ စေတနာကို ကမ္ဘာက အလေးပြုခဲ့ကြရ ပေသည်။

ဗန်ဒေါင်း ကွန်ဖရင့်သို့ တက်ရောက်ကြသော ကိုယ်စားလှယ်ကြီးများသည် အလုည့်ကျ မိန့်ခွန်းစကားများ ပြောဆိုကြသည်။ နယ်ချဲ့စံနစ် ဆန့်ကျင်ရေး အဆိုကိုတင်သွင်းဆွေးနွေးကြရာ၌၊ ကမ္ဘာက မြော်လင့်သလောက် အာဃာတ မပြင်းထန်လှချေ။ သို့သော်ကွန်မြူနစ် နိုင်ငံကြီးများ၏ နယ်ချဲ့မှုကိုလည်း ပြင်းပြင်း ထန်ထန် ဝေဖန် ဆွေးနွေးခဲ့ကြသည်။

ညီလာခံကြီးသည် အာရှ-အာဖရိက နိုင်ငံများ၏ စည်းလုံးညီညွတ်ခြင်းကို ပြခဲ့ပေသည်။ ကမ္ဘာ့ တင်းမာမှု အားလုံးကို လျော့နည်းသွားစေရန် ညီလာခံကြီးက မစွမ်းဆောင်နိုင်ငြားလည်း အာရှ-အာဖရိက နိုင်ငံများ၏ စည်းလုံးညီညွတ်ခြင်းသည် နယ်ချဲ့ဝါဒအား တားဆီးရာ၌ အတော်အတန် ထိရောက်စေခဲ့သည်။ ညီလာခံတွင် ချမှတ်ခဲ့သော ဆုံးဖြတ်ချက်များအတိုင်းသာ ထိရောက်စွာ အကောင်အထည် ဖော်နိုင်ပါက အာရှနှင့် အာဖရိကတိုက်တွင် ငြိမ်းချမ်းသာယာရေးသည် တည်တံ့ခိုင်မြဲနိုင်ပေမည်။ ဗန်ဒေါင်း ညီလာခံကြီး ဖြစ်မြောက် အောင်မြင်အောင် လုံးပန်းပေးသော မြန်မာနိုင်ငံ အပါအဝင် ဦးစီး ၅ နိုင်ငံသည် သန်းပေါင်း ၁,၃၀၀ ကျော်ရှိသော အာရှ-အာဖရိက လူမျိုးအားလုံးကို စည်းလုံးပေးနိုင်ခဲ့ပေသည်။ ထိုကြောင့် ချောမော ပြေပြစ်စွာနှင့် အောင်မြင်လိမ့်မည် မဟုတ်ဟု ကမ္ဘာက ယူဆခဲ့ကြသော်လည်း ဗန်ဒေါင်း ကွန်ဖရင့်သည်

ချော့မောပြေပြစ်စွာ ပြီးမြောက်အောင်မြင်ခဲ့၍ ကမ္ဘာက တအံ့တသြ ဖြစ်ခဲ့ရပေသည်။

ဗန်း,ဇူး (ခရစ် ၁၈၂၈--၁၉၀၅)။ ။ရေငုပ် သင်္ဘော၊ လေယာဉ်ပျံ၊ ခေတ်ဒွေဖုံးတို့ ပေါ်မီခေတ်ကပင် မိမိ၏ ဝတ္ထုများထဲတွင် ယင်းတို့ကဲ့သို့ ဆန်းကြယ်သော သိပ္ပံ ပညာဆိုင်ရာ တီထွင်မှုတို့ကို ဇာတ်လမ်းဇာတ်ကွက်၌ ထည့် သွင်း၍ သိပ္ပံပညာဆန်သော စွန့်စားခန်းဝတ္ထုများကို ရေး သားခဲ့သူ ကမ္ဘာကျော် ပြင်သစ် ဝတ္ထုရေး ဆရာကြီးကား ဇူးဗန်း ဖြစ်လေသည်။ ဇူးဗန်းသည် ယခုခေတ် စာရေး ဆရာ အကျော်အမော်ကြီး တဦးဖြစ်သူ အိပ်ဂျီဝဲကဲ့သို့ အ နာဂတ် သိပ္ပံပညာ၏ တိုးတက်တီထွင်လာမည့် ထူးခြားဆန်း ကြယ်သော အခြေအနေတို့ကို နောက်ခံထားကာ၊အံ့သြဖွယ် ရာ၊ အသည်းထိတ်စရာ ဝတ္ထုပေါင်း များစွာကို ရေးသား ခဲ့လေသည်။

ဇူးဗန်းသည် ပြင်သစ်နိုင်ငံ၏ ပင်လယ် ဆိပ်ကမ်းမြို့တမြို့ ဖြစ်သော နန့်မြို့တွင် ၁၈၂၈ ခုနှစ် ဖေဖွာရီလ ၈ ရက်နေ့၌ မွေးဖွားသည်။ ထိုမြို့၌ အနိုင်နိုင်ငံမှ သင်္ဘောပေါင်းစုံတို့ ဝင် ရောက် ဆိုက်ကပ်ရာ၊ ဇူးဗန်းသည် ငယ်စဉ်ကပင် သင်္ဘော သားပေါင်းစုံတို့နှင့် တွေ့ဆုံရင်းနှီးခဲ့သဖြင့် သင်္ဘောသား များ၏ စွန့်စားခန်းများကို အားကျခဲ့သည်။ ထို့ကြောင့် ၁၂ နှစ်သား အရွယ်တွင် သင်္ဘောသားအဖြစ် လိုက်ပါရန် ကြံစည်ခဲ့သော်လည်း ဖခင်ကြီးက အချိန်မှီ သိလိုက်၍ အကြံမအောင်မြင်ခဲ့ပေ။

ဇူးဗန်းသည် နန့်မြို့တွင် ပညာသင်ကြားခဲ့ ပြီးနောက် ပါရစ်မြို့တွင် ဥပဒေပညာကို ဆည်းပူး လေ့လာရသည်။ သို့သော် စာပေ အရေးအသားဖက်၌ ပို၍ စိတ်ဝင်စား သဖြင့်၊ ဦးစွာ၌ ပြဇာတ်အတွက် စာတိုပေစများ ရေးသား ခဲ့သည်။ ဇူးဗန်း၏ ပြဇာတ်မျိုးတခုကို ရုံတင် ပြသခဲ့ရ သည်။ သို့သော် ပြဇာတ် ရေးသားခြင်းဖြင့် အသက်မွေးမှု ကြာရှည်စွာ မပြုခဲ့ပေ။ ငယ်စဉ်က စွန့်စားခန်းများကို စိတ်ပါ ဝင်စားသည့် ညာဉ်ကလေး ပါလာသည့် အတိုင်း ၁၈၆၂ ခုနှစ်တွင် သိပ္ပံပညာနှင့် စွန့်စားခန်းများပါသော "မီးပုံးပျံထဲမှာ၊ ငါးပတ်ကြာ" အမည်ရှိ ဝတ္ထုတပုဒ်ကို မြေစမ်း ခရမ်းပျိုး၍ ရေးသားထုတ်ဝေခဲ့သည်။ ထိုဝတ္ထု မျိုးသည် အသစ်အဆန်း ဖြစ်လေရာ၊ ဇူးဗန်းသည် နာမည် ရသွားလေသည်။ "ကမ္ဘာ့ ဗဟိုချက်သို့ ခရီးထွက်ခြင်း" နှင့် "လကမ္ဘာဆီသို့" အမည်ရှိ ဗန်း၏ ဝတ္ထုများ ထွက်ပေါ် လာပြီးနောက်တွင် ဗန်းသည် ကမ္ဘာကျော် စာရေးဆရာ များ စာရင်းတွင် ပါဝင်ခဲ့သည်။ သူ၏ အရေးအသား ဇာတ် လမ်း ဇာတ်ကွက်တို့သည် ယုတ္တိယုတ္တာနှင့်ဆီဆီလျော်လျော် ရှိလှသဖြင့် အချို့ စာဖတ်ပရိသတ်တို့က ဗန်းအား လကမ္ဘာ



သိပ္ပံဝတ္ထုများရေးရာတွင် ကျော်ကြားသူ ဇူး ဗန်း

သို့သွားလျှင် လိုက်ပါရစေဟုပင် စာရေး တောင်းပန် ကြ လေသည်။

ဗန်း၏ ဝတ္ထုများသည် သူ့ခေတ် သူ့အခါက မဖြစ်နိုင် သေးသော အရာများကို စိတ်ကူးဉာဏ် ကွန့်မြူးကာ ရေး သားခဲ့သော်လည်း၊ ထိုစိတ်ကူးများသည် ယခုခေတ် တွင် ဖြစ်နိုင်သော အရာတွေများဖြစ်နေလေပြီ။ ထိုခေတ်က ဗန်း၏ စိတ်ကူးဉာဏ် ကွန့်မြူးချက်တို့သည် ထိုခေတ်က အ ထူးအဆန်း ဖြစ်ခဲ့သော်လည်း ယခုခေတ်တွင်မူ မထူးဆန်း တော့သည့် တိုင်အောင် ဗန်း၏ ဝတ္ထုများကား မတိမ်မြုပ် သေးပေ။ ကြံကြံဖန်ဖန် စိတ်ကူးဉာဏ်ထုတ်ကာ ရေးသားခဲ့ သော ဗန်း၏ ဝတ္ထုတို့သည် စိတ်ဝင်စားဖွယ်လည်း ကောင်း သည်။ သိပ္ပံပညာ တိုးတက်တီထွင်မှုအတွက် အစဖော်ပေးရာ လည်း ရောက်ခဲ့သည်။ ဗန်း၏ ဝတ္ထုများသည် ဖတ်ရှုရသူ တို့အား ရှေ့တွင် မည်သို့ဖြစ်လာမည်ကို အလွန် သိချင်စိတ် ဖြစ်လာစေအောင် ဆွဲဆောင်သွား နိုင်သည်။ ကမ္ဘာကျော် ဝတ္ထုကြီး တပုဒ်ဖြစ်သော "ကမ္ဘာတပတ်-ရက်ရှစ်ဆယ်" ဝတ္ထုကြီးသည် ထိုစဉ်က မဖြစ်နိုင်သေးသော စွန့်စားမှု ဝတ္ထု မျိုးဖြစ်သည်။ ထိုဝတ္ထုကြီးကို အခဏ်းဆက် ဝတ္ထုရှည်အဖြစ် ထည့်သွင်း ဖော်ပြခဲ့ရာ စာဖတ်သူများသည် အလွန် စိတ်

ဝင်စားကြသဖြင့် ဝတ္ထုထဲမှ ဇာတ်လိုက်သည် လန်ဒန်မြို့သို့ ရက် ၈၀ နှင့် ပြန်ရောက်မရောက်ကိုပင် အလောင်းအစား ပြုကြလေသည်။

ဇူးဗန်း၏ ဝတ္ထုများစွာကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုခဲ့ကြသည်။ ၁၉၀၅ ခုနှစ် မတ်လ ၂၄ ရက်နေ့တွင် နန့်မြို့၌ ကွယ်လွန်သည့်တိုင်အောင် သိပ္ပံပညာဆန်သော စွန့်စားခန်း ဝတ္ထုများစွာကို ရေးသားခဲ့သည်။ သူ၏ စွန့်စားခန်း ဝတ္ထုတပုဒ်ဖြစ်သော "အဏ္ဏဝါ ရေပြင်အောက်၊ မိုင်ခြောက်သောင်း ရောက်ခဲ့ခြင်း" ဝတ္ထုသည်လည်း ကမ္ဘာကျော် ဝတ္ထုတပုဒ်ဖြစ်၍၊ ထိုစဉ်က လူတို့ အိပ်မက်မျှ မမြင်မက်သေးသည့် ရေငုပ်သင်္ဘော တစင်းဖြင့် အဏ္ဏဝါ ရေပြင်အောက်သို့ စွန့်စား လှည့်လည် သွားလာခဲ့သည်ကို စိတ်ဝင်စားဖွယ်၊ အံ့သြဖွယ်၊ အသည်းထိတ်ဖွယ် ရေးသား ခဲ့သည်။

**ဗန်း,ရောဗတ်**(ခရစ် ၁၇၅၉–၁၇၉၆)။ ။စကော့တလန် အမျိုးသား စာဆိုတော်ကြီးအဖြစ် ထင်ရှားသော ရောဗတ်ဗန်းသည် လယ်သီးစားလုပ်ရသူ ဝီလျံ ဗန်းနှင့် အဂ္ဂနိဗရောင်း တို့၏ သားသမီး ၇ ယောက်အနက် အကြီးဆုံးသား ဖြစ်သည်။ ၁၇၅၉ ခုနှစ် ဇန္နဝါရီလ ၂၅ ရက်နေ့တွင် ဗန်းကို စကော့တလန်ပြည် အဲရှိုင်ယာနယ် အော်လိုဝေးရွာကလေး၌ ဖွားမြင်သည်။

ဗန်း၏ မိဖများသည် ဆင်းရဲနွမ်းပါးသူများ ဖြစ်ရာ၊ သားဖြစ်သူအား အများနည်းတူ ပညာသင်ရန် ကျောင်းသို့ မလွှတ်နိုင်ချေ။ ၁၇၆၅ ခုနှစ်တွင် ပညာလိုလားသော ဗန်း၏ မိဖများသည် မိမိတို့၏ သားအား စာသင်ကျောင်းသို့ လွှတ်ကာ ပညာ မသင်ကြားနိုင်သော်လည်း သား၏ ပညာရေးကို မထိခိုက်စေလိုသဖြင့် မိမိ၏ အိမ်နီးချင်းများနှင့် တိုင်ပင်ကာ ငွေစု၍ ဂျွန်မားဒေါ့ ဆိုသူ ကျောင်းဆရာကလေးတဦးကို ငှါး၍ ပညာသင်ကြားစေလေသည်။ ဆရာ့ထံမှ ရရှိသော ပညာ အခြေခံကလေးနှင့် ပညာ ဗဟုသုတလိုလားသော ဗန်းသည် ဝါသနာအလျောက် ဖခင်ကြီး၏ စာအုပ်များကို ဖတ်ရှုလေ့လာ ဆည်းပူးခဲ့သဖြင့် ကမ္ဘာကျော် စာဆိုကြီး ဖြစ်ခဲ့ရသည်ဟု ဆိုရပေမည်။

၁၇၆၆ ခုနှစ်တွင် မိဖများသည် ထိုရွာကလေးနှင့် ၂ မိုင်မျှဝေးကွာသော မောင့်အောလီးဖင့် အရပ်ရှိ လယ်ကွက်များသို့ ရွှေ့ပြောင်း နေထိုင်ကြသောအခါ၊ ၇ နှစ်အရွယ်မျှသာ ရှိသေးသော ဗန်းသည် ပညာကို လိုလားသူကလေးဖြစ်သည့်အတိုင်း ထိုရွာကျောင်း ကလေး၌ပင် နေရစ်ခဲ့လေသည်။ ၁၇၇၂ ခုနှစ် ဗန်း ၁၃ နှစ်သား အရွယ်တွင် သူ၏ မိဖများက ဒါရင်ပယ်ခေါ် အင်္ဂလိပ် ဘုန်းကြီးကျောင်း တကျောင်း၌ ပညာ ဆက်လက် သင်ကြားစေလေသည်။ သို့သော်လည်း ငွေရေး ကြေးရေး ကျပ်တည်းလွန်းလှသဖြင့် နောက်တနှစ်တွင် ဗန်းအား ကျောင်းနုတ်လိုက်ရလေတော့သည်။ ဗန်းသည် ကျောင်းမှ ထွက်လိုက်ရသော်လည်း ရွာကျောင်းဆရာကလေးထံတွင်ပင် ရက်သတ္တပတ် အနည်းငယ်မျှ အင်္ဂလိပ် သဒ္ဒါနှင့် ပြင်သစ်စာများကို ဆက်လက် ဆည်းပူးနေသေးသည်။ သို့သော်လည်း မိဖများတွင် ကူဖော်လောင်ဖက် လိုနေသဖြင့် ဗန်းသည် မိဖများနှင့် လယ်အလုပ်ကို ဒိုးတူပေါင်ဖက် ဝင်လုပ်ရရှာသည်။

ဗန်းသည် မိမိဝါသနာပါသော ကဗျာလင်္ကာ စာအုပ်ကလေးကို အိတ်ထဲတွင် အမြဲဆောင်လျက် အားလပ်ခွင့်ပေါ်တိုင်း စာအုပ်ကို ထုတ်ကာ ထုတ်ကာ ကဗျာ့အရသာကို ခံစားလေ့ ရှိ၏။ လယ်ထွန် နေစဉ် ထွန်ကြောင်းတကြောင်းဆုံး၍ နောက်အသစ်တကြောင်းထိုးရန် မြင်းများကို လှည့်ခိုက်ကလေး၌ပင် စာအုပ်ကို ကပြာကယာလှန်၍ မိမိနှစ်သက်သော အဖွဲ့အနွဲ့ကလေးများ၏ အရသာကို ခံယူလေ့ရှိ၏။ ရံဖန်ရံခါ၌လည်း ကျက်မှတ်ထားသော အပိုဒ်ကလေးများကို နှုတ်တက်ရွတ်ဆိုနေတတ်သည်။

ဝမ်းရေးအတွက် ပင်ပန်းကြီးစွာ လုပ်ကိုင် နေကြရသော ဗန်းတို့ မိသားစုသည် ညဥ့်ပိုင်း အားလပ်ချိန်များတွင် မိခင်ဖြစ်သူက ရှေးသီချင်းကြီးများကို ဆိုပြ၍၊ ဖခင်က သမ္မာကျမ်းစာထဲမှ ပုံပြင် အမျိုးမျိုးကို ဖတ်ပြကာ သားသမီးများက ဝိုင်း၍ နားထောင်ယင်း ပျော်ရွှင်စွာ အချိန်ဖြုန်း



နာမည်ကျော် စကော့လူမျိုး ကဗျာဆရာ ရောဗတ်ဗန်း

တတ်ကြသည်။ ဗန်းအသက် ၂၆ နှစ် အရွယ်တွင် ဖခင်ဖြစ်သူ အနိစ္စ ရောက်သဖြင့်တကြောင်း၊ အချစ်ရေး အဆင်မပြေသဖြင့် တကြောင်း ဗန်းသည် တရွာမပြောင်း သူကောင်းမဖြစ် ဟူသော စကားအတိုင်း အနောက် အိန္ဒိယ ကျွန်းစုရှိ ဂျမေးကားကျွန်းသို့ သွားရောက်၍ စာရေးအလုပ်လုပ်ရန် စိတ်ပိုင်းဖြတ်လိုက်လေသည်။ သို့ရာတွင် ခရီးစရိတ်လိုနေပြန်သဖြင့် သူကလေး ဘဝကပင် စီကုံး ရေးသားလာခဲ့သော ကဗျာကလေးများကို စုပေါင်း၍ 'ကဗျာများ' ဟူသော အမည်ဖြင့် စာအုပ်တအုပ် ထုတ်ဝေလိုက်၏။

ဗန်း၏ ကဗျာစာအုပ်မှာ အရောင်းရ တွင်ကျယ်လှ၏။ ထိုစာအုပ် ထုတ်လိုက်သည်မှစ၍ 'လယ်သမားစာဆို' ကလေး၏ နာမည်သည်လည်း တမုဟုတ်ခြင်း ထင်ရှားကျော်စောလာသည်။ ဗန်းသည်လည်း စာအုပ် ရောင်းရသည့် အမြတ်ငွေထဲမှ သူ၏ ဝေစုအဖြစ် ပေါင် ၅၀၀ ခန့် ရရှိ၏။ သူ၏ ကဗျာစာအုပ်သည် ဒုတိယ တကြိမ်ပင် ထပ်နှိပ်ရန်ဖြစ်လာသောအခါ ဗန်းသည် ဂျမေးကားကျွန်းသို့ သွားရန်အကြံကို စွန့်ပစ်လိုက်ပြီးလျှင် ထိုငွေနှင့်ပင် စကော့တလန်ပြည် အက်ဒင်ဗာရာ မြို့တော်သို့ သွားရောက်လေသည်။

ဗန်းသည် အက်ဒင်ဗာရာမြို့သို့ ရောက်သောအခါ ပညာတတ်၊ သဒ္ဓေသူကြွယ် အစရှိသော အထက်တန်းစား ပုဂ္ဂိုလ်များ၏ ဝိုင်းဝန်းချီးမြှောက်ခြင်း ခံရလေသည်။ သို့ရာတွင် ပကာသနကို လိုလားသော အထက်တန်းစားတို့၏ အပေါ်ယံ ဂရုစိုက်ခြင်းမှာ ကြာရှည် မခံချေ။ လအနည်းငယ်ခန့် နေမိလျှင်ပင် မကြာသေးမီက သူ့အား အရေးတယူလုပ်ခဲ့သော အထက်တန်းစားများသည် သူ့အား ဂရုမပြုကြတော့သည်ကို သတိထားမိသော ဗန်းသည် စိတ်အပျက်ကြီး ပျက်ကာ သူ၏ မွေးဇာတိဖြစ်သော အော်လိုဝေး ရွာကလေးသို့ ပြန်လာခဲ့၏။ ဗန်းသည် အက်ဒင်ဗာရာမြို့မှ ပြန်လာပြီးသည့်နောက်တွင် ပကာသနကို မက်မောသော လူကုံထံ အခေါ်ခံ အထက်တန်းစားတို့အား ယခင်ကထက် စိတ်နာပြီးလျှင်၊ အောက်တန်းစား သာမန် ဆင်းရဲသူ ဆင်းရဲသားများအား ရှေးကထက် ပို၍ သနားကရုဏာသက်မိတော့သည်။ ၁၇၈၇ ခုနှစ်တွင် ကဗျာစာအုပ်ထုတ်ဝေရာမှ ရရှိသော အမြတ်ကလေးဖြင့် အဲလစ်လင် အနပ်တွင် လယ်တကွက်ဝယ်၍ အလုပ်လုပ်သည်။ ၁၇၈၈ ခုနှစ်တွင် ဗန်းသည် သူ၏ အချစ်ဟောင်းဖြစ်သည့် ဂျင်း အားမားအမည်ရှိ အမျိုးသမီးနှင့် လက်ထပ်လိုက်၏။ လက်ထပ်ပြီးနောက် မကြာမီပင် ယစ်မျိုး အင်စပက်တော် အလုပ်ကို ရရှိလေသည်။ မူလကပင် အရက်ကို စွဲလာခဲ့သော ဗန်းသည် ထိုအလုပ်ကို ရသည့်နေ့ကစ၍ အရက်နှင့် ပြတ်သည်ဟူ၍ မရှိတော့ချေ။ သူ၏ ကျန်းမာရေးသည်လည်း ချွတ်ယွင်းလာ၏။ ၁၇၉၃ ခုနှစ်တွင် သူ၏ ကဗျာများကို နောက်ဆုံး ပုံနှိပ်ထုတ်ဝေခဲ့လေသည်။ ၁၇၉၆ ခုနှစ်၌ အပြင်းအထန်ဖျားပြီးလျှင် ထိုနှစ် ဇူလိုင်လ ၂၁ ရက်နေ့တွင် အသက် ၃၇ နှစ် အရွယ်ကောင်းတုန်း အချိန်မှာပင် ဒမ်းဖရီးမြို့၌ ကွယ်လွန် အနိစ္စရောက်လေသည်။

ရောဗတ်ဗန်းသည် လူတယောက်အဖြစ်နှင့် ချွတ်ယွင်းချက်များ ရှိမည်မှန်သော်လည်း စာဆိုတော်တဦး အဖြစ်နှင့်ကား လူတိုင်းကပင် လေးစားရပေသည်။ သူ၏ ကဗျာများထဲတွင် စကော့တလန်ပြည်၏ မြေ၊ ရေ၊ လေနှင့် ဇာတိသွေး ဇာတိမာန်တို့ကို အများဆုံး တွေ့ရပေမည်။ သူ၏ မျိုးချစ်စိတ်၊ ချုပ်တီးမှုကို ရွံရှာ မုန်းတီးသောစိတ်နှင့် လွတ်လပ်မှု လိုလားသော စိတ်တို့သည် သူ၏ ကဗျာများ၌ တဖွားဖွားပေါ်လွင်လျက် ရှိပေသည်။ ဗန်း၏ အကောင်းဆုံး ကဗျာများမှာ စကော့တလန် ဒေသန္တရ ဘာသာစကားဖြင့် ရေးသားခဲ့သော ကဗျာစုပင် ဖြစ်သည်။ ဗန်း၏ ကဗျာများသည် သီဆိုတီးမှုတ်၍ရသော သီချင်းများ ဖြစ်ရာ၊ အင်္ဂလိပ်စာပေ သမိုင်းတွင် ဗန်းသည် အကောင်းဆုံး သီချင်းရေးဆရာ တဦးအဖြစ်ဖြင့်လည်း ထင်ရှားစွာ ရပ်တည်လျက် ရှိလေသည်။

**ဗန်းမော်ခရိုင်။** ။ဗန်းမော် ခရိုင်သည် ကချင်ပြည်နယ်တွင် ပါဝင်လျက်၊အကျယ်အဝန်းမှာ ၄,၁၄၆ စတုရန်းမိုင် ဖြစ်သည်။ အင်္ဂလိပ်များ အုပ်စိုးစဉ်က နယ်ခြားခရိုင်တခုအဖြစ် အသိအမှတ်ပြု၍ အုပ်ချုပ်ခဲ့သည်။ ခရိုင်၏ နယ်နိမိတ်မှာ အရှေ့ဖက်တွင် စိန်းလုံ တောင်တန်း အပါအဝင် ကချင်တောင်တန်းများက တရုပ်နိုင်ငံနှင့် ခြားထားလျက်ရှိ၍၊ အနောက်ဖက်တွင် မြန်မာပြည်မကြီး အပါအဝင်ဖြစ်သော ကသာခရိုင်နှင့် စပ်လျက် တည်ရှိသည်။ တောင်ဖက်တွင် ရှမ်းပြည် မြောက်ပိုင်းဒေသနှင့် နယ်နိမိတ်ချင်း ရှည်လျားစွာ စပ်လျက်ရှိ၍၊ မြောက်ဖက်တွင် ကချင်ပြည်နယ် အပါအဝင် မြစ်ကြီးနား ခရိုင်နှင့် နန်းဆန်ချောင်းအားဖြင့် ပိုင်းခြားလျက် ရှိသည်။

ဗန်းမော်ခရိုင် အပါအဝင် စိန်းလုံတောင်တန်းသည် ပင်လယ်ပြင်မှ ပေ ၆,၀၀၀ ကျော်မြင့်လျက်၊ ခရိုင်တခုလုံး၌ အမြင့်ဆုံး တောင်ထိပ်မှာ နရူဘုံတောင်ထွတ် ဖြစ်သည်။ ယင်း တောင်ထွတ်သည် ပင်လယ်ပြင်မှ ပေ ဂ,၀၀၀ ကျော်အမြင့်၌ ရှိလျက်၊ ဗန်းမော်ခရိုင် တခုလုံးသို့၎င်း၊ တရုပ်နိုင်ငံဖက်သို့၎င်း စီး၍ မြင်နိုင်လေသည်။ ဘုံဟူသည်မှာ ကချင်ဘာသာစကားဖြစ်၍ တောင်ဟု အဓိပ္ပါယ်ရှိပေရာ၊ နရူခေါ် အပင်များ ပေါက်ရောက်ရာ တောင်ဟု အဓိပ္ပါယ်ရလေသည်။

ရောဝတီမြစ်သည် ခရိုင်အတွင်း မိုင် ၁၀၀ ခန့် ဖြတ်သန်းစီးဆင်းရာ၊ ခရိုင်၏ ကျောရိုးသဖွယ်ဖြစ်၍ အရေးပါလှ

သည်။ ယင်းသည် မြစ်ကြီးနား ခရိုင်ကို ဖြတ်၍ ဗန်းမော်မြို့အထိ မြောက်မှတောင်သို့ အစဉ်အတိုင်း စီးဆင်းလာပြီးနောက်၊ အနောက်သို့ ကွေ့ဝိုက်ကာ ရွှေဂူမြို့နားမှ ဖြတ်လျက် ကသာမှတဆင့် တောင်ဖက် မြစ်ဝကျွန်းပေါ် ဒေသသို့စီးဆင်းလေသည်။ မြစ်၏ ဝဲယာတို့၌ မြေပြန့်ဒေသများရှိ၍၊ အချို့နေရာများတွင် တောင်တန်း တောင်စွယ်များဝန်းရံနေရာ၊ ဗန်းမော် မြစ်ကြီးနားနယ်စပ်၌ ပဌမ မြစ်ကျဉ်း၊ ဗန်းမော်နှင့် ရွှေဂူကြားတွင် ဒုတိယ မြစ်ကျဉ်းအဖြစ် ပထဝီဝင်၌ ထင်ရှားလေသည်။ ဧရာဝတီမြစ်၏လက်တက်များအဖြစ် ချောင်းငယ် မြောင်းငယ်များ ဝဲယာမှ စီးဝင်ကြရာတွင် ထင်ရှားသော မြစ်ချောင်းတို့မှာတပိန်(တာပင်) မြစ်၊ မိုးလဲ (မိုးလယ်) ချောင်းတို့ ဖြစ်သည်။ တာပင် မိုးလဲ ဟူသော ဝေါဟာရများသည် ရှမ်းဘာသာစကားမှ ဆင်းသက်သော အမည်များ ဖြစ်လျက်တာပင်သည် တာပန်ဟုရင်း၊ မိုးလဲသည် မိန်းလိုင်းဟုရင်းအသီးအသီး အသံထွက်သည်။ မိန်းလိုင်းဟူရာ၌ မိန်း-သည်မြို့၊ လိုင်း - သည် နှင်းဟု အဓိပ္ပါယ်ရှိလျက်၊ နှင်းများဖြင့်ဝေဝိုင်းလျက်ရှိသောမြို့ဟု အဓိပ္ပါယ်ရလေသည်။ တာပန်ဟူရာ၌ တ-သည် ဆိပ်ကမ်း၊ ပန်-သည် လွင်ပြင်ဟု အဓိပ္ပါယ်ရှိလျက် လွင်ပြင်တို့ဖြင့် ပြန့်ဖြူးသော ဆိပ်ကမ်းဟု အဓိပ္ပါယ်ရပေသည်။

ခရိုင်အတွင်း၌ မိုးရာသီသည် ဇွန်လမှ စတင်၍၊ မိုးအများဆုံး လများမှာ ဇူလိုင်လနှင့် ဩဂုတ်လတို့ ဖြစ်သည်။ မိုးရာသီမှ အပဖြစ်သော လများတွင်လည်း အတော်အသင့်မိုးရွာ တတ်သည်။ မိုးရာသီ အခါတွင် မြစ်ကမ်းများ တလျှောက်ရှိ မြေနိမ့်ဒေသများစွာတို့သည် ရေမြုပ်နေတတ်သည်။ ဆောင်းအခါ အေးချမ်း၍၊ နွေအခါ အတော်အသင့်ပူသော်လည်း မိုးသက်လေပြင်းများ မကြာခဏ ကျရောက်တတ်၍ အပူရှိန် သက်သာသည်။ မိုးရွာသဖြင့်၎င်း၊ ဆီးနှင်းကျသဖြင့်၎င်း တနှစ်ပတ်လုံး ခရိုင်အတွင်း ခြောက်သွေ့သည် ဟူ၍ မရှိခဲ့ရာ၊ အထူးသဖြင့် မိုးရာသီအခါတွင် ငှက်ဖျားရောဂါ ဖြစ်ပွားလေ့ ရှိလေသည်။

တောင်ပေါ်၌ နေထိုင်ကြသူများသည် တောင်ယာ လုပ်ခြင်း၊ တောင်ကမ်းပါးများကို လှေကားထစ်သဖွယ် ပြုလုပ်၍ လယ်ယာ စိုက်ပျိုးခြင်းတို့ဖြင့် အသက်မွေးကြလျက်မြစ်ဝှမ်းတလျှောက် မြေပြန့် လွင်ပြင်၌ နေထိုင်ကြသူများမှာ လယ်ယာ စိုက်ပျိုးခြင်း၊ မြေပဲ၊ ကြံ၊ ပြောင်း၊ ဆေးစသော သီးနှံများကို စိုက်ပျိုးခြင်း၊ ငါးဖမ်းခြင်း၊ မြေအိုးလုပ်ခြင်း၊ ရှမ်းပြည်သို့ ကားလမ်းဖြင့်၎င်း၊ ဧရာဝတီမြစ်ကြောင်း ကုန်တင်သင်္ဘောဖြင့်၎င်း ကုန်စည် ကူးသန်းရောင်းဝယ်ခြင်း စသည်များကို ပြုလုပ်ကြသည်။ အဓိကလုပ်ငန်းသည် လယ်ယာ စိုက်ပျိုးခြင်း ဖြစ်၏။ ခရိုင် စိုက်ပျိုးရေးဌာနနှင့် မြေကျေးရှင်း ဌာနတို့မှလည်း ပိုးစာပင်များကို စမ်းသပ် စိုက်ပျိုးလျက် ရှိပေသည်။ ဗန်းမော် နှင့်စိန်းလုံကားလမ်း၊ ဗန်းမော်နှင့် ရှမ်းပြည်မြောက်ပိုင်း နမ်းခမ်းသို့ ကားလမ်း၊ ဗန်းမော်နှင့် မြစ်ကြီးနား ကားလမ်းတို့သည် ခရိုင်၏ ကုန်စည်ကူးသန်းရောင်းဝယ်ရေးကို များစွာဖြစ်ထွန်းစေသည်။ ယခုအခါ ဗန်းမော်မြို့မှ မိုးကုတ်မြို့ကိုဖြတ်လျက် မန္တလေး၊ မတ္တရာတို့အထိ ကားလမ်းကြီးတခုကိုလည်း ဖောက်လုပ်ပြီးဖြစ်ပေသည်။

တွင်းထွက်သတ္တုဟူ၍ ဗန်းမော်ခရိုင်၌ ပြောပလောက်အောင် မရှိချေ။ မြစ်ဖျား ချောင်းဖျားများ၌ ရွှေကိုကျင်ယူကြသော်လည်း ခရိုင်၏ စီးပွားရေးကို အထောက်အကူဖြစ်လောက်အောင် မဖြစ်ထွန်းပေ။ ခရိုင်အတွင်း သစ်တောကြီးများ အများအပြားရှိရာ၊ ကျွန်း၊ အင်ကြင်း၊အင်၊ ကညင် စသော အဖိုးတန်သစ်များ ထွက်သည်။ သစ်လုပ်ငန်း ထွန်းကားသည်။

ဗန်းမော်ခရိုင်အတွင်း ထင်ရှားသော စေတီများမှာ ဗန်းမော်မြို့ရှိ ရွှေသိမ်တော်စေတီ၊ ဗန်းမော်အထက် တာပင်ချောင်းကမ်းပါးရှိ ရွှေကျီးနားစေတီ၊ ရွှေဂူတဖက်ကမ်း ဧရာဝတီမြစ်အတွင်း ကျွန်းတော်ရွာရှိ ရွှေပေါ်ကျွန်း စေတီတို့ဖြစ်ကြပေသည်။ ရွှေသိမ်တော်စေတီနှင့် ရွှေကျီးနားစေတီများမှာ ဒုတိယ ကမ္ဘာစစ်အတွင်းက မဟာမိတ်တို့ ဗုံးဒဏ်ကြောင့် ပြိုကျပျက်စီးခဲ့ရာ၊ ယခုအခါ ပြင်ဆင်မွမ်းမံပြီး ဖြစ်ပေသည်။

ဗန်းမော်ခရိုင်၏ လူဦးရေသည် ၁၉၅၆ ခုနှစ် သန်ကောင်စာရင်းအရ ၁၅၀,၉၆၅ ဖြစ်ပြီးလျှင် မြန်မာ၊ ရှမ်း၊ ကချင်၊ အင်္ဂလိပ်၊ လရှီ၊ မရူ၊ ယောယင်၊ ကရင်နှင့် တိုင်းရင်းသားမဟုတ်သော တရုပ်၊ ကုလား စသည်တို့ ပါဝင်နေထိုင်ကြသည်။

ဗန်းမော်ခရိုင်ကို ဗန်းမော်မြို့နယ်၊ ရွှေဂူမြို့နယ်၊ စိန်းလုံကဘား တောင်တန်းနယ်ဟူ၍ နယ် ၃ နယ် ခွဲ၍ အုပ်ချုပ်လေသည်။ ခရိုင်၏ ရုံးစိုက်မြို့မှာ ဗန်းမော်မြို့ ဖြစ်လေသည်။

၁၉၆၀–၆၁ ခု ပညာရေးနှစ် ကုန်ဆုံးသည်ထိ ခရိုင်တခုလုံး၌ မြို့နယ်အလိုက် အစိုးရ အထက်တန်းကျောင်း ၃ ကျောင်း၊ အလယ်တန်းကျောင်း ၇ ကျောင်း၊ မူလတန်းကျောင်း ၁၂၈ ကျောင်းအထိ ဖွင့်လှစ်ထားရှိပြီးဖြစ်သည်။

အချုပ် ဆိုရသော် ဗန်းမော်ခရိုင်သည် ထူထပ် စိမ်းစိုနေသော အဖိုးတန် သစ်တောများ၊ ညို့မှိုင်းမှုန်ပြာသောတောင်စဉ် တောင်တန်းများကို ပတ်ဝန်းကျင်ပြုသည့် သာယာသော ခရိုင်တခု ဖြစ်လေသည်။

**ဗန်းမော်ဆရာတော်** (မြန်မာ ၁၁၆၈ – ၁၂၃၉)။ ။ ဗန်းမော်ဆရာတော်သည် မင်းတုန်းမင်းတရားကြီးလက်ထက်တော်တွင် အလွန် ထင်ပေါ် ကျော်စောသော ဆရာတော်

တပါးဖြစ်သည်။ ဆရာတော်ကို ရွှေတောင်မြို့ ကွပ်ညှပ်စင် ရွာ၌ မြန်မာသက္ကရာဇ် ၁၁၉၇ ခုနှစ်တွင် ဖွားမြင်သည်။ ငယ်မည်မောင်ဖြူဝင်းဖြစ်၍၊ ရဟန်းဘွဲ့ ဦးပဏ္ဍိတဖြစ်သည်။ မင်းတုန်းမင်းတရားကြီးက ပဏ္ဍိတဝံသာဘိဓဇ မဟာဓမ္မရာဇာဓိရာဇာဂုရု ဘွဲ့တံဆိပ်တော် ဆက်ကပ် လှူဒါန်းခြင်းကို ခံရသော ဆရာတော်ကြီး ဖြစ်သည်။ သင်္ဂဇာဆရာတော်၊ ရွှေကျင် ဆရာတော်၊သက်ပန်းဆရာတော်စသည်တို့နှင့်တခေတ်တည်းဖြစ်သည်။ ဘိုးတော်မင်းတရား၏မိဖုရား ဝေဿလီမင်းသမီး ဗန်းမော်မြို့စား ဥပေါတရာ ဆောက်လုပ် လှူဒါန်းသော ဗန်းမော်ကျောင်းတိုက်တွင် သိတင်းသုံးသောကြောင့် ဗန်းမော် ဆရာတော်ဟု တွင်သည်။

ဗန်းမော် ဆရာတော်သည် သာမဏေ ဘဝကပင် စာစပ်ဝါသနာပါသည်နှင့်အမျှ ကဗျာဖွဲ့ဆိုမှု၌ နိုင်နင်းလှသည်။ တခါတွင် ဗန်းမော် ဆရာတော်လောင်း သာမဏေသည် ခေတ္တလူထွက်၍ အိမ်သို့ ပြန်ကာ သူငယ်ချင်း မိတ်ဆွေများနှင့် လည်ပတ်စဉ် ညောင်ပင်ကြီးတပင်အောက်၌ စုရုံးနေသော မိန်းမများအနက် မမင်းမိုန်ဆိုသူ မိန်းမ လေလည်လိုက်သည်ကို ကြားသဖြင့် ရုတ်ခြည်း အောက်ပါအတိုင်း စာချိုးလိုက်လေသည်။

'ရွှေညောင်ပင်သာသည့်ကုန်း၊စုရုံး၍နေကြရာ။ ။ မမင်းမိုန် အပျိုကြီးရယ်၊ အီးညှစ်လို့ပါ....။

ယင်းသို့ ချိုးလိုက်စဉ် မမင်းမိုန်၏မောင် ငစွန်က ဒေါသထွက်၍ ဆဲရေးလိုက်သဖြင့် ဆက်၍ အောက်ပါအတိုင်း စပ်ဆိုပြန်သည်။

'မလိမ်မာ ဗာလနာမိုက်ခဲ။ ။သူ့အမ စအို့တွန်လို့၊ မောင်ငစွန် မျက်မာန်ရှတယ်၊ ဒေါသနဲ့ဆဲ။

ဗန်းမော် ဆရာတော်သည် ကဗျာဉာဏ် ရှင်သန်သူဖြစ်သည့်အလျောက် တနေ့တွင် ပဥ္စင်းဘဝနှင့် မိမိဖွားရာဇာတိရွှေတောင်မြို့မှ အလုံမြို့သို့ အလည် ကြွသွားစဉ် ခရီးအကြားရှိ ကြမ်းပြေဟုသည့် ရွာသို့ ရောက်လျှင် ရွာထဲမှကျောင်း၌ ဝင်၍ တည်းခိုလေသည်။ ကျောင်းထိုင်ဘုန်းကြီးက ဦးပဥ္စင်း ဦးပဏ္ဍိတ၏ ကဗျာဉာဏ်ကို စမ်းလိုသဖြင့် ကြမ်းပြေရွာအကြောင်း၊ ဘုန်းတော်ကြီး အမြဲစားနေသော ကွမ်းအစ်နီကြီးအကြောင်း၊ ဘုန်းကြီးတူအရင်း သာပေါ် အကြောင်း၊ ဘုန်းကြီး အစားအသောက် မဆင်ခြင်သဖြင့် ငှက်ဖျားရောဂါ စွဲကပ်နေသည့် အကြောင်းတို့ အစုံပါသည့် ကဗျာတပုဒ် စပ်ခိုင်းရာ၊ မဆိုင်းမတွပင်လျှင် 'ကွမ်းအစ်ကြီးနီတာရဲနှင့်၊ကြမ်းပြေမှာ သူပျော်၊သာပေါ် တို့ တူဝရီး။ ။ထိုးကွင်းမင်ကြောင်းနှင့်၊ တွေ့မရှောင် အလွန်စားတယ်၊ ဖျားတဲ့ ခင်ကြီး။' ဟု စပ်ဆိုလိုက်လေသည်။ ကြမ်းပြေဘုန်းတော်ကြီးသည် လွန်စွာ သဘောတွေ့သွားရကား မိမိကျောင်း၌ပင် သိတင်းသုံးပါရန် ပင့်ဖိတ်လေသည်။ သို့ရာတွင် ဗန်းမော်

ဆရာတော်လောင်းသည် လက်မခံချေ။ ဆရာတော်သည် ကဗျာစီကုံးမှု၌ နိုင်နင်းကြောင်းကို သီလရှင် မယ်ကင်း၏ သံဝေဂ တေးထပ်ကို အရွဲ့တိုက်၍ ဖျက်ဆီးရေးသားသည့် တေးထပ်အရ ပိုမိုသိနိုင်သည်။ ယင်းသို့ ကဗျာလင်္ကာ ဖွဲ့ဆိုမှု၌ ကျွမ်းကျင် နိုင်နင်းသည်ဖြစ်၍၊ ကဗျာ စာဆိုကျော်ဦးပုညပင်လျှင် ဆရာတော်ထံ ဝင်ရောက် နည်းယူ၍ ကျောက်ထီးတဆူကဲ့သို့ မှီခိုအားထားခဲ့ရပေသည်။

ဗန်းမော် ဆရာတော်သည် သာသနာရေး တိုင်းရေးပြည်ရေးတို့တွင် အမှမဲ့ အမှတ်မဲ့ နေလေ့မရှိဘဲ တပါးသူတို့၏ ကောင်းကျိုး ဆိုးပြစ်များကို အမြဲဆင်ခြင်သုံးသပ် လေ့ရှိသည်။ လွှတ်တော်ဝန်ကြီးများ ဖြစ်သော ပုခန်းမြို့စား ဝန်ရှင်တော်မင်းကြီးသည် လေနာ စွဲကပ်နေသောကြောင့် အမှုအခင်းများကို ကောင်းစွာ မဆုံးဖြတ်နိုင်၊ လောင်းရှည်မြို့စား ဝန်ရှင်တော်မင်းကြီးမှာကား မြင်ကွန်း မြင်းခုန်တိုင်အရေးတွင် စားဒဏ်ရာ ရရှိ၍ ချိနဲ့နေသဖြင့် အမှုကိစ္စများကို ကောင်းစွာ မဆောင်ရွက်နိုင်၊ ခန်းပတ်မြို့စားဝန်ရှင်တော်မင်းကြီးကလည်း နားထိုင်းနေ၍၊ ရေနံချောင်းမြို့စား မင်းကြီး တပါးသာလျှင် သန်စွမ်းသည် ဖြစ်သောကြောင့်၊ အုပ်ချုပ်ရေး လစ်ဟင်းသည်ကို မြင်သဖြင့် 'ပုခန်းမှာလေ၊ လောင်းရှည်မှာခေး၊ ခန်းပတ်မှာနား။ ။ရေနံတတိုင်ချင်းရယ်နှင့် လင်းပါ့မလား။' ဟု ကဗျာချိုးကာ နန်းတော်ထဲ၌ချထား၍ ဘုရင် မင်းတရားအား သတိ ပေးခဲ့ဘူးသည်။ ထိုကြောင့်ပင် ဗန်းမော် ဆရာတော်သည် ပစ်စာ အရေးအသားတွင် ထိပ်တန်းစွဲသော ဆရာတော်ဟု အပြော ခံခဲ့ရရှာသည်။ မိမိစိတ်နှင့် အခန့်မသင့်လျှင် မည်သူ့ကိုမျှ အားမနာဘဲ စိတ်လိုက်မာန်ပါ ပြောဆိုတတ်သော ဆရာတော်ဖြစ်သည်။ သာမည ပုဂ္ဂိုလ်ကို မဆိုထားဘိ၊ မင်းတုန်းဘုရင် မင်းမြတ်ကိုသော်မှ စာအမျိုးမျိုး ရေးချိုးလေ့ ရှိသည်။ သုဓမ္မာ ဆရာတော်ကြီးများကိုပင် မလွှတ်တမ်း ဝေဖန်၍ စာချိုးခဲ့ဘူးသည်။ 'မောင်သက်ပန်းက သန်းဝေဝေ၊ မောင်လှထွေမှာ စာပေနတ္ထိ။ မောင်စလင်းမှာတော့ ပျင်းလွန်းလို့ စာမကြည့်။ မင်းနန်မှာ လူနှင့်နွေ့ာတယ် သောသောညံ၏။ မဏ္ဍလာ၊ မှုချင်းရာ မစုံစမ်းခင်က၊ ငေါက်ငမ်းပါဘိ။' ဟူ၍ သုဓမ္မာ အစည်းအဝေးတွင် အမြဲပင် သန်းဝေနေတတ်သော သက်ပန်း ဆရာတော်၊ စာပေ မတတ်ကျွမ်းလှသော လှထွေ ဆရာတော်၊ ကျမ်းဂန်တတ်လွန်းသဖြင့် စာကြည့် အလွန်ပျင်း၍ မူရင်းကို ပြန်မကြည့်ဘဲ နှုတ်လွှတ်ဆိုတတ်သော စလင်းဆရာတော်၊ အပြောအဟောကောင်းသဖြင့် ပရိသတ်နှင့် တသောသောနေသော နန္ဒာဘိဇ ဘွဲ့တော်ရ ပုခန်း ဆရာတော်၊ အမှုအခင်းများကို မစုံစမ်း မမေးမြန်းမီကပင် ငေါက်ငမ်းတတ်သော မဏ္ဍလာရာမတိုက် ပြည်ဆရာတော် တို့ အကြောင်းကို ဖွဲ့ဆိုခဲ့လေသည်။

ယင်းသို့ မိမိမှန်သည့် ထင်လျှင် ဆိတ်ဆိတ်မနေတတ်ဘဲ ပြောရ ရေးရမှ ကျေနပ်လေ့ရှိသော ဝါသနာကြောင့် ဆရာတော်သည် ဒုက္ခ အကြီးအကျယ် တွေ့ခဲ့ရလေသည်။ တနေ့သော် မင်းတုန်းမင်းကြီးသည် ပိဋကတ်သုံးပုံနှင့် ဝိနိစ္ဆယ တို့၌ အထူး ကျွမ်းကျင်သော ရှမ်းကလေးကျွန်း ဆရာတော် ဦးနန္ဒအား ရဟန်း သာမဏေများ ဝိနည်းတော်နှင့်အညီ ကျင့်ကြံ အားထုတ်ကြစေရန် ရည်သန်၍ အမိန့်တော် ပြန်တမ်းတစောင် ရေးသားပါရန် လျှောက်ထားသဖြင့် ရေးသား ဆက်သွင်းသည်။ ယင်းပြန်တမ်းကို သုမေဓာ အဖွဲ့ဝင် ဆရာတော်များ လက်ခံအတည်ပြုပြီးနောက် နိုင်ငံတော် တဝှန်းလုံး ပျံ့နှံ့အောင် ထုတ်ပြန် ဆင့်ဆိုတော်မူသည်။ ဗန်းမော် ဆရာတော်သည် ယင်းပြန်တမ်းကို သဘောနှင့် ညီညွတ်ခြင်း မရှိသဖြင့် 'ပြန်တမ်းသိမ်း အမူငြိမ်း ဝိနိစ္ဆယ ဩဝါဒ' စာတစောင်ကို ရေးသားကာ၊ မြို့နန်းအတွင်းရှိ အတွင်းဝန် ဦးချိန်အိမ်အတွင်း၌ တိတ်တဆိတ် ပစ်ချထားလေသည်။ ထိုနောက် ကဗျာ ၂ ပုဒ် ချိုး၍ ရှမ်းကလေးကျွန်း ဆရာတော် ကျောင်းဝင်းအတွင်းသို့ တိတ်တဆိတ် သွားရောက် ချထားပြန်သည်။ ယင်းသို့သော အပြုအမူကြောင့် အမိန့်တော် ပြန်တမ်းကို ရေးသော ဆရာတော်အားသာမက ပြန်တမ်းကို ထောက်ခံကြသော သုမေဓာ အဖွဲ့ဝင် ဆရာတော်များနှင့် ပြန်တမ်းကို ထုတ်ခွင့်ပြုသော ဘုရင်ကိုပါ ထိပါးနေလေသည်။ သာသနာပိုင် ဆရာတော်က ဗန်းမော် ဆရာတော်အား ပင့်ခေါ် စစ်ဆေးသော်လည်း ကောင်းစွာ မဖြေဘဲနေသဖြင့် ဗန်းမော်မြို့သို့ ပြောင်းရွှေ့ သိတင်းသုံးရန် မင်းတုန်းမင်းကြီးကိုယ်တိုင် အမိန့် ချမှတ်ကာ မင်းဒဏ်ပေးလိုက်ရသည်။ ကာလ အတန်ကြာမှ မိဖုရားခေါင်ကြီး၏ လျှောက်ထားမှုကြောင့် ဆရာတော်အား ဗန်းမော်မြို့မှ သွားရောက် ပင့်ခေါ်သည်။ သို့ရာတွင် မန္တလေးမြို့သို့ကား စိတ်နာသဖြင့် မပြန်ဘဲ မင်းကွန်းဖက်တွင် သိတင်းသုံးနေသည်။ မင်းတရားကြီး၏ မကောင်း သတင်းကို အမြဲပြောနေသဖြင့် မပြောရန် လျှောက်ထားကြရသည်။ သို့ရာတွင် အရွဲ့တိုက်၍သာ နေလေသည်။ ထို့ကြောင့်ပင် သာသနာပိုင် ဆရာတော်ဘုရားကြီးက ဗန်းမော် ဆရာတော်သည် ပရစ်နှင့် တူသည်၊ ရှင်စဉ်လည်း မျက်လုံး ပြူးပြူး၊ သေသော အခါလည်း မျက်လုံးပြူးပြူး၊ ဗန်းမော် ဆရာတော်လည်း ဗန်းမော်မြို့သို့ မပို့မီလည်း မျက်နှာမညိုး၊ ပို့ပြီးလည်း မျက်နှာမညိုးဟု မိန့်တော်မူသည် ဆိုသည်။

ဗန်းမော် ဆရာတော်သည် အမူအကျင့် အသွားအလာ အပြောအဆို အနေအထိုင် အရေးအသားတို့၌ ဣန္ဒြေကို မစောင့်စည်း၊ ကြမ်းတမ်းသည်။ အထူးသဖြင့် ဂါမဒေါသ စွန်းငြိသော စကားနှင့် စာများကို ပြောဆို ရေးသားမှုတွင် လွန်စွာ ခင်မင်စွဲလမ်းနှစ်သက်သည် ဟူသော ဆိုးသတင်းများဖြင့်သာ ထင်ရှားခဲ့၍ ဆရာတော်၏ ကောင်းသတင်းများကား မပေါ်လွင်လှချေ။ ဗန်းမော် ဆရာတော်ကား တရားရေအေး တိုက်ကျွေးပြီးလျှင် အဆုံးအမ ဩဝါဒ ပြုရန် မင်းတုန်းမင်းကြီး ကိုယ်တိုင် ပင့်ဖိတ်ရသော ဆရာတော်ကြီး ဖြစ်သည်။ အမှန်အားဖြင့် ဆရာတော်သည် ကြမ်းသည်ဟု ဆိုရမည်ထက် ထက်သည်ဟုဆိုလျှင် ပို၍ သင့်လျော်ပေမည်။ ပိဋကတ် သုံးပုံနှင့်တကွ ကျမ်းဂန် အရပ်ရပ်တို့တွင်လည်း အထူးပင် နှံ့စပ် ကျွမ်းကျင်တော်မူသည်။ ဝိနည်းဖက်တွင် မယှဉ်သာအောင် ကျွမ်းကျင်သည် ဟုလည်းဆိုသည်။ ဝိနည်းဖက်တွင် ပြိုင်ဖက် ကင်းသော သာသနာပိုင် ဗားကရာ ဆရာတော်၏ အထံတွင် ဆရာတော် ဘုရားကြီး စီရင် ဆုံးဖြတ်ခဲ့သော တရားစီရင်ထုံး မှန်သမျှကို ရေးမှတ်ရသော ဖြတ်ထုံးရေး ရဟန်းဖြစ်ခဲ့ဘူးသည်။ ထိုမျှသာမက ဗားကရာ ဆရာတော်၏ စာဆိုရဟန်းလည်း ဖြစ်သည်။ ဆရာတော် စာချစဉ် ဆရာတော် မိန့်သမျှကို အနီးမှနေ၍ တလုံးချင်း လိုက်၍ ဆိုရသောရဟန်း ဖြစ်သည်။ သာမည ဉာဏ်ရည်ဖြင့် ရဟန်းစာဆို မဖြစ်နိုင်ချေ။ ယင်းသို့ သာသနာပိုင် ဆရာတော်၏ ဖြတ်ထုံးရေးနှင့် စာဆိုရဟန်းဖြစ်ခဲ့ရ၍လည်း အမျိုးမျိုးသော ဗဟုသုတများကို ဆည်းပူး ရရှိလိုက်သောကြောင့် ပညာဓာန် တက်ဟန်တူသည်။ ဗန်းမော် ဆရာတော်၏ တပည့်ဖြစ်ခဲ့ဘူးသော အုတ်ဖို ဆရာတော်က ဗန်းမော် ဆရာတော်သည် သဒ္ဒါကို ထွန်းထွန်းပေါက်ပေါက် မတတ်မြောက်သော်လည်း ဝါကျ အဓိပ္ပါယ် ရှင်းလင်းပြသ ဝိနိစ္ဆယပြုရာ၌ သဒ္ဒါကို ထွန်းထွန်းပေါက်ပေါက် တတ်မြောက်သူများနှင့် မခြား အလွန် ဖြောင့်မှန်သည်ဟု ချီးကျူးမိန့်တော်မူလေသည်။

ဗန်းမော် ဆရာတော်သည် ရူပလက္ခဏာနှင့် သဒ္ဒလက္ခဏာ လွန်စွာ ကောင်းမြတ်သည်။ ရုပ်သဏ္ဍာန် လွန်စွာ ကြံ့ခိုင်ခန့်ညားဍ၍ အသံတော်မှာလည်း နက်ကျယ် ပြတ်သားလှကြောင်းဖြင့် ဆိုကြသည်။ ဆရာတော်၏ ရုပ်လက္ခဏာနှင့် အသံတော်ကို မြင်ရကြားရသူတိုင်း ဆရာတော်အား ရိုသေလေးစားလာရသည်ချည်း ဖြစ်သည်ဟု အဆိုရှိသည်။ ထိုခေတ်တွင် ရုပ်ရော အသံပါ ထူးကဲကောင်းမွန်သူ ပုဂ္ဂိုလ်ထူး နှစ်ပါးသာ ပေါ်ခဲ့ရာ၊ ယင်းတို့မှာ မင်းတုန်းမင်းနှင့် ဗန်းမော်ဆရာတော်တို့ ဖြစ်ကြောင်း သိရသည်။

ဗန်းမော် ဆရာတော်သည် ရုပ်လက္ခဏာ ခန့်ညားသည်နှင့် အမျှ ဆွမ်းဘောဇဉ်များကို သာမန် ရဟန်းတော်တို့ထက် ပိုမို ဘုဉ်းပေးတော်မူနိုင်သည်။ ဆန်ဖြူဖြူတခွက်ချက်၊ စာကလေး တပိသာ၊ ဝက်သားတပိသာ၊ အမဲသားတပိသာ၊ ဟင်းချိုဇလုံကြီး ၃ ဇလုံ၊ မုံ့ဆီကြော် ၃ ယှက်၊ နံ့သာပု

ငှက်ပျော ၆ ဖီး၊ မန်ကျည်းဖျော်ရည် ၃ ပိသာတို့ကိုတထိုင်တည်း ကုန်အောင် ဘုဉ်းပေးနိုင်တော်မူကြောင်းဖြင့် ဆိုကြသည်။

ဗန်းမော် ဆရာတော်သည် ဗန်းမော်မှ ပြန်လာပြီးနောက် မန္တလေးမြို့သို့ ကြွတော်မမူဘဲ မင်းကွန်းအနီး ဗန်းမော်ချောင်တွင် သီတင်းသုံးနေသည်။ သိမ်သမုတ်စဉ် လိုက်နာအပ်သော နည်းအဝဝတို့ကို ယင်းချောင်၌ ကျောက်ထက်အက္ခရာထိုး၍ထားရာ၊ ယခုတိုင် သိမ်သမုတ်သူတို့ အရေးတယူ မှီငြမ်းပြု၍ နေကြရလေသည်။ ဗန်းမော်ဆရာတော်သည် သက်တော် ၇၁ နှစ် ၁၂၃၉ ခုနှစ် ဝါဆိုလတွင် စစ်ကိုင်းဖက် ခိုတောင်တောရ၌ ပျံလွန်တော်မူသည်။

ဆရာတော်ပြုစုခဲ့သော ကျမ်းများမှာ—၁၊ ကထိန ဝိသောဓနီကျမ်း။ ၂၊ ဝိနယဓရဗဟုသုတ ဝိနိစ္ဆယ။ ၃၊ ဝိဝတ္တာဘောဒနီကျမ်း။ ၄၊ သိမဘေဒဝိဘာဝနီကျမ်း၊ ၅၊ အသုဘဒဿနဝိနိစ္ဆယ။ ၆၊ ဥပုသ်အဆုံးအဖြတ်တို့ဖြစ်သည်။

**ဗန်းမော်မြို့။** ။ဗန်းမော်၏ မူလ အမည်ရင်းမှာ မံမော်ဟူ၍ ဖြစ်ကြောင်း၊ မံမော်ဟူသည်မှာ ရှမ်းဘာသာစကားဖြစ်၍ မံ၊ သည် ရွာဟု အဓိပ္ပါယ်ရလျက်၊ မော်၊ သည် အိုးဟု အဓိပ္ပါယ်ရကြောင်း၊ ထိုကြောင့် မံမော်ဟူသည် အိုးလုပ်သောရွာဟု အဓိပ္ပါယ်ရှိကြောင်း သူဟောင်းတို့စကားစဉ်အရ သိရသည်။ ထိုစကားကို အထောက်အကူပြုနေသည်မှာ ဗန်းမော် ပတ်ဝန်းကျင်မှ ကျေးရွာများ၏ အမည်ပင် ဖြစ်သည်။ ဗန်းမော် ပတ်ဝန်းကျင်ရှိ ရွာများ၏ အမည်များမှာ မံနောင်၊ မံဖာ၊ မံသာ၊ မံဝိန်း၊ မံနားစသည်ဖြင့် မံဟူသော အသံနှင့် အစချီသည်က များလျက်၊ မံဟူသည်မှာ ရှမ်းဘာသာအရ ရွာဟု အဓိပ္ပါယ်သက်ရောက်ပြီးလျှင်၊ နောက်ဆက်ပါလာသော နောင်၊ ဖာ၊ သာ၊ ဝိန်း၊ နားစသော အသံထွက် စကားလုံးများ၏ အဓိပ္ပါယ်များနှင့် ပေါင်းစပ်၍ ရှမ်းဘာသာအရ ကိုယ်ပိုင် အဓိပ္ပါယ်အသီးအသီး ရှိကြပေသည်။ မံဟူသော စကားလုံး မပါသည့် ရွာများ၏ အမည်များမှာလည်း ရာနှုန်းပြည့် ရှမ်းဘာသာမှ ဆင်းသက်သည်ကို တွေ့ရလေသည်။ ပုံပမာ မိုးမောက်ရွာဟူရာ၌ မိန်းမောက်ဟူသော ရှမ်းစကားမှ ဆင်းသက်၍ မိန်းသည် မြို့၊ မောက်သည် ပန်း၊ အဓိပ္ပါယ်မှာ ပန်းမြို့ဟုငင်း၊ မြို့သစ်ရွာ၏ မူရင်း ရှမ်းအခေါ်မှာ မိန်းမိုင်ဟုဖြစ်လျက် မိန်းသည် မြို့၊ မိုင်သည် အသစ်၊ ထိုကြောင့် မြို့သစ်ဟုငင်း၊ နားလုံရွာ၏ မူရင်း ရှမ်းအခေါ်မှာ လားလုံ၊ လားသည် လယ်၊ လုံသည် အကြီး၊ ကြီးကဲသည်၊ ထိုကြောင့် လယ်ကြီးရွာဟုငင်း ရှမ်းဘာသာမှ ဆင်းသက်သော အဓိပ္ပါယ်များ ရှိကြလေသည်။ ဗန်းမော်မြို့ အနောက် ဧရာဝတီမြစ် တဖက်ကမ်းတွင် သမိုင်း၌ ထင်ရှားသော ဆောင်း



ဗန်းမော်မြို့ရှိ ပြည်သူ့လုပ်ငန်းဌာန အဆောက်အအုံမှာ ဗန်းမော်ခရိုင်တွင် ခေတ်မှီလှပဆုံးသော အဆောက်အအုံတခု ဖြစ်သည်။

## ဗန်းမော်မြို့



ဗန်းမော်မြို့တွင် ထင်ရှားသော သိမ်တော်ကြီးဘုရား (ရွှေသိမ်တော်စေတီ)

ချမ်းအရပ် ရှိလေသည်။ ယခုကား ရွာကောဖြစ်၍နေချေပြီ။

ဗန်းမော်မြို့သည် ဧရာဝတီမြစ်၏ အရှေ့ဖက် ကမ်းပါးမြင့်ပေါ်တွင် တည်ရှိသည်။ မြစ်ကမ်းတလျှောက် အိမ်များ တန်းလျက်ဆောက်ထား၍၊ အလျား ၄ မိုင်ခန့် ရှည်သော မြို့ဖြစ်သည်။ မြို့တွင်း၌ ချောက်ကြီးများ၊ ရှိုများ၊ မြောင်းများ၊ တောင်ကုန်းများရှိ၍၊ မြို့၏မျက်နှာပြင် ညီညာ ပြန့်ပြူးခြင်းမရှိချေ။ မိုးအခါ ရေကြီးလျှင် မြို့၏ တောင်ပိုင်းကို ရေလွှမ်းမိုးလေ့ ရှိသည်။

ဗန်းမော်မြို့သည် တရုပ်နယ်စပ်နှင့် ၅၃ မိုင်မျှသာ ဝေးသဖြင့် ရှေးအခါက တရုပ်နိုင်ငံနှင့် ကုန်သွယ်မှုအတွက် အရေးပါလှသော မြို့တမြို့ ဖြစ်ခဲ့သည်။ ရွှေလီမြစ်၊ တပိန်မြစ်တို့မှ ရေကြောင်းဖြင့်၎င်း၊ ကုန်းကြောင်းဖြင့်၎င်း ဆက်သွယ်နိုင်ခဲ့သည်။ ယခု ဗန်းမော်မြို့သည် ခရစ် ၁၇ ရာစုနှစ်တွင် တည်ထောင်သောမြို့ဖြစ်သည်။ ဗန်းမော် မြို့ဟောင်းသည် ရှမ်းမင်းဆက်တို့ စတင်ရာဟု ရှမ်းသမိုင်း အချို့၌ဆိုသော စံပေနဂိုရ် နေပြည်တော်ပျက်ပြီးနောက် ရှမ်းမင်းဆက်တို့၏ နေပြည်တော် ဖြစ်ခဲ့ဘူးသည်။ ဗန်းမော်မြို့ဟောင်းသည် တပိန်မြစ်၏ လက်ယာဖက်ကမ်းပေါ်၌ ရှိခဲ့၍ စံပေနဂိုရ် မြို့နေရာသည် ယခု ရွှေကျီးနားရွာ၏ နေရာဟု ဆိုကြသည်။ စံပေနဂိုရ် မင်းဆက်များ တန်ခိုး မှေးမှိန်လာသောအခါ၊ မိုးမိတ်စော်ဘွား အဆက်အနွယ်များက လာရောက် စိုးမိုးကြသည်။ ကုန်းဘောင်ဆက် မင်းများ လက်ထက်တွင် မြန်မာမြို့ဝန်တဦးကို စေလွှတ်၍ ဗန်းမော် စော်ဘွားနှင့် တွဲဖက် အုပ်ချုပ်စေသည်။ အင်းဝခေတ်၊ ကုန်းဘောင်ခေတ်များက ဗန်းမော်နှင့် ကောင်းတုံမြို့ နှစ်မြို့သည် တရုပ်-မြန်မာ ကုန်စည် ကူးသန်း ရောင်းဝယ်ရေးအတွက် အလွန် အရေးပါကြသည်။ နောင်အခါ ကောင်းတုံထက်ပင် ဗန်းမော်က တိုးတက် ခေတ်စားလာ၍၊ မြန်မာနိုင်ငံတွင် ရန်ကုန်နှင့် အင်းဝမှလွဲလျှင် အကြီးဆုံးမြို့တမြို့၊ အရောင်းအဝယ် အစည်ကားဆုံး မြို့တမြို့ဟု ၁၇၃၆ ခုနှစ်ခန့်က ကပ္ပတိန်ဟန်နေး ဆိုသူ နိုင်ငံခြားသားတဦးက မှတ်တမ်းတင်ခဲ့လေသည်။

သို့သော် မြန်မာနိုင်ငံကို ဗြိတိသျှတို့ မသိမ်းပိုက်မီနှင့် သိမ်းပိုက်ပြီးစ ကာလတွင် အခြေအနေများ ရှုပ်ထွေး၍၊ မြို့၏ အခြေအနေ ဆုတ်ယုတ်လာသည်။ ထိုနောက်တွင် ကချင်များ ဝင်ရောက် တိုက်ခိုက် ဖျက်ဆီးမှုကြောင့် ပို၍ မြို့အခြေအနေ ပျက်ပြားသွားသည်။ ဗြိတိသျှ လက်ထက်တွင် ခရိုင် ရုံးစိုက်မြို့ကြီး ပြုလုပ်၍ ပြန်လည် စည်ကားဖွံ့ဖြိုးအောင်ပြုသော်လည်း တခေတ်က ကောင်းစားခဲ့သည့် အခြေအနေမျိုးသို့ ပြန်မရောက်နိုင်တော့ပေ။

သို့တိုင်အောင် ၁၉၃၈ ခုနှစ်တွင် တရုပ်-မြန်မာ လမ်းမ

ကြီး မဖောက်မီက ဗန်းမော်နှင့် တရုပ်နယ်စပ် ကုန်းကြောင်း ကုန်သွယ်မှုကို ပြုကြသေးသည်။ မြန်မာနိုင်ငံထွက် ထန်းလျက်၊ ဝါဂွမ်း၊ ကျောက်စိမ်း၊ ပယင်း စသည်တို့နှင့် တရုပ်နိုင်ငံမှ တရုပ်ပိုးထည်၊ သစ်ကြားသီး စသော တရုပ်သုံး ပစ္စည်းများကို အပြန်အလှန် ရောင်းဝယ် တင်ပို့ခြင်း ပြုကြသည်။ များသောအားဖြင့် တရုပ် ကုန်သည်ကြီးများ ကြီးစိုး လွှမ်းမိုးခဲ့သည်။ တရုပ်-မြန်မာ လမ်းမကြီး ဖောက်လုပ်ပြီးသည့်နောက်တွင်မူ ဗန်းမော် တရုပ်နယ်စပ် ကုန်ကူးမှု မရှိသလောက် ဖြစ်ခဲ့လေသည်။

ဗန်းမော်မြို့သည် ဗန်းမော်ခရိုင် အစိုးရဌာန အသီးအသီးတို့၏ ဗဟိုရုံးစိုက်ရာ မြို့ကြီးဖြစ်လျက်၊ မြန်မာနိုင်ငံ အောက်ပိုင်းမှ သင်္ဘောများ ဆန်တက်ရာ၊ နောက်ဆုံး သင်္ဘောဆိပ်မြို့ ဖြစ်လေသည်။ ဗန်းမော်မြို့မှ စိန်းလုံကဘား တောင်စခန်းမြို့ကို ဖြတ်လျက်၊ တရုပ်ပြည်နယ်စပ် လွယ်ဂျယ်သို့ရှင်း၊ ရှမ်းပြည် မြောက်ပိုင်း နမ်းခမ်း၊ မူဆယ်တို့မှ တဆင့် တရုပ်ပြည်သို့ရှင်း၊ ကွတ်ခိုင်၊ လာရှိုးတို့မှမန္တလေးမြို့သို့ရှင်း၊ တိုက်ရိုက်အားဖြင့် မိုးကုတ်၊ သပိတ်ကျင်းသို့ရှင်း၊ မြစ်ကြီးနားသို့ရှင်း မော်တော်ကားလမ်းများ ဖောက်လုပ်ပြီး ဖြစ်လေသည်။ ရန်ကုန်မှ မြစ်ကြီးနား၊ ပူတာအိုသွား လေယာဉ်ဆိပ်လည်း ဖြစ်သည်။

မြို့၏အကျယ်အဝန်းမှာ ၂,၃၉၉ ကေဖြစ်၏။ လူဦးရေမှာ ၁၉၅၃ ခုနှစ် ခန့်မှန်းခြေအရ ၉,၀၁၇ ယောက်ဖြစ်သည်။ ကျေးရွာများ အပါအဝင် မြို့နယ်တခုလုံး၏ ရေိယာမှာ ၆၀၀ စတုရန်းမိုင်ဖြစ်လျက်၊ မြို့နယ်တခုလုံး၏ လူဦးရေမှာ ၁၉၅၆ ခုနှစ် သန်းကောင်စာရင်းအရ ၅၃,၄၀၇ ယောက် ဖြစ်လေသည်။ တရုပ်နှင့် တရုပ်-မြန်မာ ကပြား လူဦးရေ အများဆုံးဖြစ်၍၊ တရုပ်တန်းသည် ယခင်က မြို့၏ အစည်ကားဆုံး ရပ်ကွက် ဖြစ်သည်။ ယခုမူ မင်းကုန်းရပ်ကွက်သည် အစည်ကားဆုံး ဖြစ်သည်။ ဗန်းမော်တွင် အခြား ရှမ်း၊ မြန်မာ၊ ရှမ်းတရုပ်နှင့် ကချင်များလည်းရှိလေသည်။ ခရိုင်မြို့ကြီးဖြစ်သည့်အားလျော်စွာ တရားရုံးတော်များအတွက် ဆောက်လုပ်ထားသည့် တရားရုံးကြီး၊ လမ်းဌာန ရုံး၊ သစ်တောရုံး၊ ရဲဌာန၊ ဆေးရုံကြီး၊ ဈေး၊ စာတိုက်၊ ကြေးနန်းရုံး၊ ညှော်ဂေဟာ၊ နိုင်ငံတော် သစ်ထုတ်ရေးဌာန၊ အကျဉ်းထောင်၊ ရုပ်ရှင်ရုံ စသည့် ခန့်ညား ထယ်ဝါသော အဆောက်အအုံကြီးများ များစွာရှိလျက် မြို့တွင်း၌ အစိုးရ အထက်တန်းကျောင်းကြီးအပြင် သာသနာပြု အထက်တန်းကျောင်း ၃ ကျောင်း၊ မူလတန်းကျောင်း ၃ ကျောင်း၊ အစိုးရ ရက်ကန်းကျောင်းတို့ဖြင့်လည်း စည်စည်ပင်ပင် ရှိလှလေသည်။ နိုင်ငံတော် အစိုးရ၏ စံပြသကြားစက်၊ လျှပ်စစ်ဓာတ်အားပေးရုံတို့အပြင် ကိုယ်ပိုင် ဆန်စက်များ၊ ဆီစက်များ၊ သစ်စက်များဖြင့်လည်း ခမ်းနားတင့်တယ်လေသည်။

မြို့အလယ်ရှိ ရွှေသိမ်တော် စေတီ၏ ဘုရားပွဲတော်ကို နှစ်စဉ် သတင်းကျွတ်လ၌ ကျင်းပရာ၊ ပွဲတော်ရက် ၁၀ ရက်တိုင်အောင် ကျင်းပရ၍ အလွန် စည်ကားလှလေသည်။

**ဗန်းမောက်မြို့။** ။ဗန်းမောက်မြို့သည် မြန်မာနိုင်ငံ အထက်ပိုင်း ကသာခရိုင် အတွင်းရှိ ဗန်းမောက်မြို့နယ်၏ ရုံးစိုက်မြို့ ဖြစ်သည်။ ဗန်းမောက်မြို့နယ်သည် ကသာခရိုင်၏ အနောက် တောင်ဖက်ပိုင်းတွင် ရှိသည်။ ဗန်းမောက်မြို့သည် မြို့နယ်၏ အရှေ့တောင်ထောင့်တွင် ရှိသည်။ ဗန်းမောက်မြို့နယ်၏ မြောက်ဖက်နှင့် အနောက်ဖက်တွင် အထက်ချင်းတွင်းနှင့် မြစ်ကြီးနားခရိုင်တို့ ရှိသည်။ အရှေ့ဖက်တွင် မဲဇာမြစ်ခြားလျက်၊ မော်လူးနှင့် မန်လည်ရွာ (ရှေးက မြို့နယ်များ ဖြစ်ခဲ့သည်) တို့ ရှိသည်။ တောင်ဖက်တွင် ဝန်းသိုနှင့် ပင်လယ်ဗူးမြို့နယ်တို့ ရှိသည်။ ဗန်းမောက်မြို့နယ်သည် ယခင်က ခရိုင်ခွဲတခုဖြစ်၍၊ ဗန်းမောက်မြို့နယ်နှင့် မန်စီမြို့နယ်တို့ ပါဝင်ခဲ့သည်။ သို့သော် မန်စီမြို့နယ်ကို ဗန်းမောက်မြို့နယ်နှင့် ပူးပေါင်းလိုက်လေသည်။

ဗန်းမောက်မြို့နယ်သည် တောတောင်ထူထပ်သည်။ မြို့နယ်၏ အရှေ့ဖက်ရှိ မင်းဝံတောင်သည် ပင်လယ်ရေပြင်မှ ပေ ၁,၅၀၀-၂,၀၀၀ ကျော်ခန့်မြင့်သည်။ ကျွန်းသစ်၊ အင်နှင့်အင်ကြင်းစသော သစ်ကောင်း ဝါးကောင်းများ ထွက်သည့် သစ်တောကြီးများ အများအပြားရှိသည်။ မြို့နယ်အတွင်းရှိ အဓိက မြစ်မှာ မဲဇာမြစ်ဖြစ်၍၊ မန်စီနှင့် မော်လူးရွာများ၏ မြောက်ဖက်ကျသော အရပ်တွင် မြစ်ဖျားခံသည်။ ထိုအရပ်မှ စီးဆင်းလာရာ၊ ထီးချိုင့်မြို့၏ အောက်ဖက် ၂ မိုင်ခန့်တွင် ဧရာဝတီမြစ်အတွင်းသို့ စီးဝင်လေသည်။

ဗန်းမောက်မြို့နယ်သည် ၁,၂၇၉ စတုရန်းမိုင် ကျယ်ဝန်း၍ မြို့နယ်၏ လူဦးရေသည် ၃၉,၉၈၁ ယောက် ဖြစ်သည်။ မြို့ပေါ်နှင့် မြို့နယ်အတွင်း နေထိုင်ကြသူများသည် မြန်မာ၊ ရှမ်း၊ ကချင်နှင့် ကဒူး စသော တိုင်းရင်းသား လူမျိုးများနှင့် နိုင်ငံခြားသား တရုပ်၊ ကုလားများ ဖြစ်သည်။ ဗုဒ္ဓအယူဝါဒီ များပြားသော်လည်း ခရစ်ယန် အယူဝါဒီများ၊ နတ်ကိုးကွယ်သူများလည်း ရှိသည်။

ရှေးမြန်မာမင်းများ လက်ထက်က ဗန်းမောက်မြို့နယ်တွင် ပြည်စိုး ဟူသော ရာထူးအမည်အရည်ဖြင့် ခေါ် ဝေါ် သူ တဦးသည် ပဌမဆုံး အုပ်ချုပ်ခဲ့သည်။ ထိုပြည်စိုးသည် ဝန်းသိုစော်ဘွား၏ လက်အောက်ခံဖြစ်သည်။ မြန်မာ သက္ကရာဇ် ၁၀၁၅ ခုနှစ် (ခရစ် ၁၇၂၃ ခုနှစ်) တွင် ဗန်းမောက်နယ် အုပ်ချုပ်သူအား ပြည်စိုး ရာထူးအစား ထမုန် ဟူသော ရာထူးအမည်အရည်ဖြင့် ခန့်အပ်သည်။ ဗန်းမောက်ကို အုပ်ချုပ်ရသောထမုန်သည် ကွမ်းဖိုးအဖြစ် ငွေ ပိသာချိန် ၁၀၅ ပိသာ ဆက်ရသည်။

ဗြိတိသျှတို့ မြန်မာနိုင်ငံကို သိမ်းပိုက်ပြီးနောက်တွင် ဝန်းသို စော်ဘွား ဦးအောင်မြတ်သည် ဗြိတိသျှတို့အား အညံ့မခံဘဲ ပုန်ကန်ခြားနားစဉ်က ဗန်းမောက်မြို့နယ် အတွင်းမှ အခိုင်အမာပြု၍ ခုခံခဲ့သည်။

မြို့နယ်အတွင်း အဓိက လုပ်ငန်းမှာ ဆန်စပါးနှင့် လက်ဖက်ပင် စိုက်ပျိုးခြင်းတို့ ဖြစ်သည်။ စက်မှုလုပ်ငန်း ပြောပလောက်အောင် မရှိချေ။ ရက်ကန်းရက်ခြင်းနှင့် တောင်း၊ ဖျာ ရက်လုပ်သော လက်မှုလုပ်ငန်း အနည်းငယ် ရှိသည်။ မြို့နယ်အတွင်းနှင့် မြို့နယ်မှ အပသို့ ကူးသန်းသွားလာရေးမှာ အင်းတော်မြို့မှ မန်စီရွာသို့ မော်တော်ကားလမ်းရှိ၍ ၆၁ မိုင် ရှည်လျားသည်။ ထိုမော်တော်ကားလမ်းသည် ဗန်းမောက်မြို့ကို ဖြတ်သွားသည်။ အင်းတော်မြို့မှ ကသာမြို့သို့ သွားရောက်နိုင်၍ ကသာမြို့မှ တဆင့် ခရိုင်အပသို့ သင်္ဘောလမ်း မီးရထားလမ်းတို့ဖြင့် ကူးသန်း သွားလာနိုင်လေသည်။

**ဗန်းမြို့။** ။ဗန်းမြို့သည် ဆွစ်ဇာလန် နိုင်ငံ၏ မြို့တော်ဖြစ်၍ ရိုင်းမြစ်၏ မြစ်လက်တက်ဖြစ်သော အားမြစ်ကမ်းပေါ်၌ တည်ရှိသည်။ ပင်လယ်ရေမျက်နှာပြင် အထက် ၁,၇၇၀ ပေမြင့်သော သဲကျောက်တောင်ပြင်ပေါ်၌ တည်ရှိ၍၊ ယင်းတောင်ခြေရင်းမှ အားမြစ်သည် ကွေ့ပတ်၍ စီးဆင်းရာ၊ မြို့၏ အနောက်ဖက်မှတပါး ကျန် ၃ ဖက်၌ မြစ်ကြောင်းကြီး ဝန်းရံလျက် ရှိသည်။ မြစ်ကို ဖြတ်၍ တန်တားကြီး ၆ ခု ဆောက်ထားသည်။ ဆွစ်ဇာလန် နိုင်ငံရှိ အလှပဆုံးသော မြို့များတွင် ဗန်းမြို့လည်း တမြို့အပါအဝင် ဖြစ်သည်။

ဗန်းဟူသော အမည်သည် ဝက်ဝံဟု အဓိပ္ပါယ်ရသော ဂျာမန်စကား ဗန်းမှ ယူ၍ မှည့်ခေါ်သည်ဟု ဆိုကြသည်။ ဗန်းမြို့ကို စတည်သည့်နေ့က ဝက်ဝံပေါင်းများစွာ သတ်ပစ်ရသည်ကို အစွဲပြု၍ ဗန်းမြို့ဟု တွင်သည်ဟု ဆိုစမှတ်ပြုကြသည်။ ဗန်းမြို့၏ မြို့တော် တံဆိပ်၌ ဝက်ဝံပုံ ပါရှိမက မြို့ပေါ်ရှိ အဆောက်အအုံများ တန်းဆာဆင်ရာ၌ပင် ဝက်ဝံပုံများ ထုလုပ်ကြသည်ကို တွေ့ရသည်။ အားမြစ်၏ လက်ျာဖက်ကမ်းတွင် ဝက်ဝံများကို တမင် မွေးထားသော တောကိုပင် မြို့အုပ်ချုပ်ရေးအဖွဲ့က ပြုပြင်ထိန်းသိမ်းထားသည်။

ဗန်းမြို့ကို ၁၁၉၁ ခုနှစ်တွင် ဒျူဘွဲ့ရ ဇာရင်ဂျင်စား ဗတ်ဟိုးက တည်ထောင်ခဲ့၍၊ ၁၂၁၈ ခုနှစ် ဒုတိယ ဖရက်ဒရစ်ဘုရင်လက်ထက်တွင် မင်းနေပြည်တော် ဖြစ်လာသည်။ ၁၈၅၃ ခုနှစ်တွင် ဆွစ်ကွန်ဖီဒရေးရှင်းခေါ် ဆွစ်ပြည်နယ်များ ပူးပေါင်း ဖွဲ့စည်းသည့် ပြည်နယ်ပေါင်းချုပ် အဖွဲ့ဝင်ဖြစ်လာ၍ ၁၈၄၈ ခုနှစ်တွင် ဆွစ်ဇာလန် တနိုင်ငံလုံး၏ မြို့တော်ဖြစ်လာသည်။



ဆွစ်ဇာလန်နိုင်ငံတွင် လူဦးရေအများဆုံးမြို့ဖြစ်သည့် ဗန်းမြို့၏ သာယာဆိတ်ငြိမ်သော ရပ်ကွက်ရှုခင်း

ဗန်းမြို့၌ ၁၄၂၂ ခုနှစ်က တည်ဆောက်ခဲ့သော ရှေးဟောင်း ဘုရားရှိခိုးကျောင်းကြီး၊ ၁၄၀၆ ခုနှစ်က ဖွင့်လှစ်ခဲ့သော မြို့တော်ခန်းမ၊ ၁၇၃၄ ခုနှစ်က တည်ခဲ့သော ဆွစ်ဇာလန်နိုင်ငံ၏ ဒုတိယ အကြီးဆုံး တက္ကသိုလ် ကျောင်းတော်ကြီး၊ အထက်အောက် လွှတ်တော် ၂ ရပ် တည်ရာ လွှတ်တော် အဆောက်အအုံ၊ ဆွစ်အယ်လပိုင်း ပြတိုက်၊ သမိုင်း ပြတိုက် စသည်တို့ ရှိသည်။ အပြည်ပြည်ဆိုင်ရာ စာပို့တိုက် အသင်းကြီး၏ ဌာနချုပ်ရုံးကိုလည်း ဗန်းမြို့၌ပင် ဖွင့်လှစ်ထားသည်။ လွှတ်တော် အဆောက်အအုံကြီးပေါ်မှ ကြည့်လျှင် နှင်းတဖွေးဖွေးနှင့် ခပ်ရေးရေး ထင်လျက်ရှိသော အဲလပ တောင်တန်း၏ သာယာလှပသော ရှုမျှော်ခင်းကို တွေ့မြင်နိုင်သည်။

ဗန်းမြို့သည် အပြည်ပြည်ဆိုင်ရာ ညီလာခံများ ကျင်းပရာ မြို့ကြီးတမြို့ ဖြစ်သည်။ ပဌမ ကမ္ဘာစစ်ကြီးအပြီး ပဌမဆုံးသော အပြည်ပြည်ဆိုင်ရာ ဆိုရှယ်လစ် ညီလာခံကို ဗန်းမြို့၌ ၁၉၁၉ ခုနှစ် ဖေဖွာရီလ ၄ ရက်နေ့တွင် ကျင်းပသည်။

၁၉၅၈ ခုနှစ် ခန့်မှန်းခြေအရ ဗန်းမြို့၏ လူဦးရေသည် ၁၆၃,၀၀၀ ဖြစ်လေသည်။

**ဗိန္ဒုသာရမင်း။** ။ဗိန္ဒုသာရ မင်းသည် ဗုဒ္ဓသာသနာတော်တွင် နေလအသွင်ထင်ရှားသော သီရိဓမ္မာသောကမင်းကြီး၏ ခမည်းတော်ဖြစ်သည်။ ပါဋလိပုတ်ပြည်၌ သာသနာနှစ် ၁၈၆ ခုမှ ၂၁၄ မှနှစ်အထိ နန်းစံသောမင်း ဖြစ်သည်။ ဗိန္ဒုသာရမင်းကို သာသနာနှစ် ၁၇၀ ပြည့်တွင် ဖွားမြင်သည်။ ခမည်းတော်မှာ စန္ဒဂုတ္တမင်းဖြစ်၍ မယ်တော်မှာ စန္ဒာဂုတ်မင်း ဦးရိုးတော်၏ သမီးတော် ဖြစ်လေသည်။

ခမည်းတော် စန္ဒဂုတ္တမင်းသည် မလိုသူတို့ စားတော်၌ သေဆေးထည့်သော် အန္တရာယ် မဖြစ်နိုင်စိမ့်သောငှါ စားသောက်ရာ ဟူသမျှတို့၌ အဆိပ်နှင့် ရော၍သာ စားလေ့ရှိသည်။ ထိုကြောင့် မိဖုရားတို့နှင့်အတူ ပွဲတော်မတည်ဘဲ အသီးအခြား ပွဲတော်တည်လေ့ရှိ၏။ စန္ဒဂုတ္တမင်း၏ မိဖုရားကြီးသည် မီးဖွားရန် ၇ ရက် အလို ကိုယ်ဝန် အရင့်အမာရှိစဉ် တခါသော် မင်းကြီး စားတော်ခေါ်ရာဝယ် တလုပ်မျှ ယူ၍ ခံတွင်းသို့ သွင်းမိ၏။ မင်းကြီးလည်း မိဖုရားအား ထွေးထုတ်စေလေသည်။ သို့သော် အချိန်နှောင်းသဖြင့် ထိုအစာသည် လည်ချောင်းတွင်းသို့ ဝင်၏။ ထိုသို့ ဝင်ကြောင်းသိလျှင် မင်းကြီးလည်း မိဖုရား၏ လည်ပင်းကို သန်လျက်ဖြင့် ဖြတ်လျက် ဝမ်းမှ သန္ဓေသားကို ထုတ်ယူ၍ ဆိတ်မကြီး၏ ဝမ်းကို ဖောက်၍ ထည့်ထား၏။ ယင်းသို့ဖြင့် ထိုသားကို ၇ ရက်တိုင်တိုင် တနေ့လျှင် ဆိတ်မ တကောင်လဲ၍ အလှည့်အလှယ်ဖြင့် အောင်းစေပြီးနောက် နေ့ရက်စေ့သော သားငယ်ကို နို့ထိန်းတို့ကို အပ်လျက် မွေးမြူစေသည်။ ထိုသတို့သားငယ်သည် ဆိတ်သွေးတို့ဖြင့် လိမ်းကျံရသောကြောင့် အရေတို့တွင် အပိမ့်အပိမ့် ပေါက်ကုန်၏။ ယင်းသို့ ပေါက်ခြင်းကြောင့် ထိုသတို့သားကို ဗိန္ဒုသာရဟု အမည်ပေးလေသည်။

ထိုဗိန္ဒုသာရ သတို့သား အရွယ်ရောက်လတ်သော် ခမည်းတော် စန္ဒဂုတ္တမင်းကြီး နတ်ရွာစံ၏။ မင်းကြီး နတ်ရွာစံသော်လည်း ဒေဝဂဗ္ဘမည်သောဘီလူး ဝင်၍ မင်းကြီး အသက်ရှင်သကဲ့သို့ ဖြစ်နေသည်ကို ဥပါယ်တံမျဉ်ဖြင့် ပယ်ရှားလျက် သားတော် ဗိန္ဒုသာရ မင်းအဖြစ်ပြု၍ ပါဋလိပုတ်ပြည်၌ စံ၏။ ဗိန္ဒုသာရမင်းသည် မောရိယပြည်မှ သာကီဝင်မင်းမျိုး ဖြစ်သော ဓမ္မာမင်းသမီးကို မိဖုရားမြှောက်သည်။ ထိုမိဖုရားမှ နောင်သောအခါ သီရိဓမ္မာသောကမင်းဟု တွင်မည့် သတို့သားနှင့် ညီတော် တိဿမင်းသားကို ဖွားမြင်၏။ ဗိန္ဒုသာရ မင်းကြီးသည် ထီးနန်းစည်းစိမ်ကို ၂၈ နှစ်တိုင်တိုင် စံစားခဲ့ပြီးနောက် သာသနာနှစ် ၂၁၄ ခုတွင် နတ်ရွာစံလေသည်။

**ဗိမ္ဗာဒေဝီ။** ။ယသောရော — ရှု။

**ဗိမ္ဗိသာရမင်း။** ။ဗိမ္ဗိသာရမင်းသည် မဂဓတိုင်း ရာဇဂြိုဟ်ပြည့်ရှင်၊ ဘာဂီနိယ မင်းကြီး၏ သားတော်ဖြစ်သည်။ ဘာဂီနိယ မင်းကြီးနှင့် သက္ကတိုင်း ကပိလဝတ်ပြည့်ရှင် သုဒ္ဓေါဒန မင်းကြီးတို့သည် မိတ်သဟာယများ ဖြစ်ကြသည်။ ဗိမ္ဗိသာရ မင်းသားသည် သုဒ္ဓေါဒန မင်းကြီး၏ သားတော် သိဒ္ဓတ္ထမင်းသား အောက် ၅ နှစ် ငယ်တော်မူသည်။ အဖ္ဖနမင်းကြီးဖိုပြီး သက္ကရာဇ် ၇၃ ခုနှစ်ဘွင် ဖွားမြင်သည်။ သက်တော် ၁၅ နှစ် အရွယ်တွင် ခမည်းတော်၏ ရိုက်ရာကို ဆက်ခံကာ မင်းပြုလေသည်။

သိဒ္ဓတ္ထမင်းသားသည် တောထွက်ပြီးနောက် ရဟန်းပြုကာ၊ ရာဇဂြိုဟ်ပြည်အတွင်း ဆွမ်းခံဝင်သည်။ ထိုအခါ ရာဇဂြိုဟ် တပြည်လုံး ချောက်ချားသဖြင့် ဗိမ္ဗိသာရမင်းသည် မင်းချင်းတို့အား စေလွှတ် စုံစမ်းစေသည်။ မင်းချင်းတို့၏ လျှောက်ထားချက်ကို ကြားသိတော်မူလျှင်၊ ဘုရားအလောင်းရှိရာသို့ ဆောလျင်စွာ သွား၍ အသက်အရွယ်ငယ်ပါသေးသည်။ တောမထွက်ပါနှင့်။ ပြည်တော် ထက်ဝက်ကို ပေးအပ်ပါမည်။ မင်းပြု၍ စံစားပါဦးဟု လျှောက်ထားသည်။ သို့သော် ဘုရားအလောင်းတော်က ငြင်းပယ်သည်။ ထိုအခါ ဗိမ္ဗိသာရမင်းက ဘုရားအဖြစ်သို့ ရောက်ခဲ့လျှင်၊ ရှေးဦးစွာ ရာဇဂြိုဟ်ပြည်သို့ ကြွရောက်ပါရန် လျှောက်ထားသောအခါမှ၊ ဘုရားအလောင်းတော်က ဝန်ခံကတိပေးလေသည်။

ဗိမ္ဗိသာရမင်း၏ နန်းစံ ၁၆ နှစ်မြောက်တွင် သဗ္ဗည

ဘုရားရှင် အဖြစ်သို့ ရောက်တော်မူပြီးသော ဗုဒ္ဓရှင်တော်ဘုရားသည် ဗိမ္ဗိသာရမင်းကြီး၏ လျှောက်ကြားချက်ကို နှလုံးထားတော်မူသဖြင့် ရာဇဂြိုဟ်ပြည်သို့ သံဃာတော် တထောင်နှင့် ကြွရောက်တော်မူ၍၊ မြို့၏အနီး ထန်းတော ဥယျာဉ်၏ အလယ် သစ်ပင်ရင်း၌ သီတင်းသုံးနေတော်မူကြောင်း ဗိမ္ဗိသာရမင်းကြီး ကြားသိလျှင် တသိန်းနှစ်သောင်းမျှသော မှူးမတ်၊ သင်္ဘေး၊ ပုဏ္ဏားတို့ ခြံရံလျက် မြတ်စွာဘုရားအထံတော်သို့ လာရောက် ဆည်းကပ်သည်။ မြတ်စွာဘုရားသည် ဥရုဝေဠ ကဿပရသေ့ကို အကြောင်းပြု၍ ဂါထာ ၁၈၀ ရှိသော နာရဒကဿပ ဇာတ်ကို ဟောတော်မူရာ၊ ဗိမ္ဗိသာရမင်းနှင့်တကွ တသိန်းတသောင်းသော ခြွေရံသင်းပင်းတို့သည် သောတာပန် တည်ကုန်သည်။ ကျန်တသောင်းသော သူတို့သည် သရဏဂုံ တည်ကြကုန်သည်။

ဗိမ္ဗိသာရမင်းကြီးသည် ဘုရားရှင်အား လွန်စွာ ကြည်ညိုသဒ္ဓါပွားလှသဖြင့် မိမိအား ဥပသကာအဖြစ် အမှတ်ထားတော်မူရန် လျှောက်ထားပြီးသော်၊ နောက်တနေ့နံနက်တွင် ဘုရားရှင်အား အခြံအရံ သံဃာတော်များနှင့်တကွ မိမိ၏ နန်းတော်သို့ ဆွမ်းအလှူခံ ကြွတော်မူရန် ဖိတ်ကြားသည်။ ထိုနေ့နံနက်တွင် ဘုရားရှင်နှင့် သံဃာတော် အပေါင်းအား ဆွမ်းလုပ်ကျွေးပြီးသော် ဝေဠုဝန် ဥယျာဉ်တွင်း၌ မင်း၏ နန်းတော်ကို အရံနှင့်တကွ မြတ်စွာဘုရားနှင့် သံဃာတော်များ သီတင်းသုံးရန် ရေစက်သွန်းချ လှူဒါန်းလေသည်။

ဗိမ္ဗိသာရမင်းကြီးသည် ဂေါတမဘုရားရှင်အား လွန်စွာ ကြည်ညိုသဒ္ဓါ ထက်သန်စွာဖြင့် လုပ်ကျွေးပြုစု ဆည်းကပ်ကိုးကွယ်သော်လည်း မင်းကြီး၏ အဂ္ဂမဟေသီ ဒေဝီအရာ ထားတော်မူသော ခေမာမိဖုရားကား အဆင်းမာန်တက်၍ ဘုရားရှင်အား သွားရောက်ဖူးမျှော်ခြင်းမပြုချေ။ ထိုကြောင့် မင်းကြီးက ဥပါယ်တံမျဉ်ဖြင့် မိဖုရားအား ဘုရားရှင်ထံ သွားရောက်စေရာတွင် ခေမာမိဖုရားသည် ဘုရားရှင်၏ တရားကို နာယူရကာ အကျွတ်တရားရ၍ ဘိက္ခုနီမပြုပြီးသော် နောင်အခါ ခေမာထေရီဟု လကျာ်တော်ရံ ဧတဒဂ်ရ ထေရီတဦး ဖြစ်လာလေသည်။ (ခေမာထေရီ — ရှု။)

ဗိမ္ဗိသာရမင်းကြီးသည် ယင်းသို့ဖြင့် ဘုရားရှင်၏ သာသနာကို ချီးမြှောက်သော မင်းတပါး ဖြစ်သည်။ ထိုပြင် သားသမီးအပေါ်၌ မိဘ၏မေတ္တာ မည်မျှ ကြီးမားသည်ကို ဥပမာ ထုံးတမ်း အကိုးအကားပြုရသော မင်းတပါးလည်း ဖြစ်ပေသည်။ ဗိမ္ဗိသာရမင်းတွင် ဝေဒေဟီ အမည်ရှိ မိဖုရားကြီး တပါး ရှိသေးသည်။ ထိုမိဖုရားတွင် သန္ဓေတည်လေလျှင် မင်းကြီး၏ လကျာ် လက်ရုံးသွေးကို သောက်လိုသော ချင်ခြင်း ဖြစ်ခဲ့သည်။ မင်းကြီး သိတော်မူလျှင် မိဖုရား၏ ချင်ခြင်းကို ပြည့်စေသည်။ သို့သော် ဟူးရားတို့က မိဖုရား၏ သန္ဓေသားသည် မင်းကြီးအား သတ်မည့်သူဟု နိမိတ်ဖတ်ကြသည်။ ထိုကြောင့် မိဖုရားသည် သန္ဓေသားကို ဖျက်ဆီးရန် အတန်တန်ကြိုးစားသည်။ မင်းကြီးကမူ ယင်းသို့ မပြုရန် တားမြစ်၍ မြဲမြံစွာ သန္ဓေသားကို စောင့်ရှောက်ထားစေသည်။ အချိန်တန်၍ သားတော်ဖွားလျှင် မိဖုရား မသိရလေအောင် အစောင့်အရှောက်တို့က သို့ဝှက်ပယ်ဆောင်ထားသည်။ သွားလာနိုင်သော အရွယ်ရောက်မှ သားတော်ကို မိဖုရားအား ပြစေသည်။ မင်းကြီးလည်း သားတော်အား အလွန် ချစ်ခင် မြတ်နိုးတော်မူသည်။ တခါသော် သား၏လက်တွင် အိုင်းအမာနာပေါက်၍ မခံမရပ်နိုင် ဖြစ်လေသော် မင်းကြီးသည် ထိုလက်ချောင်းကို ခံတွင်း၌ ငုံပေးသည်။ အတန်ငယ် သက်သာရရ၍ သားတော်အိပ်ပျော်စဉ် ပြည်ပေါက်လေသော်၊ သားတော်နိုးမည်စိုး၍ ပြည်ကို မျိုချသော ဟူ၏။ မင်းကြီးသည် သားတော်အား လွန်စွာ ချီးမြှင့်မြှောက်စားပြီးသော် အရွယ်ရောက်လျှင် အိမ်ရှေ့အရာ နှင်းလေ၏။ ထိုအိမ်ရှေ့မင်းကား အဇာတသတ်မင်းသားပေတည်း။

ဘုရားရှင်နှင့်တကွ တပည့်သာဝက အပေါင်းကို ပျက်စီးစေလိုသော ဒေဝဒတ်သည် အဇာတသတ် မင်းသားက မိမိအား ကြည်ညိုအောင်ပြုသည်။ မိမိ ပြောဆိုသမျှ နားဝင်အောင်ပြုသည်။ ဒေဝဒတ်သည် ဘုရားရှင်အား ကြည်ညိုလှသူ ဗိမ္ဗိသာရမင်းအားလည်း ပျက်စီးစေလိုသည်။ ထိုကြောင့် မိမိက ဘုရားရှင်အား သတ်၍ ဘုရားအဖြစ်ယူမည်၊ အဇာတသတ်က ခမည်းတော်ကို သတ်၍ မင်းအဖြစ်ယူရန် တိုက်တွန်းသည်။ အဇာတသတ်သည် ဒေဝဒတ်၏ တိုက်တွန်းချက်အတိုင်း ခမည်းတော်အားကိုယ်တိုင်သတ်ရန် ကြံစည်သည်။ ယင်း၏အကြံ ပေါ်ပေါက်သွားသော်လည်း ဗိမ္ဗိသာရမင်းကြီးသည် အပြစ်မယူဘဲ သားတော်၏ ဆန္ဒအတိုင်း ဖြစ်စေရန် ထီးနန်းလွှဲအပ်ပေးသည်။ သို့သော် ဒေဝဒတ်၏ လှည့်ဖျားအကြံပေးချက်ကြောင့် အဇာတသတ်မင်းသည် ခမည်းတော်အား ထောင်သွင်း အကျဉ်းချကာ အမျိုးမျိုး ညှဉ်းပန်းနှိပ်စက်ခြင်း ပြုစေသည်။ ဝေဒေဟီမိဖုရားသည် ထောင်တွင်းသို့ ဝင်ကာ နည်းအမျိုးမျိုးဖြင့် မင်းကြီးအား သက်သာရစေအောင် ပြုစုသည်။ အဇာတသတ်မင်းက ခမည်းတော်အား အစာပြတ်သေစေရန် ပြုသော်လည်း မိဖုရားကြီးသည် နည်းအမျိုးမျိုးဖြင့် မင်းကြီး၌ အာဟာရ မျှတအောင်ပြုပေသည်။ နောက်ဆုံးတွင် အဇာတသတ်မင်းက မယ်တော်ကိုလည်း ခမည်းတော်ထံ ဝင်ခွင့်မပြုတော့ချေ။ ထိုအခါ ဗိမ္ဗိသာရမင်းကြီးသည် စင်္ကြံလျှောက်ယင်းပင် မဂ်ဖိုလ်ချမ်းသာကို ခံစား၍ မိမိ၏ ကိုယ်ကို မျှတအောင် နေတော်မူလေသော်၊ အလွန်လျှင် ခန္ဓာကိုယ် အတ္တဘောသည် တင့်တယ်သေသည်။ ထိုအခါ အဇာတသတ်မင်းသည် ခမည်းတော် စင်္ကြံမလျှောက်နိုင်စေရန်

ခြေဖဝါးကို ဓားနှင့်ခွဲပြီးသော် ဆားရောသော ဆီဖြင့် လိမ်းကျံ၍ ရှားမီးခဲတွင် ကင်မြိုက်စေသည်။ မင်းကြီးသည် ဆင်းရဲဝေဒနာကို ပြင်းထန်စွာ ခံစားရသော်လည်း ရတနာသုံးပါးကို အောက်မေ့ နှလုံးသွင်းလျက်ကပင် ခန္ဓာကိုယ်သည် ညှိုးနွမ်းခြောက်သွေ့၍ စုတေလေသော် စတုမဟာရာဇ်နတ်ပြည် ဝေဿဝဏ နတ်မင်းကြီး၏ အလုပ်အကျွေးဇနဝသဘမည်သော နတ်သားဖြစ်လေသည်။ ဗိမ္မိသာရမင်းကြီးသည် မင်းစည်းစိမ် ၅၂ နှစ်၊ သက်တော် ၆၇ နှစ်၊ မဟာသက္ကရာဇ် ၁၄၀ ပြည့်နှစ်တွင် သားတော် အဇာတသတ်မင်း လုပ်ကြံ၍ ကံတော်ကုန်ရလေသည်။

**ဗုံဗိုင်။** ။ဗုံဗိုင်ဆိုသည်မှာ အရည်၊ သို့မဟုတ် အငွေ့တခုခုကို ရွှေ့ပြောင်းပေးသည့် ကရိယာ ဖြစ်၍ သာမန်အားဖြင့် အပေါ်သို့ တင်ယူရန်အတွက် အသုံးများသည်။ လူသည် အသက်ရှင်နေစဉ် လေရှူသွင်းခြင်းနှင့် ရှူထုတ်ခြင်းကို နှလုံးဖြင့် အမြဲပြုလုပ်လျက် ရှိရာ၊ လူ၏ နှလုံးသည်လည်း ဗုံဗိုင်တမျိုးပင် ဖြစ်သည်။ ရေတွင်းမှ ရေကို ရစ်လုံးတွင် ရစ်ပတ်ထားသော ကြိုးဖြင့် ခပ်တင်ပုံကို မြင်ဘူးကြပေလိမ့်မည်။ ထိုကရိယာမှာ ရှေးကစ၍ ပေါ်ပေါက်ခဲ့သဖြင့်၊ ရှေးခေတ် ဗုံဗိုင်ဟု ခေါ်နိုင်ပေသည်။ အချို့ ကျေးလက်တောရွာများ၌ စမ်းအိုင်မှ ရေကို ခွက်များ တပ်ထားသော ဒလက်ဘီးဖြင့် ကုန်းပေါ်သို့ တင်ယူပုံကို မြင်ဘူးကြမည်ဖြစ်ရာ၊ယင်းသည်လည်းရှေးခေတ် ဗုံဗိုင်တမျိုးပင်ဖြစ်သည်။

နောင်သော် ခေတ်မှီသော ဗုံဗိုင်တမျိုး ပေါ်လာသည်။ ရေကို လေဖိအားဖြင့် စုတ်တင်သည့်အတွက် ထိုဗုံဗိုင်မျိုးကို စုတ်ဗုံဗိုင်ဟု ခေါ်သည်။ ထိုဗုံဗိုင်တွင် ရေကို ပြွန်အထက်သို့ လေအားဖြင့် ရှေးဦးစွာ စုတ်တင်လိုက်၏။ ပြီးမှ ခပ်ခွက်ဖြင့် ခပ်တင်ရသည်။ ပြွန်ထိပ်သို့ ရေရောက်သောအခါ၊ အပြင်သို့ ထွက်စေရန်အတွက် ဗုံဗိုင်ခေါင်း၌ နှုတ်သီးခေါင်းတခုတပ်ထားသည်။ ပြွန်အတွင်း၌ ပြွတ်တံတခုရှိ၍ ပြွတ်တံအဖျားတွင် ခပ်ခွက်တပ်ထားသည်။ ခပ်ခွက်၌ အပေါ်သို့ ပွင့်သော အဆို့ရှင်တခုရှိ၍ ပြွန်အတွင်း အောက်ဖက်၌လည်း အလားတူ အဆို့ရှင်တခုကို တပ်ဆင်ထားသည်။ ခပ်ခွက်သည် ပစ်စတန်ခေါ် ပြွတ်တံခေါင်းသဘောကဲ့သို့ ပြွန်အတွင်း၌ တည်ရှိ၍၊ ပြွတ်တံကို လက်ကိုင်တခုနှင့် ဆက်ထားသည်။ လက်ကိုင်ကို မ,တင်လိုက်၍၊ ပြွတ်တံသည် အောက်သို့ ဆင်းသွားသောအခါ ပြွန်တွင်းရှိ လေနှင့် တိုးမိသဖြင့် ခပ်ခွက်မှ အဆို့ရှင်ပွင့်သွားပြီးလျှင် ပြွန်တွင်းရှိ ရေဝင်ပေါက် အဆို့ရှင် ပိတ်သွားသည်။ လက်ကိုင်ကို နှိမ့်ချ၍ ပြွတ်တံအထက်သို့ တက်သွားသောအခါ အဆို့ရှင် နှစ်ခု အကြား၌ ပလာနယ်တဝက်တပျက် ဖြစ်သွားသည်။ အဓိပ္ပါယ်မှာ ပြွန်တွင်းလေ၏ ဖိအားသည် အပြင်ဖက်ရှိ လေထု၏ ဖိအားထက် နည်းသွားသည်။ ထိုအခါ အပြင်မှ လေထုဖိအားက ပြွတ်တံရှိခပ်ခွက်၏ အဆို့ရှင်ကို ပိတ်လိုက်ပြီးလျှင် ပြွန်တွင်းမှ ရေကို အထက်သို့ ပင့်တင်ယင်း ပြွန်တွင်းရှိ ရေဝင်ပေါက် အဆို့ရှင်ကို ပွင့်စေလေသည်။ ဤသို့ဖြင့် ပြွတ်တံကို ဆင်းချီတက်ချီ ကြိမ်ဖန်များစွာ ဆက်တိုက် ပြုလုပ်ပေးသောအခါ ရေသည် ပြွန်တွင်းတလျှောက် တဖြည်းဖြည်း မြင့်တက်လာ၍ ခပ်ခွက်ရှိ အဆို့ရှင်ကို ကျော်ဖြတ်တက်လာပြီးသော်၊ ခပ်ခွက်က တဖန် အပေါ်သို့ ခပ်တင်လာရာမှ နောက်ဆုံး၌ ပြွန်ခေါင်းမှ အပြင်သို့ စီးထွက်လာလေသည်။ အိမ်သုံးရေနံစုတ်ဗုံဗိုင်ကို ဤသဘောအရ ပြုလုပ်ထားခြင်းပင်ဖြစ်သည်။

စုတ်ဗုံဗိုင်မျိုးတွင် အရည်ကို ခပ်ခွက်ရှိရာသို့ အရောက်ပင့်တင်သည့် အဓိကအားမှာ လေထု၏ ဖိအားသာလျှင် ဖြစ်ပေသည်။ သို့သော် လေထု၏ ဖိအားသည် ပင်လယ်ပြင်ညီ၌ ၃၂ ပေမြင့်သော ရေထု၏ အလေးချိန်နှင့် ညီမျှသဖြင့် အဆိုပါ ဗုံဗိုင်မျိုးဖြင့် ရေကို မြေပြင်မှ အထက် ၃၂ ပေအထိသာ အစွမ်းကုန် ပင့်တင်နိုင်သည်ကို သတိပြုရသည်။ သို့ရာတွင် မည်မျှကောင်းအောင် ပြုလုပ်ထားစေကာမူ တင်းပြည့်ကျပ်ပြည့် လေလုံသော ဗုံဗိုင်မျိုးကို မရနိုင်ရကား၊ လက်တွေ့အားဖြင့် ထိုဗုံဗိုင်မျိုးဖြင့် ရေကို ပေ ၂၀-၂၅ ပေအထိ တက်အောင်သာလျှင် စုတ်တင်နိုင်သည်ကို တွေ့ရလေသည်။

အကယ်၍ ရေကို ထိုထက်မြင့်အောင် တင်လိုပါက အခြား ဗုံဗိုင်တမျိုးမျိုးကို အသုံးပြုကြရသည်။ ယင်းဗုံဗိုင်မျိုးအနက်၊ ထိုးဗုံဗိုင်ဟု ခေါ်သော ဗုံဗိုင်မျိုးသည် အရိုးဆုံးဖြစ်သည်။ အလွယ်ဆုံး ပြုလုပ်ထားသော အဆိုပါ ဗုံဗိုင်မျိုးတွင် ပြွန်ခေါင်း နှုတ်သီးနေရာ၌ ရေထုတ်ပြွန်နှင့်တတိယအဆို့ရှင်ကို တပ်ထားသည်။ ခပ်ခွက်အပေါ်ဖက်ရှိ ရေမှာ လေထုဖိအားက တွန်းတင်ပေးခြင်းမရှိဘဲ၊ ခပ်ခွက်ပင့်တင်ပေးသည့် ရေသာဖြစ်သည်။ ထို့ကြောင့်ရေကိုနောက်ပြန်မစီးအောင် တတိယအဆို့ရှင်က ထိန်းပေးထားသည့် အတွက် ရေကို လိုသမျှအမြင့်သို့ ရောက်အောင် တင်ပေးနိုင်ပေသည်။ များသောအားဖြင့်မူ ခပ်ခွက်အစား ပြွတ်တံခေါင်းကို သုံး၍၊ ရေစီးမှန်စေရန်အတွက် ရေထုတ်ပြွန်ရင်းတွင် လေလှောင်ခန်းတခုကို တပ်ဆင်ထားလေ့ ရှိသည်။ ပြွတ်တံခေါင်း အောက်သို့ ဆင်းချိန်တွင် ရေထုတ်ပြွန်ရင်းရှိ အဆို့ရှင်ပွင့်၍ လေလှောင်ခန်းထဲသို့ ခရေဝင်သဖြင့် လေလှောင်ခန်းအတွင်းရှိ လေသည် ကျုံ့သွားသည်။ ပြွတ်တံခေါင်း အပေါ်သို့တက်ချိန်တွင် အဆို့ရှင် ပိတ်သွား၍ လေလှောင်ခန်းအတွင်းရှိ လေသည် ကျုံ့ရာမှ ပြန်ကန်ထွက်လာခြင်းဖြင့် ရေကို ရေထုတ်ပြွန်တလျှောက် တွန်းထုတ်လိုက်လေသည်။ စက်ဘီးလေထိုးတံသည် ထိုးဗုံဗိုင်တမျိုးပင် ဖြစ်သည်။

အထက်ပါတို့မှာ စုတ်ဗုံဗိုင်နှင့် ထိုးဗုံဗိုင်တို့၏ အခြေခံ

သဘောမျှသာ ဖြစ်ရာ၊ ရေအား စက်အားတို့ဖြင့်၎င်း၊ အခြား ပုံပြင်ချက်တို့ဖြင့်၎င်း အင်္ဂွေနှင့် အရည် နှစ်မျိုးလုံးအတွက် အမျိုးမျိုးတိုးတက် တီထွင်ထားသော စုတ်ဗုံဗိုင်နှင့် ထိုးဗုံဗိုင်များ အပြင် ခရုပတ် ရေပေးစက်ကဲ့သို့ အတွင်းခုဟတ်ရွက်နှင့် ပြွတ်များ၊ လျှပ်စစ် လေထိုးစက်များ၊ တွန်းတင် ကရိယာများလည်း ရှိပေသေးသည်။

**ဗုံလုံပင်။** ။ကူကာဗီတေစီအီး မျိုးရင်းတွင် ပါဝင်သော ဗုံလုံပင်သည် အန္ဒယ်ပင်ဖြစ်၍ ဗူးနှင့် သခွါး ပင်တို့နှင့် မျိုးရင်းချင်း အတူတူပင်ဖြစ်သည်။ ရုက္ခဗေဒ အမည်အားဖြင့် ထရိုင်ကိုစင်သီးကူကူမာရီနား ဟုခေါ်သည်။ ဗုံလုံပင်သည် မြန်မာနိုင်ငံ၊ အိန္ဒိယနိုင်ငံ၊ သီဟိုဠ်ကျွန်း၊ မလ္လာယုကျွန်းဆွယ်၊ မြောက်သြစတြေးလီးယားစသော အပူပိုင်းဒေသများ၌ ပေါက်ရောက်သည်။ တောကြို အုံကြားတို့၌ အလေ့ကျပေါက်လေ့ရှိသော်လည်း ခြံဥယျာဉ်များ၌လည်း စိုက်ပျိုးကြသည်။

ထိုဗုံလုံပင်သည် တနှစ်ကြာခံအန္ဒယ်ပင်မျိုးဖြစ်၍၊ အဖျား နှစ်ခွရှိသော နွယ်နှာမောင်းများရှိရာ၊ ထိုနွယ်နှာမောင်းများဖြင့် သစ်ပင်များ၊ စင်များကို တွယ်ကပ် ပေါက်ရောက်သည်။ ဗုံလုံရွက်သည် အရင်းကား၍ အဖျားချွန်သော ညောင်ရွက်ကဲ့သို့ ပုံသဏ္ဍာန်ရှိပြီးလျှင်၊ အတွင်းသို့အလွန်ချိုင့်ဝင်သည့် ခွေးသွားစိပ်များရှိသော အဟိုက် ၃ ခုမှ ၇ ခုအထိ ရှိတတ်ရာ၊ များသောအားဖြင့် အဟိုက် ၅ ခု ပါတတ်သည်။ အရွက်တွင် မွေးနုကလေးများ ရှိသည်။

ဖေဖွာဝါရီလနှင့် မတ်လများတွင် အပွင့်ပွင့်သည်။ တပင်တည်းတွင် အဖိုနှင့်အမ ၂ မျိုး ပွင့်တတ်ရာ၊ အဖိုပွင့်သည် အပွင့် ၃ ပွင့်မှ ၁၅ ပွင့်အထိ အပွင့်များ စုံပြိုင်ပါသော ပန်းခိုင် ဖြစ်၍ အမပွင့်သည် တပွင့်တည်းဖြစ်သည်။ ပွင့်ချပ်သည် အဖြူရောင်ဖြစ်၍ အတွန့်အဟိုက်ကလေးများဖြင့် အနားသတ်သည်။ အသီးသည် တလက်မမှ ၃ လက်မအထိ ရှိ၍၊ ခြံဥယျာဉ်များ၌ စိုက်ပျိုးသော အပင်များမှာ ထိုထက် ရှည်လျားသော အသီးများ သီးသည်ဟု ဆိုကြသည်။ အသီး ပုံသဏ္ဍာန်သည် အရင်းအဖျား အနည်းငယ်ရှူး၍ အလယ် ပူသည်။ အသီးရောင် စိမ်းစိမ်းတွင် အဖြူစင်းများ ပါ၍၊ မှည့်သည့်အခါ ကြက်သွေးရောင်၊ သို့မဟုတ် လိမ်မော်ရောင်ဖြစ်လာသည်။အသီးအတွင်းသားတို့သည် သခွါးသီး၊ ဗူးသီးအသားကဲ့သို့ ပျော့စိစိဖြစ်၍၊ အစေ့တို့သည် အသားထဲမြုပ်နေကြသည်။ အစေ့များသည် ပြား၍ ဘဲဥပုံဆန်ဆန် ဖြစ်လေသည်။

မြန်မာဆေးကျမ်းများ အလိုအရ ဗုံလုံသီးသည် ချိုသော အရသာရှိ၍ စဉ်းငယ်ပူ၏။ နှလုံးကို နှစ်သက်စေသည်။ လေ၊ သလိပ်၊ သည်းခြေကို နိုင်သည်။ ကုတ်ဟီးနာ၊ ပိုးနာ၊ သွေးနာတို့ကို ပျောက်စေနိုင်သည် ဟု ဆိုသည်။ ဗုံလုံရွက်သည်မူ ချို၍ ပူသော အရသာရှိသည်။ သည်းခြေကို နိုင်သည်။ အမြစ်သည် ဝမ်းလျှော သက်စေသည်။

သီဟိုဠ်ကျွန်းတွင်မူ အမြစ်များကို သန်ချဆေးအဖြစ် သုံးသည်။ အရွက်နှင့် အရိုးများကို သည်းခြေကြောင့် ဖြစ်သော ရောဂါများ၊ အရေပြားရောဂါများနှင့် မီးယပ်ရောဂါများအတွက် အသုံးပြုလေသည်။

ထိုဗုံလုံအနွယ်ပင်မျိုးကို တောပဲလင်းမြွေ ဟုလည်း ခေါ်သည်။ ပဲလင်းမြွေနှင့် မျိုးခွဲချင်းတူသော်လည်း၊ အသီးချင်းမတူချေ။

ထိုပြင်ဗုံလုံအမည်ခံ အခြားအပင်တမျိုးလည်း ရှိသေးသည်။ ရုက္ခဗေဒအမည်အားဖြင့် ဆေပီယမ် အင်ဒီကမ်ဟု ခေါ်သော အပင်ငယ်မျိုးဖြစ်သည့် ဗုံလုံပင်တမျိုးကို ပဒတ်ဟုလည်းခေါ်ကြသည်။ ယင်းသည် ယူဖော်ဗီယေးစီးအီး မျိုးရင်းတွင်ပါဝင်သည်။ တနင်္သာရီ တောင်ပိုင်းစသော မြန်မာနိုင်ငံ အောက်ပိုင်းဒေသများနှင့် စစ်တွေမြို့တဝိုက်တွင် တွေ့ကြရသည်။ ထိုအပင်၏ အခေါက်သည် ဖြူ၍ ချောပြီးလျှင် အရွက်များသည် အလျားရှည်၍ အဖျားချွန်သည်။

မြစ်ချောင်း ကမ်းပါးအနီး ပေါက်ရောက်တတ်သော အပင်မျိုးဖြစ်၍၊ မိုးရာသီအခါ မြစ်ချောင်းထဲ၌ ဗုံလုံသီးများ မျောပါလာတတ်သည်ကို တွေ့ရသည်။ အမြောင်းလေးမြောင်း မထင်မရှားရှိသော လုံးဝန်းသည့် အသီးမျိုးဖြစ်၍၊ မာလကာသီး အငယ်စားခန့်ရှိသည်။ အသီးရောင်သည် စိမ်း၍ မှည့်သည့်အခါ အာလူးရောင်မျိုး ဖြစ်သည်။အခွံလည်းမာသည်။ အစေ့ ၃ စေ့ပါသည်။ အသီး၏ အရသာသည် ချဉ်ဖန့်ဖန့်ရှိ၍ အစေးများသည်။ အင်းများ သိမ်းချိန်တွင် ဗုံလုံအရွက်နှင့် အသီးများကို ထုထောင်း၍ အင်းထဲသို့ ချထားလိုက်လျှင်၊ အသီးအရွက်များမှထွက်သော အစေးသည် အလွန်ပူသော အဆိပ်မျိုးဖြစ်သဖြင့် အင်းထဲ၌ကြွင်းကျန်သမျှငါးများအားလုံးသေကုန်သည်ဟု ဆိုကြလေသည်။

**ဗုံး။** ။ဗုံးသည် ပေါက်ကွဲတတ်သော စစ်လက်နက်တမျိုးဖြစ်သည်။ ပုံသဏ္ဍာန်သည် ယေဘုယျအားဖြင့် ဆုံနှင့်တူ၍ ထိပ်ဖူး ချွန်ပြီးလျှင် အမြီး၌ ငါးမြီးငါးဆူးတောင်တို့ကဲ့သို့ ပြား၍ ကားသည်။

ရှေးအခါက မော်တာ အမြောက် စသည်တို့မှ ထွက်သော ပေါက်ကွဲတတ်သည့် အရာဝတ္ထုကို ဗုံး၊ သို့မဟုတ် ဗုံးဆံဟု ခေါ်သော်လည်း ယခု လေယာဉ်ပျံများ ပေါ်ပေါက်လာသည်မှစ၍ ကောင်းကင်မှ လေယာဉ်ပျံဖြင့် ပစ်ချသော ပေါက်ကွဲစေတတ်သည့် လက်နက်ကို ဗုံးဟု နားလည်နေ

ကြသည်။ ဗုံးကို တရုပ်လူမျိုးတို့သည် ရှေး နှစ်ပေါင်း များစွာကပင် အသုံးပြုနေကြပြီ ဖြစ်သည်။ တရုပ်တို့ စတင်သုံးစွဲသော ဗုံးများမှာ နဂါးပုံ၊ မြွေပုံ၊ ငှက်ပုံ သွန်းထားသည့် မြေအိုးတွင် ယမ်းမှုန့်ထည့်၍ ထားခြင်း ဖြစ်သည်။ ယင်းဗုံးမျိုးသည် ဖောက်ခွဲသည့်အခါ အလွန် အသံမြည်သဖြင့် ၁၉ ရာစုနှစ်အထိ တရုပ် တပ်မတော်က ရန်သူများကို ခြောက်လှန့်ရန် အသုံးပြုခဲ့ကြသည်။ ထိုခေတ်က အသုံးပြုကြသော ဗုံးများမှာ လက်ဖြင့် ကိုင်၍ ပစ်ရသော လက်ပစ်ဗုံးများ ဖြစ်သည်။ ၁၉ ရာစုနှစ် နောက်ပိုင်းတွင် စစ်တိုက်ရာ၌ ဗုံးကို လက်နက်အဖြစ် အသုံးမပြုသလောက် နည်းပါးသွားသည်။ တောပုန်း၊ သူပုန် စသည်တို့သာ အနည်းအကျဉ်း အသုံးပြုကြသည်ကို တွေ့ရသည်။ သို့ရာတွင် ပဌမကမ္ဘာစစ်မှစ၍ ဗုံးအမျိုးမျိုးကို လက်နက်သဖွယ် အသုံးပြုလာကြသည်ကို တွေ့ရပြန်သည်။ ဒုတိယ ကမ္ဘာစစ်အတွင်းကမူ လေယာဉ်များ ပေါ်ပေါက်လာသဖြင့် ဗုံးကို လေထဲမှ ပစ်ချတိုက်ခိုက်မှု ခေတ်စားလာလေသည်။ လေယာဉ်ပျံများပေါ်မှ ဗုံးသန်းပေါင်း များစွာ ကြဲချ၍ လေကြောင်းတိုက်ပွဲများ ဆင်နွှဲခဲ့ကြသည်။

ဗုံးအမျိုးမျိုး ရှိသည့်အနက် အကြမ်းအားဖြင့် ဖော်ပြရသော် အစိတ်စိတ် အမြွာမြွာ ကွဲသောဗုံး၊ ခွဲဖျက်ဗုံး၊ မီးလောင်ဗုံး၊ ဓာတ်ငွေ့ဗုံး၊ ရေမြုပ်ဗုံး၊ အထိန်းနှင့်လွှတ်သော ဗုံး၊ သံချပ်ဖောက်ဗုံး၊ ဗုံးပျံ၊ အဏုမြူဗုံးခေါ် အက်တမ်ဗုံးတို့ ဖြစ်လေသည်။ ယင်းတို့သည် အရွယ်အစားချင်း ကွဲပြားရုံမက အသုံးပြုပုံချင်းလည်း မတူချေ။ အချို့ ဗုံးများသည် ပေါင်ချိန် အနည်းငယ်ခန့်သာ လေး၍ အချို့ဗုံးများမှာ ပေါင် ၄,၀၀၀ အထိလေးသည်။ အချို့ အလွန်ငယ်သော ဗုံးကလေးများကို စုကာ ဗုံးခွံတခုထဲတွင်ထည့်၍ ပစ်ချတတ်ရာ မြေပြင် အဆောက်အအုံတို့နှင့် ထိခါနီးမှ တခုစီထွက်၍ ပေါက်ကွဲသဖြင့် ဗုံးကြီးတလုံးကို ပစ်ချသည်ထက် အရာရောက်ကြောင်း တွေ့ရသည်။

ပေါက်ကွဲတတ်သော ဗုံးတို့အနက် အစိတ်စိတ်အမြွာမြွာ ကွဲသော ဗုံးသည် အထင်ရှားဆုံးနှင့် အသုံးအများဆုံး ဖြစ်သည်။ ယင်းသည် ပေါက်ပြီးမှ အစိတ်စိတ်အမြွာမြွာ ကွဲသည်။ ကုန်းပေါ်ရှိ တိုက်တာအိမ်ယာ အဆောက် အအုံနှင့် ရေထဲရှိ လှေသင်္ဘောများကို ဖျက်ဆီးရန် အသုံးပြုလေ့ရှိသည်။ ယင်းဗုံးမျိုးသည် သတ္တုဖြင့် ပြုလုပ်ထားသော ဆုံသဏ္ဍာန်အခွံထဲ၌ အလွန်ပေါက်ကွဲလွယ်သော ယမ်းထည့်၍ လုပ်ထားခြင်းဖြစ်သည်။ယမ်းပေါင်ချိန် ၁၀၀ မှ ၈,၀၀၀ အထိပါတတ်သည်။ အရာဝတ္ထုတခုခုနှင့်ထိသည့်အခါငင်း၊ အချိန်စေ့သည့်အခါငင်း ပေါက်ကွဲတတ်သော ဗုံးမျိုး ဖြစ်သည်။ ပေါက်ကွဲ စေလိုသော အချိန်ကို ကိုက်၍ စီမံပြုလုပ်ထားလေ့ရှိကြသည်။ ဒုတိယ ကမ္ဘာစစ် အတွင်းက ဗုံးကြဲလေယာဉ်ပျံကြီးများသည် ယင်းဗုံးမျိုး အလေးချိန် တတန်မှ ၈ တန်အထိကို သယ်ဆောင်လေ့ ရှိကြသည်။ မြို့တကွက်စာကို အလွယ်ကလေးနှင့် ဖျက်ဆီးပစ်နိုင်လောက်သော ဗုံးများကို သယ်ဆောင်ကြသဖြင့် ယင်းဗုံးကို 'အကွက်လိုက်ဖျက်သမား' ဟုလည်း ခေါ်ကြသည်။ ဗုံးကြဲလေယာဉ်ငယ်များကမူ ပေါင် ၁၀၀ မှ ၆၀၀ အထိလေးသော ဗုံးများကို တင်တတ်ကြသည်။

ခွဲဖျက်ဗုံးသည် အစိတ်စိတ် အမြွာမြွာ ကွဲသော ဗုံးထက်ငယ်သည်။ ပေါင် အစိတ်မှ ၃၀ အထိသာ လေးသည်။ အစိတ်စိတ် အမြွာမြွာကွဲသော ဗုံးခွံကဲ့သို့ ပြောင်ချော မဟုတ်ဘဲ လိုင်းတွန့်ထားသော သတ္တုခွံဖြစ်၍ နာနတ်သီးနှင့် တူသည်။ လက်ပစ်ဗုံး အကြီးစားနှင့်လည်း ဆင်ဆင် တူသည်။ ယင်းဗုံးမျိုးကို တပ်စခန်းများ၊ငယ်သော တဲအိမ်ပစ္စည်းများကို ဖျက်ဆီးရန် ပစ်ချလေ့ရှိသည်။ပစ်ချပြီးသောအခါ လိုင်းတွန့်ဗုံးခွံများ ကွဲ၍ ဗုံးဆံများ ပေါက်ကာ သေနတ်ကျည်ဆံကဲ့သို့ ထိုးဖောက် ခွဲဖျက်ကြသည်။

မီးလောင်ဗုံးကို အပူရှိန် ပြင်းစွာဖြင့် လောင်ကြွမ်းတတ်သော ပစ္စည်းဖြင့် ပြုလုပ် ထားသည်။ ရန်သူစခန်းများ၊စက်ရုံများ၊ မြို့ကြီးများကို မီးရှို့ရန် အသုံးပြုသော ဗုံးမျိုးဖြစ်သည်။ ဒုတိယ ကမ္ဘာစစ် ဖြစ်စက သုံးသော မီးလောင်ဗုံးသည် ပေါင်ချိန်အနည်းငယ်သာလေးသည်။ ၁၉၄၄ ခုနှစ်ခန့်သို့ ရောက်သောအခါ အမေရိကန်တို့ ဖက်မှ သုံးသောမီးလောင်ဗုံးများသည် ၂ ပေါင်မှ ပေါင် ၅၀၀ ခန့်အထိ ရှိလာသည်။ စီမံပြုလုပ်ရာတွင် ပါဝင်သော ပစ္စည်းမျိုးကို လိုက်၍ အလေးချိန်စီးသည်။ ပါဝင်သောပစ္စည်းများမှာ မဂ္ဂနီဇီယမ်၊ သားမိုက်၊ ဖော့စဖောရပ်၊ ဂက်ဆိုလင်နှင့် ဆီဒြဗ်ပေါင်း အမျိုးမျိုးတို့ဖြစ်သည်။

ဓာတ်ငွေ့ဗုံးသည် အဆိပ်ဓာတ်ငွေ့များ ထည့်ထားသော ဗုံးဖြစ်သည်။ ဒုတိယ ကမ္ဘာစစ်အတွင်းက စစ်ဖက်နိုင်ငံတိုင်း၌ ယင်းဗုံးမျိုး အသင့်ရှိသော်လည်း အသုံး မပြုကြချေ။ စစ်တိုက်ရာ၌ အသုံးပြုသော ဓာတ်ငွေ့ဗုံးမျိုးအပြင် အဓိကရုဏ်း လူစု လူဝေးကို လူစုခွဲရန် ရဲများသုံးသည့် မျက်ရည်ယိုဗုံးခေါ် လက်ဖြင့်ပစ်ရသော လက်ပစ်ဗုံးတမျိုးလည်း ရှိသေးသည်။ ယင်းသည် အသက် အန္တရာယ်ကို မထိခိုက်စေတတ်ချေ။

ရေမြုပ်ဗုံးကို ရေယာဉ်များနှင့် လေယာဉ်ပျံ ၂ မျိုးစလုံးမှ ရေငုပ်သင်္ဘောကို တိုက်ခိုက်ရန် အသုံး ပြုကြသည်။ သင်္ဘောသားများက ယင်းကို ပြာများထည့် ထားသောဗုံးကြီးနှင့် တူသဖြင့် ပြာဗုံးဟုလည်း ခေါ် ကြသည်။ အလိုရှိသော အချိန်တွင် အလိုရှိသော ရေနက်နေရာ၌ ပေါက်ကွဲစေရန် အချိန်မှန်း၍ စီမံထားရသည်။ ရေကြောင်းတွင် တခါတရံ မျောလာသော ဗုံးများသည် ယင်းဗုံးမျိုး ဖြစ်သည်။

သို့ရာတွင် များသောအားဖြင့် ရေမျက်နှာပြင်အောက် အနည်းငယ် ချ၍ ကျောက်ချထောင်ထားလေ့ ရှိကြသည်။ မြေမြှုပ်မိုင်းဗုံးသည်လည်း ယင်းရေမြှုပ်ဗုံးမျိုးပင်ဖြစ်သည်။ မြေမြှုပ်ဗုံးသည် မြေကြီးထဲ၌ မြှုပ်ထား၍ ဖြတ်သွားသော ယာဉ်လူ စသည်တို့ကို အန္တရာယ် ပြုကြသည်။

အခိုင်အခံ့ ကာရံထားသော စစ်သင်္ဘောများ ခံတပ်များကို ခွဲဖျက်ရန် သံချပ်ဖောက်ဗုံးကို သုံးကြသည်။ ယင်းဗုံး၏ ထိပ်ဖူးသည် သံမဏိဖြင့် ပြုလုပ်ထား၍ အလွန်မာသော အကာအရံများကို ထိုးဖောက်ဝင်ရောက် သွားပြီးမှ ဗုံးသည် အစိတ်စိတ် အမြွာမြွာ ကွဲ၍ပေါက်သည်။ ယင်းသို့ဖြင့် အခိုင်အခံ့ ပြုလုပ်ထားသော စခန်းများကို ဖြိုခွဲနိုင်လေသည်။

အထိန်းနှင့် လွတ်သော ဗုံးဟူသည်မှာ လိုရာ အရပ်သို့ ရောက်အောင် ထိန်း၍လွှတ်ရသော ဗုံးမျိုးဖြစ်သည်။ လေယာဉ်ထဲမှ ရေဒီယိုဖြင့် ဖြစ်စေ၊ ယင်းဗုံးအတွင်း ထည့်သွင်းတပ်ဆင်ထားသော ပစ်ကွင်းရှာ ကရိယာဖြင့် ဖြစ်စေ ထိန်း၍ ပစ်လွှတ်ရသည်။ သင်္ဘော၊ တန်တား၊ ရထားနှင့် ကောင်းကင်မှ ထင်ထင်ရှားရှား ရှာတွေ့နိုင်သော အခြား ပစ်ကွင်းများကို ဖြိုဖျက်ရန် အသုံးဝင်သော ဗုံးမျိုးဖြစ်သည်။

ဒုတိယ ကမ္ဘာစစ်ကြီးအတွင်းက "ဂျက်" စက်တပ်ဆင်ထားသော ဗုံးပျံခေါ် လက်နက်ဆန်းတမျိုး ပေါ်ပေါက်ခဲ့သည်။ အမှန်မှာ ထိုလက်နက်မျိုးနှင့် သက်ဆိုင်သည့် စမ်းသပ်မှုများကို ပြင်သစ်နိုင်ငံတွင် ၁၉၁၆ ခုနှစ်ကငင်း၊ အမေရိကန် နိုင်ငံတွင် ၁၉၁၈ ခုနှစ်ကငင်း ပြုလုပ်ခဲ့ဘူး၏။ သို့ရာတွင် တိုးတက်၍ မကြံစည်ကြသည့်အတွက် ဒုတိယ ကမ္ဘာစစ်ကြီး ဖြစ်လာသောအခါ ဂျာမန်တို့က "ဗီ-ဝမ်း" ခေါ် ဗုံးပျံလက်နက်ဆန်း တမျိုးဖြင့် လက်ဦးအောင်တိုက်ခိုက်ခြင်းကို အင်္ဂလန် နိုင်ငံသည် အပြင်းအထန် ခံလိုက်ရလေသည်။ အင်္ဂလန်နိုင်ငံသည် ဒုတိယကမ္ဘာစစ်ကြီး အတွင်းက ဗုံးပျံပေါင်း ၉ ထောင်ကျော်မျှ ပစ်လွှတ်ခြင်းကို ခံခဲ့ရသည့်အနက် အင်္ဂလန်မြေပေါ်သို့ ဗုံးအလုံးပေါင်း ၆ ထောင်ခန့်ကျ၍ ယင်းဗုံးပျံ များကြောင့် လူပေါင်း ၆ ထောင်ကျော်မျှ သေခဲ့ရသည်ဟု ဆိုလေသည်။

ဗုံးပျံသည် မောင်းသူမပါဘဲ ပျံသန်းသော အတောင် တထပ်လေယာဉ်ပျံကလေးတမျိုး၊ သို့မဟုတ် တော်ပီဒိုတမျိုးပင်ဖြစ်၍ တောင်ပံအလျားမှာ ၁၆ ပေခန့်ရှိသည်။ ဗုံးပျံဦးပိုင်းတွင် တော်ပီဒိုမှာကဲ့သို့ ပေါက်ကွဲစေတတ်သည့် ယမ်းတတန်ခန့် ပါသည်။ ဗုံးပျံထိပ်၌ တစုံတခုနှင့် ထိခိုက်မိသောအခါ ပေါက်ကွဲစေရန် စနက်တခု တပ်ထားသည်။ မည်သည့်အရာနှင့်မျှ မထိခိုက်ဘဲ မြေသို့ ဆင်းသက်ချပါကလည်း ပေါက်ကွဲနိုင်စေရန် အခြားစနက်တမျိုးကို ဝမ်းပိုက်အောက်တွင် တပ်ဆင်ထားသည်။ အကယ်၍ အကြောင်းတခုခုကြောင့် အဆိုပါ စနက် ၂ ခုစလုံး ချွတ်ယွင်းသွားသည့်တိုင်အောင် ၂ နာရီခန့်အကြာ၌ အလိုအလျောက် ပေါက်ကွဲစေရန် နာရီစက်ဖြင့် စီမံထားသော "နာရီစက်စနက်" တခု ရှိပြန်သေးသည်။ ဗုံးပျံတခုလုံးသည် တန်ချိန် ၃ တန်ခန့် လေး၏။ မြေကြီးထဲသို့ များစွာ ထိုးစိုက်ဝင်ရောက်နိုင်ခြင်း မရှိသော်လည်း မြေပြင်ပေါ်၌ ပေါက်ကွဲသောအခါ အလွန်ပြင်းထန်စွာ ပေါက်ကွဲပျက်စီးစေနိုင်သည်။

ဗုံးပျံများကို ဗုံးကြဲလေယာဉ်ပျံများဖြင့် တခုချင်း သယ်ယူပြီးနောက်အမြင့်မှ လွှတ်နိုင်သော်လည်း အထူးသဖြင့် "ကန်ကရစ်" ကိုင်ထားသော ဆင်ခြေလျှော စောင်းပြင်ပေါ်မှ ဖိနှိပ်ထားသည့် လေအားနှင့် တွန်းလွှတ်သည့်ပစ်စတန်ဖြင့် လွှတ်လေ့ရှိကြသည်။လွှတ်ရာတွင် ဆင်ခြေလျှောစောင်းပြင်ကို ပစ်လိုသည့် နေရာနှင့် ချိန်သားကျအောင် ပဌမပြုပြင်ပေးရသည်။ ပစ်လွှတ်စအချိန်တွင် ဗုံးပျံသည် တနာရီလျှင် မိုင် ၂၀၀ နှုန်းမျှနှင့် ထွက်သွားသည်။ လေထဲသို့ ရောက်သွားသောအခါ၊ ဂျက်စက်ထဲသို့ လေတိုးဝင်၍ စက်အားကောင်းလာသောကြောင့် အသွားနှုန်းမှာ တနာရီလျှင် မိုင်ပေါင်း ၃၆၀ နှုန်းခန့်အထိ တိုးလာသည်။ ဗုံးပျံတလုံးတွင် လေယာဉ်ပျံဓာတ်ဆီ ဂါလံ ၁၅၀ ခန့်က သယ်ဆောင်ထားသည်။ မြေပြင်မှ အမြင့်ပေ ၀၀၀ မှ ၂,၅၀၀ အတွင်း၌ ပျံသန်း၍ ခရီးအဝေး ၁၂၅ မိုင်ခန့်အထိ ပစ်လွှတ်နိုင်လေသည်။

ဗုံးပျံတွင် ဂျက်စက် တပ်ဆင်ထားရုံမက လေထဲ၌ လိုသည်ထက်ပို၍ မြင့်တက်မသွားစေရန်ငင်း၊ ချိန်သားတကျ ဖြောင့်ဖြောင့်တန်းတန်း သွားစေရန်ငင်း၊ လိုသော အမြင့်၌ စက်ရပ်၍ မြေသို့ ထိုးဆင်းစေရန်ငင်း အခြား အလိုအလျောက် ထိန်းသိမ်းပေးသည့် စက်တို့ကိုလည်း တပ်ဆင်ထားသေးသည်။

ဗုံးပျံများ ပစ်လွှတ်ခါစ အချိန်က ထိုလက်နက်ဆန်းကို ထိရောက်စွာ ကာကွယ် ဖျက်ဆီးပစ်ရန် နည်းလမ်း မရှိလောက်အောင်ဖြစ်ခဲ့ရ၏။သို့ရာတွင် နောင်သော် ဗုံးပျံများ လာမည့်လမ်း၌ သံမဏိကြိုးဆိုင်းထားသော ဓာတ်အိမ်ပျံများလွှတ်ထားခြင်းဖြင့်ငင်း၊ အလွန် လျင်မြန်စွာ ပစ်ခတ်နိုင်သော လေယာဉ်ပျံပစ်အမြောက်များနှင့် ဒလစပ်ပစ်ခတ်ခြင်းဖြင့်ငင်း ထိရောက်စွာကာကွယ် နိုင်လာသည်။ နောက်ဆုံးပေါ် တိုက်လေယာဉ်များဖြင့်လည်း ဗုံးပျံကို မှီအောင် လိုက်၍ ပစ်ချကြသည်။ သို့တည်းမဟုတ် ဗုံးပျံ၏ အတောင်ကို လေယာဉ်ပျံအတောင်နှင့် ဘေးချင်း ယှဉ်ရိုက်ခတ်ပေးခြင်းဖြင့်လည်း အခြား ဘေးကင်းသည့် နေရာသို့ ကျရောက်ပေါက်ကွဲအောင် ပြုလုပ် ပေးကြသည်။ ထိုအခါ ဂျာမန်တို့က ဗီ-ဝမ်းခေါ် ဗုံးပျံများ အစား ဗီ-ဝမ်း ထက်ကြီး၍ အလွန်လျင်မြန်သော ဗီ-တူးခေါ် မိုးပျံဗုံး တမျိုးကို အသုံးပြုလာကြပြန်သည်။ သို့သော် ဗီ-တူးမှာ ဗီ-ဝမ်းကဲ့သို့

ဂျက်စက်တပ်ထားသော ဗုံးပျံမျိုး မဟုတ်ချေ။ တုံးစက်တပ်ထားသော"တုံးပျံဗုံး"မျိုး ဖြစ်သည်။ (တုံးပျံ — ရှု။) ဗီ-တူးဗုံးသည် အလျား ၄၆ ပေ၊ လုံးပတ် ၅ ပေ ၆ လက်မ ရှိ၍၊ စုစုပေါင်း ၁၂ တန်လေးသည်။ အယ်လကိုဟောနှင့် အောက်ဆီဂျင် လောင်ကျွမ်းရာမှ ခုတ်မောင်းရန် အားကိုရသည်။ လောင်စာ၏ အလေးချိန်သည် ၈ တန် ရှိသည်။ ဗီ-တူးဗုံး၏ မူလအသွားနှုန်းသည် နှေးသော်လည်း အမြင့်သို့ ရောက်သောအခါ အလွန်လျင်မြန်သည်။ ဗီ-တူးဗုံးကို ပစ်လိုက အမြီးပိုင်းရှိ အချွန်များပေါ်၌ ထောင်ပေးထား၍ လျှပ်စစ်ခလုတ်ဖြင့် ပစ်လွှတ်ရသည်။ လောင်စာလောင်ကျွမ်းသောအခါ ဓာတ်ငွေ့ပူတို့သည် ဗုံး၏ နောက်ဖက်မှ အလွန်ပြင်းထန်သော အရှိန်ဖြင့် ပင့်အားပေးသဖြင့် ဗုံးသည် အထက်မိုင် ၆၀ သို့ တနာရီလျှင် မိုင် ၃,၀၀၀ နှုန်းဖြင့် တက်သွားသည်။ ဗီ-တူးဗုံးကို ဗီ-ဝမ်းဗုံးလောက် တည့်မှန်အောင် မပစ်နိုင်သော်လည်း အလွန်လျင်မြန်၍ အလွန်မြင့်သောနေရာမှ ပင် ပျံသန်းနိုင်သဖြင့် ရန်သူတို့လမ်းမှဖြတ်၍ တားဆီးရန်ခက်သောကြောင့် အလွန်အသုံးဝင်သည်။ ယင်း၏ ရန်ကို ကာကွယ်ရန် ဗုံးပစ်လွှတ်ရာ နေရာများကို ဖျက်ဆီးနိုင်မှ ဖြစ်သည်။

ဒုတိယကမ္ဘာစစ် အတွင်းက အထင်ရှားဆုံးနှင့် ကြောက်မက်ဖွယ် အကောင်းဆုံးသော အက်တမ်ခေါ် အဏုမြူဗုံးပေါ် ပေါက်ခဲ့သည်။ ယင်းသည် လူသမိုင်းတွင် အပြင်းထန်ဆုံး အန္တရာယ်ပေးနိုင်သည့် စစ်လက်နက်ဖြစ်သည်။ ဂျပန်နိုင်ငံ ဟီရိုးရှီးမားနှင့် နဂါးစကီးမြို့တို့ကို ပြုတ်ပြုတ်ပြုန်းစေခဲ့သည့် ဗုံးမျိုးဖြစ်သည်။ အက်တမ်ဗုံးထဲ၌ ပေါက်ကွဲရန်လိုအပ်သော ယူ-၂၃၅၊ သို့မဟုတ် ပလူတိုးနီယမ်ကို ဓာတ်လှုပ်ရှားမှု လျင်မြန်စွာ ဖြစ်နိုင်အောင် စီမံထားသည်။ ယင်းဓာတ် လှုပ်ရှားမှုမှာ ဒြပ်သည် အလေးထုနှင့် အလင်း၏အသွားနှုန်း ၂ ထပ်ကိန်းတို့၏ မြှောက်ရလဒ် အချိုးအတိုင်း စွမ်းအင်သို့ပြောင်းသွားပြီးလျှင် ဗုံးမှာပေါက်ကွဲသွားသည်။ ၁၉၄၅ ခုနှစ် ဇူလိုင်လ ၁၆ ရက်နေ့ နံနက် ၅ နာရီခွဲအချိန်တွင် နယူးမက္ကဆီကိုပြည်နယ် သဲကန္တာရအတွင်း၌ ပဋ္ဌမဆုံးသော အက်တမ်ဗုံးကို စမ်းသပ် ကြဲချသည်။ စစ်လက်နက်အဖြစ်မူ ၁၉၄၅ ခုနှစ် ဩဂုတ်လ ၆ ရက်နေ့တွင် ဟီရိုးရှီးမားမြို့၌ ကြဲချသော အက်တမ်ဗုံးသည် ပဋ္ဌမဆုံးသော ဗုံးဖြစ်သည်။ ဟီရိုးရှီးမားမြို့ပေါ် သို့ အက်တမ်ဗုံး ကြဲချလိုက်သည်နှင့်တပြိုင်နက် မီးခိုးလုံးမည်းကြီးသည် မြေပြင်မှ ပေ ၄၀,၀၀၀ ခန့် တက်လာ၍ မြို့ကွက်တခုလုံးတွင် ကန်ကရစ်အဆောက်အအုံ ၃ ခုမှ နံရံများမှတပါး အားလုံး တလင်းပြင်ကြီးသဖွယ် ပျက်စီးခဲ့ရသည်။ ၂ မိုင်ပတ်လည်မှ အဆောက်အအုံများ ပျက်စီးသွား၍ လူ ၆၀,၀၀၀ သေဆုံးကာ၊ ၁၀၀,၀၀၀ ဒဏ်ရာရ၍ လူပေါင်း ၂၀၀,၀၀၀ အိုးအိမ်မဲ့ဖြစ်ခဲ့ရသည်။ ထိုနှစ် ဩဂုတ်လ ၉ ရက်နေ့တွင် နဂါးစကီးမြို့ပေါ် သို့ အက်တမ်ဗုံးကြဲသော အခါ အလွန်ကြီးသော မီးခိုးလုံးကြီးသည် အထက်သို့ ပေ ၂၀,၀၀၀ ခန့်တက်လာသည်။ ယင်းဗုံးဒဏ်ကြောင့် လူပေါင်း ၁၀,၀၀၀ သေဆုံး၍ လူ ၂၀,၀၀၀ ဒဏ်ရာရကာ လူပေါင်း ၉၀,၀၀၀ အိုးအိမ်မဲ့ဖြစ်ခဲ့ရသည်။ (အက်တမ်ဗုံး — ရှု။)

ဒုတိယကမ္ဘာ စစ်အတွင်းက အသုံးပြုသော အက်တမ်ဗုံးမျိုးထက် ပိုမိုပြင်းထန်သော အက်တမ်ဗုံးမျိုးကို ပြုလုပ်နိုင်ကြောင်း သိပ္ပံပညာရှင်များ တွေ့ရှိထားကြသည်။ ယင်းဗုံးမျိုးကို စစ်လက်နက်အဖြစ် အသုံးပြုမည်ဆိုပါက ကမ္ဘာကြီးတခုလုံး ပျက်ပြုန်း၍ ကမ္ဘာ့ယဉ်ကျေးမှုကြီးပါ ပျောက်ကွယ်နိုင်သည်ဟု သိပ္ပံပညာရှင်တို့ ယုံကြည်ကြသည့် အလျောက် ယခုအခါ ယင်းသို့သော အက်တမ်ဗုံးမျိုးကို မသုံးရန် ထိန်းသိမ်းရေးအတွက် ကမ္ဘာ့ကုလသမဂ္ဂက ဆောင်ရွက်လျက် ရှိပေသည်။

**ဗျာပါဆံ။** ။ဆံထုံး — ရှု။

**ဗျူ။** ။ဗွတ်စာမွဲ — ရှု။

**ဗျူးပင်။** ။ဗျူးပင်တို့သည် အိန္ဒိယနိုင်ငံ၊ မြန်မာနိုင်ငံနှင့် အန္ဒမန်ကျွန်း (ကပ္ပလီကျွန်း) ကမ်းရိုးတန်းဒေသ ဒေမြုပ်တောများ၌ ပေါက်ရောက်ကြသည်။ထိုဗျူးပင်တို့သည် လမုပင်မျိုးများ ဖြစ်ကြ၍ ရိုင်ဇိုဖိုရေးစီအီးမျိုးရင်းတွင် ပါဝင်ကြသည်။

ထိုမျိုးရင်းဝင် အပင်မျိုးတို့၏ထူးခြားချက်မှာ အသီးတို့သည် အစေ့မှ အညှောက်ထွက်သည်တိုင်အောင် အပင်မှ မကြွေသေးဘဲ ရှိတတ်သည်။ အသီးကြွေသည့် အချိန်တွင် အညှောက်သည် အတန်ပင် ထွက်နေ၍ အမြစ်လောင်းသည် ရွှံ့ထဲသို့ ထိုးစိုက်ကြွေကျလေသည်။ အမြစ်တို့သည် အပင်အား ရေတက်ရေကျဖြင့် မျောပါမသွားစေရန် ရွှံ့နွံထဲတွင် မြဲမြံစွာ ကုပ်တွယ် ထားကြသည်။ အချို့ အပင်များ၏ ပင်စည် အောက်ပိုင်းကို ရေတိုက်စားသွားတတ်၍ အပင်သည် မြေပေါ် အမြစ်များ အပေါ် ထောက်မှီနေရသည်။ အချို့ အပင်များသည်မူ ပင်စည်၏ အမြစ်ခြေတွင် ကျားကန်မြစ်များရှိ၍ ရေတိုက်စားမှုဒဏ်ကို ခံနိုင်ရည် ရှိလေသည်။

ရိုင်ဇိုဖိုရေစီအီးမျိုးရင်းဝင် ဗျူးဟုခေါ် သော အပင် ၂ မျိုးရှိရာ၊ မျိုးခွဲချင်းမတူကြ၍၊ ရုက္ခဗေဒ အမည်လည်း ကွဲပြားကြသည်။ တမျိုးကို ရုက္ခဗေဒအမည်ဖြင့် ဗရူဂိုင်းရားဆိုင်လင်ဒရီးကားဟု ခေါ် သည်။ ထိုအပင်သည် ပေ ၇၀ ခန့်မျှ အမြင့်ရှိနိုင်သော်လည်း အိန္ဒိယနိုင်ငံပေါက် အပင်တို့မှာ မူ ထိုမျှလောက် မမြင့်ကြချေ။လမုတော၏ ကုန်းအမြင့်ဆုံး အပိုင်း၌ ပေါက်ရောက်တတ်၍ တခါတရံမျှသာ ရေမြုပ်သည်။

ထိုဗျူးပင်မျိုးတို့၏ အရွက်များသည် အရင်းအဖျား ရှူးသည်။ အရွက်ရောင် အစိမ်းဖျော့သည်။ အပွင့်တို့သည် ပန်းခိုင်ဖြင့် ပွင့်ကြ၍ သေးငယ်ပြီးလျှင် အဖြူရောင် ဖြစ်လေသည်။ ထိုဗျူးပင်မျိုးကို ဆောင်း၊ မဒမ၊ ပြူဟုလည်း ခေါ်ကြသည်။

အခြား ဗျူးပင်တမျိုး၏ ရုက္ခဗေဒ အမည်သည် ဆီးရီးယော့ ရေဝ့စဗားဂီယားနားဟုခေါ်၍မြန်မာအမည်ဖြင့် ဘိုင်ထောင်၊ မဒမ၊ ကဘိုင်၊ ကမြိုင်ဟုလည်း ခေါ်သေးသည်။ ထိုဗျူးပင်မျိုးသည် ရွက်မပြတ်သော အပင်ငယ်မျိုး ဖြစ်သည်။ အရွက်တို့သည် အရင်းသွယ်သည်။ ကျားကန်မြစ်များ ရှိသည်။ အခေါက်ချော၍ ဆိုးဆေးအတွက် အသုံးပြုနိုင်သည်။

ဖော်ပြခဲ့သော ဗျူးပင်မျိုးများအပြင်၊ ဗျူး အမည်ခံ ရေမြုပ်တော၌ ပေါက်သော၊ လမုမျိုးဝင် အပင်များလည်း ရှိကြသေးရာ၊ ယင်းတို့မှာ ဗျူးဥတလုံး၊ ဗျူးကြက်တက်၊ ဗျူးဘိုင်တောက်၊ ဗျူးခြေထောက်တို့ပင်တည်း။

ဗျူးဥတလုံးပင်၏ ရုက္ခဗေဒအမည်သည် ဗရူဂိုင်းရားကွန်ဂျူးဂေတာဖြစ်ရာ၊ ပဌမဗျူးပင်၏ မျိုးစုဝင်ဖြစ်သည်။ ထိုအပင်မျိုးတို့သည် ပေ ၇၀ ခန့်အထိ အမြင့်ရှိနိုင်သည်။ လမုမျိုးဝင် အပင်များအနက် အကြီးဆုံး ဖြစ်သည်၊ အပွင့်တို့သည် ကြီးမား၍ လိမ်မော်ရောင်၊ သို့မဟုတ် အနီရောင် ဖြစ်သည်။ အခေါက်သည် ကြမ်းတမ်း၍ ပပ်ကြားအက်များ ထကာ မည်းနက်နေသည်။ ဆိုးဆေး အတွက်အသုံးပြုနိုင်သည်။ ဗျူးဥ တလုံးပင်တို့တွင် ငရဲတင်းငုတ်(ငရဲသစ်ငုတ်)ဟု ခေါ်သော လေမြစ်များရှိသည်။ ထိုအမြစ်တို့သည် မြေကြီးထဲသို့ ထိုးစိုက်မဆင်းဘဲ ဘေးသို့ရင်း၊ အပေါ်သို့ ထောင်၍ရင်း ထွက်ကြကာ၊ အချို့ နေရာတို့တွင် ခုံးထနေတတ်သည်။ ဗျူးဥတလုံးပင်နှင့် မျိုးစိတ်သာ ကွဲသောဗျူးကြက်တက်ပင်ကို ရုက္ခဗေဒအမည်အားဖြင့် ဗရူဂိုင်းရား ပါဗီဖလော်ရာ ဟု ခေါ်သည်။ ယင်းသည်အပင်ငယ်မျိုးဖြစ်သည်။ များသောအားဖြင့် ပေ ၃၀ ခန့်သာ ရှိတတ်သည်။ ယင်းသည်လည်း အခေါက်ကြမ်း၍ အရောင်မည်းသည်။ သို့သော် ဆိုးဆေးအတွက် အခေါက်ကို အသုံးမပြုနိုင်ချေ။ အရွက်သည် အစိမ်းရောင်ဖျော့သည်။ ဗျူးကြက်တက်ပင်သည် အသက်ဘိုသော အပင်မျိုးဖြစ်သည်။

အပင်ငယ်တမျိုးဖြစ်သောဗျူးဘိုင်ထောက်ကိုရုက္ခဗေဒ အမည်ဖြင့် ကန်ဒဲလီယား ရီဟီးဒီးဟုခေါ်သည်။ အမြင့်ပေ ၂၀ ခန့်သာရှိတတ်သည်။ အခေါက်ချော၍ အပင်လုံး၌ နီညိုရောင်ရှိသော်လည်း အပင်းရင်း၌မူ အရောင်ဖျော့သည်။ ဆိုးဆေးအတွက် အခေါက်ကို အသုံးပြုနိုင်သည်။ လှပသော အဖြူရောင် ပန်းခိုင်ကလေးများ တွဲလောင်း ပွင့်တတ်လေသည်။



ကမ်းရိုးတန်းဒေသ ရေမြုပ်တောများတွင် ပေါက်လေ့ရှိသည့်ဗျူးပင်

ရက္ခဗေဒ အမည်ဖြင့် ရိုင်ဇိုဖိုရာ ကန်ဒလာရီးယား၊ သို့မဟုတ် ရိုင်ဇိုဖိုရာ မျူကရိုနေတာဟု ခေါ်သော ဗျူးခြေထောက်ပင်သည် လမုပင်မျိုးတွင် အပင်ကြီးမျိုးဖြစ်သည်။ ပေ ၉၀ ခန့်အထိပင် မြင့်နိုင်သည်။ လုံးဝန်းသော ပင်စည်ရှိ၍ အခေါက်သည် အမည်း၊ သို့မဟုတ် နီရောင်ရောင်ရှိပြီးလျှင် ပတ်ကြားအက်များ ထနေသည်။ ဆိုးဆေး အတွက် အခေါက်ကို အသုံးပြုနိုင်၍၊ ငါးဖမ်းပိုက်ကွန်များ ကြာရှည်ခိုင်စေရန် ထိုအခေါက်ဖြင့် အရောင်ဆိုးကြသည်။ အသီးသည် အစေ့မှ အညှောက်ပေါက်၍ အမြစ်လောင်းသည် ၂ ပေခန့်အထိ ရှည်သည့်တိုင်အောင် မကြွေသေးဘဲ ရှိနေတတ်သည်။ ထိုအပင်မျိုး၏အသားသည် ထင်းဆိုက်သောအခါ မီးတောက်လွယ်သည်။ သို့သော် အနံ့နံသည်။ အသားပွ၍ ခွဲရလည်း လွယ်သည်။ ထို့ကြောင့် ထိုအပင်များကို ထင်းခုတ်ရောင်းချကြရာ ဗျူးထင်းဟု ခေါ်ကြလေသည်။

**ဗျိုင်း။** ။ဥဗျိုင်း — ရှု။

**ဗျိုင်းအောက်။** ။ဗျိုင်းအောက်သည် စီကိုနီဖောမီးမျိုးစု်၊ အာဒီဒေးမျိုးရင်းတွင် ပါဝင်သောငှက်မျိုး ဖြစ်သည်။ ယင်းကို ပါဏဗေဒအလိုအားဖြင့် အာဒီအိုလာ ဂရေယီ ဟု ခေါ်သည်။

ဗျိုင်းအောက်၏ ကိုယ်အလျားမှာ ၁၈ လက်မ ရှိသည်။ အမွေးအရောင်မှာ ညစ်ပုပ်ပုပ်ဖြစ်ရာ၊ မြေကြီးပေါ်၌ နားနေစဉ်တွင် မြေကြီးရောင်နှင့် ရောနေသောကြောင့် ရုတ်တရက် မမြင်နိုင်ချေ။ ရုတ်တရက် ထပ်ျံသောအခါတွင်မှ ဖြူဖွေးသော အတောင်ပံ၊ အမြီးနှင့်ရင်ပိုင်းကို ထင်ရှားစွာမြင်ရသည်။ သားပေါက်ချိန်တွင် ကျောဖက်၌ ရွှေညိုသွေးရောင် ဖြစ်လာပြီးလျှင် ဆံခြည်မျှင်နှင့် တူသော အမွေးနုကလေးများ ပေါက်လာသည်။ နောက်စေ့တွင်လည်း ရှည်လျား၍ ဖြူဖွေးသောအမွေးစုရှည်လည်း ပေါက်လာသည်။ အဖိုနှင့်အမတို့၏ အရောင်အဆင်းမှာ အတူတူပင်ဖြစ်သည်။

ဗျိုင်းအောက်သည် ရေစပ်နား၌ တကောင်ချင်း ဖြစ်စေ၊ အအုပ်ဖွဲ့၍ဖြစ်စေ နေတတ်သော ငှက်မျိုးဖြစ်ရာ မြို့တိုင်း ရွာတိုင်းလိုလိုပင် ရေအိုင်အနီး၌ တွေ့ရသည်။ မြစ်၊အင်းအိုင်၊ ရေကန်၊ ရေလွှမ်းမိုးသည့် လယ်ကွက်၊ ချောင်း၊ မြောင်း၊ ပင်လယ်ကမ်းစပ် စသည့် ရေပေါများရာ ဒေသများတွင် အများအားဖြင့် ကျက်စားသည်။ ရေမည်မျှပင် တိမ်၍ နောက်သည်ဖြစ်စေ၊ ဗျိုင်းအောက်များအဖို့ စားကျက်သာဖြစ်သည်။ ရွှံ့နွံထဲတွင်ငင်း၊ ရေတိမ်တွင်ငင်း ဗျိုင်းအောက်သည် မလှုပ်မရှား ရပ်လျက်ဖြစ်စေ၊ သတိကြီးစွာနှင့် တလှမ်းချင်း လျှောက်လျက်ဖြစ်စေ ရှိနေတတ်ပြီးလျှင်၊ အစာတွေ့သည်နှင့် ဇွတ်ခနဲ နှုတ်သီးဖြင့် ဖမ်းယူလေ့ရှိသည်။ သစ်တောတွင်းရှိ ချောင်းစပ် မြောင်းစပ်တို့၌ တကောင်ချင်းဖြစ်စေ၊ ဖိုမတွဲလျက်ဖြစ်စေ တွေ့ရသည်။ ပင်လယ်ကမ်းရိုးတန်းရှိ ရွှံ့နွံပေါများရာ မြက်ခင်းများတွင်မူ အအုပ် အသင်းဖွဲ့၍ သွားလာနေသည်ကို တွေ့နိုင်သည်။ အချို့ ဗျိုင်းအောက်များသည် အလွန်ယဉ်နေကြသဖြင့် ရေစပ်တွင် အဝတ်လျှော်ဖွပ်နေကြသူများအနားတွင် နေတတ်ကြသည်။ ဗျိုင်းအောက်၏ အစာမှာ ဖား၊ ငါး၊ ဗုဇ္ဇန်လုံး၊ အင်း ဆက်ပိုးကောင်များဖြစ်သည်။ ပျံသန်းစဉ်တွင် ဖားအော်သံကဲ့သို့ အော်တတ်သည်။ ထိုအသံမှာ နားဝင်ချိုသော အသံမျိုး မဟုတ်ပေ။ ညနေပိုင်းတွင် မိမိတို့အသိုက်ရှိရာ အပင်များသို့ အအုပ်အသင်းနှင့်ချီ၍ ပြန်ကြပြီးလျှင် အိပ်တန်းတက်လေ့ရှိသည်။


ရပ်နားနေသည့်အခါ ညို၍ ပျံသန်းသောအခါ ဖြူသည့် ဗျိုင်းအောက်

ဗျိုင်းအောက်သည် အများအားဖြင့် ကျွဲ ကျောင်းဗျိုင်းများနှင့်အတူ အုပ်ကလေးများဖွဲ့ကာ၊ မိုးရာသီတွင် သားပေါက်ကြသည်။ ကုက္ကိုပင်၊ သရက်ပင်၊ ညောင်ပင်နှင့် ဝါးရုံပင်များတွင် သစ်ခက်၊ သစ်ကိုင်းတို့ဖြင့် အသိုက်ဆောက်လုပ်ထားတတ်သည်။ အသိုက်မှာ ကျီးသိုက်နှင့် ခပ်ဆင်ဆင်တူ၏။ တမြုံလျှင် ၃ ဥမှ ၆ ဥအထိရှိ၏။ အုပြီးကာစအချိန်တွင် ဥ၏ အရောင်မှာ အပြာရောင်သန်းသည့် အစိမ်းရောင်ဖြစ်သော်လည်း၊ မကြာမီပင် အရောင်ညှိုးသွားတတ်သည်။

ဗျိုင်းအောက်များကို အရှေ့နိုင်ငံများတွင် အနှံ့အပြားတွေ့ရသည်။ ယင်းသည် မြန်မာ နိုင်ငံတဝှန်းလုံးရှိ လွင်ပြင်များတွင် အမြဲတမ်း ကျက်စားသော ငှက်ဖြစ်သည်။

**ဗျစ်ရည်။** ။ဗျစ်ရည်ဟူသည်မှာ ဗီယာ၊ အေးစတောက်၊ ပိုတာနှင့် လာဂျာစသည့်တို့ကို အားလုံးခြုံ၍ ခေါ်ထားခြင်းဖြစ်သည်။ ဗျစ်ရည်သည် မုယောစပါးစသည့် ကောက်နှံတို့ကို အပင်ပေါက်စေပြီးသော် ကဇော်ဖောက်ထားသော သေရည်တမျိုး ဖြစ်လေသည်။

ဗျစ်ရည်ကို ရှေးရှေးပဝေဏီ ခေတ်အခါကပင် သောက်သုံးခဲ့ကြကြောင်း အထောက်အထားများ တွေ့ရသည်။ ဘီစီ ၆,၀၀၀ ခန့်က ဗက်ဗီလုံးနီးယားနိုင်ငံတွင် ယဇ်ပူဇော်ရာ၌ ဗျစ်ရည်ကြမ်းတမျိုးလည်း ပါဝင်ကြောင်း အထောက်အထားများရှိသည်။ ထိုနိုင်ငံ၌ ဘီစီ ၄,၀၀၀ ခန့်တွင် ဗျစ်ရည်အမျိုးပေါင်း ၁၆ မျိုးခန့်ကို မုယောစပါး၊ ဂျုံစပါး၊ ပျားရည် စသည်တို့ဖြင့် လုပ်ကိုင်ကြကြောင်း၊ ဗျစ်ရည်လုပ်ငန်းသည် လုပ်ငန်းကြီးတခု ဖြစ်ခဲ့ကြောင်း သိရသည်။ရှေးခေတ်အီဂျစ်နိုင်ငံ၌မူ ဘီစီ ၃,၀၀၀ ခန့်တွင် ဗျစ်ရည် ၄ မျိုးကို နေ့စဉ် အစားအသောက်၌ ထည့်သွင်းထားကြောင်း တွေ့ရသည်။ အီဂျစ်နိုင်ငံမှ ဗျစ်ရည်ပြုလုပ်သည့် အတတ်သည် ဂရိနိုင်ငံ၊ ရောမနိုင်ငံတို့သို့ ရောက်သွားသော်လည်း၊ ထိုနိုင်ငံများတွင် စပျစ်သီး ပေါများ၍ ဝိုင်အရက်များကိုသာ အသုံးများသဖြင့် ဗျစ်ရည်လုပ်ငန်းသည် မတွင်ကျယ်ခဲ့ချေ။

ဥရောပမြောက်ပိုင်း နိုင်ငံများတွင် ဗျစ်ရည် ပြုလုပ်နည်းများ သီးခြားတွေ့ရသည်။ တရုပ်၊ ဂျပန် စသည့်အရှေ့နိုင်ငံများတွင်လည်း ဗျစ်ရည်ကဲ့သို့ သေရည်တမျိုးကို သောက်သုံးခဲ့ကြသည်။ ဘီစီ ၂,၃၀၀ ခန့်က တရုပ်နိုင်ငံတွင် သောက်သုံးခဲ့ကြသော ဗျစ်ရည်ကဲ့သို့ သေရည်တမျိုးကို"ကျူ" ဟုခေါ်သည်။ အမေရိကတိုက်ကို ဥရောပတိုက်သားများ မတွေ့ရှိမီခေတ်က တောင်အမေရိကတိုက်တွင် ကြီးပွား ထွန်းကားခဲ့သော အင်ကားလူမျိုးတို့သည် ပြောင်းဖူးစေ့ကို အပင်ဖောက်၍ ပြုလုပ်သော "ချီချ" နှင့် "ဆိုရာ" ဟုခေါ်သည့် ဗျစ်ရည်အပေါ့စားနှင့် အပြင်းစားများကို သောက်သုံးခဲ့ကြကြောင်း အထောက်အထားများ တွေ့ရှိရလေသည်။

အထက်ဖော်ပြပါ အချက်များကို ထောက်ရှုခြင်းအားဖြင့် ရှေးရှေးခေတ်အခါကပင် ဗျစ်ရည်ကို ဒေသအလိုက် ပေါက်ရောက်သော ကောက်နှံတို့ဖြင့် ပြုလုပ်သောက်သုံးခဲ့ကြကြောင်းသိရပေသည်။ ဥရောပနိုင်ငံများတွင် ရှေးအခါက အိမ်တိုင်း အိမ်တိုင်း၌ အိမ်ရှင်မများသည် အိမ်သုံး အတွက် ဗျစ်ရည် ပြုလုပ်ခဲ့ကြသည်။ ဘုန်းကြီးကျောင်းများတွင် ပို၍များများစားစား ကြီးကြီးကျယ်ကျယ် ပြုလုပ်ကြသည်။ ယခုခေတ်တွင်မူ စက်ရုံအလုပ်ရုံကြီးများဖြင့် ဗျစ်ရည်လုပ်ကိုင်လျက်ရှိရာ ဗျစ်လုပ်ငန်းသည် ကြီးကျယ်သော စီးပွားရေးလုပ်ငန်းကြီးတခု ဖြစ်နေလေပြီ။ ဗျစ်လုပ်ငန်းကို ကမ္ဘာတွင် အကြီးအကျယ် လုပ်ကိုင်၍ ထင်ရှားသောနိုင်ငံများမှာ အင်္ဂလန်၊ ဂျာမနီ၊ အမေရိကန် ပြည်ထောင်စု နှင့် ချက်ကို စလိုဗားကီးယားတို့ ဖြစ်ကြလေသည်။



ဗျစ်ရည်ချက်ရာတွင် အဓိကပါဝင်သည့် ဟော့ပင်များ

ဗျစ်ရည်ကို အစတွင် ဖော်ပြခဲ့သည့်အတိုင်း မုယောစပါး ဖြင့်သာ မက ဂျုံ၊ ပြောင်း၊ စပါးစသော ကောက်နှံတို့ဖြင့် လည်း ပြုလုပ်နိုင်သည်။ ပြုလုပ်နည်းမှာ မုယော စသော ကောက်နှံတို့ကို အပင်ဖောက်၍ ရေနှင့်ရောပြီးလျှင် အရက် စည်တွင် အပူဓာတ်ပေး၍ မွှေနှောက် ချေနယ်ရသည်။ ယင်းသို့ဖြင့် ကစီရည်တွင် အချိုဓာတ် ပေါက်လာသည်။ အချိုက သကြားရောပေးသည်။ ထိုအခြေအနေတွင် ဗျစ် ရည်ချိုဟု ခေါ်သည်။ ယင်းနောက်တွင် အရည်များကို စစ် ထုတ်၍ ဟော့ ခေါ် ဗျစ်ခတ်ဆေးရောပြီး ဆူစေရသည်။ ထိုနောက်တွင် အအေးခံ၍ အနယ်ထိုင်စေသည်။ ယင်း နောက်တဖန် တဆေးရည် ရော၍ ကဇော်ဖောက်ရသည်။ အချို့ ဗျစ်ရည်တို့တွင်သုံးသော တဆေးသည် အပေါ် ယံသို့ တက်သည်။ အချို့ ဗျစ်ရည်တို့တွင် တဆေးသည် အောက် သို့ အနယ်ထိုင်ကျကာ ကဇော်ပေါက်စေသည်။ ယင်း အ ချက်ကို လိုက်၍ ဗျစ်ရည်အမျိုးအစား ကွဲပြားလေရာ အေး၊ စတောက်နှင့် လာဂျာဟူ၍ ခွဲခြားကြခြင်း ဖြစ်လေသည်။ ဗျစ်ခတ် ဆေးထည့်ပြီးနောက်တွင် ဗျစ်ရည်အရသာသည် တမျိုးတမည် ထူးကဲ၍ ခါးသက်သက်လည်း ဖြစ်လာသဖြင့် ထိုဗျစ်ရည်ကို ဗျစ်ခါးဟုလည်း ခေါ်ကြသည်။

ဥတုဘောဇနသင်္ဂဟကျမ်းတွင် ယောမြို့စား အတွင်းဝန် ဦးဘိုးလှိုင်က ဗျစ်ခါးလုပ်နည်းကို အောက်ပါအတိုင်း ဖော် ပြထားလေသည်။

“မုယောစပါးကို ရေဆွတ်၍ တောင်းနှင့် ထည့်ပြီးလျှင် ကောက်ရိုးအုပ်၍ ထား၊ သုံးရက်အတွင်း အပင်ပေါက်၏။ ၎င်းအပင်ပေါက်ကိုခြောက်အောင်နေပူလှန်း၊ ဒယ်အိုးကင်း နှင့် ပူအောင်လှော်ပြီးလျှင် ရေနွေးပူပူသို့လောင်း၊ တပဟိုရ် ခန့်ထား၊ အရည်ကိုစစ်၍ယူ၊ ၎င်းအရည်တွင် စံပယ်ပင်တို့ ကဲ့သို့ ‘ဟက်’ ခေါ် ပန်းပင်မျိုး၏ အပွင့်ကို အတော်ခါး လောက်အောင်ခတ်၊ စည်တဝက်ခန့်လောက် ၎င်းအရည်ကို ထည့်၍ နေပူမှာ ပိတ်ပြီးထားလျှင် ဝိုင်ဖြစ်၏။ မုယောအပင် ပေါက်ကို ပူရုံလှော်၍ လုပ်လျှင် အေလခေါ် ၏။ ညိုအောင် လှော်၍လုပ်လျှင် ဗျစ်ခေါ် ၏။ အချို့ ကျွမ်းအောင်လှော်၍ လုပ်လျှင် ပေါ် ခုတတ်ခေါ် ၏။ ၎င်းဝိုင်ကို ဗူးတွင်ထည့်၍ ဘော့ကြိုးဆိုင်းပြီးလျှင် ပိတ်၍ထား။ ၎င်း ဝိုင်သုံးမျိုး အ ချိန်တပိသာလျှင် ‘အပ်လကော်’ လေးကျပ်ကကို ခြောက် ကျပ်တိုင်အောင်ပါ၏။ အင်္ဂလိပ်နိုင်ငံမှာ ဤဝိုင်သုံးမျိုးကို အများသောက်ကြ၏။’’

ယခုခေတ်ဗျစ်ရည်များသည် ရှေးရှေးခေတ် ဗျစ်ရည် များနှင့်စာသော် အပေါ့စားများ ဖြစ်ကြသည်။ အယ်လကို ဟော ၃–၆ ရာခိုင်နှုန်းမျှသာ ပါရှိလေသည်။

အထက်တွင် ဖော်ပြခဲ့သည့် အတိုင်း အေး၊ ပိုတာနှင့် စ တောက် ဗျစ်ရည်တို့ကို အင်္ဂလန်၌ လူကြိုက်များသည်။ အေးသည် အရောင်ဖျော့သည်။ ဗျစ်ခတ်ဆေးအရသာ လွန် ကဲသည်။ ချဉ်စူးစူး အရသာလည်း ရှိသည်။ အယ်လကို ဟော ၄.၅ ရာခိုင်နှုန်းပါရှိ၍ အတန်ငယ် ပြင်းသည်။ ပိုတာ ဗျစ်ရည်မျိုးသည် အညိုရင့်ရောင်ဖြစ်သည်။ မုယော အရ သာလွန်ကဲ၍ အချိုအတန်ငယ်များသည်။ အေးထက် ဗျစ် ခတ်ဆေးအရသာ ပေါ့သည်။ အမြှုပ်များသည်။ အယ်လ ကိုဟော ၅ ရာခိုင်နှုန်းပါသည်။ စတောက် ခေါ် ဗျစ်ရည် သည် အရောင်အလွန်နက်၍ ဗျစ်ခတ်ဆေးနှင့် မုယောအရ သာလွန်ကဲသဖြင့် ချိုခါးခါးကြီးဖြစ်သည်။ မူးယစ်စေတတ် သော အယ်လကိုဟော ၅–၆.၅ ရာခိုင်နှုန်းပါ၍ အပြင်းစား ဗျစ်ရည်မျိုးဖြစ်လေသည်။

အမေရိကန် ပြည်ထောင်စုတွင် သောက်သုံး ကြသော ဗျစ်ရည်မျိုးကို လာဂျာဟု ခေါ်၍ မူလ ဂျာမန်နည်း အ တိုင်းပြုလုပ်ထားခြင်းဖြစ်သည်။ ထိုဗျစ်ရည်မျိုးသည် ဗျစ် ခတ်ဆေးအလွန်များသော အရသာရှိသည်။ ထိုဗျစ်ရည်ကို ပြုလုပ်ပြီးနောက် အရသာ ကောင်းသည်ထက် ကောင်းစေ ရန် လပေါင်းများစွာပင် ကြာအောင်သိုလှောင် ထားကြ သဖြင့်၊ ဂျာမန်ဘာသာဖြင့် သိုလှောင် ထားခြင်းကို “လာ ဂျန်” ဟု ခေါ်သည်ကို အစွဲပြုကာ ထိုဗျစ်ရည်မျိုးကို လာ ဂျာဟု ခေါ်ကြခြင်းဖြစ်လေသည်။ ထို့ပြင် ဂျာမန်တို့ပင် စတင်ပြုလုပ်ခဲ့သော ဗော့ဗျစ်ရည်တမျိုးရှိသေးသည်။ ထို ဗျစ်ရည်သည် အရောင်မည်းနက်၍ ပြင်းသောအမျိုးအစား ဖြစ်သည်။ နွေကူးဥတု၌ သောက်သုံးရန်အတွက် ဆောင်း ဥတုတွင် ပြုလုပ်ကြရလေသည်။

ချက်ကိုဆလိုဗားကီးယား နိုင်ငံမှ ပီလဆင်နာ ဗျစ်ရည် သည် အလွန်အရောင်ဖျော့၍ မုယောပင်ပေါက်ကို အတန် ငယ် အခြောက်ခံ၍ ပြုလုပ်ထားခြင်း ဖြစ်သည်။

ဆိုခဲ့သော ဗျစ်ရည် အမျိုးမျိုးတို့အပြင် ကမ္ဘာ၌ မ ကျော်ကြား လှသော်လည်း နိုင်ငံဒေသအလိုက် ပြုလုပ် သောက်သုံးကြသော ဗျစ်ရည်များလည်း ရှိကြသေးရာ၊ ပုံစံ အားဖြင့် ဗဲလဂျီယမ်နိုင်ငံမှ ဖရိုနှင့် လမ်းဗစ်တို့ကဲ့သို့ ဖြစ် လေသည်။

ဗျစ်ရည်တို့သည် လုပ်နည်း ကိုင်နည်းကို လိုက်၍ အနံ့ အရသာနှင့် အမျိုးအစား ကွဲပြားသွားကြခြင်း ဖြစ်သည်။ သို့သော် အကြီးအကျယ် ကွဲပြားခြားနားမှုကား မဟုတ် ချေ။ ထို့ကြောင့် အခြေခံ သဘောတွင် တူညီကြပေသည်။ ဗျစ်ရည်တွင်ရေ၊ ပရိုတင်း၊ ကာဗိုဟိုက်ဒရိတ်၊ ဓာတ်ဆား၊ မူးယစ်စေတတ်သော အယ်လကိုဟောတို့ ပါဝင်သည့်ပြင် ဗီတာမင်ဘီ အမျိုးမျိုးလည်း ပါဝင်သဖြင့် သွေးသားဖြစ် စေသော အာဟာရဓာတ်များနှင့် ပြည့်စုံပေသည်။ ထို ကြောင့် သင့်ရုံမျှ သောက်လျှင် အစာကြေချက်ခြင်းကို အထူးအားပေးလေသည်။

**ဗျန်းဆန်း,ဗျန့်စတျာနေ** (ခရစ် ၁၈၃၂–၁၉၁၀)။ ။ နော်ဝီဂျင်လူမျိုး စာရေးဆရာကြီး ဗျန့်စတျာနေဗျန်းဆန်းသည် နော်ဝေးနိုင်ငံ တောင်သူလယ်သမားဆင်းရဲသား၏ ဘဝကို သရုပ်ဖော်ရာ၌ အတုမရှိသူဖြစ်သည်။ မျိုးချစ်စိတ်လည်း အလွန်ထက်သန်သူ ဖြစ်၍ နော်ဝေးနိုင်ငံ လွတ်လပ်ရေး ကြိုးပမ်းမှု အရေးတော်ပုံတွင် အမျိုးသား ဇာတိမာန်စိတ်ဓာတ်ကို ကဗျာ ဝတ္ထု ပြဇာတ်တို့ဖြင့် နှိုးဆော်ပေးခဲ့သည်။ အထူးသဖြင့် နော်ဝေး နိုင်ငံတောင်သူလယ်သမားတို့၏ သတ္တိ၊ ဗျတ္တိ၊ ဝီရိယစသည်တို့ကို ခြီးကျူးရေးသားခြင်းဖြင့် နှိုးဆော်ပေးခဲ့သူဖြစ်သည်။ ယင်းသို့ဖြင့် ၁၉၀၅ ခုနှစ်တွင် နော်ဝေး နိုင်ငံကို ဆွီဒင်နိုင်ငံမှ ခွဲထွက်နိုင်ရေးတွင် ပါဝင်ဆောင်ရွက်ခဲ့လေသည်။

ဗျန်းဆန်းသည် နော်ဝေး နိုင်ငံအလယ်ပိုင်း ကဗီကနီရွာငယ်တွင် မွေးဖွားခဲ့သည်။ အော့စလိုမြို့၊ ခရစ်စတီအားနီးယားတက္ကသိုလ်တွင် ပညာဆည်းပူးခဲ့သည်။ ဒီဂရီဘွဲ့ မရမီကျောင်းမှထွက်ပြီးလျှင် ပြဇာတ် စာပေဝေဖန်ရေး ဆရာနှင့် သတင်းစာ ဆရာအဖြစ် ဆောင်ရွက်သည်။ နောင်အခါ ပြဇာတ်များ၊ ဝတ္ထုများကို ရေးသားခဲ့ရာ၊ နာမည်ကျော်ကြားလာသည်။ ဗျန်းဆန်း၏ စကားပြေအရေးအသားသည် အဆင်တန်ဆာ မပါ၊ အသိုင်းအဝိုင်း မထည့်၊ အန္တ အပျောင်းကို မမှု၊ အရိုးခံသဘောကို အရိုးခံအရေးအသားမျိုးဖြင့် တင်ပြတတ်သဖြင့် သူ၏လက်ရာများသည် နော်ဝီဂျင်စာပေများတွင် မှတ်တမ်းတင်ရလောက်အောင်ကောင်းမွန်သည်။ ဝတ္ထုနှင့်ကဗျာဖက်တွင် ဗျန်းဆန်းအား မှီနိုင်သူရှားပါးခဲ့သည်။ ပြဇာတ်အရေးအသားတွင် နော်ဝေးနိုင်ငံ၌ ဟင်းနရစ်အစ်ဗဆင်၏ နောက် ဒုတိယအကျော်အကြားဆုံးဖြစ်သည်။ (အစ်ဗဆင်,ဟင်းနရစ် — ရှု။) အစ်ဗဆင်ကဲ့သို့ပင် လူ့အရေး လူ့ကိစ္စကို တင်ပြသောခေတ်သစ် ပြဇာတ်များကို ရေးသားသည်။ သို့သော် အစ်ဗဆင်ကဲ့သို့ဘဝအမြင်မြင်ပြဇာတ်အရေးအသားမျိုးမဟုတ်ဘဲ ဘဝအကျိုးမြင် အရေးအသားမျိုးကို ရေးသားသည်။ ဗျန်းဆန်းသည် သဘောထား သိမ်မွေ့၍၊ လူတို့၏ သဘာဝကို နားလည်ကာ၊ ကိုယ်ချင်း စာနာတတ်သော စိတ်ရှိသည်ဟု ဆိုကြသည်။

ဗျန်းဆန်း၏ စာအုပ်အများအပြားကို အင်္ဂလိပ် ဘာသာနှင့် အခြား ဥရောပဘာသာများသို့ ပြန်ဆိုခဲ့ကြသည်။ ၁၉၀၃ ခုနှစ်တွင် စာပေနိုဗဲဆုကြီးဖြင့် အချီးမြှင့် ခံရသည်။ ဗျန်းဆန်းသည် ဣတလီ၊ ဂျာမနီ၊ ပြင်သစ်စသော ဥရောပနိုင်ငံများနှင့် အမေရိကန်နိုင်ငံသို့ သွားရောက် လှည့်လည်ဟောပြောခြင်းများ ပြုလုပ်ခဲ့သည်။

နော်ဝေးနိုင်ငံ၏ အမျိုးသားသီချင်းကို ဗျန်းဆန်းက စပ်ဆိုပေးခဲ့သည်။ ဗျန်းဆန်းကို တနိုင်ငံလုံးက ကြည်ညိုလေးစားကြသည်။ ဗျန်းဆန်း၏ အမည်ကို နိုင်ငံတော်အလံနှင့် ထပ်တူ ထပ်မျှ လေးစားကြသည် ဟုဆိုသည်။ နော်ဝီဂျင်ဝတ္ထုရေးဆရာကြီးများ အနက် ထိပ်တန်းအကျဆုံးဟု ယူဆထားကြ၍ ၁၉၁၀ ခုနှစ်တွင် ဗျန်းဆန်း ကွယ်လွန်သောအခါ သူ၏အမည်မှာ ကမ္ဘာချင်းအောင် ကျော်ကြားလျက်ရှိလေပြီ။



နာမည်ကျော် နော်ဝေးစာရေးဆရာကြီး ဗျန့်စတျာနေ ဗျန်းဆန်း

**ဗြနရာဇ်** (ခရစ် ၁၅၅၅–၁၆၀၅)။ ။ဗြနရာဇ်သည် ဘုန်းလက်ရုံးနှင့်ပြည့်စုံ၍ စစ်မှုရေးရာ ကောင်းစွာ ကျွမ်းကျင်သော ယိုးဒယားမင်းတပါးဖြစ်သည်။ ဗြနရေဆုအင် (နရေသဝရ) ဟူ၍လည်း ခေါ်ဝေါ်ကြသေးသည်။ ဟံသာဝတီဆင်ဖြူများရှင် (ဘုရင့်နောင်)၏ လက်ထက်မှ စ၍ မြန်မာ့လက်အောက်ခံဖြစ်ခဲ့သောယိုးဒယားနိုင်ငံကို သားတော်ငါးဆူဒါယကာ နန္ဒဘုရင် လက်ထက်တွင် လွတ်လပ်စေခဲ့သော အာဇာနည်ဘုရင်တပါးလည်း ဖြစ်ပေသည်။ ထိုမင်း၏ လက်ထက်တွင် ယိုးဒယားနိုင်ငံသည် အကျယ်ပြန့်ဆုံးဖြစ်ခဲ့၍၊ ထိုခေတ်အခါက အရှေ့ နိုင်ငံများတွင် ဘုန်းတန်ခိုးကြီးမား၍ ထင်ရှားကျော်ကြားသော မင်းတပါးဟု နိုင်ငံခြားသားများက မှတ်တမ်းတင်ကြသည်။

ဗြနရာဇ်သည် ယိုးဒယားမင်း ဗြသာဓိရာဇာ (မဟာချက္ကရဖတ်) ၏ သားမက်တော် ပိဿလောက်စား (ဗစ္စနုလုတ်စား) ဩရာဓမ္မရာဇာ၏ သားတော်ကြီးဖြစ်၍ ၁၅၅၅ ခုနှစ်

တွင် ဖွားမြင်သည်။ ၁၅၆၄ ခုနှစ်တွင် ဆင်ဖြူများရှင် မင်းတရားကြီး ယိုးဒယားသို့ ချီတက်လုပ်ကြံအောင်ပွဲ ခံရပြီးနောက်တွင်၊ ယိုးဒယားမင်းညီ မင်းသားများ၊ မှူးမတ်အချို့နှင့် ယိုးဒယားလက်မှု ပညာသည်များကို ဟံသာဝတီသို့ ယူဆောင်လာခဲ့သည်။ ယိုးဒယားရာဇဝင်များတွင် ဖြနရာဇ်သည် ထိုအခါကပင် ဟံသာဝတီသို့ ပါလာခဲ့ကြောင်း ဖော်ပြကြသည်။ယိုးဒယားမင်း သားမက်တော်သြရာဓမ္မရာဇာသည် ထိုအချိန်ကပင် ဆင်ဖြူများရှင်မင်းတရားနှင့် နှလုံးဝင် သသူဖြစ်သည်။ သို့သော် မင်းတရားကြီးသည် ပိဿလောက် စားအား ပို၍ စိတ်ချနိုင်စေရန်၊ ယင်း၏ သားတော်ကြီးဖြနရာဇ်ကို ခြေတော်ရင်း၌ ခေါ်ထားခြင်းဖြစ်သည်ဟု ယိုးဒယားရာဇဝင်တို့၌ ဆိုထားသည်။ ထိုစဉ်က ဖြနရာဇ်သည် ၉ နှစ်အရွယ်မျှသာ ရှိသေးသည်။ ဟံသာဝတီရွှေနန်းတွင် ၆ နှစ်ခန့်မျှ ခစားနေထိုင်ခဲ့စဉ်အတွင်း၊ မြန်မာဘာသာ၊ မွန်ဘာသာစကားတို့ကို နားလည် ပြောကြားနိုင်သည်။ မြန်မာနှင့် မွန်တို့၏ စိတ်နေစိတ်ထား အရည်အသွေးတို့ကိုလည်း သိရှိခဲ့သည်။ ဟံသာဝတီနန်းတွင်း ရေးရာတို့ကိုလည်း ကြားမြင်တွေ့ရှိခဲ့လေသည်။

ယိုးဒယားမင်း ဖြသာဓိရာဇာသည် ရဟန်းပြုနေရာမှ လူထွက်ကာ၊ ဟံသာဝတီမင်း၏ သစ္စာတော်ခံထားသော သားတော် ယိုးဒယားမင်း ဖြမဟိန်နှင့် တချက်တည်းပြု၍ မြန်မာမင်းအား ခြားနားပုန်ကန်လေသည်။ သားမက်တော် ပိဿလောက်စားကမူ ထိုအရေးတွင် မပါဝင်ဘဲ၊ ဟံသာဝတီ မင်းထံ ဆင်မြင်းအလုံးအရင်းနှင့် သွားရောက်ပြီးလျှင်၊ ဘုန်းတော်ရိပ်ကို ခိုလှုံသည်။ ထိုအခါ ဟံသာဝတီမင်းတရားကြီးက အားရတော်မူကာ၊ပိဿလောက်စားအား စော်ဘွားသောင်ကျည်ဟူ၍ ဘွဲ့ပေးကာ ချီးမြှင့်မြှောက်စားသည်။ ထိုအရေးကြောင့် ၁၅၆၈ ခုနှစ်တွင် မင်းတရား ကြီးသည် ယိုးဒယားသို့ ချီတက်လုပ်ကြံရပြန်ရာ၊ စော်ဘွားသောင်ကျည်လည်း နောက်တော် ပါရသည်။ အရေးတော်ပြီးသောအခါမင်းတရားကြီးသည် စော်ဘွားသောင်ကျည်အား သစ္စာတော်ခံ ယိုးဒယားမင်းအဖြစ် မင်းမြှောက်လေသည်။

စော်ဘွားသောင်ကျည်သည် ၁၅၆၉ ခုနှစ်တွင် မင်းဖြစ်လာသောအခါ မဟာဓမ္မရာဇာဘွဲ့အမည်ဖြင့် ထင်ရှားသည်။ ထိုအချိန်မှစ၍ ယိုးဒယားနိုင်ငံသည် ၁၅ နှစ်ကြာမျှ ဟံသာဝတီ၏ လက်အောက်ခံအဖြစ် ရောက်ရှိခဲ့ရာ၊ မဟာဓမ္မရာဇာ၏သားတော် ဖြနရာဇ်၏ ဘုန်းလက်ရုံးစွမ်းရည်ကြောင့် ယိုးဒယားနိုင်ငံသည် မြန်မာမင်းများနှင့် ထီးပြိုင်နန်းပြိုင် ဂုဏ်သတင်း ထွန်းပြောင်သော နိုင်ငံကြီး အဖြစ်သို့ ပြန်လည်ရောက်ရှိခဲ့လေသည်။

ယိုးဒယားရာဇဝင်၏အဆိုအရ မဟာဓမ္မရာဇာသည် ယိုးဒယားမင်းအဖြစ်ကို ဆက်ခံပြီးနောက်တွင် သမီးတော် ၁၇ နှစ်အရွယ်ရှိ ဖြသဝန် (ဖြသုဝဏ္ဏဒေဝီ) ကို ဟံသာဝတီမင်းတရားအား ဆက်သပြီးလျှင် ဟံသာဝတီရွှေနန်း၌ ရှိနေသောသားတော် ဖြနရာဇ်ကို ယိုးဒယားသို့ ပြန်၍ခေါ်တော်မူသည်ဟု ပါရှိသည်။ ထိုအချိန်တွင် မင်းသားကလေးသည် ၁၅ နှစ်အရွယ်ခန့် ရှိလေပြီ။

မဟာဓမ္မရာဇာသည် ဖြနရာဇ်မင်းသားအား မဟာဥပရာဇ်အရာပေးသည်။ ထိုစဉ်က ဥပရာဇ်တို့၏ ထုံးတမ်းစဉ်လာနှင့်အညီ ပိဿလောက်မြို့ကို စားစေပြီးလျှင် ထိုမြို့သို့ စေလွှတ်ကာ ယိုးဒယားနိုင်ငံမြောက်ပိုင်းကို အုပ်ချုပ်စေသည်။ ယိုးဒယားရာဇဝင်တို့တွင် ဖြနရာဇ်မင်းသားကို "အသားမည်းမင်းသား"၊ ယင်း၏ညီတော်ကို "အသားဖြူမင်းသား"ဟု လည်းခေါ်ဝေါ်ကြသည်။ ညီနောင်နှစ်ပါးသည် တဦးကိုတဦး အလွန်ခင်မင်မြတ်နိုးကြသည်။ ညီတော်သည် နောင်တော်၏ ရဲစွမ်းရည်ကို သိရှိ၍ အလွန်လေးစားချစ်ခင်လေသည်။ ၁၅၇၅ ခုနှစ်နှင့် ၁၅၇၈ ခုနှစ်များတွင် လဝိုက် (ကမ္ဘောဇ)များ ယိုးဒယားနိုင်ငံအား ထိပါးတိုက်ခိုက်လာသောအခါ၊ ဖြနရာဇ်မင်းသားသည် မိမိ၏ ဘုန်းလက်ရုံးစွမ်းအားကို ပြသခဲ့သည်။ ထိုကြောင့် ဖြနရာဇ်မင်းသား၏အရည်အသွေးကို လေးလေးစားစား ရှိလာကြလေသည်။

ဆင်ဖြူများရှင် မင်းတရားကြီး ၁၅၈၁ ခုနှစ်တွင် နတ်ပြည်စံလွန်တော်မူ၍ မင်းတရားကြီး၏ သားတော် (ငါးဆူဒါယကာ) နန္ဒဘုရင် နန်းတက်သည်။ နန္ဒဘုရင် နန်းတက်စတွင် ဖြနရာဇ်သည် ခမည်းတော် ယိုးဒယားမင်း၏ ကိုယ်စား ဟံသာဝတီသို့ အလုံးအရင်းနှင့်တကွ လာရောက်၍ ခြေတော်ဦးတင်သည်။ ယိုးဒယား ရာဇဝင်များတွင် ဖြနရာဇ် ဟံသာဝတီ၌ရှိနေစဉ် မိုးကောင်းစော်ဘွားသည် သစ္စာတော်ခံမလာရောက်ဘဲ ခြားနားသဖြင့် မြန်မာမင်း၏ သားတော် မဟာဥပရာဇာ၏တပ်၊ တောင်ငူမင်း၏ သားတော် နတ်သျှင်နောင်၏တပ်နှင့် ဖြနရာဇ်၏တပ်တို့သည် မိုးကောင်းသို့ ချီတက်ကြရသည်။ မဟာဥပရာဇာ၏တပ်နှင့် နတ်သျှင်နောင်၏ တပ်တို့သည် မိုးကောင်းအားလုပ်ကြံ၍ မရနိုင်လေ။ ထိုအခါ ဖြနရာဇ်၏တပ်များက ဝင်ရောက်စီးနင်းလုပ်ကြံရာ အရေးတော်လှခဲ့သည်။ သို့သော် ထိုအချိန်မှစ၍ မဟာဥပရာဇာနှင့် ဖြနရာဇ်တို့၏ ဆက်ဆံရေးသည် တမျိုးတမည်ဖြစ်သွားသည်ဟု ဆိုသည်။ မည်သို့ပင် ဖြစ်စေ၊ မြန်မာနိုင်ငံတော်ကြီး၏ အခြေအနေသည် ဆင်ဖြူများရှင်လက်ထက်ကဲ့သို့ မဟုတ်ဘဲ ယိုင်နဲ့လာပြီ ဖြစ်ကြောင်းကိုမူ ဖြနရာဇ် သိမြင်ခဲ့လေသည်။

ဟံသာဝတီ နန္ဒဘုရင်သည် ၁၅၈၄ ခုနှစ်တွင် အင်းဝသို့ ချီတက်တိုက်ခိုက်ရာတွင် ယိုးဒယားမင်းသား ဖြနရာဇ်တပ်များပါ လာရောက်ရန် ဆင့်ခေါ်သည်။ ဖြနရာဇ်သည် အလုံးအရင်းနှင့်ချီလာရာ၊ မူအန်ခရင်းမြို့သို့ အရောက်တွင်

မြန်မာမင်းတို့သည် မိမိအပေါ် အကောက်ကြံသည်ဟု အယူရှိလာသည်။ ထို့ကြောင့် တပ်များကို လေးလေး ဖင့်ဖင့် ချီတက်စေသည်။ ထို့ပြင် မြန်မာနိုင်ငံအတွင်း ခြားနားပုန်ကန်မှုများကို အချက်ယူကာ ယိုးဒယားကလည်း ခြားနားပုန်ကန်က၊ မလွတ်လပ်ပြီလောဟု ကြံဆလာသည်။ ထို့ကြောင့် ဟံသာဝတီမင်း အင်းဝသို့ ချီလေပြီဟု ကြားလျှင် နောက်တော်သို့ မလိုက်တော့ဘဲ ယိုးဒယားသည် မြန်မာမင်း၏သစ္စာတော်ကို မခံတော့ကြောင်း၊ မြန်မာမင်းကို မိမိခြားနားပြီဖြစ်ကြောင်းကို (၁၅၇၄ ခုနှစ်) ကျေညာသည်။ ထို့နောက် ဟံသာဝတီသို့ချီလာသည်။ ဖြနရာဇ်ချီလာကြောင်းကို ဟံသာဝတီ၌ မြို့စောင့်ကျန်ခဲ့သောမဟာဥပရာဇာ ကြားလျှင် မြို့ကို အခိုင်အလုံ စီရင်ထားသည်။ ဖြနရာဇ်လည်း မြို့ရင်းကိုချဉ်း၍ တပ်တောင်တာနှင့်နေစဉ်၊ နန္ဒဘုရင် အင်းဝကို အလိုတော်ပြည့်၍ ပြန်ချီလာကြောင်း ကြားသိရလျှင်၊ မုတ္တမသို့ ပြန်၍ အရှေ့ဖက်တလွှားရှိ လူသူအများကို သိမ်းယူပြီးသော် ယိုးဒယားသို့ ပြန်လေသည်။

နန္ဒဘုရင်လည်း ဖြနရာဇ်အား လိုက်၍ တိုက်စေသည်။ ဖြနရာဇ်သည် အယုဒ္ဓယမြို့မြောက်၊ စုက္ကလိအရပ်တွင် တပ်တည်၍ ပြန်တိုက်ရာ မြန်မာတပ်များ ရှေ့ချေသည်။ မိုးလကျတော့မည်လည်း ဖြစ်၍ ဟံသာဝတီရှေ့နန်းက တပ်တော်များကို ပြန်ခေါ်လျှင်၊ ဖြနရာဇ်လည်း ငါ့အကြံအတိုင်းပြီး မြောက်လေပြီဟု ကြုံးဝါးသံ ပြုလေသည်။

ဖြနရာဇ်သည် မိမိနိုင်ငံသို့ ပြန်ရောက်လျှင် ပိဿလောကမှ ရွှေ၍ အယုဒ္ဓယမြို့တော်၌ နေထိုင်ပြီးလျှင်၊ အယုဒ္ဓယမြို့တော်အား ရန်သူတို့ လုပ်ကြံလာလျှင် ခံနိုင်အောင် လူသူရိက္ခာ ဖြည့်တင်းထားသည်။ ဟံသာဝတီ တပ်များသည် ၁၅၈၅ ခုနှစ်တွင်၎င်း၊ ၁၅၈၆ ခုနှစ်တွင်၎င်း၊ ၁၅၉၀ ပြည့်နှစ်တွင်၎င်း ယိုးဒယားသို့ အကြိမ်ကြိမ်ချီတက် လုပ်ကြံသော်လည်း ဖြနရာဇ် အစီအရင် အခံကောင်းမှုကြောင့် အရေးမလှခဲ့ချေ။

၁၅၈၆ ခုနှစ်မှ ၁၅၉၀ ပြည့်နှစ်အထိ ၄ နှစ်ခန့် အတွင်း မြန်မာ-ယိုးဒယား စစ်ဖက်မှုများ ငြိမ်သက်နေခဲ့သည်။ ထိုအတွင်း ၁၅၉၀ ပြည့်နှစ်တွင် ယိုးဒယားမင်း မဟာဓမ္မရာဇာသည် နာ၍ လွန်လေသဖြင့်၊ သားတော်ကြီး ဖြနရာဇ်သည် ထီးနန်းကိုဆက်ခံသည်။ ထိုစဉ်ကဖြနရာဇ်သည် သက်တော် ၃၅ နှစ်မျှ ရှိသည်။ ညီတော်အက္ကသြေဘသရောက်အား အိမ်ရှေ့ပေးတော်မူလေသည်။

နန်းတက်ပြီး ၈ လခန့်ကြာလျှင် ဟံသာဝတီ တပ်များ ချီတက်လာကြ ပြန်သည်။ သို့သော် အရေးအခင်း မလှဘဲ ဆုတ်ခွာရပြန်သည်။ ယင်းသို့ ဟံသာဝတီမှ ယိုးဒယားသို့ အကြိမ်ကြိမ် ချီတက် လုပ်ကြံခြင်းတို့ ပျက်၍ ပြန်ရဖန်များလေသဖြင့်၊ ဖြနရာဇ်သည် ဟံသာဝတီသို့ ချီ၍ အားစမ်းမည်ဟု အလုံးအရင်းနှင့် ချီစေသည်။ သို့သော် ဝင်ယော်အရပ်မှ ဆုတ်ခွာခဲ့ရလေသည်။

ထို့ကြောင့် ၁၅၉၂ ခုနှစ်တွင် ဟံသာဝတီ မင်းတရားကြီးက ယိုးဒယားဖြနရာဇ်၏ သောင်းကျန်းမှုကို သက်စွန့်ကြိုးပမ်း ချီတက်နှိမ်နင်း၍ အမှုတော်ထမ်းရမည်ဟု မိန့်တော်မူသောကြောင့် သားတော်မဟာဥပရာဇာ၏တပ် အပါအဝင် ဟံသာဝတီတပ်များသည် ယိုးဒယားသို့ အလုံးအရင်းနှင့် ချီတက်ကြရပြန်သည်။ ယိုးဒယားသို့ ထိုနှစ် ဒီဇင်ဘာလတွင် ရောက်သည်။ ထိုအခါမဟာဥပရာဇာနှင့် ယိုးဒယားဖြနရာဇ်တို့ ဆင်စီးချင်းတိုက်ကြရာ၊ မဟာဥပရာဇာ ကျဆုံးသည်။ ဖြနရာဇ် အောင်ပွဲရ၍ မဟာဥပရာဇာ ကျဆုံးသည့်နေရာတွင် ဖြနရာဇ်က စေတီတဆူ တည်ထားရာ ယခုတိုင် ရှိသေး၍၊ ယိုးဒယားနိုင်ငံ နောင်ဆာရယ် (နောင်စာရေး) မြို့အနီး၌ ရှိသည်။ မဟာဥပရာဇာ ကျဆုံးသောကြောင့် ဟံသာဝတီ တပ်များအား မင်းတရားကြီးက ပြန်ခေါ်စေသဖြင့် အလောင်းတော်ကို ယူကာ ပြန်လည်ဆုတ်ခဲ့ကြသည်။ ထို့မှ နောက်တွင် ဟံသာဝတီမှ ယိုးဒယားသို့စစ်ချီမှုမရှိတော့ပေ။

ထို့ကြောင့် ဖြနရာဇ်သည်လည်း မိမိနိုင်ငံတော်အား ပြန်လည် စည်ပင်ဝပြောအောင် ဆောင်ရွက်သည်။ လဝိုက် (ကမ္ဘောဇ)သို့လည်း ချီတက်လုပ်ကြံ၍ မိမိ၏သစ္စာတော်ခံဖြစ်စေသည်။

၁၅၉၇ ခုနှစ်တွင် မော်လမြိုင်စား ပုန်ကန်သောအခါ ချီတက်နှိမ်နင်းသော ဟံသာဝတီ တပ်များပျက်၍ ပြန်ခဲ့ရသည်။ ထိုနှစ်တွင်ပင် ဖြနရာဇ်သည် မော်လမြိုင်စားနှင့် တစိတ်တဝမ်းတည်းပြုကာ၊ ဟံသာဝတီသို့ ချီတက်လာသည်။ သို့သော် ဇင်းမယ်၊ ပြည်၊ တောင်ငူတို့က စစ်ကူအင်အားများပြားစွာနှင့် လာသည်ဟု ကြားသိ၍ ဟံသာဝတီမှပြန်သည်။ မုတ္တမသို့ရောက်လျှင် အရှေ့ဖက်မွန်ဟူသမျှ သိမ်းယူ၍ ယိုးဒယားသို့ ပြန်လေသည်။

သက္ကရာဇ် ၁၅၉၈ ခုနှစ်တွင် တောင်ငူဘုရင်နှင့် ရခိုင်ဘုရင် မင်းရာဇာကြီးတို့ ပူးပေါင်း၍ ဟံသာဝတီကို တိုက်သည်။ ၁၅၉၉ ခုနှစ်တွင် ဟံသာဝတီပျက်၍ နန္ဒဘုရင်တောင်ငူသို့ ပါလေသည်။ ယိုးဒယားမင်း ဖြနရာဇ်သည်လည်း ဟံသာဝတီသို့ အလုံးအရင်းနှင့် ချီလာသည်။ ဖြနရာဇ် ချီလာခြင်းသည် မှန်နန်း ရာဇဝင်တော်၌ ဟံသာဝတီမင်းအားကူညီရန်ဟု ဆိုသည်။ ယိုးဒယား ရာဇဝင်၌မူ တောင်ငူမင်းနှင့် ရခိုင်မင်းတို့က စစ်ကူခေါ်၍ လာကြောင်း၊ နောင် ထိုမင်းတို့အကောက်ကြံ၍ တောင်ငူကို တိုက်ကြောင်း ပါသည်။

ဖြနရာဇ်သည် ဟံသာဝတီပျက်၍၊ နန္ဒဘုရင် တောင်ငူသို့ ပါလေပြီဟု ကြားလျှင် တောင်ငူသို့ ချီလာသည်။ တောင်ငူကို တလကျော်ကျော် လုပ်ကြံသော်လည်း မရချေ။ ထိုအတွင်း ယိုးဒယားရိက္ခာထောက်တပ်များကို ဟံသာဝတီတွင်

ကျန်ရစ်သော ရခိုင်မင်းက ဆီးကြိုတိုက်သဖြင့် ရိက္ခာ မရောက်နိုင်သောကြောင့် ယိုးဒယားတပ်တို့ ဝတ်မွတ်သဖြင့် ဆုတ်ခွာရသည်။

ဖြနရာဇ်သည် တောင်ငူကို ရံထားစဉ် မြို့သို့ ကြပ်ကြပ်ချဉ်းပြီးလျှင် ကျုံးနဖူးတွင် မြို့နှင့် အမျှ တပ်တည်ထားသည်။ ကျုံးကိုဖောက်၍ ကျုံးရေများကို ပေါင်းလောင်းမြစ်ထဲသို့ ထုတ်သည်။ ထိုမြောင်းကို ယိုးဒယားပေါက်ဟု ယခုတိုင် တွင်လေသည်။

၁၆၀၀ ပြည့်နှစ် မေလတွင် ဖြနရာဇ်၏တပ်သည် တောင်ငူမှခွာခဲ့၍ မုတ္တမသို့ ရောက်လျှင် မွန်ဟူသမျှ စုရုံးသစ္စာ ပေးပြီးလျှင်၊ ဝင်းယော်စားတူကို ဗညားဒလ အမည်ပေး၍ မြို့ကို အခိုင်နေစေသည်။ ဖြသပိုက်ကို ထားဝယ်မြို့ စားစေသည်။ ယင်းသို့ မုတ္တမဘလ္လားကို စီရင်ခန့်ရန်ပြီးမှ ယိုးဒယားသို့ ပြန်လေသည်။

ယိုးဒယားသို့ ရောက်လျှင် ဇင်းမယ်၌ မငြိမ်မသက် ရှိ၍ ဇင်းမယ်စား၊ ဟံသာဝတီမင်း၏ ညီတော် သာယာဝတီမင်းက စစ်ကူတောင်းလာသည်။ ဇင်းမယ်စားသည် ဟံသာဝတီမင်းနှင့် စိတ်ဝမ်းကွဲပြားနေခဲ့၍ တကြောင်း၊ ဟံသာဝတီ ပျက်နေ၍တကြောင်း မြန်မာမင်းအား အကူမတောင်းဘဲ ဖြနရာဇ်အား အကူအညီတောင်းခဲ့ခြင်း ဖြစ်သည်။ ဖြနရာဇ်လည်းစစ်ကူပို့၍ဇင်းမယ်၌မငြိမ်မသက်မှုကိုငြိမ်းအေးအောင် ပြုပြီးသော်၊ဇင်းမယ်မင်းအား မိမိ၏သစ္စာတော်ခံစေသည်။ နောင်အခါ ရှမ်းပြည်မှ စော်ဘွားစော်ခံ အချို့လည်း ဖြနရာဇ်၏ သစ္စာတော်ကို ခံလာကြလေသည်။

ဟံသာဝတီမှ ဖြနရာဇ် ဆုတ်ခွာခဲ့ပြီးသည့် နောက်တွင်၊ ၄ နှစ်ခန့်မျှ မြန်မာနှင့်ယိုးဒယားတို့ စစ်ဖက်မှု မရှိခဲ့ချေ။ ဟံသာဝတီ အပျက်တွင် မြန်မာနိုင်ငံတွင်း၌လည်း ပြည်ထောင်အများ အကွဲကွဲအပြားပြားဖြစ်ကာ၊အင်းဝ၊တောင်ငူ၊ ပြည်တို့ ထီးပြိုင်နန်းပြိုင် ဖြစ်နေကြသည်။ အင်းဝဘုရင် ညောင်ရမ်းမင်းတရားထံတော်သို့ အထက်မြန်မာနိုင်ငံ တလွှားမှ နယ်ပယ်များက သစ္စာတော်ခံလာကြသည်။ ရှမ်းပြည်နယ်မှ အချို့စော်ဘွားများလည်း သစ္စာတော်ခံလာကြသည်။ ညောင်ရမ်းမင်းတရားသည် ခမည်းတော်ဟံသာဝတီဆင်ဖြူများရှင်၏ နိုင်ငံတော်ကြီး အပြုံပြိုအကွဲကွဲရှိသည်ကို ပြန်လည် စုစည်းတော်မူလိုသည်။ ထိုကြောင့် သစ္စာတော် မခံသေးသော ရှမ်းပြည်နယ်အချို့ကို သိမ်းပိုက်ရန် ချီတက်တော်မူလေသည်။

ယိုးဒယားရာဇဝင်၌ ညောင်ရမ်းမင်း၏ လက်ထက်တွင် ဇင်းမယ်၊ သိန္နီ၊ မိုင်းဟင်း၊ မိုးနဲ၊ မိုင်းနဲမြို့များသည် ယိုးဒယားလက်အောက်ခံ ဖြစ်ကြလေရာ၊ ညောင်ရမ်းမင်းတရားကြီး ထိုရှမ်းမြို့များကို သိမ်းပိုက်ရန် ချီတက်လာသောအခါ မိုးနဲစော်ဘွားက ချီပင့်၍ ဖြနရာဇ်သည် ၁၆၀၅ ခုနှစ်တွင် ဇင်းမယ်ကြောင်း ချီကာ သံလွင်မြစ်ကို ကျော်ဖြတ်လာခဲ့သည်။ဇင်းမယ်ကျေးမိုင်းဟင်းသို့ ရောက်လျှင် ကျည်မေနာ ရောက်၍ ထိုနှစ်မေလ ၁၆ ရက်နေ့တွင် ရုတ်တရက် နတ်ရွာစံလွန်လေသည်။

ဖြနရာဇ် နတ်ပြည် လွန်သည့်အခါ သက်တော် ၅၀ ဖြစ်၍ နန်းစံ ၁၅ နှစ်ဖြစ်သည်။ ဖြနရာဇ်သည် သက်တော် ၂၀ အရွယ်ခန့်ကစ၍ ယိုးဒယားနိုင်ငံအား မြန်မာတို့လက်အောက်ခံ အဖြစ်မှ လွတ်မြောက်အောင် ကြိုးပမ်းခဲ့ရာ၊ ၉ နှစ်ခန့်အကြာတွင် ရည်ရွယ်ရင်းအတိုင်းအောင်မြင်ခဲ့သည်။ ဟံသာဝတီမင်း၏ သားတော် ဥပရာဇာအား အောင်မြင်ပြီးသည့်နောက်တွင် မိမိ၏ နိုင်ငံတော်ကို ပြန်လည်စုရုံးတောင့်တင်းအောင် ပြုစုသည်။ ထိုအချိန်တွင်ပင် လဝိုက် (ကမ္ဘောဇ) ပြည်ကိုလည်း မိမိ၏နိုင်ငံတော်တွင်း သိမ်းသွင်းခဲ့သည်။ နတ်ပြည်မလွန်မီ ၄ နှစ်ခန့်အတွင်း၌ နိုင်ငံတော်၏ နယ်နိမိတ်ကို ချဲ့တော်မူသည်။ အနောက်ဖက်တွင် ဟံသာဝတီ၏ တောင်ဖက်တလွှားမှ မွန်ဒေသများကို သိမ်းပိုက်သည်။ မြောက်ဖက်တွင် ဇင်းမယ်သည် ဖြနရာဇ်၏ သစ္စာတော်ခံဖြစ်လာသည်။ ထိုပြင် သိန္နီ၊ မိုင်းဟင်း၊ မိုးနဲ၊ မိုင်းနဲစသော ရှမ်းစော်ဘွားတို့သည်လည်း ဖြနရာဇ်၏လက်အောက်ခံ ဖြစ်လာသည်။ ထိုကြောင့် ထိုမင်းလက်ထက်တွင် ယိုးဒယားနိုင်ငံ အကျယ်ပြန့်ဆုံးဟု ဆိုကြသည်။ ဖြနရာဇ်သည် ၁၆ နှစ်ခန့်အတွင်း စစ်မက်အရေးတို့ကို လက်ရုံးရည်၊ နှလုံးရည်တို့ဖြင့် ကျွမ်းကျင်စွာ ဆောင်ရွက်ခဲ့သည်။ သို့သော် ဟံသာဝတီအား အကြိမ်ကြိမ် ချီတက်လုပ်ကြံခဲ့သော်လည်း မအောင်မြင်ခဲ့ပေ။ သို့ပင်ငြားလည်း ဟံသာဝတီနိုင်ငံတော်ကြီး ပြိုကွဲပျက်စီးရခြင်းတွင် ဖြနရာဇ်အား မနိုင်နင်းနိုင်ခဲ့ခြင်းတည်းဟူသော အကြောင်းရင်းလည်း ပါဝင်လေသည်။

**ဗြိတိသျှကိုလမ္ဗီးယားပြည်နယ်။** ။မြောက် အမေရိကတိုက်ကနေဒါ ဒိုမီနီယန်နိုင်ငံ၏အနောက်ဖက်ဆုံးနှင့်တတိယအကြီးဆုံး ပြည်နယ်ဖြစ်သည်။ တောင်ရိုးတောင်တန်း၊ မြစ်ချောင်း အင်းအိုင်ပေါများ၍ သာယာလှပသော ရှုခင်း ရှုကွက်များဖြင့် ကြွယ်ဝသဖြင့် "အမေရိကန် ဆွစ်ဇာလန်"ဟုလည်း ခေါ်ကြသည်။ မြောက်အမေရိကတိုက်တွင် နောက်ဆုံး ထူထောင်ရသော ပြည်နယ်တခုဖြစ်သော်လည်း ယခုအခါ မြောက်အမေရိကတိုက် ပြည်နယ်များအနက် ချမ်းသာကြွယ်ဝသော ထိပ်တန်းပြည်နယ်တခု ဖြစ်နေလေသည်။

ဗြိတိသျှ ကိုလမ္ဗီးယားပြည်နယ်သည် ပစိဖိတ်သမုဒ္ဒရာနှင့် ရော့ကီး တောင်တန်းတို့၏ အကြား၌ တည်ရှိသည်။ အနောက်ဖက်တွင် ပစိဖိတ်သမုဒ္ဒရာနှင့် အလာစကာ ပြည်နယ်၊ အရှေ့ဖက်တွင် အယ်လဗားတား ပြည်နယ်၊ မြောက်



ဗြိတိသျှ ကိုလမ်ဘီးယားပြည်နယ်၊ ဝိတိုရိယမြို့ရှိ ပါလီမန်လွှတ်တော်

ဖက်တွင် ကနေဒါပိုင် ယူးကွန်းပြည်နယ်နှင့် ကနေဒါ အနောက်မြောက်နယ်တပိုင်းတို့ဖြင့် ဝန်းရံလျက်ရှိသည်။ ပြည်နယ်၏ အကျယ်အဝန်းသည် ၃၆၆,၂၅၅ စတုရန်းမိုင်ရှိ၍၊ လူဦးရေမှာ ၁၉၆၀ ပြည့်နှစ် ခန့်မှန်း သန်ကောင်စာရင်းအရ ၁,၆၀၁,၀၀၀ ယောက်ဖြစ်သည်။

ထိုပြည်နယ်၏ ပင်လယ်ကမ်းရိုးတန်းသည် မိုင်ပေါင်း ၇,၀၀၀ ခန့်ရှည်လျားရာ၊ ပင်လယ် သဘောဆိပ်ကောင်းများစွာရှိသည်။ ထိုပြင် ကမ်းရိုးတန်း တလျှောက် ကျွန်းကြီးကျွန်းငယ်ပေါင်း များစွာရှိရာ၊ ယင်းတို့အနက် ဗန်ကူးဗားကျွန်းနှင့် ကွင်းရှားလော့ကျွန်း တို့သည် အရေးအပါဆုံးဖြစ်ကြသည်။ ပြည်နယ်၏ မြို့တော်သည် ဗန်ကူးဗားကျွန်းပေါ် ရှိ ဝိတိုရိယမြို့ဖြစ်လေသည်။

ဗြိတိသျှကိုလမ်ဘီးယားပြည်နယ်ကို တောင်ရိုးတောင်တန်းကြီး ၃ ခုက မျဉ်းပြိုင်ဖြတ်သန်းလျက်ရှိကြသည်။ ယင်းတို့သည် ရော့ကီးတောင်တန်း၊ ကိုလမ်ဘီးယား တောင်တန်းနှင့် ကမ်းရိုးတန်း တလျှောက် တောင်ရိုးတောင်တန်း များဖြစ်သည်။ ထိုတောင်ရိုး တောင်တန်းများတွင် ထူထပ်သော သစ်တောကြီးများ ဖုံးအုပ်လျက် ရှိသည်။ အင်းအိုင် မြစ်ချောင်းတို့လည်း ပေါများ၍ အဓိက မြစ်ကြီးများမှာ ဖရေဇာမြစ်နှင့် ကိုလမ်ဘီးယားမြစ်တို့ဖြစ်ကြသည်။ ထိုမြစ်ကြီး ၂ သွယ်နှင့် စကီးနားမြစ်တို့သည် ပစိဖိတ်သမုဒ္ဒရာထဲသို့ စီးဝင်ကြသည်။ ပိမြစ်နှင့် လီအာမြစ်တို့သည် အာတိတ်သမုဒ္ဒရာထဲသို့ စီးဝင်ကြသည်။ ရေတံခွန်များ၊ ရေစီးလျှင်မြန်သော မြစ်ချောင်းများမှ ရေအား လျှပ်စစ်ကို ကောင်းမွန်စွာ ရရှိလေသည်။

ဗြိတိသျှ ကိုလမ်ဘီးယားပြည်နယ်၏ ရာသီဥတုသည် ကမ်းရိုးတန်းဒေသတလျှောက်တွင် သင့်တင့်မျှတ၍ မိုးလည်းများသည်။ အတွင်းဖက်သို့ ရောက်လျှင်မူကား တောင်ရိုးတောင်တန်းကြီးများက ပင်လယ်လေကို ကွယ်ထား သဖြင့် ထိုဒေသများတွင် ရာသီဥတုခြောက်သွေ့ပြီးလျှင် မဒျှတချေ။ သို့သော် မြင့်မားသော တောင်ထိပ်များတွင်မူ ဆီးနှင်းများ မပြတ်ဖုံးလွှမ်းလျက် ရှိလေသည်။

ထိုပြည်နယ်၏ တောင်ရိုး တောင်တန်းများသည် ပြည်နယ်ရာသီဥတုတွင် အကျိုးသက်ရောက်မှု ရှိစေခြင်း၊ ပြည်နယ်မြစ်ချောင်းများ၏ မြစ်ဖျားခံရာ ဖြစ်ခြင်းတို့ အပြင်၊ ပြည်နယ်အား ဓာတ်သတ္တုတို့ဖြင့် ပေါများကြွယ်ဝစေသည်။ ကနေဒါနိုင်ငံ၏ ပြည်နယ်များထဲတွင် ဗြိတိသျှကိုလမ်ဘီးယားမှ ငွေ၊ ခဲ၊ သွပ် အထွက်အများဆုံး ဖြစ်သည်။ ရွှေ၊ကြေးနီ

# ဗြိတိသျှ ကိုလမ္ဗီးယားပြည်နယ်



စက္ကူလုပ်ငန်းသည် ဗြိတိသျှ ကိုလမ္ဗီးယားပြည်နယ်၏ အဓိကလုပ်ငန်းတရပ်ဖြစ်၍၊ သစ်များကို ဤသို့ စက္ကူစက်ရုံသို့ပို့ပေးရသည်။

နှင့် ကျောက်မီးသွေးကိုလည်း အမြောက်အမြား တူးဖော်ရရှိသည်။ ဗြိတိသျှ အင်ပိုင်ယာတခုလုံးတွင် အကြီးဆုံး သံရည်ကျိုစက်ရုံကြီးသည် ကိုလမ္ဗီးယားပြည်နယ် ထရေးမြို့၌ ရှိလေသည်။

မြောက်အမေရိကတိုက်တွင် သစ်အများဆုံး ထွက်သော ပြည်နယ်များတွင် ဗြိတိသျှ ကိုလမ္ဗီးယားပြည်နယ်လည်း ပါဝင်သည်။ ဗြိတိသျှကိုလမ္ဗီးယားပြည်နယ်၏ အကွေ့အကောက်များလှသော ကမ်းရိုးတန်းနှင့် မြစ်ချောင်းများမှ ငါးအမြောက်အမြား ဖမ်းဆီးရမိသည်။ ထိုပြည်နယ် တနယ်တည်းမှ ရရှိသော ငါးတန်ချိန်သည် အခြား ပြည်နယ်အားလုံးထွက် ငါးတန်ချိန် စုစုပေါင်းထက်ပင် ပိုသေးလေသည်။

မြေဩဇာ ကောင်းမွန်သော တောင်ကြား ဒေသများတွင် သိုး၊ ဆိတ်၊ နွားမွေးမြူရေး၊ လယ်ယာစိုက်ပျိုးရေး၊ သစ်သီးဝလံ စိုက်ပျိုးရေး၊ ဟင်းသီး ဟင်းရွက်စိုက်ပျိုးရေးတို့ကို လုပ်ကိုင်ကြသည်။ ပြည်နယ် ထူထောင်စ အခါက၊ သားမွေး လုပ်ငန်းသည်သာလျှင် အကြီးအကျယ်ဆုံး လုပ်ငန်းဖြစ်သည်။ ယခု အခါ ဗြိတိသျှ ကိုလမ္ဗီးယားပြည်နယ်တွင် သစ်လုပ်ငန်း၊ သတ္တုတွင်းလုပ်ငန်း၊ လယ်ထွက် ပစ္စည်းလုပ်ငန်း၊ ငါးဖမ်းလုပ်ငန်းတို့ ကြီးကျယ်စွာ လုပ်ကိုင်လျက်ရှိ၍ လယ်ယာထွက်ပစ္စည်း၊ သစ်တောထွက် ပစ္စည်း၊ တွင်းထွက်ပစ္စည်း၊ စက်ရုံထွက်ပစ္စည်း အမျိုးပေါင်း ရာပေါင်းများစွာကို ကမ္ဘာအရပ်ရပ်သို့ တင်ပို့လျက် ရှိပြီးလျှင် ဗြိတိသျှကိုလမ္ဗီးယားသည် ကနေဒါနိုင်ငံ၏ ပြည်နယ်များအနက် ထွက်ကုန်အများဆုံး ထွက်သော ပြည်နယ် တခုဖြစ်နေလေသည်။ ဗြိတိသျှ ကိုလမ္ဗီးယားပြည်နယ်သည်လမ်းပန်း ဆက်သွယ်ရေးလည်း ကောင်းမွန်သည်။ တောတောင် အထပ်ထပ် ကာဆီးလျက်ရှိသော်လည်း မီးရထားလမ်းများသည် ကောင်းမွန်သည်။ လေကြောင်း အားဖြင့်လည်း ပြည်နယ်တွင်း နိုင်ငံတွင်း၌သာမက၊ ကမ္ဘာအရပ်ရပ်နှင့်လည်း ဆက်သွယ်နိုင်သည်။ အလာစကာ လမ်းမကြီးသည် ပြည်နယ်တခုလုံးရှိ လမ်းများ၏ ၃ ပုံ ၁ ပုံခန့် ရှည်လျားသော လမ်းမကြီးဖြစ်သည်။ နေရာများစွာတွင် မြစ်၊ ချောင်း၊ အင်း၊ အိုင်တို့ကို လမ်းပန်း ဆက်သွယ်ရေးအတွက် အသုံးပြုလျက် ရှိကြသည်။

နိုင်ငံဖြတ်မီးရထားလမ်း ကြီးဖြစ်သော ကနေးဒီးယန်း—ပစိဖိတ် မီးရထားလမ်းကြောင်း၏ ကျေးဇူးကြောင့် ဗြိတိသျှ ကိုလမ္ဗီးယားပြည်နယ်၏ ကူးသန်းသွားလာရေး၊ ကုန်သွယ်စီးပွားရေး အလွန်တိုးတက်ခဲ့သည်။ ဒုတိယ ကမ္ဘာစစ်အတွင်းကမှ ပြီးစီးခဲ့သော အလာစကာ လမ်းမကြီးသည် ပြည်နယ်၏ ကြွယ်ဝသော ဓာတ်သတ္တုများ ထုတ်ယူပို့ဆောင်ရေးအတွက် အလွန်အရေးပါလေသည်။

ဗြိတိသျှကိုလမ်ဘီးယားပြည်နယ်၏နောက်ကြောင်းသမိုင်းကို ပြန်လှန်ကြည့်မည်ဆိုလျှင်၊ ၁၅၇၉ ခုနှစ်တွင် ဆာဖရန်စစ်ဒရိတ်သည် မြောက်အမေရိကတိုက်၊ အနောက်ကမ်းရိုးတန်းတလျှောက် သွားလာလှည့်ပတ်ခဲ့သည်။ သို့သော် ဥရောပတိုက်သားများထဲမှ ဗြိတိသျှကိုလမ်ဘီးယားဖြစ်လာမည့်ဒေသကို ပဌမဆုံး တွေ့ရှိခဲ့သူများမှာ၊ ၁၇၇၄ ခုနှစ်တွင် မက္ကဆီကိုပြည်နယ်၊ စပိန်ဘုရင်ခံချုပ်က စေလွှတ်ခဲ့သောကင်းစမ်းတပ်ဖွဲ့ တဖွဲ့ဖြစ်သည်၊၊ ၁၇၇၈ ခု နှစ်တွင် ကပ္ပတိန်ကွတ်သည် ဗန်ကူးဗားကျွန်းသို့ ရောက်ရှိလာသည်။ထိုအခါမှစ၍ တိုင်းရင်းသား အင်ဒီးယန်းလူမျိုးများနှင့် သားမွေးအရောင်းအဝယ် လုပ်ငန်းစတင်ခဲ့ကြသည်။ ထိုအရောင်း အဝယ်လုပ်ငန်းနှင့် စပ်လျဉ်း၍ နယ်လုကြရာမှ အင်္ဂလိပ်နှင့်စပိန်တို့စစ်ဖြစ်လုနီးပါး အခြေအနေသို့ ရောက်ခဲ့သေးသည်။ သို့သော် အင်္ဂလိပ်တို့က အသာရခဲ့၍ ၁၇၉၀ ပြည့်နှစ်တွင် ထိုဒေသကို သိမ်းသွင်းခဲ့သည်။

ယင်းသို့တိုင်အောင် ဗြိတိသျှ အစိုးရက ထိုဒေသကို ပြည်နယ်တခုအဖြစ် ကျနစွာ တည်ထောင်ခြင်း မပြုခဲ့ချေ။ သားမွေးလုပ်ငန်းသည် ဗြိတိသျှကိုလမ်ဘီးယား ဖြစ်လာမည့်ဒေသတွင် ကြီးကျယ်လာရာ၊ဗြိတိသျှတို့သည် ဟဒ်ဆန်ဗေးကုမ္ပဏီကိုတည်ထောင်ခဲ့၍၊ထိုဒေသသည် ကုမ္ပဏီပိုင်နယ်မြေဖြစ်နေခဲ့သည်။ ထိုစဉ်က နယူးကယ်လီဒိုးနီးယားဟု အမည်တွင်သည်။ ၁၇၉၂ ခုနှစ်တွင် ထိုကျွန်းသို့ ရောက်ရှိလာ၍ ကျွန်းကို လှည့်လည်စူးစမ်း လေ့လာခဲ့ပြီးလျှင် သိမ်းသွင်းခဲ့သူ ကပ္ပတိန် ဂျော့ဗန်ကူးဗား၏ အမည်ကို ဂုဏ်ပြုခေါ် ဝေါ်ထားသည့် ဗန်ကူးဗားကျွန်းကို ၁၈၄၉ ခုနှစ်တွင် ဗြိတိသျှအစိုးရက ဟဒ်ဆန်ဗေးကုမ္ပဏီသို့ငှါးထားပြီးလျှင် ကရောင်းကိုလိုနီ အုပ်ချုပ်ရေးစံနစ်ဖြင့် အုပ်ချုပ်ခဲ့သည်။ ၁၈၄၆ ခုနှစ်နှင့် ၁၈၇၂ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စု အစိုးရနှင့် နယ်နိမိတ်ပြဿနာ ဖြေရှင်းရသည်။ ၁၈၅၈ ခုနှစ်တွင် ဖရေဇာမြစ်ထဲ၌ ရွှေများ တူးဖော်ရသည်မှစ၍ ထိုဒေသသို့ လူအများအပြား ရောက်လာသည်။ ထိုအခါ ဗြိတိန်ပြည့်ရှင် ဝိတိုရိယဘုရင်မကြီးက ထိုဒေသကို ဗြိတိသျှကိုလမ်ဘီးယား ဟု အမည်ပြောင်းပေးသည်။ လူနေ စည်ကားများပြား လာသဖြင့် ထိုဒေသကို ပိုင်ပိုင် နိုင်နိုင် အုပ်ချုပ်ရန် လိုအပ်လာသည်။ ထိုကြောင့် ဗြိတိသျှ အစိုးရက ထိုဒေသတွင် ကရောင်းကိုလိုနီ အုပ်ချုပ်ရေးပေးအပ်သည်။ ၁၈၆၆ ခုနှစ်တွင် ဗြိတိသျှ ကိုလမ်ဘီးယားနှင့် ဗန်ကူးဗားကျွန်းတို့ကို ပူးပေါင်းလိုက်လေသည်။ ၁၈၇၁ ခုနှစ်တွင်မှ ဗြိတိသျှ ကိုလမ်ဘီးယားပြည်နယ်သည် ကနေဒါဒိုမီနီယန် နိုင်ငံအတွင်းသို့ အဖွဲ့ဝင်ပြည်နယ်တခုအဖြစ် ဝင်ရောက်ခဲ့လေသည်။

ဗြိတိသျှကိုလမ်ဘီးယား ပြည်နယ်တွင် ဥပဒေပြု လွှတ်တော်တရပ်သာရှိသည်။ အုပ်ချုပ်ရေးအထွတ်အထိပ်သည် ဂရိတ်ဗြိတိန်ပြည့်ရှင်ကို ကိုယ်စားပြုသော ဒုတိယဘုရင်ခံဖြစ်သည်။ သို့သော် တကယ်အုပ်ချုပ်ရေး အာဏာရှိသူမှာ ပြည်သူ လူထုက ရွေးကောက်တင်မြှောက်သော အစိုးရအဖွဲ့၏ ခေါင်းဆောင် ဝန်ကြီးချုပ်ဖြစ်သည်။ ထိုပြည်နယ်၏ ပြည်သူ့ကိုယ်စားလှယ် အမတ်ပေါင်း ၅၂ ယောက်ရှိသည့်အနက် ကနေဒီယန် ပါလီမန်၏ အထက် လွှတ်တော်သို့ ၆ ဦး၊ အောက်လွှတ်တော်သို့ ၂၂ ဦး တက်ရောက် ရလေသည်။

# ကမ္ဘာ့တွင်အရေးပါဆုံးသောကျွန်း

**တခေတ်က နေမဝင်နိုင်သော အင်ပိုင်ယာကြီးကို ထိန်းချုပ်ခဲ့သည့် ကျွန်းစုတွင်ပါဝင်သော ကျွန်းကြီးကျွန်းငယ်များ၊ မြစ်ချောင်းများ၊ မြေမျက်နှာပြင် လှိုင်းအိတိုးနေသကဲ့သို့ရှိသော ဆပ်ဆက်နယ်၊ တောင်ကြီး ကမ်းကြီးမြင့်မားသော စကော့တလန်ပြည်၊ ကျောက်ဆောင် ကျောက်တောင်ပေါများသော အယ်ယာနိုင်ငံ၏ ကမ်းရိုးတန်း စသည့် ဗြိတိသျှကျွန်းစု၏ ပထဝီဝင် အချက်အလက်များကို တင်ပြထားသည်။**

**ဗြိတိသျှကျွန်းစု။** ။ဗြိတိသျှ ကျွန်းစုသည် ကမ္ဘာတွင် အကျော်ကြားဆုံးသော ကျွန်းစုဖြစ်သည်။ ဥရောပတိုက်၏ အနောက်မြောက်ဖက် ကမ်းခြေ အလွန်တွင် တည်ရှိ၍၊ မြောက်ပင်လယ်၊ ဒိုဗာရေလက်ကြားနှင့် အင်္ဂလိပ်ရေလက်ကြားကြီးတို့က ဥရောပတိုက်ကုန်းမကြီးမှ ပိုင်းခြားထားသည်။ ထိုကျွန်းစုတွင် ကျွန်းကြီး ၂ ကျွန်း ပါဝင်ရာ၊ ဂရိတ်ဗြိတိန် (အင်္ဂလန်ပြည်၊ စကော့တလန်ပြည်နှင့် ဝေလနယ်) နှင့် အိုင်ယာလန်ကျွန်း (အယ်ယာနိုင်ငံနှင့် မြောက်အိုင်ယာလန်ပြည်)တို့ ဖြစ်ကြသည်။ ကျွန်းငယ်ပေါင်း ၅,၀၀၀ ခန့်ပါဝင်ရာ၊ စကော့တလန်ပြည်၏ မြောက်ဖက်ရှိ အော့ကနီကျွန်းစုနှင့် ရှက်တလန်ကျွန်းစု၊ စကော့တလန်ပြည်၏ အနောက်ဖက်ရှိ ဟက်ဗရိဒီးကျွန်းစု၊ အိုင် ရစ် ပင်လယ်ထဲရှိ မန်းကျွန်း၊ အနောက်တောင်ဖက်ရှိ ဆီလီကျွန်း၊ အင်္ဂလန်ပြည်၏ တောင်ဖက်ရှိ ဝိုက်ကျွန်းနှင့် ချန်နယ်ကျွန်းစသည်တို့သည် ကျွန်းငယ်များထဲတွင် အကြီးစား ကျွန်းများဖြစ်ကြလေသည်။



ဂရိတ် ဗြိတိန်ကျွန်း ဝေလနယ်၏ သာယာကြည်နူးဖွယ်ရာ ရှုခင်း



အိုင်ယာလန်ကျွန်း ဒဗ္ဗလင်မြို့တော်၏ ဆိပ်ကမ်းသာ တစိတ်တဒေသ

ဗြိတိသျှကျွန်းစု၏ အကျယ်အဝန်းသည် ၁၂၀,၆၉ စတုရန်းမိုင်ရှိ၍၊ ထိုကျွန်းစုတွင် နေထိုင်လျက်ရှိသော လူဦးရေသည် ၅၃,၁၂၃,၅၆၂ ယောက်ဖြစ်သည်။ ဗြိတိသျှ ကျွန်းစုကို အရှေ့ဖက်တွင် မြောက်ပင်လယ်၊ တောင်ဖက်တွင် အင်္ဂလိပ်ရေလက်ကြားကြီး၊ အနောက်ဖက်တွင် အိုင်းရစ်ပင်လယ်နှင့် အတ္တလန္တိတ်သမုဒ္ဒရာတို့ဖြင့် ဝိုင်းရံထားသည်။ ထိုသို့ ဝိုင်းရံလျက်ရှိသော ပင်လယ်ရေပြင်တို့သည် များစွာ မနက်လှချေ။ အထူးသဖြင့် ဗြိတိသျှကျွန်းစုနှင့် ဥရောပတိုက် စပ်ကြားရှိ ပင်လယ်ရေပြင်သည် အလွန်တိမ်သဖြင့် အကယ်၍သာ ပင်လယ်ရေပြင်သည် ပေ ၆၀၀ ခန့်နိမ့်ကျသွားခဲ့လျှင် ဗြိတိသျှ ကျွန်းစုသည် ဥရောပတိုက်နှင့် မြေပြင်ချင်း ဆက်စပ်တည်ရှိ နိုင်ပေသည်။ ထိုကြောင့် ရှေးနှစ်ပေါင်း ပဝေဏီက၊ ဗြိတိသျှ ကျွန်းစုသည် ဥရောပတိုက်၏ အနောက်ဖက်ပိုင်း တစိတ်တဒေသ ဖြစ်ခဲ့သည်ဟု ယူဆကြလေသည်။

ဗြိတိသျှကျွန်းစု၏ ကမ်းရိုးတန်းသည် အကွေ့အကောက် အလွန်များသဖြင့် ပင်လယ်မှ များစွာကွာဝေးသော ဒေသမရှိသလောက်ဟု ဆိုနိုင်သည်။ စကော့တလန်ပြည် အနောက်ဖက် ကမ်းခြေတွင် သာ၍ အကွေ့အကောက်များပြားပြီးလျှင် ကျွန်းငယ်ကလေးပေါင်း များစွာရှိသည်။ ကမ်းရိုးတန်း အခြားနေရာများတွင်ကား မြစ်များသည် တံခါးပေါက်သဖွယ် ဖြစ်နေ၍ မြို့များသည် ကုန်းတွင်းကျနေစေကာမူ ပင်လယ်နှင့် မဝေးကွာသကဲ့သို့ ရှိသည်။ ဗဲလဖတ်လေ့၊ ကလိုက်မြစ်၊ ဖို့မြစ်၊ တီးမြစ်၊ ဟမ်းဗားမြစ်၊ တင်းမြစ်၊ ဆဲဗန်းမြစ်နှင့်မာဆီမြစ်တို့သည် မြစ်ဝကျယ်ကြီးများရှိ၍၊ ပင်လယ်သဘောဆိပ်ကမ်းကောင်းများ ရှိသည်။ အိုင်ယာလန်နှင့် စကော့တလန် အနောက်ဖက်ကမ်းရိုးတန်းတွင် သဘာဝဆိပ်ကမ်းကောင်းများရှိသော်လည်း ကျောထောက်နောက်ခံ ဒေသများသည် စီးပွားကုန်သွယ်ရေး အလားအလာ မကောင်းသဖြင့် ထိုဆိပ်ကမ်းကောင်းများသည် အဖိုးမတန်ကြချေ။

မြစ်ဝကျယ်ကြီးများသည် ကုန်းအတွင်းကျကျ အထိရောက်ရှိကြသဖြင့် ကျွန်းမကြီးတခုလုံးတွင် ပင်လယ်နှင့်ဝေးကွာသော ဒေသဟူ၍မရှိလှချေ။ ထိုကြောင့် ဗြိတိသျှကျွန်းစုတွင် မပြင်းထန်လှသော သမပိုင်းရာသီဥတုရှိ၍ မိုးရေချိန်အတန်ငယ်များသည်။

ဗြိတိသျှကျွန်းစု၏ မြေမျက်နှာပြင်ကို အကြမ်းဖျင်းကြည့်သော် ဂရိတ်ဗြိတိန်ကျွန်းမကြီးသည် အနောက်ဖက်နှင့် မြောက်ဖက်ပိုင်း၌ တောင်ထူထပ်သည်။ အရှေ့ဖက်နှင့် တောင်ဖက်တွင် မြေနိမ့်ဒေသများရှိသည်။ စကော့တလန်ပြည်၏ မြေမျက်နှာပြင်ကို မြောက်ဖက်ကုန်းမြင့် ဒေသ၊



သာယာစိမ်းစိုသော စကော့တလန်ပြည်သည် ဂရိတ်ဗြိတိန်ကျွန်း၏ မြောက်ဖက်စွန်းပြည်နယ်ဖြစ်သည်။

တောင်ဖက် တောင်ကုန်းဒေသနှင့် အလယ်ပိုင်း မြေနိမ့်တောင်ကြား ဒေသဟူ၍ ၃ ပိုင်း ခွဲခြားနိုင်သည်။ ဗြိတိသျှကျွန်းစုတွင် အလွန်အမင်း မြင့်မားသော တောင်များ မရှိချေ။ စကော့တလန်ပြည်ရှိ ဗင်နီဗစ်တောင်ထိပ်သာလျှင် အမြင့်ဆုံးဖြစ်၍ ၄,၄၀၅ ပေမြင့်သည်။ ဂရိတ်ဗြိတိန် ကျွန်း၏ ဗဟိုကုန်းမြင့် ဒေသတွင် စကော့တလန်ပြည် တောင်ပိုင်းကုန်းမြင့်ဒေသ၊ အင်္ဂလန်ပြည်၏ ကျောရိုးသဖွယ်ဖြစ်သော ပင်နိုင်းတောင်များနှင့် အင်းအိုင်ဒေသ (လိတ်ဒိစတြိတ်) တို့ပါဝင်သည်။ ထိုဒေသများတွင် လမ်းပန်းအဆက်အသွယ် ဖြောင့်ဖြောင့်ဖြူးဖြူး မရှိလှချေ။ ထိုဒေသများသည် နွား၊ သိုး၊ ဆိတ်အစရှိသော တိရစ္ဆာန်များ မွေးမြူရန်သာ အသုံးဝင်လေသည်။ ဂရိတ်ဗြိတိန်၏ အလယ်ပိုင်းကုန်းမြင့် ဒေသတွင် ဝေလနယ် ပါဝင်သည်။ ပျမ်းမျှခြင်း အားဖြင့် ပေ ၁,၀၀၀ ခန့် မြင့်၍ မြောက်ဖက်မှ တောင်ဖက်သို့ တန်းလျက်ရှိသည်။ မြောက်ဖက်ပိုင်းသည် မာကျောသော ကျောက်မြေဖြစ်၍ တောင်ဖက်ပိုင်းတွင်မူ ကျော်ကြားသော ဝေလနယ် ကျောက်မီးသွေးတွင်းများ ရှိလေသည်။

အိုင်ယာလန်ကျွန်း၏ မြေမျက်နှာပြင်သည် အလယ်တွင် ကျယ်ပြန့်သော လွင်ပြင်ကြီးများရှိ၍၊ ရွှံ့နွံစိမ့်မြေများ ဖြစ်သည်။ ကမ်းရိုးတန်းပတ်ပတ်လည်တွင် တောင်ကုန်းများ၊ ကုန်းပြင်မြင့်များရှိ၍ အိုင်ယာလန်ကျွန်း၏ မြေမျက်နှာပြင်သည် အလယ်ခွက်နေသော ပန်းကန်ပြားနှင့် တူလေသည်။ ထိုကျွန်းတွင် သမမျှတသော ရာသီဥတုရှိ၍ အင်္ဂလန်နှင့် စာသော် မိုးအတန်ငယ် ပို၍များလေသည်။

ဗြိတိသျှကျွန်းစု၏ မြစ်ချောင်းများသည် မရှည်လျားလှချေ။ အနောက်ဖက်တွင် တောင်များရှိသဖြင့်၊ မြစ်ချောင်းများသည် များသောအားဖြင့် အရှေ့ဖက်သို့ စီးဆင်းကြလေသည်။ စကော့တလန်ပြည်၏ မြစ်ကြီးများမှာ ဒီးမြစ်၊ တေးမြစ်၊ ဖော့မြစ်၊ ကလိုက်မြစ်များ ဖြစ်ကြသည်။ အင်္ဂလန်ပြည်၏ အရှေ့ဖက်ပိုင်းတွင် တိုင်းမြစ်၊ တီးမြစ်၊ ဟမ်းဗားမြစ်၊ တင်းမြစ်များရှိ၍ အနောက်ဖက်ပိုင်းတွင် မာဆီနှင့်ဆဲဗန်းမြစ်တို့ ရှိကြသည်။ အိုင်ယာလန်ကျွန်း၏ အကြီးဆုံးမြစ်မှာ ရှန်နွန်မြစ် ဖြစ်လေသည်။ (ဂရိတ် ဗြိတိန်။ စကော့တလန်ပြည်။ ဗြိတိသျှ ဓနသဟာယနိုင်ငံများ။ ဝေလနယ်။ အင်္ဂလန်ပြည်။ အိုင်ယာလန်ကျွန်း — ရှု။)

ဗြိတိသျှ ကျွန်းစုများ၏ တည်နေပုံ အနေအထားကြောင့် သမိုင်းမတင်မီခေတ်၊ ရှေးရှေးပဝေဏီ အခါက၊ ရှေးအခေါ် ဗြိတိန်၊ ယခု စကော့တလန်၊ အင်္ဂလန်၊ ဝေလဟု ခေါ်သော ဒေသများတွင် ဥရောပတိုက်မှ လူမျိုး အမျိုးမျိုးတို့ ဝင်ရောက် နေထိုင်ခဲ့ကြသည်။ အရှေ့မြောက်ဖက်ရှိ စကော့တလန်ကမ်းခြေအလွန် ကျွန်းများမှ တဆင့် စကန်ဒီနေဗီးယားဒေသမှ လူမျိုးများ ဝင်ရောက်လာခဲ့ကြသည်။ အရှေ့ဖက် ကမ်းရိုးတန်းရှိ ဟမ်းဗား၊ တင်းစသော မြစ်ဝများမှ ဥရောပတိုက်ဖက်မှ ဒိန်းလူမျိုးများနှင့် ဆက္ကဆွန် လူမျိုးများ ဝင်ရောက်ခဲ့ကြသည်။ တောင်ဖက် ကမ်းရိုးတန်းသည် အင်္ဂလိပ် ရေလက်ကြားကြီးကို ဖြတ်ကျော်လာသော ဥရောပ တောင်ပိုင်းမှ လူမျိုးများ ဝင်ရောက်ရာ လမ်းကြောင်း ဖြစ်လေသည်။



ဗြိတိသျှကျွန်းစုတင် လူနေ အလွန်ထူထပ်သည်ဖြစ်ရာ ရိက္ခာအတွက် စိုက်ပျိုးရသဖြင့် မွေ့မြူပြတည်ဆောက်ရေး လုပ်ငန်းမှာ ပြဿနာတရပ် ဖြစ်လျက် ရှိပေသည်။

# ဗြိတိသျှအစိုးရ၏ သစ္စာတော်ကို စောင့်သိရိုသေ၍ အကျိုးတူ၊ အဆင့်အတန်းတူ၊ သီးခြား လွတ်လပ်သော နိုင်ငံများ အဖွဲ့

**ဗြိတိသျှ ဓနသဟာယ နိုင်ငံအဖွဲ့ဟူသည်မှာ အဘယ်နည်း။ ဗြိတိသျှ ဓနသဟာယနိုင်ငံများ၏ မူလအစသည် ဗြိတိသျှ အင်ပိုင်ယာဖြစ်သည်။ နေမဝင်သော အင်ပိုင်ယာကြီးသည် ဒုတိယကမ္ဘာစစ်အပြီး နိုင်ငံပြည်နယ်အချို့အား လွတ်လပ်ရေး ပေးခဲ့ရသည်။ အချို့က ခွဲထွက်၍၊ အချို့က ဓနသဟာယအဖွဲ့တွင်း၌ပင် နေကြသည်။ မြန်မာနိုင်ငံသည် ခွဲထွက်ခဲ့၍ အိန္ဒိယ သည် အဖွဲ့ဝင်နိုင်ငံ တနိုင်ငံ ဖြစ်လေသည်။**

**ဗြိတိသျှဓနသဟာယနိုင်ငံများ။** ။ဗြိတိသျှ ဓနသဟာယ နိုင်ငံများ ဟူသော အသုံးအနှုန်းသည် ၁၉၂၆ ခုနှစ်တွင် ကျင်းပသော အင်ပီးရီးယယ် ကွန်ဖရင့်တခုမှ စတင်ခဲ့သည်။ ထိုကွန်ဖရင့်တွင် ဂရိတ် ဗြိတိန်နှင့် ဒိုမီနီယန်နိုင်ငံများသည် ဗြိတိသျှ အစိုးရ၏ ကျေးဇူးသစ္စာတော်ကို စောင့်သိရိုသေသော အကျိုးတူ အဆင့်အတန်းတူ၊ သီးခြားလွတ်လပ်သည့် နိုင်ငံများ အဖွဲ့ကို ဖွဲ့စည်းရန် သဘောတူညီကြသည်။ ယင်းအဖွဲ့မျိုး ဖွဲ့စည်းထားခြင်းဖြင့် အဖွဲ့ဝင် နိုင်ငံအချင်းချင်း၊ စီးပွားရေး၊ ကာကွယ်ရေးတို့၌ ယိုင်းပင်းကူညီမှု ပိုမိုရရှိလိမ့်မည်ဟု ယုံကြည်ကြသည်။ အင်ပီးရီးယယ် ကွန်ဖရင့်၏အစီရင်ခံစာတွင် ဗြိတိသျှဓနသဟာယအဖွဲ့ဝင် နိုင်ငံများ၏ အခြေအနေ အဆင့်အတန်းနှင့် စပ်လျဉ်း၍ ဖော်ပြချက်တရပ် ပါရှိလေသည်။

ယင်းမှာ "အဖွဲ့ဝင် နိုင်ငံတို့သည် ဗြိတိသျှ အင်ပိုင်ယာ အတွင်းမှ ကိုယ်ပိုင် အုပ်ချုပ်ရေး ရှိပြီး နိုင်ငံများဖြစ်ကြရပြီးလျှင်၊ ဗြိတိသျှ ဘုရင်မင်းမြတ်၏ ကျေးဇူးသစ္စာတော်ကို စောင့်သိ ရိုသေမှုဖြင့် စုစည်းထားငြားလည်း၊ အဖွဲ့ဝင်နိုင်ငံအချင်းချင်း သီးခြားလွတ်လပ်စွာ ဆက်ဆံနိုင်ပြီးလျှင်၊ ပြည်တွင်းရေး ပြည်ပရေးတို့၌ တနိုင်ငံက တနိုင်ငံထက် နိမ့်ကျမှုလည်း မရှိစေဘဲ၊ အဆင့်အတန်းတူ ဖြစ်စေရမည်"ဟူ၍ ဖြစ်လေသည်။

ထိုကွန်ဖရင့်မှ သဘောတူညီချက်ကို ၁၉၃၁ ခုနှစ်တွင် ဝက်စမင်စတာစတက်ကျူဖြင့် အကောင်အထည် ဖော်လိုက်သည်။ ထိုစဉ်က ဗြိတိသျှ ဓနသဟာယ နိုင်ငံများအဖွဲ့တွင် ပါဝင်သော အဖွဲ့ဝင်များမှာ ဂရိတ်ဗြိတိန် (အင်္ဂလန်ပြည်၊ စကော့တလန်ပြည်နှင့် ဝေလနယ်) နှင့် အိုင်ယာလန်ပြည်မြောက်ပိုင်း၊ကနေဒါ၊နျူးဖောင်းလန်း၊သြစတြေးလီးယား၊ နယူးဇီလန်၊ တောင်အာဖရိကပြည်ထောင်စုနှင့် အိုင်ရစ် ဖရီးစတိတ် တို့ဖြစ်ကြသည်။

အဖွဲ့တည်ထောင်စက ထိုအဖွဲ့သည် ဗြိတိသျှ အင်ပိုင်ယာ၏ သီးခြား အစိတ်အပိုင်းတခု အဖြစ်ကဲ့သို့ ယူဆ၍၊ ထိုအဖွဲ့ထဲ ပါဝင်သော အစိတ်အပိုင်းများသာလျှင် ဗြိတိသျှ အစိုးရ၏ တိုက်ရိုက်လက်အောက်ခံဟူ၍ မှတ်ယူခဲ့ကြသည်။ နောင်အခါတွင်မှ ထိုအဖွဲ့အစည်းသည် တဖြည်းဖြည်း ထင်ရှား၍ လူသိများလာသည်။

အဖွဲ့ထဲတွင် ပါဝင်သော နိုင်ငံများသည် တခါက ဂရိတ်ဗြိတိန်၏ ကိုလိုနီအင်ပိုင်ယာထဲတွင် ပါဝင်ခဲ့ကြသည်။ ယင်းတို့အား ယခုတိုင် ဗြိတိသျှအင်ပိုင်ယာထဲ၌ ပါဝင်သော နိုင်ငံများကဲ့သို့ ပြောဆိုလျက်ပင် ရှိကြသေးသည်။ သို့သော် ယခု "ဗြိတိသျှ အင်ပိုင်ယာ" ဟူသော အသုံးအနှုန်းသည် အဓိပ္ပါယ်တမျိုးတဖုံ ရှိနေလေပြီ။ ဗြိတိသျှ ကိုလိုနီများသည် ဓနသဟာယအဖွဲ့နှင့် "စပ်ဆိုင်" သကဲ့သို့လည်း အချို့ကဆိုကြသည်။ အကြောင်းမူ ထိုကိုလိုနီများသည် ဓနသဟာယ အဖွဲ့ဝင် နိုင်ငံတခုပိုင် ဖြစ်နေသောကြောင့် ပေတည်း။

ဗြိတိသျှဓနသဟာယ နိုင်ငံများသည် မည်သို့မည်ပုံ ယင်းအဖွဲ့ဝင် နိုင်ငံများ ဖြစ်လာပုံကို စိစစ်ကြည့်လျှင် ဗြိတိသျှ အင်ပိုင်ယာ ဖြစ်ပေါ်လာသည့် ဖြစ်စဉ် သမိုင်းကို အကြမ်းဖျင်း လေ့လာရပေမည်။

ဗြိတိသျှ အင်ပိုင်ယာ ဖြစ်စဉ် သမိုင်းကို နှစ်ပိုင်း ခွဲခြားရသည်။ ဗာဆေးစာချုပ် (ခရစ်နှစ် ၁၇၈၃) မတိုင်မီ ခေတ်ကို ပဌမခေတ်ဟု ခေါ်ဆိုကြ၍၊ ဗာဆေးစာချုပ်၏ နောက်ပိုင်းခေတ်ကို ဒုတိယခေတ်ဟု ခေါ်ဆိုကြသည်။ ဗြိတိသျှ အင်ပိုင်ယာသည် အင်္ဂလန်ပြည့်ရှင် ပဌမ အယ်လစ်ဇဗက် ဘုရင်မ၏လက်ထက် ၁၆ ရာစုနှစ်မှ စတင်ခဲ့သည်။ ထိုစဉ်က မြောက်အမေရိကတိုက်နှင့် အနောက် အိန္ဒိယကျွန်းစုတို့တွင် လူနေစခန်းများဖြင့် အစပြုခဲ့သည်။ ၁၇ ရာစုနှစ်နှင့် ၁၈ ရာစုနှစ်များအတွင်း ဗြိတိသျှတို့သည် ကျယ်ပြန့်လှသော ပင်လယ်ရပ်ခြား အင်ပိုင်ယာကြီးကို တည်ထောင်ခဲ့ကြသည်။ သို့သော် ဗာဆေးစာချုပ်အရ ဂရိတ်ဗြိတိန်သည် ကျယ်ဝန်း၍ အရေးပါသော ကိုလိုနီများကို ဆုံးရှုံးခဲ့ရသည်။ ထိုအရေးကား အမေရိကန်ပြည်နယ်များကို လက်လွှတ်လိုက်ရခြင်းဖြစ်သည်။ ဗာဆေးစာချုပ်၏နောက်ပိုင်း ၁၇၈၃ ခု

နှစ်မှစ၍ ဒုတိယဗြိတိသျှ အင်ပိုင်ယာကြီးကို တည်ထောင်ခဲ့ကြပြန်ရာ၊ အမေရိကန်ပြည်နယ်များအရေး၌ သင်ခဏ်းစာ ရခဲ့ပြီးသော ဂရိတ်ဗြိတိန်သည် ပါးနပ်လိမ်မာစွာ နယ်ချဲ့ဝါဒကို သုံးခဲ့သဖြင့်၊ ကမ္ဘာ့ အကျယ်အဝန်း ၄ ပုံ ၁ ပုံ နှင့် ကမ္ဘာ့လူဦးရေ ၄ ပုံ ၁ ပုံတို့သည် ဗြိတိသျှ အာဏာစက်ရိပ်အောက်သို့ ရောက်ရှိခဲ့သည်။ ဗြိတိသျှ အင်ပိုင်ယာကြီးသည် ကြီးမားကျယ်ပြန့်လှသဖြင့် "နေမဝင်သော အင်ပိုင်ယာ"ဟူ၍ပင် တင်စားခေါ် ဝေါ် ခဲ့ကြရလေသည်။

ဂရိတ်ဗြိတိန်သည် ကမ္ဘာ့နိုင်ငံသမိုင်းတွင် အကြီးကျယ်ဆုံး အကျယ်ပြန့်ဆုံးသော အင်ပိုင်ယာကြီးကို တည်ဆောက်နိုင်ခဲ့သည်မှာ ဗြိတိသျှရေတပ်၏ ကျေးဇူးကြောင့် ဖြစ်ပေသည်။ ဗြိတိသျှရေတပ်သည် ကမ္ဘာ့သမုဒ္ဒရာတိုင်း၌ ဗိုလ်စွဲနိုင်ခဲ့သည်။ ထိုကြောင့် ကမ္ဘာ့အရှေ့ခြမ်း၌ငှင်း၊ အနောက်ခြမ်း၌ငှင်း ကမ္ဘာ့တိုက်ကြီးများတိုင်းတွင် ဗြိတိသျှတို့၏ ပိုင်နက်များကို စိုက်ထူနိုင်ခဲ့သည်။ ကမ္ဘာ့အကွက်ကောင်း နေရာကောင်းတိုင်းလိုလို၌ ဗြိတိသျှတို့ စိုးမိုးနိုင်ခဲ့သည်။ ဗြိတိသျှတို့သည် အချို့နယ်မြေများအား စပိန်၊ ဒပ်ချ၊ ပြင်သစ်စသည်တို့နှင့် စစ်ဖက်၍ငှင်း၊ အချို့နယ်မြေများကို မြေသစ်ရေသစ် ရှာဖွေ သိမ်းပိုက်ခြင်းဖြင့်ငှင်း၊ အချို့နယ်များသို့ သွားရောက် အခြေစိုက် နေတိုင်ခြင်းဖြင့်ငှင်း သိမ်းသွင်းခဲ့လေသည်။

ယင်းသို့ဖြင့် ကမ္ဘာ့ အနှံ့အပြားရှိ ဘာသာအမျိုးမျိုး၊ ယဉ်ကျေးမှုအထွေထွေ၊ လူမျိုးအစုံစုံတို့သည် ဗြိတိသျှ အင်ပိုင်ယာအတွင်း ကျရောက်ခဲ့ရာ၊ ယင်းတို့ကို နှစ်ကာလ ရှည်ကြာစွာ စိုးမိုး အုပ်ချုပ်ထားရန် မလွယ်ကူချေ။ သို့သော် အမေရိကန်ကိုလိုနီများ အရေး၌ တခါသေဘူး၍ ပျဉ်ဖိုးနားလည်ခဲ့သော ဗြိတိသျှတို့သည် လက်အောက်ခံ ကိုလိုနီများကို ဆိုင်ရာ လူမျိုးတို့၏ အခြေအနေ၊အဆင့်အတန်းကို လိုက်၍ အုပ်ချုပ်ရေး အမျိုးမျိုးထားကာ အုပ်ချုပ်ခဲ့သည်။ ဗြိတိသျှ အင်ပိုင်ယာထဲတွင် ကရောင်းကိုလိုနီများ၊ စောင့်ရှောက်ခံ ပြည်နယ်များဟူ၍ အစားစား ပါရှိသည်။ အချို့ကိုလိုနီများသည် ပြည်တွင်းရေးကို ယင်းတို့၏ တိုင်းရင်းသားများက စီမံဖန်တီး နိုင်ခွင့် ရသည်။ အချို့ ကိုလိုနီများတွင်မူ ဗြိတိသျှ ဘုရင်၏ ကိုယ်စားလှယ်တော် ဖြစ်သော ဘုရင်ခံနှင့် ဘုရင်ခံက ရွေးချယ်တင်မြှောက်သော အတိုင်ပင်ခံအဖွဲ့က စီမံဆောင်ရွက်သည်။ ပဌမ ကမ္ဘာစစ် အပြီးတွင် ဗြိတိသျှ စောင့်ရှောက်ခံ ပြည်နယ်များ၊ သြဇာခံပြည်နယ်များ တိုးတက်များပြားလာခဲ့လေသည်။

ဗြိတိသျှ အစိုးရသည် မိမိလက်အောက်ခံ နိုင်ငံများထဲမှ ကိုယ်ပိုင် အုပ်ချုပ်ရေးနှင့် ထိုက်တန်သမျှတို့ကို ကိုယ်ပိုင်အုပ်ချုပ်ရေးပေးခဲ့သည်။ ဗြိတိသျှကိုလိုနီများအနက် ကနေဒါသည် ပဌမဆုံး ဒိုမီနီယန် အုပ်ချုပ်ရေးကို ( ခရစ် ၁၈၆၇ ခုနှစ် )ရရှိသည်။ ၂၀ ရာစုနှစ် အစပိုင်းတွင် သြစတြေးလီးယား ဓနသဟာယနိုင်ငံ၊ နယူးဇီလန်နှင့် တောင်အာဖရိက ပြည်ထောင်စုတို့သည် ဒိုမီနီယန် အုပ်ချုပ်ရေးကို ရရှိခဲ့ကြသည်။ အိုင်ယာလန် တောင်ပိုင်းကို ၁၉၂၂ ခုနှစ်တွင် အိုင်းရစ် ဖရီးစတိတ်ဟူသော အမည်ဖြင့် ကိုယ်ပိုင် အုပ်ချုပ်ရေးပေးခဲ့သည်။ သို့သော် အိုင်းရစ်ဖရီးစတိတ်သည် ၁၉၃၇ ခုနှစ်တွင် အချုပ်အချာအာဏာပိုင် သီးခြားလွတ်လပ်သော နိုင်ငံတခု ဖြစ်လာကာ၊ အယ်ယာဟူသောအမည်ကို ယူခဲ့သည်။ အိုင်ယာလန် မြောက်ပိုင်းကမူ ယူနိုက်တက်ကင်းဒမ်းနိုင်ငံ၏ တစိတ်တဒေသ အဖြစ်ဖြင့် နေခဲ့လေသည်။

၁၉၃၄ ခုနှစ်တွင်နျူးဖောင်းလန်းသည် ဘဏ္ဍာရေးအခြေအနေကြောင့် ကိုယ်ပိုင်အုပ်ချုပ်ရေး အဆင့်အတန်းကို ပြန်အပ်ကာ ဗြိတိသျှ အင်ပိုင်ယာ၏ ကိုလိုနီ အဆင့်အတန်းသို့ ပြန်ဆင်းခဲ့သည်။ ၁၉၄၉ ခုနှစ်တွင် ကနေဒါနိုင်ငံ၏ ပြည်နယ်တခု ဖြစ်လာသည်။ ဒုတိယ ကမ္ဘာစစ်ပြီး ခေတ်တွင် ကမ္ဘာ့ အခြေအနေသည် ပြောင်းလဲလာသည်နှင့် ဗြိတိသျှ အစိုးရသည် မိမိ၏ ကိုလိုနီများစွာကို လွတ်လပ်ရေး ပေးခဲ့ရသဖြင့် ဗြိတိသျှ အင်ပိုင်ယာ၏ အကျယ်အဝန်းသည် များစွာယုတ်လျော့ခဲ့သည်။ ၁၉၄၇ ခုနှစ်တွင် အိန္ဒိယနှင့် ပါကစ္စတန်နိုင်ငံတို့အား ဗြိတိသျှ အစိုးရက ဒိုမီနီယန်အုပ်ချုပ်ရေးကို ပေးအပ်သည်။ သီဟိုဠ်ကျွန်းသည် ၁၉၄၈ ခုနှစ်တွင် ဒိုမီနီယန်နိုင်ငံဖြစ်လာသည်။ ထိုနှစ်အတွင်းမှာပင် ဗြိတိသျှကိုလိုနီတခုဖြစ်သော မြန်မာနိုင်ငံသည် လွတ်လပ်ရေးရရှိကာ၊ ဓနသဟာယအဖွဲ့ဝင် မဟုတ်သော အချုပ်အချာအာဏာပိုင် သမတနိုင်ငံ ဖြစ်လာသည်။ အယ်ယာ နိုင်ငံသည်လည်း အချုပ်အချာ အာဏာပိုင် သမတနိုင်ငံအဖြစ် ထူထောင်ကာ ဓနသဟာယ အဖွဲ့ထဲမှလည်း ထွက်လိုက်သည်။ အိန္ဒိယနိုင်ငံသည် ၁၉၅၀ ပြည့်နှစ်တွင် အချုပ်အချာ အာဏာပိုင် သမတနိုင်ငံ ဖြစ်လာသည်။ ပါကစ္စတန်သည် ၁၉၅၆ ခုနှစ်တွင် သမတနိုင်ငံအဖြစ် ကြေညာခဲ့သည်။ အိန္ဒိယနှင့် ပါကစ္စတန်တို့သည် အချုပ်အချာ အာဏာပိုင်သမတ နိုင်ငံများ ဖြစ်လာခဲ့သော်လည်း၊ ဗြိတိသျှ ဓနသဟာယအဖွဲ့မှ မထွက်ခဲ့ကြပေ။ တောင် အာဖရိက ပြည်ထောင်စုသည် ၁၉၆၁ ခုနှစ် မေလ ၃၁ ရက်နေ့တွင် အချုပ်အချာအာဏာပိုင်သမတနိုင်ငံ ဖြစ်လာ၍ ဗြိတိသျှ ဓနသဟာယအဖွဲ့မှ ခွဲထွက်ခဲ့လေသည်။

ဗြိတိသျှ ဓနသဟာယ နိုင်ငံများအဖွဲ့တွင် ယခုအချိန် (၁၉၆၁ ခုနှစ်) အထိ နောက်ဆုံး ပါဝင်ခဲ့ကြသော နိုင်ငံများမှာ ဂါနာသမတနိုင်ငံနှင့် မလ္လာယု ပြည်ထောင်စုတို့ ဖြစ်ကြသည်။ ထိုကြောင့် ဗြိတိသျှ ဓနသဟာယ နိုင်ငံများ အဖွဲ့တွင် ယနေ့အထိ ပါဝင်လျက်ရှိကြသော အဆင့်အတန်းတူ အကျိုးတူ အဖွဲ့ဝင် နိုင်ငံများမှာ (၁) ဂရိတ်ဗြိတိန်၊

မြောက်အိုင်ယာလန်၊ ယင်းတို့၏ လက်အောက်ခံနှင့် အစောင့်အရှောက်ခံ ပြည်နယ်များ၊ (၂) ဗြိတိသျှဘုရင်၊ သို့မဟုတ် ဘုရင်မကို နိုင်ငံ၏ အထွတ်အထိပ်အဖြစ် အသိအမှတ် ပြုသော ကနေဒါ၊ ဩစတြေးလီးယား၊ နယူးဇီလန်နှင့် ယင်းတို့၏ အစောင့် အရှောက်ခံ ပြည်နယ်များ၊ သီဟိုဠ်၊ ဂါနာနှင့် မလ္လာယု ပြည်ထောင်စု။ (၃) ဗြိတိသျှဘုရင်၊ သို့မဟုတ် ဘုရင်မကို ဓနသဟာယ နိုင်ငံများအဖွဲ့၏ အထွတ်အထိပ်အဖြစ် အသိအမှတ်ပြုသော အိန္ဒိယသမတနိုင်ငံနှင့် (၄) ပါကစ္စတန် အစ္စလမ်မစ် ပြည်ထောင်စုသမတနိုင်ငံတို့ ဖြစ်ကြသည်။

ဗြိတိသျှဓနသဟာယ နိုင်ငံများအဖွဲ့၏ အထိမ်းအမှတ်သည် ဗြိတိသျှသရဖူဖြစ်သည်။ ဗြိတိသျှဘုရင်၊ သို့မဟုတ် ဘုရင်မကိုယ်တိုင် ကြွရောက် အုပ်ချုပ်ခြင်း မပြုနိုင်သော ကနေဒါ၊ ဩစတြေးလီးယား၊ နယူးဇီလန်တို့တွင် ဘုရင်မင်းမြတ်ကိုယ်စား ဗြိတိသျှ ဘုရင်ခံချုပ်တို့အား ခန့်ထားသည်။ ဘုရင်ခံချုပ်များ ခန့်ထားရာ၌ ဘုရင်မင်းမြတ်သည် ခန့်ထားရမည့်ဆိုင်ရာ နိုင်ငံများ၏ အစိုးရအဖွဲ့များ၏ အကြံပေးချက်အတိုင်း ခန့်ထားသည်။ ကျန်ဓနသဟာယ နိုင်ငံများတွင်မူ တိုင်းရင်းသားများသည် ဆိုင်ရာ နိုင်ငံများ၏ အထွတ်အထိပ် ဖြစ်လေသည်။

ဓနသဟာယ နိုင်ငံများတွင် တိုင်းရင်းသားတို့က ရွေးကောက်တင်မြှောက်သော အစိုးရအဖွဲ့နှင့် ဥပဒေပြု လွှတ်တော်တို့ရှိသည်။ ဆိုင်ရာနိုင်ငံအတွက် ဥပဒေများကို ဆိုင်ရာဥပဒေပြုလွှတ်တော်က ပြုလုပ်ရသည်။အခွန်အကောက်များကိုလည်း ဆိုင်ရာနိုင်ငံက ကောက်ခံစည်းကြပ်ရသည်။ အခြားနိုင်ငံများနှင့် ဆက်သွယ်ရေးကိုလည်း လွတ်လပ်စွာ ပြုနိုင်သည်။ အခြား နိုင်ငံများနှင့် သံတမန်အလဲအလှယ် ပြုနိုင်သည်။ စာချုပ်များ ချုပ်ဆိုခြင်း၊ စစ်ကျေညာခြင်း စသည်တို့ကိုလည်း မိမိတို့သဘောအလျောက်ပြုလုပ်နိုင်သည်။

ဒိုမီနီယန် နိုင်ငံများသည် ပဌမကမ္ဘာစစ် အတွင်းမှစ၍ ဆိုင်ရာ နိုင်ငံ၏ ပြည်တွင်းရေးကို ဆိုင်ရာနိုင်ငံက ဆောင်ရွက်နိုင်သောအခွင့်အရေး ရရှိခဲ့သည်။ ပဌမကမ္ဘာစစ်ပြီး ခေတ်တွင် ဗြိတိသျှ ပါလီမန်သည် ဒိုမီနီယန်နိုင်ငံများအား ပြည်ပအရေး၌လည်း ယင်းတို့ သဘောအတိုင်း ဆောင်ရွက်နိုင်ခွင့် ပေးသည်။ ၁၉၃၁ ခုနှစ်တွင် ဝက်စမင်စတာစတက်ကျူကို ပြဋ္ဌာန်းပြီးသည့်နောက်တွင်မူ ဗြိတိသျှပါလီမန်သည် ဒိုမီနီယန်နိုင်ငံများအပေါ် လွှမ်းမိုးနိုင်ခွင့်၊ ချုပ်ချယ် နိုင်ခွင့် မရှိတော့ချေ။ ထိုဥပဒေအရ ဒိုမီနီယန်များသည် သီးခြားလွတ်လပ်သောနိုင်ငံများ ဖြစ်လာကြသည်။ ၁၉၄၉ ခုနှစ်တွင် ကျင်းပသော ဓနသဟာယနိုင်ငံ ဝန်ကြီးချုပ်များ ကွန်ဖရင့်တွင် အိန္ဒိယနိုင်ငံအား ဓနသဟာယထဲမှ မထွက်ဘဲနှင့် သမတနိုင်ငံ ထူထောင်နိုင်ရန် သဘောတူညီခဲ့ကြသည်။

အချို့က ဗြိတိသျှကိုလိုနီများကို လွတ်လပ်ရေး ပေးလိုက်ခြင်းသည် ဗြိတိသျှ အင်ပိုင်ယာကြီးအား တဖြည်းဖြည်း ဖြိုခွဲခြင်းပင် ဖြစ်သည်ဟု ယုံကြည်ကြသည်။ သို့သော် ဒိုမီနီယန်နိုင်ငံများသည် ဗြိတိသျှအစိုးရအပေါ် သံယောဇဉ်ရှိပြီးလျှင် သစ္စာ စောင့်သိရိုသေနေသေးသမျှ၊ အရေးကြုံလာသည့်အခါ၊ ဗြိတိသျှအစိုးရသည် ဒိုမီနီယန်နိုင်ငံများအပေါ် အားထားနိုင်ပေသေးသည်။ များသောအားဖြင့် ဓနသဟာယအဖွဲ့ဝင် ဒိုမီနီယန်နိုင်ငံများသည် ပဌမကမ္ဘာစစ်အခါကငင်း၊ ဒုတိယကမ္ဘာစစ် အခါကငင်း (အယ်ယာနိုင်ငံမှလွဲလျှင်) အမိနိုင်ငံ ဂရိတ်ဗြိတိန်၏ဖက်မှ မားမားရပ်ကြကာ ဂရိတ်ဗြိတိန်၏ ရန်သူများကို ချေမှုန်းတိုက်ခိုက်ရန် လူအားငွေအားဖြင့် ကူညီခဲ့ကြသည်။ဓနသဟာယအဖွဲ့တွင် အဖွဲ့ဝင် နိုင်ငံတို့သည် အကျိုးတူ အဆင့်အတန်းတူဟု ဆိုရငြားလည်း ဂရိတ်ဗြိတိန်သည် မိခင်နှင့်တူ၍ အခြားဓနသဟာယ အဖွဲ့ဝင်နိုင်ငံတို့သည်လူလားမြောက်ပြီး၍ အိုးအိမ်ထူထောင်ကာ အိမ်တဆောင် မီး တပြောင်စီနှင့် အိုးအိမ်ခွဲ နေထိုင်ကြသော သားသမီးများနှင့် ဆင်ဆင်တူကြပေသည်။

**ဖြဲတိုက်။** ။ဖြဲတိုက် ဟူသည်မှာ မြန်မာဘုရင်များ လက်ထက် လွှတ်ရုံးငါးရပ်အနက် တရပ်အပါအဝင် ဖြစ်သည်။ နန်းမြို့တော်အတွင်း ဇေတဝန်ဆောင်၏ မြောက်ဖက် သီဟာသနပလ္လင်ရှိရာ ရွှေနန်းပြာသာဒ်တော်ကြီး၏ အနောက်မြောက်ဖက်တွင် တည်ရှိသည်။ ဘုရင်စံတော်မူရာ နန်းတော်နှင့် တဆက်တည်း ဖြစ်သည်။

ဖြဲတိုက်ဟူသော ဝေါဟာရမှာ မွန်ဘာသာစကား ပတိုက်ဖြဲမှ လာကြောင်းဖြင့် ရွှေဘုံနိဒါန်း၌ ဆိုသည်။ မွန်ရေးထုံးကျကျ ရေးလိုမူ တိုက်ဗ္ဗဲဟုဖြစ်သည်။ တိုက်သည် အဆောင်ဖြစ်၍၊ ဗ္ဗဲသည် လုပ္ပျိဖြစ်သည်။ အဓိပ္ပါယ်မှာ လုပျိုတော်တို့ စုံမြဲခစား ထမ်းရွက်နေထိုင်ရသော အဆောင်ဟု ဖြစ်သည်။ ဟံသာဝတီ ဆင်ဖြူများရှင် လက်ထက် မွန်လုပျိုတော်များ မြဲစွဲခဃမ်း ထမ်းရွက်ခဲ့ရဘူးသည်ကို ရည်၍နောက်မင်းများလက်ထက် လုပျိုတော်များ မနေသော်လည်း ရှေးခေါ်မြဲအတိုင်း ဖြဲတိုက်ဆောင်ဟု ခေါ်ကြသည်။ ဖြဲတိုက်သည် ခပ်လျားလျားဖြစ်၍ တောင်မြောက် အလျား ကွန်းဆယ်လုံး၊ သုံးထပ်လည်ပေါ်နှင့် မြောက်ဖက်က အနိမ့်၊ တောင်ဖက်က အမြင့်ထားပြီးလျှင် ဆောက်လုပ်ထားသည်။ ထိုအမြင့်ပိုင်းကို အထက်ဖြဲတိုက်ဟု ခေါ်၍ အနိမ့်ပိုင်းကို အောက်ဖြဲတိုက်ဟုခေါ်သည်။ အထက်စံတိုက်တွင် စံကားသားဖြင့် ပြုလုပ်၍ ဆင်ရုပ်များ ခံထားသော ဂဇာသနပလ္လင်ရှိသည်။ (ပလ္လင် — ရှု။) အောက်ဖြဲတိုက်ကို မြေမှ ၅ ပေခန့် မြင့်၍ အုတ်ခံသမံတလင်း စိန်တောင်များနှင့် ပြုလုပ် ထားသည်။ ပန္နက်ပုံများ အရ

အောက်ဖြဲတိုက်သည် နန်းတော်အုတ်ခုံကို မေးတင်ထားသကဲ့သို့ ရှိသည်။ အဆောက်အအုံမှာ သစ်သားဖြင့် ဆောက်လုပ်ထား၍ ဇေတဝန်ဆောင်များကဲ့သို့ ရွှေပိန်းချမဟုတ်ဘဲ၊ အနီခံ ရွှေရေး၊ သို့မဟုတ် အနီတဝက် ရွှေတဝက် ချထားသော အဆောင်ဖြစ်သည်။

ဖြဲတိုက်တွင် ယေဘုယျအားဖြင့် အတွင်းဝန် ၄ ပါး သံတော်ဆင့် ၄ ယောက်၊ ဖြဲတိုက်သံဆင့် ၄ ယောက်၊ စာရေးတော် ၃ ယောက်၊ သံတိုက်စိုး ၁ ယောက်၊ သံတိုက်စာရေး ၁ ယောက် ခန့်ထားမြဲဖြစ်သည်။ သို့ရာတွင် ဘုရင်များသဘောအတိုင်း အပိုအလျော့ ရှိတတ်သည်။ သီပေါဘုရင်မင်းမြတ် လက်ထက်တွင် အတွင်းဝန် ၆ ပါး၊ သံတော်ဆင့် ၃၀၊ ဖြဲတိုက်သံဆင့် ၂၅ ယောက် စသည်ဖြင့် ခန့်ထားခဲ့ဘူးသည်။ သီပေါဘုရင် လက်ထက် ဖြဲတိုက်သံဆင့်များမှာ အခြားရာထူးများနှင့် တွဲဖက်ဆောင်ရွက်ကြရသည်။ ယင်းတို့သည် ဖြဲတိုက်အရာရှိများဖြစ်၍ လက်အောက် အမှုထမ်းများလည်း ရှိသေးသည်။ ဖြဲတိုက်က အမြဲစေခိုင်းရသော အမြဲအမှုထမ်း ၂ မျိုးမှာ ဖွားဘက်ကျော်နှင့် ဒိုင်းတော်ဟူ၍ ဖြစ်သည်။ ဖွားဘက်ကျော်တို့သည် အသာအယာ ဆင့်ခေါ်ရန်ရှိသည်များကိုဆင့်ခေါ် ရ၍ ကြိုးကြိမ်မကိုင်ရချေ။ ဒိုင်းတော်များသည် ကြိုးကြိမ်ကိုင်၍ လူများကို ရိုက်နှက်ဆင့်ခေါ် နိုင်သည်။ ဖြဲတိုက်တော်က အလျင်အမြန် စေခိုင်းရန်ရှိလျှင် ခြေလျင်တော်များကိုစေခိုင်းရသည်။ ခြေလျင်တော်များသည် ဖြဲတိုက်တော်သို့အလှည့်ကျ လာရောက်စောင့်နေထမ်းရွက်ရသည်။ ဖြဲတိုက် အတွင်းဝန်များသည် လွှတ်တော်ဝန်ကြီးများလောက် ရာထူးမကြီးသော်လည်း၊ တနည်းအားဖြင့် ဘုရင်မင်းမြတ်နှင့် နီးစပ်သည့်အတွက် လွှတ်တော်ဝန်ကြီးများထက် အရေးပါသည်။ အရေးပါပုံမှာ ဖြဲတိုက်က ဘုရင်မင်းမြတ်ရွှေတော်သို့တိုက်ရိုက် သွားလာတင်လျှောက်နိုင်၍ လွှတ်တော်ကမူ ဖြဲတိုက်မှ တဆင့်သာလျှင် ရွှေတော်သို့ သွားရောက် တင်လျှောက်နိုင်သည်။

ဖြဲတိုက် အရာရှိများသည် နန်းတော်တွင်းနှင့် ဘုရားကျောင်းအတွင်းမှ အပ အခြားသွားလာသည့်အခါ၊ အရာရှိများရှေ့ အတောင် ၃၀ ကွာလောက်မှ ရှေ့လိုက်ခေါ် အမှုထမ်း ၂ ဦးသည် ကြိမ်ကို ထောင်ကိုင်ကာ ဝဲယာလိုက်ရသည်။ ရှေ့လိုက်သည် ခေါင်းပေါင်းဖြူ ဖော့လုံးပေါင်း၍ ထိုင်မသိမ်းဝတ်ရသည်။ ဖြဲတိုက်ပေါ်သို့ အင်္ကျီမပါဘဲ ခေါင်းပေါင်းဖြူ မပါဘဲ မည်သူမျှမတက်ရ၊ အမိန့်တော်ခန့်ဗိုလ်များမှတပါး အခြားသူများသည် ခါးတောင်းကျိုက်၍ ဖြဲတိုက်ပေါ်သို့ မတက်ရချေ။ ဖြဲတိုက်ပေါ်သို့ ဖိနပ်များလည်း မတင်ရချေ။

ဖြဲတိုက်နှင့်ဆိုင်သော အရာရှိများသည် ဝဲယာ အလှည့်ခွဲ၍ တရက်ခြားတခါ ဖြဲတိုက်မှာဖြစ်စေ၊ သင့်ရာ ဌာနမှာဖြစ်စေ အလှည့်ကျ အိပ်ဖန်အိပ်ရသည်။ လုံလောက်သောအကြောင်းမရှိဘဲ အိပ်ဖန်ရက်ပျက်လျှင် အပြစ်ဒဏ် ခံရသည်။

ဖြဲတိုက်တက်ချိန်မှာ လွှတ်တော်မှာကဲ့သို့ နံနက် တချက်မတီးမီက တချက်တီးအထိ တကြိမ်၊ နေ့ ၂ ချက်တီးမှစ၍ ညနေ ၃ ချက်တီးအထိ တကြိမ်အားဖြင့် ဥပုသ်နေ့ကို ချန်လှပ်၍နေ့စဉ် တက်ရောက်စုဝေးကြရသည်။ နံနက်တချက်တီးသည့်အခါ လွှတ်တော်က ဝင်လာသော အရာရှိများ၊ ဝင်းမှူးများ၊ ရွှေရုံး၊ တရားရုံး၊ နောက်ရုံး အရာရှိများ၊ သေနတ်ဗိုလ်များလည်း ဖြဲတိုက်တွင် ခေတ္တ ရပ်တန့်၊ ညီလာခံ ဝင်ရန် အရာရှိများ စုံသည့်အခါ တညီတညာတည်း ဖြဲတိုက်က စု၍ ညီလာခံဝင်ကြသည်။ ညနေ ၃ ချက်တီးသည့်အခါ ဖြဲတိုက်ဆင်း၍ အစုအဝေးကွဲသည်။ အတွင်းဝန်များမှာမူ ဖြဲတိုက်တွင် အမြဲ နေထိုင်ကြရသည်။

ဖြဲတိုက် တက်သည့်အခါ အထက် ဖြဲတိုက် ကွန်းစင်တိုင်အတွင်းရှိ ကွမ်းသွေးပေါက်များတွင် ရာထူးအစဉ်အလိုက် စီစဉ်၍ နေရာတကျ နေထိုင် ကြရသည်။ ဖြဲတိုက် တက်သူများသည် အဝတ်အစား၊ သစ်လွင်သန့်ပြန့်ဖို့ ဂရုစိုက်ရသည်။ အင်္ကျီရှည်ပေါ် က အင်္ကျီလက်ကျယ် ဝတ်ရသည့် အပြင် စလွယ်လည်း ဆင်ရသည်။

ဖြဲတိုက်တက်ချိန် မဟုတ်သည့်အခါ သက်ဆိုင်ရာ အလုပ်များကို အလိုရှိသော နေရာတွင် ဖြစ်စေ၊ အောက်ဖြဲတိုက်တွင် ဖြစ်စေ နေပြီးလျှင် စီရင်ခန့်ခွဲ လုပ်ဆောင်ကြရသည်။

ဖြဲတိုက်နှင့် စပ်၍ ဆုံးဖြတ်ရန် အမှုများကို အတွင်းဝန်များ အစုံအညီ ဆုံးဖြတ်ကြသည်။ ရှင်ဘုရင်က ထုတ်ပြန်သော အမိန့်တော်များကိုလည်း ခွဲခြား သတ်မှတ်ရသည်။ လွှတ်တော်က သွင်းသော သွင်းစာများ၊ မှာတမ်းများကိုလည်း လိုက်နာရန် စီမံရသည်။ လွှတ်တော်မှ သွင်းသောစာများ၊ လွှတ်တော်သို့ ထုတ်ရန်စာများကို အတွင်းဝန်မင်းများထံ သံတော်ဆင့်များ၊ ဖြဲတိုက် သံဆင့်များက လျှောက်ထားရသည်။ အရေးကြီးလျှင် ကြီးသလို စီမံဆင့်ဆိုရသည်။ ရှင်ဘုရင်က ထုတ်သော အမိန့်တော်များကိုလည်း ဖြဲတိုက်ကပင် အမိန့်တော် မှာတမ်း ထုတ်သင့်သည်။ အမိန့်တော် မှတ်သားချက် ထားသင့်သည်။ အမိန့်တော်ပြန်သင့်သည်များကို ခွဲခြားဝေဖန်ရသည်။ အမိန့်တော် ထပ်မံ၍ ခံယူသင့်သော ရှုပ်ထွေးသည့် အရာပါလျှင်၊ သို့မဟုတ် ပိုသောအရာပါလျှင်၊ သို့မဟုတ် လိုနေလျှင် ပြန်လည်ပြုပြင်ရန် အတွင်းဝန်က သံတော်ဆင့်အား ဆင့်ဆိုရသည်။ လွှတ်တော်က ဘုရင့်ထံ သွင်းစာများကို ဖြဲတိုက်ကပင် စစ်ဆေး၍ လွှတ်တော်ဝန်ကြီးများထံ မေးမြန်း အစီရင်ခံစရာများကို ပြန်မေးပြီးမှ ဘုရင့်ထံ သွင်းကြရသည်။

ရှင်ဘုရင်များသည် ဖြဲတိုက်တော်သို့ ထွက်တော်မူ၍ ခြီးမြှင့်ခြင်း၊ နှိမ့်ချခြင်း ပြုလေ့ရှိသည်ဟု ရှေးစာဟောင်းစာ

တမ်းများမှာ ရှိသော်လည်း မန္တလေးမြို့တည် မင်းတုန်းမင်းတရားကြီးနှင့် သီပေါဘုရင်မင်း မြတ်တို့သည် ဖြဲတိုက်သိမ်းရန်အခမ်းအနားများနှင့် ဖြဲတိုက်သို့ ထွက်သည်မှတပါး အခြား ကိစ္စနှင့် ဖြဲတိုက်သို့ ထွက်တော်မူ၍ ခြီးမြှင့်ခြင်း၊ နှိမ့်ချခြင်းပြုတော်မူသည်မရှိဘုသိမှိသူများကဆိုသည်။ သို့ရာတွင် ရာဇပလ္လင်ရှိသည်ကို ထောက်၍ ရှင်ဘုရင် ထွက်တော်မူလေ့ရှိသည်ဟူသော အချက်ကိုမူ ဟုတ်မှန်တန်ရာသည်ဟု ယူဆဖွယ် ရှိသည်။

ဖြဲတိုက်တော် ကွန်းစင်အခန်းကြီးများအတွင်းသို့ အတွင်းဝန်များမှတပါး အခြားမည်သူမျှ ဝင်ခွင့်မရချေ။ ညအိပ်ဖန်အိပ်သည့် အခါ မှတပါး မည်သည့်အရာရှိမျှ ဖြဲတိုက်ပေါ် တွင် သင်ဖြူးဖျာခင်း၍ ထိုင်နေခွင့် မရချေ။ နိုင်ငံခြားဧည့်သည်များပင် ဖြဲတိုက်သို့လာသည့်အခါ ကွန်းစင်တိုင်အတွင်း ကွမ်းသွေးပေါက် အတွင်းများကို ရှောင်၍ အပြင်၌ သင့်တင့်ရာနေရာ၌ ထိုင်ကြရသည်။ ဤကား အစဉ်အလာအားဖြင့် လိုက်နာရသောဓလေ့ ဖြစ်သည်။

# ပြုတ်ပြုတ်ဟူ၍၊ ပေါ် မူထူးလည်၊ ပြုန်းပြုန်းမည်ရှင့်၊

ပြောတီးနည်းတီးချက်သည် အလောင်းစည်သူမင်းကြီးလက်ထက်မှ စတင်သည်ဟု ဆိုသည်။ ဇမ္ဗူဒိပ်ကျွန်းဦးရှိ ဇမ္ဗူ့သပြေပင်အား လေခတ်သည့်အသံကို အကြောင်းပြု၍ တီထွင်တီးမှုတ်ခဲ့သော တူရိယာ။ ရှေးမင်းမိဖုရားတို့နှင့် စပ်လျဉ်းသော ပြောအဖွဲ့၌ ပါဝင်သည့် တူရိယာအရေအတွက်၊ ပြောအဖွဲ့တီးမှုတ်ရသည့် အခမ်းအနားများ စသည်ကို ဖော်ပြထားသည်။

**ပြော။** ။ပြောဟူသော ဝေါဟာရသည် "စည်ပြော" ကို အတိုကောက်အားဖြင့် ခေါ်ဝေါ်ကြရာမှ ဖြစ်ပေါ်လာသော ဝေါဟာရဖြစ်သည်။ ယခုခေတ်အခါတွင် "စကားပြောဆိုခြင်း" ဟု အဓိပ္ပါယ်ရှိသော "ပြော" ဝေါဟာရနှင့် မှားယွင်း ရောထွေးနေမည်ကို စိုးရိမ်သဖြင့် အချို့ပညာရှင်တို့က "ပြော၊ ဗျော" ဟူ၍ ပုံပြင်ပြောင်းလွဲရေးကြသည်ဟု ယူဆရသည်။ "စည်ပြော" မှ "ပြော" ၏အဓိပ္ပါယ်မှာ "ထူပြော၊ ပြန့်ပြော၊ ကျယ်ပြော၊ ဝပြော" စကားများတွင် ယှဉ်တွဲသုံးစွဲသော "ပြော" ၏အဓိပ္ပါယ်နှင့်အတူတူပင် ဖြစ်လေသည်။ စည်ပြောသည် ဒိုးပတ်တီးသကဲ့သို့ လည်ပင်းတွင် ကြိုးဖြင့် အလျားလိုက်သိုင်းလျက် အဖျား၌ ကွေးကောက်ထားသော ကြိမ်တုတ်နှစ်ချောင်းဖြင့် တီးရသော သားရေတူရိယာ ဖြစ်သည်။

မြန်မာရာဇဝင်များ အဆိုအရ ပြောတီးနည်း တီးချက်သည် အလောင်းစည်သူ မင်းကြီး လက်ထက်မှ စတင်ထွန်းကားလာကြောင်း သိရသည်။ ပုဂံပြည့်ရှင် အလောင်းစည်သူမင်းကြီးသည် ဖောင်စကြာဖြင့် ဇမ္ဗူဒီပါကို လှည့်လည်တော်မူရာတွင် ကျွန်းဦးသပြေပင်သို့ ရောက်ခဲ့ရာ၌၊ တွေ့မြင်ခဲ့ရသော ဇမ္ဗူ့သပြေပင်ကို လေခတ်သည့်ကာလ တူရိယာငါးပါးအသံကဲ့သို့ ရှိသည်ကို အကြောင်းပြု၍ ပြောတီးနည်းတီးချက်များ စတင်တီထွင် တီးမှုတ်စေသည်ဟု ဆိုသည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ ရွှေဘုံနိဒါန်းတွင်

"ထိုဇမ္ဗူ့သပြေပင်ကို လေလာ၍ လေခတ်သည့် အသံ၊ အခက်အရွက်ချင်း ထိခိုက်သည့်အသံ၊ ဇမ္ဗူ့သပြေသီး ရေကျသည့်အသံ၊ ရေမှ ပေါ် သည့်အသံတို့သည် အညီအညွတ် မရှေးမနှောင်း ဖြစ်ကြ၍ သာယာနာပျော်ဘွယ် ရှိလေသည် များကို နှုန်းစံနှိုင်းရှသ့်၍ (၁) တံရှည်၊ တံမြှာ၊ သပြေသာ၊ ခရာ၊ လင်းကွင်းများမှာ လေလာ၍ပင်စည် အကိုင်းအခက်တို့ကို လေခိုက်သည့် အဟုန်၏အသံ၊ (၂) တံပိုး-ဒုံမင်းမှာအကိုင်းအခွ အကွေးအဝိုက်ကို လေခတ်၍ မြည်သည့်အသံ၊ (၃) ခရုသင်းမှာ မပြင်းမပြသော လေညှင်းလေညှံ့၏အသံ၊ (၄) နှဲကြီး၊ နှဲငယ်များမှာ လေပြင်း လေဟုန်တွင် အခက်အရွက် တစုတအုပ်တည်း ပြိုပိုင်သဖြင့် မပြင်းမညံ့မြည်သည့်အသံ၊ (၅) လက်ချပ်မှာ ရွက်ချင်းခက်ချင်းထိခိုက်ကြသည့် အသံ၊ (၆) မြှောက်စည်မှာ ဇမ္ဗူ့သပြေသီးတို့သည် ရှေ့နောက် မရှေးမနှောင်းကြွေကျသည့် အသံ၊ (၇) စည်ဝန်းမှာ ဇမ္ဗူ့သပြေသီးတို့သည် အများအပြား တပြိုင်နက်ရေသို့ ကျသည့်အသံ၊ (၈) စည်ပြောမှာ ဇမ္ဗူ့သပြေသီးရေထဲမှ ပေါ် သည့် အသံများကို သဒ္ဒသဏ္ဍာန်ပြု၍ တီးမှုတ် ဆောင်ရွက်လေသည်ကို အကြောင်းပြုသဖြင့် ရှေးစာဟောင်းများတွင် စပ်ဆို သည်မှာ

ဝေဠုအညို၊ စိမ်းလဲ့စိုသား၊
မြင့်မိုရ်ထုတ်သန်း၊ မြခါးပန်းမှ၊
မယွန်းပေါ် ထူး၊ မြှောက်စူးစူးဝယ်၊
ကျွန်းဦးသပြေ၊ ညှာမှကြွေသား၊
ကျပေတုံလှာ၊ ရေမျက်နှာထက်၊
သံဝါကျူးလွန်၊ နစ်လေဟန်တူ၊
ပြုတ်ပြုတ်ဟူ၍၊ ပေါ် မူထူးလည်၊
ပြုန်းပြုန်းမြည်ရှင့်၊ နတ်စည်အစ၊
ပေး၍ရသား၊ သာလှပေဘိ၊
ဘုန်းဇာတိနှင့်၊ အရိမဒ္ဒနာ၊
ပေါက္ကာရာမ၊ ဥကင်္သဝယ်၊

မြန်မာ့ထိပ်မိုး၊ တီးဆော်နှိုးသည်၊
ဘေးဘိုးသည်က ပင်ကိုသော။ ။ဟူ၍ငင်း။”

တဖန်မုံရွေးဆရာတော်ကလည်း ကုသပျို့သစ်အပိုဒ် ၁၅ ၌ “ကျွန်းဦးချက်ဌေး၊ ဇမ္ဗူမြေ၌၊ ကေရာဇ်တမ်း၊ ကျင့်ရိုးလမ်းဖြင့်၊ ဆော်ရွမ်းဥပဒေ၊ သပြေပင်ကြီး၊ အသီးကြွေ










(၁) ရှင်ဘုရင်နှင့်ဆိုင်သည့်စည်ဗြော (၂) မိဖုရားကြီးနှင့်ဆိုင်သည့် စည်ဗြော (၃) စည်တီး၍ ထွက်ဝင်ရန် သနားတော်မြတ် ခံရသူများနှင့်ဆိုင်သည့် စည်နီဗြောပုံစံများဖြစ်ကြသည်။ စည်နီဟုခေါ် ဆိုရခြင်းမှာ စည်ဗြောတွင် ဆေးနီသုတ်ထားသောကြောင့်ဖြစ်သည်။

သည်၊ အသံမည်သား၊ မြှောက်စည်တချက်၊ လေနှောင့်ယှက်၍၊ ကိုင်းခက်သံမြည်၊ တရထည်ဟု၊ တံရှည်တံမြွာ၊ သပြေသာခရသင်း၊ မှည့်ဝင်းဖလ၊ ရေကျသံမှန်း၊ စည်ဝန်းတဝ၊ ပတ္တသာခါ၊ လာသည့်လေညှင်း၊ သွင်းဟန်မလွဲ၊ တလိုင်းနှဲတွင်၊ တီးမြဲရွက်ချင်း၊ လက်ချပ်သွင်း၍၊ ကိုင်းရင်းခွက္ကေ့၊ လေဝှေ့သံထိုး၊ တံပိုးမော်ပြီး၊ အသီးကြွေနှံ့၊ ရေပေါ်သံဟု၊ ထုံးစံရှည်မော၊ စည်ဗြောတသင်း၊ လေပြင်းရိုက်နှက်၊ ခက်ရွက်သံပြီး၊ နှဲကြီးနှဲငယ်၊ ဆန်းကြယ်လေပြိုင်း၊ ခွက်ကိုင်းလေမှုတ်၊ စည်ပုတ်လင်းကွင်း၊ ဒုံမင်းခရာ၊ မင်းတန်းဆာလည်း၊ စဉ်လာခွန့်ရှည်၊ အမွန်တည်၍၊” ဟူ၍ ငင်းဖော်ပြ စပ်ဆိုထားသည်ကို တွေ့ရှိရလေသည်။

ထို့ပြင်ကုသပျို့သစ်အပိုဒ် ၁၅၊ ၁၄၉၊ ၁၅၅ တို့နှင့် အမတ်ကြီးမဟာစည်သူရေးသော မဟာဇနကပျို့အပိုဒ် ၇၀ နှင့် ၉၄ တို့၌ငင်း၊ “မင်္ဂလာအောင်မျိုး၊ နေနန်းရိုး၌” အစချီ မင်းခမ်းတော်များ၌ တီးမှုတ်မျိုးကို ပြဆိုသည့်လင်္ကာ၊ “ဥကင်သနန်းမည့်နန့်ဖူး၊ စမုတ်ဦးဝယ်” အစချီ စည်တော်စုံ လင်္ကာနှင့် လောကဗျူဟာကျမ်း (အင်ရုံစာတမ်း) သတ္တမတွဲရှိ အင်းဝမင်း စည်တော်များ အခန်းတို့၌ငင်း တွေ့ရှိချက်များ အရ ရှေးအခါက ရှင်ဘုရင်နှင့် မိဖုရားများ ဥကင်တော်ဖွင့်မင်္ဂလာနှင့် ထွက်တော်မူသည့် အခါများတွင် တီးမှုတ်လေ့ရှိသည့် စည်အဖွဲ့ သုံးဖွဲ့အနက် စည်ဗြော အဖွဲ့တွင် “စည်ဗြော(ဝါ) ဗြော ၂၅ လုံးထည့်သွင်းတီးမှုတ်ကြောင်း သိရှိရသည်။ ကုသပျို့သစ်အပိုဒ် ၁၅ နှင့် လောကဗျူဟာကျမ်းတို့တွင် မိဖုရားများ ထွက်တော်မူသည့်အခါ စည်ဗြော ၁၅ လုံးသာ ထည့်သွင်းတီးမှုတ်ကြောင်း တချို့တွေ့ရှိရသည်။ ရှင်ဘုရင် မင်းမိဖုရားများ ထွက်တော်မူသည့်အခါ မြှောက်စည်အရေအတွက် အားဖြင့် ၇ လုံးမှ အများဆုံး ၁၁ လုံးအထိ ထည့်သွင်း၍ငင်း၊ စည်ဝန်းများကို ၅ လုံးမှ ၁၇ လုံးအထိ ထည့်သွင်း၍ငင်း တီးမှုတ်လေ့ရှိပြီးလျှင်၊ စည်ဗြောများကိုမူ ၂၅ လုံး ထည့်သွင်းတီးမှုတ်သည်ကို တွေ့ရှိရသည်။ ဤသို့ စည်ဗြောများကို အများအပြား ထည့်သွင်း တီးမှုတ်ရခြင်းကြောင့် (များပြားသောစည်) “စည်ဗြော” ဟူ၍ ခေါ်ဝေါ်ခြင်း ဖြစ်မည်ဟု ယူဆရသည်။

ရှေးအခါက မင်းမိဖုရားနှင့် စပ်လျဉ်းသည့် စည်ဗြောအဖွဲ့ (ဝါ) ဗြောအဖွဲ့တဖွဲ့တွင် အများအားဖြင့် ပါဝင်ထည့်သွင်း တီးမှုတ်လေ့ရှိသည့် တူရိယာများ အရေအတွက်မှာ ဒုံမင်း ၂ လက်၊ စည်ပုတ်တလုံး၊ ပုံသာတလုံး၊ လင်းကွင်းတစုံ၊ နှဲကြီးတလက်မှ ၅ လက်အထိ၊ နှဲငယ် ၃ လက်မှ ၁၁ လက်အထိနှင့် ခရာ ၇ လက်မှ ၁၅ လက်အထိ ဖြစ်လေသည်။

အထက်ပါ စည်ဗြောအဖွဲ့ တူရိယာများကို ရွှေတော်ပြေးမှုက ဆင့်ဆိုသည့်အတိုင်း ရွှေတော်ပြေး အမှုထမ်းများ ၃၁ ယောက်မှ အယောက် ၆၀ အထိ ပါဝင်တီးမှုတ်လေ့ ရှိကြ

သည်။ မိဖုရားနှင့် သက်ဆိုင်ရာ အခမ်းအနားများအတွက် စည်ပြောများကို မိန်းမများသာ တီးရသည်။

စည်ပြောတွင် ဆေးနီသုတ်ထားသည့် စည်ကို "စည်နီ" ဟူ၍၎င်း၊ ဆေးဖြူသုတ်ထားသည် စည်ကို "စည်ဖြူ" ဟူ၍၎င်း ခေါ်သည်။ စည်နီများကို အိမ်ရှေ့မင်းမှစ၍ မင်းညီမင်းသား၊ ဝန်ကြီး၊ အတွင်းဝန်၊ မှူးတော်၊ မတ်တော် အစရှိသည့် ဘုရင်သနားတော်မြတ် ခံရသူများအား စည်တီးလျက် ဝင်ထွက်နိုင်ရန် ပေးသနားလေ့ ရှိသည်။ စည်ဖြူများကို မူ အများအားဖြင့် နေရာနေမျာ းနှင့် စော်ဘွားများအား ပေးသနားလေ့ရှိသည်။ အင်းဝမင်းများ လက်ထက်တော်က စည်နီစည်ဖြူများ ပေးသနားခြင်းနှင့် စပ်လျဉ်း၍ လောကဗျူဟာအင်ရုံ စာတမ်း၌ အောက်ပါအတိုင်း ဖော်ပြ ရေးသားထားသည်ကို တွေ့ရှိရပေသည်။

''ရာဇာမဏိစူဠာဘုရားဒါယကာ မင်းတရားလက်ထက် ညီတော်မင်းရဲကျော်စွာကို ပေးသည့်စည်၊ငါးထပ်ဒါယကာ မင်းရဲကျော်ထင်၊ ညီတော် မင်းရဲကျော်ခေါင်တို့ကို ပေးသည့်စည်၊ မာရ်အောင်ရတနာ ဘုရားဒါယကာ မင်းတရားလက်ထက် ညီတော်စဥ့်ကူမင်းကို ပေးသည့်စည်၊ လောကမာရ်အောင် ဘုရားဒါယကာ မင်းတရား လက်ထက် ဦးရီးတော် သတိုးစောကို ပေးသည့်စည်ကား စည်နီကိုးလုံး၊ ပုံသာတစ်၊ စည်ပုတ်တစ်၊ လင်းကွင်းတစ်၊ ငွေနှဲကြီးနှစ်၊ ငွေနှဲငယ်နှစ်၊ ငွေခရာတစ် ပေးသည်။ မိဖုရားတို့တွင် မြင်သည့် မင်းသား၊ ကိုယ်လုပ်တော်တွင် မြင်သည့် မင်းသားတို့ကို ပေးသည့်စည်ကား စည်နီခုနစ်၊ ပုံသာတစ်၊ စည်ပုတ်တစ်၊ လင်းကွင်းတစ်၊ ငွေနှဲကြီးတစ်၊ ငွေနှဲငယ်တစ်၊ ခရာတစ် ပေးသည်။ မင်းသားကြီးတို့သား မင်းသားနေရာနေ၊ မြင်းမှူးနေရာနေ၊ အမည်ရ တော်နေရာနေတို့ကို ပေးသည့်စည်ကား စည်ဖြူခုနစ်၊ ပုံသာတစ်၊ စည်ပုတ်တစ်၊ လင်းကွင်းတစ်၊ နှဲကြီးနှစ်၊ နှဲငယ်နှစ်၊ ခရာတစ်ပေးသည်။ ရှမ်းပြည်စော်ဘွားတို့ကိုစည်စ၍ပေးသည်ကားစည်ဖြူ ငါးလုံးပေးသည်။နောက်ထပ်စည်ဖြူခုနစ်လုံး ပေးသည်။သည်နောက်ထပ်၍ စည်နီခုနစ်လုံးပေးသည်။ ရှမ်းပြည်မြို့စုစားတို့ကို စည်ပေးလျှင် စည်ဖြူငါးလုံး၊ ပုံသာတစ်၊ ပလုတ်တစ်၊ လင်းကွင်းတစ်၊ နှဲကြီးနှစ်၊ နှဲငယ်နှစ်၊ ခရာတစ်၊ ပေးသည်။

ရှင်ဘုရင်က ပေးသနားခြင်းခံရသော စည်ပြောများနှင့်တကွ တူရိယာများကို အိမ်ရှေ့မင်းမှစ၍ မင်းညီမင်းသား မှူးမတ်များတို့သည် နှစ်စဉ် နှစ်တိုင်း ဝါဝင်နှင့် ဝါကျွတ်ပွဲ ဘုရင်မင်းမြတ် ကန်တော့ခံတော်မူသည့် မင်းခမ်း မင်းနား သဘင်များကို အခစားဝင်ရန် ကြွရောက်လာကြသည့်အခါ၌ သက်ဆိုင်ရာ အမှုထမ်းများက ရှေ့ဆုံးမှ စီတန်းလျက် သာယာစွာ တီးမှုတ်လာကြရသည်။

ထိုအချိန်အခါက စည်ပြောအဖွဲ့ တီးနည်း တီးချက်များနှင့်စပ်လျဉ်း၍ ယခုခေတ် အလှူပွဲများတွင် ဆိုင်းများက ပြောတီးချက် တီးကြသည့်အတိုင်း "တုတ်တုတ် (ပြုတ်ပြုတ်)ဖြိုး(ပြုန်း)၊ ပတုတ်-ဖြိုး၊ တုတ်တုတ်-ဖြိုး။ တုတ်...." ဟူ၍ပင် ဖြစ်သည်။ စည်ပြောအဖွဲ့ တီးချက်များနှင့် စပ်လျဉ်း၍ ရေးစာပေများတွင် "ပြုတ်ပြုတ်ဟူ၍ ပေါ်မူထူးလည်၊ ပြုန်းပြုန်းမြည်ရှင့်၊ နတ်စည်အစ၊ ပေး၍ ရသား" ဟူ၍၎င်း။ "ဝှန်ဆူထစ်မှုန်း၊ မိုးနှယ်ချုန်းမျှ၊ ပြုန်းပြုန်း ဟူသည်၊ ထိန့်ဆူထပ်ပြွမ်း၊ စည်တော်ရွှမ်းလျက်၊ သာချမ်းညွန့်လူ၊ ထွက်တော်မူသည်၊ မှန်ကူနရထွက်ချာတည်း" ဟူ၍၎င်း။ "စည်ပြော ပြုတ်ပြုတ်၊ ပလုတ်တုတ်နှင့်၊ စည်ပုတ်သွယ်သွယ်၊ ကြီးငယ်သဲသဲ၊ သံမြိုင်နွဲ့သည်" ဟူ၍၎င်း တွေ့ရှိရခြင်းဖြင့် သိသာ ထင်ရှားသည်။

ထို့ပြင် ထိုခေတ်အခါက ဘုရင်နှင့်သက်ဆိုင်ရာ စည်ပြောအဖွဲ့များ၌ တီးမှုတ်လေ့ရှိသော တေးသွားသီချင်းမှာ "သုံးဖန်ချီသုံးဖန်ချ" ခေါ် တေးသွားနှင့်ရတုများ သီဆိုတီးမှုတ်ကြောင်း နားခံတော် မြို့စားကြီး ဦးရွှေခြည် ရေးသားစပ်ဆိုခဲ့သည့် အဘိရကပျို အပိုဒ် ၁၆၃ တွင်

"စည်ရှည်ကျယ်ပွား၊ နှဲငယ်ငါးနှင့်၊သွယ်လျားရစ်ဝှတ်၊ စည်းစုတ်ကြော်ကြွေး၊ ရွှေတော်ပြေးတို့၊ အရေးထက်သန်၊ ဘက်မရန်သည်၊ လက်မြန်လက်ကောင်း၊ ပြန်မပြောင်းသာ၊ သံညောင်းစီမျှ၊ စဉ်စီပြသော်၊ ချီချသုံးတန်၊ ထုံးမချန်တည့်၊ ခမ်းနားတင့်စွာ၊မင်းတံထွာဖြင့်၊ မင်္ဂလာဇေယော်၊ အောင်မျှိုခေါ်သည်၊ စည်တော်စိတ်ဖြာ ခွဲခြမ်းတည်း" ဟူ၍၎င်း။

စည်တော်စုံလက်ာ၌လည်း

''စည်ပြုံးပြန့်ကြွယ်၊ နှဲငယ်ငါးစင်း၊ ညွင်းညွင်း ဖြည့်သုတ်၊ စည်းစုတ်ရင့်ရော်၊ ပျော်ပျော်ရိုက်ကြွေး၊ ရွှေတော်ပြေးတို့၊ လက်ရေးလက်မြန်၊ ချက်မချန်သား၊ သုံးဘန်ချီချ၊ အမရ ရတု၊ နန်းကိုရှု၍၊ ရွှေဥကင်ပေါ် ထမ်းလျက်မြှော်သည်၊ စည်တော်ရွှမ်းဆင့် ရိုက်ကျူးတည်း'' ဟူ၍၎င်း စပ်ဆိုသည်ကို တွေ့ရှိရသည်။

ရှေးအခါက "သုံးဖန်ချီ သုံးဖန်ချ" တေးသွားမှာ၊ ယခုခေတ် ဇာတ်ပွဲများ၌ နတ်ကတော် ကပြရာတွင် တီးမှုတ်လေ့ ရှိကြသော "လေးကျွန်းစကြာ"အစချီ သုံးဖန်ချီသုံးဖန်ချ တေးသွားကဲ့သို့ပင် တီးမှုတ်ကြလိမ့်မည်ဟု ယူဆရသည်။ ရှေးအခါ ပြောတီးချက်တီးမှုတ်ရန်အတွက် "ပြောသီချင်း" ဟူ၍ တသီးတခြား ဖွဲ့နွဲ့ စပ်ဆို ရေးသားခဲ့ဟန် မတူချေ။ ထို့ကြောင့်သာလျှင် ယခုခေတ်၌ ပြောသီချင်း ဟူ၍ တသီးတခြား တပုဒ်တလေမျှ မတွေ့ရှိရခြင်းပင် ဖြစ်လေသည်။ "မြို့လယ်ကမဏ္ဍပ်၊ အရပ်မှာတဲ့ကုသိုလ်" အစချီ မင်္ဂလာပြောညွန့်ခေါ် သီချင်းမှာလည်း ပြောတီးမှုတ်

ရန်အတွက် သက်သက်ရည်ရွယ်၍ ရေးခဲ့သော ပြောသီချင်း တပုဒ် မဟုတ်ဘဲ၊ ကွယ်လွန်သူ ရွာစားကြီး စိန်ဗေဒါက ပြောတီးမှုတ်ရာတွင် အကြောင်းအရာအားဖြင့် သက်ဆိုင် ဆီလျော်နေသည့် ရှေးရေးသာမန်သီချင်းတပုဒ်ကို ရွေးချယ် ကောက်နုတ်လျက် "မင်္ဂလာပြောညွန့်" ဟူသော အမည် ဖြင့် တီထွင်တီးမှုတ်ခဲ့ခြင်းသာလျှင် ဖြစ်ကြောင်း စုံစမ်းသိရှိ ရသည်။ ပြောသီချင်းဟူ၍ တသီးတခြား သီချင်းမရှိနိုင်ခြင်း အကြောင်းတရပ်မှာ ပြောတီးမှုတ်ရာတွင် အစနှင့် အဆုံး ၌ ပြောတီးချက် သတ်မှတ်ထားသော စည်းကမ်းအတိုင်း တီးရန်သာ လိုအပ်ပြီးလျှင် ပြောတီးချက်အလယ်ပိုင်းတွင်မူ စည်းငါး အနေအထားအားဖြင့် ပြောတီးချက်ဖြင့် ကိုက်ညီ သော မည်သည့် သီချင်းမျိုးနှင့်မဆို ထည့်သွင်း တီးမှုတ် နိုင်ခြင်းအတွက်ကြောင့်ပင် ဖြစ်ပေသည်။

ပုဂံခေတ်အခါမှစ၍ ရှေးမြန်မာဘုရင်များသည် ပြော တီးမှုတ်ခြင်း အလေ့အထကို ဥကင်တော်ဖွင့် မင်္ဂလာနှင့် ထွက်တော်မူသည့် မင်္ဂလာ အခမ်းအနားများ၌သာလျှင် တီးမှုတ်ကြခြင်း မဟုတ်ဘဲ၊ ဘုရားပုထိုးများတွင် အလှူ မင်္ဂလာပွဲသဘင်များ ဆင်ယင် ကျင်းပရာ၌လည်း ပြောတီး မှုတ်ခြင်း အလေ့အထများ ပြုလုပ်ကြကြောင်းနှင့် တီးမှုတ် သူ ပညာသည်များနှင့်တကွ တီးမှုတ်ရန် တူရိယာများကို ပါ ဘုရား၌ လှူဒါန်းသည့် အလေ့အထများရှိကြောင်း ပုဂံ ခေတ်ထိုး ကျောက်စာများနှင့် စစ်ကိုင်းမြို့ ကောင်းမှုတော် ခေါ် ရာဇမဏိစူဠာစေတီတော်ရှိ သာလွန်မင်းတရား ရေး ထိုးခဲ့သော ကျောက်စာ၌ အထင်အရှား တွေ့မြင်နိုင်နေပေ သည်။ မြန်မာ ထီးနန်းများ ကွယ်ပျောက်ခဲ့သည့်နောက် ခေတ်၌ ပြောတီးမှုတ်ခြင်း အလေ့အထကို အယူဝါဒရေးနှင့် သက်ဆိုင်ရာ အလှူပွဲများနှင့် ရှင်ပြု၊ ပဉ္စင်းခံပွဲများ၌သာ လျှင် တွေ့ရှိရလေသည်။ ထိုပွဲများတွင် ပြောတီးချက် တီး မှုတ်ကြရာ၌လည်း စည်ပြောများအစား စည်တို တလုံး တည်းကိုသာ အများအားဖြင့် ထည့်သွင်း တီးမှုတ်လေ့ ရှိကြ သည့်အပြင် ကြေးဝိုင်း၊ မောင်းဝိုင်း၊ သံပတ္တလား စသည် များလည်း အပိုထည့်သွင်း တီးမှုတ်လေ့ရှိကြသည်။ အထက် မြန်မာပြည် အချို့အရပ်ဒေသများနှင့် သထုံ၊ မော်လမြိုင် စသော အောက်အရပ်ဒေသများတွင် ဆွမ်းဆန်အလှူခံ ထွက်ရာ၌ ရှေးက စည်ပြောတီးဝိုင်းများကဲ့သို့ စည်ပြောများ ဖြင့် ယခုတိုင် တီးမှုတ်နေကြကြောင်း သိရှိရလေသည်။

ဦးမြဦး

**ဗြဟ္မဏ**။ ။ပုဏ္ဏား — ရှု။

**ဗြဟ္မပုတ္တရမြစ်**။ ။အိန္ဒိယနိုင်ငံ၏ မြစ်ကြီး သုံးသွယ် အ နက် တသွယ်ဖြစ်သော ဗြဟ္မပုတ္တရ မြစ်သည် ဟိမဝန္တာ တောင်တန်းရှိ ပေ ၁၆,၀၀၀ မြင့်သော ကူဗင်ဂန်ဂရီတောင်၌ မြစ်ဖျားခံ၍ အရှေ့ဖက်သို့ စီးဆင်းသည်။ ယင်းနှင့် မနီးမဝေး ရှိ မာနသာဆာရောဝါအိုင်တွင် ဣန္ဒုမြစ်နှင့် ဆတ္တလက်မြစ်တို့ မြစ်ဖျားခံကာ အနောက်ဖက်သို့ စီးဆင်းသည်။ ဗြဟ္မပုတ္တရ မြစ်သည် ဟိမဝန္တာ တောင်တန်းကြီး၏ မြောက်ဖက်တွင် ထိုတောင်တန်းနှင့် မျဉ်းပြိုင်အရှေ့ဖက်သို့ မိုင် ၁,၀၀၀ ခန့် စီးဆင်းကာ တဆစ်ချိုးလျက် ထိုတောင်တန်းကို ဖြတ်သန်း ခဲ့ပြီးနောက် အာသံပြည်နယ်သို့ ရောက်သောအခါ တဖန် အနောက်တောင်ဖက်သို့ မိုင် ၄၅၀ ခန့် စီးဆင်းသည်။ ထို နောက် အရှေ့ပါကစ္စတန်ပြည်နယ် ရန်ဂပူးခရိုင်အတွင်း၌ တောင်ဖက်စူးစူးအတိုင်း မိုင် ၁၅၀ ခန့် စီးဆင်းကာ ဂိုအာ လန္ဒားမြို့ကလေးအနီးတွင် ဂင်္ဂါမြစ်နှင့် ပေါင်းဆုံသည်။ ထို နောက် ဆက်လက်စီးဆင်းပြီးလျှင် မေဃနာမြစ်ဝကျယ်ကြီး ဖြင့် ဗင်္ဂလားအော်ထဲသို့ စီးဝင်သည်။ (ဗင်္ဂလားအော် — ရှု။) ဗြဟ္မပုတ္တရမြစ်သည် မိုင် ၁,၈၀၀ ခန့်ရှည်၍ ဂင်္ဂါမြစ် ထက် မိုင် ၂၅၀ ခန့် ပို၍ရှည်သည်။

ဗြဟ္မပုတ္တရမြစ်ကို တိဗက်ပြည်၌ ဆန်ပိုမြစ်ဟု ခေါ်သည်။ အဓိပ္ပါယ်မှာ သန့်ရှင်းသည်ဟု ဖြစ်သည်။ ဆန်ပိုဟု ခေါ် သော မြစ်ညာပိုင်းသည် ရောဝတီမြစ်၏အထက်ပိုင်းဟု တခါ က ယူဆခဲ့၍ ၁၈၈၄–၈၆ ခုနှစ်တွင်းကျမှ မြစ်ကြောင်းအမှန် ကို ရှာဖွေတွေ့ရှိသဖြင့် ဗြဟ္မပုတ္တရနှင့် ဆန်ပိုမြစ်တို့သည် တဆက်တည်းဖြစ်ကြောင်း သိလာကြသည်။ အာသံနယ်ထဲ သို့ ရောက်သောအခါ ဒီဟန်မြစ်ဟုခေါ်၍ ဆာဒီယာမြို့ အနီးတွင် ဒီဗန်မြစ်လက်တက်နှင့် ပေါင်းဆုံပြီးသည့်အခါမှ ဗြဟ္မပုတ္တရမြစ်ဟု ခေါ်ကြသည်။ အဓိပ္ပါယ်မှာ ဗြဟ္မာ့သား ဟု ဖြစ်သည်။ ယင်းမြစ်သည် အောက်ပိုင်း မိုင် ၆၀ ခန့်တွင် ၄ မိုင်၊ ၅ မိုင်ခန့်ကျယ်၍ ကျွန်းများစွာ ထွန်းပေါ်နေသည်။ ယင်းတို့အနက် ၄၅ စတုရန်းမိုင်ကျယ်ဝန်းသော မာဂျူလီ ကျွန်းသည် အထင်ရှားဆုံး ဖြစ်သည်။ ဗြဟ္မပုတ္တရမြစ်၏ ရေဆင်းရေိယာသည် ၃၆၁,၂၀၀ စတုရန်းမိုင်ခန့် ရှိသည်။ ဇွန်လလယ်မှ စက်တင်ဘာလလယ်အတွင်း တောင်ရေများ ကျသဖြင့် ရေလျှံသည်။ စီးဆင်းသောရေထုလည်း အလွန် ကြီးသည်။ မိုးအခါ၌ တစက္ကန့်လျှင် ကုဗပေ ၅၀၀,၀၀၀ ခန့် စီးဆင်းသည်။ နွေအခါ၌ တစက္ကန့်လျှင် ကုဗပေ ၁၄၆,၁၈၈ စီးဆင်းသည်။ ဂင်္ဂါမြစ်၏ နွေရာသီစီးဆင်းသော ရေထု သည် တစက္ကန့်လျှင် ကုဗပေ ၈၀,၀၀၀ ခန့်သာရှိသည်။

ဗြဟ္မပုတ္တရမြစ်ကို မြစ်ဝမှ မိုင် ၈၀၀ ခန့်ဝေးသော ဒီဗရူး ဂါးမြို့အထိသာ လှေသင်္ဘောကြီးများ ဆန်တက်နိုင်သည်။ ဆန်ပိုမြစ်ပိုင်း၌လည်း အရှေ့လောင်ဂျီတွဒ် ၈၈ (ဒီဂရီ)ခန့် တွင်တည်ရှိသော လာဆေးမြို့မှ ဆီတန်မြို့အောက်တနေ့ခရီး သာ သွားရသောနေရာအထိ မိုင် ၄၀၀ ခန့်အတွင်း လှေကြီး များ သွားလာနိုင်လောက်အောင် မြစ်သည် ကျယ်သည်။

ပေ ၁၂,၀၀၀ မြင့်သော ဒေသတွင် ယင်းသို့ စုန်ဆန် သွားလာနိုင်သဖြင့် ဗြဟ္မပုတ္တရမြစ်သည် ပြည်တွင်းရေကြောင်း သွားလာရေးတွင် ကမ္ဘာပေါ်၌ အထူးထင်ရှားသော မြစ်ကြောင်းတခု ဖြစ်လာသည်။

ဗြဟ္မပုတ္တရမြစ်တွင် မြစ်လက်တက်ပေါင်း များစွာ ရှိသည့် အနက် ထင်ရှားသော မြစ်လက်တက်များမှာ ဝဲဖက်တွင် ရှိဂတ်ဆီမြို့နားမှစီးဝင်သော ရာကာဆန်ပိုမြစ်၊လာဆာမြို့ကို ဖြတ်စီးသော ကျည်ချူမြစ်၊ဆေလာဇောင်းမြို့နားမှ စီးဝင်သော ဂျန်ဒါမြစ်၊ ဆာဒိယမြို့နားမှ စီးဝင်သော ဒီဗန်မြစ်နှင့် ယာဖက်တွင် ဂျန်ဆီမြို့ကို ဖြတ်စီးသော ညန်ချူမြစ် စသည်တို့ ဖြစ်သည်။

ဗြဟ္မပုတ္တရမြစ်သည် မြစ်ရေမကြာခဏ လျှံတက်သဖြင့် အနီးအနားတဝိုက်၌ နုံးမြေများတင်၍ မြေဩဇာ အလွန်ကောင်းမွန်ရာ သီးနှံစိုက်ပျိုး၍ အလွန် ဖြစ်ထွန်းသည်။ အိန္ဒိယနိုင်ငံ၏ ကုန်ကူးသန်းရောင်းဝယ်ရေးနှင့် လယ်ယာစိုက်ပျိုးရေးတွင် ဗြဟ္မပုတ္တရမြစ်သည် ဂင်္ဂါမြစ်နောက် အရေးပါ အရာရောက်ဆုံး မြစ်ဖြစ်သည်။ အာသံပြည်ထွက် လက်ဖက်ခြောက်၊ ကျောက်မီးသွေး၊ သစ်၊ ခြည်ရိုင်း၊ ချိပ်၊ သားရေစသော ကုန်များကိုရင်း၊ ဗင်္ဂလားပြည်နယ်ထွက် ဂုံလျှော်၊ စပါး၊ဆေးနှင့် အခြား ကောက်ပဲသီးနှံစသော ကုန်များကိုရင်း ယင်းမြစ်ကြောင်းအတိုင်း သယ်ယူကာ နိုင်ငံခြားသို့ တင်ပို့ကြသည်။

# လူ့နတ်တို့ထက် မြင့်မြတ် သာလွန်ကာ အသက်ရှည်စွာ ချမ်းချမ်းသာသာ နေရသူများ

ဗြဟ္မာလေးမျိုး။ ဗြဟ္မာဘုံနှစ်ဆယ်ရှိသည်။ တဆင့်ပြီး တဆင့်သာလွန်၍ စည်းစိမ်ချမ်းသာနှင့် ပြည့်စုံသည်။ ဗြဟ္မာဘုံ အဆင့်ဆင့်သို့ ရောက်စေသော အကျင့်များ။

**ဗြဟ္မာ။** ။'ဗြူမတိ ပရိဝဒ္ဓတီတိ ဗြဟ္မာ' ဟု ကျမ်းဂန်လာသည်နှင့်အညီ ဈာန်အဘိညာဉ်ကိုရသည့် အတွက် အထက်ဗြဟ္မာဘုံတို့၌ အသက်ရှည်စွာ ချမ်းချမ်းသာသာ နေရခြင်းစသော ဂုဏ်တို့ဖြင့် လူနတ်တို့ထက် မြင့်မြတ်သာလွန်သူများကို ဗြဟ္မာဟု ခေါ်သည်။

ရုပ်၊ နာမ်၊ အကျင့်တရားတို့ကိုလိုက်၍ ဗြဟ္မာမျိုး ၄ ပါး ခွဲခြားနိုင်သည်။ (၁) ရုပ်နာမ် ၂ ပါးလုံးရှိသော ရူပဗြဟ္မာမျိုး၊ (၂) နာမ်သက်သက်သာရှိသော အရူပဗြဟ္မာမျိုး၊ (၃) ရုပ်သက်သက်သာရှိသော အသညသတ် ဗြဟ္မာမျိုး၊ (၄) အရိယာသက်သက်သာရှိသည့် သုဒ္ဓါဝါသဗြဟ္မာမျိုး ဟူ၍ဖြစ်သည်။

ယင်းဗြဟ္မာ ၄ မျိုးတို့နေထိုင်ရာဘုံ ၂၀ ရှိသည်။ ရူပဗြဟ္မာ၊ အသညသတ်ဗြဟ္မာ၊ သုဒ္ဓါဝါသဗြဟ္မာတို့ နေထိုင်ရာ ရူပဝစရဗြဟ္မာ့ဘုံ ၁၆ ဘုံ ရှိ၍၊ အရူပ ဗြဟ္မာတို့ နေထိုင်ရာ အရူပဝစရဗြဟ္မာ့ဘုံ ၄ ဘုံရှိသည်။

ရူပဝစရ ၁၆ ဘုံ၌ ဗြဟ္မပါရိသဇ္ဇာဘုံ၊ ဗြဟ္မပုရောဟိတာဘုံ၊ မဟာဗြဟ္မာဘုံတည်းဟူသော ပထမဈာန် ၃ ဘုံ၊ပရိတ္တာဘာဘုံ၊ အပ္ပမာဏာဘာဘုံ၊ အာဘဿရာဘုံတည်းဟူသော ဒုတိယဈာန် ၃ ဘုံ၊ ပရိတ္တသုဘာဘုံ၊ အပ္ပမာဏသုဘာဘုံ၊ သုဘကိဏှာဘုံတည်းဟူသော တတိယဈာန် ၃ ဘုံ၊ ဝေဟပ္ဖိုလ်ဘုံ၊ အသညသတ်ဘုံ၊ အဝိဟာဗြဟ္မာဘုံ၊ အတပ္ပါဗြဟ္မာဘုံ၊ သုဒဿာဗြဟ္မာဘုံ၊ သုဒဿီဗြဟ္မာဘုံ၊ အကနိဋ္ဌဗြဟ္မာဘုံတည်းဟူသော စတုတ္ထဈာန် ၇ ဘုံတို့ ပါဝင်သည်။

အရူပဝစရ ၄ ဘုံတွင် အာကာသာနဉ္စာယတနဘုံ၊ ဝိညာဏဉ္စာယတနဘုံ၊ အာကိဉ္စညာယတနဘုံ၊ နေဝသညာနာသညာယတနဘုံတို့ ပါဝင်သည်။

ဗြဟ္မပါရိသဇ္ဇာဘုံ၊ ဗြဟ္မပုရောဟိတာဘုံနှင့် မဟာဗြဟ္မာဘုံဟူသည့် ဘုံ ၃ ဘုံကို ပထမဈာန်ရသော ဗြဟ္မာတို့ နေရာဘုံဖြစ်သောကြောင့် ပထမဈာန်ဘုံဟုခေါ်၏။ ၃ ဘုံစလုံး ဘုံတပြင်တည်း တည်သည်။ ပထမဈာန်ဘုံသည် ပရနိမ္မိတဝသဝတ္တီနတ်ပြည်မှ ယူဇနာ ၅,၅၀၇,၀၀၀ ခြားကွာ၍ လူ့ပြည်မှယူဇနာ ၅,၇၆၀,၀၀၀ ဝေးကွာရာ အရပ်၌ အထူးထူးသော ရတနာရောင်တို့ဖြင့် တပြောင်ပြောင် တောက်ပလျက် တခဲနက် ပျံ့ပျူးစွာသော ရတနာအပြင်၌ ပဒေသာပင်၊ ဥယျာဉ်၊ ရေကန်စသည်တို့ဖြင့် ရှုသာတင့်တယ် ဖွယ်ရာ လျောက်ပတ်သော ဘုံနန်းပြာသာဒ်တို့ဖြင့် တည်ကုန်၏။ မဟာဗြဟ္မာဘုံ၌ မဟာဗြဟ္မာဟုခေါ်သော ဗြဟ္မာမင်း တယောက်တည်း ရှိဟန်တူသည်။ ဗြဟ္မဇာလသုတ်၌ 'ကမ္ဘာတည်သည့်အခါ မဟာဗြဟ္မာတယောက်တည်း ရှေးဦးစွာဖြစ်၍ ထိုမဟာဗြဟ္မာ၏ တောင့်တချက်ဖြင့် အောက်လက်ငယ်သား ဗြဟ္မာများ ရောက်လာသည်' ဟု ဆို၏။ ဗြဟ္မပါရိသဇ္ဇာဘုံတွင် မဟာ ဗြဟ္မာမင်း၏ ပရိသတ် ဖြစ်သော လက်ပါးစေ ဗြဟ္မာငယ်များ နေထိုင်သည်။ ဗြဟ္မပုရောဟိတာဘုံ၌ မဟာဗြဟ္မာမင်း၏ ပုရောဟိတ် အရာ၌ တည်သော ဗြဟ္မာများ နေထိုင်သည်။

မဟာဗြဟ္မာ၏ သက်တမ်းသည် အ သင်္ချေယျတကပ်

ရှည်သည်။ ဗြဟ္မပုရောဟိတာဘုံမှ ဗြဟ္မာတို့၏ သက်တမ်းသည် အသင်္ချေယျကပ် ထက်ဝက် ရှည်၍၊ ဗြဟ္မပါရိသဇ္ဇာဘုံမှ ဗြဟ္မာတို့၏ သက်တမ်းသည် အသင်္ချေယျကပ် ၃ စုတစု ရှည်သည်။ပထမစျာန် ၃ ဘုံစလုံး၌ နေထိုင်ကြသော ဗြဟ္မာများသည် တိဟိတ်ပုထုဇဉ်နှင့်အရိယာပုဂ္ဂိုလ်များချည်း ဖြစ်ကြသည်။ ကသိုဏ်း ၁၀ ပါး၊ အသုဘ ၁၀ ပါး၊ ကာယဂတာသတိ၊အာနာပါနဿတိဟူသော အနုဿတိ ၂၂ ပါး၊မေတ္တာ၊ ကရုဏာ၊ မုဒိတာဟုဆိုအပ်သော ဗြဟ္မဝိဟာရ ၃ ပါး၊ ဤ ၂၅ ပါးသော ကမ္မဋ္ဌာန်းတို့တွင် တပါးပါးသော ကမ္မဋ္ဌာန်းတို့ကို စီးဖြန်းပွားများ အားထုတ်ခြင်းဖြင့် ပထမစျာန်ဘုံသို့ ရောက်နိုင်၏။ ထိုရောက်ကြောင်း အကျင့်ဖြစ်သော ပထမစျာန်ကို ယုတ်သော ဆန္ဒ၊ စိတ္တ၊ ဝီရိယ၊ ဝီမံသတို့ဖြင့် နည်းသော အာနုဘော်ရှိအောင် ပွားစေသည်ရှိသော် ဗြဟ္မပါရိသဇ္ဇာဘုံ၌၊ အလတ်ဖြစ်သော ဆန္ဒစသည်ဖြင့် အလတ်ဖြစ်သော အာနုဘော်ရှိအောင် ပွားစေသော် ဗြဟ္မပုရောဟိတာဘုံ၌၊ မြတ်သောဆန္ဒစသည်ဖြင့် မြတ်သော အာနုဘော်ရှိအောင် ပွားစေသည်ရှိသော် မဟာဗြဟ္မာဘုံ၌ ဖြစ်၏။ ပထမစျာန်ဘုံ ဗြဟ္မာကြီးတို့သည်ကား အာဒီနဝ ကာမချမ်းသာနှင့်တကွ နီဝရဏတရားတို့ကို ဝိတက်၊ ဝိစာရ၊ ပီတိ၊သုခ၊ ဧကဂ္ဂတာစျာန်အင်္ဂါ၅ပါးတို့ဖြင့်တားဆီးပယ်ခွါလျက်စျာန်ချမ်းသာကို ကောင်းစွာ ခံစားကြလေကုန်၏။ ဗြဟ္မာကြီးတို့၏ စည်းစိမ်သုခတို့မှာ လူနတ်တို့ စည်းစိမ်သုခတို့နှင့်ဆ၍ ထောက်လျှင်မနှိုင်းသာအောင်ကွာလွန်ထွတ်မြတ်လှသည်။

ပရိတ္တာဘာဘုံ၊ အပ္ပမာဏာဘာဘုံ၊ အာဘဿရာဘုံဟူသော ၃ ဘုံကို ဒုတိယစျာန်ဘုံဟု ခေါ်သည်။ ယင်း ၃ ဘုံစလုံးလည်း ကောင်းကင်တပြင်တည်း၌ တည်သည်။ ပထမစျာန် ၃ ဘုံမှ အထက်သို့ယူဇနာ ၅,၅၀၈,၀၀၀ ကွာသော ကောင်းကင်၌ ပထမစျာန်ဘုံတို့ကဲ့သို့ တည်၏။ ထိုဒုတိယစျာန်ဘုံ၌အာဘဿရ ဗြဟ္မာသည်ဗြဟ္မာမင်းဖြစ်သည်။အပ္ပမာဏ ဗြဟ္မာတို့သည် ဗြဟ္မာပုရောဟိတ်တို့ ဖြစ်သည်။ ပရိတ္တာဘ ဗြဟ္မာတို့သည် ပထမစျာန်ဘုံမှ ပါရိသဇ္ဇဗြဟ္မာတို့ ကဲ့သို့ အလုပ်အကျွေး ဗြဟ္မာများဖြစ်သည်။ ပရိတ္တာဘ ဗြဟ္မာတို့သည် အသက် ၂ ကမ္ဘာရှည်သည်။ အပ္ပမာဏ ဗြဟ္မာတို့သည် အသက် ၄ ကမ္ဘာရှည်သည်။ အာဘဿရ ဗြဟ္မာတို့သည် အသက် ၈ ကမ္ဘာရှည်သည်ဟုဆိုသော်လည်း ကမ္ဘာတည်ပုံ ပျက်ပုံနှင့် ထောက်သော် ၇ ကမ္ဘာနှင့် အသင်္ချေယျ ၂ ကပ်ရှည်သည်။ ပရိတ္တာဘာဘုံမှ ဗြဟ္မာတို့၏ အရောင်အဝါသည် အသင့်အတင့်ရှိ၍၊ အပ္ပမာဏာဘာဘုံမှ ဗြဟ္မာတို့၏ အရောင်အဝါသည် များမြတ်ပြီးလျှင်၊ အာဘဿရာဘုံမှ ဗြဟ္မာတို့၏အရောင်အဝါသည် ညခင်းဆည်းစျာ၌ ကောင်းစွာ လောင်အပ်သော တန်ဆောင်မှ ပြက်လျက်ထွက်သော မီးလျှံအရောင်ကဲ့သို့ ထိုထို ကိုယ်အရပ်မှ ပြက်လျက် ပြက်လျက် ထွက်သည်။ ကသိုဏ်း ၁၀ ပါး၊ အာနာပါနဿတိ၊မေတ္တာ၊ ကရုဏာ၊ မုဒိတာအားဖြင့် ဗြဟ္မဝိဟာရ ၃ ပါး၊ ဤ ၁၄ ပါးသောကမ္မဋ္ဌာန်းတို့တွင် တပါးပါးသော ကမ္မဋ္ဌာန်းကို စီးဖြန်းအားထုတ်သဖြင့် ရအပ်သော ဝိစာရ၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာ စျာန်အင်္ဂါ ၄ ပါးရှိသော ဒုတိယစျာန်သည်၎င်း၊ ယခင်ကမ္မဋ္ဌာန်းကိုပင် အားထုတ်၍ ရအပ်သော ပီတိ၊သုခ၊ဧကဂ္ဂတာစျာန်အင်္ဂါ ၃ပါးရှိသော တတိယစျာန်သည်၎င်း၊ တနည်းကား ပီတိ၊ သုခ၊ ဧကဂ္ဂတာစျာန်အင်္ဂါ ၃ ပါးရှိသော ဒုတိယစျာန်သည်၎င်း ဒုတိယစျာန် ၃ ဘုံသို့ ရောက်ကြောင်း အကျင့် ဖြစ်သည်။ ဒုတိယစျာန်ဘုံ ဗြဟ္မာတို့၏စည်းစိမ်သုခတို့သည် ပထမ စျာန်ဘုံ ဗြဟ္မာတို့၏ စည်းစိမ် သုခတို့ထက် ဝိတက်ဝိစာရဟူသော ရုန့်ရင်းသော စျာန်အင်္ဂါကို စွန့်ခွာပြီးသည် ဖြစ်၍ သာလွန်ထွတ်မြတ်ပေသည်။ ယင်းဘုံများနေ ဗြဟ္မာကြီးများသည် တိဟိတ်ပုထုဇဉ်နှင့် အရိယာပုဂ္ဂိုလ်များချည်း ဖြစ်ကြသည်။

မလှုပ် မယှက် တခဲနက် တောက်ပသော ကိုယ်ရောင် ရှိသည့် ဗြဟ္မာကြီးများ နေထိုင်ရာ ပရိတ္တသုဘာဘုံ၊ အပ္ပမာဏသုဘာဘုံ၊ သုဘကိဏှာဘုံ ၃ ဘုံကို တတိယစျာန်ဘုံဟု ခေါ်သည်။ တတိယစျာန်ဘုံတို့သည် ဒုတိယစျာန်ဘုံမှ အထက် ယူဇနာ ၅,၅၀၈,၀၀၀ ခြားကွာသော ကောင်းကင်၌ ပထမစျာန်ဘုံ၊ ဒုတိယစျာန်ဘုံတို့ နည်းတူပင် တပြင်တည်း တည်သည်။ ပရိတ္တသုဘာဘုံက ဗြဟ္မာထက် အပ္ပမာဏသုဘာဘုံကဗြဟ္မာက၊အပ္ပမာဏသုဘာဘုံကဗြဟ္မာထက် သုဘကိဏှာ ဗြဟ္မာက အရောင်အဝါ ပိုမိုတောက်ပသည်။ ပရိတ္တသုဘာဘုံမှ ဗြဟ္မာတို့၏ သက်တမ်းသည် ၁၆ ကမ္ဘာရှည်၍၊ အပ္ပမာဏသုဘာဘုံမှ ဗြဟ္မာတို့၏ သက်တမ်းသည် ၃၂ ကမ္ဘာရှည်သည်။သုဘကိဏှာဘုံမှ ဗြဟ္မာသက်တမ်းသည် ၆၄ ကမ္ဘာရှည်သည်ဟု ဆိုသော်လည်း တတိယစျာန် ၃ ဘုံသည် ဝိဝဋ္ဋကပ် အလယ်မှစတည်၍ သံဝဋ္ဋကပ် ၆၄ ကမ္ဘာ အပါအဝင် သံဝဋ္ဋကပ် ဆုံးခန်းတွင် ပျက်သောကြောင့် သုဘကိဏှ ဗြဟ္မာတို့၏ အသက်သည် ၆၄ ကမ္ဘာလုံးလုံး မပြည့်၊ ၆၃ ကမ္ဘာနှင့် အသင်္ချေယျ ၂ ကပ်ကျော်သာ ရှိသည်ဟု သိအပ်သည်။ အထက်၌ ဖော်ပြခဲ့သော ၁၄ ပါးသော ကမ္မဋ္ဌာန်းတို့ကို စီးဖြန်းသဖြင့် ရအပ်သော သုခ၊ ဧကဂ္ဂတာ အင်္ဂါ ၂ ပါးရှိသော စတုတ္ထ စျာန်သည်၊ တနည်းကား သုခ၊ ဧကဂ္ဂတာ အင်္ဂါ ၂ ပါးရှိသော တတိယစျာန်သည် တတိယစျာန်ဘုံသို့ ရောက်ကြောင်း အကျင့် ဖြစ်သည်။ တတိယစျာန်ဗြဟ္မာတို့၏ စည်းစိမ်သုခတို့သည် ဒုတိယစျာန် ဗြဟ္မာတို့၏ စည်းစိမ်သုခတို့ထက် ဝိတက် ဝိစာရ ပီတိဟူသော ရုန့်ရင်းသော စျာန်အင်္ဂါကို ပယ်ခွာလျက် တည်ကြည် ငြိမ်သက်သော သုခ ဧကဂ္ဂတာစျာနသုခဖြစ်၍ ကွာလွန်၍ ထွတ်မြတ်ကုန်၏။

သညာစေတသိက် စသော စိတ် စေတသိက်မရှိဘဲ ရုပ်ခန္ဓာကြီးသာရှိသည့် ဗြဟ္မာတို့နေရာ အသညသတ်ဘုံ၊ ဖြန့်ပြော ကြီးမားသော အကျိုးရှိသော ဗြဟ္မာတို့ နေရာ ဝေဟပ္ဖိုလ်ဘုံ၊ စင်ကြယ်သော ပုဂ္ဂိုလ်တို့၏ နေရာ သုဒ္ဓါဝါသ ၅ ဘုံတို့သည် စတုတ္ထဈာန်ဘုံဟု မည်၏။ သုဒ္ဓါဝါသ ၅ ဘုံသည်ကား အနည်းငယ်သော ကာလဖြင့် မိမိနေရာဌာနကို မစွန့်သော ဗြဟ္မာတို့၏နေရာ အဝိဟာဘုံ၊ ဈာန်ချမ်းသာ ဖိုလ်ချမ်းသာတို့ကို ခံစားသဖြင့် ရောင့်ရဲခြင်းမရှိသောဗြဟ္မာတို့၏နေရာ အတပ္ပါဘုံ၊ ကောင်းသော ရှုမြင်ခြင်းဖြင့် ရှုမြင်အပ်သော ဗြဟ္မာတို့၏နေရာ သုဒဿာဘုံ၊ ထိုထိုတရားတို့ကို ကောင်းစွာ ရှုလေ့ရှိသော ဗြဟ္မာတို့ နေရာ သုဒဿီဘုံ၊ ယုတ်နိမ့်သော အဖြစ်မရှိ မြတ်ထွတ်သော အဖြစ်သို့သာ ရောက်သော ဗြဟ္မာတို့၏နေရာ အကနိဋ္ဌဘုံတို့ဖြစ်သည်။ အသညသတ်ဘုံနှင့် ဝေဟပ္ဖိုလ်ဘုံတို့သည် တတိယဈာန် ၃ ဘုံမှ အထက်သို့ ယူဇနာ ၅,၅၀၀,၀၀၀ ခြား ကွာရာ ကောင်းကင်၌ တပြင်တည်း တည်၏။ သုဒ္ဓါဝါသ ၅ ဘုံကား အသညသတ်ဘုံ၊ ဝေဟပ္ဖိုလ်ဘုံတို့မှ အထက်သို့ ယူဇနာ ၅,၅၀၀,၀၀၀ စီခြား ကွာရာအရပ်၌ အစဉ်အတိုင်း အဆင့်ဆင့် တည်ကြကုန်သည်။ အသညသတ်ဘုံနှင့် ဝေဟပ္ဖိုလ်ဘုံတို့မှ ဗြဟ္မာများ၏ သက်တမ်းသည် ကမ္ဘာ ၅၀၀ ရှည်၏။ သုဒ္ဓါဝါသ ၅ ဘုံရှိ ဗြဟ္မာများသည် ကမ္ဘာ ၁,၀၀၀၊ ၂,၀၀၀၊ ၄,၀၀၀၊ ၈,၀၀၀၊ ၁၆,၀၀၀ အသီးအသီး အသက်ရှည်ကြသည်။

ကသိုဏ်း ၁၀ ပါး၊ အာနာပါနဿတိ၊ ဥပေက္ခာဗြဟ္မဝိဟာရအားဖြင့် ၁၂ ပါးသော ကမ္မဋ္ဌာန်းတို့တွင် တပါးပါးသော ကမ္မဋ္ဌာန်းကို စီးဖြန်းအားထုတ်သဖြင့် ရအပ်သော ဥပေက္ခာ၊ ဧကဂ္ဂတာဟူသော ပဥ္စမဈာန်သည်၊ တနည်းကား ဥပေက္ခာ၊ ဧကဂ္ဂတာဟု ဆိုအပ်သော စတုတ္ထဈာန်သည် ဝေဟပ္ဖိုလ်ဘုံသို့ ရောက်ကြောင်းအကျင့်ဖြစ်၏။ သာသနာတော်မှတပါးသော အမူအယူ အကျင့်ရှိသော တိတ္ထိတို့ကျောင်း၌ ရဟန်းပြုပြီးလျှင် နာမ်တရား၌ အပြစ်ကို မြင်၍ ကသိုဏ်း ၁၀ ပါးတွင် ဝါယောကသိုဏ်း၌ စီးဖြန်း၍ ရအပ်သော ဥပေက္ခာ၊ ဧကဂ္ဂတာဟူသည့်အင်္ဂါ ၂ ပါးရှိသော ပဥ္စမဈာန်ကိုပင်၊ တနည်းကား စတုတ္ထဈာန်ကိုပင် သညာ၌ တပ်ခြင်းကင်းအောင် စီးဖြန်းခြင်းသည် အသညသတ်ဘုံသို့ ရောက်ကြောင်း အကျင့်ဖြစ်သည်။အသညသတ်ဗြဟ္မာတို့သည် ပန်းချီ ဆေးရေး အရုပ်ကဲ့သို့ ဖြစ်သည်။ ရပ်လျက် ဖြစ်သော ဗြဟ္မာတို့သည် ရပ်လျက်သာလျှင် နေသည်။ ထိုင်လျက်ဖြစ်သော ဗြဟ္မာတို့သည် ထိုင်လျက်သာလျှင်နေသည်။ လျောင်းလျက်ဖြစ်သော ဗြဟ္မာတို့သည် လျောင်းလျက်သာလျှင် နေသည်။ အနာဂါမိဖလဋ္ဌာန်ပုဂ္ဂိုလ်တို့သည်ကား ကသိုဏ်း ၁၀ ပါး၊ အာနာပါနဿတိ၊ ဥပေက္ခာ ဗြဟ္မဝိဟာရအားဖြင့် ၁၂ ပါးသော ကမ္မဋ္ဌာန်းတို့တွင် တပါးပါးသော ကမ္မဋ္ဌာန်းကို စီးဖြန်း အားထုတ်သဖြင့် ဥပေက္ခာ၊ ဧကဂ္ဂတာ အင်္ဂါ ၂ ပါးရှိသော ပဥ္စမဈာန်ကို၊ တနည်းကား ယင်းအင်္ဂါ ၂ ပါးရှိသော စတုတ္ထဈာန်ကို ပွားစေ၍၊ သဒ္ဓါ၊ ဝီရိယ၊ သတိ၊ သမာဓိ၊ ပညာဟူသည့် ဣန္ဒြေ ၅ ပါးအားလျော်စွာ သဒ္ဓိန္ဒြေ လွန်ကဲသည်ဖြစ်အံ့၊ အဝိဟာဘုံ၌၊ သတိန္ဒြေ လွန်ကဲသည်ဖြစ်အံ့၊ အတပ္ပါဘုံ၌၊ ဝီရိယိန္ဒြေ လွန်ကဲသည်ဖြစ်အံ့၊ သုဒဿာဘုံ၌၊ သမာဓိန္ဒြေ လွန်ကဲသည်ဖြစ်အံ့၊ သုဒဿီဘုံ၌၊ ပညိန္ဒြေ လွန်ကဲသည်ဖြစ်အံ့၊ အကနိဋ္ဌဘုံ၌ ဖြစ်ကုန်၏။

အသညသတ်ဘုံ၌ သုဂတိအဟိတ် ပုထုဇဉ် ပုဂ္ဂိုလ်တယောက်သာဖြစ်သည်။ဝေဟပ္ဖိုလ်ဘုံ၌ကား တိဟိတ်ပုထုဇဉ်တယောက်၊အရိယာ ပုဂ္ဂိုလ် ၈ ယောက်ဖြစ်၏။ သုဒ္ဓါဝါသ ၅ ဘုံ၌ အနာဂါမိဖလဋ္ဌာန်၊ အရဟတ္တ မဂ္ဂဋ္ဌာန်၊ အရဟတ္တဖလဋ္ဌာန်အားဖြင့် အရိယာ ပုဂ္ဂိုလ် ၃ ယောက်စီဖြစ်သည်။

အထက်ပါ ရူပဝစရ ၁၆ ဘုံတို့ရှိ ခပ်သိမ်းသော ဗြဟ္မာတို့သည် ယောကျ်ားသဏ္ဌာန်သာ ရှိကုန်၏။ မိန်းမနိမိတ်၊ ယောကျ်ားနိမိတ်မရှိကုန်။ မျက်စိနားတို့သည် ရှိကုန်၏။ အဆင်းကို မြင်ကုန်၏။ အသံကို ကြားကုန်၏။ နှာခေါင်းကားရှိ၏။ ဃာနပသာဒဝတ္ထု၊ ဃာနဝိညာဉ်တို့သည်ကား မရှိကုန်။ ထို့ကြောင့် အနံ့ကို မသိကုန်။ လျှပ်ရှား လူးလဲတတ်သော လျှာလည်း ရှိ၏။ ထို့ကြောင့် ရယ်ရွှင်ခြင်းတို့လည်း ရှိ၏။ တစုံတခုသော အရသာကို မသိကုန်။ မခံကုန်။ မသောက်ကုန်။ ဈာန်ဖြင့် မွေ့လျော်ခြင်းသည်လျှင် ထိုဗြဟ္မာတို့အား အာဟာရသည် ဖြစ်၏။ လုံးလုံးလျောင်းလျောင်း မြင့်စကောင်းသော ကိုယ်ကား ရှိ၏။ ပထမဈာန် ဗြဟ္မာတို့မှတပါး ရူပဝစရဘုံမှ ဗြဟ္မာတို့သည် ခန္ဓာကိုယ် အငယ်အကြီးမရှိ၊ တူမျှသည်ချည်း ဖြစ်၏။ ပထမဈာန် ၃ ဘုံ ဗြဟ္မာတို့ကား ကိုယ်ရောင် ကိုယ်ဝါလည်း ထူးခြား၏။ ခန္ဓာကိုယ်အကြီးအငယ်လည်း ရှိ၏။ ရူပဝစရဘုံမှ ဗြဟ္မာတို့သည် လူများကဲ့သို့ ဆံနှင့် အမွေးနှင့် ခြင်ဆီနှင့် အလုံးစုံရထိုက်သမျှကောဋ္ဌာသတို့ရှိ၏။ ရုပ်ကလာပ်တို့သည် သိမ်မွေ့နူးညံ့၏။ ဥပမာကား မိုးရွာအပြီး မြေကြီးမှ ထွက်သော အငွေ့ကို အကုန်စု၍ တံလျှပ်ရေကဲ့သို့ သိမ်မွေ့သောရေနှင့် ဆွတ်ဖျန်းလုံးထွေး၍ ထားအပ်သော အခိုးခဲကြီး ကဲ့သို့၎င်း၊ လျှပ်ရောင်များကို အကုန်စု၍ ထိုသိမ်မွေ့သော ရေဖြင့် ဆွတ်ဖျန်းလုံးထွေး၍ ထားအပ်သော အရောင်ခဲကြီး ကဲ့သို့၎င်း သိမ်မွေ့ နူးနယ်၏။ ကာယပသာဒဝတ္ထု၊ ကာယဝိညာဉ်တို့သည်မူကားမရှိကုန်။ထို့ကြောင့် တစုံတခုသော အတွေ့ကို မသိကုန်။ဤသို့ မသိလေငြားသော်လည်း ဝတ်သော ပုဆိုး၊ ရုံသောပုဆိုးတို့ကား ရှိကုန်၏။ ဗိမာန် အိပ်ရာ နေရာတို့လည်း ရှိကုန်၏။ ကျင်ကြီး ကျင်ငယ်သွားသော မဂ်တို့လည်း မရှိကုန်၊ ဗြဟ္မာမိန်းမဟူ၍ မရှိ၊ မိန်းမ၏ အသွင်အပြင် သဏ္ဌာန်

သည်လည်းမဟုတ်။ ကခြင်း၊ သီခြင်းစသည်တို့လည်း မရှိကုန်။ အချို့သော ပြဟ္မာတို့သည် အရိယာဝိဟာရဖြင့် နေကုန်၏။ အချို့သော ပြဟ္မာတို့သည် ဒိဗ္ဗဝိဟာရဖြင့် နေကုန်၏။ အချို့မူကား ပြဟ္မာဝိဟာရဖြင့် နေကုန်ကြ၏။

ရူပပြဟ္မာဘုံများ အထက်၌ အရူပ ပြဟ္မာဘုံ ၄ ဆင့်ရှိသည်။ ဘုံဟု ဆိုရသော်လည်း စင်စစ်အားဖြင့် တကယ် ဘုံဗိမာန်ရှိတော့သည် မဟုတ်။ ရုပ်ဟူသမျှကို စက်ဆုပ်ရွံမုန်းလှသဖြင့် နာမ်သက်သက်ရအောင် အားထုတ်ခဲ့သည့် အကျိုးကြောင့် ရုပ်မရှိ နာမ်သာရှိသော ပြဟ္မာများ နေရာဖြစ်သဖြင့် ရူပပြဟ္မာဘုံများ၌ကဲ့သို့ ဘုံဗိမာန် ရှိသည် မဟုတ်ချေ။ အာကာသာနဉ္စာယတန ဝိပါက်စိတ် စေတသိက်ဖြင့် ပဋိသန္ဓေ စတည်လျက် အဆက်ဆက်ဖြစ်ပွားသော နာမ် ခန္ဓာ အစဉ်၏ ဖြစ်တည်ရာ အာကာသာနဉ္စာယတနဘုံ၊ ဝိညာဏဉ္စာယတန ဝိပါက်စိတ်စေတသိက်ဖြင့် ပဋိသန္ဓေစတည်လျက် အဆက်ဆက်ဖြစ်ပွားသော နာမ်ခန္ဓာအစဉ်၏ ဖြစ်တည်ရာ ဝိညာဏဉ္စာယတနဘုံ၊ အာကိဉ္စညာယတန ဝိပါက်စိတ် စေတသိက်ဖြင့် ပဋိသန္ဓေစတည်လျက် အဆက်ဆက်ဖြစ်ပွားသော နာမ်ခန္ဓာအစဉ်၏ ဖြစ်တည်ရာ အာကိဉ္စညာယတနဘုံ၊ နေဝသညာနာသညာယတန ဝိပါက်စိတ်စေတသိက်ဖြင့် ပဋိသန္ဓေစတည်လျက် အဆက်ဆက်ဖြစ်ပွားသော နာမ်ခန္ဓာအစဉ်၏ ဖြစ်တည်ရာ နေဝသညာနာသညာယတနဘုံခေါ် ဘဝဂ်တို့ကို အရူပပြဟ္မာ ၄ ဘုံ ဟုခေါ်သည်။ တဘုံနှင့်တဘုံ ယူဇနာ ၅,၅၀၈,၀၀၀ ခြားကွာ၍ အထက်အောက် တည်သည်။ ထို့ကြောင့် ဘဝဂ်သည် လူ့ပြည်မှ ယူဇနာ ၇၁,၇၅၆,၀၀၀ ကွာဝေးသည်။ ယင်းဘုံ ၄ ဘုံစလုံး၌ပင် သောတာပတ္တိမဂ္ဂဉာဏ် ကြဉ်သော အရိယာ ၇ မျိုးနှင့် တိဟိတ်ပုထုဇဉ်တို့သာ ရှိသည်။

အဆုံးအစ မရှိသော ကောင်းကင်ပညတ်ကို 'အနန္တော အာကာသော၊ အနန္တော အာကာသော' ဟု အဖန်ဖန် စီးဖြန်းသဖြင့် ရအပ်သောဥပေက္ခာ၊ ဧကဂ္ဂတာ အင်္ဂါ ၂ ပါးရှိသော အာကာသာနဉ္စာယတနစျာန်သည် အာကာသာနဉ္စာယတနဘုံသို့ ရောက်ကြောင်း အကျင့်ဖြစ်သည်။ ယင်းဘုံမှ ပြဟ္မာတို့၏သက်တမ်းသည် ကမ္ဘာ ၂၀,၀၀၀ ရှည်သည်။

အာကာသာနဉ္စာယတနကုသိုလ် ဝိညာဉ်ကို 'ဝိညာဏံ အနန္တံ၊ ဝိညာဏံအနန္တံ' ဟု အဖန်ဖန် စီးဖြန်းသဖြင့် ရအပ်သော ဝိညာဏဉ္စာယတနကုသိုလ်စျာန်စိတ်သည် ဝိညာဏဉ္စာယတနဘုံသို့ ရောက်ကြောင်း အကျင့်ဖြစ်သည်။ ယင်းဘုံမှပြဟ္မာတို့၏သက်တမ်းသည်ကမ္ဘာ ၄၀,၀၀၀ ရှည်သည်။

အာကာသာနဉ္စာယတန ပဌမာရုပ္ပဝိညာဉ်စိတ်၏ စိုးစဉ်းမျှ အကြွင်းမရှိသော နတ္ထိဘောပညတ်ကိုပင် 'နတ္ထိကိဉ္စိ၊ နတ္ထိကိဉ္စိ' ဟု အဖန်ဖန် စီးဖြန်းသဖြင့် ရအပ်သော အာကိဉ္စညာယတနစျာန်သည် အာကိဉ္စညာယတနဘုံသို့ ရောက်ကြောင်း အကျင့်ဖြစ်သည်။ ယင်းဘုံမှ ပြဟ္မာတို့၏ သက်တမ်းသည် ကမ္ဘာ ၆၀,၀၀၀ ရှည်သည်။

အာကိဉ္စညာယတနစျာန်စိတ်ကို 'သန္တမေတံ၊ ပဏီတမေတံ' ဟု အဖန်ဖန် စီးဖြန်းသဖြင့် ရအပ်သော နေဝသညာနာသညာယတနစျာန်သည် နေဝသညာနာသညာယတနဘုံသို့ ရောက်ကြောင်း အကျင့်ဖြစ်သည်။ ယင်းဘုံမှ ပြဟ္မာတို့၏ သက်တမ်းသည် ကမ္ဘာ ၈၀,၀၀၀ ရှည်သည်။

ပြဟ္မာဘုံ ၂၀ ရှိသည့်အနက် မီးဖျက်သော ကမ္ဘာတွင် ပထမစျာန်ဘုံအထိ ပျက်သည်။ ရေဖျက်သော ကမ္ဘာတွင် ဒုတိယစျာန်ဘုံတိုင်အောင် ပျက်သည်။ လေဖျက်သော ကမ္ဘာတွင် တတိယစျာန်ဘုံတိုင်အောင် ပျက်သည်။ စတုတ္ထစျာန် ၇ ဘုံနှင့်အရူပ ၄ ဘုံတို့သည် မီး ရေ လေ မဖျက်ဆီးနိုင်သော ပြဟ္မာ ၁၁ ဘုံဖြစ်သည်။ ပထမစျာန် ၃ ဘုံမူကား ကမ္ဘာပျက်တိုင်း မလွတ်သောကြောင့် မဟာကပ်တခုလုံး ပြည့်အောင် မတည်နိုင်သဖြင့် ပထမစျာန်ပြဟ္မာတို့၏ အသက်ကို မဟာကပ်ဖြင့် မရေတွက်ဘဲ မဟာကပ်၏ ၄ ပုံတပုံဖြစ်သော အသင်္ချေယျကပ်ဖြင့်သာ ရေတွက်အပ်ကြသည်။ ပြဟ္မာတို့၏ သက်တမ်းသည် ဖြစ်ရာဘုံတို့၏ သက်တမ်းဟု ဆိုသော်လည်း ကမ္ဘာတဝက်မှ၊ သို့မဟုတ် ပျက်ခါနီးမှ ရောက်မူ သက်တမ်းမစေ့မီ စုတေကြရ၏။ ကမ္ဘာမပျက်သေးသော်လည်း ကံအရှိန်ကုန်လျှင် အသက်တမ်းမစေ့ခင် စုတေကြရမည်သာ ဖြစ်သည်။

**ဗွေ့နိုဆိုင်းရက်မြို့။** ။ဗွေ့နိုဆိုင်းရက် မြို့သည် တောင်အမေရိကတိုက်ရှိ အာဂျင်တီးနားနိုင်ငံ၏ မြို့တော်ဖြစ်သည်။ ကမ္ဘာ့ တောင်ဖက်ခြမ်းတွင် အကြီးဆုံးဖြစ်၍ ကမ္ဘာ အနောက်ခြမ်းတွင် တတိယအကြီးဆုံး မြို့ဖြစ်ပြီးလျှင် ကမ္ဘာပေါ်တွင် သတ္တမ အကြီးဆုံးမြို့ဖြစ်သည်။ ကမ္ဘာသစ်တွင် နယူးယော့မြို့နောက် အကြီးဆုံးသောမြို့ ဖြစ်လေသည်။

ခရစ်နှစ် ၁၅၀၀ ကျော်တွင် ကမ္ဘာကိုလှည့်လျက် ကိုလိုနီနယ်သစ်များကို ရှာဖွေကြသော စပိန်လူမျိုးအချို့သည် တောင်အမေရိကတိုက် လာပလက်တာခေါ် ပလိတ်မြစ်ဝသို့ ရောက်ရှိကြသောအခါ ထိုဒေသတဝိုက်တွင် တိုက်ခတ်သော လေပြေလေညှင်း၏ သာယာကြည်နူးဖွယ်ကောင်းပုံကို တွေ့ရှိကြသဖြင့် ထိုနေရာတွင် 'လေသာမြို့' ဟူ၍ အဓိပ္ပါယ်ရသော ဗွေ့နိုဆိုင်းရက်မြို့ကို ၁၅၃၆ ခုနှစ်တွင်တည်ထောင်ခဲ့ကြသည်။ သို့ရာတွင် ယခုလက်ရှိ မြို့သည် ၁၅၈၀ ပြည့်နှစ် ဇွန်လ ၁၁ ရက်နေ့က စတင်တည်ထောင်ခဲ့သော မြို့ဖြစ်သည်။ ၁၇၇၆ခုနှစ်တွင်ရီးအိုဒါပလက်တာနယ်၏မြို့တော်ဖြစ်လာ၍ ၁၈၁၀ ပြည့်နှစ်တွင် အာဂျင်တီးနား နိုင်ငံဟူ၍ သီးခြား လွတ်လပ်သော နိုင်ငံ ပေါ်ထွက်လာသော အခါ ဗွေ့နိုဆိုင်းရက်မြို့သည် ယင်းနိုင်ငံ၏မြို့တော် ဖြစ်လာသည်။

ဗွေနိုဆိုင်းရက်မြို့သည် လာပလက်တာ မြစ်ဝ၏ အနောက်ဖက်ကမ်းတွင် ပင်လယ်နှင့် ၁၇၅ မိုင်ကွာဝေးသော နေရာ၌ ပင်လယ်ရေမျက်နှာပြင်အထက် ၈၂ ပေသာ မြင့်သော ညီညာပြန့်ဖြူးသည့် မြေနိမ့်လွင်ပြင်ပေါ်၌ တည်ရှိသည်။ လာပလက်တာမြစ်ဝကို သေင်္ဘာခုတ်သင်္ဘောဖြင့် ရှင်းလင်းခဲ့ထွင် ထားသဖြင့် မြစ်ဝသည် မိုင် ၃၀ ခန့်ကျယ်လျက်ရှိရာ ဗွေနိုဆိုင်းရက်မြို့သည် ပင်လယ်ကူးသင်္ဘောကြီးများ ဆိုက်ကပ်ရာ ဆိပ်ကမ်းမြို့ ဖြစ်နေသည်။ မြို့၏ သင်္ဘောဆိပ်သည် ကမ်းခြေတလျှောက်၌ ၁၆ မိုင်ခန့်ရှည်လျားစွာ ဆန့်တန်းတည်ရှိနေသည်။ မြို့၏မျူနီစီပယ်နယ်နိမိတ် အကျယ် အဝန်းမှာ ၇၄ စတုရန်းမိုင်ရှိ၍ ရန်ကုန်မြို့နှင့်တကွ ဆင်ခြေပုံးနီးနီး ကျယ်သည်။

၁၈၆၉ ခုနှစ်တွင်ပဌမအကြိမ်သန်ကောင်စာရင်းကောက်စဉ်က ဗွေနိုဆိုင်းရက်မြို့တွင် လူဦးရေ ၁၇၇,၇၈၇ ရှိသော်လည်း ၁၉၅၈ ခုနှစ်ခန့်မှန်းခြေအရ လူဦးရေ ၃,၇၃၃,၀၀၀ ရှိနေလေပြီ။ ဗွေနိုဆိုင်းရက် မြို့တွင် အာဂျင်တီးနားတနိုင်ငံလုံး လူဦးရေ၏ ၁၈ ရာခိုင်နှုန်းရှိသည်။ ယင်းတို့အနက်နိုင်ငံခြားသားများသည် ထက်ဝက်နီးနီးရှိရာ၊ စပိန်လူမျိုးနှင့် ဣတာလျံလူမျိုးတို့မှာ အများဆုံး ဖြစ်သည်။ ကျန်နိုင်ငံခြားသားများမှာ ရုရှ၊ အူရုဂွေး၊ ပြင်သစ်၊ တူရကီနှင့် ဂျာမနီနိုင်ငံသားများ ဖြစ်လေသည်။

ဗွေနိုဆိုင်းရက်မြို့သည် ယခုအခါ ကမ္ဘာပေါ်ရှိ ခေတ်အမှီဆုံး မြို့များထဲတွင် တမြို့အပါအဝင်ဖြစ်၍ တောင်အမေရိကတိုက်အတွက် ဂုဏ်ယူလောက်သော မြို့ကြီး ဖြစ်သည်။ ပါရစ်မြို့ကဲ့သို့ ခေတ်ဆန်သဖြင့် ဗွေနိုဆိုင်းရက်မြို့ကို 'အမေရိက၏ ပါရစ်မြို့' ဟုခေါ် လေ့ရှိကြသည်။ မြို့ကို တည်ဆောက်ထားပုံမှာ အလွန်လှပ၍ မြို့ထဲ၌ ကြည့်ရှုစရာ၊ သွားလာလည်ပတ်စရာ အမြောက်အမြား ရှိသည်။ မြို့၏ ကျက်သရေဆောင် အဆောက်အအုံများမှာ သမတရုံးများတည်ရှိရာ ကာဆာရိုဇားဒါး ခေါ် နှင်းဆီရောင်အိမ်တော်၊ မျူနီစီပယ်အဆောက်အအုံ၊ ဘုရားရှိခိုးကျောင်း၊ ဂိုဏ်းအုပ်ဘုန်းတော်ကြီးစံကျောင်းတော်၊ အမျိုးသား အနုပညာခန်းဆောင်၊ အမျိုးသား စာကြည့်တိုက်၊ လာပလက်တာ တက္ကသိုလ်၊ သဘာဝသမိုင်းပြတိုက်၊ တက္ကသိုလ်ကျောင်းတော်ကြီးများ စသည်တို့ဖြစ်သည်။ မြို့ပေါ်တွင် ပန်းခြံပေါင်း ၇၀ ကျော်ရှိသည့်အနက် ပါလာမို ပန်းခြံနှင့် မျူနီစီပယ် ပင်မျိုးစုံပန်းဥယျာဉ်တို့သည် အလွန်လှပသဖြင့် နာမည်ကျော်သည်။ ဗွေနိုဆိုင်းရက်မြို့သည် သစ်ပင်များဖြင့် ဘေး ၂ ဖက် အနားသတ်ထားသော လမ်းကျယ်ကြီးများ၊ လေးထောင့်ပုံ ကျယ်ဝန်းသော ပန်းခြံများနှင့်မြက်ခင်းများ အတွက် ကျော်ကြားသည်။ အသင်ရှားဆုံးမှာ ပလာဇာဒါမေယို ပန်းခြံကြီး ဖြစ်သည်။ ထင်ရှားသော အဆောက်အအုံများသည် ယင်းပန်းခြံတဝိုက်တွင် တည်ရှိသည်။ မြို့တွင်းရှိ လမ်းများသည် အားလုံးလိုလိုပင် အရှေ့မှအနောက်၊ တောင်မှမြောက်တို့သို့ ဖြောင့်ဖြောင့်ဖြူးဖြူး တန်း၍ တခုနှင့်တခု ဒေါင့်မှန်ဖြတ်သန်းလျက် တည်ရှိလေသည်။



အာဂျင်တီးနားနိုင်ငံ ဗွေနိုဆိုင်းရက်မြို့တော်ရှိ ကွန်ဂရက်လွှတ်တော်

ဗေ့ွနိုဆိုင်းရက်မြို့သည် အာဂျင်တီးနားနိုင်ငံ အဘင်း အမြို့မြို့မှလာသော မီးရထားလမ်းများဆုံရာ ဗဟိုဌာနကြီး ဖြစ်သည်။ တောင်အမေရိကတိုက်ရှိ နိုင်ငံများနှင့်သာမက ကမ္ဘာ့အရပ်ရပ်ရှိ နိုင်ငံများနှင့်လည်း လေကြောင်းခရီး ဖြင့် ဆက်သွယ်လျက်ရှိသည်။ ဗေ့ွနိုဆိုင်းရက်မြို့သည် အမေရိကတတိုက်လုံး၌ အကောင်းဆုံးသော မြေအောက် မီး ရထားလမ်းရှိရာ မြို့ဖြစ်သည်။ ကမ္ဘာ့အရပ်ရပ်မှ သင်္ဘော ကြီးများ ဆိုက်ကပ်ရာ ထင်ရှားသော သင်္ဘောဆိပ်မြို့လည်း ဖြစ်၍ ကုန်ကူးသန်းဆက်သွယ်ရေး ကောင်းမွန်သည်။ အာ ဂျင်တီးနား တနိုင်ငံတည်းအတွက်သာ မဟုတ်၊ အနားဝန်း ကျင်ရှိ ဗိုလစ်ဗီးယား၊ ပါရာဂွေး၊ အူရုဂွေးစသော နိုင်ငံများ အတွက်ပါ ကုန်စည်ဖြန့်ဖြူးရာ မြို့ကြီးလည်းဖြစ်သည်။ ယင်း ဆိပ်ကမ်းမှ သိုးမွေး၊ ဂျုံ၊ ကျွဲ နွားနှင့် ကျွဲ နွားထွက် ပစ္စည်း များ တင်ပို့၍ စက်ရုံထွက် ပစ္စည်းများကို တင်သွင်းသည်။

**ဗွိုင်လာအိုး။** ။ဗွိုင်လာအိုးဆိုသည်မှာ အပူတိုက်ပေး ခြင်းဖြင့် အရည်တခုခုကို အငွေ့အဖြစ်သို့ ပြောင်းလဲ ပေး သည့် သတ္တုကျိုအိုး ဖြစ်သည်။ ကျိုအိုးထဲ၌ ထည့်ထား သည့် အရည်သည် အငွေ့ဖြစ်သွားသောအခါ ကန်ထွက်လာ သည်။ ကျိုအိုးမှာ အလုံပိတ်ထားသဖြင့် အဆိုပါ အငွေ့ တွင် တွန်းကန်ဖိနှိပ်နိုင်သည့် အားရှိသည်။ ထိုအငွေ့ကို ခုတ် မောင်း လည်ပတ်စေလိုသော စက်သို့ ပြွန်များဖြင့် သွယ်ယူ ပို့ဆောင် ပေးသောအခါ အငွေ့၏ဖိအားဖြင့် စက်လည် လေသည်။ ပြဒါးစသော အခြားအရည်များကို အသုံးပြု သည့် ဗွိုင်လာမျိုးလည်း ရှိ၏။ သို့သော် ကမ္ဘာတွင် မီးရ ထား မီးသင်္ဘောမှစ၍ စက်ရုံအလုပ်ရုံများ၌ရေနွေးငွေ့စက် များကို အသုံးများ ရကား ဗွိုင်လာဟု ဆိုလျှင် ရေနွေးငွေ့ ကို ဖန်တီးပေးသည့်"ရေနွေးငွေ့ဗွိုင်လာ"ကိုသာ ယေဘုယျ အားဖြင့် နားလည်ကြ ဆိုလိုကြပေသည်။

ဗွိုင်လာ ပြုလုပ် ထားပုံသဘောမှာ အလုံပိတ်ထားသော အိုးတွင် ရေထည့်ထားပြီးနောက် အိုးအောက်ဖက်မှ ထင်း မီးသွေးစသည်တို့ဖြင့် အပူတိုက်ပေးသည်။ ရေဆူရာမှ ဖြစ် ပေါ်လာသောရေနွေးငွေ့တို့သည် အိုးအတွင်း၌ ရေမျက်နှာ အထက်တွင် တွန်းကန်နိုင် ဖိနှိပ်နိုင်သောအားဖြင့် စုဝေး၍ နေသည်။ ရေနွေးငွေ့စက်ကို ခုတ်မောင်းရာတွင် အထက် ၌ ဖော်ပြခဲ့သည့်အတိုင်း အဆိုပါ ဖိအားရှိသော ရေနွေးငွေ့ တို့ကို ပြွန်များဖြင့် စက်သို့ ဆက်သွယ်ပို့ဆောင်ပေးရလေ သည်။ ရေနွေးငွေ့၏ ဖိအားကြောင့် ဗွိုင်လာပေါက်ကွဲ တတ်၏။ ထို့ကြောင့် ဗွိုင်လာအိုးများကို သေချာ ခိုင်ခံ့ စွာ ပြုလုပ်ရပြီးနောက် အသုံး မပြုမီ အကြိမ်ကြိမ် စမ်းသပ် ရန်လိုပေသည်။ ဗွိုင်လာ၏ ဖိအားကို မျက်နှာပြင် စတုရန်း တလက်မအပေါ်တွင် ဖိနှိပ်နိုင်သော ပေါင်ချိန်အားဖြင့် တိုင်းတာရ၍ ဗွိုင်လာတိုင်း၌ ခံနိုင်ရည်ရှိသည့် ဖိအားကို ရေးမှတ်ဖော်ပြထားရသည်။ ဗွိုင်လာတွင် ဖိအားကို ပြ သော ကရိယာ တပ်ဆင်ထား၍ ဗွိုင်လာထဲ၌ ဘေးအန္တ ရာယ်ဖြစ်လောက်အောင် ဖိအားကြီးမားလာခဲ့သော်၊ ရေ နွေးငွေ့သည် သူ့အလိုအလျောက် လွတ်မြောက် ထွက် သွားနိုင်စေရန်အတွက် "ဘေးကင်းအဆို့ရှင်" ခေါ် ရေနွေး ငွေ့ထွက်ပေါက်တခုခုကိုလည်း တပ်ဆင်ထားရလေသည်။

ရှေးဦး ရေနွေးငွေ့စက်များနှင့်အတူ ပေါ်ပေါက်လာခဲ့ သော ကနဦး ဗွိုင်လာများတွင် ဗွိုင်လာ၏ ပုံမှာ လေး ထောင့်သေတ္တာပုံဖြစ်၍၊ ဖိအားမှာ စတုရန်း တလက်မလျှင် ၂ ပေါင်မှ ၄ ပေါင်အထိသာ ရှိသဖြင့် အလွန်ပင် နည်း၏။ ထိုနောက် ဂျိမ်းစဝပ်ဆိုသူ (၁၇၃၆–၁၈၁၉ ခုနှစ်) တီထွင် သော ဗွိုင်လာမှာ ဖိအား ၁၀ ပေါင်ခန့်ရှိလာသည်။ ရစ် ချတ် ထရက်ဗီလစ် (၁၇၇၁–၁၈၃၃ ခုနှစ်) ဆိုသူ တီထွင် သော ဗွိုင်လာမှာ ပြောင်းလုံးပုံ ဖြစ်၍ အလျားလိုက် လှဲ ထားသည်။ ထိုဗွိုင်လာတွင် မီးဖိုကို ဗွိုင်လာအတွင်းဖက်၌ တပ်ဆင်ထား၍ ဝပ်တီထွင်သော ဗွိုင်လာထက် ဖိအား ၁၀ ဆခန့် ပိုလာသည်။ ထိုမှ တဆင့် တမျိုးထက်တမျိုး သာ လွန် ကောင်းမွန်သော ဗွိုင်လာများကို ပုဂ္ဂိုလ်အသီးအသီး က တခေတ်ပြီးတခေတ် ကြံစည် တီထွင်လာခဲ့ကြရာ ယခု သော် စတုရန်း တလက်မလျှင် ဖိအား ပေါင်ချိန် ၁,၂၀၀ ရှိ သော ဗွိုင်လာကြီးများပင် ပေါ်ပေါက်၍နေပေပြီ။

ဗွိုင်လာသည် ယင်းကိုယ်တိုင် အလုပ်ကို တိုက်ရိုက် လုပ် ကိုင်ခြင်းမဟုတ်ဘဲ၊ ယင်းမှရရှိသော ရေနွေးငွေ့က စက်ကို ခုတ်မောင်းစေ၍၊ စက်ကသာ အလုပ် လုပ်ခြင်း ဖြစ်သည်။ ထို့ကြောင့် ဗွိုင်လာ၏ စွမ်းရည်ကို "ဗွိုင်လာ-မြင်းအား" နှင့် တိုင်းတာကြ၍ ဗွိုင်လာမြင်းတကောင်အားမှာ ဖာရင် ဟိုက်ဒီဂရီ ၂၁၂ အပူချိန်၌ အလေးချိန် ၃၄½ ပေါင်ရှိသော ရေကို တနာရီအတွင်း ခြောက်သွေ့သော ရေနွေးငွေ့ အဖြစ် သို့ ပြောင်းလဲပေးနိုင်သည့် စွမ်းရည်ဖြစ်သည်။ ယခုခေတ်ရှိ အလွန်ကြီးမားသော ဗွိုင်လာကြီးများမှာ တနာရီလျှင် ပေါင်ချိန် တသန်းရှိသော ရေနွေးငွေ့ကို ထုတ်ပေးနိုင်၍ ဤ စွမ်းရည်သည် ဗွိုင်လာမြင်းအား ၃၅,၀၀၀ ခန့်နှင့် ညီမျှ လေသည်။

ပြုလုပ် စီစဉ်ထားပုံနှင့် ပြုလုပ်ထားသည့် ပုံစံကို လိုက်၍ ၎င်း၊ အသုံးပြုပုံကို လိုက်၍၎င်း ဗွိုင်လာများကို အမျိုးမျိုး အစားစား ခွဲခြားခေါ် ဝေါ်ကြသည်။ သို့သော် ရေကို အမြန် ဆုံးဆူစေရန် အတွက် အပူတိုက်ပေးရမည့် ရေမျက်နှာပြင် ကို အကျယ်ပြန့်ဆုံးဖြစ်အောင် ဖန်တီးပေးထား ကြသည့် သဘောမှာမူ အတူတူပင် ဖြစ်လေသည်။ အချို့တွင် ဗွိုင် လာထဲသို့ သွင်းပေးမည့် ရေကို ဗွိုင်လာရှိ မီးဖိုနှင့်ပင် ကြို တင်အပူတိုက်ပေး၍၊ အချို့တွင်လည်း ထိုမီးဖိုနှင့်ပင် ထွက်

လာသည့် ရေနွေးငွေ့ကို ထပ်မံအပူတိုက်ပေးကြ ပေသေးသည်။ ဗွိုင်လာအမျိုးမျိုး အနက် "မီးပြွန်ဗွိုင်လာ" နှင့် "ရေပြွန်ဗွိုင်လာ" မှာ ပြုလုပ် စီစဉ်ထားပုံချင်း ခြားနားလေသည်။

မီးပြွန် ဗွိုင်လာတွင် ရေကို ဖိအားဖြင့် ထည့်ထားပြီးနောက် မီးဖိုမှ မီးခိုးခေါင်းတိုင်သို့ ဗွိုင်လာအတွင်း ဖြတ်သန်း၍ ပြွန်ပေါင်းများစွာ တပ်ဆင်ထားသည်။ မီးဖိုမှ လေပူနှင့် ပူသော အခိုးအငွေ့တို့သည် ထိုပြွန်များမှ ဖြတ်သန်း၍ သွားခြင်းဖြင့် ရေကို အပူတိုက်ပေးကြသည်။ မီးရထားစက်ခေါင်း၌ တပ်ဆင်ရန် အတွက် ပဌမမီးပြွန်ဗွိုင်လာကိုဂျော့စတီဖင်ဆန်ဆိုသူက ၁၈၂၉ ခုနှစ်တွင် စတင်တီထွင်ခဲ့သည်။

ရေပြွန်ဗွိုင်လာ ပြုလုပ်ထားပုံ သဘောမှာ မီးပြွန် ဗွိုင်လာနှင့် ပြောင်းပြန်ဖြစ်၏။ ဤဗွိုင်လာတွင် ရေကို ပြွန်ကလေးများအတွင်းမှ စီးဖြတ်သွားလာစေ၍ မီးဖိုက ထိုပြွန်ကလေးများကို အပူတိုက်ပေးသည်။ ရေကို ပြွန်ကလေးများအတွင်း၌ ဆူစေသည့်အတွက် ရေပြွန်ဗွိုင်လာသည် အခြား ဗွိုင်လာမျိုးတို့ထက် စိတ်ချရသည်ဟု ယူဆကြသည်။ ဤဗွိုင်လာမျိုးကို ဆာ ဂိုးဇွာသီ ဂါနီဆိုသူက ၁၈၂၆ ခုနှစ်တွင်အောင်မြင်စွာတီထွင်အသုံးချခဲ့လေသည်။ပြဒါးငွေ့ဗွိုင်လာသည် ရေပြွန်ဗွိုင်လာနှင့် အတူတူလိုပင် ဖြစ်သည်။ ရေမှရေငွေ့ဖြစ်အောင် အပူတိုက်ပေးသကဲ့သို့ ဤဗွိုင်လာဘွင်ပြဒါးကို အငွေ့ဖြစ်အောင်ပြုလုပ်ပေးသည်။ ပြဒါးငွေ့သည် တပ်ဆင်ထားသော ပြွန်ကို လျှောက်၍ လျှပ်စစ်လုပ်စက်များကို မောင်းသည့် ပြဒါးငွေ့ရဟတ်စက်ကို လည်စေသည်။ ထိုနောက် ပြဒါးငွေ့သည် ရေဖြတ်သန်း သွားနေသည့် ကွန်ဒင်ဆာသို့ ရောက်သောအခါ ထိုရေများသည် ဆူ၍ အခြားပြွန်တခုထဲသို့ ရေခိုးရေငွေ့အဖြစ် ဖြတ်သွားပြီးလျှင် ရေနွေးငွေ့ရဟတ်စက်ကို လည်စေသည်။ ယင်းရဟတ်စက်က လျှပ်စစ်လုပ်စက်ကို လည်စေပြန်သည်၊ ပြဒါးငွေ့သည် ရေကိုဆူစေပြီးနောက် အငွေ့အေးကာ ပြဒါးရည်ပြန်ဖြစ်လာပြီးလျှင် ဗွိုင်လာဖက်သို့ ပြန်စီးသည်။ ယင်းသို့ဖြင့်ပြဒါးသစ် ထပ်ဖြည့်ရန်မလိုဘဲ အငွေ့ဖြစ်လိုက် အရည်ပြန်ဖြစ်လိုက်နှင့် စက်များကို အဆက်မပြတ် လည်စေသည်။

**ဗွိုင်း,ရောဗတ်** (ခရစ် ၁၆၂၇–၁၆၉၁)။ ။ရောဗတ်ဗွိုင်းသည် ဗြိတိသျှလူမျိုး ရူပဗေဒနှင့် ဓာတုဗေဒ ပညာရှင်ကြီး တဦးဖြစ်၏။ နျူတန်၊ ရင်း၊ လော့ မီလတန်၊ ဒရိုင်ဒင်၊ ဗန်ညန့်စသော ပုဂ္ဂိုလ်ကြီးများနှင့် တခေတ်တည်းတွင် ထင်ရှားသော ပုဂ္ဂိုလ်ကြီးဖြစ်လေသည်။ ဗွိုင်းသည် အားဘွဲ့ရ ရစ်ချတ်ဗွိုင်း၏ သတ္တမ သားဖြစ်သည်။ ဗွိုင်းကို ၁၆၂၇ ခုနှစ် ဇန္နဝါရီလ ၂၅ ရက်နေ့တွင် အိုင်ယာလန်ပြည် မန်းစတားနယ် ဝါတာဖို့မြို့ရှိ လစ္စမိုးရဲတိုက်တွင် ဖွားမြင်



ကမ္ဘာကျော် ဗြိတိသျှ သိပ္ပံပညာရှင် ရောဗတ် ဗွိုင်း

သည်။ ငယ်စဉ်ကပင် ပြင်သစ်နှင့် လက်တင် ဘာသာများကို သင်ကြားခဲ့ရသည်။ ၈ နှစ်သားအရွယ်မှစ၍ အီတန်ကျောင်းသို့ ပို့ကာ ပညာသင်ကြား စေသည်။ ၁၆၃၈ ခုနှစ်တွင် သူ၏ နည်းပြဆရာနှင့်အတူ ဥရောပတိုက်တွင် ၆ နှစ်မျှ ခရီးလှည့်ခဲ့သည်။ ၁၆၄၁ ခုနှစ်တွင် ဣတလီသို့ရောက်ကာ၊ ဖလော်ရင့်မြို့တွင် တဆောင်းအောင်းလျက် နက္ခတ် ဆရာကြီး ဂယ်လီလေအို၏ မိန့်ကြားချက် ဥပဒေသများကို လေ့လာဆည်းပူးသည်။

၁၆၄၄ ခုနှစ်တွင် အင်္ဂလန်ပြည်သို့ ပြန်လာကာ ထိုအချိန်က ခေတ်စားနေသော နိုင်ငံရေး အရှုပ်အထွေးများတွင် လုံးဝ ပါဝင်ဆောင်ရွက်ခြင်းမပြုဘဲ သုစိတ်ပါဝင်စားသော သိပ္ပံပညာကိုသာ လေ့လာခြင်း ဆွေးနွေးခြင်းတို့ဖြင့် အချိန်ကုန်ခဲ့သည်။ ၁၆၄၅ ခုနှစ်တွင် ဗွိုင်းသည် မိတ်ဆွေ တစုနှင့် အတူ ဖီလော့ဆိုဖီကယ် ကောလိပ်ခေါ် ယထာဘူတ ပညာကို လိုက်စားသူများ စုဝေးတွေ့ဆုံ ဆွေးနွေးသော အဖွဲ့ကို တည်ထောင်သည်။ ယင်းအဖွဲ့တည်ရာဌာနသည် အတည်အကျ မရှိသည်ကို အစွဲပြု၍ "ဌာနပျောက် တက္ကသိုလ်" ဟုလည်း ခေါ်ကြသည်။

ဗွိုင်းနှင့် မိတ်ဆွေများသည် အောက်စဖို့မြို့တွင် စမ်းသပ်ခန်းတခု ဆောက်လျက် လေ့လာခဲ့သည်။ ၁၆၅၇ ခုနှစ်

တွင်အော့တိုးဖွန်ဂါးခုစ်၏“လေစုတ်ပြွန်”အကြောင်းကိုလေ့လာကြ၏။ ဗွိုင်းသည် သူ၏လက်ထောက် ရောဗတ်ဟုနှင့်အတူ လေစုတ်ပြွန် ပိုမိုကောင်းမွန်ရေး အတွက် ကြံစည်ကြယင်း ၁၆၅၉ ခုနှစ်တွင် လေဟာနယ် ဖန်တီး၍ လေ၏ဂုဏ်များကို လေ့လာရန်သုံးသည့် နျူမက်တစ်ကယ်အင်ဂျင်ခေါ် ကရိယာကို တီထွင် အောင်မြင်ခဲ့သည်။ ယင်းကရိယာကို ဗွိုင်းအား အစွဲပြု၍ ဗွိုင်လီယာနာခုစက်ဟု ခေါ်ကြသည်။ ထိုအချိန်မှစ၍ လေ၏ဂုဏ်များကို တခုပြီးတခု စမ်းသပ်လုပ်ကိုင်ခဲ့ပြီးနောက် ၁၆၆၀ ပြည့်နှစ်တွင် ယင်းစမ်းသပ်မှုများအကြောင်းကို “စမ်းသပ်မှု အသစ်များ”ဟူသော စာတအုပ်စုဆောင်း ရေးသားသည်။ ထိုစာအုပ်ကို ဂျက်ဇူးအစ် ဘုန်းတော်ကြီး ဖရန်စစ္စကပ် လီနပ် (၁၅၉၅–၁၆၇၅) က ကန့်ကွက် ဝေဖန်ချက် ရေးသား ထုတ်ဝေလေသည်။ ထိုဝေဖန်ချက်ကို ပြန်ဖြေသောအားဖြင့် ဗွိုင်းက “လီနပ်အား ချေပချက်” ဟူသော စာအုပ်ကို ရေးသား၍ ၁၆၆၂ ခုနှစ်တွင် ထုတ်ဝေသည်။ ထိုစာအုပ်ထဲ၌ “ဓာတ်ငွေ့၏ အရွယ်ထုသည် ဓာတ်ငွေ့၏ဖိအားနှင့် ပြောင်းပြန် အကြောင်းပြုသည်” ဟူသော အချက်ကို ထည့်သွင်း ကျေညာခဲ့၏။ ယင်းကို ဗွိုင်းစည်းဟု ခေါ်ကြသည်။ ထိုစည်းကို အင်္ဂလိပ်များက ဗွိုင်းတီထွင်ခဲ့သည်ဟု ယူဆသော်လည်း ဥရောပတိုက်သားများကမူ ၁၆၇၆ ခုနှစ်တိုင်အောင် မကျေညာခဲ့သော အီ မရီးယော့၏ တီထွင်ချက်ဖြစ်သည်ဟုဆိုကြသည်။ ဗွိုင်း၏ အခြား စမ်းသပ်လေ့လာမှုများမှာ လေထဲ၌ အသံဖြတ်သွားပုံအကြောင်း၊ ရေသည် ခဲသွားသော အခါ ကြွထွက်တတ်သော သတ္တိရှိပုံ အကြောင်း၊ ပစ္စည်းအချို့၏ သိပ်သည်းဆများကို ရှာယူပုံအကြောင်း၊ သံလိုက်ဓာတ်၏ ထူးဆန်းပုံအကြောင်းတို့ဖြစ်သည်။ ဗွိုင်းသည် သစ်သားမှ အရက်ပြန်ကိုငင်း၊ ခဲနှင့်ထုံးမှ အက်ဆီတုန်းကိုငင်း ထုတ်ယူနိုင်ခဲ့သည်။ ၁၆၆၁ ခုနှစ်တွင် “သံသယရှိသူ ဓာတုဗေဒ ဆရာ” ခေါ် သိပ္ပံကျမ်းတစောင်ကို ရေးသား ထုတ်ဝေသည်။ ယင်းကျမ်းပါ စည်းများသည် ရေနွေးငွေ့အင်ဂျင်စက်များ တည်ဆောက်ရာ၌ အလွန်ပင် အဖိုးတန် အသုံးဝင်သည်။

ဗွိုင်း တည်ထောင် ခဲ့သော “ဌာနပျောက် တက္ကသိုလ်” ကို ၁၆၆၃ ခုနှစ်တွင် ဒုတိယ ချားဘုရင်က “လန်ဒန်မြို့ သဘာဝ ဗဟုသုတ တိုးတက်ပြန့်ပွားရေး တော်ဝင်အသင်း” အဖြစ်သို့ အမိန့်စာချွန်ဖြင့် ပြောင်းရုံမက မင်းအဆောင်အယောင် ကျိုင်းကိုပါ ပေးသနားသည်။ ယခုတိုင် အသင်းအစည်းအဝေးများ ပြုလုပ်သည့်အခါ ယင်းကျိုင်းကို ဥက္ကဋ္ဌစားပွဲပေါ်၌ တင်ထားလေ့ရှိသည်။ ဗွိုင်းကိုလည်း ကောင်စီဝင် လူကြီးတယောက်အဖြစ် ခန့်ထားလေသည်။ ၁၆၈၀ ပြည့်တွင် ဗွိုင်းသည် ထိုအသင်းကြီး၏ ဥက္ကဋ္ဌဖြစ်လာ၏။ ဗွိုင်းသည် ခေတ်သစ်သိပ္ပံပညာရှင်တို့၏ ရှေ့ပြေးတယောက်ဖြစ်သည့်အတိုင်း လက်တွေ့စမ်းသပ်မှု နည်းကို များစွာ ယုံကြည်၏။ ဗွိုင်းသည်သိပ္ပံပညာရှင်ဖြစ်သော်လည်း အယူဝါဒရေး၌လည်း အလွန်လေးစားသူတဦးဖြစ်၏။ ခရစ်ယန် အယူကို သက်ဝင်ယုံကြည်သူ ဖြစ်၍ ရှေးဟောင်း သမ္မာကျမ်းစာကိုလည်း ကျကျနန လေ့လာသူဖြစ်သည်။ ယင်းသို့ လေ့လာနိုင်ရန် ဟီဗြူနှင့် ဂရိဘာသာရပ်များကိုပါ လေ့လာသည်။ လန်ဒန်မြို့တော်၌ ခရစ်ယန်အယူဝါဒအကြောင်း ဟောပြောပွဲပြုလုပ်ရာ ဗွိုင်းဟောပြောပွဲဟု ခေါ်သည်။ ယင်းဟောပြောပွဲများ ကမကထပြုလုပ်နိုင်ရန် သေတမ်းစာဖြင့်ပင် ရန်ပုံငွေများ ပေးခဲ့သေးသည်။ သမ္မာကျမ်းစာကို ဘာသာ အမျိုးမျိုးဖြင့် ပုံနှိပ် ထုတ်ဝေနိုင်ရန်အတွက် ငွေကြေး အကူအညီများလည်း ပေးခဲ့၏။

ဗွိုင်းသည် အရှေ့အိန္ဒိယကုမ္ပဏီ၏ ဒါရိုက်တာလူကြီး အဖြစ်ဖြင့်ငင်း၊ နယူးအင်္ဂလန်ပြည် ခရစ်ယန် သာသနာ ပြန့်ပွားရေး အဖွဲ့၏ အုပ်ချုပ်သူ အဖြစ်ဖြင့်ငင်း ဆောင်ရွက်ခဲ့သည်။ ဗွိုင်းအား ဓာတုဗေဒဖခင်ဟုခေါ် ဆိုကြသော်လည်း ဓာတုဗေဒထက် ရူပဗေဒကို လိုက်စားသူ ဖြစ်သည်။ ထိုပြင် အဂ္ဂိရတ်ဆရာကြီးလည်း ဖြစ်သည်။ သတ္တုညံ့မှ ရွှေဖြစ်နိုင်သည်ဟု ယုံကြည်၍ အကယ်ပင် လက်တွေ့စမ်းသပ် ကြည့်ခဲ့ဘူးသည်။ ဗွိုင်းသည် ၁၆၆၈ ခုနှစ်တွင် အောက်စဖို့ မြို့မှ လန်ဒန်မြို့သို့ ပြောင်းရွှေ့လာကာ၊ လန်ဒန်မြို့၌ပင် အရိုးထုတ်ခဲ့၏။ ၁၆၉၁ ခုနှစ် ဒီဇင်ဘာလ ၃၀ ရက်နေ့တွင်လန်ဒန်မြို့၌ ကွယ်လွန်လေသည်။

**ဗွတ်ကလုံ။** ။ဗွတ်ကလုံသည် ပက်စာရီဖောမီး မျိုးစဉ်မှ ပိုက္ကနိုနီတီဒီး မျိုးရင်းတွင် ပါဝင်သော ငှက်မျိုးဖြစ်သည်။ ယင်းကို ပါဏဗေဒ အလိုအားဖြင့် ပိုက္ကနိုတပ် ဂျီကူဆပ် ပီဂျူအင်ဆစ် ဟုခေါ်သည်။ ထိုငှက်သည် ဗွတ်ဖင်နီ ငှက်မျိုးတွင် ပါဝင်သည်။

ဗွတ်ကလုံကိုယ် အလျားသည် ၈ လက်မရှိသည်။ မျိုးတူငှက်ဖြစ်သော ဗွတ်ဖင်နီနှင့် ပုံပန်းချင်း တူသည်။ ဗွတ်ကလုံတွင် အနီရောင် ပါးမုန်းမွေးကို ထင်ရှားစွာ တွေ့မြင်ရ၍ ဗွတ်ဖင်နီတွင်မူ ပါးမုန်းမွေးကို မတွေ့ရချေ။ ဗွတ်ကလုံ၏ ဦးခေါင်းတွင် မည်းနက်၍ ထောင်နေသော အမောက်ချွန်ပါရှိသည်။ ဗွတ်ကလုံအချို့တွင် ထိုအမောက်သည် ဦးခေါင်းမှ နှုတ်သီးတိုင်အောင် ရှေ့ဖက်သို့ ကွေးညွတ်နေတတ်သည်။ ဗွတ်ကလုံ၏အမြီး အောက်ပိုင်းတွင် ကြက်သွေးရောင် အကွက်တကွက်ရှိ၍၊ ရင်ပိုင်းမှာ အဖြူရောင်ဖြစ်သည်။ အဖိုနှင့်အမတို့၏ အရောင်မှာ အတူတူဖြစ်သည်။

ဗွတ်ကလုံ၏ အော်သံသည် ဗွတ်ဖင်နီအော်သံနှင့် ခပ်ဆင်ဆင် တူသော်လည်း အသံအနည်းငယ်ပို၍ ကျယ်ပြီး လျှင်၊ သာယာနာပျော်ဖွယ်ကောင်းသည်။ သူတို့၏ရှင်လန်း



လူသူနီးရာ ရွာနီးချုပ်စပ်များ၌ နေလေ့ရှိသည့် ဗွတ်ကလုံ

စွာအော်သံနှင့် ညည်းညူသံကို တနေ့လုံးလိုပင် ကြားနေရသည်။ ဖျတ်လတ်ရွှင်ပျသော ငှက်မျိုး ဖြစ်သည်။

ဗွတ်ဖင်နီငှက်မျိုးအနက် ဤငှက်သည် အများအားဖြင့် အအုပ်အသင်းနှင့် နေလေ့ ရှိသော ငှက်ဖြစ်သည်။ ကောင်ရေအများ ပါဝင်သော ဗွတ်ကလုံအုပ်ကို မကြာခဏ တွေ့ရတတ်သည်။ အစာကို အလွယ်တကူနှင့် ရနိုင်ပြီးလျှင် အသိုက်ပြုလုပ်နိုင်သော အပင်များတွင် ဗွတ်ကလုံကို တွေ့ရတတ်သည်။ ထိုအပင်မျိုးသည် မြို့လယ်ခေါင်၌ ရှိလျှင်ပင် ဗွတ်ကလုံကို တွေ့နိုင်ပေသည်။ ဖိုမတွဲလျက် နေလေ့ရှိသည်။ ထူထပ်သော တောကို ရှောင်၍ လူသူနီးသော ဒေသများ၊ ဥယျာဉ်၊ ပျိုးခင်း၊ တောစပ်၊ ရွာနီးချုပ်စပ်နှင့်တောင်ကြားများတွင် ကျက်စားလေ့ရှိသည်။ ဗွတ်ကလုံများသည် လူကို မကြောက်တတ်ချေ။ ယဉ်ပါးအောင် မွေးမြူ၍လည်း ထားနိုင်ပေသည်။ ယဉ်ပါးလာသောအခါ သခင်ခေါ်လျှင် အဝေးကြီးမှ ပျံလာတတ်သည်။ ဗွတ်ကလုံ၏ အစာမှာ သစ်သီး၊ ဇယ်ရီသီး၊ အင်းဆက်ပိုးကောင်၊ ပင့်ကူနှင့်ပေါက်ဖတ်များ ဖြစ်သည်။

ဗွတ်ကလုံငှက်၏ သားပေါက်ချိန်မှာ ဖေဖွာရီလမှ ဇွန်လထိ ဖြစ်သည်။ အပင် ခပ်နိမ့်နိမ့်၊ သို့မဟုတ် ချုံစသော ခြုံစည်းရိုးပင်များတွင် အသိုက်များကို သစ်ခက်၊ သစ်မြစ်၊ မြက်ပင် စသည်တို့ဖြင့် ဆောက်လုပ်လေ့ ရှိသည်။ ဗွတ်ဖင်နီအသိုက်နှင့် ခပ်ဆင်ဆင် တူသော်လည်း၊ ဗွတ်ဖင်နီ၏ အသိုက်လောက် စောက်မနက်ချေ။ အသိုက်ကိုလည်း သိုဝှက်၍ မပြုလုပ်တတ်ပေ။ သက်ငယ်၊ ထန်းရွက်၊ ဓနိရွက်များဖြင့် ပြုလုပ်ထားသော အမိုးနှင့် အကာများတွင်လည်း အသိုက်ကို တခါတရံ ပြုလုပ်တတ်သည်။ တမြုံလျှင် ဥ ၂ လုံးမှ ၄ လုံးထိရှိသည်။ ဥများမှာ အဖြူရောင်တွင် ပန်းရောင်သန်းလျက်ရှိပြီးလျှင် အနီ၊သို့မဟုတ် ခရမ်းရောင် အပြောက်များပါရှိသည်။ ဥများကို ၁၄ ရက်မှ ၁၅ ရက်ထိ ဝပ်ပေးရ၍ အဖိုနှင့် အမ နှစ်ဦးစလုံးသည် အသိုက်ဆောက်ရာ၌၎င်း၊ ဥများကိုဝပ်ပေးရာ၌၎င်း၊ သားငယ်များကိုပြုစုစောင့်ရှောက်ရာ၌၎င်း အတူတကွ ဆောင်ရွက်ကြသည်။

ဗွတ်ကလုံများကို အရှေ့တိုင်းနိုင်ငံများတွင် အနှံ့အပြား တွေ့ရသည်။ မြန်မာနိုင်ငံတွင် သစ်ပင်ပါးပါး ပေါက်ရာ တောင်ခြေရင်းနှင့် လွင်ပြင်များ၌ တွေ့ရသည်။ တောနက်ရာ ဒေသမှအပ ပေ ၆,၀၀၀ ထိမြင့်သောဒေသများ၌ပင် နေထိုင်သော ငှက်မျိုးဖြစ်သည်။

**ဗွတ်ကုလား။** ။ပက်စာရီဖောမီးမျိုးစဉ် ကော်ဗီဒီးမျိုးရင်းဝင် ဗွတ်ကုလားငှက်သည် ကျီးကန်းမျိုးစုတွင် ပါဝင်သည်။ ပါဏဗေဒအလိုအားဖြင့် ဂါးရူးလပ် လျူကိုတစ် လျူကိုတစ်ဟု ခေါ်သည်။

ဗွတ်ကုလား၏ ကိုယ်အလျားသည် ၁၂ လက်မခန့် ရှည်သည်။ ယင်းတို့ ပျံသန်းနေစဉ် အဝေးမှ ကြည့်လျှင် လည်ပင်း၊ တင်ပါးနှင့် ဦးခေါင်းတို့သည် ဖြူဖွေး၍ အမြီးက မည်းနက်နေသည်ကို တွေ့ရသည်။ သို့ရာတွင် အနီးကြည့်မှု ဦးထိပ်သည် မည်းနက်၍ ကျောသည် နီကြန့်ကြန့်အရောင်ရှိပြီးလျှင် တောင်ပံမှာ အချို့အမည်းနှင့် အကြား၊ အချို့ အဖြူနှင့် အပြာစင်းများဖြစ်၍ နေသည်ကို တွေ့ရမည်။ ထိုအတောင်များကို အနောက်နိုင်ငံများ၌ ဦးထုပ်တွင် အလှတပ်ဆင်ရန် အသုံးပြုကြသည်။ ဗွတ်ကုလား၏ ဦးခေါင်းတွင် အမောက်ကလေး ထောင်လျက် ရှိသည်ကိုလည်း တွေ့နိုင်ပေသည်။

ဗွတ်ကုလားသည် လုပတင့်တယ်သော ငှက် ဖြစ်သော်လည်း အလွန်ဆူညံစွာ အသံ ပြုတတ်သော ငှက်မျိုး ဖြစ်သည်။ ယင်းတို့၏ အော်သံသည် ကျယ်လောင်၍ မာဆတ်ဆတ် ဖြစ်သည်။ တကောင်က အသံ ခပ်ရှည်ရှည် မျှဉ်း၍ ချော့မြူလျှင် အခြားငှက်ဘကောင်က ကျယ်လောင်စွာ မာဆတ်ဆတ် တုံ့ပြန်တတ်လေသည်။ ဗွတ်ကုလားသည် သစ်သီးသစ်ဥ၊ ပိုးကောင်မွှားကောင်များနှင့် အခြားငှက်ပေါက်စများ၊ ဥများကို ဖျက်ဆီးစားသောက်တတ်သည်။ တမင်မွေးထားသော ငှက်ပေါက်စကလေးများကိုပင် ဝင်ရောက်လုယက် စားသောက်တတ်ခြင်း၊ မှည့်ဝင်းသော အသီးအနှံကိုမှ ကိုက်တတ်ခြင်းတို့ကြောင့် လူတို့၏ ပစ်ခတ်သတ်ဖြတ်ခြင်းကို မကြာခဏ ခံကြရသည်။

များသောအားဖြင့် ဗွတ်ကုလားသည် စုံတွဲဖြစ်စေ၊ အအုပ်အသင်းဖွဲ့၍ဖြစ်စေ နေတတ်သည်။ ဗွတ်ကုလားသည် ဖျတ်လတ် ပေါ့ပါး၍ အနားမနေတတ်ချေ။ သတိရှိသော ငှက်မျိုး ဖြစ်သဖြင့် ရွယ်ရုံဖြင့် ပျံပြေးတတ်ကြသည်။ သစ်ကိုင်းနှင့် မြေကြီးပေါ် တွင် ခုန်ပေါက် သွားလာတတ်၍ မကြာခဏလည်း အမြီးကို ဘေးတဖက်မှ တဖက်သို့၎င်း၊ အပေါ် မှ အောက်သို့၎င်း၊ ဆတ်ကနဲ ဆတ်ကနဲလှုပ်တတ်သည်။ ယင်းတို့သည် ပျံသန်းသည့်အခါ လျှင်မြန်သန်မာခြင်း မရှိလှဘဲ၊ ခြေ ၂ ဖက်ဆောင့်၍ ပျံရပုံ ပေါ် သည်။

ဗွတ်ကုလားတို့သည် အသိုက်ကို သစ်ကိုင်းခြောက်များ၊ မြက်များ၊ သစ်မြစ်များဖြင့် ရှုပ်ထွေးစွာ ခွက်ကြီးသဏ္ဌာန် တည်ဆောက်၍ သစ်ပင်ထက်တွင် အဆင့်ဆင့် တွယ်ထားလေသည်။ ယင်းတို့သည် တမြုံလျှင် ၃ ဥမှ ၆ ဥအထိ ဥတတ်သည်။ ဗွတ်ကုလားဥသည် ဝါဖျော့ဖျော့ အစိမ်းဖျော့ဖျော့များဖြစ်၍ အညိုစက်များ ပါရှိသည်။ တဥလျှင် ပျမ်းမျှအလျား ၁.၂၉ လက်မနှင့် ပြက် ဝ.၉ လက်မရှိသည်။ မတ်လမှ မေလအတွင်းသည် ဗွတ်ကုလားတို့ ငှက်ယပေါက်၍ အလုပ်ရှုပ်ချိန်ဖြစ်သည်။

ဗွတ်ကုလား တို့သည် တောတွင်းငှက် ဖြစ်၍ သွေ့ခြောက်သော ဒေသကို နှစ်သက်ကြသည်။ တောင်ပေါ်ရှိ ထင်းရှူးတောများ၊ လွင်ပြင်ရှိ အင်တိုင်း တောများတွင် ကျက်စားလေ့ရှိ၏။ ဗွတ်ကုလားငှက်မျိုး အားလုံးလိုလိုပင် ကမ္ဘာ့မြောက်ဖက်ခြမ်းတွင် ကျက်စားကြသည်။ မြောက်အမေရိကတိုက်၊ ဆိုက်ဗီးရီးယားဒေသ၊ ဥရောပတိုက်၊ ကနေဒါနိုင်ငံနှင့် အာရှ အရှေ့ပိုင်းနိုင်ငံများတွင် အများအားဖြင့် တွေ့ရသည်။ မြန်မာနိုင်ငံတွင် မြစ်ကြီးနားခရိုင်မှ တပါး အရှေ့ဖက်ရှိ တောင်တန်းများ၊ အထက်ချင်းတွင်း၊ မြန်မာနိုင်ငံ အလယ်ပိုင်း၊ တောင်ငူခရိုင်အတွင်းရှိပဲခူးရိုးမတောင်စပ်များတွင် အများအားဖြင့် တွေ့ရသည်။ ယင်းတို့သည် တနေရာမှ တနေရာသို့ မကြာခဏ ပြောင်းလေ့ရှိသော်လည်း မြောက်ပိုင်း ချင်းတောင်များ၊ ကသာ နှင့် ရွှေဘိုခရိုင်များရှိ အင်တိုင်းတောများနှင့် ကယားပြည်နယ်များတွင် အမြဲလိုလိုပင် တွေ့ရသည်။ မြေမျက်နှာပြင်အထက် ပေ ၆,၀၀၀ မြင့်သော ဒေသတိုင်အောင် ဗွတ်ကုလားငှက်တို့ကို တွေ့နိုင်ပေသည်။

**ဗွတ်ချဲ့**။ ။ဗွတ်စာမွဲ — ရှု။

**ဗွတ်စာမွဲ**။ ။ဗွတ်စာမွဲသည် ပက်စာရီဖောမီးမျိုးစဉ် ပိုက္ကနိုနိုတီဒီးမျိုးရင်းတွင် ပါဝင်၍ ဗွတ်ဖင်နီ၊ ဗွတ်ကသိုး စသောငှက်မျိုးဖြစ်သည်။ယင်းငှက်ကို ပါဏဗေဒအလိုအားဖြင့် ပိုက္ကနိုနိုတပ် ဗလန်ဖော်ဒီ ဗလန်ဖော်ဒီဟု ခေါ်သည်။ ဗွတ်စာမွဲကို ဗွတ်ချဲ့ဟုရင်း၊ ဗျူဟုရင်း ခေါ်ကြ သေးသည်။ ယင်း ငှက်မျိုးသည် အမြင်အားဖြင့်လည်း မလှ၊ အသံအားဖြင့်လည်း မသာယာသောကြောင့် လူသိ မများချေ။ ဗွတ်စာမွဲ၏ အလျားမှာ ၈ လက်မရှိသည်။ဗွတ်ဖင်နီငှက်မျိုးများအနက် ဗွတ်စာမွဲသည် အမြင်အားဖြင့် အရိုးဆုံး ဖြစ်သည်။ ပြာကဲ့သို့ မွဲခြောက်ခြောက်အရောင်ရှိပြီးလျှင် အဝ်ါရုပ် ထူးထူးခြားခြား ရှိသည်ကို မတွေ့ရချေ။ အမြင်အားဖြင့်လည်း သပ်ရပ်ခြင်း မရှိလှပေ။ မထင်ရှားသည့် အမောက်ငယ်နှင့် ဖြူညိုညိုအရောင်ရှိသော နားရွက်ဖုံးအမွေးများကို အသေအချာ ကပ်ကြည့်မှသာ မြင်နိုင်သည်။

ဗွတ်စာမွဲ၏ သာမန် အော်သံမှာ သာယာနာပျော်ဖွယ် မရှိချေ။ သစ်ပျော့သားကို လွှဖြင့် တိုက်ဖြတ်သံကဲ့သို့ ခပ်ဆတ်ဆတ် အသံမျိုးဖြစ်သည်။ သို့သော် ဂီတသံပါသော တုန်သံ၊ သို့မဟုတ် လျှာလိပ်သံမျိုးဖြင့်လည်း အော်တတ်သေးသည်။

သားပေါက်ချိန်မှာ မတ်လမှ ဩဂုတ်လထိ ဖြစ်သည်။ သို့ရာတွင် သပ်ရပ်ခြင်းမရှိသည့် အသိုက်များကိုမူ အချိန်ကာလအပိုင်းအခြားမရှိ အမြဲလိုသိုတွေ့ရသည်။အသိုက်များမှာ ဗွတ်ဖင်နီအသိုက်နှင့် ခပ်ဆင်ဆင်တူ၍ သစ်ရွက်ခြောက်၊ မြက်ပင်၊ သစ်ခက် စသည်တို့ဖြင့် ပြုလုပ် ထားတတ်သည်။



ဗွတ်ချဲ ဟူ၍၎င်း၊ ဗျူဟူ၍၎င်း ခေါ်ကြသည့် ဗွတ်စာမွဲ

တမြှုံလျှင် ၂ ဥ အုတတ်၍ တခါတရံမှသာ ၃ ဥ အုတတ်သည်။ ဥ၏အရွယ်အစားမှာ ရှည်မျောမျောဖြစ်၍ အလျား ·၉ လက်မ၊ ပြက်·၆၅ လက်မရှိတတ်သည်။ ဥအရောင်မှာအဖြူရောင်တွင် ပန်းရောင်သန်းလျက်ရှိ၍ အနီ၊ သို့မဟုတ် ခရမ်းရောင် အပြောက်များ ပါရှိသည်။

ဗွတ်စာမွဲသည် အပူပိုင်းဒေသကုန်းမြင့်များ၊ ဆူးတော၊ချုံတော၊ လယ်တော၊ စိုက်ခင်းနှင့် ချောင်းငယ်များ၏ အနီးတွင် ကျက်စားလေ့ရှိသည်။ ယင်းသည် သစ်တောများတွင် ကျက်စားသော ငှက်မျိုးမဟုတ်ချေ။ လူမြင်ကွင်းတွင် နေလေ့ရှိသော ငှက်မျိုး မဟုတ်သော်လည်း အော်သံကို ကြားရခြင်းဖြင့် ရှိမှန်းသိနိုင်သည်။ ဗွတ်စာမွဲကို မြန်မာနိုင်ငံနှင့် ယိုးဒယားနိုင်ငံတွင် တွေ့ရသည်။ မြန်မာနိုင်ငံ အလယ်ပိုင်းတွင် အများဆုံး တွေ့ရ၍ မန္တလေး၊ ရွှေဘိုစသော မြို့များ၌ ခြံဝင်းများထဲတွင် တွေ့ရသည်။ မြောက်ဖက်တွင် ကသာမြို့နှင့် အထက်ချင်းတွင်း အောက်ပိုင်း ဒေသများတိုင်အောင် ပျံ့နှံ့လျက် ရှိသည်။ ရေဝတီမြစ်ဝှမ်းနှင့် စစ်တောင်းမြစ်ဝှမ်း တလျှောက်လုံးတွင် အများအားဖြင့် တွေ့ရသည့်ပြင်၊ အရှေ့ဖက်တွင် ကယားပြည်နယ် တောင်တန်းမှ ယိုးဒယားနိုင်ငံတိုင်အောင် အနှံ့အပြား တွေ့ရသည်။ ရန်ကုန်မြို့တွင် မူ တခါတရံ တွေ့ရသည်။ တနင်္သာရီနယ်တွင် တွေ့ရသည်ဟု မှတ်တမ်း၌ မရှိသော်လည်း၊ တနင်္သာရီ မြောက်ပိုင်းဘွင် ရှိကောင်း ရှိပေလိမ့်မည်။

**ဗွတ်ဖင်နီ။** ။ဗွတ်ဖင်နီသည် ပက်စာရီဖောမီး မျိုးစဥ့်မှ ပိုက္ကနိုနိုတီဒီး မျိုးရင်းတွင် ပါဝင်၍၊ ယင်းကို ပါဏဗေဒ အလိုအားဖြင့် မော်လပက်စတီး ကေဖာဟူ၍၎င်း၊ ပိုက္ကနိုနိုတပ် ကေဖာဟူ၍၎င်း ခေါ်သည်။

ဗွတ်ဖင်နီ၏ အလျားသည် ၈ လက်မခန့်ရှိသည်။ ညိုမှိုင်းမှိုင်း အရောင်ရှိပြီးလျှင်၊ ဦးခေါင်းတွင် မည်းနက်သော အမွေးစု အနည်းငယ်ရှိသည်။ ကျောဖက်နှင့် ရင်အုပ်ပိုင်းတွင် အမွေးများသည် အကြေးခွံ ပုံသဏ္ဌာန်ပေါ် နေသည်။ အမြီးအတွင်းဖက်တွင် ထင်ရှားသော ကြက်သွေးရောင် အကွက်တကွက်ရှိသည်။ ပျံသန်းသည့်အခါ အမြီးဖျား ဖြူနေသည်ကို ကောင်းစွာ တွေ့မြင်နိုင်သည်။ အဖိုနှင့်အမတို့၏ အရောင်အဆင်းမှာ အတူတူဖြစ်၏။ ဗွတ်ဖင်နီသည် လျင်မြန်သန်မာစွာ ပျံသန်းသော်လည်း၊ ကြာရှည် မပျံနိုင်ချေ။ တောင်ပံ ရိုက်ခတ်သံကိုမူ ကောင်းစွာ ကြားနိုင်သည်။ ယင်းသည် အဖော်ကို ခင်တွယ်၍ ရဲရင့်ဖျတ်လတ်သော အမူအရာရှိသည်။

ဗွတ်ဖင်နီသည် ဥသြငှက်၊ ရွှေပြည်စိုးငှက် တို့ကဲ့သို့ သာယာစွာ သီချင်း မဆိုတတ်ဘဲ အသံတမျိုး နှစ်မျိုးလောက်သာ အော်မြည်တတ်သည်။ သို့ရာတွင် ထိုအသံသည်ပင်လျှင် သာယာ နာပျော်ဖွယ် ကောင်းပေသည်။ ဗွတ်ဖင်နီ၏ အော်သံသည် သီချင်းဆိုသံမျိုး မဟုတ်သော်လည်း အသံ ကြည်လင်ပြတ်သားသည်။ ရှင်လန်းစွာနှင့် ဆူညံစွာ နေတတ်မှု ဖျတ်လတ်မှုတို့ကြောင့် ထိုငှက်ကို လူတို့ နှစ်သက် ကြသည်။ ငှက်ငယ်မျိုးတို့၏ ရန်သူ ဖြစ်သော သိမ်းစွန် စသည်တို့ ပျံဝဲလာလျှင် ဗွတ်ဖင်နီသည် အခြား ငှက်များအား အသံဖြင့် အချက်ပေးတတ်သည်။

ဗွတ်ဖင်နီ၏ အစာမှာ ဇယ်ရီသီးနှင့် အင်းဆက် ပိုးကောင်များဖြစ်သည်။ ဥယျာဉ်များရှိ သစ်သီး သစ်ဖု များကို တခါတရံ ဖျက်ဆီးလေ့ ရှိသည့်ပြင်၊ စိုက်ခင်းများမှ ဟင်းသီး ဟင်းရွက် များကိုလည်း ဖျက်ဆီးလေ့ ရှိသည်။ သို့ရာတွင် ကောက်ပဲသီးနှံကို ဖျက်ဆီးတတ်သော အင်းဆက်ပိုးကောင်များကိုလည်း စားသောက်တတ်သေးသဖြင့် လူတို့အား တဖက်တလမ်းမှ ကျေးဇူးပြုသော ငှက်ဖြစ်သည်။ ဗွတ်ဖင်နီသည် အလွန် ရန်လိုသော ငှက်ဖြစ်သဖြင့်၊ အိန္ဒိယနိုင်ငံ ကြက်ငှက် တိုက်ပွဲများတွင် တိုက်ငှက်အဖြစ် အသုံး ပြုတတ်သည်။

တွေ့ရှိရာ ဒေသကို လိုက်၍ ဗွတ်ဖင်နီတို့၏ သားပေါက်ချိန်မှာ တနေရာနှင့် တနေရာ အနည်းငယ် ကွဲပြားတတ်သည်။ သို့သော် ယေဘုယျ အားဖြင့် ဖေဖွာရီလမှ မေလထိ သားပေါက်သည်။ ဖေဖွာရီလမှ အောက်တိုဘာလအထိ သားပေါက်သည်ဟုလည်း အဆိုရှိသည်။ ဧပြီ၊ မေလ တို့တွင် ပဌမ အကြိမ် သားပေါက်၍ ဩဂုတ်လတွင် ဒုတိယ အကြိမ် သားပေါက်ပြန်သည်။ အသိုက်များကို ချုံဖုတ်ထဲတွင် သစ်ရွက်ခြောက်၊ မြက်ပင်နှင့် သစ်ခက်တို့ဖြင့် ခွက်ပုံ ဆောက်လုပ်ထားတတ်သည့်ပြင် သစ်မြစ်၊ အမွေးအမျှင်များဖြင့် အသိုက်ကို ကာရံထားတတ်သည်။ သို့သော် အသိုက်မှာ သပ်သပ်ရပ်ရပ် မရှိချေ။ ၃ ပေမှ ပေ ၃၀ ထိ မြင့်သည့် ချုံပင်၊ နွယ်ပင်၊ စွန်ပလွံပင်၊ ရှားစောင်းပင်၊ မာလကာပင် စသည်တို့တွင် အသိုက် လုပ်လေ့ ရှိသည်။ အသိုက် လုပ်ရာ၌၎င်း၊ ဥကို ဝပ်ရာ၌၎င်း၊ သားငယ်များကို ပြုစု စောင့်ရှောက်ရာ၌၎င်း အဖိုရော အမပါ ဆောင်ရွက် ပေးကြလေသည်။ တမြုလျှင် ဥ ၂ လုံးမှ ၄ လုံးထိ ရှိတတ်သည်။ ဥ၏ အရောင်မှာ အပြာရောင်တွင် ပန်းရောင်သန်းလျက် ရှိသည့်ပြင်၊ အနီရောင်၊ သို့မဟုတ် ခရမ်းရောင် အပြောက် အစက်ကလေး များသည် ဥကို မြေကြီးအရောင်နှင့် ခွဲမရအောင် တူစေသည်။

များသောအားဖြင့် ဗွတ်ဖင်နီသည် လူသူတို့ နေထိုင်ရာနှင့် နီးသော ဥယျာဉ်၊သို့မဟုတ် ချုံများတွင် ကျက်စားလေ့ရှိသည်။ လူသူတို့နှင့် ဝေးသော ခြံ ဥယျာဉ်နှင့် ချုံတောများ၌လည်း ကျက်စားသေးသည်။ ချုံဖုတ်၊ ဖုန်းဆိုး၊ တောစပ်ရှိ ခုတ်ထွင် ထားသော နေရာ များတွင်လည်း တွေ့နိုင်သည်။ သစ်ပင် ကျဲကျဲပေါက်သည့် သစ်တော တွင်လည်း တွေ့နိုင်သည်။ ဗွတ်ဖင်နီတို့သည် ဖိုမ စုံတွဲ၍ နေတတ်သည်။ တခါတရံမှသာ အစာပေါများသောနေရာ၌ ဗွတ်ဖင်နီငှက်အုပ်ကို တွေ့ရသည်။

ဗွတ်ဖင်နီကို သီဟိုဠ်ကျွန်းမှ အိန္ဒိယနိုင်ငံ၊ မြန်မာ နိုင်ငံနှင့် တရုပ်နိုင်ငံအထိ အနှံ့အပြားတွေ့ရသည်။ မြန်မာ နိုင်ငံတွင် လွင်ပြင်များနှင့် သစ်တော ထူထပ်စွာ မပေါက်ရောက်သော တောင်ခြေရင်းများ၌ အများအားဖြင့် တွေ့ရသည်။ တခါတရံဗွတ်ဖင်နီကို ပေ ၄,၅၀၀ အထိ မြင့်သော ဒေသများ၌ တွေ့ရလေသည်။

**ဗွတ်ဖင်နီငှက်မျိုး။** ။ဗွတ်ဖင်နီ ငှက်မျိုးသည် ပက်စာရီဖောမီးမျိုးစဉ်၊ ပိုက္ကနိုနိုတီဒီး မျိုးရင်းတွင် ပါဝင်သည်။ ယင်းတို့ကို အာရှတိုက်တောင်ပိုင်း၊ ဥရောပတိုက် အနောက်တောင်စွန်းဒေသများနှင့် အာဖရိကတိုက် တတိုက်လုံးလိုလိုတွင် တွေ့ရသည်။ အချို့ဗွတ်ဖင်နီငှက်မျိုးကို မြို့ရွာဥယျာဉ်များတွင် မကြာခဏ တွေ့မြင်ရ၍ အချို့ကိုမူ တောထဲ၌သာလျှင် တွေ့မြင်ရပေသည်။ သစ်ပင်များတွင် နေလေ့ ရှိ၍ အတင့်ရဲသော ငှက်မျိုး ဖြစ်သည်။ သူတို့၏ အစာမှာအသီးအနှံနှင့် အင်းဆက်ပိုးများ ဖြစ်သည်။

ဗွတ်ဖင်နီငှက်မျိုးသည် အများအားဖြင့် အသွေး အရောင်မလှသော်လည်း အသံကောင်းသောကြောင့် အနောက်တိုင်းကဗျာများတွင် ယင်းတို့အကြောင်း ထည့်သွင်း စပ်ဆိုကြသည်။ ယင်းတို့၏ အသံသာမှုကြောင့် လူတို့က လှောင်ချိုင့်ဖြင့် အိမ်၌ မွေးမြူထားတတ်သည်။ များစွာသော ဗွတ်ဖင်နီငှက်မျိုးတွင် လှပသော အမောက်ကလေးများ ဦးခေါင်းပေါ်တွင် ပါရှိတတ်သည်။ အတောင်နှင့် ခြေထောက်များ တိုသည်။

ငှက်ကလေးများသည် ငှက်ကြီးများနှင့် တူသော်လည်း တခါတရံ ငှက်ငယ်များ၏ အမွေးအတောင်တို့သည် ငှက်ကြီးများ၏ အမွေးအတောင်ထက် အရောင်အဆင်း ဖျော့တော့၍ မွဲခြောက်ခြောက်ရှိသည်။ သို့မဟုတ်လျှင် အရောင်အဆင်း ပိုမိုရင့်၍ မွဲခြောက်ခြောက် ရှိတတ်သည်။

**ဗွန်းမြို့။** ။ဗွန်းမြို့သည် ဂျာမနီနိုင်ငံ ရိုင်းမြစ်၏ လက်ဝဲဖက်ကမ်းပေါ်၌ တည်ရှိပြီးလျှင် ကိုလုန်းမြို့မှ အရှေ့တောင်ဖက် ၁၅ မိုင်ကွာဝေးသည်။ ယခင်က ပရပ်ရှားနိုင်ငံ ရိုင်းနယ်၏မြို့ကြီးဖြစ်၍ ၁၂၆၇ ခုနှစ်မှ ၁၇၉၄ ခုနှစ်အတွင်းပြင်သစ်တို့ သိမ်းပိုက်လိုက်သောအခါ ကိုလုန်းမင်းသားကြီးများ စံရာမြို့ဖြစ်သည်။ ဗွန်းမြို့ကို ကက်စတြာဗွန်နင်းရှားခေါ် ရောမစခန်းနေရာ၌ စတင်တည်ခဲ့သည်။ ယင်းမြို့ကလေးကို လူရိုင်း

များ ဝင်ရောက်ဖျက်ဆီးသဖြင့် ပျက်စီးသွားပြီးနောက် ၄ ရာစုနှစ်များတွင် ကေရာဇ်ဘုရင် ဂျူလီယန်က ပြန်လည် တည်ထောင်သည်။ တဖန် ၉ ရာစုနှစ်များတွင် နော်မန် လူမျိုးများက ဖျက်ဆီးသော်လည်း မကြာမီ တိုးတက်ဖွံ့ဖြိုး၍ သာယာလာလေသည်။ ၁၈၁၅ ခုနှစ်တွင် ပရပ်ရှားတို့က သိမ်းပိုက်သည်။ ဒုတိယ ကမ္ဘာစစ်အပြီး၌ ဗွန်းမြို့ကို အမေရိကန်တပ်များက သိမ်းပိုက်ထားကာ ၁၉၄၉ ခုနှစ်တွင်မဟာမိတ်တို့ သိမ်းပိုက်ထားရာ ဂျာမနီနယ်မြေအား ပြည်ထောင်စုသမတ ဂျာမန်နိုင်ငံအဖြစ် ကျေညာလိုက်သောအခါ ဗွန်းမြို့သည် မြို့တော်ဖြစ်လာသည်။ ပြည်ထောင်စုသမတဂျာမန်နိုင်ငံ၏ အုပ်ချုပ်မှုအခြေခံ ဥပဒေကို ၁၉၄၈–၄၉ ခုနှစ်အတွင်း ဗွန်းမြို့၌ ရေးဆွဲခဲ့လေသည်။

ဗွန်းမြို့တွင် ထင်ရှားသော အဆောက်အအုံကြီးများ အများအပြားရှိသည်။ ၁၃ ရာစုနှစ်ခန့်က တည်ဆောက်ခဲ့သော မန်းစတားကသီဒရယ်နှင့် ၁၇၈၂ ခုနှစ်က ပြီးစီးခဲ့သော မြို့တော်ခန်းမကြီးအပြင် ၁၈၁၈ ခုနှစ်က တတိယ ဖရက်ဒရစ်ဝီလျံဘုရင် တည်ထောင်ခဲ့သော ဗွန်းတက္ကသိုလ် စသည်တို့ဖြစ်သည်။ ဗွန်းတက္ကသိုလ်ကို ကိုလုန်းမင်းသားကြီးများ စံမြန်းရာ အိမ်တော်၌ ဖွင့်လှစ်ထား၍ စာကြည့်ပိဋကတ်တိုက်၊ ရှေးဟောင်း ပစ္စည်းပြတိုက်၊ နက္ခတ်ကြည့်မျှော်စင်၊ ပင်မျိုးစုံဥယျာဉ်စသည်တို့ကိုပါ ပူးတွဲ ထားရှိရာ ဆေးသိပ္ပံနှင့် စိုက်ပျိုးခရေးပညာ သင်ကြားရာ၌ အလွန်ပြည့်စုံကောင်းမွန်သော တက္ကသိုလ်ကြီး ဖြစ်သည်။ ဗွန်းမြို့သည် ဂီတပညာရှင်ကြီးဗေးထိုးဗင်၏ ဇာတိမြို့ ဖြစ်သည်။ ဗေးထိုးဗင်နေအိမ်ကို ဗေးထိုးဗင်ပြတိုက်အဖြစ် ဖွင့်လှစ်ထားသည်။ (ဗေးထိုးဗင်, လုဒဗစ် ဖန် — ရှု။) ဒုတိယကမ္ဘာစစ်အတွင်းက ဗွန်းမြို့သည် ဗုံးဒဏ်ကို အပြင်းအထန်ခံရရာ ၉၅ ရာခိုင်နှုန်းခန့်သော အဆောက်အအုံများ ပျက်စီးခဲ့ရသည်။

ဗွန်းမြို့ဆိပ်ကမ်းသည် အလွန်သာယာသည်။ မြစ် တဖက်ကမ်းရှိ စက်မှုလုပ်ငန်းထွန်းကားရာ ဗွိုင်းယယ်မြို့နှင့် ဗွန်းမြို့ကို အလှန်လှပသော တန်တားကြီးဖြင့် ဆက်သွယ်ထားသည်။

ဗွန်းမြို့၏ ထင်ရှားသော လုပ်ငန်းများမှာ ကြွေထည်၊ စက်ကရိယာ၊ ဗိလတ်မြေ၊ ဓာတုဗေဒ ပစ္စည်း စသော လုပ်ငန်းများဖြစ်သည်။ ရိုင်းမြစ်တလျှောက် ကုန်ကူးသန်းရောင်းဝယ်ရေး၌ ထင်ရှားသော မြို့ကြီးဖြစ်သည်။ ဗွန်းမြို့၏ လူဦးရေသည် ၁၉၅၇ ခုနှစ်ခန့်မှန်းခြေ ၁၄၃,၀၀၀ ယောက်ဖြစ်သည်။



အနောက်ဂျာမနီနိုင်ငံ ဗွန်းမြို့ရှိ ပို့ဝဲစဒေါ့ဥယျာဉ်



မြန်မာဗျည်း ၃၃ လုံးတွင် ဘ သည် ၂၄ ခုမြောက် အက္ခရာဖြစ်သည်။ ပ၊ ဖ၊ ဗ၊ ဘ၊ မ ဟူသော ပ ဝဂ်တွင် ပါဝင်၍ ဘ အသံ၏ဖြစ်ရာ ဌာနမှာ သြဋ္ဌဌာန် နှုတ်ခမ်းအရပ်ဖြစ်သည်။ အက္ခရာ၏ ပုံသဏ္ဌာန်ကို လိုက်၍ ဘကုန်း ဟု အမည်တွင်သည်။ ဘ အရေးအသား၏မူလမှာ ဗြာဟ္မီအက္ခရာ ဖြစ်သည်။ ဗြာဟ္မီ မှ ကုသန ဂုတ္တ ကဒံဗ သို့ အဆင့်ဆင့် ပြောင်းလဲလာပြီးနောက်၊ ကျောက်စာများတွင် နှင့် ပေစာများတွင် ဟု ရေးသားသည်ကို တွေ့ရသည်။ ဗြာဟ္မီ အရေးအသား ကို လက်ဝဲဖက်သို့ ယိမ်း၍ အမြန်ရေးဖန်များသော် မြန်မာ အက္ခရာ ဘ ဖြစ်ပေါ်လာသည်။ ဘ အက္ခရာ၏ အဆင့်ဆင့်ဖြစ်ပေါ်လာပုံကို အောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ ပြထားသည်။

**ဘ၊ဆာမောင်** (ခရစ် ၁၈၇၃–၁၉၃၇)။ ။ဆာမောင်ဘသည် အဖ ဦးဘိုးမင်း အမိ ဒေါ်ခက်တို့၏ တဦးတည်းသော သားဖြစ်၍ ၁၈၇၃ ခုနှစ် ဖေဖွာရီလ ၂၅ ရက်နေ့တွင် ရန်ကုန်မြို့၌ ဖွားမြင်သည်။

ငယ်စဉ်ကပင် ရန်ကုန် ကောလိပ်ဝင်ကျောင်း၌ ပညာသင်ယူခဲ့ရာ ပညာဖက်၌ အလွန်ထူးချွန်သူ ဖြစ်သည်။ ၁၈၈၆ ခုနှစ်တွင် မြန်မာတနိုင်ငံလုံးရှိ ကျောင်းသားများ အနက်၊ အစိုးရ၏ စကောလားရှစ် ပညာသင်ဆုကို ရရှိသည့် တဦးတည်းသော ကျောင်းသားဖြစ်သည်။ ၁၈၈၈ ခုနှစ်တွင် ရနောင်းဘုရင်ခံဆုကိုရင်း၊ ၁၈၉၀ ပြည့်နှစ်တွင် ဂျာဒင်းဆုကိုရင်းဆွတ်ခူးရရှိသည်။ရန်ကုန်ကောလိပ်မှ ၁၈၉၂ ခုနှစ်တွင် ဝိဇ္ဇာဘွဲ့ထူးကို ဆွတ်ခူးရရှိပြီးနောက် ရန်ကုန်ကောလိပ်၌ သိပ္ပံပညာ လက်ထောက်ကထိက အဖြစ် ဝင်ရောက် အမှုထမ်းသည်။ မကြာမီပင် ဆရာအလုပ်မှ ထွက်၍ ရှေ့နေအဖြစ် မအူပင်တွင် ၂ နှစ်ခန့်လုပ်ကိုင်သည်။

၁၈၉၈ ခုနှစ်တွင် အစိုးရဝန်ထမ်း အပြိုင်စာမေးပွဲ ဝင်ရောက်ဖြေဆိုရာ အရွေးခံရသဖြင့် မြို့အုပ်ရာထူးကို ရရှိသည်။ မြို့အုပ်အဖြစ်နှင့် ဦးဘသည် အစိုးရဘာသာပြန်ဌာန၌ စာတော်ပြန်အလုပ်ကို အထူးသဖြင့် လုပ်ကိုင်ရသည်က များသည်။ ထိုမှတဆင့် ၁၉၀၅ ခုနှစ်တွင် တရားဌာန ဝန်ထမ်းအဖြစ် ပြောင်းရွှေ့အမှုထမ်းသည်။ ၁၉၁၄ ခုနှစ်မှ ၁၉၁၉ ခုနှစ်အထိ ရန်ကုန်မြို့ စမော်ကော်ရုံးကြီးတွင် တရားသူကြီးရာထူးဖြင့် ထမ်းရွက်သည်။ ဦးဘကား မြန်မာထဲမှ ထိုရာထူးကို ဒုတိယခန့်အပ်ခြင်း ခံရသူ ဖြစ်သည်။ ၁၉၁၉ ခုနှစ်တွင် ခရိုင် တရားမနှင့် စက်ရှင် တရားသူကြီးအဖြစ် ပုသိမ်မြို့၌ ဆောင်ရွက်ရသည်။ ၁၉၂၀ ပြည့်နှစ်တွင် ကေ၊အက်စ၊အမ်ခေါ် ကျက်သရေဆောင် ရွှေစလွယ်ရမင်း ဟူသောဘွဲ့ဖြင့် အစိုးရမင်းများ၏ ချီးမြှင့်ခြင်း ခံရသည်။ ၁၉၂၃ ခုနှစ်တွင် ဦးဘသည် မြောင်းမြမြို့သို့ ခရိုင်တရားမနှင့် စက်ရှင်တရားသူကြီးအဖြစ် ပြောင်းရွှေ့ခန့်အပ်ခြင်း ခံရပြန်သည်။ ၁၉၂၅ ခုနှစ် မတ်လတွင် ဟိုက်ကုတ်ခေါ် တရားလွှတ်တော်တွင် တရားဝန်ကြီးအဖြစ် တိုးမြှင့် ခန့်အပ်ခြင်းခံရသည်။ ဦးဘကား ဝတ်လုံစာမေးပွဲ အောင်မြင်သူ မဟုတ်သော တရားဌာန ဝန်ထမ်းထဲမှ ယင်းရာထူးကို ပဌမဆုံး ခန့်အပ်ခြင်း ခံရသူဖြစ်လေသည်။

၁၉၂၈ ခုနှစ်နှင့် ၁၉၃၁ ခုနှစ်များတွင် ဦးဘသည် ရန်ကုန်တက္ကသိုလ်၏ ဒုတိယ အဓိပတိနှင့် တက္ကသိုလ် အုပ်ချုပ်ရေးအဖွဲ့၏ ဥက္ကဋ္ဌ အဖြစ် ဆောင်ရွက်ရသည်။ ၁၉၃၂ ခုနှစ်တွင် တရားလွှတ်တော် တရားဝန်ကြီး ဦးဘအား မြန်မာနိုင်ငံ ဘုရင်ခံက အမှုဆောင်ဝန်ကြီး အဖွဲ့ဝင်အဖြစ် ရွေးချယ်ကာ ပြည်ထဲရေးနှင့် နိုင်ငံရေးဌာနကို ကိုင်စေသည်။ ၁၉၃၄ ခုနှစ် ဇန်နဝါရီလ တရက်နေ့တွင် ပဉ္စမဂျော့ဘုရင် မင်းမြတ်က နှစ်သစ်ကူး ဘွဲ့ထူး ဂုဏ်ထူးများ ချီးမြှင့်ပွဲ၌ ပြည်ထဲရေးဝန်ကြီး ဦးဘအား ဆာဘွဲ့ဖြင့် သူကောင်းပြုလေသည်။

ဆာမောင်ဘသည် ၁၉၃၇ ခုနှစ် မတ်လ ၃၁ ရက်နေ့တွင် ပြည်ထဲရေး ဝန်ကြီးရာထူးမှ အနားယူလိုက်သောအခါ မြန်မာနိုင်ငံဘုရင်ခံက အထက် လွှတ်တော်အမတ်အဖြစ် ရွေးချယ် ခန့်အပ်ခြင်း ခံရလေသည်။

၁၉၃၇ ခုနှစ် ဇွန်လ ၄ ရက်နေ့တွင် ဆာမောင်ဘသည် မေမြို့၌ ကွယ်လွန်ရာ အလောင်းကို ရန်ကုန်မြို့သို့ ယူဆောင်၍ ငါးထပ်ကြီးဘုရားပရဝုဏ်၌ ဂူသွင်းသင်္ဂြိုဟ်သည်။



ပြည်ထဲရေးဝန်ကြီးဟောင်း ဆာ မောင်ဘ

ဆာမောင်ဘသည် ၁၈၉၃ ခုနှစ်တွင် ရန်ကုန်မြို့မှ ကုန်သည်ကြီး ဦးသင်၊ ဒေါ်သက်ပြင်းတို့၏ သမီး ဒေါ်မြဘွင့်နှင့် လက်ထပ်သည်။ ဆာမောင်ဘနှင့် လေဒီဘတို့တွင် သား ၂ ယောက် သမီး ၃ ယောက်ထွန်းကားရာ သမီးအကြီး ကွယ်လွန်သွားသည်။ ရှမ်းပြည်နယ် အစိုးရအတိုင်ပင်ခံ စည်သူ ဦးတင် အိုင်စီအက်၏ဇနီး ဒေါ်ညွန့်ညွန့်၊ အင်္ဂလိပ်မက်သဒစ်ကျောင်းဆရာမ ဒေါ်ခင်မြ ဘီအေ၊ ဘီအယ်၊ ကာကွယ်ရေးဌာန အတွင်းဝန် စည်သူ ဦးမောင်မောင် ဘီစီအက် (၁)၊ အင်္ဂလန်နိုင်ငံ၌ အလုပ်လုပ်နေသော ဦးမောင်ကလေးတို့သည် ကျန်ရှိနေသော သားသမီးများ ဖြစ်ကြသည်။

**ဘကရီအစ်။** ။မွတ်စလင်တို့၏ သာသနာရေး ပွဲတော်များကို အစ်ပွဲဟုခေါ်တွင်၏။ တမန်တော် မိုဟမ္မဒ်သခင် (စွလ္လမ်)သည် မဒီနာမြို့တော်သို့ ရွှေပြောင်းတော်မူပြီးနောက်အစ်ပွဲတော် ၂ ခုကို သတ်မှတ်ပေးတော်မူခဲ့သည်။

ပဌမအစ်ပွဲတော်နေ့သည် အီဒွလ်ဖိသစ်ရ်မည်၏။ အာရဗီနဝမလဖြစ်သော ရမ္မဇန်လ၌ မွတ်စလင်တို့သည် ရိုဇဟ်ခေါ် ဥပုသ် ဆောက်တည်ကြ၏။ ထိုရမ္မဇန်လကုန်၍ အာရဗီဒသမ လဖြစ်သော ယှောင်ဝါလ်လဆန်း ၁ ရက်နေ့တွင် ရိုဇာဟ်ဝါကျုတ်သည့် အထိမ်းအမှတ်အဖြစ် အီဒွလ်ဖိသစ်ရ်ပွဲတော်ကို ဆင်နွှဲကြရ၏။ ထိုနေ့တွင် ဖြူစင်ကောင်းမွန်သော အဝတ်အစားများကို ဝတ်ဆင်၍ မွတ်စလင်တို့သည် ဗလီကျောင်းတော်များတွင်ရင်း၊ သီးသန့် ထားရှိသည့် (အစ်ဂါ) ကွင်းပြင်ကြီးများတွင်ရင်း စုရုံး၍ နမာဇ်ဝတ်ပြုကြသည်။

ဒုတိယအစ်ပွဲတော်သည် အီဒွလ်အသွှဟာမည်၏။ အာရဗီဒွါဒသမလဖြစ်သော ဇလ်ဟဂျ်လ ၁၀ ရက်နေ့တွင်ကျင်းပဆင်နွှဲကြသည်။ပဌမအစ်ပွဲတော်ကဲ့သို့ပင် ဤနေ့တွင်လည်း မွတ်စလင်တို့သည် နံနက်အချိန်၌ အထူးစုရုံး၍ နမာဇ်ဝတ်ပြုကြသည်။

အာရဗီဘာသာစကားတွင် နွားတိရစ္ဆာန်ကို ဘကရ်ဟုခေါ်၏။ထိုနေ့တွင် မွတ်စလင်တို့ ကုရ်ဘာနီပြုကြရာတွင် နွားသည်လည်း အပါအဝင် ဖြစ်သည်ကို အကြောင်းပြု၍ ဘကရီအစ်ဟု ခေါ်တွင်ခဲ့၏။ ကုရ်ဘာနီ ပြုပိုင်ခွင့်ရှိသော တိရစ္ဆာန်များမှာကား ကုလားအုပ်၊ ကျွဲ၊ နွား၊ သိုး၊ ဆိတ်တို့ဖြစ်၏။ ကုလားအုပ်နှင့် ကျွဲနွား တကောင် လျှင် လူ ၇ ဦးတို့သည် တစုကျ ပါဝင်လှူဒါန်း နိုင်ကြ၏။ ကျန်တိရစ္ဆာန်များမှာ တဦးလျှင် တကောင်ကျ လှူဒါန်းကြရ၏။ ငွေကြေး ချောင်ချိသူတို့သည် ထိုနေ့တွင်ဖော်ပြပါ တိရစ္ဆာန်တို့ကို ကုရ်ဘာနီပြု၍ ဘာသာမရွေး၊ လူတန်းစားမရွေး၊ ဝေငှလှူဒါန်းပေးကမ်း ကြရ၏။

ထိုသို့ ကုရ်ဘာနီပြုခြင်းသည် နဗီတမန်တော် အစ်ဗရာဟီမ်သခင်၏ထူးခြားလှသည့် စွန့်လှူခြင်းကို မှတည်၍ စွန့်ကြဲလှူဒါန်းသော အလှူဒါနတမျိုး ဖြစ်သည်။

နှစ်ပေါင်း လေးထောင်ကျော်အခါ သမယက နဗီတမန်တော် အစ်ဗရာဟီမ်သခင်သည် ပွင့်တော်မူခဲ့၍ ဝေနေယျသတ္တဝါတို့အား စကြဝဠာအပေါင်းတို့ကို မွေးမြူဖန်ဆင်းတော်မူသော အလ္လာဟ်အသျှင်တဆူတည်းကိုသာ ကိုးကွယ်ဆည်းကပ်ကြရန်နှင့် ထိုအသျှင်၏ အမိန့်ဗျာဒိတ်တို့ကို မြေဝယ်မကျ ဦးထိပ်ထက် ပန်ဆင်ကြရန် တရားလမ်းစဉ် တခုကို လက်တွေ့ချမှတ်တော်မူခဲ့၏။ယင်းသို့သော တရားလမ်းစဉ်ကို ချမှတ်ခဲ့ရာတွင် ထို နဗီတမန်တော်ကြီးမှာ အမျိုးမျိုးသော စမ်းသပ်ခြင်းကို ခံခဲ့ရ၏။

ထိုလမ်းစဉ်အရ အလ္လာဟ်အသျှင်မြတ်သည် နဗီတမန်တော် အစ်ဗရာဟီမ်သခင်အား အိုမင်းမစွမ်းသည့် အရွယ်၌ အားကိုးအားထားဖြစ်သော မိမိ၏သားတော် အစ္စမာအီလ်သခင်အား ကုရ်ဘာနီပြု၍ စွန့်လှူရန် အမိန့်တော်ချမှတ်တော်မူလေရာ တသွေမတိမ်း လိုက်နာခဲ့ခြင်း ဖြစ်လေသည်။

ထိုသို့ သားတော်ကို အကယ်ပင် ကုရ်ဘာနီပြုလုပ်မည်ရှိရာ၌ အလ္လာဟ်အသျှင်သည် သားတော်ကိုယ်စား တိရစ္ဆာန်တကောင်ကို စွန့်လှူစေတော်မူသည်။

ထိုတရားလမ်းစဉ်အတိုင်း ကုရ်ဘာနီပြုခြင်း အလေ့အထရှိလာခဲ့ရာ ထိုကဲ့သို့ပြုလုပ်ခြင်းမှာ ယဇ်ပူဇော်ခြင်းမျိုးမဟုတ်။ သို့သော် နဗီတမန်တော်မိုဟမ္မဒ်သခင် မပွင့်ပေါ်မီက အာရပ်

လူရိုင်းတို့သည် ကုရ်ဘာနီပြု၍ တိရစ္ဆာန်တို့၏ သွေးသားတို့ကို အသျှင်အလိုရှိသည်ဟု ထင်မှားယူဆလျက် ကအ်ဗဟ်ကျောင်းတော်တွင် လိမ်းကျံကပ်ထားသမှု ပြုလုပ်ကြ၏။ ထိုအယူမှားခြင်းကို ပယ်ပျောက်စေရန် ကုရ်အာန်ကျမ်း၌ ကုရ်ဘာနီ၏ သွေးသားတို့သည် အလ္လာဟ်အသျှင်မြတ်ထံတော်သို့ ရောက်ရှိသည်မဟုတ်၊အမိန့်တော်ကို နာခံကျိုးနွံ၍ တရားဆောက်တည်ခြင်းကိုသာ လိုလားတော်မူကြောင်းဖြင့် လာရှိလေသည်။

သား၊ ငါး ဟူသည် လူသတ္တဝါတို့၏ အစာအာဟာရဖြစ်သည့် အလျောက် ထိုဘာကရီအစ်ပွဲနေ့တွင် သားကောင်များကိုသတ်၍ အစားအသောက်အဖြစ် လှူဒါန်းကြခြင်း ဖြစ်လေသည်။ ကုရ်ဘာနီပြုရန် ဇလ်ဟဂျ်လ ၁၀၊၁၁၊၁၂ နေ့ရက်များကို သတ်မှတ်ထားရှိ၏။ ဘာကရီအစ်နေ့သည် မြန်မာနိုင်ငံတွင် အများသိကြသောပွဲတော်ကြီး တခုပ်ဖြစ်၏။ နိုင်ငံအစိုးရကလည်း ထိုနေ့ကို အများပြည်သူ ရုံးပိတ်ရက်နေ့အဖြစ် သတ်မှတ် ထားလေသည်။

**အိဗ်ရာဟီမ် အယ်မဒ် မဇာဟေရီ။**

**ဘကလေး၊ဦး၊(ပတ္တလား)** (မြန်မာ ၁၂၄၀–၁၃၂၂)။။ ဦးဘကလေးသည် မြန်မာတူရိယာ ဂီတလောက၊ အထူးသဖြင့် မန္တလေးတူရိယာဂီတလောကတွင် ထင်ရှားကျော်ကြားသော အနုပညာရှင်ကြီး တဦးဖြစ်၏။ ပတ္တလား အပြင်၊ ပြွေ၊ ဘာဂျာ စသော တူရိယာများကိုပါ တီးမှုတ်နိုင်သော်လည်း ဦးဘကလေးအကျွမ်းကျင်ဆုံးမှာ ပတ္တလားဖြစ်လေသည်။

ဦးဘကလေး၏အမည်ရင်းသည် ဦးဘဖြစ်သည်။ သို့သော် တခေတ်တည်းတချိန်တည်း၌ပင် မန္တလေးတွင် တူရိယာ ဂီတလောက၌ အခြားဆရာဘတဦးလည်း ရှိနေပြန်ရာ၊ အသက်အရွယ်ကိုလိုက်၍ ဆရာဘကြီး၊ ဆရာဘကလေးဟု ခေါ်ဝေါ်ကြရာမှ ဦးဘကလေးဟု ခေါ် တွင်ခဲ့လေသည်။

ဦးဘကလေးသည် ၁၂၄၀ ပြည့်နှစ် နတ်တော်လဆန်း ၁ ရက်နေ့တွင် မန္တလေးမြို့ စိတ္တရမဟီရပ်၌ ဖွားမြင်ခဲ့သည်။ မိဖများသည် ဦးခင်မောင်နှင့် ဒေါ်သီတို့ ဖြစ်ကြသည်။ ဦးခင်မောင်သည် ဆွေတော် မျိုးတော်အနွယ်ဝင်တဦးဖြစ်၍ ဘုရင့်အပါး၌တာဝန်ရှိက ခိုင်းစေရန်ရွေးချယ်ထားသော မဟာလေးဆယ်တော် စာရင်းဝင်ဟု ဆိုကြသည်။ ဦးခင်မောင်၏ ဖခင်သည် အမှုတော်ထမ်း ဝန်မင်းတဦးဖြစ်သည်။ အမိ ဒေါ်သီသည် မူးမျိုးမတ်မျိုးမှ ဆင်းသက်သူဟု သိရသည်။

ဦးဘကလေး၏ သားချင်းများမှာ ညီဖြစ်သူ ဦးလှ (ကွယ်လွန်သူ)နှင့် နှမ ဒေါ်ဦးတို့ဖြစ်ကြသည်။ ဖခင် ဦးခင်မောင်သည် တူရိယာဂီတဖက်၌ ဝါသနာထုံသည်။ ပတ္တလားတီးကျွမ်းကျင်ရုံမက၊ ပတ္တလားကိုပင် လုပ်ကိုင်တတ်သည်ဟု ဆိုကြသည်။ ဖခင်၏ ဝါသနာဆက်နွယ်ပါလာသော ဦးဘကလေးသည်လည်း ငယ်စဉ်ကပင် ပတ္တလားကို တီးခေါက်တတ်လာခဲ့သည်။

အသက် ၇ နှစ်အရွယ်တွင် ဟော်ကုန်းရပ်ရှိ ဆရာဦး၏ မြန်မာစာသင်ကျောင်းတွင် ပညာစတင် သင်ကြားခဲ့သည်။ သို့သော် စာသင်ကြားခြင်းထက် ပတ္တလားတီးခေါက်ရန် ပို၍ စိတ်ပါခဲ့သည်။ အသက် ၂၀ အရွယ်တွင် သင်္ကန်းဝတ်၍ အနောက်ပြင် ခင်မကန်တိုက်ရှိ ဦးလေးတော်သူ ဦးဒီပထံ၌ စာပေအနည်းငယ် ဆက်လက် သင်ကြားရပြန်သည်။ သို့သော် သင်္ကန်းဝတ်ဖြင့် ၂ လ ၃ လ ခန့်သာ နေပြီးလျှင် လူဝတ်လဲခဲ့သည်။ ထို့ကြောင့် စာပေပညာကို ရေးနိုင် ဖတ်နိုင်ရုံမျှသာ သင်ကြား ဘူးခဲ့သည်။ ပဉ္စင်းလူထွက်ပြီးချိန်တွင် ပတ္တလားကိုကား အတော် အတန် တီးတတ်နေလေပြီ။ ဦးဘကလေး အသက် ၁၆ နှစ် အရွယ်ကပင် မိဖနှစ်ပါးသည် ရွှေဆင့်နောက်ဆင့် ကွယ်လွန်သွားကြရာ၊ လယ်မြေဥယျာဉ် ပစ္စည်းပစ္စယ အတော် အတန် ကျန်ခဲ့သည်။ သို့သော် ဆရာကြီးသည် ပတ္တလားတီးရန်သာ အာရုံစူးစိုက်နေခဲ့၍ ထိုလယ်မြေ ပစ္စည်းတို့ကို ရောင်းချ စားသောက်ခဲ့လေသည်။ ပတ္တလား ကောင်းစွာ တီးတတ်ရန် အတွက် ထိုခေတ်က အကျော် အမော် ကြီးများ ဖြစ်ကြသော တူရိယာ ဂီတဆရာကြီးများထံ ချဉ်းကပ်၍ ငွေပေးပြီးလျှင်



နိုင်ငံကျော် ပတ္တလားဆရာကြီး အလင်္ကာကျော်စွာ ဦးဘကလေး

သင်ယူခဲ့သည်။ ဆရာကြီး၏ လက်ဦးဆရာမှာ ပတ္တလားဆရာနု ဖြစ်သည်။ ထိုနောက် ပတ္တလားနှင့် စန္ဒရားဆရာညွန့်ထံတွင် သင်ယူခဲ့ပြန်သည်။ ဆရာကြီး၏ ပတ္တလား တီးပုံ တီးနည်းစံနစ်သည် ဆရာညွန့်ကြီး၏ နည်းဟု ဆိုကြသည်။ ယင်းသည့် နောက်တွင် ဆိုင်းဆရာ ဦးကျော်ဇံ၊ ဆရာလတ်နှင့် စောင်းဆရာကြီး ဒေဝဣန္ဒာ ဦးမောင်မောင်ကြီးတို့ ထံတွင် ဂီတပညာများ ဆက်လက် ဆည်းပူးခဲ့ပြန်သည်။

ပတ္တလားတီးရာတွင် သီချင်းများနှင့်တကွ သီဆို တီးရသဖြင့် ဦးဘကလေးသည် သီချင်းအမျိုးအပြား ရရှိခဲ့သည်။ သူ့ခေတ် သူ့အခါက သီချင်းအရဆုံး ပတ္တလားဆရာ တဦးအဖြစ် ထင်ရှားခဲ့လေသည်။

တူရိယာဂီတ ပညာ အတော်အတန် လုံလောက် ပြည့်စုံလျှင်၊ ဦးဘကလေးသည် ထိုခေတ်က ထင်ရှားကျော်ကြားသော အငြိမ့်သဘင်များတွင် တီးဝိုင်းခေါင်းဆောင်ပတ္တလားဆရာအဖြစ် ဆောင်ရွက်သည်။ ပဌမတွင် ဆရာဘကြီး၏ အငြိမ့်၌ ၆ နှစ်ခန့် ပါဝင်ခဲ့သည်။ ထိုအငြိမ့်မှ မင်းသမီးများမှာ ဒေလီညွန့်၊ မစိန်တုပ်၊ ဩဘာညွန့်တို့ ဖြစ်၍ လူရွှင်တော်များမှာ ဦးသန်းနှင့် ဦးခတ်ခိုးတို့ ဖြစ်သည်။ ထိုနောက် ဦးဘကလေးသည် ဦးချစ်ဖွယ်နှင့် ဒေါ်စိန်သုံးတို့၏ အငြိမ့်၊ ထားဝယ်ပြန် အငြိမ့်တို့တွင်လည်း ပတ္တလားဆရာအဖြစ် ပါဝင်ခဲ့လေသည်။

အငြိမ့်ထဲ၌ လိုက်နေစဉ်တွင်ပင် တူရိယာ ဂီတပညာကို အခွင့်သင့်တိုင်း ဆက်လက်ဆည်းပူးသည်။ ထို့ကြောင့် ဦးဘကလေး၏လက်သံသည် တိုးတက်ပြောင်မြောက်လာသည်။ ဦးဘကလေးသည် ၁၉၄၀ ပြည့်နှစ်ခန့်က ဗြိတိသျှ အစိုးရ မင်းများက ရွှေတံဆိပ် ငွေတံဆိပ်ဆုများ ပေးအပ်ခြင်း ခံခဲ့ရလေသည်။

အငြိမ့်လောက၌ အနှစ် ၃၀ ခန့် လုပ်ကိုင်ခဲ့ပြီးနောက် ဦးဘကလေးသည် အသက် ၄၇ နှစ်ခန့်တွင် အနားယူလိုက်သည်။ သို့သော်တတ်သည့်ပညာ မနေသာ၍ မိမိ၏ ပညာကို တောင်းခံလာသူများအား ပညာဖြန့်ဝေ သင်ကြားပေးနေခဲ့သည်။ ၁၉၅၂ ခုနှစ်တွင် ထူးချွန်သော ဂီတပညာရှင်အဖြစ် နိုင်ငံတော် အစိုးရက အလင်္ကာကျော်စွာဘွဲ့ဖြင့် ချီးမြှင့်ခြင်း ခံရလေသည်။

၁၉၅၃ ခုနှစ်တွင် သက်ဆိုင်ရာတို့နှင့် တပည့်တပန်းများ၏ တောင်းပန်မှုကြောင့် ၇၀ တွင်းသို့ ချဉ်းကပ်လာနေသည့် မိမိ၏ အသက်အရွယ်ကို ပဓာနမထားဘဲ မန္တလေးမြို့ နိုင်ငံတော် ပန်းချီကျောင်းတွင် အဆိုနှင့် အတီးပညာများကို သင်ကြားပြသပေးရသော နည်းပြဆရာကြီးအဖြစ်ဝင်ရောက်ဆောင်ရွက်သည်။ ဦးဘကလေးသည် မန္တလေး ပန်းချီကျောင်း၌ ဆက်လက်အမှုထမ်းဆောင်ယင်း အသက် ၇၂ နှစ်အရွယ် ၁၃၂၂ ခုနှစ် ဝါဆိုလပြည့်ကျော် ၂ ရက် (၁၉၆၀ ပြည့်နှစ် ဇူလိုင်လ ၉ ရက်နေ့) တွင် မန္တလေးမြို့၌ပင် ကွယ်လွန်အနိစ္စ ရောက်သွားလေသည်။

**ဘကလေး၊ ဦး၊ ( ရွှေတလေး )** (မြန်မာ ၁၂၅၄–၁၃၀၆)။ ။ပဌမဆုံးသော မြန်မာကာတွန်း ဝိဇ္ဇာ ဦးဘကလေးကို ပုသိမ်မြို့၌ ၁၂၅၄ ခုနှစ် တပို့တွဲလဆုတ် ၉ ရက် ဗုဒ္ဓဟူးနေ့တွင် ဖွားမြင်သည်။ ဖခင်ဖြစ်သူမှာ ပုသိမ်မြို့ အစိုးရအထက်တန်း ကျောင်းဆရာကြီး ဦးဘိုးသင်းဖြစ်၍ အမိမှာ ဒေါ်သဲမှုန် ဖြစ်သည်။ ဦးဘကလေးသည် ရုပ်ရှင်မင်းသား ရွှေရိုး၊ ကာတွန်းဝိဇ္ဇာ ရွှေတလေး စသည့် အမည်တို့ဖြင့်လည်း ထင်ရှားသည်။

ဦးဘကလေးသည် မဖြူမညိုမနိမ့်မမြင့် အချိုးကျ၍ ကိုယ်လုံး ကိုယ်ထည် သေးသွယ်သည်။ ခေါင်းကြီး၍ နဖူးကျယ်သည်။ လက်ချောင်းကလေးများမှာပျော့ပျောင်းသွယ်တန်းသည်။ သပ်သပ် ရပ်ရပ် နေတတ်၍ လူချစ်လူခင် ပေါသည်။

ဦးဘကလေးသည် ငယ်စဉ်ကပင် ပုသိမ်မြို့အစိုးရကျောင်း၌ ပညာသင်ကြားခဲ့ရာ အသက် ၁၆ နှစ်အရွယ်တွင် ထိုကျောင်းမှပင် ဆယ်တန်း စာမေးပွဲကို အင်္ဂလိပ်စာနှင့် သင်္ချာဘာသာတို့တွင် ဂုဏ်ထူးများဖြင့် အောင်၍ အစိုးရစကောလားရှစ် ပညာသင်ဆုကိုရရှိသည်။ ထိုနောက် ရန်ကုန် ကောလိပ်သို့ တက်ရောက် သင်ကြားရာ ဘီအေ အထက်တန်းအထိ သင်ကြားခဲ့ဘူးသည်။ ခရစ် ၁၉၁၆ ခုနှစ်တွင် ဖခင်ကွယ်လွန်သဖြင့် ဦးဘကလေးသည် ကောလိပ်ကျောင်းမှ ထွက်ကာ ပုသိမ် အစိုးရ အထက်တန်း ကျောင်းတွင် လက်ထောက်ကျောင်းဆရာအဖြစ် ဝင်ရောက်အမှုထမ်းသည်။ သို့ရာတွင် နိုင်ငံခြားသား ပညာဝန်ထံတွင် ခယရိုကျိုးရသည်ကို စက်ဆုပ်သဖြင့် အလုပ်မှ ထွက်ခဲ့သည်။ ထိုနောက် ရန်ကုန်မြို့ရှိ မြန်မာအဆွေ ကုမ္ပဏီတွင် ကြော်ငြာဖက်ဆိုင်ရာ မန်နေဂျာအဖြစ် ဝင်ရောက်လုပ်ကိုင်ယင်း၊ မြန်မာအဆွေသဌေး ဦးဘညွန့်၏ သမီးဒေါ် ခင်ခင်နှင့် အကြောင်း ပါလေသည်။

ဦးဘကလေးသည် ငယ်စဉ်ကပင် ပုံဆွဲ ဝါသနာ ပါသည့်အလျောက် ရန်ကုန်မြို့ ဂျူဗလီဟော၌ ကျင်းပသော မြန်မာလက်မှု ပညာ ပြပွဲ၌ ကျောင်းသား ပန်းချီဆွဲ ပြိုင်ပွဲတွင် ဘုရင်ခံ၏ ပဌမဆုကို ဆွတ်ခူးရရှိ ခဲ့ဘူးသည်။ ရန်ကုန်ကောလိပ်တွင် ပညာသင်ယူ နေစဉ်ကလည်း ကောလိပ် မဂ္ဂဇင်းအတွက် အဖုံး ဒီဇိုင်းနှင့် ကာတွန်းများကို ရေးဆွဲခဲ့သည်။ ဦးဘကလေး၏ လက်စွမ်း လက်စကို တွေ့ရှိသွားသော ရန်ကုန်တိုင်း အင်္ဂလိပ် သတင်းစာ၏ အယ်ဒီတာသည် ၁၉၁၅ ခုနှစ် ခရစ္စမတ် အထူးထုတ် ရန်ကုန်တိုင်း စာစောင်ကြီးတွင် ဦးဘကလေး၏ ကာတွန်းကို ထည့်သွင်း ပုံနှိပ်လေသည်။ ၁၉၁၇ ခုနှစ်မှစ၍ ရွှေတလေး အမည်ဖြင့် သူရိယ၊ ပညာ့အလင်း၊ လန်ဒန်အတ်၊ ဗန္ဓုလ၊ ဒီးဒုတ် စသော မဂ္ဂဇင်း၊




နာမည်ကျော် မြန်မာကာတွန်းရုပ်ပြောင်ရေး ဆရာကြီး ရွှေဘဒလားအမည်ခံ ဦးဘကဒလး ရေးဆွဲသော ''နံငယ်ပိုင်းနှင့် ဂန္ဓီစတိုင်''ကာတွန်း ပုံဖြစ်သည်။ ကာတွန်းပါ ရုပ်ပုံနှင့်တကွ စာသားတို့မှာ သရုပ်ပေါ်လွင်၍ အချက်ကျလှသဖြင့် ကမ္ဘာပေါ်တွင် စောင်ရေအများဆုံး ထုတ်ဝေရသော လန်ဒန်မြို့မှ ရီဗျူးအော့ ရီဗျူး မဂ္ဂဇင်းကြီးက တဆင့် ကူးယူဖော်ပြခြင်း ပြုခဲ့သည်။ ဦးဘကလေးသည် မြန်မာနိုင်ငံတွင် ကြော်ငြာ ကာတွန်းကို ဦးစွာပဌမ တီထွင်ရေးဆွဲခဲ့သူအဖြစ် ကျော်ကြားသည်။



မြန်မာကာတွန်း ရုပ်ပြောင်များကို လက်မှန်မဆွရေးဆွဲခဲ့သည့် နာမည်ကျော် ကာတွန်းဆရာ ဦးဘကလေး

ဂျာနယ်များနှင့် ရန်ကုန်တိုင်း၊ သူရိယ၊မြန်မာ့အလင်း စသောသတင်းစာများတွင် ကာတွန်းများ ရေးဆွဲခဲ့လေသည်။

မြန်မာအဆွေ ကုမ္ပဏီ၌ ဝင်ရောက် လုပ်ကိုင်စဉ် မြန်မာအဆွေမှ ကုန်ပစ္စည်းများကိုသာမက အိန်အန်တောင် ကုမ္ပဏီမှ ဗလရှင်ဆေးပြား၊ ကျားဘမ်းပရုပ်ဆီများကိုပါ ကာတွန်းဖြင့် ကြော်ငြာရေးပေးခဲ့သည်။ မြန်မာနိုင်ငံတွင် ကြော်ငြာကာတွန်း ပဌမစဆွဲသူမှာ ဦးဘကလေးပင်ဖြစ်သည်။ ၁၉၃၀ ပြည့်နှစ်တွင် ရန်ကုန်တိုင်းသတင်းစာ၌ ဦးဘကလေး ရေးဆွဲသော နံငယ်ပိုင်းနှင့် ဂန္ဓီစတိုင်ကာတွန်းကို လန်ဒန်မြို့မှ စောင်ရေ အများဆုံး ထုတ်ဝေရသော ရီဗျူး အော့ ရီဗျူး မဂ္ဂဇင်းကြီးကတဆင့် ကူးယူ ဖော်ပြလိုက်သဖြင့် ကမ္ဘာကျော် ကာတွန်းဖြစ်ခဲ့ရသည်။ ဦးဘကလေးသည် မြန်မာအဆွေကုမ္ပဏီ၌ လုပ်ကိုင်စဉ် ကာတွန်း ရေးဆွဲခြင်း၌သာ ကျော်ကြားသည်မဟုတ်၊ ရုပ်ရှင်လောက၌ပါ တဟုန်ထိုး ကျော်ကြားလာသည်။ မြန်မာအဆွေကုမ္ပဏီ၏ တောမြိုင်စွန်းကလွမ်းအောင်ဖန်၊ အဘရေ၊ တောသားလေးရွှေရိုး၊ ရွှေမင်းဝံ၊တခိုင်လုံးရွှေ၊ တခိုင်လုံးစိန်၊ ပလုတ်တုတ်တုတ်၊ မှိုင်းဝေဝေ စသည့် ဇာတ်ကားများတွင် ပါဝင်ခဲ့သည်။ ဦးဘကလေးသည် ဇာတ်ထုပ်တထုပ်နှင့် တထုပ် မတူအောင် ရုပ်ပြောင်း ရုပ်လွှဲနှင့် အသုံးတော်ခံ ကောင်းသဖြင့် မည်သည့်ရုပ်သွင်နှင့် ဟန်အမူအရာသည် ဦးဘကလေးအစစ် ဖြစ်သည်ကို ဝေခွဲမရအောင်ပင် ဖြစ်ရသည်။ တောမြိုင်စွန်းက လွမ်းအောင်ဖန် ဇာတ်ကားတွင် ဦးဘကလေးသည် ရိုးအသော အဖိုးကြီး အသွင် သရုပ်ဆောင်ခဲ့သည်။ အဘရေ ဇာတ်ကားတွင် ပျော်တတ် ပါးတတ်သည့် အဖိုးကြီး ဦးရွှေရိုးအသွင် သရုပ် ဆောင်ခဲ့ရာ၊ ပုဆိုး ခါးတောင်းကြိုက်ကာ ပုသိမ်ထီးကို ဆောင်းလျက် ခြေက ကသော ဦးရွှေရိုး အကသည် မြန်မာနိုင်ငံ တဝှန်းတွင် ယခုထက်တိုင် ရေးပန်း စားလျက် ရှိသည်။ တခိုင်လုံးရွှေဇာတ်ကားတွင် အင်းသူကြီးသား မောင်ရိုးရွှေအဖြစ် သရုပ်ဆောင်ခဲ့သည်။ ပလုတ်တုတ်တုတ်ဇာတ်ကားတွင် မိုးကျမယ်မိန်းမအသွင်နှင့်တမျိုး၊ အာဇာနည်ရွှေရိုးမင်းသားအဖြစ်နှင့် တသွင်သရုပ်ဆောင်လေသည်။ မှိုင်းဝေဝေဇာတ်ကားတွင်မူ ကောလိပ်ကျောင်းသားအရွယ် မောင်သက်ဖေအဖြစ်တမျိုး၊ ဖခင်အရွယ် ခန့်ငြားသော ဦးသက်ဖေ အဖြစ်နှင့်တဖုံ၊ ကိန္နရဒေဝီ ဇာတ်အခန်း၌ ကိုယ်ပျက်လျက် ကောက်ကွေးကုန်းကွနေသော ငဆွံ့အဖြစ်နှင့်တသွယ်၊ ၁၄ နှစ်သားအရွယ် လွန်စွာဆော့တတ်သော ဘုန်းကြီး ကျောင်းသား ရှုးဝါးတစ်သာဂိအဖြစ်တသွင် ရုပ်အမျိုးမျိုးခွဲ၍ အသုံးခံခဲ့သည်မှာ အံ့ဩဖွယ် ဖြစ်လေသည်။

ဦးဘကလေးသည် မြန်မာအဆွေနှင့် ဇာတ်ကား ၈ ကား ရိုက်ကူးပြီးနောက် ဇနီးဖြစ်သူဒေါ်ခင်ခင်နှင့် သဘောချင်းမတိုက်ဆိုင်သဖြင့် ကွဲကာ မြန်မာအဆွေမှ အလုပ် ထွက်၍ ဘားမားဖိုတိုပလေး ရုပ်ရှင်ကုမ္ပဏီတွင် ဝင်ရောက် လုပ်ကိုင်သည်။ ယင်းကုမ္ပဏီ၌ ဒါရိုက်တာ ဦးဘငြိမ်းနှင့်တွဲ၍ ရွှေတလေးနှင့် ရွှေရိုးဘယ်မှာလဲ ဇာတ်ကား ၂ ကားကို ကိုယ်တိုင်ပါဝင်ရိုက်ကူးသည်။ ထိုနောက် မြန်မာ လူမျိုးထဲမှ ပဌမဆုံးအရေးပိုင်ဖြစ်သောဦးဖေ၏သမီး ဒေါ်ခင်ထားနှင့်အကြောင်းပါကာ ၁၉၂၈ ခုနှစ်တွင် ရွှေရိုးပစ်ချား ကော်ပိုရေးရှင်း အမည်ဖြင့် ကိုယ်ပိုင်ရုပ်ရှင်ကုမ္ပဏီတခု တည်ထောင်လေသည်။ ကိုယ်တိုင် ဇာတ်ညွှန်းရေး၊ ကိုယ်တိုင် ဒါရိုက်တာလုပ်၊ ကိုယ်တိုင်မင်းသားအဖြစ်အသုံးခံ၍ မင်းသမီး ခင်မေကြီးနှင့် ကြင်စဦး၊ ဝေလွင်လွင်၊ ကိုလူပျို၊ သုံးပွင့်ဆိုင်၊ ခင်မောင်ကြီး စသော ဇာတ်ကားများကို ရိုက်ကူးခဲ့သည်။ ထို့ပြင် သိပ္ပံရုပ်ရှင်ကုမ္ပဏီအတွက် ဒါရိုက်တာဦးညာဏ ဇာတ်ညွှန်းရေးသည့် ရွှေပေလွှာ ဇာတ်ကားကို ကိုယ်တိုင် ဒါရိုက်တာ၊ ကိုယ်တိုင်မင်းသားလုပ်၍ ရိုက်ကူးခဲ့လေသည်။

ဦးဘကလေးကား ရုပ်ပြောင်းရုပ်လွှဲ ကောင်းသလောက် သရုပ်ဆောင်ရာတွင်လည်း သဘာဝကျသည်။ သရုပ်ဆောင်ရမည့် ဇာတ်ကောင်ကို ကိုယ်တိုင်ကိုယ်ကျ အချိန်ယူ လေ့လာပြီးမှ ပါဝင်ရိုက်ကူးလေ့ရှိသဖြင့် သဘာဝအလွန်ကျခြင်းဖြစ်သည်။ဘုန်းကြီးကျောင်းသား သာဂိအဖြစ် သရုပ်ဆောင်ရန် သရက်တော ကျောင်းတိုက်ဝမှနေ၍ ဘုန်းကြီးကျောင်းသားများ ဝတ်ပုံ စားပုံ ပြောပုံ ဆိုပုံ လုပ်ပုံကိုင်ပုံတို့ကို လေ့လာ သကဲ့သို့၊အနူငဆွံ့အဖြစ် သရုပ်ဆောင်ရန် အနူရုံသို့ သုံးလေးရက်သွားရောက်၍ အနူများလမ်းလျှောက်ပုံ၊နေပုံ ထိုင်ပုံ၊ အဝယ်ဖျောက်ပုံတို့ကို လေ့လာလေသည်။

ယင်းသို့ သရုပ်ဆောင်ရာတွင် သဘာဝကျခြင်း၊ အသေအလွှမ်း နိုင်နင်းခြင်း၊ ကိုယ်တိုင် ဝတ္ထုဇာတ်လမ်းကောင်း ရေးနိုင်ခြင်း၊ ဒါရိုက်တာအဖြစ် အသင်အပြကောင်းခြင်း၊ ဖလင်ကား အဖြတ်အတောက်အချိတ်အဆက်ကောင်းခြင်းစသော

အရည်အချင်းတို့နှင့် ပြည့်သူ ဦးဘကလေးသည် ရန်ကုန်မြို့ လှော်စုလမ်းရှိ သူနေထိုင်ရာ တိုက်နောက်ဖေးဆောင် ပြိုကျသဖြင့် ဒဏ်ရာရ၍ ခါးဆစ်လွဲသွားလေသည်။ ဆရာဝန်များနှင့် ကုသ၍ လမ်းအနည်းငယ် လျှောက်နိုင်လာသော်လည်း လုံးဝ မကျန်းမာသေးသဖြင့် ပုသိမ်မြို့သို့သွားရောက်အနားယူနေစဉ် စိတ္တဇရောဂါစွဲကပ်လာကာ ၁၃၀၆ ခုနှစ် နယုန်လပြည့်ကျော် ၁၁ ရက် (၁၉၄၅ ခုနှစ် ဇွန်လ ၅ ရက်နေ့) တွင် ပုသိမ်ခရိုင် ဒေါင့်ကြီးမြို့၌ ကွယ်လွန်လေသည်။

# ဘကြီးတော်ခေါ် ၊မင်းမြတ်ကျော်၊ မည်ဘော် ခြောက်ပါးလာ

ကုန်းဘောင်ဆက်မင်းများအနက် ထင်ရှားသော မင်းတရားဖြစ်သည်။ နိုင်ငံအုပ်ချုပ်ရေးကိုစံနစ်တမျိုးပြောင်းခဲ့သည်။ သာသနာတော်ထွန်းတောက် ပြန့်ပွားစေရန် ဆောင်ရွက်ခြင်း။ ရတနာပူရ အင်းဝ မြို့တော်ကြီးကို စတုတ္ထအကြိမ် တည်သောမင်း။ အင်္ဂလိပ်မြန်မာ ပဌမစစ်ပွဲဖြစ်ပွားခြင်း။ မင်းတရားကြီး ကျန်းခံ့တော်မမူ ဖြစ်လာစဉ်မိဖုရားခေါင်ကြီး၏ သြဇာအာဏာကြီးစိုးလွှမ်းမိုးလာ၍၊ ညီတော်သာယာဝတီမင်း ရွှေဘိုသို့ ခွါသည်။ ညီတော်အား ထီးနန်းလွှဲပေးကာ အိမ်နိမ့်စံသည်။

**ဘကြီးဘော်** (မြန်မာ ၁၁၄၆—၁၂၀၈)။ ။ဘကြီးတော်မင်းတရားသည် ကုန်းဘောင်မင်းဆက် ဆဲ့တဆက်တွင် သတ္တမဘုရင်ဖြစ်သည်။ ဘိုးတော် (ဗဒုံ) မင်းတရား၏သားတော်ကြီး အိမ်ရှေ့ ဥပရာဇာ၏ ပဌမအိမ်ရှေ့ မိဖုရားမှ ဖွားမြင်တော်မူသော သားတော်ကြီး ဖြစ်သည်။ ဖွားတော်မူစကပင် စစ်ကိုင်းမြို့စားရသော မင်းသားဖြစ်သဖြင့် ထိုမင်း၏အမည်ကို စစ်ကိုင်းမင်းဟူ၍၎င်း၊ ကုန်းဘောင် (သာယာဝတီ၊ ရွှေဘို) မင်း၏နှောင်တော်ဖြစ်၍ နှောင်တော်ကြီးဟူ၍၎င်း၊ ရတနာပူရ (အင်းဝ) စတုတ္ထမြို့တည် မင်းတရားဟူ၍၎င်း၊ ထိုမင်း၏ ရွှေနန်းတော်၌ဖလ်မှန်များသည်ကို အစွဲပြု၍ဖလ်နန်းရှင်ဟူ၍၎င်း၊ နန်းစံ တဆဲ့ရှစ်နှစ်အတွင်း ဘုန်းတန်ခိုး ကြီးမား၍ဆင်ဖြူများ အဆက်အသခံရသောကြောင့် ဆင်ဖြူများရှင် ဟူ၍၎င်း ခေါ်တွင်ခဲ့သည်။ ဘကြီးတော် ဘုရားဟူသော အမည်မှာ ပုဂံရွှေနန်းရှင် မင်းတရား၊ ရတနာပုံမြို့တည် မင်းတုန်းမင်းတရားတို့၏ ဘကြီးတော်ဖြစ်၍၊ နှောင်အခါ ခေါ်တွင်ခဲ့ခြင်း ဖြစ်သည်။ မြန်မာနိုင်ငံ သမိုင်းများတွင် ဘကြီးတော်ဟူသော အမည်ဘော်ဖြင့် ပို၍ထင်ရှား လူသိများလေသည်။

ဘကြီးတော်ဘုရားသည် ၁၁၄၆ ခုနှစ် ဝါခေါင်လဆန်း ၆ ရက် သောကြာနေ့တွင် မီးရှူးသန့်စင် ဖွားမြင်တော်မူသည်။ ဖွားတော်မူစဉ်ကပင် ဘိုးတော်မင်းတရားကြီးက ချစ်ခင်မြတ်နိုးလှသဖြင့် စစ်ကိုင်းမြို့ကို အသုံး ကံကျေး ပေးတော်မူသဖြင့် စစ်ကိုင်းမင်းသားဟု ထင်ရှားခဲ့သည်။ ၁၁၆၄ ခုနှစ်တွင် ဘထွေးတော်ပြည်မင်းသီရိဓမ္မရာဇာ၏သမီးတော် ဘိုးတော် ဗဒုံမင်းတရား၏ မြေးတော်ချစ် တပါးဖြစ်သည့် သီရိသုမာယာ စန္ဒာဒေဝီဘွဲ့ခံ ဆင်ဖြူရှင်မယ်နှင့် ရေသွန်း လက်ထပ်လေသည်။

၁၁၇၀ ပြည့်နှစ်တွင် ခမည်းတော် အိမ်ရှေ့မင်း နတ်ရွာစံသဖြင့် ဘိုးတော်မင်းတရားက စစ်ကိုင်းမင်းသားအား အိမ်ရှေ့အရာ ပေး၍ အိမ်ရှေ့အစီးအနင်း ဘဏ္ဍာအရာ၊ မြို့ရွာကျေးကျွန်၊ ဆင် မြင်းများဖြင့် ဆောက်နှင်းတော်မူသည်။ ၁၁၈၁ ခုနှစ် နယုန်လဆန်း ၁၃ ရက်နေ့တွင် ဘိုးတော် မင်းတရား နတ်ပြည်စံလွန်တော် မူသောအခါ ထိုလဆန်း ၁၅ ရက်နေ့တွင် မင်းအဖြစ်ခံယူတော်မူသည်။ အိမ်ရှေ့စံ အဖြစ်နှင့်ရှိနေစဉ် ၁၁၇၄ ခုနှစ်တွင် အိမ်ရှေ့မိဖုရား ဆင်ဖြူရှင်မယ်သည် ညောင်ရမ်းမင်းသား (စကြာမင်းဟု ခေါ်ဆိုခြင်း ခံရသူ) အား မီးရှူးသန့်စင်ပြီးနောက် နတ်ရွာလွန်သည်။ ထိုကြောင့် ချောင်း၊ ကျောက်စာ၊ စာတမ်း မော်ကွန်းတို့ အဆိုအရ ပုဂံမင်းရိုး အဆက်ဟု ဆိုသော မင်းသား သီဟကျော်စွာ၏သမီးတော် မယ်နုကို ၁၁၇၅ ခုနှစ်တွင် အိမ်ရှေ့မိဖုရားအဖြစ် ခြီးမြှောက်ခဲ့၍ နန်းတက်သည့်အခါ မိဖုရားခေါင်ကြီး အဖြစ်ထားတော်မူလေသည်။

မင်းတရားကြီးသည် ၁၁၈၃ ခုနှစ်တွင် အချပ်အနေသာ၍ သင့်လျော်သော ရတနာပူရ အင်းဝ နေပြည်တော်ကြီးကို အသစ်ပြုပြင်တည်ထောင်၍ အမရပူရ နေပြည်တော်မှ ပြောင်းရွှေ့ စံတော်မူသည်။ ၁၁၈၅ ခုနှစ် တပေါင်းလပြည့် ကျော် ၁ ရက်နေ့တွင် မင်းသာမန်တို့ ခံဝံ့ခဲသော ဦးထိပ်၌ စိုက်၍ သွန်းအပ်သော ရာဇာဘိသေက မုဒ္ဓါဘိသိက်ကို မိဖုရားခေါင်ကြီးနှင့်တကွ ခံယူတော်မူပြီးလျှင် သီရိတြိဘဝနာဒိတျာပဝရ ပဏ္ဍိတ မဟာဓမ္မရာဇာဓိရာဇာ ဘွဲ့တံဆိပ် နာမံကို ခံယူတော်မူသည်။ မိဖုရားခေါင်ကြီးကမူ သီရိပဝရ တိလောက မဟာရာဇိန္ဒာ ရတနာဒေဝီ တံဆိပ်တော်နာမံကို ခံယူသည်။ ထိုနေ့တွင်ပင် ရွှေနန်းတော်ကြီးကို လကျာရစ်သုည့်၍ နန်းသိမ်းပွဲ ခံယူတော်မူလေသည်။

မင်းအဖြစ်သို့ ရောက်တော်မူပြီးနောက်တွင် တိုင်းသူပြည်သားတို့ ဆင်းရဲနွမ်းပါးလှသည်ကို သိတော်မူသဖြင့် ၁၁ ဖို့ ၁ ဖို့ အခွန်တော်ကို ၃ နှစ်ဘိုင်တိုင် လွှတ်ငြိမ်းခွင့် ပြုသည်။ နိုင်ငံအုပ်ချုပ်ရေးကိုလည်း အသစ် စည်းကြပ်တော်မူသည်။

အကြေ အညာ မြို့များတွင် ကင်းရိုးကင်းတိုင် ထား၍ အကောက်စားခြင်းကိုလည်း ရုပ်သိမ်းစေသည်။ ကင်းများကို ရာဇဝတ်တော် ကင်းအောင် မြို့ထွက် မြို့ဝင်စစ်ဆေးရန် အတွက်သာ ထားရှိစေသည်။

သာသနာတော်ကို အတိုင်းထက် အလွန် ထွန်းတောက်ပြန့်ပွား စေခြင်းငှါ၊ သုတ္တန်၊ ဝိနည်း၊ အဘိဓမ္မာ ပိဋကတ်တော်များကို အစုံများစွာ ရေးကူးစေသည်။ ဆရာတော်ကြီးများအား ပိဋကတ်တော်များကို တည်းဖြတ်စေသည်။ ဘွဲ့တံဆိပ်များဖြင့် ဆရာတော်ကြီးများအား ဆက်ကပ် လှူဒါန်းခြင်းလည်း ပြုလေသည်။

မင်းညီ မင်းသားဆွေတော်မျိုးတော်၊ မှူးတော်မတ်တော်၊ ဗိုလ်မှူးတပ်မှူး၊ ဒိုင်းမှူး သင်းမှူး၊ သွေးသောက်စု၊ မြင်းခေါင်း၊ မြင်းစီး၊ သွေးသောက်ကြီး၊ သေနတ်စွဲ၊ ဓားစွဲကိုယ်ရံတော်၊ ရေကြည်မှုစ၍ အမှုထမ်း ကျွန်တော်မျိုးတို့ကို သစ္စာပေးတော်မူသည်။ မင်းညီ မင်းသား၊ မှူးတော်မတ်တော်များကိုလည်း အရည်အလျောက်၊ အထိုက် အလိုက် မြို့ရွာများ အသီးအသီး ပေးသနားတော်မူသည်။ ဝေသာလီ ပြည်၊ ရခိုင်ပြည်၊ မျည်းတဲပြည် စသော တိုင်းပြည်ကြီးများနှင့် ထီးနန်းရံစော်ဘွားမြို့စား တပ်ပေါင်းစား အဝေးမြို့ဝန်၊ စစ်ကဲအရာရှိတို့ကိုလည်း အကြီးအမှူး၊ သွေးသောက်စု၊ မြင်းတော်သည် ခန့်ပြီးလျှင်၊ အစေ့အနှံ့သစ္စာတော်ပေးစေလွှတ်သည်။

မင်းတရားကြီး အိမ်ရှေ့စံစဉ်က မစစောင့်ရှောက်၍ မဏိပူရတွင် စိုးစံနေရသော၊ မဏိပူရ ကသည်း စော်ဘွား မဟာရှိန်ရာဇာသည် မကျိုးမနွံ ရှိသဖြင့် မင်းတရားကြီး နန်းတက်သည့်နှစ်အတွင်း၌ပင် ညီတော် ဒွါရာဝတီ မင်းသား သတိုး မင်းရဲကျော်ထင်ကို ဗိုလ်ချုပ်ခန့်၍ တပ်တော်များ ချီတက်သိမ်းယူစေရာ၊ မဏိပူရတမြို့လုံးကို ရသည်။ မဏိပူရချီတပ်တွင် အလုံမြို့ဝန်မင်းကြီး မဟာဗန္ဓုလ (မဟာဗန္ဓုလ — ရှု။) က လက်ဝဲ စစ်ကြောင်း၊ စစ်ကဲမင်းကြီး မင်းခေါင်ကျော်က လက်ျာကြောင်း ချီတက်သည်။ မြို့ကိုရပြီးနောက်၊ အစောင့်တပ်များ ချထားကာ တပ်များပြန်လာကြသည်။

မဟာရှိန် ရာဇာသည် အင်္ဂလိပ်တို့ ဩဇာလွှမ်းမိုးသော ကချာနယ်ထဲသို့ ပြေးဝင် ခိုလှုံသည်။ ယင်းစော်ဘွား၏ သားဟဲလာ စန္ဒရော် အိန်စောင်တာပသည် ၁၁၈၂ ခုနှစ်တွင် ကချာမှနေ၍ မဏိပူရရှိ မြန်မာတပ်များကို လာရောက်တိုက်ခိုက်သည်။ မြို့စောင့် တပ်များက ပြန်လှန် ခုခံနေစဉ် အမရပူရမှ စစ်ကူတပ်များ ရောက်ရှိလာသဖြင့် ကသည်းတပ်များကို နှိမ်နင်းရသည်။

အင်္ဂလိပ်တို့သည် မြန်မာတို့၏ တန်ခိုးပျံ့နှံ့လာခြင်းကို မနှစ်သက်ပေ။ ထို့ကြောင့် ကချာနယ် အုပ်ချုပ်ရေးတွင် ဝင်ရောက် စိုးမိုးချယ်လှယ်မှုများ ပြုသည်။ ထို့ကြောင့်လည်း မြန်မာတပ်များနှင့် မသင့်မတင့် ဖြစ်သည်။

၁၁၈၅ ခုနှစ်တွင် ဘိုးတော်မင်းတရားလက်ထက်က နန်းတင်ပေးခဲ့သော အာသံစော်ဘွား စန္ဒရကန္တရှိန်သည် အင်္ဂလိပ်တို့၏ အမအစကို ယူကာ မြန်မာမင်းအား ထောင်ထားခြားနားမည် ပြုသဖြင့် မဟာဗန္ဓုလသည် အာသံသို့ ချီတက်နှိမ်နင်းရပြန်သည်။ စန္ဒရကန္တရှိန်သည် အင်္ဂလိပ်တို့ ပိုင်နက်သို့ ပြေးဝင်ခိုလှုံသည်။ မင်းကြီး မဟာဗန္ဓုလသည် အာသံ၌ စော်ဘွားအသစ်ကို နန်းတင်၍၊ ဗိုလ်မှူးမင်းကြီး မဟာသီလဝကို အစောင့်အနေထားပြီး ပြန်လာသည်။

အင်္ဂလိပ်တို့သည် မြန်မာတို့၏ တန်ခိုးအာဏာ တစတစကျယ်ပြန့်ကာ အနောက်ဖက်သို့ ရောက်လာမည်ကို စိုးရိမ်သည်။ ဘိုးတော်ဘုရားလက်ထက်ကပင် ရခိုင်ပြည်ကို သိမ်းယူသည့်အခါ စစ်တကောင်း နယ်ခြားကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနှင့် အင်္ဂလိပ်တို့ အချင်းများခဲ့ရသည်။ ဘကြီးတော်မင်းတရားလက်ထက်သို့ ကျရောက်သောအခါ မဏိပူရစော်ဘွား၊ အာသံ စော်ဘွားတို့ကို အင်္ဂလိပ်တို့က အားပေးအားမြှောက် ပြုသဖြင့် ယင်းစော်ဘွားများသည် မြန်မာမင်းအား ထောင်ထား ခြားနားပြီး အင်္ဂလိပ်တို့ထံ ခိုလှုံခဲ့သည်။ အင်္ဂလိပ်ပိုင်နက်အတွင်းသို့ ပြေးဝင်သော ထိုစော်ဘွားများကို မြန်မာတပ်များက လိုက်လံဖမ်းဆီးသောအခါ မြန်မာနှင့် အင်္ဂလိပ်တို့ ပို၍ မသင့်မတင့် ဖြစ်သည်။ မြန်မာ သက္ကရာဇ် ၁၁၈၅ ခုနှစ် (ခရစ် ၁၈၂၄)တွင် နတ်မြစ်ဝရှိ ရှင်မဖြူကျွန်း၌ အင်္ဂလိပ်တို့ကလာ၍ အလံစိုက်ပြီး တပ်တည်မည်ပြုရာ၊ မြန်မာတပ်များနှင့် အချင်းများကြပြီးလျှင် ပစ်ခတ်တိုက်ခိုက်ကြသည်။ ထိုအခါ မြန်မာတို့ဖက်မှ စစ်ကူရန် ဗိုလ်မှူးဝန်ကြီး မဟာဗန္ဓုလကို ရခိုင်ပြည်သို့ တကြောင်း၊ ဗိုလ်မှူးဝန်ကြီး သတိုးသုဓမ္မ မဟာသက်တော်ရှည်ကို အာသံမဏိပူရသို့ တကြောင်းချီတက်စေသည်။ မြန်မာ သက္ကရာဇ် ၁၁၈၅ ခု တပေါင်းလ၊ ခရစ်နှစ် ၁၈၂၄ ခု၊ မတ်လ ၅ ရက်နေ့တွင် အိန္ဒိယ ဘုရင်ခံချုပ် လော့အမ်းမှတ်က အင်္ဂလိပ်နှင့် မြန်မာတို့ စစ်ဖြစ်ကြောင်း ကြေညာလေသည်။

မဟာဗန္ဓုလ၏ တပ်များသည် ပန်းဝါတိုက်ပွဲ (ရာမူးတိုက်ပွဲ) တွင် အရေးသာသည်။ (မြန်မာ စစ်ပွဲများ — ရှု။) ထိုနောက် ရှေ့သို့ဆက်လက်ချီတက်ခြင်း မပြုသေးဘဲ တပ်နားနေစဉ်၊ ရန်ကုန်မြို့ကို အင်္ဂလိပ်တပ်များက သိမ်းပိုက် လိုက်သောကြောင့်၊ ဟံသာဝတီ ရန်ကုန်မြို့ကို ပြန်လည် လုပ်ကြံရန် မဟာဗန္ဓုလအား ခေါ်တော်မူသဖြင့်၊ ရန်ကုန်သို့ ချီခဲ့ရသည်။ အင်္ဂလိပ်တပ်များသည် ရခိုင်ရိုးမကိုကျော်၍ မြန်မာနိုင်ငံတွင်းသို့ ဝင်ရောက်ရန် အကြံကို လက်လျှော့ပြီးသော် နိုင်ငံတွင်း ရေကြောင်းကိုဒိုက်ကာ ရာဝတီ မြစ်စဉ်တလျှောက် တိုက်ခိုက်ရန် အကြံပြုသည်။ ထို့ကြောင့် ရန်ကုန်သို့ ရေတပ်ကြီး ချီလာပြီးလျှင် ပင်လယ်မှ အမြောက် စိန်ပြောင်း လွှတ်ကာ မြို့ကို စီးထားခြင်း ဖြစ်လေသည်။

အင်္ဂလိပ်-မြန်မာ ပဌမစစ်ပွဲကြီး စတင်ခဲ့လေရာ၊ အင်္ဂလိပ်တို့က လက်နက်အင်အား သာလွန်ခြင်း၊ အင်္ဂလိပ် တပ်သားများသည် အလေ့အကျင့်ရှိပြီးလျှင် တိုက်ရည် ခိုက်ရည် သာခြင်းစသည်တို့ကြောင့် မြန်မာတပ်များ အရေးမလှခဲ့သည်သာများပြီးသော် စစ်သည်ရဲမက် အထိအရှအကျအဆုံးများပြားလှသည်။ ရန်ကုန်တွင် အရေးမလှသဖြင့် ဓနုဖြူသို့ ဆုတ်ခွါပြီးလျှင် တပ်ခံသော မဟာဗန္ဓုလသည်လည်း ၁၁၈၆ ခုနှစ်တွင် ဓနုဖြူခံတပ်၌ ဗုံးသင့်၍ ကျဆုံးလေသည်။

မဟာဗန္ဓုလ ကျဆုံးပြီးနောက်တွင် မြန်မာတပ်များသည် ပို၍ ကစင့်ကလျားဖြစ်သည်။ ရဲမက်တော်များ၊ ဗိုလ်မှူးတပ်မှူးများ အကျအဆုံး အထိအခိုက်လည်း များလှသည်။ အင်္ဂလိပ်တို့သည် အရေးသာ၍ မြို့ရွာများကို သိမ်းပိုက်နိုင်သော်လည်း မြန်မာပြည်သူလူထုကို အုပ်ချုပ်ရန် မလွယ်ကူသေးသည်ကို သိမြင်နားလည်သဖြင့် စစ်ပြေငြိမ်းရန် စကားကမ်းလှမ်းသည်။ ဘကြီးတော်ဘုရားသည် မြန်မာတို့က အလျှော့ပေးအညံ့ခံ၍ စစ်ပြေငြိမ်းရန် ငြင်းပယ်တော်မူသည်။ အင်္ဂလိပ်တို့ကလည်း ထပ်မံစကား ကမ်းလှမ်းသည်။ နောင်အခါ အကြောင်းကြောင်းကို ထောက်ရှု၍ စစ်ပြေငြိမ်းရန် လက်ခံသဖြင့် အင်္ဂလိပ်-မြန်မာ စစ်ပြေငြိမ်း စာချုပ်ကို မြင်းခြံခရိုင်အတွင်းရှိ ရန္တပိုရွာ၌ ၁၁၈၇ ခုနှစ် တပေါင်းလ၊ ခရစ်နှစ် ၁၈၂၆ ခု ဖေဖွါရီလတွင် ချုပ်ဆိုကြ၍ အင်္ဂလိပ်-မြန်မာ ပဌမစစ်ပွဲ ပြီးဆုံးခဲ့လေသည်။ (ရန္တပိုစာချုပ် — ရှု။)

ဘကြီးတော် မင်းတရားလက်ထက် အင်္ဂလိပ်-မြန်မာပဌမစစ်ပွဲအပြီး၌ မြန်မာ နိုင်ငံ၏ အကျယ် အဝန်းသည် ယုတ်လျော့သွားသည်။ ရန္တပိုစာချုပ်အရ အာသံနယ်၊ ရခိုင်ပြည်၊ တနင်္သာရီနယ်တို့ကို အင်္ဂလိပ်တို့အား ပေးလိုက် ရသည်။ ထိုပြင် မဏိပူရ၊ ကချာနယ်တို့ အရေးတွင် မြန်မာတို့က ဝင်ရောက် စွက်ဖက်ခွင့် မရတော့ချေ။ စစ်စရိတ်ငွေ တကုဋေကိုလည်း မြန်မာတို့က ပေးရလေသည်။

ရန္တပိုစာချုပ်တွင် အင်္ဂလိပ်နှင့် မြန်မာ ကိုယ်စားလှယ်ချင်း လဲလှယ်၍ ဆိုင်ရာ နေပြည်တော်များ၌ နေထိုင်ရန် စည်းကမ်းချက်တရပ် ပါရှိသည့်အတိုင်း အင်္ဂလိပ် ကိုယ်စားလှယ်တော် မယ်စယ်ဘော်ရနီ (မေဂျာဗားနေး) သည် မြန်မာ သက္ကရာဇ် ၁၁၉၂ ခုနှစ်တွင် အင်းဝမြို့၌ နေထိုင်ရန်ရောက်လာရာ၊ မင်းတရားကြီးက ကောင်းစွာ နေရာချထားပေးပေသည်။ (ဗားနေး,မေဂျာ — ရှု။) မယ်စယ်ဘော်ရနီသည် အင်းဝ၌ ရှိစဉ် မြန်မာပိုင် ကလေးကဘော့ တောင်ကြားကို ဗြိတိသျှ အိန္ဒိယအစိုးရက သိမ်းယူရာ၊ မယ်စယ်ဘော်ရနီက စာရေးသားကန့်ကွက်သဖြင့် အင်္ဂလိပ်တို့က ပြန်ပေးသည်။

မယ်စယ်ဘော်ရနီ အင်းဝ၌ ရှိနေစဉ်ပင် အင်္ဂလိပ် အစိုးရက တနင်္သာရီနယ်ကို အခြား နယ်တခုခုနှင့် လဲလှယ်လိုသဖြင့် စကားကမ်းလှမ်းလာသည်။ မြန်မာတို့က အလဲ အလှယ်မရှိဘဲ တနင်္သာရီနယ်ကို ပြန်၍လိုချင်သဖြင့် စကားကမ်းလှမ်းမှုသည် ဆုံးခန်းတိုင် မရောက်ခဲ့ပေ။

မြန်မာသက္ကရာဇ် ၁၁၈၈ ခုနှစ် (ခရစ်နှစ် ၁၈၂၇ ခု)တွင် မွန်စေပ်ဆိုသူ ထောင်ထားခြားနားပြီးလျှင် ရန်ကုန်ကို လုပ်ကြံသည်။ မွန်သူပုန်တို့ကို မြန်မာတပ်များက လိုက်လံ တိုက်ခိုက်သည့်အခါ အင်္ဂလိပ်ပိုင် တနင်္သာရီနယ်ထဲသို့ ပြေးဝင်ခိုလှုံကြသည်။ ထိုအခါမြန်မာတို့က မုတ္တမမြို့ကို အခြေပြုပြီးသော် တနင်္သာရီနယ်အတွင်း ဝင်ရောက်တိုက်ခိုက်သဖြင့်၊ အင်္ဂလိပ်တို့က မုတ္တမမြို့ကို ဖျက်ဆီးပစ်သည်။ မွန်တို့၏ ထကြွခြင်းသည် ထိုအကြိမ်နောက်ဆုံး ဖြစ်လေသည်။

သက္ကရာဇ် ၁၁၉၆ ခုနှစ်တွင် ဘဝရှင် မင်းတရားကြီး ကိုယ်တော် ကျန်းခံ့တော်မမူ ဖြစ်လာသည်။ ထိုကြောင့် မိဖုရားခေါင်ကြီး၊ မောင်တော် စလင်းမြို့စား မင်းသားသီရိသုမဟာဓမ္မရာဇာ (မင်းသား မောင်အို)နှင့် မှူးတော် မတ်တော်တို့အား တိုင်းဝန် ပြည်ဝန်ကို စီရင်ဆောင်ရွက်စေသည်။ ထိုအတွင်း နိုင်ငံမငြိမ်မသက်ရှိလေလျှင်၊ စလင်းမြို့စားနှင့် အပေါင်းပါ မှူးမတ်များက မင်းတရားကြီး၏ ညီတော် သာယာဝတီမင်းအပေါ် အယုံအကြည်မရှိ၊ နှလုံးစိတ်ဝမ်း မချ ဖြစ်လာသည်။ ထိုကြောင့် ပြစ်မှုရှာကြံလာသည်။ ထိုအခါ သာယာဝတီ မင်းကလည်း နောင်တော်မင်းတရားအား ကျေးဇူးသစ္စာရှိစွာနှင့် အမှုတော်များကို နှလုံး လက်ရုံးဖြင့် ထမ်းရွက်ခဲ့ပါလျက်၊ မင်းသား မောင်အိုနှင့် အပေါင်းပါတစုတို့က မိမိအပေါ် အကောက်ကြံကာ မှုခင်းရှာကြံရမည်လောဟု စိတ်ဝမ်းနာကျည်းကာ ၁၁၉၈ ခုနှစ်တွင် ရွှေဘိုသို့ နောက်တော်ပါများနှင့် အတူ ထွက်ခွါသွားပြီးလျှင် ပုန်ကန်ခြားနားလေသည်။

အင်္ဂလိပ် ကိုယ်စားလှယ် မယ်စယ်ဘော်ရနီသည် ရွှေဘိုသို့ လိုက်သွားပြီးလျှင် ဖြန်ဖြေလျှောက်ထားသော်လည်း အရေးမရလေ။ တဖန် ဆရာတော်များ ကြွရောက် ဖြန်ဖြေ စေ့စပ်ရပြန်သည်။ ၁၁၉၉ ခုနှစ်တွင် ညီတော် သာယာဝတီမင်း၏ အလိုတော်ပြည့်၍၊ ဘကြီးတော် မင်းတရားသည် ညီတော်အား ထိုနှစ် ကဆုန် လပြည့်ကျော် ၁၂ ရက် နေ့တွင် နန်းစည်းစိမ်ကို လွှဲပြောင်းပေးကာ၊ အိမ်ဖြူ စံတော်မူလေသည်။ သာယာဝတီမင်းသည် ရွှေနန်းစည်းစိမ်ကို လက်ခံပြီးနောက်တွင် နောင်တော်၏ မိဖုရားခေါင်ကြီးနှင့် စလင်းမင်းသားတို့ကို အပြစ်အလျောက် စီရင်တော် မူလေသည်။

ဘကြီးတော် မင်းတရားသည် ရတနာသုံးပါး၌ ယုံကြည်မြတ်နိုးတော်မူသည်။ မှူးမတ် ရဲမက်တို့၏ အရည် အသွေးကိုလည်း သိတော်မူတတ်၍ အထိုက်အလျောက် ချီးမြှင့်တတ်သည်။ စိတ်နှလုံး သန့်ရှင်းစင်ကြယ်၍ အယဉ်အကျေးအသိမ်အမွေ့ကိုလည်း ကြိုက်နှစ်သက်တော်မူသည်။ အဋ္ဌာ

ရသ အတတ်မျိုးတို့၌လည်း တတ်ကျွမ်းတော်မူ၍ အထူးသဖြင့် ဆင်ကြန်မြင်းကြန် ပန်းချီ ပန်းပုအတတ်တို့၌ ပို၍ ထူးချွန်တော်မူသည်။

မင်းတရားကြီးသည် လှူဒါန်း ပေးကမ်း စွန့်ကြဲခြင်း၌လည်း ရက်ရောတော်မူသည်။ မင်းကွန်း၊ စစ်ကိုင်း၊ အမရပူရ၊ မန္တလေးတောင် စသည်တို့၌ မင်းတရားကြီး၏ ကုသိုလ်တော် စေတီပုထိုး၊ ကျောင်းတန်ဆောင်း စသည်တို့ အများအပြား ရှိသည်။ မင်းကွန်း၌ ပုထိုးတော်ကြီး၊ အမရပူရ၌ မဟာသက္ကျရံသီ ကျောက်ဖြူ ရုပ်ပွားတော်၊ မဟာအောင်မြေဘုံသာ ကျောင်းတော်ကြီး၊ မဟာဝိဇယရံသီ စည်းခုံတော်ကြီး စသည်တို့သည် မင်းတရားကြီး၏ ကောင်းမှုတော်များဖြစ်သည်။ မဇ္ဈိမဒေသရှိ မဟာဗောဓိပင်သို့လည်း အထူးထူးသော အလှူတော်များကို ကျောက်စာများနှင့်တကွ စေလွှတ် လှူဒါန်းပူဇော်ခဲ့လေသည်။

မင်းတရားကြီး လက်ထက်တွင် ရဟန်းပညာရှိ လူပညာရှိတို့ကို ညှိနှိုင်းတိုင်ပင်၍ ရာဇဝင်တစောင် ပြုစုစေသည်။ ထိုရာဇဝင်ကြီးကို မောင်းထောင်ဆရာတော် လူထွက် ပညာရှိ အမတ်ကြီး မဟာဓမ္မသင်္ကြံ ကြီးမှူးအုပ်ချုပ်၍ ၁၁၈၁ ခုနှစ်မှ စတင် ကျမ်းပြုစေသည်။ ထိုရာဇဝင်တော်ကြီးကို မှန်နန်းတော်ဦးတွင် ရေးသားပြုစုရသောကြောင့် "မှန်နန်း မဟာရာဇဝင်တော်ကြီး"ဟု ခေါ်တွင်သည်။ ထိုရာဇဝင်ကြီးတွင် ကမ္ဘာဦးကာလမှ မြန်မာသက္ကရာဇ် ၁၁၇၃ ခုနှစ် နတ်တော်လအထိ အဖြစ်အပျက် များသာ ပါဝင်သည်။ ထို့ကြောင့် မင်းတုန်းမင်းတရား လက်ထက်တွင် ဆက်လက်ပြုစုစေရာ ထိုရာဇဝင်တော်ကြီးကို "ဒုတိယ မဟာရာဇဝင်တော်"ဟု ခေါ်ဆိုလေသည်။ (မြန်မာရာဇဝင်များ — ရှု။)

ထင်ရှားသော သားတော် သမီးတော်များမှာ ဆင်ဖြူရှင်မယ်မှ ဖွားသော ညောင်ရမ်းမြို့စားတပါး၊ မိဖုရားခေါင်ကြီး မယ်နုမှ မြင်တော်မူသော သမီးတော်တပါး ဖြစ်၍ ထိုသမီးတော်သည် နောင်အခါ မင်းတုန်းမင်းတရား၏ အလယ်နန်းမိဖုရားဆင်ဖြူမရှင် ဖြစ်သည်။ မိဖုရားခေါင်ကြီး မယ်နုမှ မြင်သော သားတော်တပါးနှင့်သမီးတော် တပါးတို့သည် ငယ်ကလွန်ကြသည်။

ဘကြီးတော် မင်းတရားသည် အိမ်ဖြူစံသျက်နှင့်ပင် ညီတော် သာယာဝတီမင်း လက်ထက် ၁၂၀၇ ခုနှစ် သီတင်းကျွတ်လပြည့်ကျော် ၁၀ ရက် နေ့တွင် နတ်ပြည်စံသွန်တော်မူလေသည်။

**ဘခိုင်၊မန်း**(မြန်မာ ၁၂၆၅–၁၃၀၈)။ ။ဗိုလ်ချုပ်အောင်ဆန်းတို့နှင့်အတူကျဆုံးခဲ့ရသောနိုင်ငံခေါင်းဆောင်ကြီးများအနက် မန်းဘခိုင်လည်း ပါဝင်လေသည်။

မန်းဘခိုင်သည် ဟင်္သာတမြို့မှ ၁၅ မိုင်ခန့် ဝေးသော ဟင်္သာတ - ပုသိမ် မီးရထားလမ်းပေါ်ရှိ ယုန်သလင်းရွာ ရွာသူကြီး မန်းပေကုန်း၊ ဒေါ်ပုတို့၏ ပဌမသား ဖြစ်သည်။ ၁၂၆၅ ခုနှစ် တန်ဆောင်မုန်းလဆန်း ၇ ရက်နေ့တွင် ယုန်သလင်းရွာ၌ ဖွားမြင်သည်။ ငယ်စဉ်ကပင် စတင်၍ ဟင်္သာတမြို့ အေဘီအမ် ကျောင်းဘွင် ပညာ သင်ကြားခဲ့ရာ ခရစ်နှစ် ၁၉၂၀ ပြည့်နှစ်တွင် ၇ တန်းစာမေးပွဲ အောင်မြင်သည်။ထိုနောက်ဘားမားရိုင်ဖယ်တပ်သို့ဝါသနာအလျောက် ဝင်ရာ မိဘများက သဘောမတူသဖြင့် နောက်ဆုံးထွက်၍ ရန်ကုန်မြို့ စေကော့ ကုမ္ပဏီတွင် ဝင်ရောက် လုပ်ကိုင်သည်။ ၁၉၂၆ ခုနှစ်တွင် မိခိုလက်အောက်မှ ကရင်အမျိုးသားစာရေးတဦးကိစ္စနှင့်စပ်လျဉ်း၍ ကုမ္ပဏီမန်နေဂျာနှင့် သဘောမတိုက်ဆိုင် ဖြစ်ကာ အလုပ်မှ ထွက်လေသည်။

လခစား အလုပ်မှ ထွက်ပြီးနောက် မန်းဘခိုင်သည် ယုန်သလင်းရွာသို့ပြန်ကာ ညီအစ်ကိုများစု၍ အောင်ခင်ညီများကုမ္ပဏီဟူသော အမည်ဖြင့် လုပ်ငန်းတခုထောင်လျက် ရပ်သူရွာသားများ သက်သာချောင်ချိရေးအတွက် သမဝါယမနည်းဖြင့် အရောင်းအဝယ်လုပ်ကိုင်သည်။ ယင်းသို့ အရောင်း အဝယ် ပြုလုပ်ယင်း ကလေးသူငယ်များ ကရင်ဘာသာရပ်ကို သင်ကြား နိုင်စေရန် ငွေကုန် ကြေးကျခံကာ ကျောင်းတကျောင်းဖွင့်၍ ကိုယ်ဖိ ရင်ဖိ စီမံအုပ်ချုပ်သည်။

အရောင်းအဝယ် ကိစ္စ၊ ကျောင်းကိစ္စများအတွက် ရန်ကုန်မြို့သို့ မကြာခဏ ရောက်ရှိခဲ့ရာတွင် ကရင်ခေါင်းဆောင်ကြီးများဖြစ်ကြသော ဆစ်ဒနီ လူနီ၊ ဆရာကြီး မန်းရွှေဘ(သရာ



ကရင်အမျိုးသား ခေါင်းဆောင်ကြီး မန်းဘခိုင်

ရှေဘာ) တို့နှင့် တွေ့ဆုံ ဆွေးနွေးမိရာမှ ကရင် လူငယ်များ အသင်းကို စတင်ဖွဲ့စည်းခဲ့သည်။

၁၉၃၆ ခုနှစ်တွင် မန်းဘခိုင်သည် မအူပင် မြောက်ပိုင်းမ အောက်လွှတ်တော်အမတ်အဖြစ် ဝင်ရောက် အရွေးခံရာ နိုင်ငံရေးတွင် အကင်းမပါးမှုကြောင့် ရှုံးခဲ့ရသည်။ သို့ရာတွင် ၁၉၃၇ ခုနှစ်တွင် ပုသိမ်မြောက်ပိုင်းအမတ် တနေရာအတွက် ကြားရွေးကောက်ပွဲ ကျင်းပရာ မန်းဘခိုင်အရွေးခံရသည်။ ၁၉၃၈ ခုနှစ် မတ်လ ၂၃ ရက်နေ့တွင် ပဲခူးမြို့ သဌေးဦးအဖောက်၏ သမီးထွေး ဒေါ်ခင်နီနှင့် လက်ထပ်သည်။ ၁၉၄၃ ခုနှစ်တွင် မန်းဘခိုင်သည် တရားရေးဌာနဝန်ကြီး စောဖေသာ၏ အတွင်းဝန်ကလေးအဖြစ် ခန့်ထားခြင်း ခံရသည်။ သို့သော် မန်းဘခိုင်သည် ကုန်သည်အလုပ်ကိုလည်း ဝါသနာကြီးသူ ဖြစ်သည်။ ငှက်ပျောခြံလုပ်သော ကရင် အမျိုးသားများသာရှိ၍ ကရင်အမျိုးသားပိုင် ငှက်ပျောဆိုင်မရှိသည့်ကို တွေ့မိကာ စစ်ကြီးအတွင်းက ပုဇွန်ထောင် အေးတန်တား အနီးတွင် ငှက်ပျောရုံ စတင်ဖွင့်ခဲ့သည်။ ငှက်ပျောရုံအလုပ် အခြေကျသောအခါ ထိုလုပ်ငန်းကို ဇနီးသည်နှင့် လွှဲထား၍ နိုင်ငံရေးကို စိတ်ရောကိုယ်ပါ ဆောင်ရွက်ပြန်သည်။ ၁၉၄၄ ခု နှစ်ဦးတွင် ငှက်ပျောရုံပေါ် ဗုံးကျသဖြင့် မိသားတစု ယုန်သလင်းရွာသို့ ပြန်နေကြသည်။ ယုန်သလင်းတွင် ကရင်လူငယ်များကိုစု၍ ဖက်ဆစ် တော်လှန်ရေးအတွက် ကိုယ်ဖိ ရင်ဖိဆောင်ရွက်သည်။

၁၉၄၅ ခုနှစ်တွင် စစ်ပြီး၍ ရန်ကုန်မြို့သို့ ပြန်လာသောအခါ ဗိုလ်ချုပ်အောင်ဆန်းတို့နှင့် အတူ လက်တွဲပြီးသော် ဖ ဆ ပ လ အဖွဲ့ကြီးဖြစ်မြောက်ရေးအတွက် ကြိုးပမ်းသည်။ အဖွဲ့ကြီး ဖွဲ့စည်းပြီးသောအခါ ဗဟိုအမှုဆောင် လူကြီးအဖြစ် ဆောင်ရွက်ရသည်။ ထိုအချိန်တွင် ကရင်လူငယ်များအစည်းအရုံးဥက္ကဋ္ဌအဖြစ် တင်မြှောက်ခြင်း ခံရပြန်သည်။ ၁၉၄၆ ခုနှစ် စက်တင်ဘာလတွင် မြစ်ဝကျွန်းပေါ် ဖ ဆ ပ လ ဖွဲ့စည်းရေးတာဝန်ခံ အဖြစ်ဖြင့် နယ်ထွက်နေစဉ် ဖဆပလ အဖွဲ့ကြီးအား ဘုရင်ခံ၏အမှုဆောင်ဝန်ကြီးအဖွဲ့ ဖွဲ့စည်းရန် ဘုရင်ခံက လွှဲအပ်သည်တွင် မန်းဘခိုင်သည် စက်မှုလက်မှုနှင့် အလုပ်သမားဌာန ဝန်ကြီးအဖြစ် ခန့်အပ်ခြင်းခံရသည်။ ၁၉၄၇ ခုနှစ် ဇူလိုင်လ ၁၉ ရက်နေ့တွင် ဝန်ကြီးအဖွဲ့ အစည်းအဝေး ကျင်းပနေစဉ် လူမသ မာတို့၏ လုပ်ကြံမှုကြောင့် အခြား ခေါင်းဆောင်ကြီး ၆ ဦးနှင့်အတူ ကျဆုံးခဲ့ရလေသည်။

**ဘချို၊ ဦး၊ ဒီးဒုတ်** (မြန်မာ ၁၂၅၅ – ၁၃၀၉)။ ။ ဗိုလ်ချုပ်အောင်ဆန်းတို့နှင့် အတူ နိုင်ငံ၏ လုပ်ကြံမှုကြီးတွင် ကျဆုံးခဲ့ရသော နိုင်ငံ၏ ထိပ်တန်း ခေါင်းဆောင်ကြီး တဦးဖြစ်သည်။ ဦးဘချိုသည် ဗြိတိသျှခေတ်အခါကပင် သတင်းစာဆရာတဦး အနေနှင့် ပြည်သူလူထု၏ အမျိုးသားစိတ် နိုးကြားရေးကို လှုံ့ဆော် တိုက်တွန်းပေးခဲ့၍၊ နိုင်ငံလွတ်လပ်ရေးအတွက် ကြိုးပမ်းမှုများကို စေတနာသန့်သန့်ဖြင့် အားပေး ကူညီဆောင်ရွက်ခဲ့သည်။ ဒုတိယ ကမ္ဘာစစ်ပြီးစခေတ်၊ ဗြိတိသျှ အစိုးရက မြန်မာနိုင်ငံအား လက်မလွှတ်သေးမီ ဖဆပလ အစိုးရအဖွဲ့၌ ပြန်ကြားရေးဝန်ကြီးအဖြစ် အမှုထမ်းရွက်ယင်း လုံးဝလွတ်လပ်မှု ရရှိရေး၊ အမျိုး ဘာသာ သာသနာ တိုးတက် ထွန်းပြောင်ရေးတို့ကို အားကြိုးမာန်တက် ဆောင်ရွက်ခဲ့သည်။ အထူးသဖြင့် မြန်မာနှင့် တောင်တန်းဒေသ တိုင်းရင်းသား လူမျိုးများ သွေးစည်းညီညွတ်ကြောင်းကို ပြ၍၊ ဗိလတ် အစိုးရထံမှ လုံးဝလွတ်လပ်ရေးကို တောင်းဆိုနိုင်ရန်အတွက်၊ ချင်း–မြန်မာ သွေးစည်းရေးကို ဦးဘချိုသည် အထူး ကြိုးပမ်း ဆောင်ရွက်ခဲ့သဖြင့် အောင်မြင်ခဲ့လေသည်။

ယင်းကဲ့သို့ နိုင်ငံ၏ အကျိုးကို ကိုယ်ကျိုးမဖက်ဘဲ အားကြိုးမာန်တက် ဆောင်ရွက်မည့် မြန်မာနိုင်ငံတော်၏ အဖိုးတန် သားကောင်း ရတနာကြီး ဖြစ်လာမည့် မောင်ဘချိုသည် မြန်မာသက္ကရာဇ် ၁၂၅၅ ခုနှစ် ကဆုန်လဆန်း ၁၀ ရက်နေ့တွင် မြောင်းမြမြို့၌ ဖွားမြင်သည်။ မြောင်းမြမြို့ ခံမင်းကြီးဦးခို၊ ဒေါ်လုံတို့၏သမီး ဒေါ်မြစ်နှင့် သမားတော်ကြီး ဦးဖိုးစာတို့၏ ရင်သွေး လေးယောက်အနက် သားအထွေးဆုံး ဖြစ်သည်။ မိခင်ဖက်မှ အဖွား ဒေါ်လုံသည် ရာဇာဓိရာဇ် မင်းလက်ထက် မြောင်းမြမြို့ကို အုပ်ချုပ်ရသူ မွန်အမတ်ကြီး ဒေါက္ကန်တယို၏ မြေးဟု သိရသည်။

မောင်ဘချို ၇ နှစ်သား အရွယ်တွင် မြောင်းမြမြို့ ဆရာ ဦးမောင်မောင်ကျောင်းတွင် စတင် ပညာသင်ကြားသည်။ ငယ်စဉ်ကပင် လျင်မြန်ထက်မြက်သော အာဂမ ယုတ္တိဉာဏ်နှင့် ပြည့်စုံ၍ ပညာပါရမီ ရင့်သန်သည်ကို သိကြရသည်။ ၁၄ နှစ်သား အရွယ်တွင် သတ္တမတန်းကို အထူး အောင်မြင်၍ စကောလားရှစ်ခေါ် ပညာသင်ဆု ရခဲ့သည်။ ထိုနောက် ရန်ကုန် စိန်ပေါကျောင်းသို့ ပြောင်း၍ သင်ကြားသည်။ ရှစ်တန်းအောင်မြင်ပြီးသောအခါ၊ ဆယ်တန်းသို့ ကျော်တက်နိုင်ခဲ့၍ ဆယ်တန်းစာမေးပွဲကိုလည်း အထူး အောင်မြင်သဖြင့် စကောလားရှစ် ပညာသင်ဆု ရပြန်သည်။

မောင်ဘချိုသည် ရန်ကုန်ကောလိပ်သို့ ရောက်သည့် အချိန်တွင် ၁၆ နှစ်သားမျှသာ ရှိသေးသည်။ ထိုစဉ်က ရန်ကုန်ကောလိပ်သည် ကာလကတ္တားတက္ကသိုလ် လက်အောက်ခံ ဖြစ်သည်။ ကျောင်းနေစဉ်တွင် မောင်ဘချိုသည် ကိုယ်လက် ကြံ့ခိုင်ရေးကို လိုက်စားခဲ့သည်။ အသက် ၂၀ အရွယ်၊ ဘီအေအထက်တန်းသို့ ရောက်သည့်အခါတွင်မူ မျက်စိဝေဒနာကြောင့် ကျောင်းမှ ထွက်လိုက်ရလေသည်။

ကျောင်းမှ ထွက်ပြီးနောက်တွင် ပေါင်းတည်မြို့ အစိုးရကျောင်း၌ တနှစ်ခန့် ကျောင်းဆရာအဖြစ် အမှုထမ်းသည်။

ထိုနောက် ဟသ်ာတမြို့ အစိုးရကျောင်းသို့ ပြောင်းရွှေ့၍ ပါဠိဆရာအဖြစ် ထမ်းရွက်လေသည်။

မြန်မာကဗျာနှင့် စာပေကို ဝါသနာထုံသည့် အားလျော်စွာ "နောက်ဆွယ်ချောင်က၊ တောက်တဲ့မောင်" အမည်ဖြင့် မြန်မာ့အလင်း မဂ္ဂဇင်းတွင် စတင် ရေးသားခြင်းဖြင့် စာနယ်ဇင်း လောကထဲသို့ ဝင်ရောက်ခဲ့သည်။ ထိုနောက် နှစ်ပါးကြည် ဂျာနယ်နှင့် ဗန္ဓုလ ဂျာနယ်တို့တွင်လည်း ကလောင်ရည် သွေးခဲ့သည်။

ဟသ်ာတမြို့မှာပင် ကျောင်းဆရာ အဖြစ်မှ ပညာအုပ်ရာထူးသို့ ပြောင်း၍ ဆောင်ရွက်သည်။ သို့ဆောင်ရွက်နေစဉ်တွင်ပင် စာနယ်ဇင်းများ၌ ကလောင်သွေးခဲ့ရာ၊ ထိုစဉ်က အစိုးရပိုင်းမှ ကြည်ကြည်ဖြူဖြူ မရှိလှချေ။ ထိုကြောင့် ၁၂၈၂ ခုနှစ် (ခရစ် ၁၉၂၀ ပြည့်နှစ်) တွင် ကျောင်းသားသပိတ် အရေးကြီး ပေါ်ပေါက်လာသောအခါ၊ လွတ်လပ်စွာ ကလောင်ကွန့်မြူးခွင့် မရသော အစိုးရအလုပ်မှ နုတ်ထွက်ပြီးလျှင်၊ အမျိုးသား ပညာရေးလောကသို့ ဝင်ရောက်ခဲ့သည်။ အမျိုးသား ကောလိပ်ကြီးကို တည်ထောင်ကြသောအခါ မြန်မာစာပေ သင်ကြားပို့ချရန် တာဝန်ယူခဲ့သည်မှာ ၁၂၈၆ ခုနှစ်တွင် အမျိုးသား ကောလိပ်ကြီးပျက်သည့်တိုင်အောင် ဖြစ်သည်။

ဆရာဦးဘချိုသည် စာနယ်ဇင်းများတွင် ကလောင်သွေးခဲ့ပြီးနောက်တွင်၊ မြန်မာ့ရီဗျူး ဂျာနယ်ကို ပဌမဆုံး ထုတ်ဝေခဲ့သည်။ ထိုဂျာနယ်တွင် "ဒီးဒုတ်" ဟူသော ကလောင်အမည်ကို ပဌမဆုံး စတင်သုံးစွဲ၍၊ ဒီးဒုတ်၏ ပစ္စယလက်ခတ်ကျမ်းဟူသော အခန်းကို ဖွင့်ခဲ့သည်။ အရေးအသား အဆိုအမိန့်ကောင်းသဖြင့် "ဒီးဒုတ်" အမည်ကျော်ကြား လာသည်။ ထိုကြောင့် အမျိုးသားကောလိပ် ပျက်ပြီးနောက် ၁၂၈၇ ခုနှစ်ခန့် (ခရစ် ၁၉၂၅ ခုနှစ်) တွင် ကျော်ကြားလာသော အမည်ကို ယူ၍ "ဒီးဒုတ်ဂျာနယ်" ကို စတင်တည်ထောင် ထုတ်ဝေသည်။ ဒီးဒုတ်ဂျာနယ်သည် နှစ်ပေါင်းများစွာ ကျော်ကြား လူကြိုက်များသော ဂျာနယ်ကြီးတစောင် ဖြစ်သည်။ ဦးဘချိုသည်လည်း ကလောင်အမည်ဖြင့် တွဲ၍ ဒီးဒုတ်ဦးဘချိုဟု ထင်ရှားလာသည်။ ထိုဂျာနယ်တွင် ဈေးဂေဇက် ဆယ်လံအာဝါးအခန်း၊ ဒီးဒုတ်စာတိုက်ခန်း စသော အခန်းများစွာကို တဦးတည်း တာဝန်ယူ၍ ရေးသားခဲ့သည်။

ဒီးဒုတ်ဂျာနယ်တွင် အထက်ဖော်ပြပါ အခန်းပေါင်းများစွာကို ရေးသားနိုင်ခဲ့သည်ကို ထောက်ရှု၍၊ ဦးဘချိုသည် ဟာသကြွယ်၍ သဘာဝလယ်ကြောင်း သိရှိကြရသည်။ ဆယ်လံနှင့် အာဝါး ဈေးဂေဇက်၊ ဒီးဒုတ်စာတိုက်ခန်းတို့ကို ဖတ်ဘူးသူများသည် ဦးဘချို၏ အရေးအသား ဟာသကြွယ်ပုံကို သိကြသည်။ နှုတ်ဟာသကြွယ်ပုံကို ရင်းရင်း



နိုင်ငံရေး အမြင်သန်သည့် မျိုးချစ်ပုဂ္ဂိုလ် ဒီးဒုတ် ဦးဘချို

နှီးနှီးနေဘူးသူများ သိကြပေသည်။ သဘာဝလယ်ပုံမှာ ပန်းချီပန်းပု စသော အနုပညာ သဘာဝကိုငှင်း၊ သီချင်းကြီး သီချင်းခံ တေးဂီတ စသော ဂီတ အနုပညာသဘာဝကိုငှင်း၊ လူတို့၏ စိတ်နေစိတ်ထား သဘာဝကိုငှင်း နှံ့စပ်ကျွမ်းကျင်၍၊ ဦးဘချို မသိနားမလည်သောအရာ အလွန်ရှားပေသည်။ "စပယ်" ကလောင်အမည်ဖြင့် "ဘေ့ဒ္ဓသီဟာ" နန်းတွင်းဝတ္ထုကြီးကို ရေးသားခဲ့ရာ၊ ပင်ရင်း မြန်မာဝတ္ထုကောင်းကြီးတပုဒ် ဖြစ်ပေသည်။

ဦးဘချိုသည် အင်္ဂလိပ်၊ မြန်မာနှင့် ပါဠိစာပေများတွင် နှံ့စပ်ကြွယ်ဝ၍ ဆေးကျမ်း၊ ဗေဒင်၊ လောကဓာတ်ပညာတို့ဖက်၌လည်း အတော်အတန် ပေါက်မြောက်အောင် လေ့လာ လိုက်စားဖူးသည်။ မြန်မာ သီချင်းကြီး၊ သီချင်းခံ၊ အဲ၊ အန်၊ အိုင်ချင်း၊ ချောင်း စသည်တို့ကိုဟန်၊ မာန်၊ မှင်၊ မောင်း ကျကျနနနှင့် အဝင်အထွက် မှန်ကန်စွာ နှုတ်တက်ရွရွ ရွတ်ဆိုနိုင်သည်သာမျှားသည်။ သဘင်ပညာကိုလည်း ဆည်းပူးခဲ့သူဖြစ်သည်။ တူရိယာ၊ ကဗျာဂီတတို့ကို မြတ်နိုး နှစ်သက်စွာနှင့် လေ့လာ ဆည်းပူးခဲ့၍၊ စောင်းကောက်ကို ပိုင်နိုင်ကျနစွာ တီးစွမ်းနိုင်သည်။ ဦးဘချို၏ ဂီတပညာဆိုင်ရာ ဗဟုသုတကြွယ်ဝမှုကြောင့် ဦးဘချိုထံသို့ တကယ့် ဂီတပညာသည် သဘင်ပညာသည်များ လာရောက်နည်းနာ ခံယူကြရသည်။ မိမိထံ တပည့်ခံ၍ ပညာဆည်းပူးလာသူတို့အားလည်း မိမိတတ်မြောက် ကျွမ်းကျင်သမျှ

ကို ရှင်းလင်းသေချာစွာ ပို့ချ သင်ကြားပေးနိုင်ပေသည်။ သီချင်းကြီး သီချင်းခံများ မူမှန်အတိုင်း ဖြစ်စေရန် ဂီတဝိသောဓနီကျမ်းကိုလည်း တည်းဖြတ်ခဲ့သည်။ ဝါ၊ ဂီ၊ နစ် သဘင်ပညာသည်အဖွဲ့ကြီး ဖြစ်မြောက်ရေးကိုလည်း ဆောင်ရွက်ခဲ့၍ ဂီတအရာတွင် နှံ့စပ်ကျွမ်းကျင်သူ ဦးဘချိုအား ဂီတဖခင်ကြီးဟုပင် ခေါ်ဆိုကြသည်။ စာပေကို မြတ်နိုးချစ်ခင်သူဖြစ်သည့်အတိုင်း မြန်မာ စာရေးဆရာအသင်း ဖြစ်မြောက်ရေးကို အထူး အားပေးဆောင်ရွက်ခဲ့၍၊ စာရေးဆရာအသင်းတွင် ဥက္ကဋ္ဌအဖြစ်လည်းဆောင်ရွက်ခဲ့ဖူးသည်။

၁၉၃၀ ပြည့်နှစ်ခန့်က ခွဲရေးတွဲရေး ကိစ္စများ ရှုပ်ထွေးစဉ်တွင်၊ ဦးကျော်မြင့်၊ ဒေါက်တာဘမော်နှင့် ဦးဘချိုတို့ သုံးဦး ပူးပေါင်းကာ "မြန်မာ့ဇေယျာ" အမည်ဖြင့် သတင်းစာတစောင် ထုတ်ဝေခဲ့ဖူးသည်။ သို့သော် အောင်အောင်မြင်မြင် မရှိလှ၍ ရပ်စဲလိုက်ရသည်။

ဒုတိယ ကမ္ဘာစစ် မဖြစ်မီ၊ ဂျပန်တို့ တန်ခိုးတက်လာ၍ မြန်မာအများပင် ဂျပန်တို့အား မြှော်လင့်အားကိုးခဲ့ကြသည်။ ထိုအခါက အကင်းပါးပြီးလျှင် အမြင်ကျယ်သော ဦးဘချိုသည် ဂျပန်များ ဆိုးရွားပုံကို သတိပေး ရေးသားခဲ့ရာ၊ အချို့ တပည့်များနှင့်ပင် သဘော ကွဲလွဲခဲ့ရသည်။ ဂျပန်တို့ မြန်မာနိုင်ငံအတွင်း ရောက်လာသောအခါ၊ ဦးဘချိုအား သတ်ရန်ပင် လိုက်လံရှာဖွေကြသေးသော်လည်း ဦးဘချို၏ တပည့်များ၏ တောင်းပန်မှုကြောင့် အသက်ဘေးမှ ကင်းဝေးခဲ့ရသည်။

ဗြိတိသျှ စစ်တပ်များ ပြန်လည် ဝင်ရောက်လာပြီးနောက်တွင် ဖဆပလ အဖွဲ့ချုပ်ကြီးကို ဖွဲ့စည်းသောအခါ ဗိုလ်ချုပ်အောင်ဆန်းကလည်း ဦးဘချို၏ စိတ်ဓာတ်နှင့် အရည်အသွေးကို သိ၍ ယုံကြည်အားထားသကဲ့သို့၊ ဦးဘချိုကလည်း ဗိုလ်ချုပ်အောင်ဆန်းအား ယုံကြည်အားထားကာ မြန်မာနိုင်ငံ လုံးဝလွတ်လပ်ရေး ရရှိမှုအတွက် ဖဆပလအဖွဲ့ကြီးတွင် ဝင်ရောက် ဆောင်ရွက်သည်။ မျှားမကြာမီ ဗိုလ်ချုပ်အောင်ဆန်း ခေါင်းဆောင်သော အမှုဆောင်ဝန်ကြီးအဖွဲ့တွင် ပြန်ကြားရေးဝန်ကြီးအဖြစ် ခန့်အပ်ခြင်း ခံရလေသည်။

ဦးဘချိုသည် စိတ်ထားနူးညံ့ခြင်း၊ မာန်မာန မရှိခြင်း၊ မျိုးချစ်စိတ် ထက်သန်ခြင်း၊ ဉာဏ်အမြင်ထက်လျက် လျှင်မြန် ပါးနပ်ခြင်း၊ ဗဟုသုတ ကြွယ်ဝခြင်း၊ စေတနာသဒ္ဓါတရား ရက်ရောခြင်း၊ သာသနာတော်၌ ယုံကြည် ကိုင်းရှိုင်းခြင်း စသော အရည်အချင်းများနှင့် ပြည့်စုံ၍ သာသနာတော် ထွန်းပြောင်ရန် ကြိုးပမ်း ဆောင်ရွက်ခဲ့သည်။

ယင်းကဲ့သို့ နိုင်ငံ၊ အမျိုး ဘာသာ သာသနာအတွက် ကိုယ်ကျိုးမဖက်ဘဲ၊ ကိုယ်စိတ်အပင်ပန်းခံကာ၊ အားကြိုးမာန်တက် ဆောင်ရွက်နေစဉ်၊ ၁၃၀၉ ခုနှစ် ဝါခေါင်လဆန်း ၂ ရက် (ခရစ် ၁၉၄၇ ခုနှစ်၊ ဇူလိုင်လ ၁၉ ရက်) နေ့တွင် အတွင်းဝန်ရုံးကြီး၌ အစိုးရအဖွဲ့ ဝန်ကြီးများ စည်းဝေးပွဲ ပြုလုပ်နေခိုက်၊ လူမသမာတစု၏ လက်ချက်ဖြင့် ဗိုလ်ချုပ်အောင်ဆန်းတို့နှင့်အတူ ကျဆုံးခဲ့ရလေရာ၊ မြန်မာ့သမိုင်းတွင် မြန်မာ့သားကောင်း အာဇာနည်ကြီး တဦးအဖြစ် ဥဒါန်း တွင်ရစ်လေတော့သည်။

ဦးဘချိုသည် ပဌမ ကျောင်းသားသပိတ်ခေတ်တွင် သုစရိတယုဝ အသင်း၏ အကျိုးဆောင်အဖြစ် ဆောင်ရွက်နေစဉ် မြန်မာ မိန်းမများအသင်း၏ အကျိုးဆောင်ဖြစ်သူ ဒေါ်လှမေနှင့် တွေ့ဆုံကာ ၁၂၈၂ ခုနှစ် ကဆုန်လတွင် လက်ထပ်ခဲ့၍၊ သမီး ၆ ယောက် ထွန်းကားခဲ့သည်။ ၂ ယောက်မှာ ငယ်စဉ်က ကွယ်လွန်ကြ၍၊ ၂ ယောက်မှာ စစ်ပြီးခေတ်တွင် ကွယ်လွန်ကြသည်။ သမီးကြီး ဒေါ်ခင်ပုသည် ဦးဘချို ကျဆုံးရပြီးနောက်တွင် ဦးဘချို၏ မဲဆန္ဒနယ်မှ အမျိုးသမီး လွှတ်တော်အမတ်အဖြစ် အရွေးခံရသည်။ သို့သော် ဖခင်ကြီးနှင့် ၃ နှစ်ခြား၍ ကွယ်လွန်ခဲ့လေသည်။ ယခုအခါ ဇနီး ဒေါ်လှမေနှင့် သမီးအငယ်ဆုံး ဒေါ်ခင်ဥ တဦးသာ ကျန်လေသည်။

**ဘဂျမ်း၊ဦး၊(ကာတွန်း)** ( မြန်မာ ၁၂၆၃–၁၃၃၄ )။ ။ အလင်္ကာကျော်စွာဘွဲ့ရ ကာတွန်းဝိဇ္ဇာ ဦးဘဂျမ်းသည် မြန်မာကာတွန်း၊ သို့မဟုတ် ရုပ်ပြောင်လောကတွင် အထူးထင်ရှားကျော်ကြားသော လူရည်ချွန်တဦး ဖြစ်ပေသည်။ ခရစ် ၁၉၃၀ ပြည့်ကျော် နှစ်များမှစ၍ ကာတွန်း လောကတွင် လူသိများလာခဲ့ပြီးလျှင်၊ ဒုတိယ ကမ္ဘာစစ်မတိုင်မီ သုံးလေးနှစ်ခန့်မှ ကွယ်လွန်သည့် တိုင်အောင် မြန်မာနိုင်ငံတွင် အကျော်ကြားဆုံး လူကြိုက်အများဆုံးသော ကာတွန်း အနုပညာရှင်ကြီး ဖြစ်ခဲ့ပေရာ၊ ကာတွန်းဝိဇ္ဇာဟူ၍ ချီးကျူးခေါ်ဝေါ်ခဲ့ကြပေသည်။ ယခုထက် တိုင်အောင်ပင် ကာတွန်း လောကတွင် ပြောင်မြောက်သော ဦးဘဂျမ်း၏ လက်ရာများကို စံထားလျက်ရှိကြရ၍၊ ဦးဘဂျမ်း၏ အမည်သည် တိမ်မြုပ်ပျောက်ကွယ်မည် မဟုတ်ချေ။

မောင်ဘဂျမ်းသည် ၁၂၆၃ ခုနှစ် တပို့တွဲလဆန်း ၁၃ ရက်နေ့တွင် ညောင်တုန်းမြို့၌ ဖွားမြင်ခဲ့သည်။ ညောင်တုန်းမြို့မှ ပိုးကုန်သည် ဦးဖောင်၊ ဒေါ်မြစ်တို့၏ သားသမီး ၆ ယောက်အနက် မောင်ဘဂျမ်းသည် ပဌမမြောက်ဖြစ်သည်။ ငယ်စဉ်က ညောင်တုန်းမြို့ အင်္ဂလိပ်-မြန်မာ နှစ်ဘာသာသင် ကျောင်းတွင် စတင် ပညာသင်ကြားပြီးနောက် ရန်ကုန်မြို့ ကူရှင်ကျောင်းသို့ ရွှေ့ပြောင်း ပညာဆည်းပူးရာ၊ ထိုကျောင်းမှပင် ဆယ်တန်းအောင်ခဲ့သည်။ ခရစ် ၁၉၂၄ ခုနှစ်ခန့်တွင် ရန်ကုန်ကောလိပ်သို့ ရောက်၍၊ အိုင်အေ အထက်တန်းအထိ ဆက်လက် ပညာ ဆည်းပူးခဲ့လေသည်။

ထိုနောက် ကျောင်းမှ ထွက်ကာ၊ စက်ရေနွေးအိုး စစ်ဆေးရေး အရာရှိချုပ်ရုံး (ဗွိုင်လာ အင်စပက်တော်ချုပ်ရုံး) တွင် တနှစ်ကျော်ခန့် အလုပ် လုပ်သည်။ ယင်းကဲ့သို့ အစိုးရဌာန တခုဍ္ဍ ဝင်ရောက် အလုပ် လုပ်ကိုင်ရာ၊ မလွတ်လပ်မှု၊ ချုပ်ချယ်မှုများကို တွေ့ကြုံလာရသည်။ ထိုစဉ်အတွင်း ငယ်စဉ်က ဝါသနာပါခဲ့သော ကာတွန်းပညာကို လေ့လာလိုက်စားခဲ့သည်။ ထိုနောက် အစိုးရအလုပ်မှ နုတ်ထွက်လိုက်ကာ၊ ကာတွန်းများကို ရေးဆွဲပြီးလျှင် ထိုစဉ်က ရန်ကုန် ဂေဇက် သတင်းစာအယ်ဒီတာချုပ် မစ္စတာ စမိုင်းထံ တင်ပြသည်။ မစ္စတာ စမိုင်းသည် ကာတွန်း ၃ ပုံကို ငွေ ၆၀ ပေး၍ ယူလိုက်သည်။ ထိုအခါမှစ၍ ကိုဘဂျမ်းသည် ပန်းချီ အနုပညာဖြင့် အသက်မွေးရန် စိတ်ပိုင်းဖြတ်ပြီးသော် ကာတွန်းများ ရေးဆွဲခဲ့ရာ၊ အချို့ ကာတွန်းများကို ရန်ကုန်ဂေဇက်သတင်းစာက ထည့်သွင်း ဖော်ပြခဲ့လေသည်။

တနေ့တွင် မြန်မာ ကာတွန်းများကို ပဌမဆုံး ရေးဆွဲခဲ့သူ မစ္စတာ မာတင်ဂျုန်းနှင့် တွေ့ဆုံရသည်။ မာတင်ဂျုန်းသည် မီးရထားဌာန လက်ထောက်မင်းကြီး ဖြစ်၍ ပန်းချီ အနုပညာ အလွန်ဝါသနာ ပါပြီးလျှင် မိမိ၏ ပညာကိုလည်း ဝေငှ ဖြန့်ဖြူးပေးသူ ဖြစ်သည်။ ထိုပုဂ္ဂိုလ်ကြီးသည် ရေဆေးနှင့် အင်ချင်းပန်းချီတို့ကို နိုင်နင်း၍ ကာတွန်းဖက်တွင် လက်ရာပြောင်မြောက်သူ ဖြစ်သည်။ ထိုစဉ်က ဘားမားအတ်ကလပ်ခေါ် မြန်မာပြည် ပန်းချီအသင်းတွင်လည်း ဥက္ကဋ္ဌဖြစ်၍ အသင်းတိုက်တွင် ပန်းချီသင်တန်းများ ပေးနေသည်။ မာတင်ဂျုန်းက ကိုဘဂျမ်း၏ လက်စွမ်း လက်စကို တွေ့မြင်သဖြင့် ကိုဘဂျမ်းနှင့် တွေ့ဆုံနိုင်အောင် စီစဉ်ခဲ့ခြင်း ဖြစ်သည်။ မာတင်ဂျုန်းသည် ကိုဘဂျမ်း၏ လက်စွမ်းလက်စများကို တွေ့မြင်ပြီးဖြစ်၍ အလားအလာကို သိသဖြင့် မြေတောင်မြှောက်ပေးလိုသောကြောင့် မိမိ၏ သင်တန်းများသို့ လာ၍ တက်ရန် ခေါ်သည်။ ထိုကြောင့် ကိုဘဂျမ်းသည် ပန်းချီ သင်တန်းများကို တက်ရောက်ခဲ့ရာ၊ ထိုစဉ်က ထိုသင်တန်းများတွင် နောင်အခါ ကျော်ကြားသော အနုပညာသည်ကြီးများ ဖြစ်လာကြမည့် ကိုဘဇော်၊ ကိုအုန်းလွင်၊ ဆရာမြ၊ ကိုဟိန်စွန်းတို့လည်း တက်ရောက် ပညာဆည်းပူးလျက် ရှိကြလေသည်။

ဦးဘဂျမ်းသည် အနုပညာကို မြတ်နိုးသူဖြစ်သည်။ အနုပညာဖက်တွင် ကာတွန်းတမျိုးထဲတွင်သာ ဝါသနာ ထုံသည် မဟုတ်ချေ။ ဓာတ်ပုံရိုက်ခြင်း၊ဝတ္ထုရေးခြင်းတို့၌လည်း ဝါသနာပါသည်။ ဓာတ်ပုံပညာဖက်တွင် အတော်အတန်ခေါက်မိသည်။ "သုည" ဟူသော ကလောင်အမည်ဖြင့်လည်း ဝတ္ထုတို၊ ဆောင်းပါး စသည်တို့ကို ရေးသားခဲ့၍ "ညီမလေး" အမည်ဖြင့် လုံးချင်းဝတ္ထု ထုတ်ခဲ့ဘူးသည်။ နာမည်ကျော် ဟာသဝတ္ထုရေးဆရာ သော်တာဆွေက မိမိ၏ ဟာသဝတ္ထု



'ဦးဖျောက်ဆိပ်' နှင့် 'ချာရာဏသီ' မွေးထုတ်ပေးသည့်ကာတွန်းဆရာ ဦးဘဂျမ်း

အချို့တွင် ဦးဘဂျမ်း၏ စိတ်ကူး၊ အကြံဉာဏ်ပေးချက်များ ပါရှိကြောင်း ဖွင့်ဟဝန်ခံဘူးသည်။ ဦးဘဂျမ်းသည် ဘ လောက်တိုက် တခုလည်း တည်ထောင်ဘူး၍ ကိုယ်ပိုင် ကာတွန်းစာစောင်ကိုလည်း ထုတ်ဝေခဲ့ဘူးသည်။ ဟာသကာတွန်းများသာမက၊ ကြော်ငြာကာတွန်းများ၊ ပုံပြင်ကာတွန်း ရုပ်စုံများကိုလည်း ရေးသားခဲ့သည်။ ပဲရော့ ရုပ်ရှင်တွင် ပဌမဆုံး မြန်မာကာတွန်းရုပ်ရှင်"အသူရာ"နှင့်"ကြက်တောင်ကွ" ဇာတ်ကားများကို စီစဉ်ရေးသား ရိုက်ကူးခဲ့လေသည်။

ဒုတိယကမ္ဘာစစ်ကြိုခေတ်တွင် သူရိယသတင်းစာမှ "ဦးဖျောက်ဆိပ်" ကာတွန်းနှင့် စစ်ပြီးခေတ် ဟံသာဝတီ သတင်းစာမှ "ချာရာဏသီ" ကာတွန်းများကို အလွန် လူကြိုက်များသည်။ မြန်မာလူမျိုးတို့၏ စိတ်နေစိတ်ထား၊မြန်မာနိုင်ငံရေး အခြေအနေတို့ကို အထေ့အငေါ့ ကလေးများဖြင့် သရော်ထားခြင်း ဖြစ်ရာ၊ အဓိပ္ပါယ်ပေါ်လွင်၍ ထိလှ မိလှပြီးလျှင် အကွက်ဆိုက် ခွင်ကျဝင်လှသော ကာတွန်းများ ဖြစ်ကြပေသည်။ သူ၏ ကာတွန်းရုပ်များကပင် အသက်ပါပါနှင့် ရယ်ရွှင်ဖွယ်ရာ ကောင်းသည်။ အထူးသဖြင့် "ဦးဖျောက်ဆိပ်" သည် သတင်းစာဖတ် ပရိသတ်များ၏ ပျော်တော်ဆက် အချစ်တော် ကာတွန်းဇာတ်လိုက်တဦးဖြစ်ခဲ့သည်။ စစ်ကြိုခေတ် ကြီးပွားရေး မဂ္ဂဇင်းမှ ကိုပြူးနှင့် မပုံး"၊ စစ်ပြီးခေတ် ယုဒတီ ဂျာနယ်မှ "ဂွက်တော်"၊ ရှုမဝမဂ္ဂဇင်းမှ "လိပ်ကမ္ဘာ

မကြီး၊” “နှမမှုံရောင်း မောင်မှုံထောင်း”၊“နေကြာနန်းရှင်” ရောင်စုံ ကာတွန်းပုံပြင်တို့သည်လည်း ကလေးပရိသတ်များ၏ အသည်းစွဲများ ဖြစ်ကြသည်။

ဦးဘဂျမ်းသည် ငွေထက် စေတနာကို ပဓာနထားသူဖြစ်သည်။ သူ့အား အကူအညီ တောင်းလာလျှင် ငွေစကား မပြောဘဲ စေတနာစကားကိုသာ အမြဲ ပြောသူဖြစ်သည်။ အခကြေးငွေ အလွန်နည်းစွာယူသဖြင့် တပည့်များက မကြာခဏ ညည်းညူကြရသည်။ အစိုးရ ပြန်ကြားရေးဌာနက လစာငွေ ကောင်းကောင်းပေး၍ အမှုထမ်းရန် ခေါ်သော်လည်း ငြင်းပယ်ခဲ့သည်။ နိုင်ငံခြား၌ ပညာဆည်းပူးရန် အစိုးရက စေလွှတ်မည် ဆိုသော်လည်း လိုလိုချင်ချင် မရှိ ငြင်းဆန်ခဲ့လေသည်။

ဆရာ ဦးဘဂျမ်းကား လိုချင်လောဘ နည်းပါးသည်။ စိတ်အေးအေးထား၍ ပျော်ပျော် နေတတ်သူ ဖြစ်သည်။ ကာတွန်းများဖြင့်သာ သူတပါးကို ရွှင်ပြုံးစေသည် မဟုတ်၊ အပေါင်းအသင်း မိတ်ဆွေများအား ရွှင်မြူးသော စကားလုံးများဖြင့် ရယ်ပြုံးအောင်လည်းပြုနိုင်သူဖြစ်သည်။ ၁၂၉၈ ခုနှစ်တွင် ပဲခူးမြို့သူ မခင်ကြည်နှင့် လက်ဆက်ခဲ့သည်။

ဦးဘဂျမ်းနှင့် ဒေါ်ခင်ကြည်တို့၏ အိမ်ထောင်ရေးသည် လွန်စွာ ချမ်းမြေ့သာယာခဲ့သည်။ ဇနီးသည်အားလည်း



ဦးဘဂျမ်း၏ ‘ကြက်ခတောင်ကွ’ ကာတွန်းရုပ်ရှင်မှ ဇာတ်ကွက်ရှုခင်း

အလွန် ကြင်နာမြတ်နိုးသည်။ ၁၃၁၀ ပြည့်နှစ်တွင် ဒေါ်ခင်ကြည်သည် သားဦးယောကျ်ားကလေး မွေးဖွားပြီးနောက် မကြာမီ ကွယ်လွန်ရာ၊ ဦးဘဂျမ်းသည် အလွန်စိတ်ထိခိုက်သွားရှာသည်။ ထိုကြောင့် ဦးဘဂျမ်း၏ ဇာတ်လိုက်ကျော်ကြီး “ဦးဖျောက်ဆိပ်”သည် ရသေ့ဝတ်ဖြင့် “ရသေ့ကြီး ဦးဖျောက်ဆိပ်” ဖြစ်လာသည်။ ယင်းသို့ဖြင့် ဦးဘဂျမ်းသည် ဇနီးသည်အတွက် စိတ်ထိခိုက်ကာ သံဝေဂ ရနေကြောင်း သိရသည်။ သို့သော် မရှင်သည့် နှလုံးဖြင့်ပင် စာဖတ်ပရိသတ်များကို သူ၏ ကာတွန်းဇာတ်လိုက်များဖြင့် ရွှင်ပြုံးနိုင်အောင် ကြိုးစားဆောင်ရွက်ခဲ့သည်။

၁၉၄၇—၁၉၄၉ ခုနှစ်များတွင် ကရင်သောင်းကျန်းမှုများကြောင့် တိုင်းပြည်အလုံး ညှိုးချုံးနေကာ၊ ကျီးလန့်စာစားဖြစ်နေကြသည့် အချိန်တွင် နိုင်ငံတော်အစိုးရ၏ တောင်းပန်ချက်အရ၊ ပြည်သူလူထု စိတ်ဓာတ် မကျဆင်းရလေအောင် ဦးဘဂျမ်းသည် ကာတွန်းများ ရေးဆွဲ၍ တဖက်တလမ်းမှ ကူညီ ဆောင်ရွက်ပေးသည်။ ၁၉၅၀ ပြည့်နှစ်တွင် အမြတ်တော်ခွန်ကောက်ယူပုံကို မကျေနပ်သဖြင့်၊ ၃ လခန့် ကာတွန်းများ မရေးဆွဲဘဲ ထိုင်သပိတ် မှောက်နေခဲ့ရာ၊ စာ-နယ်ဇင်းများနှင့် စာဖတ်ပရိသတ်များ၏ တောင်းပန်မှုကြောင့် ကာတွန်းများ ပြန်လည် ရေးဆွဲကာ အများပြည်သူတို့အား ရွှင်ပြုံးစေခဲ့ပြန်လေသည်။

၁၃၁၄ ခုနှစ် တပို့တွဲလပြည့်ကျော်ခန့်တွင် အနာ့ပဆုပ်ပေါက်ကာ မကျန်းမမာဖြစ်လာပြီးလျှင် အရွယ်ကောင်း၊ နာမည်တက်ဆဲအချိန်၊ ထိုနှစ် တပေါင်းလဆန်း ၆ ရက် ဗုဒ္ဓဟူးနေ့ (၁၉၅၃ ခုနှစ် ဖေဖွာရီလ ၁၈ ရက်နေ့) တွင် ကွယ်လွန်အနိစ္စရောက်သွားရာ၊ မြန်မာနိုင်ငံ၏ အနုပညာရှင် သားကောင်းတဦး ဆုံးရှုံးခဲ့ရပေသည်။ ဦးဘကလေး (ရွှေတလေး) နှင့် ဦးဘဂျမ်းတို့ကဲ့သို့သော အနုပညာရှင်များ ဆုံးရှုံးရခြင်းသည် အစားထိုးရန် ခဲယဉ်းလှသော နိုင်ငံ၏သားကောင်းများ ဆုံးရှုံးရခြင်းပေတည်း။ နိုင်ငံတော် အစိုးရက ကွယ်လွန်ပြီး နောက်တနှစ်တွင် “အလင်္ကာကျော်စွာ” ဘွဲ့ဖြင့် ချီးမြှင့်လေသည်။ ဦးဘဂျမ်းနှင့် ဒေါ်ခင်ကြည်တို့မှ သားတယောက် ကျန်ရစ်လေသည်။

**ဘဇော်၊ ဦး** (ခရစ် ၁၈၉၁—၁၉၄၃)။ ။မြန်မာနိုင်ငံ၌ ထွန်းပေါက်ကျော်ကြားသော ပန်းချီကျော်ကြီးများ အနက် ဦးဘဇော်သည် တဦး အပါအဝင် ဖြစ်ပေသည်။ ဦးဘဇော်သည် အနောက်တိုင်း ပန်းချီစံနစ်ဖြင့် ရေးဆွဲရာ၌ ကျော်ကြားသူဖြစ်၍ ရေဆေး ရေးရာတွင် အထူးကျွမ်းကျင်ပြီးလျှင် အက်ချင်း (ကြေးပြားတွင် ဖယောင်းသုတ်၍ ကညစ်ဖြင့် ပုံရေးပြီးပုံနှိပ်ခြင်း) ပညာရပ်တွင် လက်ရာထူးခြားနုနယ်သပ်ရပ် လှသော အနုပညာရှင်ကြီး တဦးဖြစ်၏။ အနောက်တိုင်းပန်းချီစံနစ်ကို ဗိလတ်၌ သွားရောက် လေ့လာဆည်းဖူးခဲ့၍၊ မြန်မာပန်းချီလောကတွင် အနောက်တိုင်းစံနစ်ကို မျိုးစေ့ချပေးခဲ့သော ပန်းချီကျော်ကြီးလည်း ဖြစ်ပေသည်။

ဦးဘဇော်သည် သရက်မြို့၌ ၁၈၉၁ ခုနှစ်တွင် ဖွားမြင်၍

မန္တလေး၌ ကြီးပြင်းခဲ့သည်။ ငွေပန်းထိမ်ဆရာကြီး ဦးကြင်ဒေါ်စိန်းမြတို့၏ သား ဖြစ်သည်။ ဖခင်ဖြစ်သူသည် ရုပ်လုံး၊ ရုပ်တုနှင့်ပန်းထိမ်ပညာတွင်ကျွမ်းကျင်လက်မြောက်လှသဖြင့် ထိုစဉ်က မြန်မာပြည်ဘုရင်ခံများ၏ ဆုတံဆိပ်များကို ရရှိခဲ့သည်။ ဘမျိုးဘိုးတူသော မောင်ဘဇော်သည် ဖခင်ကဲ့သို့ပင် အနုပညာဖက်တွင် ဝါသနာပြင်းထန်ခဲ့သည်။ သို့သော် မောင်ဘဇော် ဝါသနာ ပါသောအနုပညာမှာ ပန်းချီ ဖြစ်သည်။ မန္တလေးမြို့ အက်(စ)၊ ပီ၊ ဂျီ ကျောင်းတွင် ပညာသင်ကြားနေစဉ်ကပင် မောင်ဘဇော်သည် ပန်းချီ လက်စလက်နများကို ပြလာသည်။ သို့သော် စာပေပညာဖက်၌လည်း ထက်မြက်သူ ဖြစ်သဖြင့် ခုနစ်တန်း စာမေးပွဲကို အက်(စ)၊ ပီ၊ ဂျီ ကျောင်းမှ အောင်၍ စကောလားရှစ်ပညာသင်ဆုကို ရခဲ့သည်။ ဆယ်တန်း စာမေးပွဲကို စိန့်ပီတာကျောင်းမှ အောင်၍ ထိုအခါတွင်လည်း စကောလားရှစ် ပညာသင်ဆု ရခဲ့ပြန်သည်။

ဆယ်တန်းစာမေးပွဲအတွက် ပုံဆွဲပညာကို ဖြေဆိုနေစဉ် မောင်ဘဇော်၏ ပန်းချီ လက်စွမ်းကို ပညာဝန်က တွေ့မြင်သွားရာ၊ ပုံဆွဲဆရာအလုပ်ကိုပင် ပေးအပ်သည်။ သို့သော် စာပေပညာကို ပို၍လိုလားနေချိန်ဖြစ်သဖြင့် စာပေပညာဆက်သင်နိုင်ရန် ထိုအလုပ်ကို ငြင်းပယ်ခဲ့သည်။ မောင်ဘဇော်သည် စိန့်ပီတာကျောင်းတွင် ပညာသင်နေစဉ်အတွင်း၊ ရန်ကုန်မြို့ လက်မှုအနုပညာပြပွဲများသို့ ပန်းချီကားများ ရေးဆွဲ တင်ပို့လေ့ရှိရာ၊ လူအများ၏ ချီးမွမ်းထောပနာပြုခြင်းကိုခံရသည်။ ဆုတံဆိပ်များလည်း ရရှိခဲ့လေသည်။



အိန္ဒိယနောက်တိုင်း ပန်းချီလက်ရာစွမ်းပြနိုင်သူ ပန်းချီကျော် ဦးဘဇော်

ဆယ်တန်း အောင်ပြီးနောက်၊ ရန်ကုန် ကောလိပ်တွင် ဆက်လက်ပညာသင်ရာ၊ အိုင်အေအထက်တန်းကို ၁၉၁၁ ခုနှစ်တွင် အောင်မြင်သည်။ ၁၉၁၂ ခုနှစ်၌ ကောလိပ်တွင် ပညာဆက်သင်နေစဉ်၊ အင်းစိန် အင်ဂျင်နီယာ ကျောင်းအုပ်ကြီး အေ၊ အာ၊ မောရစ်က မောင်ဘဇော်၏ ပန်းချီလက်စလက်နကို မြင်သဖြင့် ဘိုးဘိုင်မြို့ ပန်းချီကျောင်းသို့ ပညာတော်သင်သွားနိုင်ရန် စီစဉ်ပေးသည်။ သို့သော် မောင်ဘဇော်က ဘီအေအောင်ပြီးမှ ပညာတော်သင် သွားလိုသဖြင့် ဆိုင်းငံ့ ထားလိုက်သည်။ ယင်းသည့်နောက်တွင် ပဌမကမ္ဘာစစ်ကြီး ဖြစ်လာ၍ ပညာတော်သင်လွှတ်ရန်ကိစ္စသည်လည်း မေ့မေ့ပျောက်ပျောက် ဖြစ်သွားသည်။ ကိုဘဇော်သည်လည်း မကျန်းမမာ ဖြစ်လာသဖြင့် ကျောင်းမှထွက်လိုက်ရပြီးနောက်၊ စိန်ပေါ်ကျောင်းတွင် ပုံဆွဲဆရာအဖြစ် ဝင်ရောက် လုပ်ကိုင်ခဲ့လေသည်။

စိန်ပေါ်ကျောင်းတွင် ပုံဆွဲဆရာအဖြစ် ဆောင်ရွက်နေစဉ်၊ ဆရာဘဇော်၏ရေဆေး ဆီဆေးပန်းချီကားများသည် မြန်မာပြည် ဘုရင်ခံများ၏ ရွှေတံဆိပ်၊ ငွေတံဆိပ်ဆုများ ရရှိခဲ့သည်။ ၁၉၂၁ ခုနှစ်ခန့်က ဆရာဘဇော်သည် စစ်သူကြီးမဟာဗန္ဓုလ၏ပုံကို ရေးဆွဲပြီးနောက် စိတ်တိုင်းမကျသဖြင့် လှင့်ပစ်ထားလိုက်သည်။ သို့သော် ဇာတိမာန် တက်ကြွ ဖွယ်ရာကောင်းသော ထိုပန်းချီကားကို သူရိယသတင်းစာ အယ်ဒီတာ အဖွဲ့ဝင်တဦးဖြစ်သူ ကွယ်လွန်သူ ဦးစံလင်းက ကောက်ယူတွေ့ရှိသဖြင့် ဂျာမနီသို့ပို့၍ ပုံတူကား မြောက်မြားစွာ ကူးယူပုံနှိပ်ရောင်းချခဲ့ရာ၊ မျိုးချစ်စိတ် ထက်သန်သူ မြန်မာလူမျိုးအများအပြားတို့၏ နေအိမ်၌ ထိုပုံကို တွေ့ကြရသည်။ ဆရာ ဘဇော်သည် သူရိယ မဂ္ဂဇင်းနှင့် အခြား မဂ္ဂဇင်းများတွင် တကြောင်းဆွဲပုံများကိုလည်း ရေးဆွဲ ခဲ့လေသည်။

၁၉၂၇ ခုနှစ်တွင်မူ၊ ဆရာဘဇော်အား ပန်းချီ ပညာတော်သင်အဖြစ် အစိုးရက ငိလတ်သို့ စေလွှတ်သည်။ မြန်မာနိုင်ငံ၌ ဗြိတိသျှ ခေတ်တွင် ပညာတော်သင် သွားရခြင်းသည် ရတောင့်ရခဲလှသော အခွင့်အရေးကြီးတရပ် ဖြစ်သည်။ လန်ဒန်မြို့ ရှိုင်ယယ် ကောလိပ် အော့အတ် ခေါ်တော်ဝင် ပန်းချီကျောင်းကြီးတွင် ပညာဆည်းပူးခွင့် ရနိုင်ရန်လည်း မလွယ်ကူပေ။ ဦးဘဇော်သည် ယင်းသို့ ပညာတော်သင်သွားနိုင်ခွင့် ရခြင်းမှာ ထိုစဉ်က မီးရထားဌာနလက်ထောက် မင်းကြီးမစ္စတာ မာတင်ဂျုန်း၏ စီစဉ်ဆောင်ရွက်ပေးမှုကြောင့် ဖြစ်သည်။ မာတင်ဂျုန်းသည် ကိုယ်တိုင်ကလည်း ပန်းချီပညာရှင်တဦး ဖြစ်၍ အလားအလာရှိသော မြန်မာလူငယ် ပန်းချီပညာရှင်များကိုလည်း မြေတောင်မြှောက်ပေးခဲ့သူဖြစ်သည်။ ထိုအချိန်က ဘားမား အတ်ကလပ်ခေါ် မြန်မာပြည် ပန်းချီအသင်း၏ ဥက္ကဋ္ဌလည်း ဖြစ်သည်။ ထိုကြောင့် အလားအလာ အစွမ်းအစရှိသော

ဆရာဘဇော်အား ဗိလပ်သို့ ပညာတော်သင် သွားနိုင်အောင် စီစဉ်ပေးလေသည်။

ဆရာဘဇော်သည် လန်ဒန်မြို့ တော်ဝင် ပန်းချီကျောင်းကြီးတွင် ၂ နှစ်မျှ ပညာဆည်းပူးပြီးနောက် ထိုကျောင်း၌ပင် နောက်ထပ် ၂ နှစ် ဆက်လက် သင်ကြားခွင့် ပြုသော်လည်း ဆရာဘဇော်အတွက် အကြောင်း မညီညွတ်၍ တနှစ်မျှသာ ဆက်လက် သင်ယူပြီးနောက် ၁၉၃၀ ပြည့်နှစ် စက်တင်ဘာလတွင် မြန်မာပြည်သို့ ပြန်လာသည်။

မြန်မာပြည်သို့ ပြန်ရောက်ပြီးနောက် ဆရာဖြစ်သင် ကောလိပ်၌ အထက်တန်း ပန်းချီ နည်းပြဆရာအဖြစ် ဆောင်ရွက်သည်။ ယင်းသို့ ဆောင်ရွက်နေဆဲ ၁၉၃၃ ခုနှစ်ခန့်တွင် လေငန်း ရောဂါခွဲကပ်လာသဖြင့် အလုပ်မှ နုတ်ထွက် အနားယူလိုက်ရသည်။ ထိုရောဂါဆိုးကြောင့် မိမိ ထွန်းထွန်းပေါက်ပေါက် ဖြစ်ခဲ့သောပညာရပ်ကို ကောင်းစွာ ဆောင်ရွက်ခြင်း မပြုနိုင်တော့ပေ။ ၁၉၄၃ ခုနှစ် ဂျပန်ခေတ်တွင်မူ ပန်းချီပညာကို အပြီးအပိုင် လက်လွှတ်ရကာ လေငန်းရောဂါဖြင့်ပင် ရန်ကုန်မြို့၌ အနိစ္စရောက်သွားလေသည်။

ဦးဘဇော်သည် လူပျိုကြီး ဖြစ်သဖြင့် ဇနီး သား သမီး မကျန်ခဲ့ပေ။

ဦးဘဇော်သည် ပင်ကိုယ်အားဖြင့်ငင်း၊ ပုံရေးရာ၌ငင်း အလွန် စိတ်ရှည်သည်။ စကား ဖွဲ့ဖွဲ့နွဲ့နွဲ့ ပြောတတ်သည်။ မိမိအား ဖော်ကားသည်ဟု ထင်လျှင်မူ အလွန်စိတ်ကြီး၍ အထက်လူကြီးကိုပင် ကြောက်ရွံ့ခြင်းမရှိဟု ဆိုကြသည်။ ယာလက် ကောင်းစွာမစွမ်းသန်သဖြင့် အပေါ် အင်္ကျီအောက်တွင် အမြဲတမ်း ပုံးထားပြီးလျှင် ဝဲလက်ဖြင့်ပင် ပုံဆွဲခြင်း၊ ခေါင်းပေါင်း ပေါင်းခြင်း စသည်တို့ကို ပြုလုပ်လေသည်။

ဆရာဦးဘဇော်သည် လေငန်းရောဂါ မဖြစ်မီကပင် ပန်းချီကားများကို အမြောက်အမြား ရေးဆွဲလေ့မရှိပေ။ လေငန်းရောဂါဖြစ်ပြီးနောက်တွင် ဂျပန်ခေတ်ဦးလောက်၌ ပြန်၍ပုံဆွဲရန်ကြိုးစားသော်လည်း ကလေးသူငယ်များ၏လက်ရာကဲ့သို့ ဖြစ်နေသည်ကို ရင်နင့်စဖွယ်ရာတွေ့ရသည်။ထို့ကြောင့် ဆရာဦးဘဇော်၏ လက်ရာကောင်း ပန်းချီကားများကို ယခုအခါ တွေ့နိုင်ရန် ခဲယဉ်းလှပေသည်။

**ဘဥာဏ်၊ဦး၊**(မြန်မာ ၁၂၅၉–၁၃၀၇ ခန့်)။ ။အနောက်တိုင်း ပန်းချီစံနစ်ဖြင့် ရေးဆွဲရာတွင် အနောက်တိုင်း ပန်းချီကျော်ကြီးများ၏ အဆင့်အတန်းကိုမှီသော မြန်မာ ပန်းချီကျော်ကြီးကား ဦးဘဥာဏ်ပေတည်း။ ဦးဘဥာဏ်သည် မြန်မာ့ ပန်းချီလောက၏ ရှေ့ဆောင် လမ်းပြကြီး တဦးလည်း ဖြစ်သည်။ ဦးဘဥာဏ်၏ ခေတ်မတိုင်မီက မြန်မာ ပန်းချီလောကသည် ပန်းချီနှင့် ပိုစတာကို မခွဲခြားနိုင်သေးသော အခြေအနေ၊ အလှသက်သက်သာ မှုန်းခြယ်



မြန်မာ့ ပန်းချီလောက၏ ရှေ့ဆောင်လမ်းပြ ဦးဘဥာဏ်

တတ်သေးသော အခြေအနေတွင် ရှိနေခဲ့သည်။ ဦးဘဥာဏ်၏ ရှေ့ဆောင်လမ်းပြမှုကြောင့် မြန်မာပန်းချီလောကတွင် ဆီဆေး၊ ရေဆေး၊ မင်၊ ခဲ၊ အက်ချင်း၊ ပိုစတာ၊ ဒီဇိုင်းစသည်တို့ကို ခွဲခြား နားလည်ကာ သရုပ်ခွဲ ရေးဆွဲနိုင်အောင် တိုးတက်လာကြသည်။ စံပြပုံများ ရေးဆွဲခြင်း၊ သဘာဝကို လေ့လာရေးဆွဲခြင်း တို့ကိုလည်း ဆောင်ရွက်လာကြသည်။ ဦးဘဥာဏ်သည် ပြည်ပိုင် ဗြိတိသျှ အစိုးရက နိုင်ငံခြားသို့ အစိုးရစရိတ်ဖြင့် ပညာတော်သင်များ ရှားရှားပါးပါး စေလွှတ်နေသည့် ခေတ်တွင် အင်္ဂလန်ပြည် စသော အနောက်တိုင်းသို့ ၂ ကြိမ်တိုင်အောင် ပညာတော်သင် အဖြစ် သွားရောက်၍ ပန်းချီပညာကို လေ့လာဆည်းပူး နိုင်ခဲ့သော ပန်းချီပါရမီရှင်ကြီး တဦးဖြစ်ပေသည်။

ပန်းချီပါရမီရှင် ဦးဘဥာဏ်၏ မိဘများမှာ မအူပင်ခရိုင်၊ ပန်းတနော်မြို့နေ ဦးဘအိုနှင့် ဇနီး ဒေါ်ညိုတို့ ဖြစ်ကြသည်။ ဦးဘအိုနှင့် ဒေါ်ညိုတို့တွင် (၁) မောင်ဘကြည်၊ (၂) မောင်ဘဟန်၊ (၃) မောင်ဘစံ၊ (၄) မောင်ဘဥာဏ်၊ (၅)မမြ၊(၆) မောင်ဘဖန်ဟူ၍ သားသမီး ၆ ယောက်ရှိရာ၊ ဦးဘဥာဏ်သည် စတုတ္ထမြောက်သား ဖြစ်၍မြန်မာသက္ကရာဇ် ၁၂၅၉ ခုနှစ် ပြာသိုလဆန်း ၃ ရက်နေ့တွင်ဖွားမြင်သည်။

ငယ်စဉ်က ပန်းတနော်မြို့ ဗုဒ္ဓဘာသာကျောင်း၌ စာပေပညာ သင်ကြားဆည်းပူးသည်။ သို့သော် မောင်ဘဥာဏ်သည် ကျောင်းနေစဉ်ကပင် စာပေသင်အံ လေ့ကျက်မှုထက် ရုပ်ပုံဆွဲခြင်းကို ပို၍ စိတ်သန်ပြီးလျှင် ပန်းချီပညာ အဆို



ပန်းချီကျော်ဦးဘဉာဏ်၏ "မြစ်ဆိပ်ကမ်းဝယ်" ဆီဆေးပန်းချီကား

ပါရမီ ပါကြောင်းကို ထိုစဉ်ကပင် အရိပ်အရောင် ပြခဲ့လေသည်။

ကျောင်းမှထွက်လျှင် ပန်းတနော်မြို့ရှိ ပန်းပုနှင့် စပ်ဆရာ ဦးဘိုးမောင်ထံတွင် မိမိဝါသနာနှင့် နီးစပ်သဖြင့် အလုပ်သင် ဝင်ရောက် လုပ်ကိုင်သည်။ မောင်ဘဥာဏ်သည် ဦးဘိုးမောင်ထံမှ ရှေးမြန်မာ ပန်းချီရေးဆွဲနည်းတို့ကို လေ့လာဆည်းပူးသည်။ ပန်းချီပါရမီ ပါလာသူဖြစ်သဖြင့် မောင်ဘဥာဏ် ရေးဆွဲသော ပန်းချီကားများသည် မူလပုံပန်းသွင်ပြင် လက္ခဏာတို့ကို တထပ်တည်း ပေါ်လွင်စေသည်။ ထိုကြောင့် ထိုစဉ်က ဘုန်းတော်ကြီးများ၏ ပုံတူကား ရေးဆွဲရာ၌ မောင်ဘဥာဏ်၏ လက်ရာကို အထူးတလည် လူကြိုက်များခဲ့သည်။

ယင်းသို့ ဦးဘိုးမောင်ထံတွင် လုပ်ကိုင်နေစဉ် တနေ့တွင် မအူပင်မှ အင်္ဂလိပ်အရေးပိုင်သည် နယ်လှည့်ယင်း ပန်းတနော်သို့ ရောက်လာသည်။ ထိုအရေးပိုင်သည် ပန်းချီပညာကို ဝါသနာပါ၍ လေ့လာလိုက်စားသူ ဖြစ်သည်။ ပန်းချီကားများ ရောင်းသောဆိုင်တွင် မောင်ဘဥာဏ်၏ လက်ရာများကို တွေ့လျှင် လက်စွမ်းလက်စကို သဘောကျသဖြင့် ခေါ်ယူတွေ့ဆုံသည်။ အရေးပိုင်က မိမိရှေ့တွင်ပင် မြန်မာ နရားရုပ်ကို မောင်ဘဥာဏ်အား ရေးဆွဲစေရာ မောင်ဘဥာဏ်က ရှေးရိုး မြန်မာပန်းချီစံနစ်အတိုင်း ကျကျနန ရေးဆွဲပြသည်။ ထိုအခါ အရေးပိုင်သည် အလွန်နှစ်ခြိုက် သဘောကျသွားကာ ရွှေဒင်္ဂါးများ ဆုချသည်။

ထိုအရေးပိုင်သည် မောင်ဘဥာဏ်အား ရွှေဒင်္ဂါး ဆုချရုံဖြင့် မကျေနပ်သေးပေ။ ပန်းချီအလားအလာရှိသော မြန်မာလူငယ် မောင်ဘဥာဏ်ကို မြေတောင် မြှောက်ပေးလိုသည်။ ထိုကြောင့် မောင်ဘဥာဏ်အား အစိုးရ အထောက်အပံ့ဖြင့် မော်လမြိုင်မြို့ ပုံဆွဲဆရာဖြစ်သင်ကျောင်းသို့ သွားရောက်သင်ကြားရန် စီစဉ်ပေးလေသည်။

မောင်ဘဥာဏ် မော်လမြိုင်မြို့သို့ ရောက်လာသောအခါ၊ စိန့်မက်သယူး ကျောင်းမှ ကျောင်းအုပ်ကြီးသည် မစ္စတာ အီး၊ ဂျီ၊ အင်၊ ကင့်ချ်ဖြစ်သည်။ မစ္စတာကင့်ချ်သည် ပန်းချီအနုပညာရှင် တဦးဖြစ်၍၊ ပန်းချီအလားအလာ ရှိသော မြန်မာ လူငယ်ကလေးများကို မြေတောင် မြှောက်ပေးနေသော စေတနာရှင်တဦးလည်း ဖြစ်လေသည်။ နောင်အခါ မြန်မာပြည် ပန်းချီအသင်းကို တည်ထောင်ခဲ့သူလည်း ဖြစ်သည်။ မစ္စတာကင့်ချ်သည် မောင်ဘဥာဏ်၏ လက်စ လက်နများကို တွေ့ရသောအခါ၊ နှစ်ခြိုက် အားရခြင်းဖြစ်၍ မိမိကျောင်းသို့ ပြောင်းရွှေ့စေပြီးလျှင် မောင်ဘဥာဏ်အား၊ ပန်းချီပညာကို ဆက်လက် သင်ကြား ပေးသည်သာမက အင်္ဂလိပ်စာကိုပါ သင်ပေးလေသည်။ ထိုစဉ်က မောင်ဘဥာဏ်သည် စာသင်ခန်း နံရံတွင် ပန်းဘဲမောင်တင့်တယ် ဇာတ်ထုပ်နှင့် ကင်းထောက်လုလင် ရုပ်ပုံများကို ဆေးရောင်စုံခြယ်လှယ်ရေးဆွဲခဲ့ရာ၊ မြင်တွေ့သူအပေါင်းတို့ များစွာ နှစ်ခြိုက် သဘောတွေ့ကြလေသည်။

ပန်းချီပါရမီ ပါလာသော မောင်ဘဥာဏ်သည် မိမိအား ကူညီ ဝိုင်းဝန်း ပြုစုပျိုးထောင်ပေးမည့် ပုဂ္ဂိုလ်များကို မိမိကိုယ်တိုင်က မကြိုးစားရဘဲ ဆက်ကာဆက်ကာ တွေ့ရသည်။ လန်ဒန်မြို့မှ မစ္စတာ ဒရေးလန်ကတ်စတာ အမည်ရှိ ပုဂ္ဂိုလ်တဦးသည် မြန်မာပြည်ဘုရင်ခံ၏ ဧည့်သည်တော်အဖြစ် ရန်ကုန်မြို့သို့ရောက်ရှိလာရာ၊ မြန်မာပြည်အတွင်း လှည့်လည်သွားလာစဉ် မော်လမြိုင်မြို့သို့ ရောက်လာသည်။ ထိုအခါ စိန့်မက်သယူးကျောင်းမှ မောင်ဘဥာဏ်၏ လက်ရာများကို တွေ့မြင်သွားသည်။ ရန်ကုန်မြို့သို့ ပြန်ရောက်သောအခါ ဘုရင်ခံအား မောင်ဘဥာဏ်၏ ပန်းချီအလားအလာ ရှိပုံကို ပြောပြသွားသည်။ ထိုကြောင့် ဘုရင်ခံသည် မောင်ဘဥာဏ်၏ လက်ရာများကို ကိုယ်တိုင် ကြည့်ရှုပြီးနောက် မောင်ဘဥာဏ်အား ရန်ကုန်သို့ ပြောင်းရွှေ့လုပ်ကိုင်ရန် စီစဉ်ပေးသည်။ ထိုအခါ မစ္စတာ ကင့်ချ်ကလည်း မောင်ဘဥာဏ်အား ရန်ကုန်ကောလိပ်မှ ပါမောက္ခ အီး၊ အင်၊ ဝပ်နှင့် ဆက်သွယ်ပေးသည်။ ပါမောက္ခ ဝပ်သည်လည်း ပန်းချီအနုပညာရှင်ကြီးတဦးဖြစ်၍၊ ဘားမားအတ်ကလပ်ခေါ် မြန်မာပြည်ပန်းချီအသင်းကို တည်ထောင်ခဲ့သူများတွင် တဦးအပါအဝင်ဖြစ်လေသည်။

ယင်းသို့ဖြင့် ကိုဘဥာဏ်သည် (ခရစ် ၁၉၁၇–၁၉ ခုနှစ်ခန့်တွင်)ရန်ကုန်သို့ ရောက်ရှိလာပြီးသော် ရန်ကုန် အစိုးရကျောင်းတွင် ပုံဆွဲ ဆရာအဖြစ် ဆောင်ရွက်ရသည်။ ထိုနောက် ပါမောက္ခ ဝပ်ထံတွင် ဆေးရောင်ကိုင်နည်း စသည်တို့ကို ထပ်မံဆည်းပူးသည်။ ထိုအတောအတွင်း ကိုဘဥာဏ် ရေးဆွဲသော ပန်းချီကားများကို ရောဝတီ မီးသင်္ဘောကုမ္ပဏီမှ သယ်ယူပို့ဆောင်ရေးအရာရှိ ကပ္ပတိန် ဗတ်စမင်က ဝယ်ယူ ချီးမြှင့်သည်။ ကပ္ပတိန် ဗတ်စမင်သည်လည်း ပန်းချီအနုပညာကို မြတ်နိုးသူဖြစ်၍ မြန်မာပြည် ပန်းချီအသင်းကို တည်ထောင်ပေးသူတဦး ဖြစ်လေသည်။

ကိုဘဥာဏ်၏ လက်ရာများသည် တိုးတက် လာလေရာ၊ ထိုစဉ်က ဂျူဗလီဟောတွင် ကျင်းပလေ့ရှိသော မြန်မာပြည် လက်မှုပညာပြပွဲများသို့ တင်သွင်းပြသနိုင်ခဲ့၍၊ ဆုတံဆိပ်များစွာ ရရှိခဲ့သည်။ ၁၉၂၂ ခုနှစ်တွင် ပါမောက္ခဝပ်၏ တိုက်တွန်းထောက်ခံချက်အရ မြန်မာပြည်အစိုးရက ကိုဘဥာဏ်အား ပန်းချီပညာတော်သင် အဖြစ် ဗိလတ်သို့ စေလွှတ်လေသည်။

ဗိလတ်တွင် ဦးစွာ၌ ရှိုင်ရယ်ကောလိပ်အော့အတ် ပန်းချီတော်ဝင် ကျောင်းကြီးတွင် အက်ချင်း (ကြေးပြားပေါ် ပုံထွင်းခြင်း) ပညာကို ၁ နှစ်နှင့် ၆ လခန့် သင်ကြား

သည်။ ရှိုင်ရယ် အက်ချာခေါ် ဘွဲ့လက်မှတ် ရခဲ့သည်။ ထိုနောက် ပန်းချီကျော်ကြီး တဦးဖြစ်သော မစ္စတာ ဖရင့် စပင်းလပ် စပင်းလပ်ထံတွင် သင်ကြားဆည်းပူးသည်။ ထိုစဉ်အခါကပင် ကိုဘဥာဏ်၏ လက်ရာများသည် ဗြိတိသျှ ပန်းချီပြပွဲကြီးများတွင် တင်သွင်း ပြသနိုင်လောက်အောင် အဆင့်အတန်း တိုးတက်လာသည်။ ဗိလတ် ပန်းချီပြပွဲကြီးများတွင် တော်ရုံအဆင့်အတန်းရှိသော ပန်းချီကားများ ပြ၍ မသွင်းနိုင်ချေ။

၁၉၂၄ ခုနှစ်တွင် ပညာတော်သင် နှစ်စေ့၍ မြန်မာပြည်သို့ ပြန်လာပြီးနောက် ရန်ကုန် အစိုးရကျောင်းတွင် ပြန်လည် အလုပ် လုပ်သည်။ သို့သော် ဆရာ ကိုဘဥာဏ်သည် ဗိလတ်၌ ၃ နှစ်ကျော်ခန့် သင်ကြား ဆည်းပူးခဲ့ရသော ပန်းချီပညာကို အားမရ၊ တင်းမတိမ်နိုင်သေးပေ။ အနောက်တိုင်း ပန်းချီစံနစ်များကို အနောက်တိုင်း၌ ဆက်လက်ဆည်းပူးလိုသေးသည်။ ထို့ကြောင့် အထက်လူကြီးများကလည်း ထောက်ခံသဖြင့် ကိုဘဥာဏ်သည် နယ်လှည့်ပန်းချီ ပညာတော်သင်အဖြစ် ဥရောပနိုင်ငံများသို့ သွားရောက်ရန် အစိုးရက ခွင့်ပြုလိုက်လေသည်။

ယင်းသို့ဖြင့် ဒုတိယအကြိမ် အနောက်တိုင်းသို့ လာခဲ့ပြန်ရာ ယခုတကြိမ်တွင်မူ ဆွစ်ဇာလန်၊ ဣတလီ၊ စပိန်၊ ပြင်သစ်၊ ဟော်လန်၊ ဗဲလဂျီယမ်၊ ဂျာမနီ စသော အနောက်တိုင်း နိုင်ငံကြီးများသို့ လှည့်လည်ပြီးလျှင် အနောက်တိုင်း ပန်းချီစံနစ် အမျိုးမျိုးကို လေ့လာ ဆည်းပူးခဲ့လေသည်။ ထိုနိုင်ငံများ၌ လှည့်လည် လေ့လာဆည်းပူးပြီးမှ လန်ဒန်သို့ လာခဲ့သည်။ လန်ဒန်သို့ ရောက်သည့်အချိန်တွင် ၁ နှစ်နှင့် ၆ လမျှ ရှိခဲ့ပြီဖြစ်၍၊ မြန်မာပြည် အစိုးရက ထောက်ပံ့ကြေးပေးရန် ကန့်သတ်ထားသော ကာလအပိုင်းအခြား စေ့နေပြီ ဖြစ်သောကြောင့် ထောက်ပံ့ကြေး ရပ်စဲ လိုက်လေသည်။

ထောက်ပံ့ကြေး ရပ်စဲ လိုက်သော်လည်း ဗိလတ်တွင် သောင်တင်နေသော ကိုဘဥာဏ်က စိုးရိမ်ပူပန်ခြင်းမရှိပေ။ မိမိပညာကို အားကိုး၍ မိမိဝင်ငွေနှင့်ပင် ဗိလတ်၌ ဆက်လက် ပညာဆည်းပူးရန် စိတ် ပိုင်းဖြတ်လိုက်သည်။ ထို့ကြောင့် တဖက်မှ ပန်းချီကားများ ရေးဆွဲရောင်းချယင်း တဖက်မှ ပန်းချီပညာကို ဆက်လက် ဆည်းပူးသည်။ ထိုအချိန်က ပညာဆက်လက် ဆည်းပူးသော ကျောင်းမှာ ယဲလိုးဒိုး ပန်းချီအနုပညာကျောင်း ဖြစ်သည်။ ဗိလတ်ကဲ့သို့ ပန်းချီအနုပညာသည် ထိပ်ထိပ်ကြဲများ ပေါများသည့် ဒေသတွင် တန်ရုံ ပန်းချီအခြေခံဖြင့် အသက်မွေးဝမ်းကျောင်းနိုင်ရန် ခဲယဉ်းလှသည်။ ထိုစဉ်က ဗိလတ်ဘွင် ကိုဘဥာဏ်၏ ပန်းချီကားများသည် တန်ဖိုး အတော်အတန် ရရှိခဲ့ပေသည်။ ယင်းကဲ့သို့ ပန်းချီပညာသည် ပေါများသော ဗိလတ်တွင် မိမိပညာဖြင့် အသက်မွေးနေနိုင်သည်ကို ထောက်၍ ကိုဘဥာဏ်၏ ပန်းချီ အဆင့်အတန်း မည်မျှ မြင့်သည်ကို ခန့်မှန်းနိုင်ပေသည်။

ယင်းသို့ဖြင့် ဗိလတ်တွင် ၄ နှစ်နှင့် ၆ လခန့်ကြာခဲ့သည်။ ထိုအတွင်း တော်ရုံ ပန်းချီကားများကို အနား သီချန်ပင် လက်မခံသည့် အလွန်ကြီးကျယ်သော နယူးလင်တန်ပန်းချီ ပြတိုက်မှ ပြပွဲကြီးတွင် ကိုဘဥာဏ်၏ လက်ရာများဝင်ရောက်ယှဉ်ပြိုင် ပြသနိုင်ခဲ့သည်။ ဤသို့ဖြင့် မြန်မာလူမျိုး တဦး၏ ပန်းချီလက်ရာသည် အနောက်တိုင်း ထိပ်တန်း ပန်းချီလက်ရာများနှင့် ယှဉ်ပြိုင် လိုက်နိုင်အောင် ကိုဘဥာဏ်က စွမ်းဆောင်ကာ မြန်မာ့ဂုဏ်ကို ဆောင်ခဲ့သည်။ အင်ပိုင်ယာမားကက်တင်းဘုတ်ခေါ် အဖွဲ့ကြီးက ကြီးမှူးသည့် ပိုစတာပြိုင်ပွဲကြီးတွင်လည်း ကိုဘဥာဏ်သည် ပဌမ စွဲခဲ့လေသည်။ ထို့ကြောင့် ကိုဘဥာဏ်၏ ဆရာ ဖြစ်သော ပန်းချီကျော်ကြီး မစ္စတာ ဖရင့် စပင်းလပ် စပင်းလပ်က မိမိထံပညာ ဆည်းပူးကြသည့် တပည့်များအနက် မောင်ဘဥာဏ်သည် ပန်းချီပါရမီ အထူးချွန်ဆုံး ဖြစ်ပါသည်ဟု ခြီးကျူး၍ လက်စွပ်တကွင်း ဆုချခဲ့လေသည်။

ကိုဘဥာဏ် ဗိလတ်တွင် ရှိစဉ်က၊ ပန်းချီအနုပညာနှင့်စပ်လျဉ်းသော အောင်လက်မှတ် အများအပြား ရရှိခဲ့သည်။ ရရှိခဲ့သော လက်မှတ်များအနက် ထူးခြားသော လက်မှတ်တစောင်လည်း ပါဝင်သည်။ ထိုလက်မှတ်မှာ ပဥ္စမမြောက် ဂျော့ဘုရင်မင်းမြတ်က ဥက္ကဋ္ဌ အိမ်ရှေ့ဥပရာဇာ ဝေလမင်းသားက အတွင်းရေးမှူးအဖြစ် ဆောင်ရွက်သော လူသားအချင်းချင်းကူညီ ယိုင်းပင်းရေး–တော်ဝင် အသင်းကြီးမှ လက်မှတ်ဖြစ်သည်။ ထိုလက်မှတ်ကို ရခဲ့ခြင်းမှာ တခါသော် ကိုဘဥာဏ်သည် တင်းမြစ်ထဲရှိ ကုန်တွဲကြီးများ အပေါ်တွင် ပန်းချီဆွဲနေစဉ် ရေထဲသို့ တစုံတခုကျသွားသံ ကြားသဖြင့်၊ ပန်းတနော်သား ရေကူး ကျင်လျင်သူ ပီပီ၊ ရေထဲ ခုန်ဆင်းကယ်လိုက်ရာ၊ ကယ်ဆယ်မိသူမှာ ဂျော့ဘုရင်၏အနွယ်တော်တဦးဖြစ်နေကြောင်းနောက်မှသိရသည်။ ထို့ကြောင့် ဂျော့ဘုရင် မင်းမြတ်ကိုယ်တိုင် ညွှန်ခံပွဲကျင်းပပြီးလျှင်၊ ထိုလက်မှတ်ကို ချီးမြှင့်ခဲ့သည်။ သို့သော် ကိုဘဥာဏ်သည် ထိုလက်မှတ်ကိစ္စအတွက် ဝင့်ကြွားခြင်း မရှိခဲ့ချေ။

ဦးဘဥာဏ်သည် ဗိလတ်တွင် ကျေနပ်လောက်အောင် ပန်းချီပညာကို ဆည်းပူးပြီးနောက် မြန်မာပြည်သို့ ၁၉၃၀ ပြည့်နှစ် ဇွန်လတွင် ပြန်လည် ရောက်ရှိလာသည်။ ပြန်ရောက်ပြီးနောက်တွင် အင်္ဂလိပ်အစိုးရခေတ်၌ ပဌမဆုံး မြန်မာလူမျိုးဘုရင်ခံဖြစ်သူ ဆာဂျေအေမောင်ကြီးက ဘုရင်ခံအိမ်တော်ဘွင် ဦးဘဥာဏ်၏ ပန်းချီကားပြပွဲကို ကျင်းပပေးသည်။ ထိုပြပွဲတွင် ပန်းချီကားများကို ထိုစဉ်က မြန်

မာပြည်တွင် မကြားဘူးသေးသောဈေးနှုန်းများဖြင့် ရောင်း ချခဲ့ရလေသည်။

ထိုနောက်တွင် မြန်မာပြည် ပန်းချီ အသင်းတွင်သာ မက ဒီးဒုတ်ဦးဘချို့တို့နှင့် တွဲဖက်ကာ အမျိုးသား ပန်းချီ အသင်းကိုလည်း ဖွင့်လှစ်တည်ထောင်ပြီးလျှင် မိမိ၏ ပန်းချီ ပညာကို အယုတ်အလတ် အမြတ်မရွေး ပို့ချ သင်ကြားပေး၍ ပညာဖြန့်ဖြူးသည်။ ပန်းချီကားများကိုလည်း ရေးဆွဲရောင်း ချခဲ့ရာ၊ ထိုခေတ် ထိုအခါက ဝင်ငွေအလွန်ကောင်းသူတဦး ဖြစ်ခဲ့သည်။ သို့သော် ဦးဘဉာဏ်၏လက်ရာ ပန်းချီကားများ ကို ဝယ်ယူကြသူများမှာ များသောအားဖြင့် မျက်နှာဖြူ များ၊ တရုပ်သဌေးများ စသော နိုင်ငံခြားသားများသာ များပြား လေသည်။

ယင်းသို့ နေထိုင်လာယင်း ဆွေမျိုးကိစ္စ အမှုပွေ၍ တရား တပေါင် ဖြစ်ရသဖြင့် စိတ်ထိခိုက်လာပြီးနောက် လူကြီး များ၏ တိုက်တွန်းချက်အရ ဆရာဖြစ်သင်ကောလိပ် ပန်းချီ ဖက်ဆိုင်ရာတွင် ဝင်ရောက် အမှုထမ်းသည်။ ဦးဘဉာဏ်သည် အသက် ၄၁ ကျော်အထိ လူပျိုကြီးအဖြစ် နေလာပြီးမှ အိမ်ထောင်ပြုသည်။ ဦးဘဉာဏ်၏ ဇနီးသည်မှာ ဒေါ်စိန်ခိုင် ဖြစ်လေသည်။

ဆရာဖြစ်သင်ကောလိပ်၌ အမှုထမ်းနေစဉ် မြန်မာပြည်၌ မပေါ်ပေါက်ဘူးသေးသော နံရံရေးပန်းချီခန်းကို စေတနာ ဝန်ထမ်းရေးဆွဲ ပေးသည်။ အေးအေးဆေးဆေး နားနား နေနေ ရေးဆွဲခြင်းဖြစ်၍ ၃ နှစ်ကြာမှ ပြီးစီးသည်။ ထိုပန်း ချီခန်းကြီးကို ရေးဆွဲနေစဉ် ထိုစဉ်က မြန်မာပြည်ဘုရင်ခံ ဆာအာခီဗော ကော့ခရိန်းနှင့် အခြားမျက်နှာဖြူ အထက် တန်းအရာရှိကြီးများ မကြာခဏ လာရောက်ကြည့်ရှုကြ သည်။ ဘုရင်ခံ အိမ်တော်၌ ထားရန် ဆီဆေးပန်းချီကား ကြီး ၄ ချပ်ကိုလည်း ရေးဆွဲပေးသည်။ ဆရာဖြစ်သင် ကောလိပ်မှ နံရံပန်းချီခန်းသည် ဒုတိယကမ္ဘာစစ်အတွင်း က ထိုအဆောက်အအုံကြီး ဗုံးထိပျက်စီးရာ၌ ပါသွား သည်။ ဘုရင်ခံအိမ်တော်အတွက် ပန်းချီကားကြီးများကို မူ ယခုထက်တိုင် သမတအိမ်တော်၌ တွေ့ရသေးသည်။

ဂျပန်ခေတ်၌ ဇနီးနှင့်အတူ မော်လမြိုင်သို့သွား၍ နေ သည်။ သို့သော် အဓိပတိဒေါက်တာဘမော်၏အစိုးရ အမိန့် ဖြင့် ဟယ်လပင်လမ်း(ယခု ပြည်ထောင်စုရိပ်သာလမ်း)တွင် အစိုးရ ပန်းချီသိပ္ပံ လာရောက်ဖွင့်လှစ်၍ ဆောင်ရွက်ပေး ရသည်။ ဂျပန်ခေတ်တလျှောက်လုံး ပန်းချီဆွဲသည်ထက် ပု တီးစိပ်နေသည်က များလေသည်။

၁၉၄၅ ခုနှစ်တွင် မဟာမိတ်တပ်များ မြန်မာပြည်ထဲသို့ ပြန်ဝင်စ၊ တော်လှန်ရေး အစပြုနေသော အချိန်တွင် မော် လမြိုင်ဖက်၌ ကျန်ရစ်သောဇနီးနှင့် သားသမီးများကို သွား ၍ခေါ်ယူယင်း မော်လမြိုင်ကတိုးရွာတွင် ဖျားနာ၍ အနိစ္စ ရောက်သွားလေရာ၊ မြန်မာ့သားကောင်းတဦးကို စပ်ကူး မတ်ကူးကာလတွင် အမှတ်မထင် ဆုံးရှုံးခဲ့ရလေသည်။

ဇနီးနှင့်သားသမီး ၅ ယောက် ကျန်ခဲ့သည်။ ဆရာ ဦး ဘဉာဏ်သည် စိတ်သဘောထားကောင်းသည်။ နူးညံ့သိမ် မွေ့သည်။ ကြောက်တတ်သည်။ သန့်ရှင်းသေသတ်သည်။ စကားနည်းသည်။ညင်ညင်သာသာစကားပြောတတ်သည်။ လူနေဟန် သေးသွယ်ပုပြတ်၍ အသားမဖြူ မညိုဖြစ်သည်။ မျက်နှာသွယ်၍ အထူးခြားဆုံးမှာ အလွန်တောက်ပကြည် လင်သော မျက်လုံးများဖြစ်သည်။ ဆရာ ဦးဘဉာဏ်အာရုံ အထားဆုံးအလုပ်မှာ ပန်းချီဆွဲရန်နှင့် ဘုရားရှိခိုး ပုတီးစိပ် ရန်သာ ဖြစ်လေသည်။

ဒုတိယကမ္ဘာစစ်မတိုင်မီ ခေတ်က အကျော်တစောဖြစ် ခဲ့သော မဟာဗန္ဓုလပုံတူအတွက် ငွေတထောင် ဆုပေးသော ပန်းချီကားယှဉ်ပြိုင်ပွဲတွင် ပုံတူထုလုပ်ရန် အရွေးချယ်ခံရ သော ပန်းချီကားရေးဆွဲသူ ဦးဘဖန်သည် ဦးဘဉာဏ်၏ ညီဖြစ်သည်။ဦးဘဉာဏ် ကိုယ်တိုင်မူ ပြိုင်ပွဲတွင် ဝင်ရောက် ယှဉ်ပြိုင်ခြင်း မပြုခဲ့ပေ။

မြန်မာပန်းချီလောကတွင် ဆီဆေးဖြင့် ရေးခြယ်ခြင်းကို ဦးဘဉာဏ်ကစံနစ်တကျ စတင်ခဲ့သည်။ ဦးဘဉာဏ်သည် ဆီဆေးဖြင့် ရေးခြယ်ရာ၌ အလွန်ကျွမ်းကျင်သူ ဖြစ်သည်။ အရွယ် ကောင်းစဉ်၌ ကွယ်လွန်သွားခြင်းဖြစ်ရာ၊ အသက် ရှည်ရှည် ရှိနေခဲ့ဦးမည်ဆိုလျှင် မြန်မာပန်းချီလောက၌ တိုး တက်မှု အများအပြားကို ဆောင်ရွက်သိမ့်ဦးမည်ဟု ယုံ ကြည်ရပေသည်။

ဦးဘဉာဏ်၏ လက်ရာကောင်း ပန်းချီကား အများ အ ပြားတို့သည် နိုင်ငံခြားသို့ ရောက်ကုန်သည်။ ထိုကြောင့် ပြည်ထောင်စု မြန်မာနိုင်ငံ အစိုးရက ဦးဘဉာဏ်၏ ဇနီး ထံတွင် ကျန်ရှိသေးသော ပန်းချီကားများကို ခြုံ၍ ဝယ်ယူ လိုက်ပြီးလျှင် နိုင်ငံတော်ပြတိုက်၌ထိန်းသိမ်းထားလေသည်။

**ဘတင့်၊** (မြန်မာ ၁၂၆၂–၁၃၀၉)။ ။နိုင်ငံကျော် ရုပ်ရှင် ဇာတ်လိုက် ဘတင့်ကို မော်လမြိုင်မြို့ မရမ်းကုန်းရပ်၌ အဖ ဦးယုဟုတ်၊ အမိ ဒေါ်သိန်းညိုတို့မှ ၁၂၆၂ ခုနှစ် တော် သလင်းလတွင် ဖွားမြင်သည်။ ညီအစ်ကို ၄ ယောက်ရှိ သည့်အနက် ဘတင့်သည် ဒုတိယသား ဖြစ်သည်။ နာမည် ရင်းမှာ ဘိန်ဝှက်ဖြစ်၍ ဘကျင်၊ မောင်ကျင်ဟုလည်း ခေါ် ကြသည်။ ဘတင့်ဟူသော အမည်သည် ရုပ်ရှင်ထဲရောက်မှ ဒါရိုက်တာဦးတုတ်ကြီးက စတင်ပေးသော အမည်ဖြစ်သည်။

ဘတင့်သည် မော်လမြိုင်မှ ရန်ကုန်သို့ ပြောင်းရွှေ့လာ ပြီးနောက် အလုံရပ်ရှိ ကူရှင်ကျောင်းတွင် ၈ တန်းအောင် သည်အထိ ပညာသင်ခဲ့ပြီးမှ ကျောင်းထွက်ကာ ရဲမင်းကြီး ရုံးတွင် လက်နက်ဆိုင်ရာဌာန စာရေးအဖြစ် တနှစ်အမှုထမ်းခဲ့



လူကြိုက်များလှသည့် ရုပ်ရှင်မင်းသားကြီး ဘတင့်

သည်။ ထိုနောက် မြန်မာအဆွေကုမ္ပဏီ၌ အရောင်းစာရေး အဖြစ် ကူးပြောင်း လုပ်ကိုင်သည်။ မြန်မာအဆွေကုမ္ပဏီမှ ဆူးလေဘုရားပွဲတော်တွင် နိပါတ်ရုပ်သေ ပြရာ၌ ဘတင့်ဟု နာမည် မကြီးသေးသော မောင်ဘကျင်သည် ရွှေတော်ပြေး ရုပ်သေအဖြစ် သရုပ်ဆောင်ရသည်။ ယင်းသို့ သရုပ်ဆောင် ရာတွင် ဒါရိုက်တာ ဦးတုတ်ကြီးက မျက်စိကျ၍ လန်ဒန်အတ် ကုမ္ပဏီမှ ရိုက်ကူးသော စိန်ခြူးကြာညောင် ဇာတ်ကားတွင် မင်းသားအဖြစ် ရွေးချယ် ရိုက်ကူးသည်။ ထိုအချိန်က အ သက် ၂၁ နှစ်သာ ရှိသေးသည်။ ထိုနောက် တသက်လုံးဖုံး သမျှ ကုန်းတော့မှပေါ် ဇာတ်ကားတွင် မင်းသမီးခင်ခင်နုနှင့် တွဲဖက်ပါဝင်သည်။ တတိယမြောက် ကားအဖြစ် ရတနာပုံ ဇာတ်ကားတွင် ခင်ခင်နုနှင့်ပင် တွဲဖက်ရိုက်ကူးပြန်ရာ ဝတ်လုံ တော်ရ မောင်ထွန်းမြတ်အသွင်ဖြင့် ပါဝင်သရုပ်ဆောင်ရပြန် သည်။ ယင်းဇာတ်ကားတွင် ဘတင့်ဟူသော နာမည်မှာ တ ဟုန်တည်း ထိုးတက် ကျော်ကြားသွားသည်။ လန်ဒန်အတ် ကုမ္ပဏီ၌ လုပ်ကိုင်နေစဉ် မင်းသမီး ခင်ခင်နုနှင့် အကြောင်း ပါသည်။ (ခင်ခင်နု — ရှု။)

အသက် ၃၂ နှစ်အရွယ်တွင် ဗြိတိသျှ ဘားမားရုပ်ရှင်ကုမ္ပ ဏီသို့ ကူးပြောင်း လုပ်ကိုင်သည်။ ဘတင့်ပါဝင် ရိုက်ကူးခဲ့ရ သော ပဉ္စမဆုံး အသံထွက် ဇာတ်ကားမှာ လောကနိဗ္ဗာန် ဖြစ်သည်။ခင်ခင်နုနှင့် ကွဲနေသော ဘတင့်သည် ဗြိတိသျှဘား မား ရုပ်ရှင်ကုမ္ပဏီ၌ လုပ်ကိုင်နေစဉ် ၁၉၄၄ ခုနှစ်တွင် ဇာတ် လိုက် မင်းသမီး ခင်ခင်ကြည်နှင့် အကြောင်းပါသည်။ဘတင့် ခေတ်ကောင်းစဉ်က ရုပ်ရှင်ကုမ္ပဏီနှစ်ဆယ် အစိတ်ခန့်ရှိသည့် အနက် ဘတင့်မရိုက်ကူးဘူးသည့် ကုမ္ပဏီဟူ၍ မရှိချေ။ အသံ တိတ် အသံထွက် ဇာတ်ထုပ်ပေါင်း ၇၀ နီးပါးခန့် ရိုက်ကူး သွားသည့်အနက် ထင်ရှားသော ဇာတ်ကားများမှာ တ သက်လုံး ဖုံးသမျှ ကုန်းတော့မှပေါ်၊ ရတနာပုံ၊ ဗိုလ်ဝ၊ သား ဗိုလ်ဝ၊ ဗိုလ်တကာ့ဘုရင်၊ ဒွိဘုရင်၊ အောင်ပါစေ၊ သီရိဂေ ဟာ၊ မင်းအရိန္ဒမ၊ ရွှေဖျဉ်းညီနောင်၊ ပတ္တမြားမျက်ရှင်၊ လောကနိဗ္ဗာန်၊ အချစ်ဆုံး၊ တောင်လေးလုံး၊ သူဇာ၊ တော် လေးဝ၊ ရံရွှေတော်၊ ခေါ်ဆန်သူ၊ ချစ်ကြိုးဒနှောင်၊ ဒေဝီ မေတ္တာ၊ မောင့်ဒေဝီ၊ ပန်းစေတီ၊ မာယာသျှင်္ကြီ၊ဝေ့လယ်လယ် စသည်တို့ဖြစ်သည်။ စစ်ပြီးခေတ် ရိုက်ကူးသော ဇာတ်ကား များမှာ ကြယ်သုံးပွင့်၊ မိုးနဲ့မြေနှင့် သွေးနဲ့သွေး (အပြီး မရိုက်နိုင်)တို့ ဖြစ်သည်။

ဒုတိယ ကမ္ဘာစစ် ပြီးသောအခါ ရုပ်ရှင်မင်းသားကြီး အ ဖြစ် လုပ်ကိုင်နေရာမှ ဒါရိုက်တာအဖြစ် လုပ်ကိုင်ရန် အကြံရှိ သော်လည်း ရည်ရွယ်ချက် အကောင်အထည် မဖော်နိုင်မီ မန္တလေးမြို့တွင် သွေးနဲ့သွေးဇာတ်ကား ရိုက်ကူးနေစဉ် တိုက် ဖွိုက် ရောဂါဖြင့် ကွယ်လွန်ရာ မြန်မာသက္ကရာဇ် ၁၃၀၉ ခုနှစ် နတ်တော်လပြည့်ကျော် ၂ ရက်နေ့တွင် မန္တလေး ရဟိုင်းသုသာန်၌ သင်္ဂြိုဟ်လိုက်သည်။

ဘတင့်သည် ရုပ်ရှင်ပညာနှင့် စပ်လျဉ်းသော နိုင်ငံခြား မှလာသည့် စာအုပ်များကို ဝယ်ဖတ်လေ့ ရှိသည်။ ထို့ပြင် သာမက နိုင်ငံခြားမှ နာမည်ကြီး မင်းသားများ၏ အမူအ ယာများကိုလေ့လာရန် ထိုသူတို့ပါသော ရုပ်ရှင်ကားများကို မလွတ်တန်း ကြည့်တတ်သည်။ ဘတင့်သည် အနုပညာ စာ ပေကိုသာ မက အားကစား ကိုလည်း ဝါသနာထုံသည်။ ဘောလုံးကန်ခြင်း၊ ခြင်းခတ်ခြင်းတို့၌ ထူးချွန်သူ တဦးဖြစ် သည်။ အပေါင်းအသင်းများနှင့် ပျော်ပျော် ပါးပါးနေတတ် သူဖြစ်သည်။ စကားပြောလည်း သိမ်မွေ့လှသည်။ အပြော ၌သာ နာမည်ကြီးသူမဟုတ် အလုပ်၌လည်း အလုပ်ကို ရှိသေ လေးစားသူ ဖြစ်ကြောင်းဖြင့် ပြောစမှတ်ပြုရသူ ဖြစ်သည်။ အချိန်ကို လေးစားရုံမက ပါဝင်သရုပ် ဆောင်ရမည့် အခန်း ကို ကြေနေအောင် ဖတ်၍ အချိန်ရသမျှ အားရပါးရ လေ့ ကျင့် ထားတတ်သည်။

ဘတင့်သည် ချစ်ခန်း ကြိုက်ခန်း၌ ပရိသတ်အား ဆွဲ ဆောင် သွားနိုင်သော မင်းသားကြီး ဖြစ်သည်။ ဘတင့်၏ ပြောင်မြောက်သော အနုပညာနှင့် အခန်းမရွေးသော သတ္တိ ကား ရှာမှရှားသည်။ အချို့ မင်းသားများသည် ညှဉ်းဆဲ ခန်း၊ ထိုးသတ်ဆိုးမခန်းတို့၌ ပါဝင်သရုပ်ဆောင်က ပရိသတ် က လူကြမ်းဟု မြင်သွားမည်ကို ကြောက်ကြသည်။ သို့ရာ တွင် ဘတင့်ကား မည်သည့်အခန်းက ပါဝင်ရ ပါဝင်ရ ချေး မများဘဲ သဘာဝကျအောင် သရုပ်ဆောင်ရဲသူ ဖြစ်သည်။ သူဇာဇာတ်ကားတွင် မင်းသား ခင်မောင်ရင်၏ အစ်ကိုခန်း မှ ပါဝင်သရုပ်ဆောင်ရာ၌ ညီဖြစ်သူ ခင်မောင်ရင်သည် အ

ပျော် အပါးလိုက်စားကာ သားမယားအား ပြန်မကြည့်ဘဲ လူသတ်မှု ဖြစ်လာသည့်အခါ ညီဖြစ်သူအား ထိုးကြိတ် ဆုံးမခန်း၌ ပရိသတ်က ဘတင့်အား မင်းသားချင်း ထိုးကြိတ်၍ လူကြမ်းဟု မမြင်၊ ညီအပေါ် ကရုဏာ ဒေါသောနှင့် ဆုံးမ ရှာသူ ကရုဏာရှင်အဖြစ် မြင်ကာ ဘတင့်၏ ထိုးကြိတ်ခန်းကိုပင် စွဲလန်း သွားကြသည်အထိ ဖြစ်သည်။ ဘတင့်သည် မင်းသားဟူသော အသွင်ဖြင့် လှပမှုကို နေရာတိုင်း၌ မလိုဘဲ ဇာတ်ကွက်၏ ဖန်တီးမှုအပေါ်တွင် သရုပ်ဆောင်တတ်သူ သရုပ်ဆောင်ရဲသူ ဖြစ်သည်။

**ဘရဏီနက္ခတ်။** ။နက္ခတ် ၂၇ လုံး — ရှု။

**ဘလုံ၊ ဦး** (ခရစ် ၁၈၉၄ ခန့်–၁၉၄၄)။ ။ပန်းချီကျော် ဦးဘလုံကို ၁၈၉၄ ခုနှစ်ဘွင် ဟံသာဝတီအပိုင် ကြည့်မြင်တိုင် တဖက်ကမ်းရှိ မငေးရွာတွင် ဖွားမြင်သည်။ ငယ်စဉ်က ရွာရှိ ဘုန်းကြီးကျောင်းတွင် ပညာသင်ခဲ့ရသော်လည်း စာပေဖက်ထက် အရုပ်ရေးတွင် အထူးဝါသနာ ထုံသူဖြစ်သည်။အားလပ်ချိန်တွင် အစ်ကိုအစ်မများက အိမ်အလုပ်ကို ကူညီ လုပ်သော်လည်း ဦးဘလုံကား အရုပ်သာလျှင် ဆွဲ၍ အချိန်ဖြုန်းနေတတ်သည်။ ညီမောင်ဝန် ကြက်ပိုက်နေပုံကို ကြည့်၍ ဆွဲရာ တထေဝတည်း တူနေသဖြင့် လူကြီးများ အတော်ပင် အံ့သြခဲ့ရသည်ဟု ဆိုသည်။ ဦးဘလုံသည် အရုပ်ရေး၌သာ မဟုတ်၊ အက၌လည်း ဝါသနာထုံရာ အရပ်ဇာတ် ကရာ၌ အစ်ကိုဖြစ်သူ ဦးဘရုံနှင့် အမြဲတမ်း ပါဝင်ကပြလေ့ရှိသည်။

မိဖများမှာ လယ်သမားမျိုးရိုး ဖြစ်သော်လည်း ကျောင်းလည်းမနေ လယ်လည်းမလုပ်လိုဘဲ ပုံဆွဲ၌သာ ဝါသနာ ထုံနေသော ဦးဘလုံအား ၁၃ နှစ်အရွယ်ခန့်တွင် ရန်ကုန်ရှိ အစ်မဝမ်းကွဲ ဒေါ်စိန်၏ ခင်ပွန်း ရှုမျှော်ခင်းကားများ အများဆုံး ဆွဲ၍ ကမ္ဘာကျော်သူ ပန်းချီဆရာကြီး ဦးထွန်းလှထံ ပညာသင်ရန် မိဘများက လွှတ်လိုက်ရသည်။ ဦးထွန်းလှထံတွင် ကူညီလုပ်ကိုင်ပေးယင်း ဦးဘလုံသည် ပညာဆည်းပူးနေရာ ပါရမီရင့်သူ ပီပီ သူမတူ တမူကွဲလျက် သူရေးဆွဲသမျှကို အများက ခြီးကျူးနှစ်သက်ရသောဘဝသို့ မကြာမီ ရောက်ရှိလာလေသည်။ ဦးဘလုံ ၁၇ နှစ်သား အရွယ်တွင် ဦးထွန်းလှနှင့် အစ်မဒေါ်စိန်တို့သည် မော်လမြိုင် ကတိုးကော့နှပ်သို့ ပြောင်းသွားရာ ဦးဘလုံလည်း လိုက်ပါသွားသည်။ ကတိုးကော့နှပ်တွင် မွန်အမျိုးသမီး ဒေါ်သိန်းရှင်နှင့် အိမ်ထောင်ကျသည်။

၁၂၈၁ ခုနှစ်တွင် မော်လမြိုင်မှ ပြန်လာပြီးနောက် မြန်မာ အဆွေကုမ္ပဏီတွင် ပန်းချီဆရာအဖြစ် ၄ နှစ်မျှ လခစားဝင်လုပ်သည်။ မြန်မာအဆွေကုမ္ပဏီတွင် ရွှေတလေး ဦးဘကလေး၊ ဦးထွန်းကြွယ်၊ ဦးထွန်းမင်း တို့နှင့် အတူ အလုပ်လုပ်



နာမည်ကျော် ပန်းချီဆရာကြီး ဦးဘလုံ

ယင်း တခါတခံ မြန်မာအဆွေရုပ်ရှင်ကားများတွင် တခန်းတလေ ပါဝင်ကပြသည်။မြန်မာအဆွေတိုက်ရှေ့တွင်ထားသော ကြော်ငြာကြီးများ၊ ဒဂုန်မဂ္ဂဇင်းအတွင်း ရုပ်စုံများ၊ အပြင်ဖုံးအတွက် မိန်းကလေးအရုပ်များ ရေးဆွဲရာမှ နာမည်ထွက်လာသည်။ ဦးဘလုံသည် ရုပ်ပုံဆွဲတွင် အထူးနာမည်ကျော်သည်။ သူ၏လူပုံများတွင် သူ့ခေတ်က နာမည်ကြီး ရုပ်ရှင်မင်းသမီး မင်းသားပုံများကို ထည့်၍ ဆွဲလေ့ရှိတတ်သည်။

၁၉၂၅ ခုနှစ်တွင် မြန်မာအဆွေ ကုမ္ပဏီမှ ထွက်ပြီးနောက် ဦးဘလုံသည် လခစားမလုပ်တော့ဘဲ လက်ခစား အမျိုးမျိုးလုပ်သည်။ ကိုယ်တိုင်ဦးစီး၍လည်း ပန်းချီဝတ္ထု မဂ္ဂဇင်း တစောင် ထုတ်ဝေသည်။ သို့ရာတွင် ကြာရှည်မခံချေ။ ထိုနောက် သူရိယမဂ္ဂဇင်း၊ ကဝိမျက်မှန် မဂ္ဂဇင်း၊ လန်ဒန်အတ်ကုမ္ပဏီတို့အတွက် ပန်းချီကားများ ရေးဆွဲသည်။ အနုပညာရှင် ဦးဘလုံသည် ရာဇဝတ်ဝန် ဦးဘရီ တည်ထောင်သော ရုပ်ရှင်ကုမ္ပဏီမှ ဇာတ်ကားတွင် လူကြီးပိုင်းမှ ပါဝင်ခဲ့သေးသည်။ ထိုနောက် ရန်ကုန်အနောက်ပိုင်းရှိ ဗြဟ္မစိုရကုမ္ပဏီက ဦးဘလုံအား ဘုရားပုံတော်ပန်းချီကားများကို ရေးဆွဲစေ၍ ကာလကတ္တားမြို့တွင် ရောင်စုံပုံနှိပ်ကာ ရောင်းချရာ အလွန်အရောင်းတွင်၍ ကုမ္ပဏီလည်း အမြတ်အစွန်းရခဲ့သည်။

ဦးဘလုံသည် မြန်မာအဆွေ ကုမ္ပဏီသို့ မဝင်မီတကြိမ်၊မြန်မာအဆွေကုမ္ပဏီမှ ထွက်ပြီးတကြိမ် ကော့ကရိတ် နယ်စပ်မှ တဆင့် ယိုးဒယားသို့ သွားရောက်ခဲ့ဖူးသည်။ ယိုးဒယားတွင် ယိုးဒယား မင်းသားကြီး တပါးက မြှောက်စား၍ ဦးဘလုံ

သည် ပန်းချီကားများဖြင့် နာမည်ရခဲ့သည်။ ဦးဘလုံ၏ပန်းချီကားများကို လူကြိုက်များသော်လည်း ချိန်းရက် မမှန်သဖြင့် ပန်းချီကားအပ်သူများ စိတ်အလွန်ဆိုးလောက်သည်အထိ စောင့်ကြရသည်။ စိတ်ပါပါနှင့် ဆွဲလျှင်လည်းခဏနှင့်ပင်ပြီး၍ သူ့လက်ရာကို ရလျှင် စိတ်ဆိုးပြေကြသည်ချည်းဖြစ်ကြသည်။

ဦးဘလုံသည် အရုပ်ကားကို အပြည့် ရေးလေ့မရှိ၊ ဘလောက် ပြုလုပ်သည့်အခါ ဆေးခြယ်ရန် ချန်ထားလေ့ရှိသည်။ ထို့ကြောင့် ဘလောက်လုပ်သူ သက်သာ၍ အရုပ်ကားရိုက်ပြီးသောအခါ အရုပ်သည် အရောင်တောက်သည်။ ဦးဘလုံသည် ဆီဆေး ကားကို သိပ်ရေးလေ့မရှိ။ ရေဆေးကားများသာ ရေးဆွဲလေ့ ရှိသည်။ ဦးဘလုံရေးဆွဲခဲ့သောထင်ရှားသည့်လုပုံ ပန်းချီကားများမှာ ညောင်ရွှေ စော်ဘွားဆာစောမောင်၊ ဒီးဒုတ် ဦးဘချို၊ မဟာဗန္ဓုလ ပုံများဖြစ်သည်။ မဟာဗန္ဓုလပုံပြိုင်ပွဲတွင် ဝင်ရောက်ယှဉ်ပြိုင်သူများအနက် ရွေးချယ်ရေးအဖွဲ့က ဦးဘဖန်နှင့် ဦးဘလုံပုံ ၂ ပုံနောက်ဆုံးရွေးချယ်၍ ဦးဘဖန်၏ ဗန္ဓုလပုံသည် ကြေးရုပ်လုပ်ရန် ကောင်းပြီးလျှင် ဦးဘလုံ၏ ဗန္ဓုလပုံသည် ပန်းချီသဘောနှင့် အကောင်းဆုံးဖြစ်သည်ဟု ဆုံးဖြတ်ကြသည်။ ဦးဘလုံသည် ဂျပန်ခေတ် အစိုးရအိမ်တော်၌ ပန်းချီပြိုင်ပွဲလုပ်ရာ ဆေးရှားပိတ်ရှားချိန်တွင် ဂျပန်မြန်မာ မိတ်ဆွေဖြစ်ကားကို သုံးထပ်သားပေါ်တွင် ဆီဆေးဖြင့်ရေးဆွဲ၍ ပါဝင်ဆင်နွှဲခဲ့သည်။ ဦးဘလုံကား ပန်းချီသဘောကို အခြေခံမှအစ တော်တော်နှံ့စပ်သူ မွေးသန္ဓေပါ ပညာရှင် ဖြစ်သည်။ သို့ရာတွင် သူသိသလောက် ပါးစပ်မှ ပြောတတ်သူကားမဟုတ်ချေ။

သံတော်ဆင့် ဦးသိန်းမောင်၊ မဟာဆွေ စသော စာရေးဆရာကြီးများသည် ဦးဘလုံ၏ အလွန် ရင်းနှီးသော မိတ်ဆွေကြီးများဖြစ်သည်။ ပန်းချီဦးအုန်းလွင်၊ ဦးဘလုံလေး၊ မန္တလေး ဘကျင်တို့သည် ဦးဘလုံ၏တပည့်များ ဖြစ်သည်။ ဗြိတိသျှဘားမား၊ လန်ဒန်အတ် စသော ရုပ်ရှင်ကုမ္ပဏီများအတွက် ရုပ်ရှင်ပိုစတာများ ရေးရာ၌ ဦးအုန်းလွင်သည် ဦးဘလုံ၏ လက်ကိုင် တပည့်ရင်း ဖြစ်သည်။

ဦးဘလုံကား အပျော်အပါး အသောက်အစား အလွန်ဝါသနာပါသူ ဖြစ်သည်။ ထို့ကြောင့် ကျန်းမာရေး ချို့တဲ့လှသည်။ ယင်းသို့ ကျန်းမာရေးချို့တဲ့မှုကြောင့် အသက် ၅၀ အရွယ် ၁၉၄၄ ခုနှစ် ဒီဇင်ဘာလ ၅ ရက်နေ့တွင် ရန်ကုန်မြို့ ဗဟန်း အုတ်လမ်းတွင် ဇနီးဖြစ်သူ ဒေါ်တင်မြင့် လက်ထဲ၌ ကွယ်လွန်လေသည်။

**ဘဝင်း၊ ဦး** (မြန်မာ ၁၂၆၃—၁၃၀၉) ။ ။လူမသမာ တို့ လက်ချက်ဖြင့် ဗိုလ်ချုပ်အောင်ဆန်းနှင့် အတူ ကျဆုံးကြရ



ဗိုလ်ချုပ်အောင်ဆန်း၏ အစ်ကို အမျိုးသားခေါင်းဆောင် ဦးဘဝင်း

ရှာသော အာဇာနည် ခေါင်းဆောင်ကြီး ၆ ဦးအနက် ဦးဘဝင်းသည် တဦးအပါအဝင် ဖြစ်သည်။ ဦးဘဝင်းသည် ဘုရင်ခံ ဆာ ဟူးဗတ်ရန့်၏ အမှုဆောင်ဝန်ကြီးအဖွဲ့တွင် ကုန်သွယ်ရောင်းဝယ်ရေးဝန်ကြီးအဖြစ် ထမ်းဆောင်နေခဲ့စဉ် လုပ်ကြံခံရခြင်းဖြစ်သည်။

ဦးဘဝင်းသည် ဗိုလ်ချုပ်အောင်ဆန်း၏ အစ်ကို အကြီးဆုံးဖြစ်သည်။ မြန်မာသက္ကရာဇ် ၁၂၆၃ ခုနှစ် နယုန် လဆုတ် ၁၁ ရက် အင်္ဂါနေ့တွင် နတ်မောက်မြို့ အထက်တန်း အမိန့်တော်ရရှေ့နေ ဦးဖာ၊ ဒေါ်စုတို့မှ မွေးဖွားသော မွေးချင်း ၉ ယောက်အနက် အကြီးဆုံးသား ဖြစ်သည်။ ဇာတာအမည် မောင်စံတင်ဖြစ်၏။

ဦးဘဝင်းသည် ၅ နှစ်သားအရွယ်တွင် နတ်မောက်မြို့ ဆရာကြီး ဦးဝကြီးကျောင်းတွင် စတင်ပညာသင်ရာ၊ ၇ နှစ်သား အရွယ်တွင် ၃ တန်း အောင်ခဲ့လေသည်။ ဦးဝကြီး ကျောင်းမှ တဖန် ဆရာသက်ကျောင်းသို့ ပြောင်း၍နေရာ အသက် ၁၂ နှစ် အရွယ်တွင် မြန်မာ ၇ တန်း စာမေးပွဲကို ကောင်းမွန်စွာအောင်မြင်သည်။ ဆရာသက်ကြီး ကျောင်းမှ တဖန် တောင်တွင်းကြီးမြို့ ဆရာတော် ဦးသုန္ဒရကျောင်းသို့ ပြောင်းရွှေ့၍ ပညာ သင်ကြားပြန်သည်။ အသက် ၁၅ နှစ်အရွယ်တွင် မိဖတို့က ရှင်ပြုပေးသည်။ ၁၆ နှစ်တွင် ၉ တန်းနှင့် ဆရာဖြစ် စာမေးပွဲကို အောင်မြင်ပြီးနောက် ၁၇ နှစ် အရွယ်တွင် ရေနံချောင်းမြို့ ဆရာဦးဟံသာကျောင်းတွင် လက်ထောက်ဆရာအဖြစ် အမှုထမ်းသည်။

လက်ထောက် ဆရာအဖြစ် ထမ်းရွက်နေယင်း ဦးဘဝင်းသည် တတ်နိုင်သရွေ့ အင်္ဂလိပ် စာကို လေ့လာ သင်ယူရာ

အင်္ဂလိပ်စာ အတော်အတန် တတ်မြောက် လာသောအခါ ဆရာ အလုပ်မှ ထွက်၍ ရေနံချောင်းမြို့ ဘီ အို စီ ဂိုဒေါင်တွင် စာရေးကလေး အဖြစ် ဝင်ရောက် လုပ်သည်။လစာစားဘဝနှင့် ရသမျှ ဝင်ငွေဖြင့် အင်္ဂလိပ်စာအုပ်များ ဝယ်ဖတ်ကာ ရေနံချောင်းမြို့ ဆရာ ဦးအေးမောင် ထံတွင် ညကျောင်း တက်သည်။ ယင်းသို့ ကြိုးစားလာခဲ့ရာ အသက် ၂၀ အရွယ်တွင် အင်္ဂလိပ်ဘာသာ ၁၀ တန်း စာမေးပွဲကို ဂုဏ်ထူးနှင့် ဖြေဆို အောင်မြင်ခဲ့သည်။

၁၀ တန်း အောင်သည်နှင့် တပြိုင်နက် ဦးဘဝင်းသည် အလုပ် ထွက်ကာ မန္တလေး ဥပစာကောလိပ်သို့ မိဘများ၏ အထောက်အပံ့ဖြင့် သွားရောက် သင်ယူပြန်သည်။ ဥပစာကောလိပ်တွင် ဥပစာ သိပ္ပံတန်းကို ဂုဏ်ထူးနှင့် အောင်မြင်သဖြင့် အစိုးရစကောလားရှစ် ချီးမြှင့်ခြင်း ခံရသည်။ ဥပစာ သိပ္ပံတန်းကို အောင်မြင်ပြီးနောက် ရန်ကုန် တက္ကသိုလ်သို့ ပြောင်းရွှေ့၍ ဆက်လက်သင်ယူရာ သိပ္ပံဂုဏ်ထူးတန်းကို ထူးချွန်စွာ ဖြေဆိုအောင်မြင်ခဲ့သည်။ ထိုနောက် ရေနံချောင်းမြို့ အမျိုးသား ကျောင်းတွင် အထက်တန်းပြ ဆရာအဖြစ် ဝင်ရောက် အမှုထမ်းသည်။ ယင်းသို့ အမှုထမ်းနေစဉ် မြန်မာသက္ကရာဇ် ၁၂၉၇ ခုနှစ်တွင် တောင်တွင်းကြီးမြို့ မြေပိုင်ရှင် ဦးအံ့ ဒေါ်ရွှေမေတို့၏သမီးကြီး ဒေါ်ခင်စောနှင့် အိမ်ထောင်ပြုသည်။

ခရစ် ၁၉၄၁ ခုနှစ်မှ ၁၉၄၂ ခုနှစ် အထိ ဦးဘဝင်းသည် ရေနံချောင်း အမျိုးသားကျောင်းမှ ထွက်၍ ဖြူးမြို့ ကောအီး၊ အမ် အမျိုးသား ကျောင်းတွင် ကျောင်းအုပ်ကြီး အဖြစ် ဆောင်ရွက်သည်။ ၁၉၄၂ ခုနှစ် ကုန်ခန့်တွင် ဦးဘဝင်းသည် မြန်မာနိုင်ငံသို့ ဂျပန်များဝင်လာပြီး ဖြစ်သဖြင့် ဇာတိ နတ်မောက်မြို့သို့ ပြန်ကာ မိခင်အိုကြီးအား စောင့်ရှောက် နေထိုင်သည်။ဘီအိုင်အေခေတ် အုပ်ချုပ်ရေးအဖွဲ့တွင် ဦးဘဝင်းသည် ဒုတိယဥက္ကဋ္ဌ အဖြစ်ဖြင့် ဆောင်ရွက်ရာ တမြို့လုံး၏ ကြည်ညို လေးစားခြင်းကို ခံရသည်။ ဂျပန်ပြေး၍ အင်္ဂလိပ် ပြန်ဝင်သောအခါ ရေနံချောင်းမြို့သို့ ပြောင်းရွှေ့၍ နိုင်ငံရေး ဆောင်ရွက်သည်။ ရေနံချောင်း နယ်လုံးဆိုင်ရာ ဖ၊ ဆ၊ ပ၊ လ အဖွဲ့တွင် ဥက္ကဋ္ဌကြီးအဖြစ် တင်မြှောက်ခြင်းခံရသည်။ ဦးဘဝင်းကား ဖဆပလ ဥက္ကဋ္ဌအဖြစ် မြို့ရောတောပါ ကြည်ညို လေးစားခြင်းခံရသည်။ တိုင်းပြည်ပြုလွှတ်တော်ရွေးကောက်ပွဲကို ၁၉၄၇ ခုနှစ် ဧပြီလတွင် ကျင်းပသောအခါ ဦးဘဝင်းသည် မကွေးအနောက်မြောက်ပိုင်းအမတ်အဖြစ် ပြိုင်ဖက်မရှိ ရွေးချယ် တင်မြှောက်ခြင်း ခံရသည်။ ထိုနောက် ဗိုလ်ချုပ်အောင်ဆန်း ခေါင်းဆောင်သော အမှုဆောင် ဝန်ကြီး အဖွဲ့တွင် ကုန်သွယ်ရောင်းဝယ်ရေး ဝန်ကြီးအဖြစ် ထမ်းဆောင်နေခဲ့စဉ် ၁၉၄၇ ခုနှစ် ဇူလိုင်လ ၁၉ ရက်နေ့တွင် လုပ်ကြံခြင်းခံရလေသည်။

ဦးဘဝင်းသည် ရိုးသား၊ အေးဆေးသူ ဖြစ်သည်။ ဝါကြွားခြင်းကို မုန်းတီး၍ တဖက်သားကို အားနာတတ်သည်။ ဇွဲအလွန်ရှိ၍ လုံ့လဝီရိယနှင့်ပြည့်စုံသည်။ တပည့်များအပေါ် စေတနာကောင်းလှသဖြင့် တပည့်များကသာမက တပည့်တို့၏ မိဘများကပါ လေးစား ကြည်ညိုကြသည်။ ဥာဏ်လည်း အလွန်ထက်လေသည်။

ဦးဘဝင်း ကွယ်လွန်သောအခါ သားသမီး ၆ ယောက် ကျန်ခဲ့ရာ အကြီးဆုံးမှာ ၁၁ နှစ်အရွယ်ရှိပြီးလျှင် အငယ်ဆုံးမှာ ၁၀ လသားသာ ရှိသေးသည်။

**ဘာဂျာ။** ။ပါးစပ်ဖြင့် မှုတ်ရသည့် သံစုံ တူရိယာ ကလေးကို ဘာဂျာဟုခေါ်သည်။ ပါးစပ်မှုတ် ဘာဂျာဟူ၍၎င်း တခါတရံ ပြင်သစ်စောင်း ဟူ၍၎င်း ခေါ်ကြသည်။ ယင်းကို လူသိများရုံမက ကလေးသူငယ်တိုင်းလိုလိုပင် မှုတ်တတ်ကြသည်။ အဖိုး ပေါသည့်ပြင် လေ့ကျင့်ရန်လည်း လွယ်ကူလှသည်။ ယင်း ကရိယာကလေးကို ပါးစပ်ဖြင့် မှုတ်၍ဖြစ်စေ၊ စုတ်၍ ဖြစ်စေ အသံများ ထွက်ပေါ်လာလေသည်။ မမြည်စေလိုသည့်အပိုင်းကို လျှာဖြင့်ပိတ်၍ မှုတ်ခြင်း စုတ်ခြင်း ပြုရသည်။ ဘာဂျာပြုလုပ်ပုံမှာ အလယ်တွင် အပေါက်ရှိသော သစ်သားပြားကလေးတခု ခံထား၍ သစ်သားပြား၏ ဘေးနှစ်ဖက်တွင် သတ္တုပြားနှစ်ချပ် ကပ်ထား၏။ အပေါက်များဖောက်ထားသော ထိုသတ္တုပြား နှစ်ချပ်တွင် အရှည် အတို၊ အထူအပါး အရွယ်အစားစား ဖြစ်သော ကြေးပြားချောင်းငယ်ကလေးများကို အစွန်းတဖက်၌ ခိုင်မြဲအောင် တပ်ထားလျက် အခြားအစွန်းဖက်၌ လစ်လပ်လျက် ရှိသည်။ မှုတ်လိုက်သောလေနှင့် စုတ်ယူလိုက်သောလေများသည် ထိုကြေးပြားကလေးများကို ထိခိုက်လေရာ ယင်းသို့သော ထိခိုက်မှုသည် လေလှိုင်း အတိုအရှည်တို့ကို ဖြစ်စေလျက်၊ အသံမျိုးစုံပေါ် လာစေခြင်း ဖြစ်သည်။

ဘာဂျာကို ၁၈၂၉ ခုနှစ်တွင် ဗြိတိသျှ လူမျိုး သိပ္ပံပညာရှင် ဆာ စီ ဝှီတုန်းက စတင် တီထွင်ပြုလုပ်သည်ဟု ဆိုကြသည်။ သို့ရာတွင် ဂျာမနီနိုင်ငံ စီးပွားရေး လုပ်ငန်းကြီးတခုက ဘာဂျာလုပ်ငန်းကို နှစ်ပေါင်းများစွာ တဦးတည်းပိုင် လုပ်ငန်းအဖြစ် ချုပ်ကိုင်ထားလေသည်။ ကမ္ဘာစစ်ကြီးများ အတွင်းက ဘာဂျာသည် စစ်သည်တော်များ၏ အပျင်းပြေ အသုံးပြုသော လက်စွဲ တူရိယာအဖြစ် ကျော်ကြားသည်။ လယ်ရီ အက်ဒလားနှင့် ဗိုရာ မိနိုဗစ်တို့ကဲ့သို့သော ဂီတပညာ ကျော်ကြီးများက ဘာဂျာကို ပွဲကြီးလမ်းကြီးများ၌ အသုံးပြုသည်မှစ၍ ဘာဂျာသည် အဆင့်အတန်းမြင့်သော တူရိယာတခု ဖြစ်လာသည်။

**ဘာရတ်နိုင်ငံ။** ။အိန္ဒိယနိုင်ငံ — ရှု။

# ဒုတိယကမ္ဘာစစ်အပြီးတွင်ကမ္ဘာ့အာရုံ စူးစိုက်လာရသောမြို့ကြီး

ဂျာမနီနိုင်ငံ၏ အကြီးဆုံး မြို့ကြီးတမြို့ဖြစ်၍။ ဒုတိယ ကမ္ဘာစစ် မတိုင်မီက၊ ကမ္ဘာတွင် အသပ်ရပ် အသန့်ရှင်းဆုံး ဖြစ်ခဲ့သည်။ ထိုစစ်ကြီးအပြီးတွင် ဘာလင်သည် နှစ်ပိုင်း ကွဲခဲ့ရသည်။ အမေရိကန်၊ ဗြိတိသျှအုပ်စုနှင့် ဆိုဗီယက်အုပ်စုတို့၏ ပဋိပက္ခ များကြောင့် ဘာလင်ပြဿနာအမျိုးမျိုး ပေါ်ပေါက်ခဲ့သည်။ နောက်ဆုံးအခြေအနေမှာ ဘာလင်ပြဿနာကြောင့်ပင် တတိယကမ္ဘာစစ် ဖြစ်ရဦးမည်ကဲ့သို့ရှိနေသည်။

**ဘာလင်မြို့။** ။ဂျာမနီ နိုင်ငံ၏ အကြီးဆုံးမြို့ ဖြစ်သော ဘာလင်သည် ဥရောပ အလယ်ခေတ် သာမညမြို့ကလေး အဖြစ်မှ ကမ္ဘာ၌ အကြီးဆုံး မြို့ကြီးတမြို့ အဖြစ်သို့၎င်း၊ ဥရောပ၌ ဒုတိယ အကြီးဆုံးမြို့ အဖြစ်သို့၎င်း ရောက်ရှိခဲ့ပေသည်။ ကမ္ဘာ့ ထိပ်တန်း မြို့ကြီးများသည် အရေးပါသော ကုန်သွယ်မှု လမ်းကြောင်းကျခြင်း၊ သဘာဝ သင်္ဘောဆိပ် ကောင်းရှိခြင်း၊ ပတ်ဝန်းကျင်၌ သယံဇာတအဖိုးတန်ပစ္စည်း များနှင့် အခြား ထွက်ကုန်များ ထွက်ရှိခြင်း စသော အချက်အလက်များကြောင့် ထင်ရှားကြီးကျယ်သော မြို့ကြီးအဖြစ် ရောက်ခဲ့ကြသည်။ ဘာလင်မြို့သည်ကား ထိုအချက်များ ကြောင့်မဟုတ်ဘဲ၊ စိုးမိုးသူများက ဘာလင်အား ကြီးကျယ် စည်ကားသော မြို့ကြီး ပြကြီးအဖြစ်သို့ မရောက် ရောက် အောင် ပြုပြင်ဖန်တီးခဲ့ကြသောကြောင့် ကြီးကျယ်ဖွံ့ဖြိုးလာခဲ့ပေသည်။ ဘာလင်မြို့သည် ဂျာမနီနိုင်ငံ၏ မြို့တော်အဖြစ် နှစ်ပေါင်းများစွာ ကြာခဲ့သည်။ ဒုတိယ ကမ္ဘာစစ် ပြီးသည့် နောက်တွင်မူ ဂျာမနီနိုင်ငံ နှစ်ခြမ်းကွဲခဲ့၍၊ ဘာလင်မြို့ကို လည်း အရှေ့ဘာလင်နှင့် အနောက်ဘာလင်ဟူ၍ နှစ်ပိုင်း ပိုင်းလိုက်သည်။ အရှေ့ဘာလင်သည် ဂျာမန်ဒီမိုကရက်တစ် သမတနိုင်ငံ (အရှေ့ဂျာမနီ)၏ မြို့တော်ဖြစ်သည်။ ဂျာမန် ပြည်ထောင်စု သမတနိုင်ငံ (အနောက်ဂျာမနီ)၏ မြို့တော် မှာမူ ဗွန်းမြို့ဖြစ်လေသည်။

ဘာလင်မြို့သည် ဂျာမနီနိုင်ငံ အလယ်ရှိ ကျယ်လွင့်သော မြေပြင်၏အလယ်၌ တည်ထားသော မြို့ဖြစ်၍ ဂျာမနီနိုင်ငံ၏ အရေးပါသော အဲ့လဗမြစ်နှင့် အိုဒါမြစ်တို့၏ မြစ်ဝှမ်း နှစ်ခု အကြား၌လည်း တည်ရှိသည်။ ဂျာမနီနိုင်ငံ၏ ပင်လယ် ဆိပ်ကမ်း မြို့ကြီးများဖြစ်သော ဟမ်းဗတ်နှင့် စတက်တင်းမြို့များ မှ မိုင် ၁၈၀ နှင့် ၇၄ မိုင် အသီးအသီး ကွာဝေးရာ၊ အဲ့လဗမြစ်၊ အိုဒါမြစ်နှင့် တူးမြောင်းများအားဖြင့် ထိုမြို့များနှင့် ရေကြောင်းအဆက်အသွယ်ပြုနိုင်သည်။ ထိုကြောင့် ဘာလင်သည် ဂျာမနီနိုင်ငံ၏ ဒုတိယ အကြီးဆုံး ပြည်တွင်း သင်္ဘောဆိပ်ကမ်းမြို့ကြီးအဖြစ်လည်း နှစ်ပေါင်းများစွာ ထင်ရှား ခဲ့လေသည်။

ဘာလင်မြို့၏ လူဦးရေသည် ၃,၃၄၃,၂၀၀ ဖြစ်ရာ၊ အရှေ့ ဘာလင်၌ ၁,၁၃၉,၉၀၀ ဖြစ်၍၊ အနောက် ဘာလင်၌ ၂,၂၀၃,၃၀၀ ဖြစ်လေသည်။ မဟာဘာလင် မြို့တော်ကြီး၏ အကျယ်အဝန်းသည် ၃၄၅ စတုရန်းမိုင်ခန့် ရှိသည်။ မဟာဘာလင်၏ ၃ ပုံ ၂ ပုံခန့်သည် အမေရိကန်၊ ဗြိတိသျှ၊ ပြင်သစ်တို့၏ ဩဇာလွှမ်းမိုးသော အနောက်ဘာလင်အပိုင်းဖြစ်၍၊ ကျန် ၃ ပုံ ၁ ပုံခန့်ဖြစ်သော အရှေ့ဘာလင်ကို ဆိုဗီယက်ရုရှက ဩဇာလွှမ်းမိုးသည်။ ဘာလင်မြို့၏ဘေးပတ်ဝန်းကျင်သည် ကွန်မြူနစ် ဩဇာ လွှမ်းမိုးကြီးစိုးသော အရှေ့ဂျာမနီ နိုင်ငံ ဖြစ်လေသည်။

ပထဝီဝင် အနေအထားအရ ဘာလင်သည် ပရပ်ရှား၊ ဩစတြီးယား၊ ပိုလန်နှင့် ရုရှ နိုင်ငံများ၏ လယ်ယာ စိုက် ဒေသများအတွက် ဈေးကွက်နှင့် ဖြန့်ချိရေး အချက်အခြာဌာနဖြစ်သည်။ ဘာလင်သည် ဂျာမနီနိုင်ငံမြောက်ပိုင်း မီးရထားလမ်းများ၏ ဗဟိုဌာန ဖြစ်သည့်ပြင် ဥရောပ အလယ်ပိုင်း၏ မီးရထားနှင့် လေကြောင်း အဘွက် အရေးပါသော ဗဟိုဌာနလည်း ဖြစ်သည်။ ဘာလင်မြို့တွင် ဥရောပတိုက်၌ အကြီးဆုံးသော လေဆိပ်ကြီးရှိသည်။

ဘာလင်သည် နိုင်ငံရေးအရ၎င်း၊ စက်မှု လုပ်ငန်း၌၎င်း အရေးပါသော မြို့ကြီး ဖြစ်သည်။ ဒုတိယ ကမ္ဘာစစ်ကြီး မတိုင်မီခေတ်က ဘာလင်မြို့၏ လူဦးရေ ထက်ဝက်ခန့်သည် စက်မှု လုပ်ငန်းများကို လုပ်ကိုင်ကြသည်။ သံနှင့် စက်မှု လုပ်ငန်းသည် အကြီးကျယ်ဆုံး ဖြစ်သည်။ မီးရထားပစ္စည်း များ၊ ဘိုင်စကယ်များ၊ လျှပ်စစ် ပစ္စည်းများ၊ သံမဏိ က လောင်တံများ၊ အပ်ချုပ်စက်များ လုပ်ကိုင်သည့် လုပ်ငန်း များလည်း ကြီးကျယ်သည်။ ထိုပြင် သိုးမွေးလုပ်ငန်း၊ သစ်လုပ်ငန်း၊ အထည်အလိပ် အနုစား လုပ်ငန်း၊ အဝတ်အထည် ချုပ်လုပ်သည့် လုပ်ငန်းများလည်း လုပ်ကိုင်ကြသည်။ ဘာလင်မြို့မှ ဖြစ်ချက်ရုံများသည် ကျော်ကြားသည်။ ပုံနှိပ် လုပ်ငန်းသည်လည်း ဘာလင်မြို့၏ လုပ်ငန်းကြီးတခု ဖြစ်လေသည်။ ၁၉ ရာစုနှစ်အတွင်းက ဘာလင်မြို့သည် ကောက်ပဲသီးနှံ အကြီးအကျယ် ရောင်းဝယ် ဖောက်ကားသည့် ဗဟိုဌာနကြီး ဖြစ်လာခဲ့လေသည်။

ဒုတိယ ကမ္ဘာစစ်၏ ဖုံးဒဏ်များကို မခံရမီက ဘာလင်

# ဘာလင်မြို့



(အပေါ်ပုံ) အရှေ့နှင့်အနောက်ဘာလင်မြို့ကို နယ်နိမိတ် ခွဲခြားသတ်မှတ်ရာဖြစ်သော ဗရန်ဒင်ဗတ် တံခါးကြီး
(အောက်ပုံ) အနောက်ဘာလင်မြို့ရှိ အထူးခေတ်မှီစွာ ဆောက်လုပ်ထားသော ကွန်ဂရက် စည်းဝေးခန်းမဆောင်ကြီး

သည် စက်ရုံအလုပ်ရုံများ များပြားသော်လည်း အလွန် သန့်ရှင်း၍ ကျန်းမာရေးနှင့် ညီညွတ်သော မြို့ကြီးဖြစ်သည်။ စက်ရုံ အလုပ်ရုံများမှ မီးခိုးများ မထွက်အောင် ပြုလုပ်ထား၍ လမ်းများသည်လည်း အလွန်သန့်ရှင်းသည်။ ဘာလင်မြို့၏ အလှအပဆုံးနှင့် အစည်ကားဆုံး လမ်းမကြီးသည် လင်ဒင်ရိပ်သာဖြစ်၍၊ ကမ္ဘာကျော် လမ်းမတော်ကြီးလည်း ဖြစ်သည်။ လမ်း၏ အရှည်သည် တမိုင်လျော့လျော့ဖြစ်၍၊ ဒုတိယ ဝီလျံကေရာဇ်၏ နန်းတော်မှသည် ဗရန်ဒင်ဗာဂျာ တောခေါ် မုတ်ဝကြီးတိုင်အောင် ဖြစ်သည်။ ဘာလင်တက္ကသိုလ်၊ အော်ပရာ ဇာတ်ရုံ၊ ကေရာဇ် နှစ်ပါး၏ နန်းတော် နှစ်ဆောင်၊ ထိပ်တန်း ဟိုတယ်ကြီးများ၊ ဆိုင်ကြီးကနားကြီးများသည် ထိုလမ်းမတော်ကြီး တလျောက်၌ ရှိကြသည်။ ထိုပြင် စာအုပ်များ၊ စာမူများဖြင့် ကြွယ်ဝပြည့်စုံသော တော်သုံး စာကြည့်တိုက်ကြီးသည်လည်း ထိုလမ်းကြီး၌ပင် ရှိသည်။ ဒုတိယ ကမ္ဘာစစ်အတွင်းက ထိုလမ်းမတော်ကြီးသည်လေကြောင်းမှသိသာထင်ရှားလွန်းလှသဖြင့် အမျိုးမျိုး ရုပ်ဖျက်ထားရသည်။ သို့တိုင်အောင် ထိုလမ်းမတော်ကြီး တလျောက် ဗုံးဒဏ်မမိသော အဆောက်အအုံ မရှိသလောက် ဖြစ်ခဲ့သည်။ မြို့ကျက်သရေဆောင်၊ ဗိသုကာ အနုပညာမြောက်လှသော ဗရန်ဒင်ဗာဂျာခုတ်ဝကြီးသည်မူ ကံအားလျော်စွာ ဗုံးဘေးမှ ကင်းလွတ်ခဲ့လေသည်။

ရှေးပရပ်ရှား ပြည့်ရှင်များသည်၎င်း၊ နောင်ဂျာမန်ကေရာဇ်များသည်၎င်း ငွေကို ရေလို သုံးကာ ဘာလင်မြို့တော်ကြီးအား ခမ်းနားကြီးကျယ်အောင် ပြုပြင် ဖန်တီးခဲ့ကြသည်။ ထိုကြောင့် ဒုတိယကမ္ဘာစစ် မတိုင်မီက ဘာလင်သည် လှပခန့်ညား၍ ထုထယ်ကြီးမားသော အဆောက်အအုံကြီးများဖြင့် ပြည့်နှက် စည်ကားခဲ့သည်။ အခန်းပေါင်း ၆၀၀ ရှိသည့် နန်းတော်ကြီး၊ လူသာရန် ဘုရားဝတ်ကျောင်းတို့သည် ထုထယ်ကြီးမား လှပခန့်ညားသည့် အဆောက်အအုံများ ဖြစ်ကြသည်။ ထိုပြင် နာဇီတို့ တန်ခိုးတက်စက မီးရှို့ဖျက်ဆီးခဲ့သော ဂျာမန်လွှတ်တော်ကြီးသည်လည်း ဘာလင်မြို့၏ ကျက်သရေဆောင်တခု ဖြစ်ခဲ့သည်။ ပြတိုက်ဟောင်းနှင့် ပြတိုက်သစ်၊ ကေရာဇ် ဖရက်ဒရစ်၏ ပြတိုက် စသည်တို့သည်လည်း ထူးခြားလှပသော အဆောက်အအုံများ ဖြစ်ကြသည်။ တိုင်ယာဂါတင် အမည်ရှိ ဧက ၆၃၀ ခန့်ကျယ်ဝန်းသော ဥယျာဉ်ကြီးကား ဘာလင်မြို့၏ ကျက်သရေဆောင်တခု ဖြစ်၍၊ အနုပညာ လက်ရာမြောက်သော ပုဂ္ဂိုလ်ကျော်များ၏ ရုပ်တုများစွာ ထိုဥယျာဉ် အတွင်း၌ ရှိလေသည်။

ယင်းကဲ့သို့ ခမ်းနားကြီးကျယ် လှပတင့်တယ် သပ်ရပ်သန့်ရှင်းသော ဘာလင်မြို့၏ မူလအစသည် ၁၂ ရာစုခေတ်ခန့်က စပရီးမြစ်ကို ဖြတ်ကူးရန် အချက်အခြာ ကျသော နေရာ၌ ဖြတ်သန်း သွားလာမှုကို စောင့်ကြပ်ရန် တည်ဆောက်သည့် မြို့ကလေးမျှသာ ဖြစ်သည်။ ၁၄ ရာစုခေတ်တွင်မူ ဂျာမနီနိုင်ငံဟူသည် ထီးပြိုင် နန်းပြိုင် စိုးစံကြသော နယ်ပယ်များကို စုပေါင်းခေါ် ဝေါ်ခြင်း ဖြစ်၍ ထိုခေတ်တွင် ဟိုဟင်ဆောလန်မျိုးဆက်တို့သည် ဗရန်ဒင်ဗတ်နယ်၌ စိုးမိုးကြရာ၊ ဘာလင်သည် ထိုနယ်အတွင်း တစိတ်တဒေသ ပါဝင်ခဲ့သည်။ ၁၅ ရာစုနှစ်တွင် ဘာလင်သည် ဗရန်ဒင်ဗတ်ပြည်နယ်၏ မာဂရေ့ဘ်ခံ နယ်စားကြီးများ နေထိုင်သောမြို့တော် ဖြစ်လာသည်။ သို့သော် နှစ်သုံးဆယ် စစ်ပွဲ (၁၆၁၈–၄၈) ကြောင့် မြို့ပျက်လုနီးပါး ဖြစ်ခဲ့သည်။

ဘာလင်မြို့အား မြို့ကြီး ပြကြီးအဖြစ် စည်ပင်ဖွံ့ဖြိုး တိုးတက်အောင် ပြုပြင်သူသည် ၁၆၄၀ ပြည့်နှစ်တွင် ဗရန်ဒင်ဗတ်ကို စိုးမိုးသူ သ-ဂရိတ်-အီလက်တာဘွဲ့ခံ ဖရက်ဒရစ်ဝီလျံ ဖြစ်သည်။ ဖရက်ဒရစ်ဝီလျံသည် ဘာလင်မြို့ကို ခိုင်လုံတောင့်တင်းအောင် ပြုပြင်သည်။ မြို့ကွက်ချ၍ လူနေအိမ်ခြေများ၊ ရုံးပြင်ကနား အဆောက်အအုံများဖြင့် စည်ကားသိုက်မြိုက်စေသည်။ လမ်းများခင်းစေသည်။ ထိုမြို့၏ ကုန်သွယ်မှုတိုးတက်ရေးအတွက် စပရီးမြစ်နှင့် အိုဒါမြစ်ကို ဆက်သွယ်သော တူးမြောင်း ဖောက်လုပ်စေရာ ဗောလတစ်ပင်လယ်ကမ်းခြေနှင့် ကုန်သွယ်မှုကိုပါ ဖွံ့ဖြိုးစေခဲ့သည်။ ထိုကြောင့် ဘာလင်သည် ကုန်သွယ်မှု အချက်အခြာမြို့ကြီးဖြစ်လာသည်။ ကုန်သွယ်မှု တိုးတက်ခြင်းကြောင့် လူဦးရေလည်း တိုးတက်လာရာ၊ ၁၆၄၈ ခုနှစ်တွင် လူဦးရေ ၆,၀၀၀ မျှသာရှိခဲ့သောဘာလင်တွင် ဖရက်ဒရစ်ကံကုန်သောနှစ် ၁၆၈၈ ခုနှစ်၌ လူဦးရေ ၂ သောင်းကျော်အထိ တိုးတက်ခဲ့ရာ၊ ထိုခေတ်အခါက ထူးခြားသော တိုးတက်မှုတရပ် ဖြစ်သည်။

နောင်စိုးစံကြသည့် ပရပ်ရှားမင်းများကလည်း ဘာလင်မြို့ကြီး ကြီးကျယ် လှပခမ်းနားအောင် ဆက်လက် ဆောင်ရွက်ကြသည်။ ၁၈၇၁ ခုနှစ်တွင် ဂျာမန် အင်ပိုင်ယာကြီး ထူထောင်သောအခါ ဘာလင်သည် မြို့တော်ဖြစ်လာ၍ လျင်မြန်စွာ တိုးတက် ဖွံ့ဖြိုးသည်။ ထိုအခါက လူဦးရေ ၈ သောင်းကျော်ရှိသော ဘာလင်သည် ၁၉၁၀ ပြည့်နှစ်တွင် လူဦးရေ ၃,၀၇၀,၀၀၀ ကျော် ဖြစ်လာ၍ ဥရောပတိုက်၌ အရေးပါသော မြို့ကြီးပြကြီး ဖြစ်လာသည်။ ဂျာမန် အင်ပိုင်ယာသည် ပဌမကမ္ဘာစစ် အပြီးတွင် ပြိုကွဲပျက်စီးရာ၊ နိုင်ငံတွင်း၌ အခြေအနေဆိုးရွား၍ မငြိမ်မသက်ရှိနေခဲ့သည်။ ၁၉၁၈–၂၃ ခုနှစ်များအတွင်း အရောင်း အဝယ်များ၊ စက်မှုလုပ်ငန်းများ မတွင်ကျယ်တော့သဖြင့် ဘာလင် မြို့တော်၏ တိုးတက်မှုသည်လည်း တုံ့သွားသည်။ သို့သော် တစတစ ပြန်လည် နာလန်ထူလာရာ၊ ၁၉၄၀ ပြည့်နှစ်တွင် ကမ္ဘာ၌ စတုတ္ထ လူဦးရေအများဆုံးမြို့ကြီး ဖြစ်လာပြန်လေသည်။

ယင်းကဲ့သို့ ကြီးကျယ် စည်ကား၍ သပ်ရပ် သန့်ရှင်းသော ဘာလင်မြို့တော်သည် ဒုတိယ ကမ္ဘာစစ် ဖြစ်လာသောအခါ၊ လေကြောင်းရန်ကို အများဆုံး ခံရသည်။ အဆောက်အအုံများ၊ အလုပ်ရုံများ အားလုံးလိုလိုပင် ပျက်စီးခဲ့သည်။ ဂျာမန်တပ်များသည် ဘာလင်မြို့တော်ကြီးကို ရှုပ်ရှုပ်ချ ချ ကြိုးစားကာကွယ်ကြသော်လည်း ၁၉၄၅ ခုနှစ် မေလ ၂ ရက်နေ့တွင် ရုရှတပ်များကို အညံ့ခံ၍ မြို့တော်ကြီးကို လက်လွှတ်ကြရသည်။

ဒုတိယ ကမ္ဘာစစ်အပြီးတွင် အမေရိကန်၊ ဗြိတိသျှ၊ ပြင်သစ်နှင့် ရုရှနိုင်ငံတို့ ပါဝင်သော ကွန်မန်ဒေးကျူရာ ခေါ် လေးနိုင်ငံ အဖွဲ့က ဘာလင်မြို့ကို ၄ ပိုင်းခွဲခြား အုပ်ချုပ်ကြသည်။ နောင်အခါ သဘောမညီညွတ်မှုများ ပေါ်ပေါက်လာပြီးလျှင် ၁၉၄၇ ခုနှစ်တွင် အမေရိကန်၊ ဗြိတိသျှနှင့် ပြင်သစ်အာဏာပိုင်များ အုပ်ချုပ်သည့် အနောက်ဘာလင်နှင့် ဆိုဗီယက်ရုရှ အုပ်ချုပ်သည့် အရှေ့ဘာလင် ဟူ၍ နှစ်ပိုင်းခွဲလိုက်သည်။ အမေရိကန်၊ ဗြိတိသျှ၊ ပြင်သစ်အုပ်စုနှင့် ဆိုဗီယက်အုပ်စုတို့၏ ပဋိပက္ခများကြောင့် ဘာလင်မြို့သူမြို့သားတို့သည် စစ်ပြီးစနှစ်များတွင် အစာရေစာ ငတ်မွတ်ခြင်း၊ ကုန်ပစ္စည်း ရှားပါးခြင်းဒဏ်ကို အလူးအလဲ ခံကြရလေသည်။

၁၉၄၉ ခုနှစ်တွင် အရှေ့ ဂျာမနီနှင့် အနောက် ဂျာမနီ ဟူ၍ ပိုင်းခြားလိုက်သောအခါ၊ အရှေ့ဘာလင်သည် အရှေ့ဂျာမနီအတွင်း၌ ပါဝင်သည်။ အနောက် ဘာလင်သည် အနောက်ဂျာမနီအတွင်း၌ ပါဝင်သည်။ အနောက် ဂျာမနီသည် အမေရိကန်အုပ်စု သြဇာမကင်းသော ပြည်ထောင်စုသမတ ဂျာမနီနိုင်ငံကို ထူထောင်၍၊ ဗွန်းမြို့ကို မြို့တော်အဖြစ် ထားရှိသည်။ အရှေ့ဂျာမနီသည် ဆိုဗီယက်သြဇာ မကင်းသော ဒီမိုကရက်တစ်သမတ ဂျာမနီနိုင်ငံကို ထူထောင်၍ အရှေ့ဘာလင်ကို မြို့တော်အဖြစ် ထားရှိလေသည်။ အရှေ့ဘာလင်နှင့် အနောက်ဘာလင်သည် မြို့တော်ပြန်လည် ထူထောင်ရေးကို အပြိုင်ဆောင်ရွက်လျက် ရှိကြရာ၊ အနောက်ဘာလင်သည် အရှေ့ဘာလင်ထက် လျင်မြန်စွာ ပြန်လည် စည်ကား တိုးတက်လျက် ရှိသည်ဟု ဆိုကြလေသည်။

**ဘာသာစကားရပ်ပညာ။** ။ဘာသာစကားရပ် ပညာဟူသည် စံနစ်တကျ သိပ္ပံနည်းကျကျဖြင့် ကမ္ဘာ့ဘာသာစကားများကို နှိုင်းယှဉ်လေ့လာ ဆန်းစစ်ကြည့်သော ပညာတရပ် ဖြစ်ပေသည်။ ထိုပညာရပ်သည် စကားဇာစ်မြစ်ပညာရပ်တွင် အကျုံးဝင်သော ပညာတရပ်လည်း ဖြစ်ပေသည်။ (စကားဇာစ်မြစ်ပညာရပ် — ရှု။) ထိုပညာရပ်ကို လွန်ခဲ့သောနှစ်ပေါင်း ၂၀၀ ကျော်ခန့်ကမှ စံနစ်တကျ လေ့လာလိုက်စား ခဲ့ကြသည်။ သက္ကတဘာသာစကားကို ဥရောပပညာရှင်တို့ တွေ့သိလာခြင်းသည် ဘာသာစကားများကိုနှိုင်းယှဉ်လေ့လာရာ၌ များစွာ အထောက်အကူ ဖြစ်ခဲ့လေသည်။

ဘာသာစကားရပ် ပညာအရ ကမ္ဘာပေါ် တွင် ပြောဆိုကြသော ဘာသာစကားပေါင်း ၆,၀၀၀ ကျော် ရှိသည်ဟု ဆိုသည်။ ယင်းဘို့သည် မူလဘာသာစကားကြီးများမှ ဆင်းသက်ခြင်းများဖြစ်၍ များသောအားဖြင့် တခုနှင့်တခု ဆက်နွယ်မှုများရှိသည်ဟု ဆိုလေသည်။ ဂရိဘို့သည် ရှေးခေတ် ယဉ်ကျေးမှု အမျိုးမျိုးကို ဖန်တီးခဲ့သူများ ဖြစ်ကြသည်။ သို့သော် စကားဇာစ်မြစ်ပညာရပ်၌၎င်း၊ ဘာသာ အချင်းချင်း ဆက်သွယ်ပုံ၌၎င်း လမ်းမှားလိုက်ခဲ့သည်။ ဘာသာခြားစကားတို့သည် လူရိုင်းတို့၏ စကားဖြစ်သည် ဟူ၍ အယူရှိသဖြင့် မိမိတို့၏ ဒေသန္တရဘာသာ စကားများမှလွဲ၍ အခြားဘာသာစကားများကို လေ့လာဆန်းစစ်ခြင်း မပြုခဲ့ကြပေ။ စကားလုံး၏ အရင်းအမြစ်ကို ရှာဖွေရာ၌ မည်သည်က ဓာတ်၊ မည်သည်က ဝိဘတ်ဟူ၍ သက္ကတကျမ်းပြုဆရာတို့သိကြသကဲ့သို့ ဂရိဆရာတို့ ခွဲခြားမသိကြချေ။ ခရစ်ယန်အယူဝါဒပျံ့နှံ့လာသောအခါ ဘာသာစကား လေ့လာမှုသည် တိုးတက်လာသည်။ ခရစ်ယန် ဝါဒပျံ့နှံ့ရေးအတွက် ဂရိ၊ ရောမတို့ကဲ့သို့ လူယဉ်ကျေးများနှင့် လူရိုင်းများ၏ အကြားရှိ အတန်းစားခွဲခြားမှုကဲ့သို့ အတားအဆီးများကို ဖြိုဖျက်ကြသည်။ ထိုအခါ မိမိတို့ဘာသာစကားမှအပ အခြားဘာသာစကားများကို သိရှိနားလည်လာကြသော်လည်း ဘာသာစကား အချင်းချင်း ဆက်သွယ်ပုံကို သိပ္ပံနည်းကျကျ မလေ့လာမဆန်းစစ်ခဲ့ကြသေးပေ။ ပုံနှိပ်အတတ် ပေါ်လာပြီးသည့် နောက်တွင် ဘာသာစကား တခုနှင့်တခု နှိုင်းယှဉ်လေ့လာရန် လွယ်ကူလာခဲ့ပေသည်။ သို့သော် ဘာသာစကား တခုနှင့်တခု နှိုင်းယှဉ်၍ လေ့လာဆန်းစစ်ခြင်းကို ၁၈ ရာစုခေတ်တွင်မှ စံနစ်တကျ ပြုလုပ်ခဲ့ကြလေသည်။ ယခုအခါ နိုင်ငံများစွာမှ ပညာရှင်တို့သည် ထိုပညာရပ်ကို လေ့လာဆောင်ရွက်လျက် ရှိကြလေသည်။

ယင်းသို့စံနစ်တကျ နှိုင်းယှဉ်ဆန်းစစ်ရာ၌ ကမ္ဘာတဝှန်း၌ ပြောဆိုရေးသားလျက် ရှိကြသော ဘာသာစကားတို့သည် အရေအတွက်အားဖြင့် အလွန်များပြား လှပေရာ ယင်းတို့ကို လေ့လာစီစစ်ရန် မလွယ်ကူလှပေ။ သို့ဖြစ်စေကာမူ ဝါကျဖွဲ့ပုံဖွဲ့နည်းကို အမှီပြု၍ အောက်ပါအတိုင်း ၄ မျိုး ၄ စား ခွဲခြား ထားကြသည်။

### (က) နေရာရွေး၊ သို့မဟုတ် တသီးပုဂ္ဂလ၊ သို့မဟုတ် ကေဝဏ္ဏဘာသာစကား

ထိုဘာသာစကားမျိုးမှာ မြန်မာစကားလုံး လူ၊ မြစ်၊ ဦးဟူသော စကားတလုံး၊ အသံတချက်ထွက်သော ကေဝဏ္ဏစကားလုံးမျိုး ဖြစ်သည်။ အသွင်မပြောင်းဘဲ နေရာကို လိုက်၍

ဝါကျ၏ အဓိပ္ပါယ်ကို သိရသော စကားလုံးမျိုး ဖြစ်သည်။ ယင်းတို့သည် အသွင်မပြောင်းဘဲ တသီးပုဂ္ဂလ တည်နိုင်သောကြောင့်၊ တသီးပုဂ္ဂလ ဘာသာစကားမျိုးဟုလည်း ခေါ်သည်။ထိုဘာသာစကားမျိုးတွင် တရုပ်ဘာသာသည် အထင်ရှားဆုံးဖြစ်သည်။ ယင်းဘာသာ စကားမျိုးတွင် သဒ္ဒါကျမ်းရေးထုံးရေးနည်းကို အလေ့အထ မပြုကြချေ။

## (ခ) ကိုယ်တွင်းပြည့် ဘာသာစကား

ထိုဘာသာစကားမျိုးတွင် ကတ္တား၊ ကံ၊ ကြိယာ စသည်တို့ကို စုရုံးပြီးလျှင် ရှည်လျားသော စကားလုံး တခုတည်းဖြင့် ဝါကျဖြစ်အောင် ဆက်သွယ်ထားသည်။ ယင်းသို့သော ဘာသာစကားမျိုးကို တောင်နှင့် မြောက်အမေရိကတိုက် တိုင်းရင်းသားဘာသာစကားတို့၌ တွေ့ရသည်။ စကားတလုံး၏ အတွင်းသို့ အဓိပ္ပါယ်ပြည့်စုံအောင် လိုအပ်သော အစိတ် အပိုင်းများကို သွတ်သွင်းထားသောကြောင့် ကိုယ်တွင်းပြည့် ဘာသာစကားဟု ခေါ်သည်။

## (ဂ) ပူးတွဲဘာသာစကား

ထိုဘာသာစကားမျိုး၌ စကားလုံး၏ အစိတ်အပိုင်းတို့သည် တခုနှင့်တခု ကော်ဖြင့် ကပ်ထားသကဲ့သို့ ပူးတွဲနေကြသည်။ ယင်းသို့ ပူးတွဲရရှိသော စကားလုံးတို့သည် ကိုယ်တွင်းပြည့် ဘာသာစကားမျိုးမှာကဲ့သို့ အဓိပ္ပါယ်ပြည့်စုံသော ဝါကျမဟုတ်ဘဲ၊ သီးခြား တည်နေသော စကားလုံးများဖြစ်သည်။ တူရကီဘာသာစကားတွင် ထိုစကားလုံးမျိုး တွေ့ရသည်။ ပူးတွဲထားသော စကားလုံးတို့ကို တခုစီ ခွဲထုတ်ပြီးလျှင်သီးခြားစကားလုံးများအဖြစ်လည်း သုံးနိုင်သေးသည်။ မြန်မာဘာသာစကား၌ ယင်းကဲ့သို့ ပူးတွဲစကားလုံး အများအပြားရှိသည်။ ပုံစံအားဖြင့် သီးသန့် ခွဲခြားဟူသော စကားလုံးသည် သီး၊ သန့်၊ ခွဲ၊ ခြားဟူသော သီးခြား တည်နေသည့် စကား ၄ လုံးကို ပူးတွဲထားခြင်း ဖြစ်သည်။ ထို့ကြောင့် မြန်မာဘာသာ စကားကို ပူးတွဲဘာသာ စကားဟုလည်း ခေါ်နိုင်သည်။ အချို့ ပုံစံများတွင် စကားလုံး တပိုင်းသာ သီးခြားတည်နေနိုင်၍၊ ကျန်အပိုင်းမှာ ထိုသီးခြား ရပ်တည်နိုင်သော စကားလုံး၏ အထောက်အပံ့မျှသာ ဖြစ်သည်။ "ကောင်းခြင်း" ဆိုရာ၌ "ကောင်း" သည် သီးခြား တည်နေနိုင်၍ "ခြင်း" သည် နောက်ဆက်တွဲ ပစ္စည်း ဖြစ်သည်။ အချို့ ဘာသာစကားတို့၌ အထောက်အပံ့ပစ္စည်းကို ရှေ့ကလည်း ဆက်နိုင်သည်။ အာဖရိကတိုက် ကဖားဘာသာစကား၌ အထောက်အပံ့ပစ္စည်းကို ရှေ့၌ ထားလေသည်။

## (ဃ) ရုပ်ပြောင်းဝိဘတ်သွယ်ဘာသာစကား

ရုပ်ပြောင်းလဲခြင်း နှစ်မျိုးရှိသည်။ အချို့ စကားလုံးတို့သည် အတွင်းပြောင်းလဲနည်းဖြင့် ပြောင်းလဲကြသည်။ အချို့ကား နောက်ဆက်ပစ္စည်း ပြောင်းလဲနည်းဖြင့် ပြောင်းလဲကြသည်။ ဆီးမစ်တစ်ဘာသာစကားများသည် အတွင်းပြောင်းလဲနည်းဖြင့် ရုပ်ပြောင်း ကြသည်။ ယင်းတို့၌ ဓာတုသည် ဗျည်းသုံးလုံးဖြစ်၍ ထိုဗျည်းများ အတွင်းသို့ သရများကို ထည့်ခြင်းဖြင့် လိုအပ်သော စကားလုံးများကို ရသည်။ အင်ဒို-ဥရောပဘာသာ စကားများသည် နောက်ဆက် ပစ္စည်းကြောင့် ရုပ်ပြောင်းကြသည်။ ထိုဘာသာစကားမျိုး၌ ဓာတုသည် သရကိုမှီ၍ အသံတချက်တည်းထွက်သော ပင်ရင်းစကားလုံး ဖြစ်သည်။ သက္ကတနှင့် ပါဠိဘာသာတို့သည် ဤသို့ ရုပ်ပြောင်းသော ဘာသာ စကားများဖြစ်ကြသည်။ ပုံစံမှာ သိခြင်းအနက်ရသည့် "ဗုဓ်" ဟူသော ဓာတု နှင့် "တ" ဟူသော နောက်ဆက် ပစ္စည်းတို့ ပေါင်းစပ်ကြရာ ဗုဒ္ဓဟူသော တည်ပုဒ်ကို ရသည်။ တည်ပုဒ်ဟူသည်မှာ ဓာတုနှင့် နောက်ဆက်ပစ္စည်းတို့ ပေါင်းစပ်ထားခြင်း ဖြစ်သည်။ ဗုဒ္ဓဟူသော တည်ပုဒ်မှ၊ ဗုဒ္ဓေါ (ဘုရားသည်)၊ ဗုဒ္ဓဿ (ဘုရား၏)၊ ဗုဒ္ဓသ္မိံ (ဘုရား၌) အစရှိသော နာမ်ဝိဘတ်သွယ်သည့် စကားလုံးများကိုရသည်။ ဤနည်းအားဖြင့် နောက်ဆက်ပစ္စည်း ပြောင်းလဲခြင်းဖြင့် လိုအပ်သော စကားလုံးရရှိသည့် ဘာသာစကားမျိုးကို ဝိဘတ်သွယ် ဘာသာစကားဟူ၍လည်း ခေါ်ခေါ်သည်။

ယင်းကဲ့သို့ ဘာသာစကား ၄ မျိုး ၄ စား ခွဲခြားထားသော်လည်း ဘာသာစကား တမျိုးသည် ဖော်ပြသော ၄ မျိုး ၄ စားအနက် တမျိုး၌ ပါဝင်ပြီးလျှင် အခြားတမျိုးနှင့် မသက်ဆိုင်တော့ဟူ၍ မမှတ်ယူရာ။ တမျိုး၌ ပါဝင်သော်လည်း အခြားတမျိုး၌လည်း ပါဝင်သော လက္ခဏာများကို ရံဖန်ရံခါ တွေ့ရသည်။ ပုံစံပြရလျှင် မြန်မာစကားသည် ခွေး၊ အိပ် ကဲ့သို့ စကားတလုံး၊ အသံတချက် ထွက်သောစကားလုံးများကြောင့် မြန်မာဘာသာစကားသည် ကေဝဏ္ဏ ဖြစ်သည်ဟု ဆိုအပ်သည်။ သို့သော် "လူများ" ဟူသောစကားလုံးတွင် သီးခြားစကား "လူ" နှင့် သီးခြားစကား"များ"ကို ပူးတွဲထားသဖြင့်၊ မြန်မာဘာသာသည် ပူးတွဲ ဘာသာစကားဟု ဆိုအပ်ပြန်သည်။ ယင်းသည်ကို ထောက်၍ ဘာသာစကားသည် အစဉ်တည်မြဲသော အရာမဟုတ်ပေ။ စိတ်ကူး စိတ်သန်းကို ဖော်ပြခြင်း ဖြစ်သည့်အတိုင်း စိတ်သွားတိုင်း ပြောင်းလဲတတ်သော သတ္တိရှိကြောင်း သိသာပေသည်။

ဘာသာစကားရပ် ပညာကို လေ့လာ စူးစမ်းကြသော ပညာရှင်များသည် ကမ္ဘာ့ ဘာသာစကားများကို အထက်ပါအတိုင်း ၄ မျိုး ခွဲခြားနိုင်သည်သာမက၊ ဘာသာစကားများ၏ စည်းကမ်းချက်များကိုပါ တွေ့ရှိလာကြသည်။ ယင်းတို့ကို တွေ့ရှိရခြင်းဖြင့် ဘာသာစကားပေါင်း များစွာတို့သည် မူလပင်မ ဘာသာစကားတမျိုးမှ ခွဲထွက်ခဲ့ခြင်းများဖြစ်သည်

ကိုလည်း တွေ့လာကြရသည်။ အထူးသဖြင့် ထိုပညာရှင်များသည် အင်ဒို-ဥရောပဘာသာ စကားများ၏ ပင်မမျိုးရင်းကို စူးစမ်းသုတေသန ပြုကြသည်။ထိုအခါ သက္ကတ၊ပါးရှင်း၊ ဂရိ၊ လက်တင်၊ ဂျာမန်၊ အင်္ဂလိပ်နှင့် နော့စ ဘာသာစကားတို့သည် မူလအင်ဒို-ဥရောပဘာသာစကား ပင်မကြီးမှ ဆင်းသက် ဆက်နွှယ်သော ဘာသာစကားများ ဖြစ်ကြောင်း တွေ့ရသည်။ အင်ဒို-ဥရောပ ပင်မဘာသာ စကားဝင် ဘာသာစကားပေါင်း မြောက်မြားစွာ ရှိသေးသည်။

ထိုဘာသာ စကားများတွင် မူလဇာစ်မြစ်ချင်း တူသော စကားလုံးများကို တွေ့ရသည်။ သိပ္ပံပညာရှင်များ၏ ယူဆချက်မှာ ရှေးရှေးအခါက ဥရောပအလယ်ပိုင်းတွင် လူမျိုးတမျိုးရှိ၍ အင်ဒို-ဥရောပ မူလ ဘာသာစကားကို ပြောဆိုခဲ့ကြဟန်တူသည်။ နောင်အခါ လူဦးရေ တိုးပွားလာသဖြင့် ရေကြည်ရာ မြက်နုရာ ရွှေ့ပြောင်းကြရာ၊ အရပ်လေးမျက်နှာသို့ ရောက်သွားကြသည်။အချို့သည် ဂရိသို့ရောက်သည်။ အချို့သည် ပြင်သစ်သို့ရင်း၊ အင်္ဂလန်သို့ရင်း ရောက်ရှိကြသည်။ အုပ်စုကွဲသွားသော လူစုများ၏ သားသမီး မြေးမြစ်အစဉ်အဆက်များ လက်ထက်တွင် နှစ်ကာလ ရှည်ကြာသော် မူလဘာသာစကားသည် တဖြည်းဖြည်း ပြောင်းခဲ့ကြဟန်တူပေသည်။ထိုကြောင့် မူလဇာစ်မြစ်တူသော်လည်း အသံနှင့် အသွင်အပြင် ပြောင်းလဲသော စကားလုံးများ တွေ့ရှိကြရခြင်း ဖြစ်ပေသည်။ သက္ကတဘာသာစကား၌ "ပီတာ" ဟူသော စကားလုံးသည် လက်တင်ဘာသာ၌ "ပေတာ" ဟူ၍ရင်း၊ ဂျာမန်၌ "ဖောတာ" ဟူ၍ရင်း၊ အင်္ဂလိပ်၌ "ဖားသား" ဟူ၍ရင်း တွေ့ကြရလေသည်။

ဥရောပနှင့် အာရှမိုင်းနား၊ မြောက် အိန္ဒိယတို့၌ အင်ဒို-ဥရောပ ဘာသာမျိုးရင်းမှ ဆင်းသက်သော ဘာသာစကားများကို သုံးနှုန်းပြောဆိုခဲ့ကြသည်။ ဘာသာစကားရပ်ပညာကို လေ့လာသူ ပညာရှင်များက ကမ္ဘာတွင် မူလဘာသာစကားမျိုးရင်းသည် အင်ဒို-ဥရောပဘာသာစကားတခုတည်း မဟုတ်ကြောင်း သိရှိလာကြသည်။ ထိုကြောင့် မူလ ပင်မဘာသာစကားကြီးများကို စူးစမ်းရှာဖွေ လေ့လာကြသောအခါ အောက်ပါတို့သည် ကမ္ဘာ၌ ထင်ရှားသော မူလပင်မဘာသာစကားကြီးများ ဖြစ်ကြကြောင်း တွေ့ရလေသည်။

ယင်းတို့ကား အင်ဒို-ဥရောပ၊ သို့မဟုတ် အာရိယန် ဘာသာစကား၊ဟမီတို-ဆီးမစ်တစ် ဘာသာစကား၊အင်ဒို-တရုပ်၊ သို့မဟုတ်၊တိဗက်-တရုပ် ဘာသာစကား၊ယူရယ်-အယ်လတစ် ဘာသာစကားတို့ ဖြစ်ကြသည်။ အင်ဒို-ဥရောပ ဘာသာစကားကြီး၏ အဆက်အနွှယ်များတွင် ယခုကမ္ဘာ၌ အရေးပါထင်ရှားသော ဘာသာစကားများ ပါဝင်သည်။ ဟမီတို-ဆီးမစ်တစ် ဘာသာစကားကြီးတွင် ယဟူဒီ၊ ဗက်ဗီလုံးနီးယား၊ ဆီးရီးယား၊ အာရေဗျ၊ အီဂျစ်စသောဘာသာ စကားများ ပါဝင်သည်။ အင်ဒို-တရုပ်၊ သို့မဟုတ် တိဗက်-တရုပ်ဘာသာစကားကြီးတွင် တရုပ်၊ ယိုးဒယား၊ တိဗက်၊ မြန်မာစသော ဘာသာစကားများပါဝင်သည်။ယူရယ်-အယ်လတစ်ဘာသာစကားကြီးတွင် ဖင်းနစ် ဘာသာစကား၊ အက်စတိုးနီးယန်း ဘာသာစကား၊ တူရကီ ဘာသာစကား၊ မွန်ဂိုလီယန်ဘာသာစကားနှင့် မန်ချူး ဘာသာစကားတို့ ပါဝင်လေသည်။

အမေရိကတိုက်များမှ တိုင်းရင်းသား လူမျိုးများသည် လူမျိုး တမျိုးလျှင် ဘာသာစကား တမျိုးစီ ပြောဆိုကြ၍ တမျိုးနှင့် တမျိုး ဆက်သွယ်မှုလည်း မတွေ့ရ။ ပင်ရင်းမူလ ဘာသာစကား တမျိုးတည်းမှ ဆင်းသက်သည့် လက္ခဏာများလည်း မတွေ့ရချေ။ အမေရိကတိုက်များတွင် ဘာသာစကားအမျိုးကွဲ အများဆုံး တွေ့ရသည်။

အာဖရိကတိုက်တွင် ဘာသာစကား အသုံးအနှုန်းတို့သည် များစွာ ထူးခြား၍ မျိုးစုအားဖြင့် အနည်းဆုံး ၅ မျိုးခွဲခြားနိုင်သည်။ ယင်းတို့မှာ (၁) ဗွတ်ရှမန်း အစု (၂) ဗန္တူ အစု (၃) ဆူဒန်အစု (၄) ဟမီတစ်အစုနှင့်(၅) ဆီးမစ်တစ်အစုတို့ ဖြစ်ကြသည်။ အာဖရိကတိုက် ဘာသာ စကားများကို လေ့လာရာတွင် များစွာ စိတ်ဝင်စားဖွယ် ပြဿနာများနှင့် တွေ့ရ၍၊ ဘာသာစကား ဖြစ်ပေါ်လာပုံ၊ ကြီးပွားပုံ၊ စကားလုံး ပြောင်းလဲလာပုံတို့ကို ကောင်းစွာလေ့လာနိုင်သည်ဟု ပညာရှင်တို့က ဆိုလေသည်။

အချို့ဘာသာစကားတို့မှာ ယခုထက်တိုင် မည်သည့် အုပ်စု၊ မည်သည့်မျိုးရင်းတွင်မှ မပါဝင်ကြောင်း တွေ့ရသည်။ ပုံစံအားဖြင့် ဂျပန်ဘာသာစကားနှင့် ပြင်သစ်တောင်ပိုင်းဒေသ၌ရင်း၊ စပိန်မြောက်ပိုင်းဒေသတို့၌ရင်း ပြောဆိုကြသော ဗတ်စဘာသာစကားတို့ ဖြစ်ကြလေသည်။

ဘာသာစကားတမျိုးသည် ရှိရင်းစွဲအတိုင်း ရပ်တံ့တည်နေသည် မဟုတ်ချေ။ ယင်းတို့သည် နည်းအမျိုးမျိုးဖြင့် တိုးတက် ပြောင်းလဲနေကြသည်။ စစ်ဖက်အရေးကြောင့်ရင်း၊ ကုန်သွယ်မှုကြောင့်ရင်း တနိုင်ငံနှင့် တနိုင်ငံ ဆက်ဆံကြရသဖြင့် တနိုင်ငံမှ စကားလုံးများ တနိုင်ငံသို့ ရောက်ကြရသည်။ ထိုအခါ ရှိရင်းဘာသာ စကားတွင် စကားလုံးသစ်များ တိုးလာကြသည်။ ထို့ပြင် အချိန်ကာလကြာမြင့်သည့်အခါ၊ စကားလုံးများ၏ စာလုံးပေါင်းများ၊ အသံထွက်များ၊ အဓိပ္ပါယ်များသည်လည်း ပြောင်းလာကြသည်။ စကားလုံးများသည် ခက်ခဲသောအသံမှ လွယ်ကူသော အသံသို့လည်း ပြောင်းကြသည်။ အရေးခက်သော စကားလုံးများကို အရေးလွယ်အောင် ပြောင်းကြသည်။ လူတို့သည် ခက်ခက်ခဲခဲ ရှိခဲ့လျှင် လွယ်လွယ်ကူကူ ဖြစ်လေအောင် ကြိုးစားတတ်ကြသည်မှာ ဓမ္မတာပေတည်း။ ထို့ကြောင့် ပုဂံခေတ်မြန်မာစာ အရေးအသားနှင့် ယခုခေတ် မြန်မာစာ အရေးအသား မတူသကဲ့သို့၊ ယခုခေတ် အင်္ဂလိပ်ဘာသာ အရေးအသားနှင့်

ရှေးခေတ် အင်္ဂလိပ်ဘာသာ အရေးအသား တို့သည်လည်း မတူတော့ချေ။ ထို့ပြင် လူတို့သည် အသုံးအနှုန်းသစ်များကို လည်း ထွင်လာကြသည်။ စက်မှုလုပ်ငန်း၊ သိပ္ပံပညာတို့ တိုးတက်ထွန်းကားခြင်းသည် ဘာသာစကားတို့အား ဝေါဟာရ စကားလုံးအသစ်များဖြင့် တိုးပွားစေသည်။ ဘာသာစကား တို့သည် လွန်ခဲ့သောခေတ်များက စကားလုံးများ ပြောင်းလဲခြင်း၊ အသစ်အသစ် တိုးပွားခြင်းတို့ ဖြစ်ခဲ့သည့်နည်းတူ ရှေ့အဖို့တွင်လည်း စကားလုံးများ ပြောင်းလဲခြင်း အသစ်အသစ် တိုးပွားခြင်းတို့ ရှိနေမည်သာ ဖြစ်လေသည်။ စကားသစ်များ တိုးတက်နေစဉ် အချို့စကားလုံးများသည် တဖြည်းဖြည်း အသုံးနည်းကာ တိမ်ကော ပပျောက် သွားခြင်းများလည်း ရှိလေသည်။

# မင်္ဂလာယူ အခမ်းအနား

**ဘိသိက်မင်္ဂလာ ၁၄ မျိုးရှိသည်။ မင်းများအတွက် ဘိသိက်မင်္ဂလာ အရေးပါပုံ။ ဘိသိက်မင်္ဂလာ မခံယူသောမင်းသည် မင်းဟုပင် မခေါ်ထိုက်ပုံ။ ဘိသိက်မင်္ဂလာ ကျင်းပပုံ ကျင်းပနည်းများကို ဖော်ပြထားသည်။**

**ဘိသိက်မင်္ဂလာ**။ ။ဘိသိက် မင်္ဂလာ ဟူသည်မှာ အဘိသေက မင်္ဂလာ ဟူသော ပါဠိစကားမှလာ၍ ထိပ်၌ ရေသွန်းခြင်းမင်္ဂလာဟု အဓိပ္ပါယ်ရသည်။ ကျမ်းဂန် ထုံးစံနှင့် အညီ ဦးထိပ်၌ ရေသွန်း၍ မင်္ဂလာယူခြင်းပင် ဖြစ်သည်။

မြန်မာမင်း အုပ်ချုပ်ပုံ စာတမ်းတွင် ဘိသိက်မင်္ဂလာ ၁၄ မျိုးရှိကြောင်း ပြသည်။ ယင်းတို့မှာ မင်းမြှောက်ရန် ဦးထိပ်၌ သွန်းလောင်းအပ်သော (၁) မုဒ္ဓါဘိသိက် (၂) ရာဇာဘိသိက် (၃)ခတ္တိယဘိသိက် (၄)တိုင်းနိုင်ငံ ငြိမ်သက်သာယာစေခြင်းငှါ ပြုအပ်သော သကလာဘိသိက် (၅) ရန်အောင် စိမ့်သောငှါ ပြုသည့် ဇေယျာဘိသိက်နှင့် (၆) ဝိဇယာဘိသိက် (၇) အသစ်အသစ်သော အသရေကို ဖြစ်စေခြင်းငှါ ပြုသည့် သီရိပဝေသနာဘိသိက် (၈) အကျိုးစီးပွား များစိမ့်သောငှါ ပြုသော မဟာဘိသိက် (၉) ဆင်ဖြူစသောရတနာတို့ သိမ်းသည့်အခါ ပြုသည့် မင်္ဂလာ ဘိသိက် (၁၀) ထိမ်းမြားလက်ဆက်သောအခါ ပြုသည့် ဝိဝါဟာ ဘိသိက် (၁၁) အသက်ရှည်စေခြင်းငှါပြုသည့် အာယုဒီဃာ ဘိသိက် (၁၂) ညီတော်သားတော်တို့အား အိမ်ရှေ့ နှင်းခြင်းငှါ ပြုသည့် ဥပရာဇာ ဘိသိက် (၁၃) မိဖုရားကြီးအရာ တင်ထားခြင်းငှါ ပြုသော မဟေသီ ဘိသိက် (၁၄) ရွှေထီး ရွှေနန်း သိမ်းမြန်းခြင်းငှါ ပြုသော ဒွါရာဘိသိက်တို့ဖြစ်သည်။

ဘိသိက် မင်္ဂလာ ၁၄ မျိုးတွင် မုဒ္ဓါဘိသေကမင်္ဂလာသည် အရေးကြီးဆုံး ဖြစ်သည်။ ဘိသိက် မင်္ဂလာပွဲ ကျင်းပသော ထုံးတမ်းစဉ်လာသည် ဘုရင်စံနစ်ထွန်းကားသော နိုင်ငံတိုင်း၌ရှိသော်လည်း ကျင်းပပုံချင်း မတူကြချေ။

ကျမ်းဂန် ထုံးစံနှင့်အညီ ဦးထိပ်၌ သွန်းအပ်သော အဘိသိက်ရှိသော မင်းသည်သာ မုဒ္ဓါဘိသိက္ကမင်း မည်၏။ သို့မဟုတ်က သာမညမင်း မည်သည်။ ထိုသာမညမင်းကား မုချအားဖြင့် မင်းဟု မခေါ်ထိုက်ချေ။ ဘုရားသခင်ကပင်လျှင် 'အနာပတ္တိ နခတ္တိယာဘိသေကေန အဘိသိတ္တော ဟောတိ' အစရှိသဖြင့် 'ကျမ်းဂန်ထုံးစံနှင့်အညီ ဦးထိပ်၌ သွန်းလောင်းအပ်သော အဘိသိက်ရှိသော မင်းသာ မုချ မင်းမည်သဖြင့် ဦးထိပ်သွန်းလောင်းအပ်သော အဘိသိက်မရှိသောမင်း၊ ထိုမင်းမိဖုရားတို့ စံရာ တိုက်ခန်းသို့ မပန်မကြားဘဲ ဝင်သော်လည်း အာပတ်မသင့်'ဟု ဟောတော်မူသည်။ သီဟိုဠ်ကျွန်း၌ ဝိဇယမင်းနောက် ဥပတိဿအမတ်သည် ဘိသိက်မခံဘဲ တနှစ်ပတ်လုံး မင်းမူသည်ကို တနှစ်မင်းသုဉ်းသည်၊ မင်းဆိတ်၏ဟူ၍၎င်း၊ အဘယမင်း၏နောက် ပဏ္ဍုကာဘယမင်းသည် အဘိသိက်မခံဘဲ ၁၂ နှစ်ပတ်လုံး မင်းမူသည်ကို ၁၂ နှစ် မင်းသုဉ်းသည်၊ မင်းဆိတ်သည်ဟူ၍၎င်း မဟာဝင်ကျမ်း၌လာသည်။

ဘိသိက်မင်္ဂလာ ခံယူခြင်းငှါ ထိုက်သောမင်း၏ အင်္ဂါကား အသမ္ဘိန္နမင်းမျိုးဖြစ်ခြင်း၊ ရာဇစံ၌ တည်ခြင်း၊ တိုင်းနိုင်ငံသူ ရှင်လူအပေါင်းတို့အား သားတော် မြေးတော်တို့ကဲ့သို့ သနားကြင်နာခြင်း၊ မေတ္တာစိတ်ဖြင့် မျှခြင်း၊ တိုင်းနိုင်ငံသူ ရှင်လူ အပေါင်းတို့အား စောင့်ရှောက်ခြင်း ဟူ၍ ၅ ပါးရှိကြောင်းဖြင့် အဘိသေက ကျမ်း၌ လာသည်။ သို့ရာတွင် အသမ္ဘိန္နမင်းမျိုး မဟုတ်ဘဲ၊ ဘိသိက်ခံ၍ မင်းပြုကြသော ဇာတ်ဝတ္ထု သမိုင်းသက်သေများစွာလည်း ရှိသည်။

မြန်မာဘုရင်တို့ ဘိသိက်ခံမည်ရှိသော်၊ ဦးစွာ ဓာတ်ပျက် ဓာတ်ဆန်း ကျိန်းခန်းကာလကို ရွေးရသည်။ ထိုနောက် ဘိသိက်နန်းဆောက်ရန် အောင်မြေအရပ်ကို ရွေးကာ ဘိသိက်မင်္ဂလာ နန်းတော်ကို ဆောက်စေရသည်။ ဘိသိက်မင်္ဂလာနန်းဆောက်သော အစီအရင်ကား မြေပြင်ကို ညီညွတ်စွာ စီရင်ပြီးမှ ကြန်အင်လက္ခဏာနှင့် ပြည့်စုံသော နွား ၈ ရှဉ်းကို ရွှေကြိုး ငွေကြိုးတို့ဖြင့် တန်ဆာဆင်၍ ရွှေထွန် ငွေထွန်တို့ဖြင့် ပုဏ္ဏား ၈ ယောက်တို့က ရွှေတည်၍ ထွန်ရ၏။ လက္ခဏာပြည့်စုံသော သူကြွယ်သားမြေးတို့က ရွှေပေါက်တူး ငွေပေါက်တူးတို့ကို စွဲကိုင်လျက် ဂြိုဟ်နက္ခတ်တို့ကို ပူဇော်၍ တူးဆွရ၏။ ထိုနောက် စပါးမျိုး ၇ ပါးတို့ကို ဖြန့်ကြဲပြီးသော် ရေမျိုး ၇

ပါး၊ လေးကျွန်းမြေနှင့် မြေမျိုး ၇ ပါး၊ မြေစာနွားချေးတို့ဖြင့် ညီညွတ်စွာ ချရ၏။ ထိုနောက် ဂြိုဟ်နတ်တို့ကို ပူဇော်၍ ပန္နက်ရိုက်ခြင်း၊ ငြမ်းထောင်ခြင်းကိုပြုသည်။ တဖန်ဂြိုဟ်နတ်တို့အား ပူဇော်၍ ဘိသိက်နန်းသစ်ကို ထူသည်။

နန်းသစ်ထူသည့် အစီအရင် အကျဉ်းကား၊ ဘိသိက်နန်းတော်ရာရွှေတွင် သိကြားမှစ၍ ၂ ကျိပ်သောနတ်တို့အား စုံသော အုန်းအိပ်ရာ၊ ဆန်တင်းစပါးတင်း၊ အုန်းသီးပင်ပေါက်၊ ကြာသွတ်အိုး၊ လင်ပန်းဖလား ဖြူစင်စွာ ထမင်း၊ နွားနို့ ထောပတ်၊ပျား၊ တင်လဲ၊ အမြိန်အရသာ၊ ကွမ်း၊လက်ဖက်တို့နှင့် ဆီမီးနံ့သာ ထီးတံခွန်တို့ဖြင့် မန္တန်ရွတ်၍ ပဏ္ဏားတို့ကို ပူဇော်စေရ၏။ အောက်၌လည်း ခေါင်တွင် အကျစ်၊ အကြော်၊ အလှော်၊ အသင်း၊ သေစာ၊ ကွမ်း၊ လက်ဖက်တို့ဖြင့် ဘုတ်စားတည်ရ၏။ နန်းတည်မည့် နေ့၌ ပြည်တွင်းပြည်ပ၌ရှိသော စေတီ၊ ဆင်းတု၊ ရုပ်တု၊ ဗောဓိညောင်တော်တို့အား သင်ပုတ်ရေ ချမ်း၊ ထီး၊ တံခွန်၊ ကွမ်း၊ လက်ဖက်၊ ဆီမီးတန်ဆောင်၊ ပန်းပေါက်ပေါက်တို့ဖြင့် ပူဇော်ကြရသည်။ အဓိကရှိသောနတ်၊ ပြည်စောင့်နတ်တို့အားလည်း ပတ်စည်၊ စောင်းညှင်း၊ အမြိန်အရသာစသည်တို့ဖြင့် ပူဇော်ကြရသည်။ တနိုင်ငံလုံးရှိ စေတီ၊ ဆင်းတု၊ ရုပ်တု၊ အရိယာ သံဃာတော်မြတ်တို့အားလည်း တန်ဆောင်းဆောက်၍ ပြုစုပူဇော်ရသည်။ နန်းတော်ရာ ၈ မျက်နှာ၌ ကြီးစွာသော တန်ဆောင်းဆောက်၍ သီလဂုဏ်နှင့် ပြည့်စုံသော များစွာသော အရိယာသံဃာတော်တို့အား ဆွမ်းလုပ်ကျွေးခြင်းကို ပြုပြီးလျှင် များစွာသော အလှူဝတ္ထုတို့ကို လှူတော်မူ၍ စတုဘာဏဝါရ၊ မဟာသမယ၊ အဠဇေယျမင်္ဂလာ အစရှိသော ပရိတ်တော်တို့ကို ရွတ်တော်မူကြရ၏။ နတ်များအား အလှူအဖို့ အမျှပေးဝေခြင်း ပြုရသည်။

ရွှေနန်းတော် အရှေ့စူးစူး၌၊ မြင်းဖြူများကို ဆန်းကြယ်စွာ တန်ဆာဆင်၍ ဖောင်းကြီးညွန့်သွယ် ပေါင်းသောမှူးကြီးမတ်ကြီးတို့ကို ဖြူစင်စွာသော အဝတ်တို့ကို ဝတ်၍သွားလာနေစေ၏။ အရှေ့တောင်ထောင့်၌ မဏ္ဍပ်ကြီးစွာဆောက်၍၊ အထူးထူးသော ကချေသဘင်တို့ကို ကပြတီးမှုတ်စေသည်။ တောင်စူးစူး၌ ကြီးစွာသော ရွှေတန်ဆောင်ကို ထွန်းထားစေ၏။ အနောက်စူးစူး၌ တန်ဆာဆင်လျက်၊ ထီးဖြူ တံခွန်ဆောက်လျက် မင်္ဂလာရှိသော ဆင်တို့ကို နေစေ၏။ မြောက်စူးစူး၌ သမီးကညာ ၈ ယောက်တို့ကို ရွှေမှုတာ၊ ငွေမှုတာပိုက်လျက်ရပ်စေ၏။ ဖောင်းကြီးညွန့်သွယ်ပေါင်းသော ဖြူစင်စွာသော အဝတ်ကိုဝတ်သော၊ ဗိသုကာတို့၏ အကြီးဖြစ်သူတို့နှင့် တကွ ဗိသုကာတို့သည် အဆောင်ဆောင် နန်းတော်စောင့်တို့အား ရွှေလင်ပန်း၌ အမြိန်အရသာကိုထည့်၍ ပူဇော်ရ၏။ မြေနန်းသစ်တွင် ဓာတ်ဆန်းစုတ်ကူး အပြည့်အစုံဖြစ်အောင် မြေနန်းတော်ရပ်သစ်များအနက် ပြင်ပတ်လည်တွင် စရည်း၊ အတွင်းမြေနန်းပလ္လင် ကွန်းစင်သစ် ဖ လုံး ရေသဖန်းကို စိုက်ထူရ၏။ မဏ္ဍပ်အတွင်း၌ နီသော ရွှေသော ထုံး ဟင်းသပြဒါး တို့ဖြင့် ခြယ်လှယ် ထားရသည်။

အဘိသိက်ခံရာ ရတနာသဖန်းပျဉ်ကို မင်းကေရာဇ်တို့လက်တော်အတောင်နှင့် အလျား ၃ တောင် ၁ မိုက်၊ အနံ ၃ တောင်သော်လည်း ဖြစ်စေ၊ အလျား ၄ တောင် ၄ သစ်သော်လည်း ဖြစ်စေ၊ အထုလက် ၄ သစ်ရှိသော ရေသဖန်းပျဉ် ၄ ထောင့်၌အခြေ ၄ ခု ၁ မိုက်စီတပ်၍ ရွှေငွေရတနာတို့ဖြင့် ဆန်းကြယ်စွာ ပဒုမ္မာကြာပွင့်ချပ်တို့ဖြင့် ခြယ်လှယ်၍ မြေနန်းဥကင်သထက်၌ ထားရသည်။ ကမ္ဗလာနီကိုခင်း၍ နံ့သာမျိုးတို့ကို ကြဲဖြန့်ထားရသည်။ ရွှေငွေ စသောရတနာမျိုးတို့ကိုလည်း စုထားရသည်။ ရေသဖန်းသားဖြင့် ပြီးသော ရွှေသလွန်တော်ကို မာရဘင် အနောက် ဥကင်သ မုခ်ဝ၌ တောင်မြောက်ခင်းထားရသည်။ မဏ္ဍပ်လေးမျက်နှာ၌ ကြာသွတ်အိုးတလုံး ရေပြည့်၊ ကွမ်းဘူးကွမ်းလင်၊ သပြေမြေဇာ၊ မုရားထည့်၍ တည်ရ၏။ ယင်းအပါးတွင် အုန်းခိုင်၊ ကွမ်းသီးခိုင်၊ ငှက်ပျောခိုင်၊ အထူးထူးသော သစ်သီး ပန်းမာလ် ဆီမီးတန်ဆောင်ထွန်း၏။ မှုတာ ၁၀၈ လုံး၌ ကွမ်းဘူးကွမ်းလင်၊ သပြေ မြေဇာ၊ မုရားထည့်၍ မဏ္ဍပ်ဝန်းကျင်တည်၏။ မဏ္ဍပ်ဝန်းကျင်၌ နို့ရည်ရှိသော ပညောင်သား၊ သဖန်းသားတို့ကို စိုက်၏။ အရှေ့စူးစူး၌ တံခွန်ကြီး စိုက်၏။ ရွှေလင်ပန်း၌ သလေးထမင်း အမြိန်အရသာတည်၏။ အုန်းခိုင်၊ ကွမ်းသီးခိုင်၊ ငှက်ပျောခိုင်၊ ဆီမီးတန်ဆောင်၊ ပန်းမာလ်၊ ကွမ်း လက်ဖက်တို့ဖြင့်ထည့်၍၊ တန်ဆာဆင်သော ဆင်ပေါက်ထား၏။ အရှေ့တောင်ထောင့်၌ တံခွန်ကြီးနှင့် ငွေလင်ပန်းတွင် ယခင်ဆိတိုင်းတည်၍၊ တန်ဆာဆင်သော ဆိတ်မြန်မာကို ထား၏။ တောင်စူးစူး၌ တံခွန်ကြီးနှင့် သံလင်ပန်းတွင် ယခင်ဆိတိုင်းတည်၍၊ တန်ဆာဆင်သော ကျွဲမ ထား၏။ အနောက်တောင်ထောင့်၌ ခဲမ လင်ပန်းတွင် သားပြွမ်းထမင်းနှင့် တန်ဆာဆင်သော လူအိမ်ထောင်စုံ ထား၏။ အနောက်စူးစူး၌ တံခွန်ကြီးနှင့် ခဲမဖြူလင်ပန်းတွင် အမြိန်အရသာ၊ တန်ဆာဆင်သော မြည်းကို ထား၏။ အနောက်မြောက်ထောင့်၌ တံခွန်ကြီးနှင့် ကြေးနီလင်ပန်းတွင် ပျားရည်ဖြင့် ပြွမ်းသော ထမင်းနှင့် တန်ဆာဆင်ထားသော သမင်ကိုထား၏။မြောက်စူးစူး၌ တံခွန်ကြီးနှင့် ရွှေလင်ပန်းတွင် အရသာ ၅ ပါးပြွမ်းသော ထမင်း၊ တန်ဆာဆင်သော မြင်းကိုထား၏။ အရှေ့မြောက်ထောင့်၌ တံခွန်ကြီးနှင့် ရွှေလင်ပန်းတွင် အမြိန်အရသာ ပြွမ်းသော ထမင်းနှင့် တန်ဆာဆင်သော နွားဥသဘကို ထား၏။ တံခွန်ကြီးအကြား၌ ငှက်ပျောပင်စိုက်၏။ ဆီမီးတန်ဆောင်ညှိ၏။ မင်္ဂလာရှိသော ဆင်မြင်းတို့ကို တန်ဆာဆင်၍ ရံစေ၏။ မင်္ဂလာရှိသော ဆင်မြင်းတို့နှင့် မိန်ညိုဝတ်လျက် ရွှေကာစွဲသော သူရဲ၊ ရွှေလေးစွဲသော သူရဲ၊ မိန်ညိုဝတ်သော သူရဲတို့ကို ရံစေသည်။

## ဘိသိက်မင်္ဂလာ

ဘိသိက်သွန်းရန် မင်္ဂလာ ရေခပ်ရသည့် အစီအရင်ကား၊ လမ်း ၂ ဖက်ကို တန်ဆာဆင်၍ လမ်းဆုံတိုင်း သဘင်ကြီးစွာ စီရင်ပြီးသော်၊ ခပ်မည့် ရေကန်ကိုလည်း တန်ဆာ ဆင်၏။ အရပ် ၈ မျက်နှာ၌လည်း၊ ထမင်းအမြိန်အရသာအစေ့အစုံ၊ ကွမ်း၊ လက်ဖက်၊ နံ့သာ၊ ဆီမီး၊ တံခွန်တို့ဖြင့် ပုဏ္ဏားတို့ကို ပူဇော်စေသည်။ ရေခပ်သွားသည့်အခါ ရွှေဆုံးမှ အထူးထူးသော ကချေသဘင်တို့ဖြင့် သွားရ၏။ ထိုနောက် အိုးစရည်း ၈ လုံးကို ဆိုင်းဖြင့် ထမ်းသွားရသည်။ ထိုနောက် မြူတာ ၁၀၈ လုံးတွင် သပြေ၊ မုရားစိုက်၍ တန်ဆာ ဆင်ထားသော လုလင်တို့က ထမ်းလျက်၊ ထိုနောက် ပုရောဟိတ်တယောက်၊ ထိုနောက် ရွှေမြူတာ ငွေမြူတာ ၄ လုံးစီကို တန်ဆာဆင်အပ်သော သမီးကညာတို့က ပိုက်လျက်၊ ထိုနောက် လုလင်များ၊ ထိုနောက် ထီး စည် စလွယ် ဦးပေါင်းသင်းကျစ်ရသော အမတ်ကြီးများ၊ ထိုနောက် ဆင်သည်တို့ ဆင်နှင့်၊ မြင်းသည်တို့ မြင်းနှင့် လိုက်ရသည်။ ရေကန်၌လည်း၊ ရေကန်နတ်ဟန်ဝတ်၍ တဦးနေရသည်။ ရေခပ်လာသူတို့ရောက်လျှင်၊ ရေကန်နတ်ဟန် ဆောင်သူက အအဘယ်အလို့ငှါ လာသနည်းဟု မေးရသည်။ ထိုအခါ ပုရောဟိတ်တို့က ရှေးဘေးလောင်းတော် ဘိုးလောင်းတော်တို့ ဘိသိက်မင်္ဂလာ စီရင်တော်မူသည် အတိုင်း၊ ဘုန်းတော်ကြီးသော မင်းတရားကြီးသည် ထီးဆောင်း မင်္ဂလာဆင်ယင်တော်မူမည်ဟု ရေခပ်လာသည်ဟု ပြန်ပြောရသည်။ ရေကန်စောင့် နတ်က ဘုန်းတော်ကြီးသော မင်းသည် သက်တော်ရှည်လျက် သာသနာတော်မြတ်စီးပွား၊ ပြည်သူ လူရဟန်းတို့ စီးပွား၊ ကိုယ်တော်မြတ်စီးပွား၊ သားတော် အစဉ် မြေးတော်အဆက် မြစ်တော်အညွန့် တိုင်အောင် တည်ပွား ပြီးစီး ကြီးမြတ်တော်မူစေသော် ကောင်းစွ ဟု ဆို၍ ခွင့်ပြုမှ၊ ရွှေပန်းငွေပန်း၊ ရွှေပေါက်ပေါက်၊ ငွေပေါက်ပေါက်၊ ရွှေခဲ၊ ငွေခဲ၊ နဝရတ်ကိုးပါး၊ ဆီမီး၊ ကွမ်း၊ လက်ဖက်နှင့် ပူဇော်၍၊ ဗေဒင်ကျမ်း၌ လာသော မန္တန်ကို ရွတ်၍၊ ပုရောဟိတ်နှင့်တကွ သမီးကညာတို့ ရေခပ်ပြီးသော် လာသည့် အစီအစဉ်အတိုင်း ပြန်ကြရသည်။

ဘိသိက်သွန်းခံမည့် ဘုရင်သည် ဝတ်လဲဆောင် ပြာသာဒ်မှ မင်္ဂလာနန်းတော်ကို လကျာ်ရစ် လည်တော်မူ၍၊ မြေနန်းတက်တော်မူသောလမ်းကို တံခွန်ကံ့သော ငှက်ပျော၊ အုန်းခိုင်၊ ထန်းခိုင်၊ ဆီမီးတန်ဆောင်တို့ဖြင့် တန်ဆာဆင်၍ ရတနာအတိပြီးသော ယာဉ်ကို စီးတော်မူ၍ ဆင်စီးမြင်းစီးတို့ ခြံရံလျက် မင်္ဂလာနန်းတော်ကို လကျာ်ရစ် လည်တော်မူကာ၊ မြေနန်းတံခါးသို့ ရောက်တော်မူသော်၊ မြန်မာမျိုး၌ ဖြစ်သောပုရောဟိတ်တို့သည် မြေနန်းတော်မှ ထွက်ကာ ကြိုဆိုရသည်။ ဘုရင်သည် လကျာ်ခြေတော်ချီ၍ ပုရောဟိတ်၏ လကျာ်လက်ကိုင်ကာ တက်ရသည်။ ဇယမင်္ဂလာ ဂါထာကို မင်းကြီးရော ပုဏ္ဏားပါဆို၍ တက်ရသည်။ မြေနန်းပေါ်သို့ ရောက်သော်၊ လကျာ်ရစ် လည်တော်မူပြီးမှ ရေသဖန်းပျဉ်သို့ တက်တော်မူ၍ အရှေ့စူးစူးသို့ ရှေးရှုတော်မူကာ ထက်ဝယ်ဖွဲ့ခွေ နေတော်မူရသည်။ ထိုနောက် မင်းလက်နှင့် အချင်း ၄ တောင် လက် ၆ သစ်ရှိသော ထီးဖြူကို ဖွင့်ရသည်။ မင်းမြောက်တန်ဆာ ၅ ပါးကိုလည်း မန္တန်ရွတ်လျက် တခုစီ ဆက်ရသည်။ ကောင်းစွာ ဝတ်ဆင်အပ်သော မင်းသမီး ၈ ပါးက လကျာ်ရစ် ခရုသင်းတွင် ဂင်္ဂါငါးရပ်ရေကို ထည့်လျက် လက် ၂ ဖက်ဖြင့် မင်း၏ ဦးခေါင်းတွင် စိုက်လျက် 'အရှင်မင်းမြတ်.... အရှင်မင်းမြတ်ကို အလုံးစုံလည်း ဖြစ်ကုန်သော မင်းမျိုး အပေါင်းတို့သည် မိမိတို့ ကိုယ်ကို စောင့်ရှောက်စေခြင်းငှါ၊ ဤအဘိသိက်ဖြင့် အဘိသိက် သွန်းလောင်းခြင်းရှိသော မင်းအဖြစ်ကို ပြုကုန်၏။ အရှင်မင်းမြတ်သည် မင်းကျင့်တရားဖြင့် တည်လျက်၊ တရားနှင့် ညီညွတ်သဖြင့် မင်းအဖြစ်ကို ပြုတော်မူလော့၊ ထိုမင်းမျိုးအပေါင်းတို့၌ အရှင်မင်းကြီးသည် ညီညွတ်သဖြင့် မင်းအဖြစ်ကို ပြုတော်မူလော့၊ ထိုမင်းမျိုးအပေါင်းတို့၌ အရှင်မင်းသည် ရှေရင်တော်နှစ်ကဲ့သို့ ချစ်ခင် သနားတော်မူသဖြင့် စီးပွားစေလိုသော စိတ်ဖြင့်၊ ထို မင်းမျိုး အပေါင်းတို့ကို စောင့်ရှောက် တတ်သည်လည်း ဖြစ်တော်မူဘိလော့' ဟု သက္ကတ၊ မဂဓ ၂ ဘာသာစုံဖြင့်ဆို၍၊ အဘိသိက် သွန်းလောင်းရ၏။ ထိုနောက် ပုရောဟိတ် ၈ ပါး၊ သဌေး သူကြွယ်တို့က အထက်ပါ နည်းအတိုင်း ရွတ်ဆို၍ ဘိသိက်သွန်းရသည်၊ မြောက်စည်၊ သံလွင်၊ လက်ချပ်၊ စည်ဝန်း၊ စည်သေး၊ တံပိုး၊ ခရာ၊ ပြွေ၊ တံရှည်၊ တံကောက်တို့ဖြင့် တီးမှုတ်၍၊ ပုရောဟိတ်တို့က ဘုရင်အား ဘွဲ့မည်သမုတ်သည်။ ပုရောဟိတ် ၈ ပါးတို့က ရေနှင့်မြေကို အစိုးရတော်မူသော တရားမင်းမြတ်၊ မင်းတကာတို့ ကျင့်တော်မူရသော တရားတို့ကို ကျင့်တော်မူလော့၊ ခပ်သိမ်းသော လူတကာတို့၏ စီးပွားချမ်းသာကိုလည်း ရှာတော်မူသော အလှူ ပေးခြင်း၊ သိတင်းသုံးခြင်း ကိုလည်း ကျင့်တော်မူလော့ဟုဆိုလျှင်၊ ရှေကရားနှင့် ရေစင်သွန်းတော်မူ၍ ဒါနအထူးထူးသော အလှူကို ပေးတော်မူသောအားဖြင့် ဤသို့သော ဧကရာဇ်မင်းအဖြစ်ကို ရတော်မူပြီ၊ ပြည်သူလူရဟန်းတို့ စီးပွားချမ်းသာကို ရှာတော်မူအံ့သော၊ တရားနှင့် လျော်စွာလည်း ငါဆုံးမအံ့သော၊ ငါ၏ ကိုယ်တော်လည်း ရောဂါခပ်သိမ်းကင်း၍ သက်တော် အလွန်ရှည်လိုသော၊ ရန်မာန်ခပ်သိမ်းကိုလည်း အောင်လိုသော၊ ဆင်ဖြူရတနာ ရောက်စေသောဟု ဓိဋ္ဌာန်စကားကို မိန့်တော်မူရ၏။

ယင်းသို့ မိန့်တော်မူပြီးမှ မင်းသား မင်းသမီး မင်းဆွေမင်းမျိုး၊ မှူးကြီးမတ်ရာ စော်ဘွားစော်ခံ ပြည်သူလူ အပေါင်းတို့သည် ရွှေပေါက်ပေါက် ငွေပေါက်ပေါက်တို့ဖြင့်

ပူဇော်၍ သက်တော် အလွန်ရှည်စေသော၊ တိုင်းကားနိုင်ငံတော်လည်း ကျယ်စေသော၊ သာယာစေသော ဟူ၍ ပူဇော်ပြီးမှ သင်္ဘေးကြီး ၅ ပါးတို့သည် ရွှေတွေ၊ ငွေတွေ၊သံတွေ၊ ကြိမ်ခွေ၊ အောင်းဖြူတို့ကို ဆက်ကပ်ပြီးသော်၊ မင်းမြောက်တန်ဆာ ၅ ပါးတို့နှင့် တကွ ရွှေမြူတာ၊ ငွေမြူတာ၌ ပရိတ်ခြည်နှင့်တကွ ကွမ်းဘိုး ကွမ်းလင် သပြေ မြေဇာ သရက်ညွန့်တို့ကို ထည့်၍၊ ရွှေတော်က ဆောင်၍ သွားရသည်။ မြေနန်းတော်မှ မင်္ဂလာ နန်းတော် ရောက်အောင် မြေ၌ သင်ဖြူးခင်း၍၊ သင်ဖြူးထက် ဖြူစင်စွာသော ပိတ် ပုဆိုးကို ခင်း၍၊ ပုဆိုးထက် လကျာ်ခြေတော်ချ၍၊ အစဉ် အတိုင်း လာတော်မူရသည်။ မင်္ဂလာစောင်းတန်းသို့ ရောက်လျှင် ရတနာ ၃ ပါး၊ ဂြိုဟ် ၉ ပါး၊ နတ်အများအား ပူဇော်ရ၏။ ထိုနောက်၊ လကျာ်တံခါးကို ဝင်တော်မူ၍ ရတနာ ၃ ပါး ဂြိုဟ် ၉ ပါး၊ သိကြား၊ ဗြဟ္မာ၊ စတုလောကပါလာ၊ ဘုမ္မစိုး၊ အာကာသစိုး၊ သာသနာတော်စောင့် နတ်၊ အရပ် ၈ မျက်နှာစောင့်နတ်၊ ကိုယ်တော်မြတ်ကို စောင့်သော နတ်၊ သမာဓိနတ်တို့အား လက်ဖြင့် ပူဇော်တော်မူ၍၊ မနောလင်ပန်း၌ အမြိန်အရသာတို့ကို စားတော်ခေါ်ပြီးမှ ရွှေပလ္လင်ထက် နေတော်မူရသည်။ ထိုနောက်မှ သဘင်ကြီးစွာ ခံ၍ မှူးကြီးမတ်ရာ၊ ပညာသည်တို့အား ဆုလာဘ်များချကာ၊ ရက်လည်သည်အထိ အလှူအတန်းကြီးများ ပေးတော်မူကြလေသည်။

ဤကား မြန်မာမင်းတို့၏ ဘိသိက်မင်္ဂလာပွဲကြီး ဆင်နွှဲပုံအကျဉ်း ဖြစ်သည်။

အင်္ဂလိပ်ဘုရင်များ၏ ဘိသိက်မင်္ဂလာပွဲများကား များသောအားဖြင့် နန်းတက်ပြီးနောက် တနှစ်ခန့် ကြာသောအခါမှ ကျင်းပလေ့ရှိကြသည်။

အင်္ဂလိပ်ဘုရင်နှင့် ဘုရင်မများ၏ ဘိသိက် မင်္ဂလာပွဲကို ဘုရားရှိခိုးကျောင်းကြီး၌ ကျင်းပလေ့ ရှိသည်။ ဘိသိက်ခံမည့် ဘုရင်မင်းမြတ်သည် နန်းတော်မှ ဘုရားရှိခိုးကျောင်းသို့ မြို့တွင်းလမ်းများတလျှောက်၊ မြင်း ၆ ကောင်၊ ၈ ကောင်စသည် ကသောရထားဖြင့် သွားသည်။ ဘုရင်မင်းမြတ် ဘုရားရှိခိုးကျောင်းသို့ ရောက်သည်နှင့်တပြိုင်နက် ဘုရားရှိခိုးကျောင်းတွင်း၌ ရောက်ရှိနေသော မှူးမတ် ပရိသတ်အပေါင်း မတ်ရပ်ထ၍ အလေးပြုရသည်။ ဘိသိက်ခံမည့် ဘုရင်သည် အရှေ့၊ အနောက်၊ တောင်၊ မြောက် အရပ် ၄ မျက်နှာလှည့်၍၊ မှူးမတ်ပရိတ်သတ်တို့၏ အသိအမှတ်ပြု ကောင်းခြီးပေးခြင်းကို ဦးစွာ ခံယူရသည်။ ထိုနောက် ဘိသိက်ခံ ရာဇပလ္လင်တွင် ခေါင်းဆောင်းမပါဘဲ ထိုင်ရသည်။

ဘုရင်မင်းမြတ်သည် ဘိသိက်ခံရာဇပလ္လင်တွင် ထိုင်လျက် နိုင်ငံတော်၏ သစ္စာကို ခံယူရ၏။ ထိုနောက် ဘုရင်မင်းမြတ်အား ဆီမွှေးဖြင့် လိမ်းကျံပေး၍ ရွှေဝတ်ရုံတော်ကို ဆင်မြန်းပေးလေသည်။ မင်းမြောက်တန်ဆာများဖြစ်သော ရာဇလှံတံများနှင့် ဘိသိက်ခံလက်စွပ်များကိုလည်း ပေးအပ်ခြင်း ခံရလေသည်။

နောက်ဆုံးတွင် ကင်တာဗာရီဂိုဏ်းချုပ်ကြီးက ဘုရင်မင်းမြတ်အား စိန်အက်ဒွပ်သရဖူကို ဆောင်းပေး၍၊ ဂိုဏ်းအုပ်ဘုန်းတော်ကြီးများကိုယ်စား ဂိုဏ်းချုပ်ကြီးက ဘုရင်မင်းမြတ်အား အလေးပြုလေသည်။ မင်းညီ မင်းသားများနှင့် မှူးကြီးမတ်ရာ သေနာပတိကြီးတို့ကလည်း အလေးပြုကြလေသည်။ ထိုနောက် ဘုရင်မင်းမြတ်သည် စိန်အက်ဒွပ်ဘုရားကျောင်းတော်သို့ အခြွေအရံများ ခြံရံလျက် ကြွသွားလေသည်။ ထိုမှတဖန် သရဖူဆောင်းပြီးသော ဘုရင်တပါးအဖြစ် နန်းတော်သို့ ပြန်လည်ကြွမြန်းတော်မူသည်။ နန်းတော်သို့ အပြန်တွင်ကား၊ ဧကရာဇ်သရဖူကို ဆောင်း၍ ခရမ်းရောင်ကတ္တီပါ ဝတ်ရုံတော်ကို ဆင်မြန်းထားလေသည်။

**ဘီ။** ။ကြာဖက်နင်းငှက် — ရှု။

**ဘီကျား။** ။ဘီကျားငှက်သည် ကြာဖက်နင်းငှက်မျိုးဖြစ်သည်။ ယင်းကို ကြာဖက်နင်းဟုလည်း ခေါ်ကြသည်။ ပါဏဗေဒအလိုအားဖြင့် ဟိုင်ဒရိုဖာစီအင်နပ် ချီရားဂတ်ဟုခေါ်၍ ကြာဖက်နင်းငှက်များနှင့်အတူ ဂျာကာနီဒီးမျိုးရင်းတွင် ပါဝင်သည်။ ကိုယ်ထည် အလျား ၁၀ လက်မရှိ၍ အမြီးချည်းသက်သက် ၁၀ လက်မ ရှည်သည်။ ကြာဖက်နင်းငှက်များကဲ့သို့ပင် ခြေတံရှည်ပြီးလျှင် ခြေချောင်းများလည်း ရှည်သည်။

သားပေါက်ချိန်၌ အတောင်သည် ဖြူနေသဖြင့် ထိုငှက်ကို ထင်ရှားစွာ တွေ့နိုင်ပေသည်။ အခြား အချိန်များ၌ အမွှေးရောင်တမျိုး ပြောင်းလဲသွားသည်။ မျက်စိတဝိုက်နှင့် လည်တိုင် ရွှေဖက်ပိုင်းသည် ဖြူနေပြီးလျှင် ဘေးတွင် အဝါရောင်အစင်းကြောင်း တခုရှိသည်။ မျက်လုံးဘေးမှ ဝိုက်ဆင်း၍ ရင်အုပ်ဖက်သို့ ကန့်လန့်ဖြတ်သွားသော အမည်းရောင်အစင်းကိုလည်း တွေ့နိုင်သည်။ ကျန်ရှိသော ကိုယ်ခန္ဓာအတွင်းပိုင်းသည် ဖြူနေသည်။ ငှက်ကလေးများ၌လည်တိုင်ဘေးတွင် အဝါရောင်အစင်းကြောင်းများ မရှိချေ။ ရင်အုပ်ကို ကန့်လန့်ဖြတ်လျက်ရှိသော အစင်းသည်လည်း ဆက်မနေဘဲ အဖြူရောင်နှင့် ပြတ်လျက် ရှိသည်။ ဘီကျားငှက်၌ အတောင်ကွေးသော နေရာထိပ်တွင် သန်မာ၍ ချွန်ထက်သောဆူးများရှိသည်။ တကောင်နှင့် တကောင်တိုက်ခိုက်ရာ၌ ထိုဆူးများကို အသုံးပြုသည်။ အမသည် အဖိုထက်ကိုယ်ထည်ပိုကြီး၍၊ သားပေါက်ချိန်၌ တသွေးတမွေး လှသည်။

ဘီကျားငှက်များသည် သားပေါက်ချိန် မဟုတ်သော



ဘီကျားငှက်အော်သံမှာ ပြွေမှုတ်သံမျိုးဖြစ်၍ နားထောင်ကောင်းသည်။

အချိန်တွင် ကောင်ရေ ၅၀ မှ ၁၀၀ ထိ စုရုံးနေတတ်သည်။ ဘီကျား၏ အော်သံမှာ တူဝင်-တူဝင်-တူဝင်ဟု နှာသံပါသော ကြောင်အော်သံ၊သို့မဟုတ် ပြွေသံကဲ့သို့ နားထောင်၍ ကောင်းသည်။ ထို့ပြင် ဟူး-ဟူး-ဟူးနှင့် သာယာစွာအော်တတ်သေးသည်။

ဘီကျားငှက်သည် ချုံဖုတ်ကင်းသည့် ရေပြင်ကိုပို၍ နှစ်သက်သည်။ ရှောင်ပုန်း၍ မနေတတ်ချေ။ နွေအခါတွင် ကျက်စားသောကန်များ ရေခန်းခြောက်လျှင် အနီး အနားရှိ ရေရှိရာအရပ်များသို့ ပြောင်းရွှေ့တတ်သည်။ ယင်းတို့သည် မလှုပ်မယှက် ငြိမ်သက်စွာနေသည့်အခါ ပတ်ဝန်းကျင်ရှိ သစ်ကိုင်းသစ်ရွက်များနှင့် ရုတ်တရက် ခွဲခြားမရနိုင်အောင် ရှိသည်။ ယင်းတို့၏အစာသည် အသီးအနှံ ပိုးမွှားနှင့် ခရု ကနန်းတို့ဖြစ်သည်။

မိုးတွင်းအခါ၌ ဘီကျားငှက်ကလေးများ ဥမှ ပေါက်ကြသည်။ ကြာဖက်နင်းငှက်များကဲ့သို့ပင် အသိုက်များကို သစ်ရွက်၊ ပေါင်းပင်များနှင့် ပြုလုပ်ကြသည်။ အသိုက်များကို ကျွန်းကလေးများပေါ်၌ရှင်း၊ မြက်တောထဲ၌ရှင်း၊ ရေထဲ၌ မျော၍ရှင်း တွေ့ကြရသည်။ အသိုက်များသည် သေးငယ်၍ ဥများမှာ ရေထဲတွင် တဝက်မြုပ်နေတတ်သည်။ တမြုံလျှင် ၄ ဥခန့်ရှိ၍ သစ်သော့သီးနှင့် တူသည်။ ဥခွံသည်မာ၍ ချောမွတ်သည်။ အရောင်မှာ ကြေးညိုရောင်တောက်တောက် ဖြစ်သည်။ လတ်ဆတ်သော ဥများတွင် အစက်အပြောက်များ မရှိချေ။ ဥအရောင်သည် ပြယ်လွင့်၍ ကြာသော် ဖြူဖယော်ယော် ဖြစ်လာသည်။ တဥလျှင် ပျမ်းမျှအလျား ၁.၄၆ လက်မနှင့် ပြက် ၁.၁၂ လက်မ ရှိသည်။ ဘီကျားငှက်ကို အိန္ဒိယနိုင်ငံ၊ တရုပ်နိုင်ငံတောင်ပိုင်း၊ ဖိလစ်ပိုင်နိုင်ငံနှင့် မြန်မာနိုင်ငံတို့တွင် တွေ့ရသည်။

**ဘီဂန်းဒက်** (ခရစ် ၁၇၁၃–၁၇၈၄)။ ။ဗရင်ဂျီ ဂိုဏ်းအုပ်ဘုန်းတော်ကြီး ပေါ အမ်းဗရို့ ဘီဂန်းဒက်သည် မြန်မာနိုင်ငံတွင် ဗရင်ဂျီဂိုဏ်းအယူဝါဒကို ပြန့်ပွားအောင် နှစ်ပေါင်း ၅၀ ကျော် ဆောင်ရွက်ခဲ့သည့် ပုဂ္ဂိုလ်ကြီး ဖြစ်သည်။ ဘီဂန်းဒက်သည် အယူဝါဒရေး၌သာ ခေါင်းဆောင်မှု ပေးနိုင်သည် မဟုတ်၊ ပညာရေးနှင့် လူမှုဝန်ထမ်းလုပ်ငန်းများ၌လည်း ရှေ့ဆောင် ပုဂ္ဂိုလ်ကြီးဖြစ်သည်။ အောက်မြန်မာနိုင်ငံ၏ ပဌမဆုံးသော ပုပ်ရဟန်းမင်းကြီး၏ ကိုယ်စားလှယ်တော် ဂိုဏ်းအုပ်ဘုန်းတော်ကြီးအဖြစ် ၁၇၅၆ ခုနှစ်မှ ၁၇၈၄ ခုနှစ်အထိ အနှစ် ၅၀ နီးနီး ထမ်းရွက်ခဲ့သည်။

ပေါ အမ်းဗရို့ ဘီဂန်းဒက်ကို ၁၇၁၃ ခုနှစ် ဩဂုတ်လ ၁၃ ရက်နေ့တွင် ပြင်သစ်နိုင်ငံ ဖရန့်-ကွန်တေးနယ် မလန်းမြို့တွင် အယူဝါဒရေး၌ အလွန်လေးစားသော မျိုးကြီးဆွေကြီး မိဘများမှ ဖွားမြင်သည်။ ဘီဂန်းဒက်သည် ငယ်စဉ်ကပင် ပညာဉာဏ် ထက်မြက်၍ ထကြွလှုံ့လဝီရိယရှိသောသူ ဖြစ်သည်။ မိဖများကလည်း ချမ်းသာသူဖြစ်သည့်အလျောက် လောကီစည်းစိမ်ကိုသာ တပ်မက်မော၍ သာသနာပြု လုပ်ငန်းသို့ မဝင်ပါက ဘီဂန်းဒက်အဖို့ မတောင့်မတ မကြောင့်မကြ နေရမည်မှာ အမှန်ဖြစ်ချေသည်။ သို့ရာတွင် ထာဝရဘုရားသခင်၏အမှုတော်ကို ထမ်းဆောင်ရန် ဘုရားသခင်အား မိမိကိုယ်ကို လှူဒါန်းထားသူ ဘီဂန်းဒက်သည် ၁၆ နှစ်အရွယ်မှပင် စတင်၍ ဗြဟဒေဝဗေဒကို လေ့လာသင်ယူရာ အယူဝါဒရေး၌ ထူးချွန်စွာ သက်ဝင်လေးစားသူအဖြစ် ထင်ရှားခဲ့သည်၊ အသက် ၁၉ နှစ်အရွယ်တွင် မာနေးမြို့ သာသနာရေး ကောလိပ်တွင် ပါမောက္ခအဖြစ် ခန့်အပ်ခြင်း ခံရလေသည်။

၁၇၃၆ ခုနှစ်တွင် ဘီဂန်းဒက်သည် ပါမောက္ခရာထူးမှထွက်

၍ ခရစ်ယန်ရဟန်းဘောင်သို့ ဝင်ကာ ပါရစ်မြို့ နိုင်ငံခြား သာသနာပြုအဖွဲ့တွင် ပါဝင်ထမ်းရွက်သည်။ ထိုနောက် နိုင်ငံခြား သာသနာပြုအဖွဲ့၏ စေလွှတ်ချက်အရ မလ္လာယုကျွန်းဆွယ်သို့ သာသနာပြုရန် သွားရောက်ရသည်။ ပါရစ်မြို့မှ ထွက်၍ ရက် ၁၃၀ ခန့်ကြာမှ ပီနန်မြို့သို့ ရောက်ရှိသည်။ မလ္လာယုကျွန်းဆွယ် သာသနာပြု ဌာနအတွက် သတ်မှတ်ထားသော နယ်မြေတွင် အပါအဝင်ဖြစ်သည့် မြန်မာနိုင်ငံ မြိတ်မြို့သို့ ဘီဂန်းဒက်သည် ဦးစွာသွားရောက် ရသည်။ မြိတ်မြို့တွင် သာသနာပြု လုပ်ငန်းများကို လုံ့လကြီးစွာ ဆောင်ရွက်ယင်း အားလပ်သည့်အချိန်တွင် မြန်မာဘာသာနှင့် စကားကို လေ့လာသင်ယူသည်။ နောက် ၂ နှစ်ခန့်ကြာသောအခါ "ထာဝရဘုရားသခင် အတ္ထုပ္ပတ္တိ" စာအုပ်နှင့် "ဆုတောင်းစာ" စာအုပ် ၂ အုပ်ကို မြန်မာ ဘာသာဖြင့် ပြုစုပြီးလေသည်။ မြိတ်မြို့တွင် နေစဉ် ဘီဂန်းဒက်သည် ကျောင်းများတည်ထောင်၍ ကိုယ်တိုင် ကြီးကြပ် စာပေသင်ကြားပေးသည်။

မြိတ်မြို့တွင် ၆ နှစ်ခန့် ထမ်းရွက်ပြီးနောက် ပီနန်မြို့မှ ဂိုဏ်းအုပ်ကြီး ဗူရှေးက ပြန်ခေါ်ခန့်ထားချက်အရ ပီနန် ဘုရားရှိခိုးကျောင်းကို တာဝန်ခံ အုပ်ချုပ်ကာ မလ္လာယုကျွန်းဆွယ်တခုလုံး၏ ရဟန်းမင်း ကိုယ်စားလှယ်တော် ချုပ်ကြီးအဖြစ် ခန့်အပ်ခြင်း ခံရသည်။ မလ္လာယုကျွန်းဆွယ်၌ နေထိုင်စဉ်လည်း သာသနာဝန်ထမ်း လုပ်ငန်းကိုသာမဟုတ်၊ ပညာရေးလုပ်ငန်းများကိုပါ ဆောင်ရွက်သည်။ မရှိနွမ်းပါးသော ကလေးများကို စာပေသင်ပေးခြင်း၊ မလေးဘာသာကို သင်ယူပြီးနောက် ရောမအက္ခရာများဖြင့် တီထွင်ရေးသား၍ စာအုပ်များပြုစုခြင်း၊ သတင်းစာမဂ္ဂဇင်းများသို့ ဆောင်းပါးများ ရေးသားပေးပို့ခြင်း၊ စာအုပ်ပေါင်းများစွာကို မလေးဘာသာစာပေသို့ ပြန်ဆိုခြင်းတို့ကို ပြုသည်။

၁၈၄၆ ခုနှစ်တွင် စက်ာပူဂိုဏ်းအုပ်ကြီးက တွဲဖက်ဂိုဏ်းအုပ်တပါး ပို့ပေးရန် ပုပ်ရဟန်းမင်းထံ လျှောက်ထားသောအခါ ဘီဂန်းဒက်အား ရဟန်းမင်းက ရွေးချယ် ခန့်ထားလိုက်သည်။ သို့ရာတွင် ဘီဂန်းဒက်က ဤမျှ ကြီးကျယ်သောရာထူးကို လက်မခံလိုကြောင်း လျှောက်ထား ငြင်းပယ်ကာ သာမန်ဘုန်းတော်ကြီးအဖြစ် ၁၀ နှစ်ခန့် ဆက်လက် နေထိုင်ထမ်းရွက်သည်။ ၁၈၅၆ ခုနှစ်တွင် မြန်မာနိုင်ငံ၌ သာသနာပြုရန် ပါရစ်မြို့ သာသနာပြုအဖွဲ့ လက်တွင်း ကျရောက်လာရာ ဘုန်းတော်ကြီး ဘီဂန်းဒက်အား မလ္လာယု ကျွန်းဆွယ်လုံးဆိုင်ရာ တွဲဖက်ဂိုဏ်းအုပ်နှင့် အင်းဝနှင့် ပဲခူးနေပြည်တော်ဆိုင်ရာ ရဟန်းမင်းကိုယ်စားလှယ်တော်အဖြစ် ခန့်ထားကာ မြန်မာနိုင်ငံသို့ သာသနာပြုရန် စေလွှတ်ခဲ့သည်။ ၁၈၅၆ ခုနှစ် မတ်လ ၃၀ ရက်နေ့တွင် ရာမာသာ ဂိုဏ်းအုပ်ကိုယ်တော်ကြီးဟူသော ဘွဲ့ကို အပ်နှင်းခံ



ရောမကက်သလစ် ဂိုဏ်းအုပ်ကြီး ဘီဂန်းဒက်

ရပြီးနောက် ထိုနှစ် ဧပြီလ ၁၄ ရက်နေ့တွင် မြန်မာနိုင်ငံ ဗရင်ဂျီဂိုဏ်းကို ပြန်လည် စည်းရုံးရန် မော်လမြိုင်မြို့သို့ ဆိုက်ရောက်လာသည်။

မော်လမြိုင်မြို့သို့ ရောက်၍ ၂၅ ရက်ခန့်နေပြီးနောက် ဂိုဏ်းအုပ်ကြီး ဘီဂန်းဒက်သည် မြန်မာနိုင်ငံ အနှံ့အပြား လှည့်လည်၍ သာသနာပြုရန် ရန်ကုန်မြို့သို့ ဦးစွာ သွားရောက်သည်။ ထိုနောက် ပုသိမ်၊ မြောင်းမြ၊ သရက်၊ အမရပူရစသော မြို့များသို့ လှည့်လည်သည်။ အမရပူရမြို့တော်တွင် မင်းတုန်းမင်းတရားကြီးအား ဝင်ရောက်တွေ့ဆုံကာ သာသနာရေးကိစ္စများကို နှီးနှောခဲ့သည်။ ဘုရင်မင်းမြတ်က ဘီဂန်းဒက်အား ဆင် ၃ စီးနှင့် လှေတစင်း သနားတော်မူရာ ယင်းသည့်ဆင်နှင့် လှေတို့ဖြင့် ဘုရင်ဂျီဂိုဏ်းဝင်များ နေထိုင်ရာ ရွှေဘိုခရိုင်တွင်းရှိ ကျေးရွာများသို့ လှည့်လည်သွားလာခဲ့သည်။ ထိုနောက် ဗန်းမော်၊ တောင်ငူ၊ ရွှေကျင်၊ စစ်တောင်း၊ ပဲခူးမြို့များသို့ ဝင်သည်။ ထိုအချိန်က မြန်မာနိုင်ငံတွင် ဗရင်ဂျီဂိုဏ်းဝင် ၄ ထောင်ကျော်ခန့်သာ ရှိလေသည်။

ဂိုဏ်းအုပ်ကြီး ဘီဂန်းဒက်သည် မြန်မာစကားကို ကောင်းစွာတတ်သည့်အလျောက် ရောက်ရာအရပ်၌ မြန်မာဘုန်းကြီး

ကျောင်းများသို့ ဝင်ကာ ဗုဒ္ဓအယူဝါဒကို လေ့လာခြင်း၊ ဆွေးနွေးခြင်းများပြုသည်။ ရပ်ရွာထဲ၌လည်း လှည့်လည်ကာ ဗုဒ္ဓအယူဝါဒီတို့၏ အယူဝါဒရေး ဆိုင်ရာ စိတ်နေသဘောထားကို လေ့လာသည်။ ယင်းသို့ လေ့လာပြီးနောက် ၁၈၅၈ ခုနှစ်တွင် "ဗုဒ္ဓဂေါတမအကြောင်း" စာအုပ်တအုပ်ရေးသား ထုတ်ဝေသည်။

အောက် မြန်မာနိုင်ငံကို ၁၈၅၂ ခုနှစ်တွင် အင်္ဂလိပ်တို့သိမ်းပိုက်ပြီးနောက် ဘီဂန်းဒက်၏ ဆောင်ရွက်မှုများကို အင်္ဂလိပ်အစိုးရကကြေနပ်လှသဖြင့် ဘီဂန်းဒက်အား ဘုရားရှိခိုးကျောင်းများ၊ စာသင်ကျောင်းများ ဆောက်လုပ်ရန် မြေနေရာများပေးသည်။ ယင်းသို့ဖြင့် ဗရင်ဂျီဂိုဏ်း ဆိုင်ရာ အဆောက်အအုံများ ကြီးပွား များပြား လာခဲ့သည်။ ၁၈၅၈ ခုနှစ်တွင် ရန်ကုန်မြို့ ဘားလမ်းထောင့်ရှိ ဘုရားရှိခိုးကျောင်းကို တည်၍ ၁၈၅၉ ခုနှစ်တွင် မော်လမြိုင်မြို့၌ စိန့်ပက်ထရစ်ဘုရားရှိခိုးကျောင်းကို တည်သည်။ ထိုနောက် ဘီဂန်းဒက်၏ မေတ္တာရပ်ခံချက်ဖြင့် ဒီလာဆားဂိုဏ်းဝင် ဘုန်းကြီးများသည် ၁၈၆၀ ပြည့်နှစ် ဧပြီလတွင် မော်လမြိုင်မြို့သို့ရောက်ရှိ လာကာ စိန့်ပက်ထရစ်ကျောင်းကို ဖွင့်လှစ်ကြသည်။ ၁၈၆၀ ပြည့်နှစ် စက်တင်ဘာလတွင် ရန်ကုန်မြို့၌ ကျောင်းတကျောင်း ဖွင့်လှစ်ခဲ့၍ နောင်အခါ စိန့်ပေါကျောင်းဟုခေါ် တွင်သည်။ ၁၈၇၇ ခုနှစ်တွင် မန္တလေးမြို့၌ စိန့်ပီတာကျောင်းကို ဖွင့်လှစ်သည်။ ဂိုဏ်းအုပ်ကြီးဘီဂန်းဒက်သည် အမျိုးသားများအတွက်သာမက အမျိုးသမီးများအတွက်ပါ စာသင်ကျောင်းများ ဖွင့်လှစ်ရန် ဂွတ်ရှက်ပတ် သီလရှင်ဂိုဏ်းမှ ပုဂ္ဂိုလ်များကို ဖိတ်ခေါ် ရာ ၁၈၆၇ ခုနှစ်တွင် သီလရှင်များ ရန်ကုန်မြို့သို့ ဆိုက်ရောက်လာကြသည်။ ယခု ဗိုလ်ချုပ်လမ်းရှိ ကွန်ဗင့်ကျောင်း၊ ပြည်လမ်းရှိ စိန့်ဖလောမီနာကျောင်း၊ သိမ်ဖြူလမ်းရှိ ကွန်ဗင့် ကျောင်းခွဲတို့သည် ယင်းသီလရှင် ဆရာမများဖွင့်လှစ်ခဲ့သော ကျောင်းကြီးများဖြစ်သည်။ နယ်များတွင် သီလရှင်များရရှိရန် ရည်ရွယ်၍သင်ကြားလေ့ကျင့် ပေးရန် ယင်းသီလရှင်များက ကြီးမှူး၍စိန့်ဖရန်စစ်ဇေးဗီးယား မြန်မာသီလရှင် ဂိုဏ်းတခုကို တည်ထောင်သည်။

၁၈၆၅ ခုနှစ်တွင် ဘီဂန်းဒက်သည် မြန်မာဘုရင်မင်းမြတ်ထံတွင် အမိန့်ခံယူကာ ဗန်းမော်မြို့သို့ သွားသည်။ ယင်းမှတဆင့် ကချင်တောင်တန်းနှင့် ယူနန်နယ်သို့ သွားလမ်းများအကြောင်းကို လေ့လာစုဆောင်းကာ၊ တရုပ်နိုင်ငံအနောက်ပိုင်းသို့ သာသနာပြုများ စေလွှတ်ရန် လမ်းခရီး ရှာဖွေသည်။ ကချင်ပြည်နယ်မှ ပြန်ရောက်လာသောအခါ ကချင်ပြည်နယ်အကြောင်း စာမျက်နှာ ၆၄ မျက်နှာခန့်ရှိ စာမူတခုကို ပြုစုသည်။

၁၈၈၇ ခုနှစ်တွင် အိန္ဒိယနိုင်ငံမှ မြန်မာနိုင်ငံသို့ လာရောက်နေထိုင်ကြသော ဗရင်ဂျီဂိုဏ်းဝင် အိန္ဒိယ အမျိုးသားများအတွက် စိန့်အန်ထော်နီ ဘုရားရှိခိုးကျောင်း ဆောက်လုပ်ပေးသည်။ ထိုအချိန်တွင် ဂိုဏ်းအုပ်ကြီး ဘီဂန်းဒက်၏ ဆောင်ရွက်မှုကြောင့် မြန်မာနိုင်ငံ၌ ဗရင်ဂျီဂိုဏ်းဝင်ပေါင်း ၁၈,၀၀၀ ခန့်ရှိနေလေပြီ။ ၁၈၇၉ ခုနှစ်တွင် ရန်ကုန်မြို့၌ လူအိုရုံတခု တည်ထောင်၍ စေတနာ့ဝန်ထမ်း အမျိုးသမီး ၂ ဦးဖြင့် စီမံအုပ်ချုပ်သည်။ ထိုနောက်မှ လစ်တဲစစ္စတား အော့သ ပူးဝါး အမည်ရှိ သီလရှင် ဂိုဏ်းသို့ လွှဲအပ်ခဲ့ရာ ယခုဘိုင် သိမ်ဖြူလမ်းတွင် လူအိုရုံတည်ရှိနေသည်။

ယင်းသို့ သာသနာရေး ပညာရေး လူမှုရေးတို့ကို မနားမနေ အားကြိုး မာန်တက် ထမ်းရွက်ခဲ့သော ဂိုဏ်းအုပ်ဘုန်းတော်ကြီး ဘီဂန်းဒက်သည် ၁၈၉၄ ခုနှစ် မတ်လ ၁၉ ရက်နေ့တွင် အသက် ၈၁ နှစ်အရွယ်၌ အဆုတ်ရောင်ဖျားရောဂါဖြင့် ကွယ်လွန်လေသည်။

**ဘီသွာလျှော်။** ။ဘီသွာလျှော်ကို ဘီသွာပင်၏ ပင်စည်မှ ခွာယူရသည်။ ဘီသွာပင်ကို နှမ်းချပ်ပင်၊ ဘီသွာလျှော်ကို နှမ်းချပ်လျှော်ဟုလည်းခေါ်ကြသည်။ဘီသွာလျှော်သည် ဝါခြည်ပြီးနောက် ကမ္ဘာပေါ် တွင် အသုံးအများဆုံးသောခြည်ဖြစ်သည်၊ အမျှင်ခိုင်၍ နူးညံ့သည်။ ပိုးရောင်ကဲ့သို့ အရောင်တောက်သည်။လင်နင်ခေါ် ပိတ်ချောများရက်လုပ်ရာ၌၎င်း၊ စာပွဲခင်း၊လက်သုတ်ပုဝါ၊ ဇာပန်းစသည်တို့ ရက်လုပ်ရာ၌၎င်း အသုံးပြု၍ လျှော်ကြိုးကျစ်ရန်လည်း အသုံးပြုကြသည်။

ရုက္ခဗေဒ အလိုအားဖြင့် ဘီသွာပင်ကို လီနမ် ယူစီတာတစ္စီမံဟု ခေါ် ၍ လီနာစာစီအီးမျိုးရင်းတွင် ပါဝင်သော တနှစ်ခံပင်မျိုးဖြစ်သည်။ ဘီသွာပင်သည် သေး၍ အကိုင်းအခက်လေးများဖြင့် နွဲ့သည်။ အမြင့် တပေမှ ၄ ပေအထိ ရှိတတ်သည်။ အပွင့်ကလေးများသည် အများအားဖြင့် အပြာရောင်ဖြစ်၍ အဖြူရောင်ပွင့်သော ဘီသွာလျှော်မျိုး တမျိုးလည်း ရှိသေးသည်။

ဘီသွာလျှော်ကို ပင်စည်ခွံအတွင်းထပ်မှ ရရှိသည်။ ပင်စည်ရှည်သော ဘီသွာပင်မှ လျှော်သည် ပင်စည်ပုသော အပင်မှလျှော်ထက် မျိုးကောင်းသည်။ လျှော်ကို အကိုင်းနှင့် အမြစ်တို့မှ ခွာထုတ်၍ မရချေ။ ရာသီဥတုအေး၍ စိုစွတ်ထိုင်းမှိုင်းသောဒေသတွင် ကောင်းစွာ စိုက်ပျိုးနိုင်သည်။ အစေ့အလို့ငှါ စိုက်ပျိုးသောဘီသွာပင်ကို ထိုထက် ပိုမိုခြောက်သွေ့သော ဒေသ၌ စိုက်ပျိုးနိုင်သည်။

ဘီသွာပင်ကို လျှော်နှင့်အစေ့အလို့ငှါ ရှေးကျောက်ခေတ်မှစ၍ ဥရောပတိုက်တွင် စိုက်ပျိုးလာခဲ့ကြသည်။ မြေထဲ ပင်လယ်တဝိုက်တွင် နေထိုင်ကြသူများက ဘီသွာပင်မှ လျှော်ကို စတင်အသုံးပြုခဲ့ကြပြီးနောက် ဥရောပတိုက်ရှိ အခြားအရပ်များသို့ ပြန့်နှံ့သွားလေသည်။ ယင်းမှ တဆင့် အမေရိ

ကတိုက်သို့ရှင်း၊ ဩစတြေးလီးယား တိုက်သို့ရှင်း ပြန့်ပွား လာခဲ့သည်။ ဥရောပတိုက်တွင် ဘီသွာပင်ကို လျှော်အတွက်သာ စိုက်ပျိုးကြသည်။ အိန္ဒိယ၊ ကနေဒါ၊ အမေရိကန်ပြည်ထောင်စုနှင့် အာဂျင်တီးနားနိုင်ငံများ၌မူ ယင်းအပင်မှ အစေ့ကို ဆီကြိတ်ရန် စိုက်ပျိုးသည်ကများသည်။ ရုရှားနိုင်ငံသည် ကမ္ဘာပေါ်တွင် ဘီသွာပင်အများဆုံး စိုက်ပျိုးသော နိုင်ငံဖြစ်၍ တကမ္ဘာလုံးမှ ထွက်သောဘီသွာလျှော် ၃ ပုံ ၂ ပုံသည် ရုရှားနိုင်ငံထွက်ဖြစ်သည်။ ဘီသွာပင်သည် သမပိုင်းဒေသပေါက်ပင် ဖြစ်၍ အပူပိုင်းဒေသ၌ မပေါက်ရောက်နိုင်ချေ။ ဘီသွာလျှော် အကောင်းဆုံးနှင့် အများဆုံး ထွက်သောနိုင်ငံများမှာ ဥရောပတိုက်ရှိ ပြင်သစ်၊ ဟော်လန်နှင့် ဗဲလဂျီယမ်နိုင်ငံများ ဖြစ်သည်။ ဒုတိယကမ္ဘာစစ်အတွင်းက လျှော်အလွန်အထွက်များသော ဗဲလဂျီယမ် နိုင်ငံနှင့် ခရီးလမ်းပန်းပြတ်သဖြင့် အင်္ဂလန်နိုင်ငံတွင် ဘီသွာလျှော်ပင်များကို စမ်းသပ်စိုက်ပျိုးရာ အောင်မြင်သည်။

ဘီသွာပင်သည်စိုက်၍ ၂လခန့်ကြာသောအခါ အဝါရောင်အပွင့်များ ပွင့်သည်။ ယင်းမှ အစေ့တောင့်ဖြစ်၍ ရက်သတ္တ ၃ ပတ်အတွင်း အစေ့၏ အရောင်သည် ညိုဝင်းလာသည်။

လျှော်အတွက် ဘီသွာပင်ကို စိုက်ပျိုးသည့်အခါ အသီးအားလုံးကုန်မမှည့်မီ အပင်များကို လက်ဖြင့် နုတ်ယူကြရသည်။ မြောက်အမေရိကတိုက်တွင် ဘီသွာပင်နုတ်သည့်စက်ကို တီထွင်အသုံးပြုလျက် ရှိသည်။ ထိုအပင်များကို နုတ်ပြီးနောက် နိုင်သလောက်စီ စုစည်းကာ စိုက်ခင်းထဲ၌ ထိုအစည်းများကို ထောင်၍ အခြောက် ခံထားရသည်။ အပင်များခြောက်သွေ့လာလျှင် သံဘီးဖြင့် အစေ့များကို ဖြီးချလိုက်ရသည်။ ထိုအစေ့များကို"မျိုး"အဖြစ်ရှင်း၊ ဆီကြိတ်ညှစ်ယူရန်သော်ရှင်း သိမ်းဆည်း၍ ထားရသည်။ အစေ့ချွေပြီးသည့်အခါ လျှော်ကို အလွယ်တကူနှင့် ခွာယူနိုင်ရန် အပင်များကို ရေအိုင်၊ ရေကန်၊သို့မဟုတ်မြစ်ထဲတွင် ရေစိမ်၍ထားရသည်။ ယင်းသို့ရေထဲ၌ စိမ်ထားသဖြင့် အပင်များ အနည်းငယ်ရိယော်၍ လာသောအခါ လျှော်ကို လွယ်ကူစွာ ခွာယူနိုင်လေသည်။ တဖန်ထိုလျှော်ပင်များကို မြက်ခင်းများပေါ်တွင် အခြောက်ခံထားရပြန်သည်။ ထိုနောက်လျှော်ပင်များကို ကြံရည်ကြိတ် လက်လှည့် ဒလိမ့်တုံးကဲ့သို့သော စက်မျိုးဖြင့် အပင်၏အတွင်းသား ကြေသွားအောင် ခြေပစ်လိုက်သည်။ အချို့ကလည်း စက်များဖြင့် အပင်များကို ခြေလိုက်သည်။ တဖန်လျှော်မျှင်များစန့်သွားစေရန်နှင့် လျှော်သန့်သန့်ကို ရရှိရန် ခြည်ပုတ် လက်ရိုက်တုတ်ဖြင့် ထုရိုက်ရသည်။ ဤကဲ့သို့ ပြုလုပ်ရာ၌ စက်ကိုအသုံးပြုကြသည်လည်း ရှိသည်။ နောက်ဆုံးတွင် လျှော်မျှင်များရရှိရန် သံဘီးများဖြင့် အပင်ကို တဖန်ဖြီးချရသည်။ ရရှိသော လျှော်မျှင်များကို အရှည်နှင့်အတို ခွဲခြား၍ ခြည်လုပ်စက်ရုံများသို့ တင်ပို့ကြသည်။

ဘီသွာပင်ကို အစေ့အတွက် စိုက်ပျိုးသည့်အခါ ကောက်ပင်များ စိုက်ပျိုးလုပ်ကိုင်ရာ၌ အသုံးပြုသော လယ်ထွန်စက်မျိုးဖြင့် အပင်များကို စိုက်နိုင် ရိတ်သိမ်း နိုင်လေသည်။ တောင်အမေရိကတိုက်ရှိ အာဂျင်တီးနားနိုင်ငံသည်တကမ္ဘာလုံးမှ ထွက်သမျှ ဘီသွာစေ့၏ ထက်ဝက်မျှ ရရှိသော အထွက်အများဆုံး နိုင်ငံဖြစ်သည်။ ဘီသွာစေ့မှ ကြိတ်ညှစ်၍ ရရှိသော ဘီသွာဆီကို သဘော်သဆေးများ ရောစပ်ရာ၌ရှင်း၊ပုံနှိပ်မင်ဖော်စပ်ရာ၌ရှင်း၊ ဆီစိမ်အဝတ်၊ သားရေပြောင်နှင့် ဆီစိမ်ရွက်ထည်များ ပြုလုပ်ရာ၌ရှင်း အသုံးချကြသည်။ ယင်းအစေ့မှ ဆီညှစ်ယူပြီးနောက် ကျန်သည့် နှမ်းဖတ် ကဲ့သို့သော ဘီသွာဖတ်များကို တိရစ္ဆာန် အစာအတွက် အသုံးချကြလေသည်။

ဥတုဘောဇနကျမ်း အလိုအရ ဘီသွာစေ့သည် ဆိမ့်၏။ စဉ်းငယ်ခါး၏။ ကြေခဲ၏။ မျက်စိနာ၊သုက်ပျက်နာ၊ လေနာကို နိုင်၏။ သလိပ် သည်းခြေကိုနိုင်၏။ အဆီဩဇာရှိ၏။ ဘီသွာဆီသည် ဝမ်းမီးကို တောက်စေ၏။ ပူ၏။ ကြေခဲ၏။ သလိပ်သည်းခြေကို ပျက်စေ၏။ အားကိုဖြစ်စေ၏။ လေကိုနိုင်၏။မျက်စိနှင့်မသင့်။ ဥတုအေးလျှင် အခဲဖြစ်၏။ချုပ်၏။ ကျင်ကြီးကို ပွားများစေတတ်၏။ အရေ၌ဖြစ်သော ပွေးညှင်း တင်းတိပ် စသော အနာကို နိုင်၏ဟု ဆိုလေသည်။

**ဘီညှပ်။** ။တောင်ပီစူးငှက် — ရှု။

**ဘီလူး။** ။ဘီလူးအမည်မှာ မြန်မာဘာသာ ဖြစ်သည်။ တနည်းပါဠိဘာသာဘိရုမှ ဘီလူးဖြစ်လာ၏။ ဖြစ်လာပုံကား ဘိ၌ ဣကို ဤပြောင်းလဲ၍ ရ၌ ရကိုလ၊ ဥကို ဦပြောင်းလဲ၍ ဝစ္စနှစ်လုံးထည့်ကာ ဘီလူး ဖြစ်လာ၏ဟု ပေါရာဏကထာငို့ကာတွင် အဆိုရှိသည်။ ယင်းဘီလူးကား အဆင်းသဏ္ဍာန်ဆိုးဝါး၍ ရက်စက်ကြမ်းကြုတ်သဖြင့် သတ္တဝါတို့ကို ညှဉ်းဆဲသတ်ဖြတ်ကာ အသားအသွေးကို စားသောက်တတ်သော နတ်၊ ဘုတ်၊ မြေဘုတ်၊ ပြိတ္တာ၊တစ္ဆေများဖြစ်သည်။

ဘီလူးကို ပါဠိဘာသာအားဖြင့် ယက္ခဟူ၍ရှင်း၊ ရက္ခသဟူ၍ရှင်း၊ ကုမ္ဘဏ္ဍဟူ၍ရှင်း၊ ဒေဝဟူ၍ရှင်း၊ ဘူတဟူ၍ရှင်း၊ ဒါနဝဟူ၍ရှင်း၊ ပေတဟူ၍ရှင်း၊ ပိသာစဟူ၍ရှင်း၊ အမနုဿဟူ၍ရှင်း အမည်အမျိုးမျိုး ခေါ် ဝေါ် သုံးစွဲလေ့ရှိသည်။ မြန်မာဘာသာအားဖြင့်ကား ဘီလူးဟူ၍ရှင်း၊ ရက္ခိုသ်ဟူ၍ရှင်း၊ ကုမ္ဘဏ်ဟူ၍ရှင်း၊ နတ်ဟူ၍ရှင်း၊ ဘုတ်ဟူ၍ရှင်း၊ မြေဘုတ်ဟူ၍ရှင်း၊ ဒါနဝဟူ၍ရှင်း၊ ပြိတ္တာဟူ၍ရှင်း၊ တစ္ဆေဟူ၍ရှင်း၊ ဥပါဟူ၍ရှင်း အမည်အမျိုးမျိုး ခေါ်ဝေါ် သုံးစွဲလေ့ရှိသည်။ မည်မျှပင် အမည်အမျိုးမျိုး ခေါ်ဝေါ် သုံးစွဲသော်လည်း အကျဉ်းချုပ်လျှင် (၁) ကြည်းကုန်း၌နေသော ကုန်းဘီလူး (၂)ရေ၌နေသော ရေဘီလူးအားဖြင့် နှစ်မျိုးသာဖြစ်

သည်။ ကုန်းဘီလူးတို့သည် တော၊ တောင်၊ သစ်ပင်၊ အဆောက်အအုံ၊ မြေပြင်၌ နေကြသည်။ ရေဘီလူးတို့သည် သမုဒ္ဒရာ၊ မြစ်၊ ချောင်း၊ အင်း၊ အိုင်၊ ရေကန်၌ နေကြသည်။

အချို့ဘီလူးတို့သည် နတ်မင်းကြီးတို့ထံမှရင်း၊ဘုရင်မင်းမြတ်တို့ထံမှရင်း၊ နေရာအရပ်ကို ပိုင်းခြားသတ်မှတ်၍ရင်း၊ အချိန်အခါကို ပိုင်းခြားသတ်မှတ်၍ရင်း၊ တရားသဘောကို ပိုင်းခြားသတ်မှတ်၍ရင်း၊ အမှုအရာကို ပိုင်းခြား သတ်မှတ်၍ရင်း သတ္တဝါတို့ကို စားသောက်ရန် အပိုင်စား ရကြသည်။ အချို့ဘီလူးတို့သည် အပိုင်စားမရကြကုန်။သင့်သလို ရှာဖွေစားသောက်ကြသည်။ အချို့ ဘီလူးတို့သည် သတ္တဝါတို့ကို မစားသောက်ကြဘဲ နတ်၌ဖြစ်သောအစာ၊ သို့မဟုတ် လူတို့ပူဇော်ပသသော အစာကို စားသောက်ကြသည်။ အချို့ဘီလူးတို့သည် တန်ခိုးအာနုဘော် ကြီးမားကြသည်။ အချို့ဘီလူးတို့သည် တန်ခိုးအာနုဘော်သေးနုပ်ကြသည်။ အချို့ဘီလူးတို့သည် လက်နက်အမျိုးမျိုးကို ကိုင်ဆောင်ကြသည်။ အချို့ ဘီလူးတို့သည် လက်နက်ကိုင်ဆောင်ခြင်း မရှိကြကုန်။ နတ်ဘီလူးတို့သည် မိမိတို့ကိုယ်ကို လူတို့မမြင်အောင် ကွယ်ဖျောက် နိုင်ကြသည်။ မြင်အောင်လည်း ပြနိုင်ကြသည်။ သတ္တဝါအမျိုးမျိုး၊ ရုပ်အဆင်းသဏ္ဌာန်အမျိုးမျိုး ဖြစ်လာအောင် ဖန်ဆင်းပြောင်းလဲ နိုင်ကြသည်။

တနည်းအားဖြင့် ဘီလူးတို့ကို ခွဲ၍ ရေတွက်လျှင် (၁) နတ်ပြည်၌ ဖြစ်သော ဘီလူးများ (၂) လူ့ပြည်၌ဖြစ်သော ဘီလူးများဟူ၍ နှစ်မျိုးဖြစ်သည်။ နတ်ပြည်၌ ဖြစ်သော ဘီလူးများမှာ ဝိရူဠ္ဟကနတ်မင်းကြီးနှင့်တကွ အခြွေအရံ အလုပ်အကျွေးဖြစ်သော ကုမ္ဘဏ်ဘီလူးများ၊ ကုဝေရနတ်မင်းကြီးနှင့်တကွ အခြွေအရံအလုပ်အကျွေးဖြစ်သော ဣန္ဒသောမ စသော ဘီလူးစစ်သူကြီးများ၊ တလောလာ၊ တတ္တလာ စသော ဘီလူးအစောင့်အရှောက်များနှင့် သာမန် ဘီလူးများဖြစ်သည်။ ယင်းတို့အားလုံးကား စာတုမဟာရာဇ်နတ်များဖြစ်ကြသည်။ လူ့ပြည်၌ ဖြစ်သော ဘီလူးများမှာ နတ်များ၊ ရက္ခိုသ်များ၊ ဘုတ်များ၊ မြေဘုတ်များ၊ ဒါနဝါများ၊ ပြိတ္တာများ၊ တစ္ဆေများ ဖြစ်ကြသည်။ ယင်းတို့အားလုံးကား နတ်မျိုးနတ်နွယ်များ ဖြစ်ကြသည်။ (ဤနေရာ၌ ဘုတ်၊ မြေဘုတ်၊ ပြိတ္တာများကို တစ္ဆေဟု ခေါ်ဝေါ်ကြသည်။ ယင်းတစ္ဆေမှာလည်း တစ္ဆေငယ်ကို မှင်စာ၊ တစ္ဆေကြီးကို တစ္ဆေ၊ အစိမ်း၊ သရဲ၊ သဘက်၊ ဥဗကစသည်ဖြင့် အမျိုးမျိုး ခေါ်ဝေါ်ကြပြန်သည်။ တနည်း ခြောက်လှန့်ဖမ်းစားတတ်သော နတ်ဆိုး နတ်ဝါး ဟူသမျှကို တစ္ဆေချည်းသာ ပေါင်း၍ ခေါ်ဝေါ်ကြပြန်သည်။) (တစ္ဆေ — ရှု။)

ဤနေရာ၌ ဘီလူးတွေ့ အများအပြားရှိသော်လည်း ထင်ရှား၍ လူသိများသောဘီလူးများကိုသာ ထုတ်ပြပါအံ့။ ။ မြတ်စွာ ဘုရားလက်ထက်တော်အခါ ထင်ရှားသော အာဠဝကဘီလူးသည် မဇ္ဈိမဒေသ အာဠဝီပြည်အနီး တောကြီးအတွင်းဝယ် ကြီးကျယ်ခမ်းနားသော ဗိမာန်၌ မောင်းမမိဿံခြွေရံများနှင့်တကွ နေ၏။ ဗိမာန်ကြီး၏ အနီး ညောင်ပင်ကြီးကို ယင်းညောင်ပင်အောက်သို့ ဝင်လာသော သတ္တဝါတို့ကို စားစေဟု စာတုမဟာရာဇ်နတ်မင်းတို့ထံမှ အပိုင်စားရ၍သဖြင့် ထိုညောင်ပင်ကြီးအောက်သို့ ဝင်လာသော သတ္တဝါတို့ကို သတ်ဖြတ်ကာ စားသောက်၍ နေ၏။ တနေ့သောအခါ မြတ်စွာဘုရားကြွလာတော်မူ၍ တရားဟောရာ ကျွတ်တမ်းဝင်လျက် သောတာပန်အရိယာအဖြစ်သို့ ရောက်လေသည်။ ။သုစိလောမဘီလူးနှင့် ခရလောမ ဘီလူးတို့သည်လည်း မဟာဗောဓိပင်အနီး ဂယာရွာကြီး၏တံခါး တံမြက်ချေးစွန့်ရာ အရပ်ဝယ် နေကြ၏။ တနေ့သောအခါ မြတ်စွာဘုရားကြွလာတော်မူ၍ တရားဟောရာ၊ကျွတ်တမ်းဝင် သောတာပန်အရိယာအဖြစ်သို့ ရောက်လျက်၊ ဘုမ္မစိုးနတ်တို့ စည်းစိမ်ချမ်းသာကို ခံစားကြရလေသည်။ ။သာတာဂိရိတောင်၌ နေသော သာတာဂိရိနတ်ဘီလူးစစ်သူကြီးနှင့် ဟေမဝတတောင်၌နေသော ဟေမဝတနတ်ဘီလူး စစ်သူကြီး နှစ်ယောက်တို့လည်း တထောင်သော နတ်ဘီလူး အပေါင်း ခြံရံလျက် မိဂဒါဝုန်တော မြတ်စွာဘုရားထံသို့ သွား၍ တရားနာကြရာ ကျွတ်တမ်းဝင်ကာ သောတာပန်အရိယာအဖြစ်သို့ ရောက်ကြသည်။ အခြံအရံ နတ်ဘီလူးတို့သည် သရဏဂုံ၊ ပဉ္စသီလ၌ တည်ကြသည်။

ထို့ပြင် ငါးရာငါးဆယ် နိပါတ်တော် အပဏ္ဏကဇာတ်တွင် ရေမရှိသော ကန္တာရခရီး၌နေသော ဘီလူးတို့သည် ခရီးသည်တို့ကို လှည့်ပတ်ကာ စားကြသည်။ မဟာသီလဝဇာတ်တွင် သုသာန်၌ လူသေကောင်ကို လုနေသောဘီလူးနှစ်ယောက်အား မဟာသီလဝမင်းကြီးက ခွဲဝေပေးရသည်။ ပဉ္စာဝုဓဇာတ်တွင် တောအလယ်၌နေသော ကပ်စေးနှဲဘီလူးသည် တောတွင်းသို့ လာသော သူတို့ကို ဖမ်း၍ စားသည်။ ဝလာဟကဇာတ်တွင် သီဟိုဠ်ကျွန်း သိရိသဝတ္ထုမြို့၌နေသော ဘီလူးတို့သည် ကျွန်းသို့ လာသော သူတို့ကို ဖမ်း၍ စားကြသည်။ တေလပတ္တဇာတ်တွင် ဗာရာဏသီပြည်နှင့်တက္ကသိုလ်ပြည်အကြား တောအုပ်ကြီး၌ နေသော ဘီလူးတို့သည် တောအုပ်ကြီးသို့ လာသော သူတို့ကို ဖမ်း၍ စားကြသည်။ ဘဂ္ဂဝဇာတ်တွင် ဗာရာဏသီမြို့တော် တံခါးပြင်ဘက်ရှိ စရပ်၌နေသော ဘီလူးသည် စရပ်တွင်းသို့ ဝင်သော သူတို့အနက် ချေဆတ်သော အခါ အသက်ရှည်စေသော် ဆိုသောသူနှင့် တဖန်တုံ့ပြန်ကာ အသက်ရှည်စေသော်ဆိုသော သူတို့မှတပါးသော သူတို့ကို စားစေဟု နတ်မင်းကြီးတို့ထံမှ အပိုင်စားရသဖြင့် ထိုစရပ်တွင်းသို့ ဝင်သောသူတို့ကို စီစစ်၍ စားသည်။ ဂုမ္ဗိယဇာတ်တွင် ဂုမ္ဗိယဘီလူးသည် ဗာရာဏသီပြည် တောအုပ်တခုဝယ် လမ်းခရီး၌ အဆိပ်ထည့်ထားသော ပျားလဘို့

တို့ကို ကုသိုလ်ပြုသည် ထင်မှတ်အောင် လှည့်ပတ်ကာ ထား၍ စားမိသဖြင့် သေသောသူတို့ကို စားသည်။ သုတနုဇာတ်တွင် ဗာရာဏသီပြည် တခုသောညောင်ပင်၌ နေသော မဃဒေဝဘီလူးသည် ညောင်ပင်အောက်သို့ဝင်သော သူတို့ကိုစားသည်။ ကာကဝလိယသဒ္ဒေးဝတ္ထုတွင် ရာဇဂြိုဟ်မြို့တံခါး ထန်းပင်နှစ်ပင်၌ နေသောဒီဃတာလဘီလူးသည်နေဝင်သည်မှ အရုဏ်တက်သည်အထိ မြို့တံခါးမှဝင်သောသူ ထွက်သောသူတို့ကို စားစေဟု ဘုရင်မင်းမြတ်ထံမှ အပိုင်စားရသဖြင့် မြို့တံခါးမှ ဝင်သောသူ ထွက်သောသူတို့ကို စားသည်။

ခုဒ္ဒကပါဌအဋ္ဌကထာ ရတနသုတ်အဖွင့် ဝေသာလီ ဝတ္ထုတွင် ဝေသာလီပြည်၌ (၁) အစာငတ်မွတ်ခြင်းဘေး (၂) ဘီလူးဘေး (၃) အနာရောဂါဘေး၊ ဤဘေးကြီး ၃ ပါး ဆိုက်ရောက်၍ လူအများသေကြေပျက်စီးသောအခါ မြတ်စွာဘုရားကို သွား၍ ပင့်ဖိတ်သဖြင့် ရဟန်းငါးရာနှင့် ကြွလာတော်မူပြီးလျှင် ရတနသုတ်ပရိတ်တော်ကို ဟောတော်မူရာ ဘေးကြီး ၃ ပါးငြိမ်း၍ လူအများ အသက်ဘေးမှ ချမ်းသာလေသည်။

နဠပါနဇာတ်တွင် ဟိမဝန္တာတော အတွင်းရှိ ရေအိုင်တခု၌ နေသောရက္ခိုသ် ဘီလူးသည် ရေအိုင်အတွင်းသို့ ဆင်းသက်သော သတ္တဝါတို့ကို ဖမ်း၍စားသည်။ ဒေဝဓမ္မဇာတ်တွင် ဟိမဝန္တာတောအတွင်းရှိရေအိုင်တခု၌နေသောရက္ခိုသ်ဘီလူးသည် ရေအိုင်အတွင်းသို့ ဆင်းသက်သောသူတို့တွင် ဒေဝဓမ္မတရားနှစ်ပါးကို မသိသောသူတို့ကို စားစေဟု နတ်မင်းကြီးတို့ထံမှ အပိုင်စားရသဖြင့် ဆင်းသက်သော သူတို့ကို မေးမြန်းစီစစ်၍စားသည်။ အယကူဋဇာတ်တွင် ဗာရာဏသီမင်းကြီးသည် သတ္တဝါတို့အသက်ကိုမသတ်ရဟု စည်လည်စေသဖြင့် ဘီလူးတို့သည် သတ္တဝါတို့ အသားအသွေးဖြင့် ပူဇော်သက္ကာရကို မရသောကြောင့် အမျက်ထွက်ကာကုမ္ဘဏ်ရက္ခိုသ်ဘီလူးတဦးကို စေလွှတ်ရာ၊ ထိုဘီလူးသည် သံတူကြီးကိုကိုင်လျက် ညဉ့်အခါ မင်းကြီး၏ကျက်သရေတိုက်ခန်းသို့ ဝင်၍ မင်းအားသတ်မည်ပြုသောအခါ၊ သိကြားမင်းလာ၍ စောင့်ရှောက်သဖြင့်၊ မသတ်ဝံ့ဘဲပြေးရသည်။ သမုဂ္ဂဇာတ်တွင် ဗာရာဏသီပြည် တောအုပ်တခု၌ နေသော ရက္ခိုသ်ဘီလူးသည် တောအုပ်အတွင်းသို့ ရောက်လာသော သူတို့ကို ဖမ်း၍စားသည်။ သမ္ဗုလာဇာတ်တွင် ဒါနဝရက္ခိုသ်ဘီလူးသည် နုနာစွဲကပ်သဖြင့် တော၌ နေသော သောတ္ထိသေနမင်းသား၏ မိဖုရားသမ္ဗုလာကို သစ်သီးရှာသွားခိုက် ဖမ်း၍ စားမည်ပြုသောအခါ သိကြားမင်းလာ၍ ဒဏ်ခတ်သဖြင့် မစားဝံ့ဘဲ ပြေးရသည်။

ပဒကုသလမာဏဇာတ်တွင် တောင်ခြေရင်းရှိ လိုဏ်ဂူတခု၌ နေသော အဿမုခီဘီလူးမသည် တောအုပ် အတွင်းသို့လာသောသူတို့ကို ဖမ်း၍စားသည်။ တနေ့သော အခါ ပုဏ္ဏားလုလင်တယောက်ကို ဖမ်း၍မိရာ၊မစားဘဲ ခင်ပွန်းလင်ပြု၍ထားသဖြင့်၊ပဒကုသလ လုလင်ကိုမွေးဖွားသည်။ ထိုပဒကုသလလုလင်ကား လူယောကျ်ားနှင့် ဘီလူးမိန်းမစပ်သောကြောင့် လူစပ်ဘီလူးဖြစ်သည်။ မဟာဝင်ဝတ္ထုတွင် သီဟိုဠ်ကျွန်း၌ ရှေးဦးစွာ နန်းတက်သော ဝိဇယမင်းကြီးသည် ကုဝဏ္ဏာမည်သောဘီလူးမကို မိဖုရားမြှောက်သဖြင့် ဇီဝဟတ္ထသားတော်နှင့် ဒီပေလ္လာသမီးတော်ကို မွေးဖွားသည်။ ထိုသားတော် သမီးတော်တို့ကား လူယောကျ်ားနှင့် ဘီလူးမိန်းမ စပ်သောကြောင့် လူစပ်ဘီလူးများ ဖြစ်ကြသည်။ မဟာရာဇဝင်ကြီး ပဌမတွဲတွင် ကုက္ကိုတောင်ပရွာသား သူကြွယ်တဦး၏ ကျွန်မသည် ယာစောင့်နေရာ အနီးရှိ သစ်ပင်ကြီး၌နေသော ဘုမ္မစိုးနတ်ဘီလူးနှင့် သံဝါသပြုသဖြင့် သားတယောက်မွေးဖွားသည်။ ထိုသားကား နောင်အခါ ပုဂံပြည် မင်းငါးဆဲ့ငါးဆက် ရှိသည့် အနက် နှစ်ဆဲ့ခြောက်ဆက်မြောက် မြင်းကျွေးမင်းဖြစ်လာသည်။ နော်ရထာမင်းစောလက်ထက် ပန်းတော်ဆက်ရာထူးဖြင့် ထမ်းရွက်နေသော သူရဲကောင်းကုလားဗျတ္တသည် ပုပ္ပားအရပ်မှာ ဘီလူးမနှင့် အိမ်ထောင်ကျသဖြင့်၊ ရွှေဖျဉ်းကြီး၊ ရွှေဖျဉ်းငယ် သားနှစ်ယောက်ကိုမွေးဖွားသည်။ ထိုသားနှစ်ယောက်တို့ကား လူယောကျ်ားနှင့် ဘီလူးမိန်းမစပ်သောကြောင့် လူစပ်ဘီလူးများဖြစ်သည်။

ဇယဒိသဇာတ်တွင် သုသာန်၌နေသော ရန်သူ ဘီလူးမတယောက်သည် ပဉ္စာလမင်းကြီး၏ မိဖုရားကြီးမှ မွေးဖွားသော ပဌမသားတော်နှင့် ဒုတိယသားတော်တို့ကို စားပြီးလျှင်၊ တတိယသားတော်ကိုကား မစားတော့ဘဲ၊ သားအမှတ်မွေးစားထားသည်။ ထိုပဉ္စာလမင်းကြီး၏ တတိယသားတော်သည် ဘီလူးမထံတွင် လူသားဖြင့် ကြီးပြင်းလာရကား မိမိကိုယ်ကို ဘီလူးစစ် မှတ်ထင်ကာ၊ လူတို့ကိုဖမ်း၍ စားလျက်သာနေသည်။ စင်စစ်အားဖြင့် ဘီလူးမဟုတ်၊ လူဘီလူးသာဖြစ်သည်။ မဟာသုတသောမဇာတ်တွင် ဗာရာဏသီပြည် ဗြဟ္မဒတ်မင်းသည် လူသားကို စားသဖြင့်၊ တိုင်းပြည်မှ နှင်ထုတ်ခြင်းခံရသောကြောင့်၊ တောသို့ဝင်ကာ၊ လူတို့ကို ဖမ်း၍စားနေသဖြင့်၊ လူသားစား ပေါရိသာဒဟု ခေါ်ဝေါ်ကြသည်။ ထိုမင်းလည်း လူဘီလူးပင်ဖြစ်သည်။ နောက်မဟာ သုတသောမမင်း တရားဟောသဖြင့် လူသားကို စွန့်လွှတ်သည်။

အယောဃရဇာတ်တွင် ဗာရာဏသီပြည် ဗြဟ္မဒတ်မင်း၏ မိဖုရားကြီးမှ မွေးဖွားသော ပဌမသားတော်နှင့် ဒုတိယသားတော်တို့ကို ရန်သူဘီလူးမသည် အတင်းလုယူ၍စားသည်။ တတိယ သားတော်ကို ကိုယ်ဝန်တည်သောအခါ၊ မင်းကြီး၏ မေးမြန်းချက်အရ၊ ဘီလူးတို့မည်သည် သံကိုကြောက်ကုန်၏ဟု အမတ်တယောက်လျှောက်ထားသဖြင့်၊ သံအိမ်ကြီးကို

ဆောက်လုပ်စေပြီးလျှင်၊ ထိုသံအိမ်ကြီးအတွင်း၌ မိဖုရားကြီးကို ဖွားမြင်စေရာ၊ ဘီလူးမ မစားနိုင်သဖြင့်၊ အသက်ဘေးမှ ချမ်းသာရရသည်။ ဓမ္မပဒအဋ္ဌကထာ ကာဠီယက္ခိနီဘီလူးမ ဝတ္ထုတွင် သာဝတ္ထိပြည် အမျိုးသမီးတယောက်မှ မွေးဖွားသော ပဌမသားနှင့် ဒုတိယသားတို့ကို ရန်သူဖြစ်သော ကာဠီယက္ခိနီဘီလူးမသည် အတင်းလုယူ၍ စားလေသည်။ တတိယ သားကိုကား ဘီလူးမဘေးမှ လွတ်မြောက်ရန် အမျိုးသမီးသည် ခင်ပွန်းလင်နှင့်တကွ သွား၍ ဆွေမျိုးအိမ်၌ မွေးဖွားပြီး သားငယ်ကို ယူလာရာ လမ်းခရီးတွင် ဘီလူးမ အတင်းလိုက်လာသည်ကို မြင်လျှင် မြတ်စွာဘုရား တရားဟောရာ ကျောင်းတော်သို့သွား၍ မြတ်စွာဘုရားရှေ့တော်တွင်ချကာ သားငယ်ကို လှူဒါန်းပါ၏။ အသက်ကို ကယ်တော်မူပါဘုရားဟု လျှောက်ထားလေ၏။ ဘီလူးမ လိုက်လာသောအခါ မြတ်စွာဘုရား တရားတော်ကို ကြားနာရသဖြင့် ကျွတ်တမ်းဝင်ကာ သောတာပန် အရိယာအဖြစ်သို့ ရောက်လေသည်။

ပါရာဇိကဏ် အဋ္ဌကထာ ဇာဟိရနိဒါန်းတွင် သမုဒ္ဒရာ အနီးရှိ သုဝဏ္ဏဘူမိ သထုံပြည် သီရိမာသောကမင်း၏ နန်းတော်၌ မွေးဖွားတိုင်းသော သားတို့ကို သမုဒ္ဒရာ၌နေသော ရက္ခိုသ်ဘီလူးမသည် လာ၍ စားလေ့ရှိ၏။ တတိယသင်္ဂါယနာတင်ပြီးနောက် သောဏထေရ်နှင့်ဥတ္တရထေရ်တို့ ရောက်လာသောနေ့၌လည်း နန်းတော်၌ သားဖွားခိုက်ကြုံသဖြင့် ရက္ခိုသ်ဘီလူးမသည် အရံငါးရာနှင့်တကွ စားမည်ဟုလာပြန်ရာ ဘီလူးတို့ ရန်ကို နှိမ်နင်းရန် လက်နက် ကိုယ်စီကိုင်၍ လာကြသောလူတို့လျှောက်ထားသဖြင့် မထေရ်တို့သည် ထိုရက္ခိုသ်ဘီလူးတို့ထက် နှစ်ဆကြီးသော ကိုယ်ရှိသော မနုသီဟ သဏ္ဍာန်ဖန်ဆင်း၍ လိုက်သောကြောင့် ဘီလူးတို့ ပြေးကြသည်။ မထေရ်တို့က ဗြဟ္မဇာလသုတ်ကို ဟောသဖြင့် အကျွတ်တရားရကြသည်။ နန်းတော်၌ မွေးဖွားသောသားကိုလည်း မထေရ်တို့ တန်ခိုးကြောင့် အသက်ချမ်းသာရရသည့်အတွက်မထေရ်တို့ အမည်ကိုယူ၍ သောနုတ္တရသတို့သားဟု အမည်မှည့်ကြသည်။

မဟာရာဇဝင်တော်ကြီး ပဌမတွဲတွင် ပုဂံပြည် နော်ရထာမင်းစောသည် လယ်တွင်း ကိုးခရိုင်မှပြန်လာ၍ ပုဂံမြို့သရဗာတံခါးသို့ ရောက်သောအခါ မုဆိုးတယောက်သည် အောင်သာမြစ်ခြေအရပ်၌ စက္ခုပါလ ကျွဲရိုင်းသည် လူတို့ကို ရန်ပြု၍ နေပါသည် လျှောက်ထားရာ၊ မင်းကြီးသည် မြို့တော်သို့ မဝင်သေးဘဲ၊ ငါဆင်နှင့် တိုက်သတ်မည်ဟုမိန့်ဆိုကာ၊ ဆင်တော်သန်မြင်စွာကို စီးလျက် စစ်သည် ဗိုလ်ပါနှင့်တကွ လိုက်တော်မူသည်။ ထိုအခါ ကျွဲရိုင်းသည် ဆင်ထက်တွင် စီးနေသော မင်းကြီးကို ခတ်လိုက်ရာ မင်းကြီးနတ်ရွာစံတော်မူသည်။ ထိုကျွဲရိုင်းကား ကျွဲစင်မဟုတ်၊ ရန်သူ ဖြစ်ဘူးသော လိန်ပင်စောင့်နတ် ကျွဲယောင်ဆောင်၍ ခတ်ခြင်း ဖြစ်သည်။ (ဤ၌ နတ်ဆိုသော်လည်း နတ်ဘီလူး ဖြစ်သည်ဟု ယူဆရမည်။ ဤနတ်ဘီလူးကို ကျွဲယောင် ဆောင်သောကြောင့် ကျွဲနတ်ဘီလူးဟု ဆိုထိုက်သည်။) အထူးသဖြင့် ဘုရင် မင်းမြတ်များ နတ်ရွာစံခါနီးနှင့် နန်းကျခါနီး၌ ဘီလူးရယ်သည်၊ ဘီလူး ကိုယ်ထင်ပြသည်ဟု အဆိုရှိသည်။ ထိုသို့ ဖြစ်ခြင်းကို ပုဗ္ဗနိမိတ်ဟု ယူဆကြသည်။

ဓမ္မပဒအဋ္ဌကထာ သုပ္ပဗုဒ္ဓကုဋ္ဌိဝတ္ထုတွင် သုပ္ပဗုဒ္ဓသူနူသည် တနေ့သောအခါ မြတ်စွာဘုရားတရားတော်ကို နာရ၍ ကျွတ်တမ်းဝင်ကာ သောတာပန် အရိယာအဖြစ်သို့ ရောက်ပြီးလျှင် မြတ်စွာဘုရားထံတော်မှ ပြန်လာရာ၊ ရန်သူဖြစ်ဘူးသော ဘီလူးမသည် သားသည်အမိ နွားမယောင်ဆောင်၍ ဝှေ့သဖြင့် အနိစ္စရောက်ရသည်။ ထိုပြင် ထိုဘီလူးမသည် ပင်လျှင် နွားမယောင်ဆောင်၍ဝှေ့သဖြင့် ပက္ကုသာတိအမျိုးသား၊ ဗာဟိယဒါရုစိရိယ၊ တမ္ဗဒါဌိက ခိုးသူသတ်တို့လည်း အနိစ္စရောက်ကြရသည်။ (ဤဘီလူးမကို နွားယောင် ဆောင်သောကြောင့် နွားဘီလူးမဟု ဆိုထိုက်သည်။)

ဇောတိက သဌေးကြီး ဝတ္ထုတွင် ဇောတိက သဌေးကြီး၏ အိမ်၌ တံတိုင်းခုနစ်ထပ်တို့၏ လေးမျက်နှာတို့တွင် ပဌမတံခါးမုခ်ဝ၌ ကောဠိက နတ်ဘီလူးသည် အရံတထောင်နှင့် စောင့်၏။ ဒုတိယ တံခါးမုခ်ဝ၌ ဥပ္ပလနတ်ဘီလူးသည် အရံနှစ်ထောင်နှင့် စောင့်၏။ တတိယတံခါး မုခ်ဝ၌ ဝဇိရနတ်ဘီလူးသည် အရံသုံးထောင်နှင့်စောင့်၏။ စတုတ္ထတံခါး မုခ်ဝ၌ ဝဇိရဗာဟု နတ်ဘီလူးသည် အရံလေးထောင်နှင့်စောင့်၏။ ပဉ္စမတံခါးမုခ်ဝ၌ သံကနနတ်ဘီလူးသည်အရံငါးထောင်နှင့် စောင့်၏။ ဆဋ္ဌတံခါးမုခ်ဝ၌ ကဋ္ဌ နတ်ဘီလူးသည် အရံ ခြောက်ထောင်နှင့် စောင့်၏။ သတ္တမ တံခါးမုခ်ဝ၌ ဒိသာပါမောက္ခ နတ်ဘီလူးသည် အရံခုနစ်ထောင်နှင့်စောင့်၏။ (ဤစကားကို ထောက်ထားသဖြင့် အခြား နေရာဌာနတို့၌လည်း ထိုက်သည် အားလျော်စွာ နတ်ဘီလူးများ စောင့်သည်ဟု ယူဆသင့်လေသည်။)

ဘုရင်မင်းမြတ်တို့နန်းတော်၌၎င်း၊မြို့တော်၌၎င်း၊ကျောင်းကန်ဘုရား တန်ဆောင်း စသော အဆောက်အအုံများ၌၎င်း၊ အပြောက် အမွမ်း သဘောဖြင့်၎င်း၊ အစောင့်အရှောက်သဘောဖြင့်၎င်း ဘီလူးရုပ်လုံးများ ထုလုပ်ထားသည်ကို တွေ့မြင်ရသည်။ ထုလုပ်ပုံမှာ အများအားဖြင့် နတ်ဝတ်တန်ဆာနှင့် လက်ယာဒူးထောင်၊ လက်ဝဲဒူးချ၊ လက်ယာလက် သန်လျက်စွဲ၊ လက်ဝဲလက်ထောက်၊ ဗောင်း သရဖူဆောင်းလျက် ဖြစ်သည်။

အထူးအားဖြင့် ဘီလူးတို့သည် လူယောင်ဖန်ဆင်း၍ နေသော်လည်း၊ လူစစ်နှင့်မတူ။ ထူးခြားသောအရာတို့မှာ (၁) မျက်စိနီခြင်း (၂) မျက်စိ မမှိတ်ခြင်း (၃) အရိပ်မထွက်ခြင်း

(၄) မကြောက်ရွံ့ခြင်းဟူ၍ လေးပါးဖြစ်သည်။ (တနည်း) (၅) မသနားခြင်းကို ထည့်သွင်းပြန်က ငါးပါးဖြစ်သည်။ ထိုလေးပါး၊ ငါးပါးသော ထူးခြားချက်တို့ကို ကြည့်ရှုဆင်ခြင်၍၊ ဤသူကား လူစစ်မဟုတ်၊ လူယောင် ဖန်ဆင်းနေသောဘီလူးဖြစ်ကြောင်း သိနိုင်သည်။ ဦးကြီးဖေ

အထက်ဖော်ပြပါ ဗုဒ္ဓအယူဝါဒီတို့ ကြားဘူးနားဝရှိနေကြသော ဘီလူးများအပြင်၊ ဥရောပတိုက်၊ အာရှတိုက်တို့မှ နိုင်ငံအသီးအသီး၊လူမျိုးအထွေထွေ၏ထုံးဟောင်းပုံပြင်များတွင်လည်း လူမျိုးအလိုက်၊ ဒေသအလိုက် ဒဏ္ဍာရီဘီလူး အမျိုးမျိုး ရှိကြလေသည်။ အာရိယန် အဆက်အနွယ် လူမျိုးများ၏ ထုံးဟောင်းပုံပြင်များတွင် လူ့အသွင်အပြင် ရှိသော်လည်း၊ လူထက် များစွာ သန်မာ ထွားကျိုင်းသော ဘီလူးများ အကြောင်း အမျိုးမျိုးအဖုံဖုံ ပါရှိသည်။

ဂရိလူမျိုးများ၏ ထုံးဟောင်း ပုံပြင်များ၌မူ၊ ဘီလူးတို့သည် အလွန်တရာ ကြီးမားထွားကျိုင်း၍ ကြောက်မက်ဖွယ်ရာ မျက်နှာပုံပန်း ရှိပြီးလျှင်၊ နဂါးအမြီးပါရှိကြောင်း ဖော်ပြကြသည်။ ထိုပြင် ထိုဘီလူးများသည် ယူရေးနပ် နတ်သား (ကောင်းကင်ဘုံ) ၏ သွေးသည် ဂီနတ်သမီး (မြေကြီး)၏ ပေါင်ပေါ်သို့ ကျရာမှ ဖြစ်ပေါ်လာသည်ဟု ဆို၍ ထိုဘီလူးများကို တိုင်တန်ဟုခေါ်သည်။ စိတ်ကူးဉာဏ် အလွန်ဆန်းကြယ်ကွန့်မြူးသော ဂရိသူဟောင်းတို့အလိုအရ၊ လူသတ္တဝါ၊ ရေမြေတောတောင်တို့၏ ဖြစ်ပေါ်မှုကို ဖျက်ဆီးသောရေ၊ မြေ၊ လေ၊မီးတို့၏ ဖောက်ပြန်မှုတို့ကို ဘီလူးများဟု ယူဆကြသည်။ ထိုဘီလူးတို့သည် ကောင်းကင်ဘုံသို့ပင် တက်ရောက်တိုက်ခိုက်ကြရာ၊ ကောင်းကင်ဘုံနတ်များပင်၊ ယင်းတို့အား မတွန်းလှန်နိုင်သဖြင့်၊ စွမ်းအား ကြီးမားလှသော ဟားကျူးလီးအား အကူအညီ ခေါ်ရသောဟူ၏။ (ဟားကျူးလီး — ရှု။)

နတ်များသည် ဟားကျူးလီး၏ အကူအညီဖြင့် ဘီလူးများကို နှိမ်နင်းပြီးနောက်၊ အက်တနာစသော မီးတောင်များအောက်တွင် ဘီလူးများကို ချုပ်နှောင်အကျဉ်းချထားရသည်။ မီးတောင် ပေါက်ကွဲမှုစသည်တို့သည် ဘီလူးများ၏ ရုန်းကန်လှုပ်ရှားမှုဟု ဆိုကြလေသည်။

ဥရောပမြောက်ပိုင်း နိုင်ငံများ၏ ထုံးဟောင်းပုံပြင်များမှ ဘီလူးများသည်မူ ဂရိဘီလူးများထက်ပင် အဆင့်အတန်းမြင့်သေးသည်။ စကန်ဒီနေးဗီးယန်းထုံးဟောင်းပုံပြင်တွင် ကမ္ဘာ၌ ဦးစွာ ပဌမစတင်ပေါ်ပေါက်သော သတ္တဝါသည် အီမီးယားအမည်ရှိ ဘီလူးကြီးဖြစ်၍၊ နှင်းဘီလူးမျိုးကို စတင်ခဲ့သူဟု ဆိုလေသည်။

နေပူခြင်း၊ မိုးရွာခြင်း၊ လေပြင်းကျခြင်း စသော ကမ္ဘာ့နိယမ တရားတို့ကိုင်၊ ယဉ်ကျေးမှု တိုးတက်ရေးကို အနှောင့်အယှက်ပြုသောအရိုင်းအစိုင်းဝါဒများကိုင်၊ ခရစ်ယန်ဝါဒနှင့် ပဋိပက္ခဖြစ်သော မိစ္ဆာဒိဋ္ဌိ အယူဝါဒတို့ကိုင်း ရှေးသူဟောင်းတို့သည် ဘီလူးများနှင့် ဥပစာတင်စား၍ ပုံပြင် ဒဏ္ဍာရီပြုထားခြင်းများလည်း ရှိလေသည်။ ဝေလနယ်ဘွင် ခေတ်စားသော ဘီလူးသတ် လူစွမ်းကောင်း ဂျက်၏ ပုံပြင်သည် ခရစ်ယန်ဝေလနယ်သားများနှင့် မိစ္ဆာ အင်္ဂလို-ဆက္ကဆန်များ၏ ပဋိပက္ခကို ဥပစာ တင်စားထားခြင်း ဖြစ်လေသည်။

သိပ္ပံပညာရပ် ထွန်းကားလာသော ခေတ်တွင် သိပ္ပံပညာရှင်များက ထုံးဟောင်းပုံပြင်ပါ ဘီလူးများကို အယုံအကြည်မရှိကြချေ။ သို့သော်အချို့လူများသည် လူသာမန်တို့ထက် အဆမတန် ကိုယ်လုံး ကိုယ်ထည် ကြီးမားလှ၍၊ ယင်းတို့ကိုဘီလူးဟုခေါ်ကြသည်။ သို့သော်ဒဏ္ဍာရီပုံပြင်ပါ ဘီလူးများကဲ့သို့ တန်ခိုးစွမ်းအား ရှိသည်ဟုကား မယူဆချေ။ သာမန်လူတို့ထက် အဆမတန် ထွားကျိုင်းခြင်းကို သိပ္ပံပညာဖြင့် စူးစမ်း စစ်ဆေးသည့်အခါ ဦးနှောက်အောက် အတက် (ပီတျူတရီဂလင်း)၏ ဖောက်ပြန်မှုကြောင့်ဖြစ်ကြောင်းသိရသည်။ထိုအတက်မှ ကြီးထွားမှုကို ဖြစ်စေသော ဟော်မုန်းများကို အဆမတန် အများအပြား ထုတ်လုပ် ပေးသောကြောင့် ဖြစ်သည်။ အရွယ်ရောက်ပြီး လူကြီးတယောက်တွင် ထိုအတက် ဖောက်ပြန်သော အခါ၊ ကိုယ်ခန္ဓာ၏ တစိတ် တဒေသ၌သာ အဆမတန် ကြီးထွားခြင်း ဖြစ်တတ်သည်။ ယင်းသည့်အခါမျိုးတွင်၊ မျက်နှာ၊ အထူးသဖြင့် မေးစေ့၊ ခြေနှင့် လက်တို့သည် အလွန်အမင်း ကြီးမား ထွားကျိုင်းခြင်း ဖြစ်တတ်လေသည်။

ပီတျူတရီဂလင်းဖောက်ပြန်လာ၍ အချိုးမကျဘဲ ကိုယ်ခန္ဓာ ကြီးထွားလာခြင်းကို ဖြစ်စအချိန်၌ ဆရာကောင်း သမားကောင်းများဖြင့် ကြပ်မ ကုသက ပျောက်ကင်းနိုင်လေသည်။

**ဘီလူးချောင်း ရေအားလျှပ်စစ် စီမံကိန်း။** ။မြန်မာနိုင်ငံအစိုးရ၏ စီမံကိန်းပေါင်းများစွာ အနက် ဘီလူးချောင်း ရေအား လျှပ်စစ်စီမံကိန်းသည် အကြီးအကျယ်ဆုံး စီမံကိန်းကြီး ဖြစ်သည်။ မြန်မာ့သမိုင်း၌ မကြုံစဖူးသော တည်ဆောက်ရေး လုပ်ငန်းကြီးလည်း ဖြစ်သည်။ လယ်ယာစိုက်နိုင်ငံ ဖြစ်ခဲ့သော မြန်မာပြည်ထောင်စုအား စက်မှုနိုင်ငံအဖြစ် သမိုင်းတကဏ္ဍ ပြောင်းလဲရန် အစပျိုးပေးသော လုပ်ငန်းကြီးလည်း ဖြစ်ပေသည်။ ဒုတိယကမ္ဘာစစ်ကြီးပြီး၍ လွတ်လပ်ရေး မရမီကပင် ဗိုလ်ချုပ်အောင်ဆန်း အမှူးပြုသော အမျိုးသား ခေါင်းဆောင်ကြီးများသည် လွတ်လပ်ရေး ရရန် တဖက်မှ စိုင်းပြင်းလျက်၊ တဖက်က နိုင်ငံ၏ တိုးတက်ဖွံ့ဖြိုးရေးကို ဆွေးနွေး စီစဉ်ခဲ့ကြသည်။ ခေါင်းဆောင်ကြီးများသည် နိုင်ငံ၏ စီးပွားရေး တိုးတက် ဖွံ့ဖြိုးမှုအတွက်

# ဘီလူးချောင်း ရေအားလျှပ်စစ်စီမံကိန်း



လှပစွာ တည်ဆောက်ပြီးစီးသွားပြီဖြစ်သော လောပိတလျှပ်စစ် ဓာတ်အားပေး စက်ရုံသစ်ကြီး

အရေးပါလှသော အချက်နှစ်ရပ်ကို တွေ့ရသည်။ ပဌမ အချက်သည် လယ်ယာ စိုက်ပျိုးရေး လုပ်ငန်းကို ခေတ်မှီ စွာ တိုးချဲ့လုပ်ကိုင်ရေး ဖြစ်၍၊ ဒုတိယ အချက်သည် စက်မှု လုပ်ငန်း တိုးတက် ထွန်းကားရေး ဖြစ်သည်။ စက်မှု လုပ်ငန်း ထွန်းကား ဖွံ့ဖြိုးရေးအတွက် လျှပ်စစ်ဓာတ်အားကို နိုင်ငံနှင့်အဝှမ်း ပြည့်ပြည့်စုံစုံ လုံလုံလောက်လောက် ဖောဖောသီသီ ရနိုင်မှ ဖြစ်နိုင်မည့် အကြောင်းကိုလည်း ခေါင်းဆောင်ကြီးများ သဘောပေါက်ကြသည်။ ထိုအခါ လျှပ်စစ်ဓာတ်အားကို ဈေးပေါပေါနှင့် ဖောဖောသီသီ ရနိုင်မည့် နည်းလမ်းတို့ကို ကြံဆရလေသည်။

ရေအားဖြင့် ထုတ်ယူရရှိသော လျှပ်စစ် ဓာတ်အားကို ဈေးပေါပေါဖြင့် ဖြန့်ဖြူးနိုင်သည်ကို ခေါင်းဆောင်ကြီးများ သိရှိကြသဖြင့်၊ မြန်မာနိုင်ငံ၌ ရေအားလျှပ်စစ်ဓာတ် ထုတ်ယူနိုင်ရေးကို စီစဉ် စိုင်းပြင်းကြသည်။ မြန်မာနိုင်ငံတွင် ကျောက်တောင်များ၊ ရေတံခွန်များ မရှားပါးလှပေရာ၊ ဗိုလ်ချုပ်အောင်ဆန်း ကြီးမှူးသော ကြားဖြတ် အစိုးရ အဖွဲ့သည် ဆိုရန်တိုဗီလာ စီမံကိန်းအရ၊ ရေအားလျှပ်စစ် ထုတ်ယူရေးကို ရှာဖွေ စမ်းသပ်တိုင်းထွာနိုင်ရန် "ရေအားလျှပ်စစ် ရှာဖွေ တိုင်းထွာရေးအဖွဲ့"ကို ၁၉၄၇ ခုနှစ်တွင် ဖွဲ့စည်းပေးခဲ့သည်။ ထိုအဖွဲ့သည် ၁၉၄၈ ခုနှစ် မှစ၍ ရှာဖွေ တိုင်းထွာရေး လုပ်ငန်းများကို စတင် ဆောင်ရွက်ခဲ့လေသည်။

၁၉၅၁ ခုနှစ်၌ ပြည်ထောင်စု လျှပ်စစ်ဓာတ်အားပေးရေး အဖွဲ့ (အီး၊အက်စ၊ဘီ) ကို ဖွဲ့စည်းပြီးရာ၊ ရေအားလျှပ်စစ် ရှာဖွေ တိုင်းထွာရေး အဖွဲ့သည် သီးခြား တည်ရှိရန် မလိုတော့သဖြင့် လျှပ်စစ်ဓာတ်အား ပေးရေး အဖွဲ့နှင့် ပူးပေါင်း ဆောင်ရွက်ရန် ထိုအဖွဲ့ကို ဖျက်သိမ်းလိုက်ပြီးလျှင် လျှပ်စစ်ဓာတ်အားပေးရေး အဖွဲ့တွင် ရေအားလျှပ်စစ်ဌာနဟူ၍သော လက်အောက်ဌာနတခု သီးခြားဖွင့်ကာ ဆက်လက်ဆောင်ရွက်ခဲ့ကြသည်။

၁၉၄၈ ခုနှစ်မှစ၍ လုပ်ငန်း အစပျိုးခဲ့သော ရေအားလျှပ်စစ် ရှာဖွေ တိုင်းထွာရေး အဖွဲ့သည် ၁၉၆၀ ပြည့်နှစ်အထိ ရေအား လျှပ်စစ် ထုတ်ယူနိုင်သော နေရာပေါင်း ၂၁ နေရာကို ရှာဖွေ တိုင်းထွာခဲ့သည်။ ထို ၂၁ နေရာအနက် ၁၄ နေရာကိုမူ သာမန်အားဖြင့် တိုင်းထွာခြင်းသာ ဖြစ်သော်လည်း၊ ၇ နေရာကိုမူ ပုံစံများကိုပင် ပြုလုပ် ရေးဆွဲပြီး သေချာစွာ အသေးစိတ် ကြည့်ရှု စူးစမ်းပြီးစီးခဲ့သည်။ ၂၁ နေရာစလုံးမှ ဓာတ်အားများ ထုတ်ယူနိုင်ခဲ့လျှင်၊ စုစုပေါင်း ဓာတ်အား ကီလိုဝပ်ပေါင်း နှစ်သန်းခန့် ထုတ်လုပ်နိုင်မည်။ သေချာစွာ စူးစမ်း စစ်ဆေးပြီးသော ၇ နေရာမှ ဓာတ်အားများသာ ထုတ်ယူသည့်တိုင်အောင် ဓာတ်အား ကီလိုဝပ် လေးသိန်းခန့် ရရှိနိုင်မည် ဖြစ်သည်။ ထို ၇ နေရာအနက် အရေးကြီးသောနေရာ၊ အသုံးအဝင်ဆုံးနှင့် အဆင်အပြေဆုံးသော လုပ်ငန်းတို့ကို ဦးစားပေး၍ လုပ်ကိုင်ရန် စဉ်းစားကြရသည်။

ဘီလူးချောင်း စီမံကိန်းသည် ပဌမဆုံး စတင်ခဲ့သည့် လုပ်ငန်း မဟုတ်ပေ။ တတိယ အရေးအကြီးဆုံး စီမံကိန်းသာ ဖြစ်သည်။ ပဌမဆုံး ညောင်လေးပင် အရှေ့ဖက်ရှိ ကျောက်ကြီး-ဘောဂထတွင် ဘောဂထ ရေအားလျှပ်စစ် စီမံကိန်းကို စတင် ဆောင်ရွက်ရန် အသေးစိတ် တိုင်းထွာရေးကို ဆောင်ရွက်နေစဉ်၊ ကေအင်ဒီအို သောင်းကျန်းသူများ၏ နှောင့်ယှက်မှုကြောင့် လုပ်ငန်း တပိုင်းတစနှင့် ရပ်နားလိုက်ရတော့သည်။

တဖန် ရခိုင်ပြည်ရှိ စိုင်တင် ရေတံခွန်တွင်၎င်း၊ ပဲခူးအနီးရှိ ဇောင်းတူ ရေတံခွန် (ဘုရားကြီး) တွင်၎င်း ကယားပြည်ရှိ လောပိတရေတံခွန် (ဘီလူးချောင်း) တွင်၎င်း ရေအားလျှပ်စစ် ထုတ်ယူရေး စီမံကိန်း ၃ ခု စတင်ရန် စီမံကြပြန်သည်။ ရခိုင်ပြည်၌ စက္ကူစက်ကြီး တည်ရန် စိုင်တင်

စီမံကိန်းသည် ရခိုင်ပြည်၏ မြေမျက်နှာပြင် သဘာဝကြောင့် ဓာတ်အား ထုတ်ယူရနိုင်သော်လည်း ဓာတ်အား ပို့လွှတ်ရန် ခဲခက်သော ပြည်နယ်ဖြစ်သဖြင့် ထိုစီမံကိန်းကို ရပ်လိုက်ရပြန်သည်။

ဇောင်းတူမှ ပဲခူးရေအားလျှပ်စစ် စီမံကိန်းကို ဆောင်ရွက်ကြသောအခါ၊ ကြိုးကြိုးစားစား ပြင်းပြင်းထန်ထန် ဆောင်ရွက်ကြသည်။သို့သော် သောင်းကျန်းသူများ၏ နှောင့်ယှက်ဖျက်ဆီးမှုများကြောင့် လုပ်ငန်း ဆက်လက် မဆောင်ရွက်နိုင်အောင်ဖြစ်လာသဖြင့် ရပ်ဆိုင်းလိုက်ရပြန်သည်။သို့သော် ဘောဂထ၊ စိုင်တင်၊ ဇောင်းတူ စီမံကိန်းများသည် အတော်အတန် ကြိုးစားရင်းစွဲရှိပြီး ဖြစ်ကြ၍ တနေ့နေ့တွင် ပြန်လည်အကောင်အထည် ဖော်လာ နိုင်လိမ့်ဦးမည်ဟု မြော်လင့်ရပေသည်။

အထက်တွင် ဆိုခဲ့သော အခြေအနေများ ဖန်တီးချက်အရ၊ ဘီလူးချောင်း ရေအား လျှပ်စစ် စီမံကိန်းကို အားသွန် ကြိုးစား ဆောင်ရွက်ရန် ဖြစ်လာပေရာ၊ ထိုစီမံကိန်းသည် တတိယ အရေးအကြီးဆုံး စီမံကိန်း အဖြစ်မှ ပဌမ အရေးအကြီးဆုံး စီမံကိန်းအဖြစ် ရောက်လာခဲ့ရသည်။ ထိုကြောင့် ဘီလူးချောင်း စီမံကိန်းကိုသာ ဖြစ်မြောက်အောင်မြင်အောင် ကြိုးပမ်း ဆောင်ရွက်ကြရလေတော့သည်။

ဘီလူးချောင်းဟု ဆိုသော မြစ်ငယ်ကလေးသည် ရှမ်းပြည် အင်းလေးကန် (အင်းလေးကန် —— ရှု။)၌ မြစ်ဖျားခံသည်။ အင်းလေးကန်သည် တောင်ဆွယ်တောင်ကြားတွင် ရှိ၍၊ ကန်၏ ရေပြင်သည် ပင်လယ်ရေပြင်ထက် ပေပေါင်း ၂,၉၀၆ ပေမြင့်သည်။ ဘီလူးချောင်းသည် အင်းလေး၌ မြစ်ဖျားခံပြီးသော် တောင်ဖက်သို့ ခပ်ပြေပြေ စီးဆင်းလာရာ ကယားပြည်ကိုလည်း ဖြတ်သန်းလာခဲ့သည်။ မိုင် ၆၀ ခန့် စီးဆင်းလာမိလျှင် လွိုင်ကော်သို့ ရောက်လာသည်။ လွိုင်ကော်သို့ ရောက်သည်တိုင်အောင် ရေစီးပြင်းထန်ခြင်းမရှိသေးပေ။ လွိုင်ကော် အရောက် ဘီလူးချောင်း၏ရေမျက်နှာပြင်သည် အင်းလေးရေမျက်နှာပြင်ထက် ပေ ၁၅၀ ခန့်သာ နိမ့်သေးသည်။ လွိုင်ကော်ကို ကျော်၍ ၇ မိုင်ခန့် ဆက်လက်စီးသွားသောအခါ မြေနိမ့်လာသဖြင့် ရေစီးသန်လာပြီးလျှင် ရံဖန်ရံခါ ရေတံခွန်ကြီးငယ်တို့ ဖြစ်ပေါ် စေသည်။လွိုင်ကော်မှ စီးလာသော ဘီလူးချောင်းသည်နမ့်ပွန်မြစ်ငယ် (ကယားပြည်၌ ပွန်ချောင်းဟု ခေါ်သည်။) တွင်းသို့ စီးဝင်သည်။



ရေအားမှ လျှပ်စစ်ဓာတ်အားအဖြစ်သို့ ပြောင်းလဲပေးမည့် ရေရဟတ်ကြီးတင် ခွက်ကြီးများ ပါရှိသည်။ ပန်းထွက်လာသော ရေအဟုန်သည် ထိုခွက်ကြီးများကိုအရှိန်ပြင်းစွာ တွန်းသဖြင့် ရဟတ်ကြီး လည်ရခြင်းဖြစ်သည်။



တာဝန်ခံ အင်ဂျင်နီယာတို့သည် လျှပ်စစ်ဓာတ်အား ကြီးကြပ်ရေးခန်းမကြီးမှနေ၍ ဓာတ်အားဖြန့်ချီမှုကို ထိန်းသိမ်းပေးကြရသည်။

နမ့်ပွန်မြစ်သည် သံလွင်မြစ် အတွင်းသို့ မြစ်လက်တက်အဖြစ် စီးဝင်လေသည်။

ဘီလူးချောင်းသည် လွိုင်ကော်မှ နမ့်ပွန်မြစ်အတွင်း စီးဆင်းသည်အထိ လမ်းတလျှောက်၌ ပေပေါင်း ၂,၀၀၀ ကျော်ခန့် နိမ့်ဆင်းလာရသဖြင့် ရေစီးပြင်းထန်ခြင်း၊ ရေတံခွန်တို့ ဖြစ်ပေါ်ရခြင်း ဖြစ်ပေသည်။ လွိုင်ကော်မှ ထွက်ပြီးနောက်၊ မြေနိမ့်များ ရေတံခွန်များကို ပဌမဆုံး တွေ့ရသော အရပ်မှာ လွိုင်ကော်မှ ၇ မိုင်ခန့် ဝေးကွာသော မထောကူ (ကယားပြည် အခေါ် မာထောခု) ဖြစ်သည်။ ထိုနေရာတွင် ရေနိမ့် မြေနိမ့် ၅ မိုင်ခွဲ အတွင်း ပေ ၂၅၀ ခန့် နိမ့်ကျသွား၍၊ မထောကူ ရေတံခွန်ကို ဖြစ်ပေါ်စေသည်။ ထိုနေရာသည် ပဌမ မြေနိမ့်ပိုင်း ဖြစ်သည်။

ဒုတိယမြေနိမ့်ပိုင်းသည် ၄ မိုင်အတွင်း ပေပေါင်း ၁,၄၅၀ အထိ နိမ့်ကျသွားသော လောပီတအရပ်ဖြစ်သည်။ ထိုအရပ်ရှိ ရေတံခွန်ကိုလောပီတရေတံခွန်ဟုခေါ်သည်။ ထိုနောက်ဆက်လက် စီးဆင်းပြန်ရာ၊ ၃ မိုင်ခန့်အတွင်း ပေပေါင်း ၄၀၀ ခန့် ထပ်မံနိမ့်ကျသွား၍၊ အမည်မရှိသေးသော တတိယ ရေတံခွန်ကို ဖြစ်ပေါ်စေသည်။ ထိုနောက် ဘီလူးချောင်းသည် ဆက်လက် စီးဆင်းပြီးလျှင် နမ့်ပွန်မြစ်အတွင်းသို့ စီးဝင်လေသည်။

ယင်းကဲ့သို့ ရေတံခွန်ကြီးများရှိခြင်း၊နိမ့်ဆင်းသော ရေစီးလမ်းကြောင်းများ ရှိခြင်းသည်ပင်လျှင် ရေအားကို ခိုင်းစေနိုင်ရန် သဘာဝက စီမံဖန်တီးပေးခြင်း ဖြစ်လေသည်။

ထိုကြောင့် အထက်တွင် ဆိုခဲ့သော ဘောဂထ၊ စိုင်တင်၊ ဇောင်းတူ စီမံကိန်းများကို ရပ်ဆိုင်းလိုက်ရသောအခါ၊ ရေအင်အား ပြောကြွယ်ပြီးလျှင် အဆင်ပြေသော သဘာဝ အနေအထားရှိသည့် ဘီလူးချောင်းတွင် ရေအား လျှပ်စစ် စီမံကိန်းကို အောင်မြင်စွာ အကောင်အထည် ဖော်နိုင်ရန် စီစဉ် စိုင်းပြင်းကြရသည်။ ၁၉၅၃ ခုနှစ် ဇွန်လကစ၍ အသားပေး အရေးယူ ဆောင်ရွက်လာကြရသည်။ အထူးသဖြင့် ၁၉၅၄ ခုနှစ် ဇန္နဝါရီလမှစ၍ တကယ်တမ်းစတင် ဆောင်ရွက်ခဲ့ကြလေသည်။

ရေအား လျှပ်စစ်အဖွဲ့၏ အစီအစဉ်သည် မထောကူ ရေတံခွန်ရှိရာ အရပ်တွင် ရေအားလျှပ်စစ် စက်ရုံအမှတ် (၁) တည်ဆောက်၍၊ လောပီတ ရေတံခွန်တွင် စက်ရုံအမှတ် (၂)၊ တတိယ ရေတံခွန်နေရာတွင် စက်ရုံ အမှတ် (၃) ကို တည်ဆောက်ရန် ဖြစ်သည်။ ဤကား ရေရှည် စီမံကိန်းတည်း။ လောလောဆယ်အားဖြင့်မူ၊ ထိုစက်ရုံ ၃ ရုံအနက်၊ အရေးအကြီးဆုံးဖြစ်သော စက်ရုံအမှတ် (၂) ကို ပဌမ တည်ဆောက်ရန် ဆုံးဖြတ်လိုက်ကြ၍ လုပ်ငန်း စတင်ခဲ့ကြသည်။ ထိုကြောင့် ဘီလူးချောင်း ရေအားလျှပ်စစ် စီမံကိန်းကို လောပီတ၌ စတင်ခဲ့လေရာ၊ ဘီလူးချောင်း စီမံကိန်းထက် လောပီတ ရေအားလျှပ်စစ် ဟူသော အမည်သည် ပို၍ ထင်ရှား လူသိများလာခဲ့လေသည်။

၁၉၅၄ ခုနှစ် ဧပြီလ၌ ကယားပြည်နယ်တွင် ကလူပွဲ

တော်ကြီးကို အကြီးအကျယ်ဆုံး အစည်ကားဆုံး ကျင်းပခဲ့သည်။ နိုင်ငံတော် သမတကြီး ဒေါက်တာဘဦးသည် ထိုပွဲတော်သို့ ကြွရောက် ချီးမြှင့်ရာ၊ ကြုံကြိုက်သဖြင့် ဘီလူးချောင်း ရေအားလျှပ်စစ် ထုတ်ယူရေးကို အုတ်မြစ်ချခဲ့သည်။ စင်စစ် စက်ရုံအမှတ် (၂) လောပီတတွင် လုပ်ငန်းစတင်ရန် ဖြစ်သော်လည်း ထိုအချိန်က လောပီတသို့သွားရန် လမ်းကောင်းမရှိ၍၊ သမတကြီး ကြွရောက်ရန် မဖြစ်နိုင်ချေ။ ထို့ကြောင့် စက်ရုံအမှတ် (၁) အတွက် သတ်မှတ်ထားသော မထော်ကူ အရပ်သည်လည်း ဘီလူးချောင်း ရေအား လျှပ်စစ်လုပ်ငန်းပင်ဖြစ်၍၊ သွားလမ်းလာလမ်း လွယ်ကူသော ထိုအရပ်တွင်ပင် သမတကြီး အုတ်မြစ်ချရသည်။ နောက်ပိုင်းတွင် ထိုအုတ်မြစ်ကို လောပီတသို့ပြောင်းရွှေ့ စိုက်ထူကြရလေသည်။

ဘီလူးချောင်း လျှပ်စစ်လုပ်ငန်းကြီးကား မြန်မာ့သမိုင်းတွင် သစ်ဆန်းသော ကဏ္ဍတခု ဖွင့်ရသည့် အလွန် ကြီးကျယ်သော လုပ်ငန်းကြီး ဖြစ်သည်။ နိုင်ငံနှင့်အဝှန်းချီ၍ အသုံးပြုနိုင်မည့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ပေးရမည့် လုပ်ငန်းကြီးလည်း ဖြစ်သည်။ လုပ်ငန်းကြီး စတင်ရမည့် ဒေသကား တောကြိုအုံကြား လမ်းပန်း အဆက်အသွယ် မရှိသေးသော ဒေသ ဖြစ်နေသည်။ ကြီးကျယ်သော လုပ်ငန်းကြီးကို အကောင်အထည် ဖော်ရာ၌ လမ်းပန်း အဆက်အသွယ် ကောင်းရပေမည်။ ထို့ပြင် ရေအား လျှပ်စစ်နှင့် ဆိုင်သော ပစ္စည်းများသည် အလွန် လေးလံကြီးမားကြပေရာ၊ထိုအရပ်သို့သယ်ယူပို့ဆောင်နိုင်ရန် လမ်းပန်း အဆက်အသွယ်ကောင်းရစေဖို့ လမ်းများ ဖောက်ကြရသည်။

လမ်းများကို တော်ရုံသဖြင့် ဖောက်ကြရသည် မဟုတ်ချေ။ တန် ၆၀ ဝန်ပါ ယာဉ်များ ရာသီမရွေး သွားလာနိုင်သော လမ်းများ ဖောက်ရသည်။ ထို့ပြင် မြေမျက်နှာပြင် ပြေပြစ် ညီညွတ်သော ဒေသများလည်း မဟုတ်သဖြင့် ခဲယဉ်း ပင်ပန်းလှစွာ တောင်များကို ဖြို၍၎င်း၊ ဖောက်၍၎င်း လမ်းများကို ဖောက်လုပ်ခဲ့ကြရလေသည်။

လွိုင်ကော်မှ လောပီတသို့ ၁၂ မိုင်ခန့်ဝေး၍၊ လှည်းလမ်းကြောင်းမျှသာ ရှိခဲ့ရာ၊ ကားလမ်းကို ခက်ခက်ခဲခဲ ဖောက်လုပ် ကြရသည်။ ရေအား လျှပ်စစ်လုပ်ငန်းများကို ရေတံခွန်များရှိရာ အရပ်၌ လုပ်ကိုင်ကြရလေရာ၊ မြန်မာနိုင်ငံသာမဟုတ်၊ မည်သည့်နိုင်ငံ၌မဆို ယင်းသို့ပင် ခဲခဲယဉ်းယဉ်း တည်ဆောက် လုပ်ကိုင်ကြရသည်။ လောပီတ ရေတံခွန်သည် ပင်လယ်ရေပြင်ထက် အမြင့် ၂၆,၂၅ ပေ၌ရှိ၍၊



လျှပ်စစ်ဓာတ်အားကို ဓာတ်ကြိုးသွယ်၍ပို့ရာတွင် ဤကဲ့သို့သောတိုင်ကြီးများ မြင့်စွာတည်ဆောက်ပြီး ပို့ရသည်။



လောပီတမှရရှိသော လျှပ်စစ်ဓာတ်များကို တဆင့်ပို့ပေးရသော ကေဗီ၊ အေ ၆၀,၀၀၀ အားရှိသည့် ဓာတ်အားဖြန့်စက်ကြီး

စက်ရုံသည် ချိုင့်ဝှမ်း၌ တည်ရမည်ဖြစ်ရာ၊ ပေ ၁,၅၀၀ ခန့် နိမ့်ဆင်းရသည်။ ထိုပေ ၁,၅၀၀ ခန့်ကို တတ်နိုင်သမျှ ပြေဆင်းရန် တောင်များကို ထွင်း၍ လမ်းဖောက်ကြရသည်။ လောပီတ ရေတံခွန်မှ စက်ရုံသို့ ၆ မိုင်ခန့်ရှိ၍၊ လွိုင်ကော်မှ လောပီတသို့ ၁၂ မိုင်ရှိရာ၊ စုစုပေါင်း ၁၈ မိုင်ခန့် ရှည်လျားသော လမ်းကို ဖောက်ကြရလေသည်။

ထိုပြင် အောင်ပန်း - လွိုင်ကော် ကားလမ်းကိုလည်း ဖောက်ကြရသည်။ အောင်ပန်းမြို့သည် သာစည်မှ ရွှေညောင်သို့ ခွဲထွက်သော ရထားလမ်းမြို့ ဖြစ်သည်။ ရေအားလျှပ်စစ် လုပ်ငန်းအတွက် ရန်ကုန်မြို့မှ တင်ပို့သော ပစ္စည်းများကို ထိုမြို့မှတဆင့် လောပီတသို့ ပို့ရန် လွယ်ကူသည်။ ထို့ကြောင့် အောင်ပန်းမြို့ကို လောပီတအတွက် ပစ္စည်းများ ထိန်းသိမ်း၍ တဆင့် တင်ပို့ပေးရမည့်မြို့ အဖြစ် သတ်မှတ်သည်။ ထိုမြို့တွင် ပစ္စည်းများ လောပီတသို့ မပို့မီ သိုလှောင်ရာ ဌာနများ အကြီးအကျယ် ဆောက်လုပ်ရသည်။ အောင်ပန်း - လွိုင်ကော် ကားလမ်းသည် လောပီတ လုပ်ငန်းအတွက် အရေးပါလာသည်။ ယခင်က လမ်းဟောင်း ရှိခဲ့သော်လည်း တန်ချိန် ၆၀ ဝန်ပါသော ယာဉ်၊ ပေ ၇၀ အရှည်ရှိသောယာဉ်များ သွားလာနိုင်အောင် ပြုပြင်ရသည်။ အောင်ပန်း - လွိုင်ကော် လမ်းသည် ၁၀၂ မိုင်ရှည်သည်။ ထိုကားလမ်းသည် ခရီးတလျှောက်တွင် ဘီလူးချောင်းကို မိုးဗြဲတွင်တခါ၊ လွိုင်ကော်တွင်တခါ၊ နှစ်နေရာ၌ ဖြတ်ရလေရာ၊ တန်ချိန်များစွာ လေးသော ယာဉ်များ ကူးသန်းနိုင်ရန် တန်တားကြီးများ ဆောက်လုပ်ရသည်။ လွိုင်ကော်တန်တားသည် ပေ ၂၅၀ ကျော်၊ မိုးဗြဲတန်တားသည် ပေ ၃၀၀ ကျော်ရှည်သည်။ ထိုပြင် အခြားတန်တားငယ်များ၊ ရိုးဖြတ်တန်တား၊ ပေါင်းကူးတန်တားများလည်း ရှိသေးရာ၊ ဝန်လေးယာဉ်၏ ဒဏ်ကို ခံနိုင်အောင် ပြုပြင်ရသော တန်တားတို ပေါင်း ၄၆ ခုဆောက်လုပ်ရသည်။

အောင်ပန်း - လွိုင်ကော် ကားလမ်းအပြင်၊ တောင်ငူ-လွိုင်ကော် ကားလမ်းကိုလည်း ဖောက်လုပ်ရသည်။ အောင်ပန်း - လွိုင်ကော် ကားလမ်းသည် ဘီလူးချောင်း ရေအားလျှပ်စစ် စီမံကိန်း၏ လုပ်ငန်းချိန်အတွင်း ပစ္စည်းသယ်ယူ ပို့ဆောင်ရေးအတွက် အရေးပါသကဲ့သို့၊ တောင်ငူ-လွိုင်ကော် ကားလမ်းသည် လုပ်ငန်း ပြီးစီး၍ လုပ်ငန်းကို ထိန်းသိမ်းကြသောအခါ အထူး အသုံးဝင်မည့် လမ်းဖြစ်သည်။ လုပ်ငန်းပြီးသည့်နောက်ပိုင်း ဓာတ်ကြိုးလိုင်းကြီးများ ထိန်းသိမ်းစောင့်ရှောက် ရာ၌၎င်း၊ ရန်ကုန်သို့ ဓာတ်ကြိုး ဆွဲရာ၌၎င်း များစွာ အသုံးဝင်မည့် လမ်းဖြစ်သည်။ ထိုကားလမ်းသည်လည်း လွယ်ကူစွာ ဖောက်လုပ်ရသည် မဟုတ်ပေ။ တောတောင်လျှိုမြောင်အထပ်ထပ်ကိုဖြတ်ကျော် ဖောက်လုပ်ရ၍ ၁၃၈ မိုင်ကျော် ရှည်လျားသည်။ တန်တားငယ်၊ ပေါင်း

ကူးတန်တားများလည်း ဆောက်လုပ်ရ၍ သံတန်တားတိုင်ပေါင်း ၄၉၃ ဆောက်လုပ် ရလေသည်။ လမ်းပန်း ဖောက်လုပ်ရေးအတွက် တိုင်းနှစ်တိုင်း ခွဲ၍ ဆောင်ရွက်ရပြီးလျှင် တိုင်းနှစ်တိုင်းအတွက် အင်ဂျင်နီယာနှင့် ကျွမ်းကျင်သူ ၁၇၀၊ အလုပ်သမား ၁,၁၀၀ ခန့်ကို အသုံးပြုရသည်။ ကုန်ကျစရိတ်မှာ တကုဋေခန့် ဖြစ်လေသည်။

ဘီလူးချောင်း ရေအားလျှပ်စစ် စီမံကိန်းကို ဆောင်ရွက်ရန် ၁၉၅၄ ခုနှစ် အောက်တိုဘာလ၌ နိုင်ငံတော် အစိုးရက အမိန့်ပေးခဲ့သည်။ ထိုစီမံကိန်းကို အကောင်အထည် ဖော်ရေးသည် အလွန်ပင် တာဝန်ကြီးလေးလှသည်။ မြန်မာနိုင်ငံ သမိုင်း၌ မကြုံစဖူးသော တည်ဆောက်ရေး လုပ်ငန်းကြီး ဖြစ်၍ မြန်မာနိုင်ငံသည် စက်မှုနိုင်ငံအဖြစ် အစပျိုးနေချိန်မျှသာ ဖြစ်သည်။ ဘီလူးချောင်း လျှပ်စစ်စီမံကိန်းကဲ့သို့ ကြီးကျယ်သော စီမံကိန်းကြီးမျိုးအတွက် မြန်မာတိုင်းရင်းသား အင်ဂျင်နီယာကြီးများတွင် လက်တွေ့ ဗဟုသုတမရှိသေးပေ။ ထို့ကြောင့် ဂျပန်နိုင်ငံမှ နိပ္ပန်ကိုအီအကြံပေး အင်ဂျင်နီယာအဖွဲ့နှင့် ကဂျီးမား ဆောက်လုပ်ရေး ကုမ္ပဏီတို့ကို ငှါးရမ်းခဲ့သည်။ နိပ္ပန်ကိုအီအကြံပေး အင်ဂျင်နီယာ အဖွဲ့၏ တာဝန်သည် စီမံကိန်းအတွက် လိုအပ်သော စမ်းသပ်တိုင်းထွာမှုများ ပြုလုပ်ရန်၊ ပုံစံများ ရေးဆွဲရန်နှင့် တည်ဆောက်ရေးတွင် ကြီးကြပ် ဆောင်ရွက်ရန် ဖြစ်သည်။ ကဂျီးမား ဆောက်လုပ်ရေးကုမ္ပဏီ၏တာဝန်သည် အကြမ်းအားဖြင့် စီမံကိန်း ဆောင်ရွက်ရေးအတွက် လိုအပ်သော ဂျပန်အင်ဂျင်နီယာများနှင့် တတ်ကျွမ်းသူ ပညာသည် ၁၇၀ ခန့်ကို ရှာဖွေစုဆောင်းပြီးသော် ရေအား လျှပ်စစ်လုပ်ငန်း တည်ဆောက်ရေးအတွက် တာဝန်ယူ လုပ်ကိုင်ရန် ဖြစ်လေသည်။

ထိုအဖွဲ့ နှစ်ဖွဲ့လုံးသည် တိုင်းရင်းသား ရေအားလျှပ်စစ် ဌာန ရာထမ်းမှုထမ်းများကို သင်ကြားပြသယင်း၊ ယင်းတို့နှင့် ပူးတွဲ၍ လုပ်ငန်းများကို ဆောင်ရွက်စေသည်။ အချို့တိုင်းရင်းသား အင်ဂျင်နီယာများကို လောပီတ လုပ်ငန်းအတွက် ဂျပန်နိုင်ငံသို့ စေလွှတ် သင်ကြား ဆည်းပူးစေရသည်။ ဂျပန်များသည် အရှေ့နိုင်ငံများအနက် ထိပ်တန်းစက်မှုနိုင်ငံ ထူထောင်ခဲ့သူများ ဖြစ်သည်တကြောင်း၊ ဂျပန်မှစစ်လျော်ကြေးဖြင့် စက်ပစ္စည်းများ ဝယ်ယူနိုင်ခြင်းကြောင့်တကြောင်း ဆန်ပေးဆေးယူပြုခဲ့ရခြင်း ဖြစ်သည်။ ရေအားလျှပ်စစ် စီမံကိန်းအတွက် စက်ပစ္စည်း ထုကြီး ထည်ကြီးများကို အများအားဖြင့် ဂျပန်နိုင်ငံမှ တင်ဒါစံနစ်ဖြင့် ဝယ်ယူသည်။ ထိုပစ္စည်းများ၏ တန်ဖိုးငွေများကိုရင်း၊ ရေအားလျှပ်စစ်စီမံကိန်းအတွက် ငှါးရမ်းသော ဂျပန်အင်ဂျင်နီယာနှင့် တတ်ကျွမ်းသူများအတွက် ငှါးရမ်းခငွေများကိုရင်း မြန်မာနိုင်ငံ အစိုးရက ဂျပန်နိုင်ငံ အစိုးရထံမှ ရရန်ရှိသော စစ်လျော်ကြေးမှ ခုနှိမ် ရှင်းလင်းရလေသည်။



လောပီတမှ ရန်ကုန်မြို့သို့ ရောက်ရှိလာသော လျှပ်စစ်ဓာတ်ကို ခွဲထုတ်ပေးသည့် ရန်ကုန် ဗဟိုလျှပ်စစ်ဓာတ်အားခွဲရုံ

လောပီတ၌ ရေအားလျှပ်စစ် ထုတ်ယူပုံမှာ ဤသို့တည်း။ ဘီလူးချောင်းသည် လောပီတ ရေတံခွန်ကို ဖြတ်၍ စီးဆင်း နေသည်ကို ကြားဖြတ်၍ လမ်းပြောင်းလွှဲကာ ရေအားကို စေခိုင်းပြီးမှ ပြန်လည် စီးဆင်းစေခြင်းသည် အခြေခံ ဖြစ်သည်။ ထိုကြောင့် ရေတံခွန်၏ အထက်ဖက် ၃ မိုင်ခန့်နေရာ၌ ရေတံခါးတခု ကန့်လန့်ဖြတ် တည်ဆောက်ကာဆီး၍၊ ချောင်းရေကို ထိုနေရာ၏ အောက်ဖက် ၂ မိုင် အကွာရှိ ရေလှောင်ကန်ထဲသို့ ကန်ကရစ် ရေသွယ်မြောင်းဖြင့် သွယ်ယူသည်။ ရေလှောင်ကန်၏ အကျယ်အဝန်းသည် အလျား ပေ ၉၇၀ ခန့်၊ အနံပေ ၃၆၀ ခန့်၊ အနက် ၁၂ ပေခန့်ဖြစ်၍၊ နေ့စဉ် ရေဂါလံ ၁၉ သန်းခန့်ကို သိုလှောင်ထားပြီးသော် ဓာတ်အား အသုံးအများဆုံး အချိန်တွင် ရဟတ်များလည်နိုင်စေရန်အတွက် လိုအပ်သော ရေများကို ပေးသွင်းရန် ဖြစ်လေသည်။

ထိုရေကန်မှတဆင့် ရေများကို အချင်း ၁၄ ပေရှိ ကန်ကရစ်ပိုက်ဖြင့်၎င်း၊ အချင်း ၉ ပေရှိ သံမဏိပိုက်ဖြင့်၎င်း အဆင့်ဆင့် တောင်ထိပ်သို့သွယ်ယူပြီးလျှင် ယင်းမှတဖန် ပေ ၁၄၀၀ ခန့် နိမ့်သော တောင်အောက်သို့ ၃ လက်မခန့် ထူသော သံမဏိရေပြွန်ဖြင့် သွယ်ယူပြန်ကာ၊ ဓာတ်အားပေး စက်ရုံကြီး အတွင်းရှိ မြင်းကောင်ရေ ၄၀,၀၀၀ စီ အားရှိသော စက်ကြီး ၃ လုံးကို လည်စေရန် ဖြစ်သည်။ သံမဏိရေသွင်းလမ်းသည် တောင်အောက်သို့ ထိုးစိုက်ဆင်းသွားရသဖြင့်၊ရေရဟတ်ခွက်ကြီးများဖြင့် ဆက်ထားသောစက်ကြီး ၃ လုံးသည် ရဟတ်ခွက်ကြီးများထဲသို့ ရေတိုးဝင်လာသည်နှင့်တပြိုင်နက် ခွက်ဘီးကြီးများ လည်တော့သည်။ ထိုအခါ ဂျင်နရေတာများလည်း လည်လေရာ၊ ယင်းသို့ဖြင့် အလိုရှိသော လျှပ်စစ်ဓာတ်အားကို ဖြစ်ပေါ်ရရှိစေသည်။

ဓာတ်အားပေး စက်ရုံကြီးသည် အလျားပေ ၃၇၀၊ အနံပေ ၁၀၀ ခန့်ရှိ၍ လေးထောင့်ခပ်လျားလျား ပုံသဏ္ဌာန်ရှိသည်။ စက်ရုံကြီးအတွင်း၌ တလုံးလျှင် ကီလိုဝပ် ၂၈,၀၀၀ ဓာတ်အား ထုတ်နိုင်သော စက်ကြီး ၃ လုံး တပ်ဆင်ထားသည်။ ထိုကြောင့် စုစုပေါင်း ဓာတ်အား ကီလိုဝပ်ပေါင်း ၈၄,၀၀၀ ကို ထုတ်နိုင်သည်။ နောင်အခါ ထိုစက်မျိုး နောက်ထပ် ၃ လုံး တပ်ဆင်နိုင်ရန် နေရာများ အဆင်သင့် ပြုလုပ်ထားလေသည်။

စက်ရုံတွင်းမှ ထုတ်လုပ်သော ဓာတ်အားသည် ဖြန့်ဖြူးစင်တိုင်များမှ တဆင့် မြန်မာတနိုင်ငံလုံးသို့ ဖြန့်ဖြူးရသည်။ စက်ရုံတွင်းမှ ဓာတ်အားများကို ထရန်စဖော်မားခေါ် ဓာတ်အားပြောင်း ကရိယာဖြင့် ထိုစင်တိုင်ကြီးများသို့ ဓာတ်အားပြောင်းပေးရသည်။ ထိုစင်တိုင်ကြီးများမှ ဓာတ်အား ဖြန့်ဖြူးရန် ဓာတ်ကြိုးလိုင်းများ သွယ်ရန်အတွက် ဓာတ်တိုင်များ စိုက်ထူ သွယ်တန်းယူရလေသည်။

လောပီတမှ ရန်ကုန်သို့ ဓာတ်အားပို့ရန် ဓာတ်တိုင်ပေါင်း ၁,၁၅၅ တိုင် စိုက်ထူရပြီးလျှင်၊ မိုင် ၂၅၀ ကျော် ရှည်သည်။ ရန်ကုန်သို့ ဓာတ်အားပို့ရန် စက်ရုံခွဲကြီးတခုကို တောင်ငူ၌ ထားရှိရမည် ဖြစ်သော်လည်း ဆောက်လုပ် မပြီးစီးသေး၍ လှော်ကား၌ စက်ရုံခွဲတခု ထားရှိရသည်။ လှော်ကား စက်ရုံခွဲသည် လောပီတမှ ဓာတ်အားကို ရယူပြီးလျှင် ရန်ကုန်မြို့တွင်းသို့ မရမ်းကုန်းတလိုင်း၊ ရွာမတလိုင်းအားဖြင့် ပို့ပေးသည်။ ထိုပြင် လှော်ကားစက်ရုံခွဲမှ ပဲခူးသို့ပါ ပို့ပြီးလျှင် ပဲခူးမှတဆင့် ပြည်ဖက်သို့လည်း ဓာတ်အားပို့ရလေသည်။

ရန်ကုန်သို့ ဓာတ်အားပို့သော လုပ်ငန်းကို ဂျပန်ကုမ္ပဏီ နီးချီးမင်းက ကန်ထရိုက်ရသည်။ ထိုကုမ္ပဏီက တဖန် ကန်ထရိုက်ပေးပြန်၍၊ ကန်ထရိုက်များက ဓာတ်အားလိုင်းကို အပြီးအစီး ဆောင်ရွက်ကြရပြီးလျှင်နီးချီးမင်း ကုမ္ပဏီက စစ်ဆေးကြပ်မတ်သည်။ လျှပ်စစ်အဖွဲ့ကလည်း သေချာစွာ စစ်ဆေးကြပ်မတ်ပြီးမှ လက်ခံရမည်ဖြစ်၍ ကန်ထရိုက်များနှင့် လျှပ်စစ်အဖွဲ့သားတို့ တွဲဖက် ဆောင်ရွက်ကြရလေသည်။

လောပီတ လုပ်ငန်းကြီးကို ၁၉၅၉ ခုနှစ်၊ နှစ်လယ်ပိုင်း လောက်ကစ၍ အတော်အတန် စတင်စမ်းသပ်ကြည့်လာခဲ့သည်။ ထိုနှစ် ဒီဇင်ဘာလ ၂၃ ရက်နေ့တွင် စက်ကြီးကို ပဌမဆုံး ရေသွင်း၍ လှည့်လည်စမ်းသပ်ကြည့်သည်။ ထိုရက်ပိုင်းမှစ၍ စက်ကြီးများကို တလုံးပြီးတလုံး စက်မှုပညာဖက်မှ၎င်း၊ လျှပ်စစ်ပညာဖက်မှ၎င်း အမျိုးမျိုးစမ်းသပ်စစ်ဆေးကြသည်။ ထိုနောက် ဓာတ်အားကို အမျိုးမျိုးထုတ်လုပ်စမ်းသပ်ကြည့်သည်။ ၁၉၆၀ ပြည့်နှစ်ဖေဖော်ဝါရီလ ၂၃ ရက်နေ့တွင်မှ ရန်ကုန်လှော်ကား စက်ရုံခွဲကြီးသို့ ဓာတ်အားပို့လွှတ်ကြည့်ရာ၊ အောင်မြင်သည်ကို တွေ့ရသည်။ ထိုနောက်လည်း နေ့စဉ် ရက်ဆက် ရန်ကုန်သို့ ဓာတ်အားပို့၍ အမျိုးမျိုး စမ်းသပ်ရသည်။ အဆင်သင့် ဖြစ်နေသောအခါ ဓာတ်အားကို တရားဝင်လွှတ်နိုင်ရန် အမေရိကန် အင်ဂျင်နီယာများကို ငှါးရမ်း စစ်ဆေးစေရ ပြန်သည်။ အလွန် အရေးကြီး၍ အလွန်အဖိုးတန်သော လုပ်ငန်းကြီး ဖြစ်သဖြင့် အစစအရာရာ စိတ်ချလောက်အောင် ဖြစ်စေရန် အတန်တန် စမ်းသပ် စစ်ဆေးရခြင်း ဖြစ်လေသည်။

စမ်းသပ်စစ်ဆေးမှုများ အောင်မြင်သောကြောင့် ၁၉၆၀ ပြည့်နှစ် ဧပြီလတွင်လောပီတမှဓာတ်အား ရန်ကုန်သို့တရားဝင် ပို့လွှတ်ခြင်းကို ခမ်းနားသိုက်မြိုက်စွာ ကျင်းပနိုင်ခဲ့လေသည်။ ရန်ကုန်သို့ ပို့လွှတ်နိုင်သည်နှင့် တပြိုင်နက် ရန်ကုန်တဝိုက်၊ ပဲခူး တဝိုက်၊ ပြည်တဝိုက်တို့သို့ပါ ဓာတ်အားရောက်ရှိခဲ့၍ ထိုဒေသများတွင် လောပီတမှ လျှပ်စစ်ဓာတ်အားကို အသုံးပြုနိုင်ကြပေပြီ။

လောပီတ ရေအားလျှပ်စစ်ဟူ၍ ပို၍ လူသိများနေသော ဘီလူးချောင်းရေအား လျှပ်စစ်စီမံကိန်းကြီးသည် ရန်ကုန်သို့

မာတ်အား ပို့လွှတ်ဖြန့်ဖြူးပြီးစီးကာမျှဖြင့် လုံးဝဥဿုံ ဆုံးခန်းတိုင် ရောက်သည် မဟုတ်သေးချေ။ မြန်မာတနိုင်ငံလုံးသို့ ဓာတ်အားဖြန့်ဖြူးရန် လုပ်ငန်းများ ကျန်ပေသေးသည်။ လောပီတမှ ရန်ကုန်သို့ ဓာတ်အား ပို့လွှတ်ရာတွင် တောင်ငူ၌ စက်ရုံခွဲကြီးမှ တဆင့် ပို့လွှတ်ရမည် ဖြစ်ရာ၊ တောင်ငူစက်ရုံခွဲကြီးကို ဆောက်လုပ်နေဆဲ ဖြစ်သည်။ လောပီတမှ ရန်ကုန်သို့ ဓာတ်အားပို့သော ဓာတ်အားလိုင်းများကို တောင်ပိုင်းလမ်းဓာတ်အားလိုင်းဟု ခေါ်သည်။ ရန်ကုန်သည် အရေးကြီးဆုံးဖြစ်ပြီးလျှင် ပင်ငွေအကောင်းဆုံးဖြစ်သဖြင့် ရန်ကုန်ဓာတ်အားလိုင်းကို ဦးဆုံးဆွဲရခြင်း ဖြစ်လေသည်။

မြောက်ပိုင်း လမ်းသို့ ဓာတ်အားပို့သည့်အခါ လောပီတမှ ထုတ်သည့် ဓာတ်အားကို စက်ရုံခွဲ ၅ ရုံသို့ ပို့လွှတ်ရမည် ဖြစ်သည်။ ထိုစက်ရုံခွဲ ၅ ရုံတို့မှာ ကလော၊ မိတ္ထီလာ၊ မန္တလေး၊ တောင်ကြီးနှင့် ရပ်စောက်တို့၌ ဆောက်လုပ်ရပေမည်။ ထိုဓာတ်အားလိုင်း တလျှောက်ရှိ မြို့ကြီးမြို့ငယ်တို့သည်လောပီတဓာတ်အားကို ၁၉၆၂ ခုနှစ်ခန့်တွင် ရရှိနိုင်ကြလိမ့်မည်ဟု ခန့်မှန်း ရလေသည်။

ယခုလောပီတမှ ထုတ်လွှတ်နေသောဓာတ်အားသည် ကီလိုဝပ် ၈၄,၀၀၀ သာ ထုတ်လွှတ်နေသေးသည်။ စင်စစ်လောပီတစက်ရုံ၏ ထုတ်လုပ်နိုင်သော အင်အားသည် ၁၆၈,၀၀၀ ကီလိုဝပ် ဖြစ်ရာ တဝက်တိတိလိုသေးသည်။ ထိုတဝက်လိုနေသေးသော အင်အားကို နောက်စက်ကြီး ၃ လုံးထိုင်ပြီးလျှင် ထုတ်လွှတ် နိုင်မည် ဖြစ်ပေသည်။

ဘီလူးချောင်း၏ ရေအင်အားသည် တနှစ်ပတ်လုံး မတူညီချေ။ ရေ၏အင်အားသည် မိုးတွင်း၌ အလွန်ပိုနေပြီးသော် နွေအခါ၌ အသုံးမပြုနိုင်လောက်အောင် နည်းပါးနေလျှင် လုပ်ငန်း ထိခိုက်ဖွယ်ရာရှိသည်။ ထိုကြောင့် ရေအားနည်းသော အနှောင့်အယှက်မှ လွတ်ကင်းရန် ရေအားများသည့် အချိန်တွင် ရေကို သိုလှောင်ထားရန် ရေလှောင်ကန်ကြီး တည်ဆောက်ရမည့် စီမံကိန်းရှိသည်။ ထိုရေလှောင်ကန်ကြီးကို လွိုင်ကော်နှင့် ၂၅ မိုင်ခန့်ဝေးသော မိုးဗြဲအရပ်၌ တည်ဆောက်ရန် တိုင်းထွာစစ်ဆေးပြီး၍ ၁၉၆၂ ခုနှစ်ခန့်တွင် အကောင်အထည် ဖော်နိုင်လိမ့်မည်ဟု ခန့်မှန်းရပေသည်။

ထို့ပြင် ဘီလူးချောင်းလျှပ်စစ်စီမံကိန်းအရ၊ စက်ရုံအမှတ် (၁) နှင့် အမှတ် (၂) တို့ကို ဆောက်လုပ်ရန် နေရာအသင့်ပြင်ပြီး ဖြစ်သည်။ စက်ရုံအမှတ် (၁)မှ ဓာတ်အား ကီလိုဝပ် ၂၄,၀၀၀ ထုတ်လုပ်နိုင်၍ စက်ရုံ အမှတ် (၃) မှဓာတ်အား ကီလိုဝပ် ၄၇,၀၀၀ ထုတ်လုပ်နိုင်မည်ဟု သိရှိရလေသည်။ အထက်တွင် ဆိုခဲ့သော လုပ်ငန်းများ ပြီးစီးအောင်မြင်ခဲ့ပါလျှင် မြန်မာနိုင်ငံတဝှန်းလုံးသို့ ရေအား လျှပ်စစ်ကိုဈေးနှုန်းသက်သာစွာနှင့် ဖောဖောသီသီ ဖြန့်ဖြူး နိုင်ပေလိမ့်မည်။

လောပီတအမည်ရှိသော အရပ်သည် ယခင်က လှည်းလမ်းကြမ်းကလေးသာ ရှိခဲ့သော အရပ် ဖြစ်သည်။ ဘီလူးချောင်း လျှပ်စစ် စီမံကိန်းကို ဆောင်ရွက်လာသော အခါ လောပီတသည် ကြီးကျယ်စည်ကားသော လုပ်ငန်း မြို့ကြီးတမြို့နှင့် တူလာခဲ့၍၊လူဦးရေ ၇,၀၀၀ ခန့်ပင်ရှိခဲ့သည်။ လောပီတတွင်၎င်း၊ လောပီတအနီးရှိ လောဝလေ့တွင်၎င်း လုပ်ငန်းဆိုင်ရာ အဆောက်အအုံများ၊ အရာထမ်း အမှုထမ်း အလုပ်သမားများ၏ နေအိမ်တန်းလျား စသည်တို့ဖြင့် သိုက်မြိုက်ခမ်းနားစွာရှိနေခဲ့၍၊ ကယားမြို့တော် လွိုင်ကော်နှင့်ပင် ပခုံးချင်း ယှဉ်နိုင်အောင် နေ့ချင်းညချင်း ကြီးပွားလာခဲ့သည်။ သို့သော် လုပ်ငန်းကြီး ပြီးစီးခဲ့လျှင်၊ ထိန်းသိမ်းရန် အရာထမ်း အမှုထမ်း ၁၅၀ ခန့်သာ လောပီတ၌ ရှိနေပေလိမ့်မည်။ မြန်မာနိုင်ငံ၏ အရေးအကြီးဆုံးသော လုပ်ငန်းကြီး တခုကို ဆောင်ရွက်နေရသော ဌာနဖြစ်၍ နေ့ချင်း ညချင်း ကြီးပွားလာခဲ့ခြင်း ဖြစ်ပေသည်။

ဘီလူးချောင်း လျှပ်စစ် စီမံကိန်းသည် ကယားပြည်နယ်တွင် ရှိ၍ ကယားပြည်နယ်အတွက် ဂုဏ်ယူစရာ ပြည်နယ်၏ ကျက်သရေဆောင်သကဲ့သို့ ပြည်ထောင်စု မြန်မာနိုင်ငံ၏ ကျက်သရေဆောင် လုပ်ငန်းကြီးလည်း ဖြစ်သည်။ ပြည်ထောင်စု မြန်မာနိုင်ငံ၏ စီမံကိန်းပေါင်း များစွာအနက် အရေးကြီးဆုံး အရာအထင်ဆုံး လုပ်ငန်းကြီးလည်း ဖြစ်သည်။ ထိုလုပ်ငန်းကြီးကို လျှပ်စစ် ဓာတ်အားပေးရေးအဖွဲ့က အုပ်ချုပ်လျက် ရှိသည်။ ရန်ကုန်အထိ ဓာတ်အား လွှတ်နိုင်ရန် ၁၉၅၄ ခုနှစ်မှ ၁၉၆၁ ခုနှစ်အထိ ၇ နှစ်ကျော်ကြာခဲ့ပြီးသော် ခန့်မှန်းခြေ ငွေကျပ်ပေါင်း ၂၆ ကုဋေခန့် ကုန်ကျ၍ တည်ဆောက် လုပ်ကိုင်ရာတွင် အရာထမ်းအမှုထမ်းနှင့် အလုပ်သမားပေါင်း ၇,၀၀၀ ကျော်ကို အသုံး ပြုခဲ့ရလေသည်။

**ဘီလုံးငှက်။** ။ဘီလုံးငှက်သည် ရုပ်ဆင်းသဏ္ဌာန်အားဖြင့် ထူးခြားလှပသော ငှက်မျိုးမဟုတ်သော်လည်း၊ သာယာစွာ အသံကျူးရင့်တေးဆိုတတ်သည်။ ထိုငှက်မျိုးသည် အလောဒီဒီးမျိုးရင်းတွင် ပါဝင်၍ မျိုးစိတ်ပေါင်း များစွာရှိသည်။ မြန်မာနိုင်ငံ လယ်ကွင်းများ၌ တွေ့ရတတ်သော ဘီလုံးငှက်မျိုးကို ပါဏဗေဒအမည်အားဖြင့် အလောဒါ ဂူလာဂူလာဟု ခေါ်သေသည်။

ဘီလုံးငှက်၏ ပုံပန်းသဏ္ဌာန်သည် စာကလေးနှင့် ဆင်ဆင်တူသည်။ အပေါ်ပိုင်းမှ အညိုနုရောင် အမွေးအတောင်များတွင်၎င်း၊ ရင်အုပ်တွင်၎င်း အညိုရင့်ရောင် အကန့်များ၊ အကြောင်းများရှိသည်။စာကလေး၏အရွယ်ခန့် ၆½–၇လက်မခန့် အလျားရှိသည်။ အမောက်ကလေးလိုလို ရှိတတ်ရာ၊တခါတရံ ထင်ထင်ရှားရှား တွေ့ရသည်။ အဖိုရော အမပါ ပုံပန်းသွင်ပြင် အတူတူပင် ဖြစ်သည်။

ဘီလုံးငှက်တို့ကို လယ်ကွင်းများ၊ မြက်ခင်းများ၊ လွင်ပြင်



ကောင်းကင်ယံတွင် သီချင်းတအေးအေးနှင့်နေတတ်သည့် ဘီလုံးငှက်

များ၌ အစုံလိုက်၊ အုပ်လိုက်တွေ့ရတတ်သည်။ သို့သော် မြန်မာနိုင်ငံတွင် ယခုအခါ ဘီလုံးငှက်များ အတွေ့ရ နည်းသွားလေပြီ။ယင်းတို့သည် မြန်မာနိုင်ငံတောင်ပိုင်းလယ်ကွက်များ၌ ကျက်စားတတ်သော ငှက်မျိုးဖြစ်သော်လည်း၊ ရိုးပြတ်များထက် မြက်ခင်းများကို ပို၍ နှစ်သက်ဟန်တူသည်။ ဘီလုံးငှက်တို့သည် ပိုးမွှားများ၊ သစ်စေ့၊ စပါးစေ့များကို ရှာဖွေ စားသောက်တတ်လေသည်။

ဘီလုံးငှက်တို့သည် ကောင်းကင်သို့ ပျံတက်နေစဉ် တေးဆိုတတ်ကြသည်။ အထူးသဖြင့် မိတ်လိုက်ချိန်တွင် ဘီလုံးငှက်ဖိုတို့သည် တေးသံစုံကျူးရင့်၍ အစွမ်းပြပြီးလျှင် လူပျိုလှည့်ကြသည်။ များသောအားဖြင့် နံနက်ခင်းနှင့် ညနေခင်းများတွင် အစွမ်းပြတတ်ကြသည်။ ဘီလုံးငှက်ဖိုသည် နားနေသည့် နေရာမှ တောင်ပံ တဖျတ်ဖျတ် ခတ်ပြီးလျှင် အပေါ် တည့်တည့်သို့ ထိုး၍ ပျံသန်းယင်း တေးသံကျူးရင့်သွားလေရာ၊ တခါတရံမှုန်ပြောင်းနှင့်ကြည့်၍ မရအောင် ပင် မြင့်လှစွာ ပျံတက်သည်။ တေးသံကျူးရင့်ဆဲတွင် အခြားငှက်များ၏ အသံမျိုးကိုလည်း ပြုနိုင်သည်။

အပေါ် ပျံတက်ရာမှ ရုတ်ခြည်း အောက်သို့ ပျံမဆင်းသေးဘဲ၊ လေဖက်သို့ ဦးခေါင်းလှည့်ကာ အပေါ်၌တန့်နေပြီးသော် တခါတခါမှ အတောင်ကို ခတ်ယင်း ဆက်လက်၍ တေးသံကျူးနေတတ်သည်။ ၅ မိနစ်ခန့်ကြာမှ တောင်ပံကိုပိတ်၍ အောက်သို့ စိုက်ချလိုက်၊ တောင်ပံကိုဖြန့်၍ ခတ်လိုက်၊ ပြန်ပိတ်၍ စိုက်ချလိုက် ပြုရာမှ၊ မြေပြင်နှင့် နီးလာသောအခါ မူလပျံတက်နေသောနေရာသို့ ရောက်အောင် တရှိန်ထိုး ပျံသွားတတ်လေသည်။ အမတကောင်အတွက် အဖိုများစွာတို့သည် တပြိုင်တည်း အစွမ်းပြတတ်ကြရာ၊ တကွင်းလုံးသည် ယင်းတို့အသံဖြင့် ဆူညံနေတတ်လေသည်။

ဘီလုံးငှက်တို့သည် မြေပြင်၌ နားနေဆဲတွင်လည်း တေးဆိုသည်ကို ရံဖန်ရံခါတွေ့ရသည်။ လူတစုံတယောက်ကို မြင်လျှင် မပြေးဘဲ ဝပ်နေပြီးသော် ယင်းတို့အား သွား၍နှောင့်ယှက်လျှင် ကျစ်ကျစ်၊ ကျစ်ကျစ်နှင့် အော်မြည်ကာ မြေပြင်နှင့် ကပ်၍ နိမ့်ချည် မြင့်ချည် ပျံသန်းနေတတ်ကြသည်။ အဝေးသို့ ပျံသန်းလိုလျှင်၊ ကောင်းကင်သို့ မြင့်စွာ ပျံတက်ကြလေသည်။

မြန်မာနိုင်ငံ၌ တွေ့ရသော ဘီလုံးငှက်မျိုး၏ အသံသည် ပျော့၍ စူးသည်။ အလေဒါဗာနယ်မျိုးစိတ်ဝင် ဘီလုံးငှက်တို့၏ တေးဆိုသံသည် ပို၍ သာယာသည်။

ဘီလုံးငှက်တို့၏ သားပေါက်ချိန်သည် မတ်လမှ ဇူလိုင်လအထိဖြစ်သည်။ထိုအချိန်အတွင်း ၂ သားပေါက်သည်။ ယင်းတို့၏ အသိုက်များကို ချုံဖုတ်များ၊ မြက်တောများ၊ အကာအကွယ်ရှိသော မြေချိုင့်ခွက်ခွက်များထဲတွင် မြက်ခြောက်များ ခင်း၍ပြုလုပ်ကြသည်။ တမြုံလျှင် ဥ ၃ ဥမှ ၅ ဥအထိ ရှိတတ်သည်။ ဥတို့သည် ရှည်မျော့မျော့ဖြစ်၍ ဥခွံချောမွတ်သည်။ ဝါညိုညို အစက်အပြောက်များ၊ ခရမ်းပြာ အစက်အပြောက်များ အများအပြားပါရှိသည်။

ဘီလုံးငှက်မျိုးကို ဥရောပတိုက်ဘွင်ငုင်း၊ တူရကီ၊ အိန္ဒိယ၊ သီဟိုဠ်၊ မြန်မာ၊ တိဗက်၊ တရုပ်၊ ယိုးဒယား စသော အာရှနိုင်ငံများတွင်ငုင်း တွေ့ရှိရလေသည်။

**ဘီး။** ။ဘီးဟူသည်မှာ ဝင်ရိုးပေါ်၌ လည်နိုင်သော ချပ်ပြားဝိုင်း၊ သို့မဟုတ် အဝိုင်းခွေကိုခေါ် ဆို၍ မြန်မာစာအားဖြင့် "ဘီး" ဟု ရေးသားသော်လည်း ပြောဆိုရာ၌မူ "ဘိန်း" ဟုခေါ် ဝေါ် သုံးစွဲကြသည်။ လူတို့သည် ကမ္ဘာဦးခေတ်အခါမှစ၍ လူမှုရေးအတွက်အမျိုးမျိုးသော ကြံစည်တီထွင်မှုများကို ပြုခဲ့ကြရာ၊ ဘီးကိုတီထွင် ကြံစည်ခဲ့ခြင်းသည် လူ့လောကအတွက် အထူးသဖြင့် သယ်ယူပို့ဆောင်ရေးဖက်တွင် အရေးပါ အကျိုးပြုလှသော တီထွင်ချက်တရပ် ဖြစ်ခဲ့လေသည်။

ဘီးကိုမည်သည့်ခေတ်အခါက တီထွင်ခဲ့သည်ဟု အတိအကျ မခန့်မှန်းနိုင်သော်လည်း၊ အချို့က လွန်ခဲ့သော နှစ်ပေါင်း ၆,၀၀၀ ခန့်လောက်က ဖြစ်မည်ဟု အကြမ်းဖျင်းအားဖြင့် ခန့်မှန်းကြသည်။ ဘီးကို စတင်တီထွင်ကြခြင်းမှာ လေးလံသော အရာဝတ္ထုကြီးများကို တနေရာမှ တနေရာသို့ ရွှေ့ပြောင်းနိုင်ရေးအတွက် ဖြစ်သည်။ ဘီးမပေါ်မီခေတ်က ရှေးလူတို့သည် လေးလံသောအရာဝတ္ထုကြီးများအောက်တွင် သစ်တုံးကို ခုပေးပြီးလျှင်၊ ဒလိမ့်ကဲ့သို့လိမ့်ပေးကာ၊ ထိုအရာဝတ္ထုကြီးကို ဆွဲယူကြသည်။ ယင်းသို့ ဒလိမ့်တုံးခံ၍ဆွဲယူရာမှ စွတ်ဖားတွင် ဒလိမ့်တပ်၍ လေးလံသော အရာဝတ္ထုများကို ရွှေ့ပြောင်းကြသည်။ ဘီးကို စတင်တီထွင်ခဲ့သော ပုဂ္ဂိုလ်သည် သစ်တုံးဒလိမ့်ကို အခြေခံပြု၍ သစ်တုံးကို ပါးပါးဖြတ်ချသောအခါ ချပ်ပြားဝိုင်းများ ရရှိသည်။ ထိုချပ်ပြားဝိုင်းများကို တုတ်ချောင်း၊ သို့မဟုတ်တိုင်တလုံး၏တဖက် တချက်တွင် လည်နိုင်အောင် တပ်ဆင်သောအခါ ဘီးနှင့် ဝင်ရိုးအ



ဘီးမပေါ်မီခေတ်မှ ယခုခေတ်အထိ ဘီး တီထွင် ပြောင်းလဲ တိုးတက်လာပုံသရုပ်ကို ဖော်ပြထားသည်။ ရှေးလူတို့သည် သယ်ယူပို့ဆောင်ရေးတွင် သစ်တုံးကို ဒလိမ့်ကဲ့သို့လှိမ့်ကာ အသုံးပြုခဲ့ကြရာမှ အဝိုင်းဖြတ်ကာ ဝင်ရိုးတပ်ဆင်ခဲ့ကြသည်။ ထိုနောက် အပိုသစ်သားကို ဖယ်ရှားပြီး ဘီးထောက် ခံ၍ အသုံးပြုသောအခါ ပို၍ပေါ့ပါးလာသည်။ ထိုအဆင့်မှတဖန် ဘီးခွေတွင် လေထိုးထားသော တိုင်ယာဘီးများအဆင့်သို့ ရောက်အောင် အလွန်ခြားနားစွာ တိုးတက် တီထွင်ခဲ့ကြသည်။

ခြေခံကို စတင်တီထွင်ချက်ဖြစ်လာသည်။ ယင်းတို့ကို စွတ်ဖားဖြင့် တပ်ဆင်သောအခါ ဘီး၊ ဝင်ရိုးနှင့် လှည်းအခြေခံကို စတင်ခြင်း ဖြစ်လေသည်။

ယင်းတီထွင်မှုသည် လူ့ယဉ်ကျေးမှု သမိုင်းတွင် ကြီးစွာသော တိုးတက်မှုတရပ် ဖြစ်ခဲ့ပေသည်။ ကျွန်ုပ်တို့ အထောက်အထား တွေ့ရသမျှ ရှေးအကျဆုံးဟု ယူဆရသော ဘီးကို အီရက်နိုင်ငံ၊ ကစ်ရှ်မြို့၌ တူးဖော်ရရှိခဲ့ရာ၊ ရှေးခေတ် ဗက်ဗီလုံးနီးယားနိုင်ငံ၌ အသုံးပြုခဲ့သော သစ်သားဘီးဖြစ်၍ ကြေးနီဘီးခွေတပ်ထားသည်ကို တွေ့ရသည်။ ဗက်ဗီလုံး လူမျိုးတို့သည် ဘီးမှအပို သစ်သားများကို ခုတ်ချဖယ်ထုတ်ပြီး လျှင် ဘီးထောက်များသာပါသည့် ပေါ့ပါးသော ဘီးများကို လည်း အသုံးပြုခဲ့ကြောင်း အထောက်အထား တွေ့ရသည်။ ရှေးအီဂျစ် လူမျိုးတို့သည် ဘီးခွေတွင် သားရေတိုင်ယာကို သားရေကြိုးကြမ်းများဖြင့် ချည်၍ အသုံးပြုခဲ့ကြောင်းကို လည်း တွေ့ရသည်။ ဂရိနှင့် ရောမတို့ခေတ်တွင် ရထားဘီးများကို လှပအောင် မွမ်းမံခြယ်လှယ်အသုံးပြုခဲ့ ကြသည်။ သို့သော် ယခုခေတ်တိုင်အောင် မဖွံ့ဖြိုး မတိုးတက်သေးသော အချို့နိုင်ငံများ၏ အချို့အရပ်ဒေသများတွင် သစ်သားချပ်ပြားဘီးတပ်သော နွားလှည်းများကို အသုံးပြုနေဆဲ ဖြစ်လေသည်။

ယခုခေတ် ယာဉ်ရထားများ၏ ဘီးများသည် ဆိုခဲ့သော ဒလိမ့်ဘုံးတပ် စွတ်ဖားအခြေအနေမှ အဆင့်ဆင့် တိုးတက်လာကြခြင်းဖြစ်သည်။သယ်ယူပို့ဆောင်ရေးသမိုင်းတွင်လမ်းများ၏ အခြေအနေကို လိုက်၍ ဘီးများကိုလည်း တဖြည်းဖြည်းတိုးတက် ပြုပြင်လာကြသည်။ သစ်သားချပ်ပြားဘီးမှ ဘီး၏ အလယ်ချက်ပုံတောင်း (ပတောင်း)မှ ဘီးထောက်များဖြင့် ဘီးခွေကို ထောက်ကန်ထားသော ဘီများခေတ်သို့ ရောက်လာသည်။ ယာဉ်ရထားများလည်း အမျိုးမျိုး ဖြစ်လာသဖြင့် လှည်း၊ ရထား အမျိုးအစားကိုလိုက်၍ ဘီးများကိုလည်း ခွဲခြားပြုပြင် လုပ်ကိုင် လာကြသည်။ ထိုအခါတွင် ဘီးလုပ်သမားတို့အတွက် ပညာကျွမ်းကျင်မှု၊ တိကျသေချာစေ့စပ်မှု၊ အချိန်အဆ မှန်ကန်မှုများ အလွန်လိုအပ်လာသည်။ အကြောင်းမူ လေးလံသော ဝန်ဆွဲသည့် လှည်း၏ ဘီးနှင့် မင်းစိုးရာဇာ သဌေးသူကြွယ်တို့၏ ကြော့မော့သော လှည်းယာဉ်၊ ကြွားဝါသော ရထားတို့၏ ဘီးတို့သည် လေးလံသော ဝန်ကိုဆွဲနိုင်ရန်နှင့် သွက်လက် ပေါ့ပါးရန် ဟူ၍ သဘောခြားနားလာသောကြောင့် ဖြစ်သည်။ယင်းသို့ ခြားနားသော သဘောအရ ဘီးတို့ကို ချင့်ချိန်ကြံဆ ခွဲခြားလုပ်ကိုင်ရန် လိုအပ်လာသောကြောင့် ဘီးလုပ်သမားတို့၏ ပညာသည် ကျယ်ပြန့် နက်နဲလာလေသည်။

မော်တော်ကား၊ မီးရထားခေတ်သို့ ရောက်လာသော အခါတွင်မူ ဘီးများသည် အလွန်ခြားနားစွာ တိုးတက်ခဲ့လေပြီ။ စက်ဘီး၊ မော်တော်ကား၊ မီးရထားဘီးများကား သစ်သားဘီးများ မဟုတ်တော့ချေ။ သတ္တုဘီးများဖြစ်ကြ၍ အချင်းအားဖြင့် သေးငယ်ကြလေသည်။ ထိုပြင် ချောမွတ်မာကျောသော လမ်းပေါ်တွင် လျင်မြန်စွာ လိမ့်နိုင်ရန် စက်ဘီး၊ မော်တော်ကားများ၏ ဘီးခွေတွင် လေထိုးထားသော တိုင်ယာများနှင့် ဖြစ်လာကြသည်။ သို့တိုင်အောင်လှည်းနှင့် ရထားဘီးလုပ်သမားများကား သစ်သားဖြင့်ပင်ဆက်လက်လုပ်ကိုင်ဆဲ ဖြစ်ရာ ယင်းတို့၏ ပညာသည် မှေးမှိန်၍ လာလေသည်။

စက်မှု လက်မှု လုပ်ငန်းများတွင်လည်း ဘီးများသည် အလွန် အရေးပါ အရာရောက်ကြပေသည်။ စက်များ လှုပ်ရှားလည်ပတ်အောင် ဘီးများက ဆောင်ရွက်ပေးကြ ရသည်။ စက်၏ အဟုန်ကိုလည်း ထိန်းပေးရသည်။ စက်အဖွဲ့တွင် အားထိန်းဘီးများ၊ ခွေးသွားစိပ် ဘီးများ၊ စက်မောင်းဘီးများသည် အရေးပါသော စက်ကရိယာ အစိတ်အပိုင်းများ ဖြစ်ကြလေသည်။

နာရီလုပ်သမားများသည် နာရီများ တီးသံမြည်ရန်၊ အချိန်ပြရန်အတွက် ကရိယာကို စူးစမ်းရှာဖွေကြရာ ဘီးများသည် ထိုဆရာတို့အလို ရှိသော လုပ်ငန်းများကို ဆောင်ရွက်ပေးနိုင်ကြောင်း ကံအားလျော်စွာ အဆင်သင့်သွားတွေ့ကြသည်။ သို့သော် ဘီးများတွင် အံထစ်များ၊ သို့မဟုတ် "အသွားများ" တပ်ဆင်ပေးရန် လိုအပ်ကြောင်း တွေ့ရသည်။ ယင်းတို့ကို တပ်ဆင်ပုံ တပ်ဆင်နည်းကို နာရီဆရာတို့သည် ရေရဟတ်၊ လေရဟတ်နှင့် ကျောက်မီးသွေးများ၌ ကျောက်မီးသွေး မ တင်သည့် မောင်းစက်များမှ ဘီးများကို နမူနာယူရသည်။ ဆိုခဲ့သော ရဟတ်များ၊ မောင်းများမှ သစ်သားဘီးများတွင် သစ်သား အသွားများကို တခြား သက်သက်ရိုက်သွင်းကာ စရွေးကိုက်၍ ပြုလုပ်ကြသည်။ နာရီ ဆရာတို့သည် သံဘီးများတွင် သံအသွားများကို သက်သက်ရိုက်သွင်းအသုံးပြုခဲ့ကြသည်မှာ နှစ်ပေါင်း ရာနှင့် ချီ၍ ကြာရှည်ခဲ့သည်။ နောင်အခါတွင်မှ အသွားတပ်ပြီး ဘီးများကို သွန်းသံဖြင့် ပြုလုပ်နည်းကို တီထွင်အောင်မြင်ခဲ့ကြသည်။

နာရီဆရာတို့သည် နာရီသေးများအတွက် ကြေးဝါကို ၎င်း၊ မျှော်စင်နာရီကြီးများအတွက် သံကို၎င်း ခွေးသွားစိပ်ဘီးများရအောင် ပုံသွင်း လုပ်ကိုင် ကြသည်။ ချပ်ပြားဝိုင်းမှ 'အသွား' များ၊ သို့မဟုတ် အထစ်များဖြတ်ထုတ်ရန် 'တွင်ခုံ' တမျိုးကိုလည်း တီထွင်ခဲ့ကြသည်။ သို့တိုင်အောင် ၁၈ ရာ စုခေတ်အထိ ထိုခွေးသွားစိပ်ဘီးများ လုပ်ကိုင်သော လုပ်ငန်းသည် တိကျမှုကို လိုအပ်သဖြင့် နာရီပေါင်း များစွာ ကြာအောင် လုပ်ကိုင်ရသော လက်ဝင်သည့် လုပ်ငန်းတခု ဖြစ်ခဲ့လေသည်။ ထို့ကြောင့် သံထည်ဖြင့် ပြုလုပ်သည့် ကြီးမားသော ဘီးများတွင် အသွားတပ်ခြင်းကို တခြား သက်သက်ပြုလုပ်ခဲ့ကြလေသည်။

မည်သို့ပင်ဖြစ်စေ လက်ပတ်နာရီခွေးသွားစိပ်ဘီး၊ ကြီးမားသော စက်ကြီးတစက်မှ အားထိန်းဘီး၊ မော်တော်ကားဘီး၊စက်သီး (စက်သီး — ရှု။) စသည်တို့သည် ရှေးရှေးခေတ်မှ ဒလိမ့်တုံး၏ အခြေခံ သဘောကိုယူ၍ တိုးတက်တီထွင်မှုများဖြစ်ခဲ့ကြသည်။ ထိုကြောင့် ဘီးကို တီထွင်မှုသည် လူ့ယဉ်ကျေးမှုသမိုင်းတွင် အကျိုးအပြုဆုံး၊ အခြေခံ အကျဆုံးသော တီထွင်မှုတရပ်ဟု ခေါ် ဆိုရပေမည်။

**ဘီးတောချုပ်။** ။တောင်ပီစူးငှက် — ရှု။

**ဘီးတောင်ပို။** ။တောင်ပီစူးငှက် — ရှု။

**ဘီးလင်းမြို့။** ။ဘီးလင်းမြို့သည် အောက်မြန်မာနိုင်ငံရှိ သထုံခရိုင်၏ ကျိုက်ထိုခရိုင်ခွဲအတွင်း၌ တည်ရှိ၍ ဘီးလင်းမြို့နယ်၏ မြို့ပိုင်ရုံးစိုက်မြို့ ဖြစ်သည်။ ကျိုက်ထိုမြို့နှင့် သထုံမြို့အကြား အလယ်ခန့်တွင် ဘီးလင်းမြစ်၏လက်ဝဲကမ်းပေါ်၌ တည်ရှိသည်။

ဘီးလင်းမြို့နယ်သည် ၇၂၇ စတုရန်းမိုင်ကျယ်ဝန်း၍ ကျေးရွာပေါင်း ၅၈ ရွာပါဝင်သည်။ မြို့နယ်တခုလုံး၏ လူဦးရေသည် (၁၉၅၆ ခုနှစ် ခန့်မှန်းသန်ကောင်စာရင်း) ၉၀,၉၁၉ ယောက်ဖြစ်၍ မြို့ပေါ်ရှိ လူဦးရေသည် (၁၉၅၃ ခုနှစ် သန်ကောင်စာရင်း) ၅,၂၉၅ ယောက်ဖြစ်သည်။ မြို့နယ်အတွင်း၌၎င်း၊ မြို့ပေါ်၌၎င်း မြန်မာလူမျိုး ဦးရေသည် အများဆုံးဖြစ်သော်လည်း မြို့နယ်အတွင်းရှိ တောင်ကုန်း တောင်တန်းများတွင် ကရင်လူမျိုးနှင့် တောင်သူ လူမျိုးတို့ကိုလည်း အများအပြား တွေ့ရသည်။ ထို့ပြင် မြို့နယ်အတွင်း၌ မွန်လူမျိုးများလည်း ရှိလေသည်။

ဘီးလင်းမြို့နယ်ကို ဖြတ်သန်းစီးဆင်းသော ဘီးလင်းမြစ်သည် သထုံခရိုင်အတွင်း သွားလာသယ်ယူပို့ဆောင်ရေး အတွက် အရေးပါသော မြစ်ဖြစ်သည်။ ထိုမြစ်သည် ကရင်ပြည်နယ် အတွင်း၌ မြစ်ဖျားခံ၍ မုတ္တမတောင်တန်းနှင့် ဘီးလင်းတောင်တန်းများကိုဖြတ်လျက် မုတ္တမပင်လယ်ကွေ့ အတွင်းသို့ စီးဝင်သည်။ မြို့နယ်အတွင်း ထင်ရှားသော တောင်ရိုးတောင်တန်းများမှာ ထုံးကျောက်တောင်များ ဖြစ်သည့် ဘီလင်းတောင်တန်းနှင့် ကေလာသတောင်တန်းတို့ ဖြစ်လေသည်။

ဘီးလင်းမြို့နယ်သည် မိုးများသော ဒေသဖြစ်သည်။ မိုးရာသီတွင် ဘီးလင်းမြို့သည် ရေလွှမ်းမိုးတတ်သည်။ မုတ္တမပင်လယ်ကွေ့နှင့် နီးကပ်သော မြို့နယ်ဖြစ်၍ အပူအအေး မပြင်းထန်လှချေ။ မြေပြန့်မြေနိမ့်ဒေသများသည် မြေသြဇာကောင်း၍ စပါး စိုက်ပျိုး ဖြစ်ထွန်းသည်။ တောင်ကုန်းတောင်တန်းဒေသများတွင် ကရင်လူမျိုးများ၊ တောင်သူလူမျိုးများသည် တောင်ယာများ လုပ်ကိုင်ကြသည်။ ဘီးလင်းနယ်တွင် ကြံများကိုလည်း အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်ကြလေသည်။

ကူးသန်းသွားလာရေး လမ်းပန်းအဆက်အသွယ်များမှာ ကျိုက်ထို–မုတ္တမ မော်တော်ကားလမ်း (၇၃ မိုင်) သည် ဘီးလင်းမြို့နှင့် သထုံမြို့ကို ဖြတ်၍သွားသည်။ ဘီးလင်းမြို့သည် ကျိုက်ထိုနှင့် ၁၉ မိုင်ခန့်ကွာဝေး၍ သထုံနှင့် ဘီးလင်းသည် ၂၃ မိုင်ခန့် ဝေးသည်။ ဘီးလင်းမြို့ကိုပတ်၍ ကရင်ပြည်နယ်ဖာပွန်မြို့သို့ မော်တော်ကားလမ်းရှိသည်။ ၇၃ မိုင်ရှည်လျားသည်။ ပဲခူး–မုတ္တမ (မော်လမြိုင်) မီးရထားလမ်းသည် ဘီးလင်းမှ ၄ မိုင်ခန့်ဝေးသော နှင်းပုလဲဘူတာကို ဖြတ်ကျော်၍ သွားလေသည်။

ဘီးလင်းမြို့၌ မြို့ပိုင်ရုံး၊ မြို့နယ်တရားမနှင့် ရာဇဝတ်တရားသူကြီးရုံး၊ မြို့နယ်သမဝါယမရုံး၊ စာတိုက်၊ ဆေးရုံ၊ အစိုးရတန်းမြင့်ကျောင်း၊ ဈေး စသည့် အစိုးရ အဆောက်အအုံများရှိသည်။ ရှေးအခါက အရောင်းအဝယ် စည်ကားသောမြို့တမြို့ ဖြစ်ခဲ့သည်။ ယခုအခါမူ စစ်ဘေး စစ်ဒဏ်ကို ခံခဲ့ရသဖြင့်၎င်း၊ ပြည်တွင်း သောင်းကျန်းမှုများကြောင့်၎င်း မြို့အခြေအနေ များစွာပျက်ပြားခဲ့သည်။

ဘီးလင်းမြို့တွင် ထင်ရှားသော ဘုရားစေတီများမှာ ဘီးလင်းမြို့မှ ၃ မိုင်ခန့် ကွာဝေးသော ကုသိန္နာရုံ ဘုရားနှင့် မြို့ပေါ်ရှိ ကြေးသွန်းဘုရားများ ဖြစ်ကြသည်။ ဘုရားပွဲတော်များကို တပေါင်းလတွင် ကျင်းပသည်။ မြို့၏အရှေ့ဖက် ရွှေရောင်ပြတောင်ပေါ်ရှိ ဘုရားစေတီသည်လည်း ထင်ရှားသော စေတီတဆူ ဖြစ်သည်။ ဗုဒ္ဓအယူဝါဒီ မြန်မာလူဦးရေများပြားသောမြို့ ဖြစ်သဖြင့် မြို့ပေါ်တွင် ဘုန်းကြီးကျောင်းပေါင်း ၂၀ ကျော်မျှ ရှိလေသည်။

"ဘီးလင်း" ဟူသော အမည်သည် ဗီလို (ပီးလမ်း) ဟူသော မွန်စကားမှ ဆင်းသက်လာခြင်းဖြစ်၍ မြစ်ဖျက်သောမြို့ဟု အဓိပ္ပါယ်ရသည်။ ယခုတိုင် ဘီးလင်းကျိုးရွာဟု ခေါ်တွင်သော တဖက်ကမ်းတွင် ပုံ့ကျန်ခဲ့သည့် ဘီးလင်းမြို့နေရာကိုတွေ့ကြရသေးသည်။ ဘီးလင်းမြို့ကို တပ်မြို့အဖြစ် စတင်တည်ထောင်ခဲ့သည်ဟု အဆိုရှိသည်။

မြတ်စွာဘုရား ပရိနိဗ္ဗာန် စံတော်မူပြီးနောက်တွင် သောဏထေရ်နှင့် ဥတ္တရထေရ်တို့သည် သာသနာပြုရန် ရာမညတိုင်းသို့ ကြွရောက်လာကြသည်။ ထိုမထေရ်မြတ်တို့ ကြွရောက်လာသော ဂေါဠမတ္တိကနဂရမြို့သည် ဘီးလင်း မြို့နယ်အတွင်းရှိ ကေလာသတောင်ထိပ်စေတီ၏ အနောက်တောင်တွင် အရှေ့တဝက် တောင်ထိပ်၊ အနောက်တဝက် မြေညီ၌တည်သည်။ တင်လဲချက်သောလူတို့အိမ်ကဲ့သို့ အိမ်အများရှိသောကြောင့် ဂေါဠမတ္တိကဟု ခေါ်တွင်၍ တိုက်ကုလားမြို့ဟုလည်း နှောင်းခေတ်တွင် ခေါ်ဝေါ်ကြသည်။ ယခုတိုင် တိုက်ကုလားမြို့

ဟောင်း နေရာ၊ သို့မဟုတ် တောင်စွန်းဟုခေါ်သော နေရာတွင် မြို့ဟောင်း အပျက်အစီးနေရာကို တွေ့ကြရသေးသည်။

ဘီးလင်းမြို့နယ် အတွင်းရှိ ဇုတ်သုတ်ရွာ အနီးတွင်လည်း ရှေးမြို့ဟောင်း အဆောက်အအုံ များကို တူးဖော် တွေ့ရှိရသည့်ပြင်၊ စေတီပုထိုး များတွင်လည်း ကျောက်စာများကို တွေ့ရသည်။ အထက်တွင် ဖော်ပြခဲ့သော ကုသိန္နာရုံဘုရားသည် သောဏထေရ်နှင့် ဥတ္တရထေရ်တို့ကို အကြောင်းပြုပြီး ဘုရားဆံတော်ဌာပနာရာ တန်ခိုးကြီး ဘုရားဖြစ်လေသည်။

**ဘုဇပတ်ပင်**။ ။အင်္ဂလိပ် အမည်ဖြင့် ဗတ်ချ်ဟုခေါ်သော သစ်ပင်မျိုးကို ရှေးမြန်မာ စာပေကျမ်းဂန်တို့၌ ဘုဇပတ်ပင်ဟု ခေါ်ဝေါ် သုံးစွဲ ထားသည်ကိုတွေ့ရသည်။ ယခုခေတ်တွင်မူ ချယ်ရီဖိုပင်ဟုခေါ်တွင်လျက် ရှိသည်။ ထိုအပင်တို့သည် မြောက်အမေရိကတိုက်၊ ဥရောပတိုက်၊ အာရှတိုက် မြောက်ပိုင်းဒေသ၊ ဟိမဝန္တာတောင်တန်း၊ တရုပ်နှင့် ဂျပန် တောင်တန်းဒေသ စသော သမပိုင်းဒေသများ၌ ပေါက်ရောက်တတ်သော အပင်မျိုး ဖြစ်သည်။ မြန်မာနိုင်ငံ တောင်ကုန်းဒေသများ၌လည်း ပေါက်ရောက်သည်။ ဝေါဟာရလိနတ္ထဒီပနီကျမ်း၌ အနောက်ကာသိတိုင်း စသည်တို့၌၎င်း၊ အာသံပြည် ဂေါ်ရခေါင်မြို့၌၎င်း ပေါများသည်ဟု ဆိုထားလေသည်။

ဘုဇပတ်ပင်သည် ဗက်တျူလေစီအီးမျိုးရင်းဝင် ဖြစ်၍ မျိုးစု အများအပြားရှိရာ သစ်ပင်ကြီးမျိုးမှ ချုံဖုတ်အကြီးစားမျိုးအထိ ပါဝင်သည်။ ဘုဇပတ်ပင်တို့သည် ရွက်ကြွေပင်မျိုး ဖြစ်သည်။ အအေးဒဏ်ကို ခံနိုင်ရည်ရှိ၍ ရှင်သန်လွယ်သော သစ်ပင်မျိုးလည်း ဖြစ်သည်။

ဘုဇပတ်ပင်တို့သည် လှလည်းလှပ၍ ကျက်သရေလည်းရှိသော သစ်ပင်မျိုးများထဲတွင် ပါဝင်သည်။ အကိုင်းအခက်တို့သည် လုံးဝန်းသေးသွယ်၍ ဘေးသို့ ပြန့်ကားထွက်သည်။ အချို့ ဘုဇပတ်ပင်မျိုးတို့၏ အကိုင်း အခက်များသည် အဖျားဖက်၌ အောက်သို့ ညွတ်ကျနေတတ်သည်။ အရွက်များသည် ရွက်လွှဲထွက်သည်။ အရွက်၏ အဖျားသည် ချွန်၍ နံဘေးအနားတို့သည် လွသွားကဲ့သို့ မညီညာသော အထစ်ချွန်ကလေးများ ဖြစ်နေသည်။ နွေရာသီ၌ ဘုဇပတ်ပင်တို့သည် စိမ်းစို ပြောင်လက်သော အရွက်တို့ဖြင့် ဝေဆာလှပနေပြီးလျှင် ဆောင်းကူးရာသီ ရောက်သောအခါ အရွက်တို့သည် ဝင်းဝါလာ၍ ကြွေကျကုန်သည်။

ထိုအပင်တို့မှ အဖိုပွင့် အမပွင့်ဟူ၍ အပွင့်နှစ်မျိုး ပွင့်သည်။ အဖိုပွင့် ပွင့်ပြီးမှ အမပွင့် ပွင့်သည်။ အဖိုပွင့်တို့သည် ကြောင်မီးတူ ပန်းခိုင်မျိုးနှင့်တူ၍ အပွင့်ကလေးများသည် အပွင့်တံ၏ ပတ်လည်၌ ထွက်ပွင့်ကြသည်။ ဆောင်းရာသီ၌ အဖိုပွင့် ပွင့်ရန် လက်ညှိုးနှင့်တူသော ဖူးတံကလေးများ ထွက်စပြု၍ နွေကူး ရာသီတွင် ရွှေဝါရောင် ပန်းခိုင်များသည် တွဲရရွဲကျလျက် လှပစွာ ဖူးပွင့်ကြလေသည်။ အမပွင့်သည် အဖိုပွင့်ထက် သေး၍ ဆောင်းကူးရာသီ၌ အရွက်များကြွေသည့်တိုင်အောင် ထိုအမပွင့်များကျန်ခဲ့သည်။ ထိုအမပွင့်များမှ ကတော့ပုံ အသီးကလေးများ အစီအရီ သီးကြသည်။ အသီးထဲ၌ ပေါ့ပါး၍ အတောင်ကဲ့သို့ အင်္ဂါပါသော အစေ့များရှိကြသည်။ ထိုအစေ့များသည် ဆောင်းလေဖြင့် လွင့်ပါကြရာမှ အပင်များ ပြန့်ပွားခြင်း ဖြစ်လေသည်။

ဘုဇပတ်ပင်ကို သိရန် လွယ်ကူသော အချက်တရပ်မှာ အခေါက်များကို အလွယ်တကူခွာ၍ ရနိုင်ခြင်းဖြစ်သည်။ အခေါက်များသည် ပေါ့၍ပါးသည်။ အချို့အခေါက်များသည် စက္ကူများကဲ့သို့ ပါးလွှာသောအလွှာများ အထပ်လိုက်ပါရှိသဖြင့် ယင်းတို့ကို တထပ်စီခွာပြီးလျှင် စာရေး၍ရသည်။ အခေါက်များသည် ပါးလွှာသော်လည်း ခိုင်ခံ့သည်။ ထိုအပင်မှ သစ်တုံး၏ အသားဆွေးသွားသည့်တိုင်အောင် အခေါက်မဆွေးဘဲကျန်ခဲ့သည်ဟုဆိုသည်။ တောင်များ၊ သေတ္တာများကို ဘုဇပတ်သားနှင့် လုပ်ကိုင် ကြ၍၊ မြောက်အမေရိကတိုက်မှ တိုင်းရင်းသား အင်ဒီးယန်း လူမျိုးတို့သည် ကနူးခေါ် ဘောက်တူများကို ဘုဇပတ်အခေါက်ဖြင့် ပြုလုပ်ကြသည်။ ရုရှနှင့် စကန်ဒီနေးဗီးယားစသော နိုင်ငံများတွင် ဘုဇပတ်အခေါက်ဖြင့် အိမ်အမိုး ပြုလုပ်ကြလေသည်။

ဘုဇပတ်သားကို အိမ်ထောင်ပရိဘောဂများ ပြုလုပ်ရန်၊ သင်္ဘောဆောက်ရန်၊ လယ်ယာသုံး ပစ္စည်းများ ပြုလုပ်ရန် အသုံးပြုကြသည်။ အချို့ ဘုဇပတ်ပင်အမျိုးအစားတို့၏ အသားသည် နုညက်သဖြင့် အရောင်တင်ဆေးသုတ်၍ ကောင်းသည်။ ထို့ကြောင့် ဘုဇပတ်သားကို မဟောဂနီအတု အဖြစ် ရောင်းချကြသည်။

ဘုဇပတ်ပင်တို့သည် နေရာ ဒေသလိုက်၍ မျိုးစုကွဲပြားသွားသည်။ ဥရောပတိုက်၊ အာရှမိုင်းနား၊ ဆိုက်ဗီးရီးယားစသော ဒေသများ၌ အများဆုံး တွေ့ရသော ဘုဇပတ်ပင်တို့သည် ဗက်တျူလာ အယ်လဗာမျိုးစုဝင်ဖြစ်ကြသည်။ ယင်းတို့အား ဘုဇပတ်အဖြူ၊ သို့မဟုတ် ဘုဇပတ် ငွေရောင်ဟုခေါ်ကြ၍ အသက်ရှည်ကြာသော အပင်မျိုးမဟုတ်ချေ။ အမြင့်ပေ ၄၀-၅၀ အထိရှိတတ်၍ လုံးပတ်အချင်းသည် တပေထက် ကျော်ခဲသည်။

အင်္ဂလန်၌ တွေ့ရသော ဘုဇပတ်ပင်များသည် ဗက်တျူလာအယ်လဗာမျိုးစုမှ မျိုးကွဲများဖြစ်၍၊ ဗက်တျူလာ ပူဗီဆင်းဟု ရုက္ခဗေဒအမည်ဖြင့် ခေါ်သော ဘုဇပတ်ရိုးရိုးနှင့် ဗက်တျူလာ ပင်ဒျူလာဟု ခေါ်သော ဘုဇပတ် ငွေရောင်တို့ဖြစ်သည်။ ဘုဇပတ်ငွေရောင်၏ အခေါက်သည် အမြစ်ရင်းမှ သုံးလေးပေခန့်တွင် မည်း၍ ကြမ်းတမ်းသည်။ အကိုင်းအခက်တို့သည် အောက်ဖက်သို့ ညွတ်ကျနေရာ ကြည့်၍ အလွန်လှပသည်။ ရိုးရိုးဘုဇပတ်ပင်၏ အခေါက်သည် အရင်း



အနီးမှကပ်၍ မြင်ရသော ဆေးဖက်ဝင်သည့် ဘုဇပတ်ပင်

တွင် ချောမွတ်၍ နီရဲနေသည်။ ရုရှနိုင်ငံတွင် ဘုဇပတ်ပင်မှ အခေါက်၊ အသားနှင့် အစေးတို့ကို အမျိုးမျိုးအသုံးပြုကြလေသည်။

မြောက်အမေရိကတိုက်တွင် ဘုဇပတ် ၁၀ မျိုးခန့် ပေါက်ရောက်သော်လည်း ထင်ရှားသော ၅ မျိုးခန့်ကိုသာ ဖော်ပြလိုပေသည်။ ယင်းတို့သည် နျူဖောင်းလန်းဒေသမှ ဝါရှင်တန်ပြည်နယ်အထိ ပေါက်ရောက်ကြသည်။ ထိုဘုဇပတ် ၅ မျိုးတို့မှာ အခေါက်တွင် အဖြူခံ၌ အမည်းကွက်များ ပါရှိသောဘုဇပတ်ဖြူ (ဗက်တျူလာ ပေါ်ပျူလီဖိုလီယာ)၊ စာရေးရနိုင်သောပါးလွှာသည့် အခေါက်လွှာများရှိသည့် စက္ကူဘုဇပတ်၊ သို့မဟုတ် ကနူးဘုဇပတ် (ဗက်တျူလာပပိုင်းရီဖရာ)၊ ဘုဇပတ်ပင်မျိုး အနက် အကြီးဆုံး အမြင့်ဆုံးဖြစ်သော ဘုဇပတ်ဝါ(ဗက်တျူလာလူတီးယား)၊အနီရင့်ရောင်အကိုင်းနှင့် အခေါက်ရှိသော ဘုဇပတ်နီ (ဗက်တျူလာ နိဂရာ)၊ နှင့် အစေးကို ဘီယာပြုလုပ်ရာ၌အသုံးချနိုင်ပြီးလျှင်၊ အသားနှင့် အခေါက်မှ အဆီတမျိုး ထုတ်ယူနိုင်သော ချယ်ရီဘုဇပတ်၊ သို့မဟုတ် ဘုဇပတ်မည်း၊ သို့မဟုတ် ဘုဇပတ်ချို (ဗက်တျူလာ လင်တာ)တို့ ဖြစ်ကြသည်။ ထို ၅ မျိုးလုံးမှ အဖိုးတန်သစ်များရရှိရာ ဘုဇပတ်ဝါ၏ သစ်သည် အဖိုးအတန်ဆုံးဖြစ်လေသည်။

အိန္ဒိယနှင့် မြန်မာနိုင်ငံတို့တွင် ဘုဇပတ် ၃ မျိုးကို တွေ့ရသည်။ ယင်းတို့မှာ ဗက်တျူလာ ဆိုင်လင်ဒရိုစတာချစ်၊ဗက်တျူလာ ယူတီလစ်နှင့် ဗက်တျူလာ အယ်လနိုက်ဒီးတို့ ဖြစ်ကြသည်။ ပဌမအမျိုးသည် ဟိမဝန္တာတောင်တန်း အရှေ့ပိုင်း၊ နာဂတောင်တန်းနှင့် ငေါချန်း တောင်ကြားဒေသတို့တွင် ပေါက်ရောက်သည်။ အခေါက်သည် ပန်းရောင်၊ သို့မဟုတ် အနီရောင်ဖြစ်၍၊ သစ်ခေါက်ကို အရှည်လိုက် ခွာ၍ရသည်။ အပင်အနေအားဖြင့် ဗက်တျူလာ အယ်လနိုက်ဒီးနှင့် ဆင်တူယိုးမှား ဖြစ်သော်လည်း အခေါက်ချင်း ကွာခြားလေသည်။

ဗက်တျူလာယူတီလစ်သည် အလတ်စားအပင်မျိုး ဖြစ်သည်။ ဟိမဝန္တာတောင်တန်း တလျှောက်၌ ပေါက်ရောက်သည်။ အမပွင့် တပွင့်ချင်း ပွင့်သည်။ အရွက်များသည် အောက်ဖက်၌ အမွေးထူသည်။ အခေါက်သည် ချောမွတ်တောက်ပြောင်၍ ဖြူတူတူ၊ ပန်းဖျော့ဖျော့ အရောင်မျိုးရှိသည်။ ထိုအခေါက်၌ စက္ကူကဲ့သို့ အလွှာများရှိသည်။ ထိုအလွှာများတွင် စာရေး၍ရသည်။ သစ်၏အသားသည် ပန်းဖျော့ဖျော့အရောင်ရှိ၍ အဆောက်အအုံဆောက်ရန် အသုံးပြုကြလေသည်။

ဗက်တျူလာ အယ်လနိုက်ဒီး ဘုဇပတ်မျိုးသည်လည်း အလတ်စား အပင်မျိုးဖြစ်သည်။ ဟိမဝန္တာတောင်တန်းအစအဆုံး တလျှောက်၌၎င်း၊ အာသံ၊ မဏိပူရတွင်၎င်း၊ မြန်မာနိုင်ငံ၌ ကလော၊ မေမြို့၊ ပခုက္ကူနယ်များနှင့် ဖိုဟတ်ဇအရှေ့ရှိ တောင်ကုန်းဒေသများတွင်၎င်း ပေါက်ရောက်သည်။ အမပွင့်တို့သည် ၂ ပွင့်ဆိုင်၊ ၃ ပွင့်ဆိုင် ပွင့်သည်။ အရွက်များတွင် အမွေးမရှိချေ။ ထိုအပင်များကို ကချင်အမည်ဖြင့် လယန်းဟူ၍၎င်း၊ ရှမ်းအမည်ဖြင့် ဟရီးယန်းဟူ၍၎င်း ခေါ်ကြသည်။ အခေါက်သည် ညိုညစ်ညစ်အရောင်ရှိ၍၊ အလျားလိုက်အလွှာများ ခွာ၍ရသည်။ သစ်သားများကို ထိုဒေသများ၌သာ အသုံးပြုကြလေသည်။

**ဘုတလင်မြို့။** ။ဘုတလင်မြို့သည် အထက် မြန်မာနိုင်ငံ၊ စစ်ကိုင်းတိုင်း အောက်ချင်းတွင်း ခရိုင်တွင်ရှိ ဘုတလင်မြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ အောက်ချင်းတွင်းခရိုင် အတွင်း ထင်ရှားသော မြို့တမြို့ဖြစ်၍ မုံရွာမြို့၏ မြောက်ဖက် မိုင် ၂၀ ခန့်အကွာတွင် တည်ရှိသည်။

မြို့တည်ရာအရပ်သည် ကုန်းခေါင်ခေါင်ကျသော အရပ်ဖြစ်၍ မြို့နယ်တခုလုံးသည်လည်း အတန်ငယ် ကုန်းမြင့်ပေသည်။ မြို့နယ်အတွင်း မြစ်ချောင်းများ အလွန်နည်းပါးသည်။ မြင့်မားသော တောင်ရိုး တောင်တန်းကြီးများလည်း မရှိချေ။ တောင်ကုန်း၊ တောင်ပူစာငယ်များသာလျှင် ရှိပေရာ၊ အမြင့်ဆုံး တောင်ကုန်းများမှာ ရွှေဘိုတောင် (ပေ ၁,၄၄၉) နှင့် တွင်းတောင် (ပေ ၁,၁၂၅) တို့ဖြစ်ကြသည်။

ဘုတလင်မြို့နယ်၏ မြောက်ဖက်၌ ရွှေဘိုခရိုင်၊ အရှေ့

ဖက်၌ အောက်ချင်းတွင်း ခရိုင်နှင့် ရွှေဘိုခရိုင်ကို ပိုင်းခြားထားသော မူးမြစ်၊ တောင်ဖက်တွင် မုံရွာမြို့နယ်၊ အနောက်ဖက်တွင် ချင်းတွင်းမြစ်နှင့် ကနီမြို့နယ်တို့ အသီးအသီး တည်ရှိကြသည်။

ဘုတလင်မြို့နယ်သည် အောက်ချင်းတွင်း ခရိုင် အတွင်း အစည်ကားဆုံး မြို့နယ်ဖြစ်၍ ခရိုင်၏ အရှေ့မြောက်ကျသော မြို့နယ်ဖြစ်သည်။ မြို့နယ်တခုလုံးသည် ၄၅၁ စတုရန်းမိုင် ကျယ်ဝန်း၍၊သူကြီးတိုက်နယ် ၄၉ နယ်၊ကျေးရွာပေါင်း ၁၇၅ ရွာပါဝင်သည်။ နောက်ဆုံး သိရသော မြို့နယ် လူဦးရေမှာ ၇၀,၁၆၂ ယောက် ဖြစ်သည်။

မိုးနည်းရေရှား ရပ်ဝန်းဒေသတွင် တည်ရှိသဖြင့်၊ ဘုတလင်မြို့နယ်တွင် မိုးနည်း၍ နွေအခါ အတော်အတန် ပူပြင်းပြီးလျှင် ဆောင်းရာသီ၌ ချမ်းအေးသည်။

ဘုတလင်မြို့နယ်အဖြစ် စတင်ဖွဲ့စည်းခြင်းကို ၁၈၆၄ ခုနှစ်တွင် ပြုလုပ်ခဲ့၍၊ ရှေးက ကူတော်မြို့ နယ်တခုလုံးနှင့် အရာတော်မြို့နယ် တစိတ်တဒေသတို့ကို ဖဲ့ထုတ်ကာ ဖွဲ့စည်းထားခြင်းဖြစ်သည်။

ဘုတလင်မြို့သည် မုံရွာ–ရေဦး (ရွှေဘိုခရိုင်) မော်တော်ကားလမ်း၊ မီးရထားလမ်း၌ တည်ရှိ၍၊ ညောင်ကန်၊ မောင်းထောင်၊ သခွတ္တနယ်၊ပေယင်း၊မြို့သစ်စသော ကျောထောက်နောက်ခံကောင်းသည့်ဒေသများရှိသဖြင့်၊ ပြောင်း၊ပဲ၊ပြောင်း၊ ဝါဂွမ်း၊ ထန်းလျက်၊ ဆီ စသော မိုးပါးရေရှား ဒေသထွက်သီးနှံများ ရောင်းဝယ်ဖောက်ကားမှုဖြင့် စည်ကားသော မြို့ဖြစ်လေသည်။

ဘုတလင်မြို့သည် မီးရထားလမ်းအားဖြင့် မုံရွာမြို့နှင့် ၂၂ မိုင်ဝေး၍၊ ရွှေဘိုခရိုင် ရေဦးမြို့နှင့် ၃၅ မိုင်ခန့်ဝေးသည်။ မော်တော်ကားလမ်းအားဖြင့် မုံရွာနှင့် ၂၁ မိုင်ဝေး၍ ရေဦးမြို့နှင့် ၃၃ မိုင်ခန့်ဝေးသည်။ ထို့ပြင် ၁၂ မိုင် ကွာဝေးသော ကူတော်သို့၎င်း၊ ၅ မိုင်ကွာဝေးသော ညောင်ကန်သို့၎င်း မော်တော်ကားလမ်းကြမ်းများ ရှိသည်။

ဘုတလင်မြို့လယ်တွင် သီရိဓမ္မာသောကမင်းကြီး အမိန့်တော်ဖြင့် တည်ထားခဲ့သည်ဆိုသော ရန်အောင်မြင် ဘုရားနှင့် ရေကန်ကြီးရှိသည်။ မြို့၏ မြောက်ဖက်တွင် ကန်တော်ကြီးအမည်ရှိ တဖက်ဆည်ကန်ကြီးသည်လည်း မြို့ကျက်သရေဆောင်တရပ် ဖြစ်ပေသည်။

ဘုတလင်မြို့မှ ဇွတ္တိဒုဇ္ဇနကထာကျမ်းပြု ခုံမင်းကြီး ဦးပြေ့ကျော်ဟု ရှေးကစာဆိုတဦး ပေါ်ထွန်းခဲ့သည်။ ဘုတလင်မြို့နယ်အတွင်းရှိ ညောင်ကန်ရွာမှ ညောင်ကန် ဆရာတော် ဦးပုတ်၊ မောင်းထောင်ရွာမှ စိန္တကျော်သူ ဦးသြ၊ တွင်းသင်းတိုက်ဝန်မဟာစည်သူ၊ သံချိုဦးကျော်လှ၊မောင်းထောင်သာသနာပိုင် ဆရာတော်အစရှိသော ရှေးစာဆိုတော်ကြီးများ ပေါ်ထွက်ခဲ့သည်။ ထိုမြို့နယ်အတွင်း၌ပင် ရှိသော ငပယင်းရွာသည် စစ်သူကြီး မဟာဗန္ဓုလ၏ ဇာတိအရပ် ဖြစ်ပေသည်။ သို့ဖြင့် ဘုတလင်နယ်မြေသည် လက်ရုံးရည် နှလုံးရည်ဖြင့် ပြည့်စုံသော ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်ကျော်များ ပေါ်ထွန်းရာ နယ်မြေဟု ဆိုရပေမည်။

**ဘုရား။** ။ဘုရားဆိုသည်မှာ....သိသင့် သိထိုက်သော ဉေယျဓမ်တရား အလုံးစုံကို တခုမကျန် ဖြောင့်မှန်စွာ သိနိုင်သော သဗ္ဗညုတ ဉာဏ်တော်ရှင် ပုဂ္ဂိုလ်ထူးကို ဆိုသည်။

ယင်းပုဂ္ဂိုလ်ထူးကိုလည်း ဉာဏ်ပညာ တမျိုးတည်းသာ ကြီးကျယ်မြင့်မြတ်ခြင်းဖြင့် ဘုရားဟု ဆိုသည်မဟုတ်။

(၁) ဇာတိမဟတ္တ .... အမျိုးဇာတ်အားဖြင့် ကြီးကျယ်မြင့်မြတ်ခြင်း၊
(၂) ပုညမဟတ္တ .... ဘုန်းသမ္ဘာ ကုသိုလ် ပါရမီအားဖြင့် ကြီးကျယ် မြင့်မြတ်ခြင်း၊
(၃) သီလမဟတ္တ .... အကျင့်သီလအားဖြင့်ကြီးကျယ် မြင့်မြတ်ခြင်း၊
(၄) သမာဓိမဟတ္တ .... တည်ကြည် ခိုင်ခံ့သော သမာဓိအားဖြင့် ကြီးကျယ် မြင့်မြတ်ခြင်း၊
(၅) ဣဒ္ဓိမဟတ္တ .... တန်ခိုး အာနုဘော် အား ဖြင့် ကြီးကျယ် မြင့်မြတ်ခြင်း၊
(၆) ဗုဒ္ဓိမဟတ္တ .... ဉာဏ်ပညာ အားဖြင့် ကြီးကျယ် မြင့်မြတ်ခြင်း

ဟူ၍ လောကတွင် ရှိရှိသမျှ လူနတ်ဗြဟ္မာ သတ္တဝါတို့ထက် ကြီးကျယ် မြင့်မြတ်ခြင်းအမျိုးမျိုးနှင့် ပြည့်စုံမှသာလျှင်၊ ပြည့်စုံသော ပုဂ္ဂိုလ်ထူးကိုသာလျှင် ဘုရားဟု ဆိုရသည်။

လွန်ခဲ့သော နှစ်ပေါင်း ၂,၅၄၀ ကျော်လောက်က ပွင့်တော်မူသော ဂေါတမမြတ်စွာဘုရားကား ဆိုခဲ့ပြီးသော ကြီးကျယ်မြင့်မြတ်ခြင်း အမျိုးမျိုးနှင့် ပြည့်စုံသောကြောင့်လောကသုံးပါးတွင် ဘုရားစင်စစ် ဖြစ်တော်မူသည်။

ရှေးရှေးကမ္ဘာ့ကမ္ဘာက ပွင့်တော်မူခဲ့ကြသော ဂင်္ဂါ ဝါဠု သဲစုပမာ များလှစွာသော ဘုရားများ၊ လွန်ခဲ့သော ဆဲ့ခြောက် အသင်္ချေအတွင်း ပွင့်တော်မူခဲ့ကြသော ဗြဟ္မာဒေဝ စသောဘုရားများ၊ လွန်ခဲ့သော လေးသင်္ချေနှင့်ကမ္ဘာ တသိန်းအတွင်း ပွင့်တော်မူသော တဏှင်္ကရာဘုရားအစ၊ကဿပ ဘုရား အဆုံးရှိသော နှစ်ကျိပ်ခုနစ်ဆူသောဘုရားများလည်း လောကသုံးပါးတွင် ဘုရားစင်စစ် ဖြစ်တော်မူကြသည်။

ထိုဘုရားတို့တွင် ဂေါတမမြတ်စွာဘုရား၏ ဖြစ်တော်စဉ်အကျဉ်းကား ဤသို့တည်း။ ဂေါတမမြတ်စွာဘုရားကား ဘိုးတော် အဉ္စနမင်းဖြိုကြွင်းသက္ကရာဇ် ၆၈ ခု ကဆုန်လပြည့်သောကြာနေ့တွင် ဖွားမြင်တော်မူသည်။

ဌာနကား အိန္ဒိယနိုင်ငံ ကပိလဝတ် နေပြည်တော်၊ ခမည်း

တော်ကား သုဒ္ဓေါဒနမင်းကြီး၊ မယ်တော်ကား သီရိမဟာမာယာမိဖုရားကြီး၊ အမည်တော်ကား သိဒ္ဓတ္ထမင်းသား ဖြစ်လေသည်။

အရွယ်တော် ဆဲ့ခြောက်နှစ်မှစ၍ နှစ်ဆဲ့ကိုးနှစ် အတွင်း ထီးနန်းစည်းစိမ်ကို ခံစားသည်။ မိဖုရားကြီးကား ယသောရောဓိမ္ဗာဒေဝီ၊ သားတော်ကား ရာဟုလာ ဖြစ်သည်။

သူအို၊ သူနာ၊ သူသေ၊ရဟန်းအသွင် နိမိတ်ကြီး လေးပါးကို မြင်သဖြင့်၊သတိသံဝေ ရလျက် ၉၇ ခု ဝါဆိုလပြည့် တနင်္လာနေ့တွင် တောထွက်၍၊ ရဟန်းပြုတော်မူသည်။

ခြောက်နှစ်ပတ်လုံး ဒုက္ကရ စရိယာအကျင့်ကို ကျင့်ပြီးလျှင် ၁၀၃ ခု ကဆုန်လပြည့် ဗုဒ္ဓဟူးနေ့ ဗောဓိပင်ရင်းဝယ်၊ သဗ္ဗညုတဉာဏ်တော်ကို ရ၍၊ လောကသုံးပါးတွင် ဘုရားစင်စစ်ဖြစ်တော်မူသည်။

ဘုရားဖြစ်ပြီးနောက်၊ ၄၅ ဝါပတ်လုံး တရားဟောကာ၊ အညာတကောဏ္ဍညအစ၊ သုဘဒ္ဒအဆုံးရှိသော ဝေနေယျများစွာ သတ္တဝါတို့ကို နိဗ္ဗာန်သို့ ပို့ဆောင်တော်မူပြီးလျှင်၊ ၁၄၈ ခု ကဆုန်လပြည့် အင်္ဂါနေ့တွင် ပရိနိဗ္ဗာန်စံဝင်တော်မူသည်။

၄၅ ဝါပတ်လုံး နေ့စဉ် ပြုလုပ်အပ်သော လုပ်ငန်းများကား၊

(၁)ပုရေဘတ္တကိစ္စ .... နံနက်ဆွမ်းခံကြွခြင်း၊
(၂)ပစ္ဆာဘတ္တကိစ္စ .... ညနေ ဒါယကာ ဒါယိကာမတို့အား တရားဟောခြင်း၊
(၃)ပုရိမ ယာမကိစ္စ .... ညဉ့်ဦးယာမ် ရဟန်းများ အားတရားဟောခြင်း၊
(၄)မဇ္ဈိမယာမကိစ္စ .... ညဉ့်လယ်ယာမ် နတ်များ အားတရားဟောခြင်း၊
(၅)ပစ္ဆိမယာမကိစ္စ .... ညဉ့်နောက်ဆုံးယာမ်ကို သုံးပုံ ပုံ တပုံ စင်္ကြံသွားခြင်း၊ တပုံကျိန်းစက်ခြင်း၊ တပုံ ကျွတ်ထိုက်သော သတ္တဝါတို့ကို ကြည့်ရှုခြင်း ဟူ၍ ငါးပါးဖြစ်သည်။

ဂုဏ်တော်ကား၊

(၁)အရဟ .... ပူဇော် အထူးကို ခံတော်မူထိုက်ခြင်း၊
(၂)သမ္မာသမ္ဗုဒ္ဓ .... ဉေယျဓမ်တရား အလုံးစုံကို အကုန်အစဉ် သိမြင်တော်မူခြင်း၊
(၃)ဝိဇ္ဇာစရဏသမ္ပန္န.... ဝိဇ္ဇာသုံးပါး၊ ဝိဇ္ဇာ ရှစ်ပါး၊ စရဏတဆဲ့ ငါးပါးနှင့် ပြည့်စုံ တော်မူခြင်း၊
(၄)သုဂတ .... ကောင်းသော စကားကို ဆိုတော်မူခြင်း၊
(၅)လောကဝိဒူ .... လောက သုံးပါးကို သိတော်မူခြင်း၊
(၆)အနုတ္တရောပုရိသဒမ္မသာရထိ....ဆုံးမသင့် ဆုံးမထိုက်သော သူတို့ကို ဆုံးမရာ၌ အတုမရှိ မြတ်တော်မူခြင်း၊
(၇)သတ္ထာဒေဝမနုဿာန ....နတ်လူတို့ ဆရာ ဖြစ်တော်မူခြင်း၊
(၈)ဗုဒ္ဓ ....သစ္စာ လေးပါးကို သိတော်မူခြင်း၊
(၉)ဘဂဝါ ....ဘုန်းတော် ခြောက်ပါး နှင့်ပြည့်စုံတော်မူခြင်း၊

ဟူ၍ ကိုးပါးဖြစ်သည်။

ထိုမှတပါး မက္ခလိ၊ ပူရဏ၊ အဇိတ၊ ပကုဒ္ဓ၊ နိဂဏ္ဌ၊ သဉ္စယ ဟူ၍ အယူဝါဒကို ပြုလုပ်တတ်သော တိတ္ထိဆရာကြီး ခြောက်ဦးကိုလည်း ဘုရားဟုခေါ် ဆိုကြသည်။ ထိုသို့ခေါ် ဆိုကြသော်လည်း၊ ယင်းဆရာကြီး ခြောက်ဦးတို့မှာ ယခင်ပြဆိုခဲ့သော ကြီးကျယ်မြင့်မြတ်ခြင်း အမျိုးမျိုးနှင့် မပြည့်စုံသည့်အတွက် ဘုရား မမည်နိုင်ပေ။ ဦးကြီးဖေ

**ဘုရားကိုးဆူ။** ။ဘုရားကိုးဆူ ဆိုရာမှာ....(၁) ဘုရား (၂) ရှင်သာရိပုတ္တရာ (၃) ရှင်မောဂ္ဂလာန် (၄) ရှင်ကောဏ္ဍည (၅) ရှင်အာနန္ဒာ (၆) ရှင်ဂဝံပတိ (၇) ရှင်ရာဟုလာ (၈) ရှင်ရေဝတ (၉) ရှင်ဥပါလိဟူ၍ ဘုရားတပါးနှင့် ရဟန္တာရှစ်ပါးကို ပေါင်း၍ ပူဇော်သည်ကို အစွဲပြုကာ ဘုရားကိုးဆူ ခေါ် ဆိုခြင်း ဖြစ်သည်။

လောကီဆရာတို့ အသုံးပြုသော (သံ-ဂုံ-ပ-မ-ယျ) ကကုသန်၊ ကောဏာဂုံ၊ ကဿပ၊ ဂေါတမ၊ မေတ္တေယျ ဘုရားငါးဆူ၊ အာဋာနာဋိယသုတ်၌ ဝေဿဝဏ်နတ်မင်းကြီး မိမိသိမှီသမျှ ဘုရားကို လျှောက်ထားသော ဝိပဿီ၊ သိခီ၊ ဝေဿဘူ၊ ကကုသန်၊ ကောဏာဂုံ၊ ကဿပ၊ ဂေါတမ ဘုရားခုနစ်ဆူ၊ ဘုရားနှစ်ကျိပ်ရှစ်ဆူ စသည်ဖြင့် သူ့နေရာနှင့်သူ ခေါ် ဝေါ် အသုံးပြုကြသည်လည်း ရှိသေး၏။

ယင်းဘုရားကိုးဆူ၌ ဘုရားတပါးနှင့် ရဟန္တာ ရှစ်ပါးဖြစ်၍ ဘုရားချည်း မဟုတ်ဘဲလျက် ဘုရားကိုးဆူဆိုရာမှာ ပြဋ္ဌာန်းသောဘုရားကို အစွဲပြု၍ ပဓာနနည်းအားဖြင့်ငှင်း၊သို့မဟုတ် ဘုရားနှင့် ရဟန္တာကား ဒက္ခိဏေယျပူဇာရဟ (မြတ်သောအလှူကို ခံယူထိုက်သဖြင့် ပူဇော်ထိုက်သော) လက္ခဏာ ချင်းတူရကား နေတ္တိပါဠိတော်၊ ဟာရတဆဲ့ခြောက်ပါးတွင် ပြဆိုအပ်သော လက္ခဏာဟာရနည်းအားဖြင့်ငှင်း ရဟန္တာကို ဘုရားနှင့် အတူထား၍ ဘုရားကိုးဆူ ခေါ် ဆိုခြင်း ဖြစ်လေသည်။

ထိုသို့ယူခဲ့သော် ယင်းရဟန္တာရှစ်ပါးသာမဟုတ်၊ ရဟန္တာ

အများကိုပင် ဘုရားဟူသောအနက်အဓိပ္ပါယ်ဖြင့် ယူသင့်ပေသည်။ ထိုသို့ ယူသင့်သော်လည်း၊ ရဟန္တာအများကို မယူဘဲ အရပ်ရှစ်မျက်နှာ အနေအထားအားဖြင့် အသင့်လျော်ဆုံး ဖြစ်သော ယင်းရဟန္တာရှစ်ပါးကိုသာ ဘုရားကိုးဆူ ပူဇော်ရာ၌ ယူအပ်လေသည်။

ဘုရားကိုးဆူပူဇော်သော အလေ့အထမှာလည်း သက္ကရာဇ် ၇၆၇ ခုနှစ်လောက်က ဇင်းမယ်ပြည်တွင် တရုပ်တရက်တို့ နှောင့်ယှက်လာသောအခါ၊ ရွှတ်ဖတ်နာယူသူတို့ကိုဘေးကြီးမှ လွတ်ကင်းအေးချမ်းရန် ရှင်သီလဝံသ ရေးသား အပ်သော ဥပ္ပါတသန္တိကျမ်း ဖြစ်ပေါ်လာပြီးနောက်၊ ပိဋကတ်တော်၌ ကျွမ်းကျင်လိမ္မာသော ဆရာတော်တို့ ညွှန်ကြားစီမံချက်အရ ဖြစ်ပေါ်လာဟန်တူသည်။ အကြောင်းကား ဘုရားကိုးဆူပူဇော်ရာ၌ဘေးအန္တရာယ်ကင်း၍ ကောင်းကျိုးချမ်းသာ ဖြစ်စေခြင်းငှါ ဥပ္ပါတသန္တိကျမ်းကို ရွှတ်ဖတ်လေ့ရှိသောကြောင့် ဖြစ်သည်။

တကြောင်းလည်း ဇင်းမယ်ပြည်တွင် နှစ်ပေါင်းများစွာ ရှေးအခါကပင် (၁) တနင်္ဂနွေ (၂) တနင်္လာ (၃) အင်္ဂါ (၄) ဗုဒ္ဓဟူး (၅) စနေ (၆) ကြာသပတေး (၇) ရာဟု (၈) သောကြာ (၉) ကိတ်ဟူသော ဂြိုဟ်ကြီးကိုးလုံးကို ပူဇော်သော အလေ့အထ ရှိခဲ့ဟန်တူသည်။ နက္ခတ်ဗေဒင်ကို အယူအဆရှိသောသူတိုင်း ဂြိုဟ်ကြီးကိုးလုံးကို စောင့်သော နတ်တို့တွင် တနင်္လာ၊ ဗုဒ္ဓဟူး၊ ကြာသပတေး၊ သောကြာ သောမဂြိုဟ်လေးလုံးကိုစောင့်သောနတ်တို့သည် လူတို့အား ကောင်းကျိုးကို ပေးတတ်သည်။ တနင်္ဂနွေ၊ အင်္ဂါ၊ စနေ၊ ရာဟု ပါပဂြိုဟ်လေးလုံးကို စောင့်သောနတ်တို့သည် မကောင်းကျိုးကို ပေးတတ်သည်ဟု ယူဆကြသည်။ ယူဆကြသည့်အတိုင်း မကောင်းကျိုး ပျောက်၍ ကောင်းကျိုး ရောက်အောင် ပူဇော်ကြခြင်း ဖြစ်လေသည်။

ဥပ္ပါတသန္တိကျမ်းပေါ်ပြီးနောက် နှစ်ပေါင်း တရာ့ ငါးဆယ်ကျော်၊ သက္ကရာဇ် ၉၁၉ ခုနှစ်သို့ ရောက်သော အခါ၊ ဟံသာဝတီ ဆင်ဖြူများရှင် မင်းတရားကြီးသည် ဇင်းမယ်ကို အောင်နိုင်၍သားတော်နော်ရထာကို ဇင်းမယ်ဘုရင် အဖြစ်လွှဲအပ်အုပ်ချုပ်စေသည်။ ထိုအခါ ပိဋကတ်တော်မှစ၍ ဇာပေကျမ်းဂန် ကျွမ်းကျင်လိမ္မာသော ပုဂ္ဂိုလ်အများ ထွန်းကားခဲ့သည်။

ယင်းဘုရင်လက်ထက် ပိဋကတ်တော်၌ ကျွမ်းကျင် လိမ္မာသော ဆရာတော်တို့သည် ဤဇင်းမယ်ပြည်၌ ဂြိုဟ်ကြီးကိုးလုံးကို ပူဇော်ကြသည်ကား လောကီအကျိုးမျှသာ ရည်ရွယ်ကြသည်။ တပည့်လိမ္မာသည် ဆရာကို သရက်ပင်ရင်း၌ ရေချိုးစေသဖြင့် ဆရာရေချိုးခြင်း ကိစ္စ၊ သရက်ပင် ရေလောင်းခြင်းကိစ္စ နှစ်ကိစ္စ ပြီးစေသော (အမ္ဗသေဝနကရ သိနန) နည်းဖြင့် အကျိုးစီးပွားများရာသကဲ့သို့၊ ဂြိုဟ်ကြီးကိုးလုံး ပူဇော်ရာဝယ် ဘုရားကိုးဆူကို ထည့်သွင်းပူဇော်စေရလျှင် ဂြိုဟ်ကြီးကိုးလုံး ပူဇော်ခြင်းကိစ္စ၊ ဘုရားကိုးဆူ ပူဇော်ခြင်းကိစ္စ နှစ်ကိစ္စပြီးစေ၍ အကျိုးစီးပွား များရာသည် ဟူသော ရည်ရွယ်ချက်ဖြင့် ပြည်သူပြည်သားတို့အား ဂြိုဟ်ကြီးကိုးလုံးနှင့် တွဲဖက်၍ ဘုရားကိုးဆူကိုပါ တပြိုင်တည်း ပူဇော်ရန် စီမံပေးကြသည်။ ထိုအခါကစ၍ ဘုရားကိုးဆူ ပူဇော်ခြင်း အလေ့အထ ဖြစ်ပေါ်လာဟန် တူသည်။ နောက် မြန်မာနိုင်ငံသို့ ရောက်လာကာ ယနေ့ထက်တိုင် ပူဇော်လျက် ရှိလေသည်။

ပူဇော်သောအခါ ဘုရားကိုးဆူထားရန် အစီအစဉ်မှာ အောက်ပါအတိုင်း ဖြစ်သည်။

(၁) ဘုရားကို လူနတ်တို့ဆရာ ရဟန်းသံဃာတို့ အကြီးအမှူးဖြစ်၍ အလယ်ဗဟိုအရပ်၌ ထားရသည်။

(၂) ရှင်သာရိပုတ္တရာကို ဘုရား၏ လက်ျာတော်ရံဖြစ်၍ တောင်အရပ်၌ ထားရသည်။

(၃) ရှင်မောဂ္ဂလာန်ကို ဘုရား၏ လက်ဝဲတော်ရံဖြစ်၍ မြောက်အရပ်၌ ထားရသည်။

(၄) ရှင်ကောဏ္ဍညကို ရဟန္တာရှစ်ပါးတွင် သိက္ခာဝါ အအကြီးဆုံး ဖြစ်၍ အရှေ့အရပ်၌ ထားရသည်။

(၅) ရှင်အာနန္ဒာကို ဘုရား၏ အလုပ်အကျွေး နောက်တော်ပါဖြစ်၍ အနောက်အရပ်၌ ထားရသည်။

(၆) ရှင်ဂဝံပတိကို ရာဟုဂြိုဟ်၏ အရှင်ဖြစ်၍ရာဟုဂြိုဟ်တည်နေရာအနောက်မြောက်အရပ်၌ ထားရသည်။ (ဂဝံပတိ၌ဂေါသဒ္ဒါနွားအနက်ကိုရသည်။ ပသုသဒ္ဒါလည်း နွားအနက်နှင့် ရာဟုဂြိုဟ်အနက်ကို ရသည်။ ရာဟုဂြိုဟ်အနက်ကို ရသော ပသုသဒ္ဒါသည် ဂေါသဒ္ဒါကဲ့သို့ နွားအနက်ကိုလည်းရသောကြောင့် ဂေါသဒ္ဒါလည်း နွားအနက်သာမဟုတ် ရာဟုဂြိုဟ်အနက်ကိုလည်း ရနိုင်သည်။ ထိုအတွက် ဂဝံပတိသဒ္ဒါသည် ရာဟုဂြိုဟ်အရှင်ဟု ဆိုပါသည်။)

(၇) ရှင်ရာဟုလာကို ရဟန္တာရှစ်ပါးတွင် သိက္ခာဝါအငယ်ဆုံးဖြစ်၍ အသက်အငယ်ဆုံးဖြစ်သော တနင်္ဂနွေဂြိုဟ်တည်နေရာ အရှေ့မြောက်အရပ်၌ထားရသည်။

(၈) ရှင်ရေဝတကို ရှင်သာရိပုတ္တရာ၏ညီတော်ရင်း ဖြစ်၍ ရှင်သာရိပုတ္တရာ၏အနီး အရှေ့တောင် အရပ်၌ထားရသည်။

(၉) ရှင်ဥပါလိကို ဝိနည်းကို ဆုံးဖြတ်ရသော ဝိနည်းဓိုရ်ဖြစ်၍ ရှေးအခါက တရားသူကြီး ဖြစ်ဘူးသော စနေဂြိုဟ် တည်နေရာ အနောက် တောင်အရပ်၌ ထားရသည်။

ဘုရားကိုးဆူပူဇော်ရာ၌ ဘုရား ကိုးဆူသက်သက်လည်း ပူဇော်နိုင်သည်။ ဂြိုဟ်ကြီးကိုးလုံးနှင့်တနေရာတည်းတွဲဖက်၍

လည်း ပူဇော်နိုင်သည်။ တနေ့ရာစီခွဲ၍လည်း ပူဇော် နိုင်သည်။ ပူဇော်သောအခါ ဂြိုဟ်ကြီးကိုးလုံးကို ထားရန်မှာ အောက်ပါ အစီအစဉ်အတိုင်း ဖြစ်သည်။

(၁) တနင်္ဂနွေဂြိုဟ်ကို အရှေ့မြောက်အရပ်၌ ထားရသည်။
(၂) တနင်္လာဂြိုဟ်ကို အရှေ့ အရပ်၌ ထားရသည်။
(၃) အင်္ဂါဂြိုဟ်ကို အရှေ့တောင်အရပ်၌ ထားရသည်။
(၄) ဗုဒ္ဓဟူးဂြိုဟ်ကို တောင်အရပ်၌ထားရသည်။
(၅) စနေဂြိုဟ်ကို အနောက်တောင်အရပ်၌ ထားရသည်။
(၆) ကြာသပတေးဂြိုဟ်ကို အနောက်အရပ်၌ ထားရသည်။
(၇) ရာဟုဂြိုဟ်ကို အနောက်မြောက်အရပ်၌ ထားရသည်။
(၈) သောကြာဂြိုဟ်ကို မြောက်အရပ်၌ ထားရသည်။
(၉) ကိတ်ဂြိုဟ်ကို အလယ်ဗဟိုအရပ်၌ ထားရသည်။

ဘုရားကိုးဆူနှင့် ဂြိုဟ်ကြီးကိုးလုံးကို ပူဇော်ရာ၌ ပိုမို စုံလင်အောင် ထည့်သွင်းလိုလျှင် (၁) သုရဿတီ (၂) စန္ဒီ (၃) ပရမိသွာ (၄) မဟာပိန္နဲ (၅) ဂေါရမန္တ နတ်မင်းကြီးငါးပါးနှင့် (၆) ရုက္ခစိုး (၇) ဘုမ္မစိုး (၈) အာကာသစိုး (၉) အိမ်စောင့်နတ် ဟူ၍ နတ်ကိုးပါးကို ထည့်သွင်းနိုင်ပေသည်။ အကယ်၍ ထည့်သွင်းလျှင် ဘုရားကိုးဆူ (၉) ပွဲအစုံအလင်၊ ဂြိုဟ်ကြီးကိုးလုံး (၉) ပွဲအစုံအလင်၊ နတ်ကိုးပါး (၉) ပွဲအစုံအလင်၊ အားလုံး (၂၇) ပွဲပြင်ရသည်။

"ဒါနဝတ္ထု၊စုစုမြားမြောင်၊ ကျောင်းဆောင်ဆီမီး၊ တံခွန်ထီးနှင့်၊ သစ်သီးသုံးထွေ၊ မသွေရေချမ်း၊ ပန်းလည်းသုံးပါး၊ မုံ့ကားဖြူနီ၊ ယိုစုံစီနှင့်၊ တလီအုံလောက်၊ ပေါက်ပေါက်ချိုဖြုန်း၊ ကြံအုန်းငှက်ပျော၊ ချိုမောနှစ်သက်၊ လက်ဖက်ကွမ်းယာ၊ သုခါစုံလင်၊ ဆွမ်းဘောဇဉ်" ဟု ရှေးဆရာကြီးများ စပ်ဆိုထားသည့်အတိုင်း —

ဆွမ်းချက်ရန် အစီအစဉ်.... ဆန်ကျိုးမပါ ဆန်သစ်ဆန်ကောင်းကို (၉) နဝင်းကြေ၊ ချက်လိုသလောက် (၉) ခွက်ချင့်၍ (၉) ကြိမ်ဆေး၊ မချက်ဖူးသေးသော အိုးသစ်တွင်ထည့်၍ ဆီးသားထင်း၊ ဆီးသားယောက်မ၊ သို့မဟုတ် သန့်သော ထင်းယောက်မ၊ ဖိုခနောက်ကို ဂဠုန်ရုပ်၊ နဂါးရုပ်၊ ခြင်္သေ့ ရုပ်ခံ၍ နံနက် အရုဏ်တက်ဆွမ်းကပ်မှီ မတူးမခြစ်အောင် ချက်ရမည်။

ဆွမ်းချက်သော နေရာကို သန့်ပြန့်စွာ ပြုလုပ်၍ သဲဖြူခင်း ရာဇမတ်ကာ၊ အထက်က ပိတ်မျက်နှာကြက် ကြက်၊ ထောင့်လေးထောင့်နှင့် အလယ်မီးထွန်း၊ ထောင့်လေးထောင့်၌ ငှက်ပျောအုန်းစိုက်၊ ရာဇမတ်ပေါ် တွင် တံခွန်ကုက္ကား ကြက်လျှာ ထီးတံခွန် စိုက်ရမည်။

ဆွမ်းချက်မည့်သူ စောစောထ ရေချိုး၊ ခေါင်းလျှော်၊ ဝတ်ဖြူစင်ကြယ်ဝတ်၊ ငါးပါးသီလခံပြီး ရာဇမတ်တွင်းဝင်၊ မင်းကိုယ်ချည် (ပရိတ်ချည်) ပတ်မိအောင်ပတ်၊ ဆွမ်းမကျက်မီ အပြင်မထွက်နှင့်၊ ဆွမ်းကျက်မှ အပြင်ထွက်ရမည်။

ပွဲပြင်ရန်အစီအစဉ် — ကျောင်းဆောင်၊ သို့မဟုတ် စားပွဲကြီး၊ဆီမီးဖယောင်းတိုင်၊ ထီး၊ တံခွန်၊ ကုက္ကား၊ ကြက်လျှာ၊ သစ်သီး သုံးမျိုး၊ ပန်းသုံးမျိုး၊ ယိုသုံးမျိုး၊ မုံ့ဖြူ၊ မုံ့နီ၊ ပေါက်ပေါက်၊ ကြံ၊ အုန်းငှက်ပျော၊ လက်ဖက်၊ ကွမ်းယာ၊ ဆွမ်း၊ ရေချမ်းစုံလင်အောင် စီစဉ်ရမည်။ သို့မဟုတ် မိမိတို့စွမ်းနိုင်သလောက် စီစဉ်နိုင်သည်။ ပွဲပြင်ရာ၌ ဘုရားကိုးဆူအတွက် ကိုးပွဲအစုံအလင်၊ ဂြိုဟ်ကြီးကိုးလုံးအတွက် ကိုးပွဲအစုံ အလင်၊ နတ်ကိုးပါးအတွက် ကိုးပွဲအစုံအလင် ညဦးကပြင်ဆင်ထားရမည်။ ဆွမ်းပွဲကို နံနက် အရုဏ်တက်မှ ပြင်ဆင်ရမည်။

ပူဇော်ပုံ အစီအစဉ် — ရှေးဦးစွာ ခွင့်ပန်သော အနေဖြင့် ညဦးယာမ်ဘုရားပင့်၊ နောက် အရုဏ်တက်သောအခါ ထပ်၍ ဘုရားပင့်ပြီးလျှင် ရဟန္တာရှစ်ပါးကို အစဉ်အတိုင်းပင့်၊ ပူဇော်၊ ဆုတောင်း၊ရေစက်ချ၊ အမျှပေးဝေရမည်။ နောက်ဂြိုဟ်ကြီးကိုးလုံးနှင့် နတ်ကိုးပါးကိုလည်း ထိုအစီအစဉ် အတိုင်းပင့်၊ ပူဇော်၊ ဆုတောင်း၊ နောက် ဂြိုဟ်ကြီးကိုးလုံးကို အစဉ်အတိုင်း ပြန်ပို့ရမည်။

မှတ်ချက်။ ။ဘုရားကိုးဆူပူဇော်နည်းကို သက္ကရာဇ် ၁၂၂၁ ခုနှစ် နတ်တော် လဆန်း ၁၃ ရက်နေ့ ကင်းဝန်မင်းကြီး စာရေးတော်ကြီး ဘဝက လျှောက်ထားသဖြင့် ဒုတိယ မောင်းထောင်ဆရာတော် ဦးပုညာသာမိ ဖြေဆို ဆုံးဖြတ်အပ်သော (ဗုဒ္ဓနဝမပူဇာဝိနိစ္ဆယ) နှင့်သက္ကရာဇ် ၁၂၃၄ ခုနှစ်တွင် ဇိနတ္ထပကာသနီစသော ကျမ်းပေါင်းများစွာ ပြုစု စီရင်သည့် ကြီးသဲလေးထပ် ဆရာတော် ဘုရားကြီး ရေးသားသော သဇ္ဇနဝိလာသနီ ကျမ်းတွင် ပါသော (ဘုရားကိုးဆူကပ်) တို့မှ ယူ၍ထည့်သွင်း ရေးသားပါသည်။ ။ဂြိုဟ်ကြီး ကိုးလုံး ပူဇော်နည်းကို ရှေးဆရာကြီးများ ရေးသား ထားသော နည်းကိုယူ၍ ထည့်သွင်း ရေးသားပါသည်။ ဦးကြီးဖေ

**ဘုရားကြီးဆရာတော်** (မြန်မာ ၁၁၇၂–၁၂၄၆)။ ။ မန္တလေးမြို့၊ ဘုရားကြီး ဆရာတော် ဘုရားသည် မိတ္ထီလာမြို့ ရွှေပြည်ရန်အောင် အရှေ့လက် တာ ၂ ထောင်ကျော်ကွာ ကဖြူရွာ၌ သက္ကရာဇ် ၁၁၇၂ ခုနှစ်တွင် ဖွားမြင်တော်မူသည်။ ငယ်မည်တော် ဦးညိုဖြစ်သည်။ ဘွဲ့အမည်တော်ကား ဦးဇာဂရဖြစ်သည်။ ဆရာတော်၏ ငယ်ဆရာရင်းကို မသိရချေ။

မှတ်တမ်းတခု အဆိုအရ ဘုရားကြီးဆရာတော်သည် ရှင်သာမဏေ အဖြစ်ကပင် အမရပူရ နေပြည်တော်သို့ ရောက်ရှိကာ စရပ်တခုတွင် ဆင်းရဲငြိုငြင်စွာနေပြီးလျှင် ထင်ရှား ကျော်ကြားသော ဆရာများထံတွင် နည်းခံသင်ယူသည်ဟု သိရသည်။ ရဟန်း ၃ ဝါအရတွင် ပုဂံမင်း၏ဆရာ ဗားကရာ သာသနာပိုင် ဆရာတော် ဘုရားကြီးရေးသား ဖွဲ့စီသည့် ဂါထာများ မှားနေကြောင်း သံဃာ ပရိသတ်အလယ်တွင် ရဲရဲတောက် လျှောက်ထားသည်ဟူ၍ ထိုမှတ်တမ်းက ဆိုလေသည်။ ဘုရားကြီးဆရာတော်သည် သာသနာပိုင် ဒုတိယ ဗားကရာ ဆရာတော်ဘုရားကြီးထံတွင် နည်းခံသင်ကြား၍ မိမိကလည်း တဆင့် စာပေပို့ချတော်မူလေသည်။ သာသနာပိုင် ဗားကရာဆရာတော် ဘုရား၏ ထင်ရှားသော တပည့်ကြီးတို့တွင် တပါးအပါအဝင် ဖြစ်သည်။ သာသနာပိုင် ဗားကရာ ဆရာတော်ကြီးက အသောကာရာမတိုက် အတွင်း စနေထောင့်သုံးထပ်ကျောင်းတွင် ဦးဇာဂရကို နေထိုင်စေပြီး စာချပို့စေသည်။ ပိဋကတ်စာပေ ကျွမ်းကျင် နိုင်နင်းတော်မူလှသဖြင့် စာလိုက်သော သံဃာ ၄၀၀ နီးပါးခန့် ရှိသည်ဟု အဆိုရှိလေသည်။

ဘုရားကြီး ဆရာတော် ဦးဇာဂရသည် ရဟန်းပျို ဘဝငယ်ရွယ်စဉ်ကပင် ပရိယတ္တိအရာ စာပေကျမ်းဂန်တတ်ကျွမ်းတော်မူခဲ့သောပုဂ္ဂိုလ်ထူး တပါးဖြစ်သည်။ သက်တော် ၂၅၊ ၂၆၊ ရဟန်း ၆ ဝါရတော်မူစဉ်ကပင် သဒ္ဒဝုတ္တိဋီကာနှင့် ဂန္ထာဘရဏဋီကာများကို ရေးသားတော်မူခဲ့သည်။ ယင်းကျမ်းများမှာ ပါဠိဘာသာဖြင့် ရှိသည့် သဒ္ဒဝုတ္တိကျမ်းနှင့် ဂန္ထာဘရဏကျမ်းကို ပါဠိဘာသာဖြင့် ဖွင့်ဆိုရေးသားသည့် ဋီကာကျမ်းများဖြစ်သည်။ ယင်းကျမ်းများ၏ နိဂုံး၌ ၆ ဝါရစဉ်က ရေးကြောင်း ကိုယ်တိုင် ရေးသား ထားလေသည်။ ထို့ပြင် ယင်းဋီကာကျမ်း နှစ်ကျမ်းအနက် သဒ္ဒဝုတ္တိဋီကာ ကျမ်းကို ၁၁၈၇ ခုနှစ် တန်ဆောင်မုန်းလပြည့်နေ့က ပြီးသည်။ ဂန္ထာဘရဏဋီကာကျမ်းကို ၁၁၈၇ ခုနှစ် နတ်တော်လဆန်း ၈ ရက်နေ့ပြီးသည်ဟု ပါရှိသဖြင့် ဆရာတော်ဦးဇာဂရသည် ဒုတိယ ဋီကာကျမ်းကို ၂၃ ရက်ဖြင့် အပြီးရေးသားတော်မူကြောင်း သိရသည်။

ဘုရားကြီး ဆရာတော်သည် ငယ်စဉ်ကပင် စာပေပိဋကတ်ဖက်၌ ထက်မြက်ထူးချွန်တော်မူသည့် ပုဂ္ဂိုလ်ထူးတပါး ဖြစ်သော်လည်း ပညာဖက်က သန်သောကြောင့် ဘုန်းကြီးသည့်ဖက်က ညံ့ခဲ့လေသည်။

သက္ကရာဇ် ၁၂၀၅ ခုနှစ် ရဟန်းဝါ ၁၄ ဝါရစဉ်က ရေးသားပြီးသည့် သင်္ဂြိုဟ်ဂဏ္ဌိသစ်ကျမ်းနိဂုံး၌ "ဇာဂရောတိ၊ ဇာဂရဟူ၍။နာမေန၊အမည်သညာထင်ရှားစွာထသော။မေမယာ၊ငါပဉ္စင်းသည်" ဟူ၍ ရေးသားပါရှိသည်ကို ထောက်၍ ထိုအချိန်အထိ ကိုယ်ပိုင်တိုက်တာ အသီးအခြားဖြင့် ထင်ရှားတော်မမူသေးကြောင်း သိနိုင်သည်။ သက္ကရာဇ် ၁၂၀၉ ခုနှစ် တပေါင်းလတွင် မင်းတုန်းမင်းကြီးကိုယ်တော်တိုင်ကျောင်းတင် လှူဒါန်းခြင်းခံတော်မူရသည်။ ထိုအခါမှစ၍ ထင်ရှား ကျော်စောတော်မူလာသည်။

ဘုရားကြီးဆရာတော်သည် မင်းတုန်းမင်းလက်ထက် သက္ကရာဇ် ၁၂၁၇ ခုနှစ်ပဌမဝါဆိုလပြည့်ကျော် ၁ ရက်နေ့တွင်"ဇာဂရာဘိသိရိပဝရ လင်္ကာရ မဟာဓမ္မရာဇာဓိ ရာဇဂုရု"ဟူသော ပဌမတံဆိပ်တော်ကို ခံယူတော်မူရသည်။ ထို့နောက် သက္ကရာဇ် ၁၂၁၈ ခုနှစ် တန်ခူးလတွင် မင်းတုန်းမင်းကြီးသည် ပိဋကတ်တော်များကို တည်းဖြတ်သုတ်သင် ပြင်ဆင်ရေးကူးစေတော်မူသောအခါ ဘုရားကြီး ဆရာတော် အမှူးရှိသော ဆရာတော်သုံးပါးအား ပိဋကတ်တော် များကို မှန်ကန်သေချာအောင် အမြဲမပြတ် ကြပ်မပြင်ဆင် ကြည့်ရှုတော်မူရန် လျှောက်ထားပြီးလျှင် တံဆိပ်တော်များ လှူဒါန်းဆက်ကပ်တော်မူသည်။ ထိုအခါက ဘုရားကြီး ဆရာတော်သည် ''ဇာဂရာဘိဝံသ တိပိဋကဓရ မဟာဓမ္မ ရာဇာဓိရာဇဂုရု" ဟူသော ဒုတိယတံဆိပ်တော်ကို ခံယူတော်မူရသည်။

ဘုရားကြီး ဆရာတော်အား ကပ်လှူသည့် တံဆိပ်တော်တွင် သာ "တိပိဋကဓရ" ဟူသော စကားပါ၍ ကျန်ဆရာတော် နှစ်ပါးအား ကပ်လှူသည့် တံဆိပ်တော်များတွင် "တိပိဋကဓရ" ဟူသော စကားမပါချေ။ ယင်းကို ထောက်၍ ဘုရားကြီး ဆရာတော်သည် ပိဋကတ်သုံးပုံဆောင်ဆရာတော် အဖြစ် မင်းတုန်းမင်းကြီး၏ အသိအမှတ် ပြုခြင်းကို ခံရကြောင်း ထင်ရှားသည်။

သက္ကရာဇ် ၁၂၂၂ ခုနှစ် တန်ဆောင်မုန်း လဆန်း ၁ ရက်နေ့ကစ၍ ပိဋကတ်တော်များကို ကျောက်ထက်အက္ခရာတင်တော်မူသော အခါ၌လည်း ပုဒ်ပါဠိအက္ခရာ ကျောက်စာ အရေးအသား မချွတ်မယွင်း စေရအောင် သန့်ရှင်း ပြင်ဆင်တော်မူရသော ဆရာတော်သုံးပါးတွင် "တိပိဋကဓရ" ဘုရားကြီး ဆရာတော်ပင် ဦးဆောင် ပုဂ္ဂိုလ်ဖြစ်သည်။ မင်းတုန်းမင်းကြီးသည် သားတော် စကုမင်းသား၊ မက္ခရာမင်းသား၊ ညောင်ရမ်းမင်းသား၊ မိုးညှင်းမင်းသား၊ မြင်းခုံတိုင်မင်းသား၊ ရေနံမင်းသားတို့ကို ရှင်ပြုစဉ်က သင်္ကန်းတောင်း သာမဏေ ကျင့်ဝတ်တို့ကို သင်ကြားရန် ဘုရားကြီး ဆရာတော်ဘုရားထံ၌ပင် အပ်နှံတော်မူလေသည်။

ဘုရားကြီး ဆရာတော်သည် အောက်ပါ ကျမ်းများကို ရေးသားပြုစုတော်မူခဲ့သည်။ (၁) ဂန္ထာဘရဏဋီကာသစ်၊ (၂) ဏွာဒိမောဂ္ဂလာန်နိသျသစ်၊ (၃) ဒီပဝင်ဋီကာ၊ (၄) ဒီပဝံသစာကိုယ်နိသျ၊ (၅) ဒီပဝံသဋီကာနိသျ၊ (၆) နေတ္တိပါဠိတော်နိသျသစ်၊ (၇) ပဒသာဓနမောဂ္ဂလာန် နိသျသစ်၊ (၈) ပါစိတျာဒိအဋ္ဌကထာယောဇနာ၊ (၉)ပါစိတ်ပါဠိတော်နိသျသစ်၊ (၁၀) ပါရာဇိကဏ်ပါဠိတော်နိသျသစ်၊ (၁၁) ဘု



ဘုရားပွဲတော်ရက်အတွင်း ဆွမ်းကြီးလောင်းပွဲကျင်းပစဉ်

ရားကြီးနိယံသစ်၊ (၁၂) ဝုတ္တိမောဂ္ဂလာန်နိသျသစ်၊ (၁၃) သဒ္ဒဝုတ္တိဋီကာ သစ်ပါဌ်၊ (၁၄) သင်္ဂြိုဟ်ဂဏ္ဌိသစ်၊ (၁၅) သံပျင်ဋီကာနိသျ၊ (၁၆) သံဝေဂဝတ္ထုဒီပနီ။

ဘုရားကြီးဆရာတော်သည် သက်တော် ၆၄ နှစ်၊ သက္ကရာဇ် ၁၂၁၆ ခုနှစ်တွင် မန္တလေးမြို့ ဒက္ခိဏာရာမ ဘုရားကြီးကျောင်းတိုက်၌ပင် ပျံလွန်တော်မူလေသည်။

[ဘုရားကြီး ဆရာတော်၏ အတ္ထုပ္ပတ္တိကို ရေးသားရာ၌ ၁၂၄၇ ခုနှစ် မိုင်းခိုင်း မြို့စားအတွင်းဝန် ပိဋကတ်တော်အုပ်ဦးရန်ပြုစုသော ပိဋကတ်သမိုင်း စာတန်း၊ ၁၂၈၇ ခုနှစ်၊ ဟသ်ာတမြို့ မြစ်ကွေးဆရာတော် ဦးပညာဝံသ ရေးသားသော အဘိဓမ္မတ္ထသင်္ဂြိုဟ်ဂဏ္ဌိ ကျမ်းတို့၏ နိဒါန်း၊ ကုန်းဘောင်ဆက် မဟာရာဇဝင်တော်ကြီးတတိယတွဲ၊ ၁၃၁၇ ခုနှစ် ဒဂုန်နတ်ရှင်ရေးသားသော မြန်မာစာပြုစာဆို ပုဂ္ဂိုလ်ကျော်များ အတ္ထုပ္ပတ္တိနှင့် ဘုရားကြီးဆရာတော် ပြုစုသည့် ကျမ်းနိဂုံးများကို ကြည့်ရှုလေ့လာ တိုက်ဆိုင်ရေးသား ပါသည်။]

ဦးထွန်းမြင့်

**ဘုရားပွဲတော်များ။** ။ကမ္ဘာပေါ်ရှိ ဗုဒ္ဓအယူဝါဒ၌သက်ဝင်ယုံကြည်သော နိုင်ငံများအနက် မြန်မာနိုင်ငံသည် စေတီပုထိုး၊ ဘုရားကျောင်းကန် အများပြားဆုံး ဖြစ်သည်။ မည်မျှပင် ဆင်းရဲနွမ်းပါးသောကျေးရွာကလေးဖြစ်စေကာမူ၊ ထုံးဖြူဖြူ စေတီနှင့် ဘုရားတန်ဆောင်း၊ ဘုန်းကြီးကျောင်းတို့ကို တွေ့ရမြဲ ဖြစ်သည်။ သီဝေမြင့်ခေါင်၍ အသွားအလာခက်ခဲသော တောင်ထိပ်ကမ်းပါးတို့နှင့် လူသူအရောက် အပေါက်နည်းပါးလှသော တောကြို အုံကြားတို့၌ပင် စေတီပုထိုးများကို တွေ့ကြရသည်။ ဗုဒ္ဓအယူဝါဒီ မြန်မာတိုင်းရင်းသားတို့သည် မိမိတို့၏ နောင်တမလွန် ကောင်းကျိုး ချမ်းသာအတွက် ဗုဒ္ဓဘုရားရှင်၏ ကိုယ်စား စေတီဘုရားတည်ထားကိုးကွယ်ပြီးလျှင် ကုသိုလ်ကောင်းမှုပြုကြရန် အလွန်ဝါသနာထုံကြသည်။ ဘုရားစေတီများကို တည်ထားပြီးသည့်နောက်တွင် ဓလေ့ထုံးစံအရရင်း၊ ဘုရင်စိုးမင်းတို့၏ အမိန့်အရရင်း ထိုဘုရားစေတီများ၌ ဘုရားပွဲတော်များကို နှစ်စဉ် ကျင်းပရခြင်းသည်လည်း တာဝန်တရပ် ဖြစ်နေပေသည်။ တမြို့တရွာတည်း၌ပင် ဘုရားပုထိုး စေတီတို့သည် တဆူ နှစ်ဆူမက ရှိတတ်လေရာ၊ ဘုရားပွဲတော်များသည် အမြင်အတွေ့များသော ပွဲတော်မျိုး ဖြစ်လေသည်။

မင်းဘူး ရွှေစက်တော်၊ မကွေး မြသလွန်၊ ညောင်ဦး ရွှေစည်းခုံ၊ ကျိုက်ထိုမှ ကျိုက်ထီးရိုးစသော တန်ခိုးကြီး ဘုရားပွဲတော်များသည် (ကျိုက်ထီးရိုး၊ စက်တော်ရာ၊ မြသလွန်ဘုရား၊ ရွှေစည်းခုံဘုရား— ရှု။) နိုင်ငံအစိုးရကိုယ်တိုင်ကြပ်မ၍ နိုင်ငံနှင့် အဝန်းချီပြီးလျှင် ကြီးကျယ် စည်ကားစွာကျင်းပသည့် ဘုရားပွဲတော်များ ဖြစ်သကဲ့သို့ပင်၊ ကျေးလက်တောရွာနှင့်တောကြို အုံကြားမှ ဘုရား ပွဲတော်ကလေးများသည်လည်း နီးစပ်ရာ ကျေးရွာများမှ လူထုအတွက် ကုသိုလ်လည်းရ၊ ပျော်လည်း ပျော်ကြရသော ပွဲတော်များ ဖြစ်ကြလေသည်။

ဘုရားပွဲတော်များ ကျင်းပခြင်းသည် ဆိုင်ရာ ရပ်ရွာ လူထုတို့စုပေါင်းညီညာစွာ ဆိုင်ရာ ဘုရားပုထိုးစေတီတို့၌ ကုသိုလ်ကောင်းမှု ပြုကြခြင်းဖြစ်သည်။ တနည်းအားဖြင့် မိမိတို့ တနှစ်တမိုးဝမ်းရေးအတွက် ရှာဖွေ လုပ်ကိုင်ခဲ့ပြီးနောက်တွင် စုရုံးညီညာကုသိုလ်ကောင်းမှု ပြုကြပြီးသော် စိတ်ပန်း ကိုယ်ပန်းဖြေကာ ပျော်ရွှင်ကြခြင်း ဖြစ်သည်။

ဘုရားပွဲတော်ချိန်တွင် ဘုရားပွဲတော်ကျင်းပသည့် ဘုရား၊ ပုထိုး၊ စေတီအား သပ်ရပ်သန့်ရှင်းကြည်ညိုဖွယ်ရာ ဖြစ်အောင် ဆင်ယင်မွမ်းမံခြင်း၊ လှပဆန်းကြယ်သော ဆွမ်းတော်တင်ခုံများ ပြုလုပ်ခြင်း၊ ညဥ့်အခါ လှပကြည်နူးဖွယ်ရာမီးပူဇော်ခြင်း စသည်တို့ကို ဆိုင်ရာ ရပ်ရွာလူထုက တာဝန် ယူကာ ဆောင်ရွက်ကြသည်။ ယင်းသို့ ကုသိုလ်ရေး အတွက် ဆောင်ရွက်ကြပြီးနောက်၊ ညဥ့်ဖက်တွင် ဇာတ်၊ အငြိမ့်၊ ရုပ်သေးစသော ပျော်ပွဲ ရှင်ပွဲများကျင်းပကာ ဘုရားပွဲတော်ကို စည်ကားသိုက်မြိုက်စေသည်။ ဇာတ်ပွဲ စသည်တို့ ရှိသဖြင့် ပွဲဈေးတန်းများလည်း ရှိရပေရာ၊ အစားအသောက်ဆိုင်၊ ကုန်ပစ္စည်းအမျိုးမျိုး ရောင်းချသောဆိုင်၊ လက်တည့်စမ်းကစားနည်း အမျိုးမျိုး၊ ကလေးများ ပျော်စရာ ဝက်ပါ စသည့်တို့လည်း ပါဝင်သည်။ ကျင်းပသော ဘုရားပွဲတော်ကြီးကျယ်လျှင် ကြီးကျယ်သည့် အလျောက် ပွဲဈေးများလည်း ကြီးကျယ်ကြသည်။ ရှမ်းပြည်မှ ဘော်ကြို ဘုရားပွဲတော်(ဘော်ကြိုဘုရား — ရှု။) ဆိုလျှင် ဆိုင်ရာအာဏာပိုင်များခွင့်ပြုချက်အရ၊ အနီထောင် လေးကောင်ဂျင် စသော လောင်းကစား ဝိုင်းများ ပါဝင်သဖြင့် အလွန်နာမည်ကြီးသောဘုရားပွဲတော် တခုဖြစ်ခဲ့ဘူးလေသည်။

ရှေးအခါက အချိန်မှန် ခင်းကျင်းသော ဈေးကွဲ့သို့သော ကုန်သွယ်ရေး ဗဟိုဌာနများအလွန်နည်းပါးသည်။ အရောင်းအဝယ် ပြုရာတွင်လည်း ငွေအသပြာဖြင့် ရောင်းဝယ်ခြင်းနည်းပါး၍၊ ကုန်ပစ္စည်းချင်းဖလှယ်မှုကိုသာ အပြုများသည်။ ထိုကြောင့်နှစ်စဉ် အချိန်မှန် ကျင်းပလေ့ရှိသော ဘုရားပွဲတော်များတွင် ကုန်ပစ္စည်း ရောင်းဝယ်ဖလှယ်ကြသော ပွဲဈေးများကို ခင်းကျင်းကြသည်။ တောင်သူ ယာလုပ်တို့က မိမိတို့ လယ်ယာထွက် ပစ္စည်းများကိုရင်း၊ ငပိ၊ ငခြောက်လုပ်သူ၊ ဆားချက်သူတို့ကလည်း ငပိ၊ ငခြောက်၊ ဆား စသည်တို့ကိုရင်း၊ အိုးထိန်းသည်၊ ရက်ကန်းသည်တို့ကလည်း မိမိတို့လက်ဖြစ်ပစ္စည်းများကိုရင်း ပွဲဈေးသို့ ယူဆောင်လာပြီးလျှင် မိမိတို့အလိုရှိအပ်သော အစားအသောက် အသုံးအဆောင် ပစ္စည်းများဖြင့် ပစ္စည်းချင်း ဖလှယ်ကာ၊ အရောင်းအဝယ်

ပြုကြသည်။ ထို့ကြောင့် ထိုခေတ်အခါက ဘုရားပွဲတော် များ၏ပွဲဈေးများသည် လူနေမှုကိစ္စတွင် အရေးပါကြပေသည်။

ငွေအသပြာသုံးသည့် ယခုခေတ်တိုင်အောင်ပင် မြန်မာနိုင်ငံအလယ်ပိုင်း၌ ဘုရားပွဲတော်နှင့် ဈေးကိုတွဲထားလေ့ရှိကြသေးသည်၊ ထို့ကြောင့် အညာ ဘုရားပွဲတော်များသည် တလကိုးသီတင်း စည်ကားလေ့ရှိသည်။ ရွှေစက်တော်ဘုရားပွဲတော်သည် တလကျော် နှစ်လနီးပါး စည်ကားသည်။ မကွေး မြသလွန်၊ မင်းဘူး ကျောင်းတော်ရာ၊ ပခုက္ကူမှ မြောင်ဘုရားပွဲတော်တို့သည် ၁၀ ရက်ထက်မနည်း စည်ကားကြသည်။ အရောင်းအဝယ်များလည်း ကြီးကျယ် ကြ၍၊ ဘုရားပွဲတခုပြီးလျှင် တခုသို့ ပြောင်း၍ ပွဲဈေး တည်ခင်းကြခြင်းလည်း ရှိလေသည်။

အညာမှ ဘုရားပွဲတော်များ၌ ဘုရားပွဲသွားသူတို့သည် မိမိတို့၌ရှိသော ရောင်းကုန်များကို ဘုရားပွဲသို့ ယူဆောင်သွားကြပြီးသော်၊ ဆိုင်ခင်းကျင်းရောင်းချကြသည်။ တဦးတွင် ပါလာသော ပစ္စည်းကိုတဦးကဝယ်၍၊ ကုန်ပစ္စည်းချင်း ဘုရားပွဲ၌ ဖလှယ်လေ့ရှိကြသည်။ တနှစ်တမိုးစာ အစား အသောက်အသုံးအဆောင်များကို ဘုရားပွဲ၌လာရောက်ဝယ်ယူလေ့ရှိကြသည်။ ထိုအချိန်များတွင် မြို့တွင်း၌ ဈေးများ ဆိုင်များ အားလုံးလိုလိုသည် ဘုရားပွဲ၌ ရောက်နေတတ်၍ ဈေးဝယ်လိုလျှင် ဘုရားပွဲဈေး၌ သွားဝယ်ကြရသည်။ အရောင်းအဝယ်များကို နံနက်ခင်း၌ ပြုလုပ်ကြပြီးနောက်၊ ညနေမိုးချုပ်လျှင် ပွဲကြည့်သူကြည့်၊ ဘုရားဖူးသူက ဖူးကြသည်။ ထိုဘုရားပွဲများသို့ အနီးအနားရွာများနှင့်မိုင်သုံးလေးဆယ်မကသော ဒေသများမှပင် လှည်းများဖြင့် လာရောက်ကြသည်။ ဘုရားပွဲအနီး ကွင်းပြင်များထဲတွင် ကိုယ့်လူစုနှင့်ကိုယ်လှည်းဝိုင်းကြီးများ ချကာ၊ ချက်ပြုတ်စားသောက်ပြီးလျှင်၊ အရောင်းအဝယ် ပြုသည့်အခါပြု၊ ပွဲကြည့်သည့်အခါ ကြည့်နှင့် တပျော် တပါးပင် ဖြစ်လေသည်။

အချို့တောင်သူ လယ်လုပ်တို့သည် ဘုရားပွဲအချိန်တွင် လယ်အချခြင်း၊ ငွေချေးယူခြင်း၊ အကြွေးဆပ်ခြင်း၊ ပေါင်နှံခြင်းတို့ကို ပြုကြသည်။ မြို့တွင် တစုံတရာ ဆောင်ရွက်ဖွယ်ရှိလျှင်၊ ဘုရားပွဲတိုင်အောင် စောင့်ဆိုင်းလေ့ ရှိကြသည်။ ဘုရားပွဲအချိန်ကျမှသာလျှင် ဘုရားပွဲသို့ လာယင်း၊ ဆောင်ရွက်ဖွယ်ရှိသည်တို့ကို ဆောင်ရွက်သွားကြလေသည်။

ရှေးခေတ်ဥရောပနိုင်ငံ စသည်တို့တွင် အယူဝါဒရေး ဆိုင်ရာ ပွဲလမ်းသဘင်များ၌ ပွဲဈေးတည်ခင်းခဲ့ကြရာမှ နောင်အခါ စီးပွားရေးဖက်ကာ၊ တိုးတက်ကြီးကျယ်အောင် ပြုခဲ့ကြသဖြင့်၊ နိုင်ငံခြား စီးပွားရေးသမားများ၊ ကုန်သည်များ၊ နိုင်ငံခြားဝင်ငွေများကိုပင် ဆွဲဆောင်နိုင်သော ပြပွဲ ပွဲဈေးများ ခေတ်စားလာခဲ့သည်။ (ပွဲဈေး — ရှု။) မြန်မာနိုင်ငံတွင်မူ ထိုအခြေအနေ အဆင့်အတန်းမျိုးသို့ကား မရောက်သေးပေ။ ဒုတိယကမ္ဘာစစ် မတိုင်မီ ခေတ်က၊ ရွှေတိဂုံစေတီတော်၏ တပေါင်းပွဲတော်သည် အလွန်ကြီးကျယ် စည်ကား၍ ဘုရားပွဲတော်ကြီးနှင့် တွဲဖက်၍ ကျင်းပသော လက်မှုပညာပြပွဲကြီးများ ရှိခဲ့သည်။ သို့သော် နိုင်ငံခြားမှ ပြပွဲကြီးများအခြေအနေသို့ကား မရောက်ခဲ့ပေ။ မြန်မာဘုရားပွဲတော်များကား ပျော်ရွှင်မှု ဖက်သော ကုသိုလ်ရေးပွဲတော်အနေဖြင့်သာ ရှိနေလေသည်။

ဘုရားပွဲတော်များသည် ဆိုင်ရာ ဘုရားပုထိုးစေတီများ၌ တနှစ်တကြိမ် ကျင်းပရာ၊ ကျင်းပသည့် အခါကာလ နေ့ရက်တို့သည် အမျိုးမျိုးဖြစ်သည်။ အစဉ်အလာရှိခဲ့သဖြင့်၎င်း၊ ဘုရင်စိုးမင်းတို့ သတ်မှတ်ခဲ့၍၎င်း၊ ဘုရားပွဲတော်ကျင်းပသည့် အရပ်ဒေသအခြေအနေနှင့် ထိုဒေသမှ လူတို့အတွက် သင့်လျော် လျောက်ပတ်သောအခါ ကာလကို၎င်း ရွေးချယ်သတ်မှတ်ကျင်းပကြသည်။ဘုရားတဆူအတွက်ဘုရားပွဲတော်ကိုသီတင်းကျွတ်လတွင် ကျင်းပခဲ့လျှင်၊ နောင်အစဉ် အဆက်ထိုလ၌ပင် ကျင်းပသွားလေ့ ရှိသည်။ အချိန်မှန် ကျင်းပသွားနိုင်အောင်လည်း ကြိုးပမ်း ကြရသည်။ မကျင်းပနိုင်လျှင် ဆိုင်ရာ ရပ်ရွာလူထုအတွက် မျက်စိမျက်နှာ မလှသော ကိစ္စတရပ်ဖြစ်သည်။ စီးပွားရေး ချောင်လည်သည့် ကာလတွင် ဘုရားပွဲများကိုနှစ်စဉ် မှန်မှန် ကျင်းပနိုင်ကြလေသည်။

အောက်မြို့ကျေးရွာများတွင် ဘုရားပွဲတော်များကို မြေခင်း လက်ခင်းသာယာသည့်လများမှစတင်၍ ကျင်းပလေ့ ရှိကြပြီးလျှင်၊ မိုးကာလဖြစ်သော ဝါတွင်း၌ ဘုရားပွဲတော်များ မရှိတတ်ပေ။ အထူးသဖြင့် ဝါကျွတ်၍ မိုးလွတ်စပြုသော သီတင်းကျွတ်၊ တန်ဆောင်မုန်းလများနှင့် စပါးရိတ်သိမ်းပြီးကြ၍ ငွေစရွှင်ချိန်ဖြစ်သော တပို့တွဲ၊ တပေါင်းလများတွင် ဘုရားပွဲတော်များ ကျင်းပလေ့ ရှိကြသည်။ အထက် မြန်မာနိုင်ငံတွင်မူ မိုးပါးသဖြင့် ဝါတွင်းကာလများ၌လည်း ဘုရားပွဲတော်များ ကျင်းပလေ့ ရှိကြသည်။ များသော အားဖြင့် ဘုရားပွဲတော်များကို ညဉ့်အခါ သွားရေးလာရေး လွယ်ကူစေရန်၊ လသာရက်များတွင် ကျင်းပလေ့ ရှိကြသည်။ အဖိတ်နေ့၊ လပြည့်နေ့၊ လပြည့်ကျော် ၁ ရက်နေ့ဟူ၍ ထိုရက်သုံးရက်တွင် ဘုရားပွဲတော်များ ကျင်းပလေ့ ရှိသည်မှာ ထုံးစံကဲ့သို့ ဖြစ်နေသည်။ မင်းဘူး ရွှေစက်တော်၊ မကွေး မြသလွန်ဘုရားပွဲတော်တို့ကား ရက်ရှည်ကျင်းပရသော ဘုရားပွဲတော်ကြီးများ ဖြစ်လေသည်။

မြို့ရွာအလိုက် ကျင်းပကြသော နှောင်းခေတ်ဘုရား ပွဲတော်များကို ရပ်ရွာလူထုထံမှ ပိုက်ဆံကြေးငွေ ကောက်ခံစုဆောင်း၍ ရပ်ရွာလူကြီးများက ကမကထ ပြုလုပ် ကျင်းပကြသည်။ အဖိတ်နေ့ မတိုင်မီတရက်တွင် ရပ်ရွာရှိ အိမ်တိုင်းသို့ ဘုရားပွဲတော် ကျင်းပမည့် ဘုရားပုထိုး၊ စေတီသို့ ဆွမ်းတော်ကြီး ပို့ရန် နှိုးဆော်သည်။ မြို့ကြီးရွာကြီးများတွင် နှိုး

မဆော်သည့် ဖိတ်စာများ ကမ်းလှမ်း၍ ဆွမ်းတော်ကြီး မဲ လိပ်ချသည်ဟု ခေါ်သည်။ ဆွမ်းကြီးလောင်းဝတ်အသင်းက ထိုရက်တွင် ထိုဘုရားစေတီအတွက် အရှုဏ်ကပ်ရန် ဆွမ်းဆန် စိမ်းခံယင်း၊ ထိုဖိတ်စာများကို ကမ်းလှမ်းသည်။ ထိုအခါ တွင် အိုးစည် ပုံမောင်း အတီးအမှုတ်အကအခုန်များလည်း ပါသည်။ ထိုအခါမှစ၍ ရပ်ရွာလူထုသည် လှုပ်လှုပ် ရွရွ ဖြစ် လာကြလေသည်။

အဖိတ်နေ့ညနေမှ စ၍ ပွဲတော် စတင်ကျင်းပသည်။ ရပ် ရွာရှိအိမ်များမှ ဘုရားပွဲတော် ကျင်းပသော ဘုရား၊ ပုထိုး၊ စေတီတွင် အရှုဏ်ကပ်နိုင်ရန် မုန့်စုံ၊ ယိုစုံ၊ သစ်သီးစုံ၊ ချိုချဉ် ခဲဘွယ်တို့ကို တတ်အားသမျှ လှလှ ပပ ပြင်ဆင်၍ ပို့ဆောင် ကြရသည်။ ဝတ်ကောင်း စားလှ ဝတ်၍၊ အိမ်မှလူကြီးများ နှင့်အတူ ဆွမ်းတော်ကြီးပွဲ ပို့ရခြင်းသည် ကလေးများ အ တွက် ရက်ရှည်လများ မျှော်၍ ပျော်ခဲ့ရသော အခွင့်အရေး တရပ် ဖြစ်ပေသည်။

ဘုရားပွဲတော် ကျင်းပရာ ဘုရား၊ စေတီ၏ တန်ဆောင်း၊ သို့မဟုတ် ဧည့်ခံ မဏ္ဍပ်တွင် ပို့လာသော ဆွမ်းတော်ကြီးပွဲ များကို လက်ခံ သိမ်းယူကာ၊ အပို့လာသော လူကြီး လူငယ် ကလေး သူငယ်တို့အား မုံ့၊ လက်ဖက်ရည် စသည်တို့ဖြင့် ဧည့်ခံကျွေးမွေးရသည်။ အတီးအမှုတ်၊ အဆိုအကဝိုင်းများ လည်းပါသည်။ ဧည့်ခံကျွေးမွေးရေးအဖွဲ့တွင် ရပ်ရွာမှ အပျို လူပျိုများ ပါဝင်ကြရပေရာ၊ ယင်းတို့ ဟန်ရေး၊ လှုရေး ပြကြရသော အချိန်အခါလည်း ဖြစ်ပေသည်။

နေဝင်၍ အမှောင်ချဉ်းလာသည့်အခါ၊ ဆီမီးများဖြင့် ဘုရားအား ကြည်ညိုဖွယ်ရာ ပူဇော်ကြ၍ ဇာတ်ပွဲ၊ အငြိမ့်ပွဲ စသောအကအခုန်များ၊ ပျော်ပွဲ ရွှင်ပွဲများ စတင်လေရာ ပွဲဈေး လျှောက်သူများ ပွဲကြည့်သူများဖြင့် ပွဲခင်း တခွင် တ ပြင်မှာ တခြိမ့်ခြိမ့် တသဲသဲ ရှိနေလေသည်။

အောက်မြို့ ကျေးရွာများတွင် တရွာဘွဲ ဘုရားပွဲ ရှိလျှင် ရွာနီးချုပ်စပ်မှ လှေများ လှည်းများဖြင့် လာရောက်၍၊ ဘုရားလည်းဖူး၊ ပွဲလည်းကြည့်ကြသည်။ မီးရထား၊ မော် တော်ကား ခေတ်မတိုင်မီက ရန်ကုန်မြို့ အနီးတဝိုက်ရှိ ကျိုက္က ဆံ၊ ကျိုက္ကလို့၊ကျိုက်ဝိုင်း စေတီတော်များ၏ ဘုရားပွဲတော် ကျင်းပသည့်အခါ မြို့ပေါ်မှ လူများသည် နံနက်ဝေလီ ဝေ လင်းကပင် လှည်းများဖြင့် တပျော်တပါး သွားရောက်ကြ သည်။ တနည်းအားဖြင့် ဘုရားပွဲသွားယင်း ပျော်ပွဲစားထွက် ကြသည်။ လှည်းများဖြင့် ဘုရားပွဲသွားရခြင်းသည် ခုသွား ခုရောက်သည့် မီးရထား၊ မော်တော်ကားတို့ဖြင့် သွားရခြင်း ထက်ပို၍ ပျော်ရွှင်ဖွယ်ရာ ကောင်းသည်။ ထိုခေတ်အခါက ယခုခေတ်ကဲ့သို့ အချိန်မရွေးရုပ်ရှင်၊ ပြဇာတ်၊ ဇာတ်ပွဲ၊ အ ငြိမ့်စသည်တို့ကို ကြည့်၍ စိတ်ပန်း ကိုယ်ပန်း ဖြေနိုင်ကြ သည် မဟုတ်ပေ။ ထို့ကြောင့် ဘုရားပွဲတော်အခါကို စောင့် မျှော်၍ ပျော်ရွှင်ရန် အားခဲကြရသည်။ ယခုခေတ်တိုင် အောင်ပင် ချောင်ကျသော ကျေးလက် တောရွာများ၌ ထို အခြေ အနေအတိုင်းပင် ရှိနေလေရာ၊ ကျေးရွာ လူထုအဖို့ ဘုရားပွဲတော်များသည် ကုသိုလ်လည်းရ၊ ပွဲလည်းကြည့်ရ သော ပွဲလမ်းအခါ ဖြစ်လေသည်။ ဇာတ်အငြိမ့်များ မပေါ များသေးသောခေတ်က ဘုရားပွဲတော်အခါတွင်၊ အရပ်သား အရပ်သူများ သရုပ်ဆောင် ပါဝင်ကြသော အရပ်ဇာတ် အ ရပ်ယိမ်းများလည်း ခေတ်စားခဲ့ လေသည်။

# ဒုတိယ မြန်မာနိုင်ငံတော်ကို တည်ထောင်သောမင်း

**မြန်မာနိုင်ငံသမိုင်း၌ အထင်ရှားဆုံးသော မြန်မာမင်းတပါးဖြစ်သည်။ မွန်နိုင်ငံဟံသာဝတီ၌ နန်းစိုက်ပြီးလျှင် မွန်မြန်မာ စည်းလုံးရေးကို ဆောင်ရွက်ခဲ့သည်။ ဘုန်းလက်ရုံးနှင့်ပြည့်စုံသော မင်းတပါးဖြစ်သည်။ နိုင်ငံအုပ်ချုပ်ရေးထက် စစ်တိုက် ရေးကို ပို၍အရေးထားသည်။ ယိုးဒယား၊ ဇင်းမယ် စသော နိုင်ငံနယ်ပယ်အများဆုံးကို တိုက်ခိုက်သိမ်းသွင်းခဲ့ရာ၊ ဘုရင့် နောင်လက်ထက် မြန်မာနိုင်ငံတော်သည် အနောက်မြောက်ဖက် မဏိပူရ မြစ်ဝှမ်းမှ အရှေ့တောင်ဖက် မဲခေါင်မြစ်ဝှမ်းအထိ ကျယ်ပြန့်ခဲ့သည်။ ဘုရင့်နောင်၏ တပ်မတော်သည် အာရှတိုက်အရှေ့ပိုင်းနှင့် တောင်ပိုင်းတွင် ပြိုင်ဖက်ကင်း တပ်မတော် ကြီးဟုဆိုလောက်ပေသည်။**

**ဘုရင့်နောင် (မြန်မာ ၈၇၇–၉၄၃)။** ။မွန်မြန်မာ စည်း လုံးရေးဖြင့် ဒုတိယ မြန်မာနိုင်ငံတော်ကြီးကို ပြီးမြောက် အောင် တည်ထောင်တော်မူသော မင်းကား ဘုရင့်နောင် ကျော်ထင် နော်ရထာဘွဲ့ခံ ဆင်ဖြူများသခင် မင်းတရားကြီး ဖြစ်သည်။ ယမ်မည်မှာ ရှင်ရဲထွတ်ဖြစ်၍ မင်းဖြစ်တော်မူ သောအခါ သီရိ တြိဘာဝနာဒိတျာ ပဝရပဏ္ဍိတ သုဓမ္မ ရာဇာ မဟာဓိပတိဘွဲ့ခံသည်။

ဘုရင့်နောင်သည် တောင်ခမင်းကြီးနှင့် တောင်ငူကို မင်း ပြုသော မင်းခေါင်ငယ်မြေးတော် ကရေနဝတီမင်းသမီးတို့ မှ မြင်သည့်သားတော် မင်းရဲသီဟသူခေါ် မင်းကြီးဆွေနှင့် ပင်းယတစီးရှင် အနွယ်တော် တောင်ငူကြွယ်စစ် မင်းသမီး တော်အကြီးတို့ စုံဖက်ရာတွင် မြင်သည့် သားတော် ဖြစ် ကြောင်းဖြင့် မှန်နန်းရာဇဝင်နှင့် သုသောခိတ မဟာရာဇဝင် တော်ကြီး၌ ဆိုသည်။ ဘုရင့်နောင်ကို မြန်မာ သက္ကရာဇ်

၇၇၇ ခုနှစ် တပို့တွဲလဆန်း ၁၂ ရက် ဗုဒ္ဓဟူးနေ့တွင် ဖွားမြင်သည်။ မင်းတရား ရွှေထီးထက် ၃ လနှင့် ၄ ရက်ကြီးသည်။ ဘုရင့်နောင်၏ခမည်းတော်အား မင်းတရားရွှေထီးသည် ခမည်းတော်အရင်းကဲ့သို့ ရိုသေ လေးမြတ်လှသည်။ ဘုရင့်နောင်၏ မယ်တော်မှ ဓမ္မဒေဝီမိဖုရား တပါး၊ ဘုရင့်နောင် တပါး၊ မုတ္တမဘုရင် မင်းရဲစည်သူတပါး၊ ပြည်ဘုရင် သတိုးဓမ္မရာဇာတပါး၊ ငယ်ကလွန်တပါး ပေါင်း ၅ ပါးမြင်သည်။ မယ်တော် မိဖုရား နတ်ရွာစံလျှင် မယ်တော် ညီမတော်ကို မင်းကြီးဆွေ မိဖုရားမြှောက်တော်မူသည်တွင် တောင်ငူ ကိုးသိန်းသခင် ဘုရင်မင်းခေါင်တပါး၊ အင်းဝဘုရင် သတိုးမင်းစောတပါး ပေါင်း ၂ ပါးမြင်သည်။

၈၉၂ ခုနှစ်တွင် မင်းတရားရွှေထီး နန်းတက်သော အခါ ရှင်ရဲထွတ်၏ ခမည်းတော် မင်းကြီးဆွေအား မင်းရဲသိခ်သူ ဘွဲ့ပေး၍ ရှင်ရဲထွတ်အား ကျော်ထင် နော်ရထာဘွဲ့ဖြင့် ရွှေကျပ်မြင့်မိုရ် လက်ဖက်အိုး၊ ကျောက်တရစ် စီသော အဆောင်အယောင် ကြီးကျယ်စွာ ပေးတော်မူသည်။ ကျော်ထင်နော်ရထာ၏ လက်ရုံးရည် နှလုံးရည်ကို ရိပ်စားမိသော မင်းတရား ရွှေထီးသည် နှမတော် မင်းသမီး ခင်ကြီးနှင့် စုံဖက်၍ မြှောက်စားလေသည်။ မြှောက်စားသည့် အတိုင်းလည်း လကျ်ာလက်ရုံးကဲ့သို့ အားကိုးရသည့် သူရဲကောင်း ပီသပေသည်။

၈၉၄ ခုနှစ်တွင် ရန်သူ နိုင်ငံဖြစ်သည့် ဟံသာဝတီနေပြည်တော်၌ မင်းတရားရွှေထီး နားထွင်းသျှောင်ထုံး မင်္ဂလာပြုလုပ်နိုင်ရန် ချီတက်ဖို့ သူရဲကောင်းများကို ကျော်ထင် နော်ရထာပင် စီစဉ် ရွေးချယ်ရသည်။ ထူးထူးချွန်ချွန် တပါးသူထက် သတ္တိလွန်သော အာဇာနည်ကိုမှ အလိုရှိရကား အရွေးခံသူတို့၏ လက်သည်းကြားကို အပ်စိုက်၍ တုန့်ရိုက်ကာ မလှုပ် မယိုင် ကျောက်တိုင်ပမာ ခိုင်ခံ့သူ ၅၀၀ ရွေးချယ်၍ ရဲဆုအဖြစ် ကြိုးနီတပ်သော ရွှေခွက်တခုစီ လည်ပင်း၌ ဆွဲပေးတော်မူလေရာ ထိုသူတို့ကို ရွှေခွက်ဆွဲသူရဲဟု ခေါ်ဝေါ်ကြသည်။ ရွှေခွက်ဆွဲ သူရဲများနှင့် ဘုရင့်နောင်သည် ဟံသာဝတီနေပြည်တော်သို့ ရှေ့ဆုံးမှချီတက်၍ ရွှေမော်ဓောစေတီရင်ပြင်တော်၌ မင်းတရားရွှေထီး၏ နားထွင်း သျှောင်ထုံး မင်္ဂလာ အောင်မြင်စွာ ဆင်ယင် နိုင်ခဲ့သည်။

ယင်းသို့ ဟံသာဝတီ နေပြည်တော်သို့ အောင်မြင်စွာဝင်ရောက် နိုင်ခဲ့ပြီးနောက် ကျော်ထင် နော်ရထာ၏ အကြံပေးလျှောက်ထားချက်ဖြင့် ၈၉၆ ခု၊ ၈၉၇ ခု၊ ၈၉၈ ခု၊ ၉၀၀ ပြည့်နှစ်များတွင် အကြိမ်ကြိမ် ချီတက်၍ ဟံသာဝတီကို လုပ်ကြံရာ ဟံသာဝတီမင်း သုရှင်တကာရွှတ်ပိ မခံနိုင်၍ ယောက်ဖတော် ပြည်ဘုရင် နရပတိရှိရာသို့ ထွက်ပြေးသည်တွင် ဟံသာဝတီကို ရလိုက်သည်။ ဟံသာဝတီဘုရင်သည် ပြည်ဘုရင်နှင့် ပေါင်း၍ ဟံသာဝတီကို ပြန်လည်တိုက်ခိုက်ရန် ကြံစည်ကြောင်း ကြားသိသဖြင့် မင်းတရား ရွှေထီးက ရေကြောင်း၊ ကျော်ထင်နော်ရထာက ကြည်းကြောင်း ချီလေသည်။ ယင်းသို့ ချီတက်ရာ၌ နောင်ရိုးဟူသော အရပ်တွင် သမိုင်းတွင်သည့် နောင်ရိုး တိုက်ပွဲဖြစ်ပွားရာ ကျော်ထင် နော်ရထာ၏ ကြံရည် ဖန်ရည် ရဲစွမ်းသတ္တိကို မင်းတရားရွှေထီးကျေနပ်ဝမ်းမြောက်ကာ လက်တော် ၂ ဖက်၌ ဝတ်ဆင်ထားသော လက်စွပ်၊ ပတ္တမြားလက်ကောက်တော်တို့ကို ချွတ်၍ ရဲဆုပေးရုံမက လွန်စွာအားရလှသဖြင့် ဘုရင့်နောင်ဟူသောဘွဲ့ကို ထပ်မံချီးမြှင့်၍ လှိုင်မြို့ကိုလည်း သနားခံရသည်။ (နောင်ရိုးတိုက်ပွဲ — ရှု။) ထိုအခါမှစ၍ဘုရင့်နောင်အား တိုင်းပြည်အလုံးကို လွှဲအပ်၍ ငါကဲ့သို့ အုပ်ချုပ်ရမည်ဟု မင်းတရားရွှေထီးက အမိန့်ချမှတ်သည်။

နောင်ရိုးတိုက်ပွဲ ပြီးသည့်နောက် ဘုရင့်နောင်သည် ၉၀၂ ခုနှစ်တွင် မုတ္တမတိုက်ပွဲကို ဆင်နွှဲရပြန်သည်။ (မုတ္တမတိုက်ပွဲ — ရှု။) ဘုရင့်နောင်၏ ပရိယာယ်နှင့် အကြံအစည်ကောင်းမှုကြောင့် မုတ္တမမြို့ကို မင်းနှင့်တကွ ရလေသည်။

၉၀၃ ခုနှစ်တွင် ပြည်မြို့သို့ ရေအား ကြည်းအားနှင့် ချီတက်ပြန်သည်။ ပြည်ဘုရင်ချီပင့်သဖြင့် စစ်ကူရန် လာသော ရှမ်းစော်ဘွားများတပ်ကို ဘုရင့်နောင်ကျော်ထင်နော်ရထာ ဆီးကြို၍တိုက်ခိုက်ရာ စော်ဘွားတပ်များ ပျက်လေသည်။ ပြည်ဘုရင်အား စစ်ကူရန် ဆင်းလာသော ရခိုင် ဘုရင်၏ ကြည်းတပ်ကိုလည်း ဘုရင့်နောင်ပင် ဆီးကြို တိုက်ခိုက်ရာ ပျက်ပြန် သဖြင့် ပြည်မြို့ကို မင်းနှင့်တကွ ရသည်။

ယင်းသို့ အောင်ပွဲအမျိုးမျိုးကိုရခဲ့သော ဘုရင့်နောင်အား မင်းတရားရွှေထီးသည် အလွန် အားရတော်မူလှသဖြင့် မူးမတ်ဗိုလ်ပုံအလယ်တွင် အထူးချီးမွမ်းတော်မူကာ ရွှေခြည်ကတ္တီပါ၊ ဝတ်လုံတော်နှင့်တကွ အမြဲဝတ်ဆင်တော်မူသော ပတ္တမြား လက်ကောက်၊ ပတ္တမြားလက်စွပ်တို့ကို ရဲဆုအဖြစ်ပေးသနားတော်မူသည်။ ထိုနောက်ကျေးဇူး သစ္စာတော်ကို တည်ကြည်စွာ သက်စွန့်ကြိုးပမ်း ဆောင်ရွက်ပေသည်ဟု ဆိုကာ လက်ဝဲတော်မှ အိမ်ရှေ့မင်းနေရာကို ပေး၍ အိမ်ရှေ့မင်း အဆောင်အယောင်အခမ်း အနားကို အပ်နှင်းသည်။

ပြည်တိုက်ပွဲတွင် ရှုံးခဲ့သော ရှမ်းစော်ဘွား ၇ ဦးသည် လက်စားချေရန် ၉၀၅ ခုနှစ်တွင် အလုံးအရင်းနှင့် ချီလာ၍ ပြည်မြို့ကို ဝန်းရံသည်ကိုလည်း ဘုရင့်နောင်ပင် စစ်ဆင်နည်း ပရိယာယ်အမျိုးမျိုးဖြင့် ပြန်တိုက်ရာ ဆုတ်ခွာ ပြေးကြလေသည်။

ထိုနောက် ထားဝယ်နှင့်တကွ နယ်စပ် ဖြစ်သော ကြိုင်းဟဲကြိုင်းဆင်မြို့များကို ထိပါးလာသော ယိုးဒယားဘို့အား တိုက်ခိုက်ရန် ဘုရင့်နောင်ပင် ချီတက်ရပြန်သည်။ ဘုရင့်နောင်၏ စစ်ပရိယာယ်ကို မကြုံတွေ့သေးဘူးသော ယိုးဒယားတို့သည် နောက်သို့ ဆုတ်ခံ ခံကာ စစ်ရေးငင်သည့် မြန်မာ

တပ်များကို အားတက်လျက် လိုက်မိသဖြင့် စစ်သုံးဖက်ညှပ်မိ၍ ညက်ညက်ကြေကာ တပ်ပျက်ရလေသည်။ ယိုးဒယားဘုရင့်သားတော်၊ ညီတော်တို့ကို မြန်မာတို့ ရလိုက်ပြီးလျှင်၊ ထွက်ပြေး၍ အယုဒ္ဓယမြို့တော်၌ အခိုင်အမာ တပ်စွဲခုခံနေသော ယိုးဒယားဘုရင်အား လိုက်တိုက်ရပြန်သည်။ မြန်မာတပ်များသည် ပဌမသော် မြို့ကိုဝိုင်းရံသေးသော်လည်း ဘုရင့်နောင်သည် စန္ဒာဂုတ်စစ်တိုက်နည်းကို မှီး၍ မြို့တော်မှ တပ်များ နုတ်ကာ ကမန်ပိုက်၊ သောက္ကတဲ၊ ပိသလောက်စသော အရံမြို့များသို့ ချီသည်။ ယိုးဒယားဘုရင်သည် မြန်မာတို့ လက်လျှော့၍ တပ်ဆုတ်သည်ဟု ထင်ကာမြို့မှထွက်၍ မြန်မာတပ်အား အတင်းဝင်တိုက်သဖြင့် ယိုးဒယားနှင့် တွေ့သော်လည်း ငါမလာမီမတိုက်နှင့်ဟု မင်းတရားရွှေထီးထံမှ အပြောရောက်သည်ကိုပင် ဘုရင့်နောင်သည် မလိုက်နာနိုင်တော့ဘဲ မြန်မာတို့ သတ္တိညံ့သည်ဟု ရန်သူ၏ အထင်မှားခြင်း ခံရမည်ထက် အောင်ပွဲရပြီးမှ အမိန့်မနာခံ၍ ကွပ်မျက်ခံရခြင်းက ကျေးဇူးများသေးသည်ဟု ဆိုကာယိုးဒယားတပ်အား တဟုန်တည်းလွှတ်၍ တိုက်တော့သည်။ ယင်းတိုက်ပွဲတွင် ဘုရင့်နောင်၏ သားတော် ဇေယျသီဟလည်း ခမည်းတော်အပါးမှ ထက်ကြပ်လိုက်၍ တိုက်ရာ ယိုးဒယားဘုရင် သမက်တော် ဩယားလကွန်းအိန်မား၏ ဆင်သည် ဇေယျသီဟ၏ လုံ့ချက်ထိ၍ ဩယားလကွန်းအိန်မားကိုရသည်။ တိုက်ပွဲပြီးမှ မင်းတရားရွှေထီး ရောက်လာသဖြင့် အောင်ပွဲရ သုံ့ပန်းလက်နက်ကရိယာတို့ကို ဆက်သော် ပဌမတွင် အမိန့်မနာခံ၍ အပြစ်တင်သော်လည်း နောက်သော် အမှုတော် မလစ်လပ်အောင် စွမ်းဆောင်ပါပေသည်ဟု ချီးကျူး၍ ပတ္တမြားစီသော ဦးပေါင်းသင်းကျစ်၊ လေးမျက်နှာပတ္တမြားသုံးရစ်စီ ကွမ်းခွက်၊ ပတ္တမြားစီ လက်ဖက်အိုး၊ ပတ္တမြားစီတကောင်းဖုံး၊ ရွှေချက်လေးစင်း၊ ဝတ်တော်မူသော တုယင်တပ်ကတ္တီပါဝတ်လုံ၊ လက်တော် ၂ ဖက်တွင် ဝတ်တော်မူသော ပတ္တမြားလက်ကောက်၊ ပတ္တမြားလက်စွပ်၊ သဒ္ဒါလီကနှင့်တကွ စီးတော်မူသော နာဂါဝရဆင်တော်၊ ရွှေကနှင့် စီးတော်မူသော မြင်းထော်တို့ကို ဘုရင့်နောင်အားချီးမြှင့်သည်။ ဘုရင့်နောင်သားတော် ဇေယျသီဟလည်း အင်းဝမင်းခေါင်သား မင်းရဲကျော်စွာကဲ့သို့ ရဲရင့်ပေသည်ဟု ချီးမွမ်းကာ မင်းရဲကျော်စွာဘွဲ့နှင့် ဆုလာဘ်များစွာ ပေးသနားခံရသည်။

ဒုတိယ မြန်မာနိုင်ငံတော်ကြီးကို စည်းလုံးစွာ ထူထောင်ရန် ရည်ရွယ်ချက် မအောင်မီ မင်းတရားရွှေထီးသည် ပေါ်တူဂီတို့နှင့်ပေါင်းမိကာ အပျော်အပါးကြူး၍ နေရာ၊ နိုင်ငံတော်အုပ်ချုပ်ရေးကို ဘုရင့်နောင်အားသာ လွှဲထားလေသည်။ မှူးမတ်များကပင် တပင်ရွှေထီးအား နန်းချ၍ နန်းတက်ရန် ဘုရင့်နောင်အား တိုက်တွန်းကြသော်လည်း အရှင်၏ သစ္စာကိုစောင့်သိစွာဖြင့် ခါးခါးသီးသီးငြင်းပယ်ကာ အိမ်ရှေ့မင်းအဖြစ်နှင့်ပင် နိုင်ငံအလုံးကို မတိမ်းမစောင်းအောင် အုပ်ချုပ်နေလေသည်။

၉၁၂ ခုနှစ်တွင် မင်းတရား ရွှေထီး လုပ်ကြံခံရ၍ နတ်ရွာစံသောအခါ ဘုရင့်နောင်သည် ဒလ၌ ရောက်နေခိုက် ဖြစ်သည်။ ဟံသာဝတီတွင် သမိန်ထောရာမ၊ တောင်ငူတွင် ညီတော် မင်းခေါင်၊ ပြည်တွင် သတိုးသူနှင့် မွန်သုံးရပ်တို့ အစုစုခြားနားလျက် ရှိကြသည်။ ထိုနှစ် တပို့တွဲ လဆန်း ၃ ရက်နေ့တွင် ဘုရင့်နောင်သည် ကေတုမတီ ရွှေနန်းကို သိမ်း၍ ဆရာတော်များ၏ တောင်းပန်ချက်အရ ညီတော် တောင်ငူမင်းအား မည်သို့မျှ မပြုဘဲ အမှုတော်ကို ထမ်းရွက်မြဲ ထမ်းရွက်စေသည်။ ၉၁၃ ခုနှစ်တွင် ပြည်မြို့ကိုတိုက်ရာ ပြည်စားသတိုးသူ ထွက်ပြေး၍မြို့ကို ရလိုက်သည်။ ဘုရင့်နောင်သည် ညီတော်သတိုးဓမ္မရာဇာအား ပြည်မြို့ကို ပေးလေသည်။ ထိုနှစ်တွင်ပင် ဟံသာဝတီ၌ အခိုင်အမာ ပြုနေသော သမိန်ထောရာမကို အပြင်းတိုက်ရာ သမိန်ထောရာမအား ၉၁၄ ခုနှစ်တွင် ရမိ၍ ကွပ်မျက်တော်မူသည်။ သမိန်ထောရာမကို အလိုတော်ပြည့်လျှင်၊ ပုသိမ်၊ မြောင်းမြ၊ မုတ္တမစသော မြို့စားတို့ ကျွန်ခံ လာကြသည်။ မုတ္တမကို ညီတော် မင်းရဲစည်သူအား စားစေသည်။

၉၁၅ ခုနှစ် နတ်တော်လဆန်း ၁၃ ရက်နေ့တွင် ဟံသာဝတီနန်းတော်မြေရာကို ကမ္ဘောဇသာဒီဟု သမုတ်၍ နန်းသစ်ဆောက်တော်မူပြီးလျှင် တပို့တွဲလဆန်း ၆ ရက်နေ့တွင် ခေမာဒွါရ တံခါးမှဝင်၍ နန်းတက်တော်မူသည်။ ကိုယ်တော်တိုင် သီရိသုဓမ္မရာဇာဘွဲ့ကို ခံယူ၍ မိဖုရားခေါင်ကြီးအား အဂ္ဂမဟေသီဘွဲ့ နှင်းတော်မူသည်။ မှူးတော်မတ်တော် မင်းဆွေ မင်းမျိုးတို့အားလည်း အကွက်အရပ်ချ၍ အိမ်ယာဆောက်လုပ်ပေးသည်။

မင်းတရားရွှေထီး၏ နိုင်ငံရင်းနယ်ပယ်တို့ကို သိမ်းသွင်းပြီးနောက် ဘုရင့်နောင်သည် နိုင်ငံချဲ့ထွင်စပြုတော်မူသည်။ သားတော် ညီတော်တို့ အားမတန်၍ မတိုက်ဘဲ ပြန်ခဲ့ရသောအင်းဝမြို့သို့ ၉၁၆ ခုနှစ်တွင်ကိုယ်တော်တိုင်ချီ၍လုပ်ကြံရာ အလိုပြည့်တော်မူသည်။ အင်းဝဘုရင်နရပတိကို အသက်အရွယ်ကြီးရင့်၍ သနားသဖြင့် သစ္စာတော်ပေးပြီးလျှင် ဟံသာဝတီသို့ပို့ကာ အလုပ်အကျွေး ၃၀ ကျော်ပေး၍ကောင်းမွန်စွာ ထားသည်။ ညီတော်မင်းရဲကျော်ထင်ကိုလည်း သတိုးမင်းစောအမည်ပေး၍ အင်းဝဘုရင်ခံအဖြစ် ခန့်တော်မူပြီးလျှင်မိဖုရားခေါင်ကြီးတွင် မြင်သော သမီးတော်ကြီးနှင့် စုလျားရစ်ပတ် လက်ထပ်ပေးတော်မူသည်။

အင်းဝကိုရပြီးနောက် အိုးပေါင်ခုံမှိုင်းသား စားသောစဉ့်ကူးမြို့ကို ရေကြောင်းဆန်၍ လုပ်ကြံစေပြန်သည်။ ၉၁၆ ခုနှစ် တပေါင်းလခန့်တွင် ဗန်းမော်ရှမ်းပြည်ဖက်သို့ချီတော်မူရာ မိကျည်၊ ကောင်းတုံ၊ ကောင်းစင်၊ ရေင်၊ ဗန်းမော်စသည်

တို့မှ လက်ဆောင်တော်တို့ဖြင့် ခိုဝင်လာသည်။ ထိုနောက် မိုးကောင်း၊ မိုးညှင်း၊ မိုးနဲ၊ ညောင်ရွှေ၊ ရပ်စောက်၊ လဲချား၊ မိုင်းကိုင် စသော ရှမ်းပြည်တလွှားကို သိမ်းယူတော်မူသည်။

၉၁၉ ခုနှစ်တွင် မိုးနဲကိုရသော် ထားစင်ဆိပ်မှ သံလွင်မြစ်ကို ကူးပြီးလျှင် ဇင်းမယ်သို့ ချီ၍ လုပ်ကြံသည်။ ၉၂၀ ပြည့်နှစ်တွင် မင်းနှင့်တကွမြို့ကို ရသည်။ ဇင်းမယ်မင်းကို မင်းပြုမြဲ ပြုစေ၍ ဇင်းမယ်တွင် မြန်မာတပ်ကို အစောင့်အနေထားကာ ပြန်တော်မူသည်။ အပြန်တွင် ဇင်းမယ်သား ပညာသည်တို့ကိုခေါ် ခဲ့၍ ဟံသာဝတီတွင် အကွက်အရပ်ချ၍ နေစေသည်။ ထိုအခါမှစ၍ မြန်မာနိုင်ငံသို့ ဇင်းမယ်ယွန်းထည်ပညာ ရောက်လာသည်ဟု ဆိုကြသည်။ ဇင်းမယ်ကိုရလျှင် သိန္နီစော်ဘွား ကျွန်ခံလာသည်။

၉၂၁ ခုနှစ်တွင် ကလေး၊မင်းခင်းနယ်ပယ်များကိုကသည်း စော်ဘွားက ထိပါးလာသောကြောင့် ချီတက် တိုက်ခိုက်စေရာ ကသည်းစော်ဘွားက သစ္စာတော်ခံ၍ သမီးဆက်သည်။ ၉၂၄ ခုနှစ်တွင် တရုပ်ပိုင် ယူနန်နယ်သို့ ချဉ်းနင်းဝင်ရောက်ကာ မိုင်းမော၊ စည်ခွင်၊ ဟိုသာ၊ လာသာ၊ မိုးနား၊ စန္ဒား စသော ရှမ်းတရုပ်နယ်ပယ်တို့ကို သိမ်းယူတော်မူသည်။ ထိုဒေသတို့တွင် ဘုရင့်နောင်နှင့် သားတော် အိမ်ရှေ့ဥပရာဇာ နန္ဒဘုရင်တို့ အုပ်ချုပ်သော မြန်မာတပ်သားတို့၏ တိုက်ခိုက်မှုများမှာ အံ့ဖွယ်သရဲ ရှိလှကြောင်းနှင့် ထိုခေတ် တရုပ် သမိုင်းတို့တွင် မှတ်တမ်းတင်ထားလေသည်။ အမှန်မှာ ဘုရင့်နောင်လက်ထက် မြန်မာတပ်များသည် အာရှအရှေ့ပိုင်း၌ တန်ခိုးထွားလျက်ရှိသော တရုပ်နိုင်ငံမင်းဆက်၏ စစ်တပ်များကို အောင်နိုင်စွာ တိုက်ခိုက်နိုင်ခဲ့သဖြင့် အာရှတိုက် အရှေ့ပိုင်းနှင့် တောင်ပိုင်းတွင် ပြိုင်ဖက်ကင်း တပ်မတော်ကြီး ဖြစ်လာခဲ့သည်ဟု ဆိုနိုင်ပေသည်။

သိမ်းသွင်းထားပြီး ဖြစ်သော နယ်အသီးအသီးမှ စစ်သားများကို စုဆောင်း၍ ဖွဲ့စည်းထားသော လွန်စွာ တောင့်တင်းသည့် ဘုရင့်နောင်၏ တပ်မတော်ကြီးသည် ၉၂၅ ခုနှစ်တွင် ယိုးဒယားပြည် တောင်ပိုင်းကို ချီတက်တိုက်ခိုက်သည်။ ဘုရင့်နောင်က ယိုးဒယားသည် မြန်မာတို့၏ လက်နက် နိုင်ငံဖြစ်ကြောင်း ထင်ရှားစေလိုသည့် သဘောနှင့် ယိုးဒယား၌ ရှိသော ဆင်ဖြူ ၄ စီးအနက် တစီးတောင်းသည်ကို ယိုးဒယားတို့ မပေးသဖြင့် ချီတက်ခြင်းဖြစ်သည်။ ယိုးဒယားမင်းကိုယ်တိုင် ကွပ်ကဲ တိုက်ခိုက်သော လုံကလိ တပ်ကြီးကို သဘော်ာ ၃ စင်းနှင့်တကွ ရသည်တွင် ယိုးဒယားမင်း လက်နက်ချ၍ ဆင်ဖြူတော်များကို ဆက်သည်။ ဤတွင်ဘုရင့်နောင်မင်းတရားသည် ဟံသာဝတီ ဆင်ဖြူများသခင် ဘွဲ့ကို ခံယူရရှိသည်။

ယိုးဒယားကို အောင်နိုင်ပြီးနောက် ဟံသာဝတီ ဆင်ဖြူများသခင် ဘဝရှင် မင်းတရားကြီးသည် ယိုးဒယားမင်းသားတော်ကြီး ဗြမဟိန်အား ယိုးဒယားကိုမင်းပြုစေပြီးလျှင် တပ်သား ၃,ဝဝဝ ခန့်ပါဝင်သော မြန်မာမြို့စောင့်တပ်တခုချထားခဲ့သည်။ ယိုးဒယားမင်းကြီး ဗြသာခီရာဇာ၊ သားအငယ်ဗြရာမသွန်၊ အမတ်ကြီး အောက်ဗြစက္ကိနှင့် ဆင်ဖြူ ၄ စီးကို ဆောင်ယူခဲ့သည်။ ထို့မှတပါး အနုပညာဆိုင်ရာ အဖိုးတန်ပစ္စည်း၊ယိုးဒယားသား အချက်အပြုတ်၊အတီးအမှုတ်၊လက်မှုပညာသည်တို့ကို သားမယားနှင့်တကွ ဆောင်ယူခဲ့၍ အသီးအသီး အကွက်အရပ်ချ၍ နေစေသည်။

ဤတွင် ဘုရင့်နောင်လက်ထက် မြန်မာနိုင်ငံတော်ကား အနောက်မြောက်ဖက် မဏိပူရမြစ်ဝှမ်းမှ အရှေ့တောင်ဖက် မဲခေါင်မြစ်ဝှမ်းတောင်ပိုင်းအထိ ကျယ်ပြန့်ခဲ့၍ လူမျိုးပေါင်းစုံ၊ နိုင်ငံနယ်ပယ်ပေါင်းစုံ၊ ယဉ်ကျေးမှု ဘာသာစကားပေါင်းစုံ ပါဝင်သော မြန်မာအင်ပိုင်ယာကြီး ဖြစ်လာခဲ့သည်။

ဆင်ဖြူများသခင် မင်းတရားကြီးသည် ရန်သူကိုပင် စိတ်ထားကြီးစွာဖြင့် ခွင့်လွှတ်တော်မူတတ်သည့် ဝါသနာအတိုင်း ယိုးဒယားဘုရင် ဗြသာခီရာဇာအား ရဟန်းဝတ်ခွင့် ပြုပြီးလျှင် ယိုးဒယားသို့ ပြန်လိုသည်ဆို၍ ပြန်ခွင့်ပြုသည်။ သို့ရာတွင် ယိုးဒယားဘုရင်သည် ယိုးဒယားသို့ ရောက်သော် လူသူလက်နက်စုဆောင်း၍ တော်လှန်ပုန်ကန်လေသည်။ ၉၃၀ ပြည့်နှစ်တွင် မင်းတရားကြီး ယိုးဒယားသို့ ချီတော်မူပြီး၍ ၁၀ လ ခန့် မြို့ကို ဝိုင်းရံကာ ဥပါယ်တံမျဉ်ဖြင့်အပြင်းလုပ်ကြံမှ မြို့ပေါက်၍မင်းနှင့်တကွ တမြို့လုံးကိုရသည်။ယိုးဒယားကို ရပြီးနောက် လင်းဇင်းသို့ ချီတော်မူသည်။ (ဗီယင်းတျန်း—ရှု။) လင်းဇင်းမင်းဖြစ်စစ် ထွက်ပြေး၍ မရလိုက်သော်လည်း မိဖုရား၊ သမီး၊ကိုယ်လုပ်မောင်းမနှင့် မှူးမတ် ဆင်မြင်း လူသူတို့ကိုရသည်။ မိဖုရား၊ သမီး၊ ကိုယ်လုပ်တော်များကို အသုံးအဆောင် အဝတ်အစား အစေအပါးပေးတော်မူ၍ နန်းတော်တွင်း၌ ကောင်းမွန်စွာ ထားတော်မူသည်။ လင်းဇင်းမင်းညီ မိုင်းခံစား စော်ဘွားအားလည်း အဆောင်အယောင် အခြံအရံ အိမ်ယာပေးတော်မူ၍ အပါးတော်တွင် မပြတ်မြဲစေသည်။ လင်းဇင်းမှရခဲ့သော လူတထောင်ကျော်ကိုလည်း အကြီးခေါင်းနှင့် အစုအကွက်ချ၍ အမှုတော်ကို ထမ်းစေလေသည်။

ယင်းသို့ ဇင်းမယ်၊ ယိုးဒယား၊ လင်းဇင်းတို့သို့ ထွက်၍ တိုက်တော်မူစဉ် ဟံသာဝတီ နေပြည်တော်တွင် ရှမ်းပြည် အရပ်ရပ်မှ ယူခဲ့သော သုံ့ပန်း လူအပေါင်းတို့သည် ပုန်ကန်သောင်းကျန်း၍ နေပြည်တော်ရှိ ဇရပ်၊ ကျောင်းကန်၊ တန်ဆောင်းတို့ကို မီးတိုက်ကြသည်။မင်းတရားကြီးမရှိခိုက် အင်းဝဘုရင်ဟောင်း နရပတိစည်သူနှင့် တာနော အမတ်တို့ ဦးစီး၍ သူပုန်တို့ကို တိုက်ရာ သူပုန်တို့ပျက်၍ ဒလသို့ ပြေးသည်။ ဘုရင့်နောင် မင်းတရားကြီး ကြားသိလေသော် ဟံသာဝတီသို့ ၉၂၇ ခုနှစ်တွင် ပြန်တော်မူရာ အပျက်အစီးများကို မြင်

တော်မူ၍ ပြင်းစွာအမျက်ထွက်တော်မူသဖြင့် ရွှေနန်းတော်သို့ မဝင်တော့ဘဲ ဒလသို့ချီသည်။ သူပုန် ၇၀၀ ကျော်သေ၍ ၇,၀၀၀ ကျော်လက်ရဖမ်းမိသည်။ဗားတော်ဆရာတော်အမှူးရှိသော မွန်မြန်မာ ဆရာတော်များ၏ ဟောပြောချက်အရ သူပုန်ခေါင်း အကြီး ၇ ကျိပ်ကိုသာ ကွပ်မျက်သည်။ ကျန်သူပုန်များအား ကြောက်လန့်စေရန် မီးထင်းတိုက်ဟန်ပြုပြီးမှ ဆရာတော်တို့ တောင်းပန်ချက်အရ လွှတ်ရဟန်ပြုသည်။ ဤသို့လျှင် ဘုရင့်နောင် မင်းတရားကြီးသည် မင်းတကာတို့ ပြုခဲလှစွာသော အမှုကို ပြုတော်မူသည်။

သူပုန်သူကန်တို့ ထကြွသောင်းကျန်း၍ လွယ်ကူစွာ ဖျက်ဆီးနေကြခြင်းမှာ မြို့ မခိုင်လုံသဖြင့်သာ အလျင်အမြန် ထကြွ အောင်မြင်ကြသည်ဟုဆိုကာ လူပညာရှိ ရဟန်းပညာရှိ ပုဏ္ဏားပညာရှိတို့နှင့် ညှိနှိုင်း တိုင်ပင်လျက် သက္ကရာဇ် ၉၂၈ ခုနှစ် တန်ဆောင်မုန်းလဆန်း ၁၀ ရက်နေ့မှစ၍ အင်္ဂါ ၇ ပါးနှင့် ညီညွတ်သော စတုရန်း အတာသုံးထောင် လေးရာရှိ နန်းမြို့တော်ကို တည်ဆောက်တော်မူသည်။ ၉၂၉ ခုတန်ခူးလပြည့်ကျော် ၄ ရက်နေ့တွင် မင်းတရားကြီးသည် ရထားပြာသာဒ် စီးတော်မူ၍ တောင်ခေမာ ဒွါရတံခါးက ဝင်တော်မူပြီးလျှင် အနောက်ကိုလည်၍ နန်းတက်တော်မူသည်။ နန်းမြို့ကိုလည်း ပဉ္စမက အတိုင်း ကမ္ဘောဇသာဒီဟူ၍ သမုတ်တော်မူသည်။

၉၃၆ ခုနှစ်တွင် သီဟိုဠ်မင်း ဓမ္မပါလသည် မြတ်စွာဘုရားသခင်အား တပုဿဘလ္လိကညီနောင်တို့ လှူသော မုံ့ကြွက်ကြွပ်ပျားမုံ့ဆုပ်ကိုအလှူခံရန် စတုလောကပါလနတ်သားတို့ ဆက်ကပ်သော အနားရစ် လေးရစ်ရှိသည့် ကျောက်မြည်ို သပိတ်နှင့်တကွ ထည်မျိုးအုပ်မျိုး ရွှေ ငွေ ရတနာမျိုး အပေါင်းတို့နှင့် သဝဏ်စာရေးပြီးလျှင် သင်္ဘောကြီး ၂ စင်း၌ ရဟန်းတော်များ၊မှူးမတ်များအားသံတမန်ပြုလျက် ဟံသာဝတီဘုရင့်နောင်မင်းတရားထံ ကွတ်တည်မင်း၊ ခန္တီမင်း၊ သီတာဝတ်မင်းစသောမိစ္ဆာဒိဋ္ဌိ ကုလားမင်းများကို တိုက်ထုတ်ရန် စစ်ကူတောင်းဖို့ စေလွှတ်သည်။ ဘုရင့်နောင်က ခုတ်မရ ထိုးမပေါက်သူ ယိုးဒယားသား ၁၀၀၊ တနင်္သာရီသား ၁၀၀၊ လင်းဇင်းသား ၁၀၀၊မိုင်းမောသား ၁၀၀၊ စည်ခွင်သား ၁၀၀၊ တရုပ် ၁၀၀၊ ရှမ်းစလုံ ၁၀၀၊ မွန် ၅၀၀၊ မြန်မာ ၅၀၀ တို့အား လက်နက်ကရိယာ အပြည့်အစုံ ပေးအပ်ကာ သင်္ဘော ၅ စင်းဖြင့် စစ်ကူလွှတ်သည်။ ဘုရင့်နောင်၏ စစ်ကူတပ် သီဟိုဠ်သို့ ရောက်သော် မိစ္ဆာဒိဋ္ဌိ ကုလားမင်းတို့သည် အထူးပင် တုန်လှုပ်ကာ ဓမ္မပါလမင်းထံ လက်ဆောင်ပဏ္ဏာဆက်၍ အညံ့ခံလာကြသည်။ မိစ္ဆာအယူကို စွန့်ကာ ဗုဒ္ဓအယူကိုသာ ကိုးကွယ်ကြကုန်သည်။ ဓမ္မပါလမင်းလည်း ဆင်ဖြူများရှင် မင်းတရား၏ ကျေးဇူးတော် ကြီးလှပေသည်ဟုဆိုကာ မြတ်စွာဘုရား၏ စွယ်တော်စစ်ကို ရွှေစေတီ၌ထည့်၍ ဆင်ဖြူများရှင် မင်းတရားကြီးအား ဆက်သလေသည်။ သမီးတော် မင်းသမီးကိုလည်း အခြွေအရံများနှင့်တကွ ဆက်သလေသည်။

ဘုရင့်နောင် ကျော်ထင်နော်ရထာဘွဲ့ခံ ဟံသာဝတီ ဆင်ဖြူများရှင် မင်းတရားကြီး၏ ယင်းသို့ နိုင်ငံတော်ကို ချဲ့ထွင်စည်းရုံးရန် ကြိုးပမ်းခဲ့မှုများကို ဆင်ဖြူရှင် အရေးတော်ပုံဟူသောကျမ်းဖြင့် မှတ်တမ်းတင်ထားလေသည်။ (ဆင်ဖြူရှင်အရေးတော်ပုံ — ရှု။) မင်းတရားကြီးသည် သက္ကရာဇ် ၉၄၃ ခုနှစ် တန်ဆောင်မုန်း လပြည့်နေ့တွင် စည်းစိမ်တော် ၃၂ နှစ်၊သက်တော် ၆၆ နှစ်တွင် နတ်ရွာစံလွန်တော်မူသည်။

ဆင်ဖြူများရှင် မင်းတရားကြီးတွင် မိဖုရားကြီး ၃ ပါး၊ မိဖုရားငယ် ၄၃ ပါးရှိရာ မိဖုရားခေါင်ကြီးမှာ တပင်ရွှေထီး၏ နှမတော် ခင်ကြီးခေါ် အတုလသီရိမဟာရာဇာဒေဝီ ဖြစ်သည်။မိဖုရားခေါင်ကြီးမှ အင်းဝဘုရင်သတိုးမင်းစောမိဖုရားတပါး၊ နန္ဒဘုရင်ခေါ် ငါးဆူဒါယကာဘွဲ့ခံ တောင်ငူရောက်မင်းတပါး ပေါင်း ၂ ပါး မြင်သည်။ ကျန် မိဖုရားကြီး ၂ ပါးဖြစ်သော အင်းဝ ရွှေနန်းကြော့ရှင်သမီး နန်းကျပြည်ဘုရင် မင်းခေါင်၏ မိဖုရားဟောင်းသီရိဘုန်းထွတ်ခေါ် စန္ဒာဒေဝီ မိဖုရားမှ တောင်ငူ ရွှေနန်းတည်မင်းမိဖုရားတပါး၊ ရှင်ထွေးလှခေါ် ရာဇဒေဝီမှ ဇင်းမယ်ဘုရင် နော်ရထာမင်းစောတပါး မုတ္တမမင်း (သဃ်ဒတ္တ) သီရိသုဓမ္မရာဇာတပါး၊ ရာဇခာတုကလျာတပါး မြင်သည်။ မိဖုရားငယ်များမှ မြင်သော သားတော် သမီးတော်များနှင့် ပေါင်းသော် သားတော် ၃၈ ပါး၊ သမီးတော် ၅၉ ပါး စုစုပေါင်း ၉၇ ပါးဖြစ်သည်။

ဆင်ဖြူများရှင် မင်းတရားကြီးကား တောင်ငူဆက်တွင် ဘုန်းတန်ခိုး အကြီးဆုံးမင်းဖြစ်သည်။ မင်းတရားကြီးလက်ထက် နိုင်ငံတော် အကျယ်အဝန်းကား ရခိုင်ကိုချန်လှပ်၍ ယခု မြန်မာတနိုင်ငံလုံးနှင့် ကသည်းပြည်၊ရှမ်းပြည်၊ ယိုးဒယား၊ ဇင်းမယ်၊ လင်းဇင်း၊ အာနမ် စသောဒေသတို့ ပါဝင်သည်။ မင်းတရားကြီးကား ရတနာ ၃ ပါးကိုယုံကြည်တော်မူ၍ ကုသိုလ်ကောင်းမှု၌ မွေ့လျော်တော်မူခြင်း၊ ပညာရှိသူတော်ကောင်းများကို မြတ်နိုးတော်မူခြင်း၊ သူ့ကျေးဇူးကို သိတတ်ခြင်း၊ တည့်မတ်ဖြောင့်မှန်ခြင်း၊ ရာဇပရိယာယ် လိမ်မာတော်မူခြင်း၊ သည်းခံတတ်ခြင်းတို့နှင့် ပြည့်စုံတော်မူသည်။ ကိုယ်တော်၏ အသက်ကို ရန်ရှာသူကိုပင် အပြစ်မပြုဘဲ သည်းခံတော်မူနိုင်သည်။ သို့ရာတွင် စစ်ရေးမှုခင်း၌ အမှုထမ်း ပေါ့လျော့သည်ကိုမူ သည်းခံတော်မမူတတ်ချေ။ ညီတော်သားတော်များပင်ဖြစ်စေ ကြီးစွာသော အပြစ်ဒဏ်ပေးတော်မူတတ်သည်။ မွန်သူရဲကောင်း အမတ်ကြီးဗညားဒလသည် ကျေးဇူးသစ္စာတော်ကို မထောက် ဖောက်ပြန်သောအားဖြင့် မင်းကြီးမြို့လှည့်ရာတွင် တကြိမ်၊ ရွှေမော်ဓောဘုရားတွင်တကြိမ်၊ ရွှေတိဂုံဘုရားသို့ အဖူးအမြော်သွားရာတွင်တကြိမ် ယင်းသို့ သုံးကြိမ်တိုင်တိုင် လုပ်ကြံရန် စီမံ

သည်ကို လက်ပူးလက်ကြပ် မိသော်လည်း ဉာဏ်ပညာနှင့် ပြည့်စုံသော သူရဲကောင်းအမတ်ကြီးအား အပြစ်မပြုဘဲ သည်းခံနေတော်မူသည်။နောင်သောအခါ စစ်ရေး၌ဖောက် ပြန်လွန်းသဖြင့် အပြစ်မပေးဘဲ မနေနိုင်တော့သောကြောင့် ကွပ်မျက်ရန် ဒဏ်ထိုက်သော်လည်း မကွပ်မျက်ဘဲ တိုင်းစွန် ပြည်နားဖြစ်သော ဇနက်၊ ကမန်စသော အရပ်များသို့ ပြောင်းရွှေ့ ပို့ထားလေသည်။ မင်းတရားကြီးသည် ချီးမြှင့် ထိုက်သူကို မနှောင့်မနှေး ချီးမြှင့်တတ်၍လည်း ရဲမက်တော် တို့ ကျေးဇူးသစ္စာတော်ကို စောင့်သိရှိသေသဖြင့် နှစ်ရှည် လများနေရပ်ဒေသနှင့် သားမယားတို့ကို ပစ်ကာ နိုင်ငံရပ် ခြား တောအုံတောင်ကြား သွားလာတိုက်ခိုက်၍ အမှုတော် ထမ်းကြသည်။

စစ်အောင်နိုင်သော ဒေသတို့တွင် ဒေသဆိုင်ရာ ခေါင်း ဆောင်အကြီးအကဲများကို အုပ်ချုပ်စေသည်။ ပြည်တွင်း ရေး အုပ်ချုပ်မှုကို ကိုယ်တိုင် စွက်ဖက်ခြင်း မပြုပေ။ ကိုယ် တော်တိုင်မှာမူ ပဲခူးကိုအခြေပြု၍ အောက်မြန်မာ နိုင်ငံ ဧရာဝတီ မြစ်ဝကျွန်းပေါ် နှင့် စစ်တောင်းမြစ်ဝှမ်း အောက် ပိုင်းတို့ကို တိုက်ရိုက် အုပ်ချုပ်သည်။ ဒေသဆိုင်ရာ ဘုရင် ခံများက နှစ်စဉ် ကျသင့်သော အခွန်ဘဏ္ဍာများကို ဆက်သ ခြင်း၊ နိုင်ငံပတိုက်ပွဲများအတွက် လိုလျှင် လိုသလို စစ်သည် အင်အား ရှာဖွေပေးခြင်းတို့ ပြုရသည်။ ၉၂၇ ခုနှစ်တွင် နန်း မြို့သစ် ဆောက်လုပ်စဉ်က မြို့တံခါး ၂၀ ထားရှိရာ၊ တံခါး တ ခုကို ပဒေသရာဇ်မင်းတပါးက တာဝန်ယူ၍ ပြုလုပ်ရသည်။ ထိုကြောင့် ဇင်းမယ်တံခါး၊ တောင်ငူတံခါး၊ အင်းဝတံခါး စသည်ဖြင့် အမည်ပေးထားကြောင်းဖြင့် ထိုခေတ်နေပြည် တော်၌ ရောက်နေသည့် ပေါ် တူဂီတို့၏ မှတ်တမ်းတွင် တွေ့ရှိ ရသည်။ ယင်းသို့ နိုင်ငံအုပ်ချုပ်မှု၊ စီးပွားရေးစသည်တို့တွင် ဝင်ရောက်လက်ဝါးကြီးအုပ်မှု လုံးဝမပြု၊ အုပ်ချုပ်ရေး စံနစ် တကျ မပေးသဖြင့် တိုက်ခိုက်မှုဖြင့် အုပ်ချုပ်ရေးကို တည်မြဲ စေရသည်။ မင်းတရားကြီး နတ်ရွာစံလျှင်ပင် ယခင်က ကြောက်ရွံ့၍၎င်း၊ ပုဂ္ဂိုလ်စွဲဖြင့်၎င်း၊ ဝါဒကို နှစ်ခြိုက်၍၎င်း စည်းလုံးခဲ့သော နိုင်ငံတော်ကြီး ဖရိုဖရဲဖြစ်ကာ ပဒေသရာဇ် နိုင်ငံတို့သည် ကိုယ့်မင်းကိုယ့်ချင်းနှင့် သီးခြား နေကြရန် ရည်ရွယ်၍ အသီးအသီးခွဲထွက်ရန် ခြေလှမ်း ပြင်ကြခြင်းဖြစ် သည်။ (နန္ဒဘုရင်၊ ငါးဆူဒါယကာ — ရှု။)

ဘုရင့်နောင် လက်ထက် ထင်ရှားသော ပညာရှိများကား ရာဇာဓိရာဇ်အရေးတော်ပုံကို ရေးသားသော မွန်အမတ်ကြီး ဗညား ဒလ၊ ရတုပေါင်းများစွာနှင့် မင်းတရားမယ်တော် ချောင်း၊ ဆင်ဖြူရှင် မယ်ချောင်း၊ ဘုရင့်နှမတော် ချောင်းတို့ကို ရေးသားသူ ပြည်နဝဒေးကြီးတို့ ဖြစ်သည်။ မင်းတရားကြီး လက်ထက် ရဟန်းပညာရှိ လူပညာရှိတို့ ဝါရီရူဓမ္မသတ်ကို အခြေပြု၍ ဓမ္မသတ်ကျော်နှင့် ကိုးစောင်ချုပ်ကို ပြုစုကြ သည်။ မင်းတရားကြီး လက်ထက် တရားစီရင်သည့်ဖြတ်ထုံး တို့ကို ဟံသာဝတီ ဆင်ဖြူများရှင် ဖြတ်ထုံးဟု တွင်သည်။

မင်းတရားကြီး၏ ကောင်းမှုတော်တို့ကား ပုဂံရွှေစည်းခုံ၊ စစ်ကိုင်း ပုညရှင်၊ ဒဂုံဆံတော်ရှင်၊ ပဲခူး ရွှေမော်ဓောစသော ဘုရားရှင်များကိုယ်လုံးတော်ပြည့် ရွှေသင်္ကန်းကပ်လှူတော် မူသည်။ ဟံသာဝတီ နေပြည်တော်၏ အနောက်ဖက်တောင် ချောင်ရပ်၌ စတုရန်း ၄ မျက်နှာရှိ၍ သံတောင် ၃၄၀ ရှိသော မဟာစေတီကို တည်တော်မူပြီးလျှင် လုံးတော်ပြည့် ရွှေ သင်္ကန်းလှူတော်မူသည်။ သမိန်ထောရာမကိုဥပေါသထဆောင် တော်နှင့်အောင်မြင်တော်မူရာ အရပ်တွင်လည်း ဇေယစေတီ ကြီးကို တည်တော်မူသည်။ ရှမ်း၊ ယိုးဒယား၊ လင်းဇင်း၊ အာနမ်စသော ပိုင်ဆိုင်ရာနိုင်ငံတော်တို့၌ ဘုရားစည်းခုံစေတီ တော်တို့ကို တည်တော်မူသည်။ ဘုရားဂူကျောင်း၊ ဇရပ်ပျက် တို့ကိုလည်းပြင်တော်မူသည်။ ပိဋကတ် ၃ ပုံ အစုံ ၄၀ ရေး၍ ပရိယတ္တိသာသနာ ပြန့်ပွားအောင် ပြုသည်။ နိုင်ငံအရပ်ရပ် သို့လည်း သာသနာပြုစေ လွှတ်တော်မူသည်။

ပုဂံ၊ ရွာသာ၊ စလေ၊ ပုခန်းငယ်၊ သေရောက်၊ တူရွင်း တိုင်၊ ကျောက်ပန်းတောင်း စသော အရပ်တို့တွင် နှစ်စဉ် ကျွဲနွားဝက်ကြက်တို့ကို သတ်၍ ပုပ္ပားနတ်တို့အား ယာဇ်ပူ ဇော်သည့် ထုံးစံကို အပါယ် ၄ ပါး၌ ရှည်လျားကြာမြင့်စွာ ခံရမည့် အလုပ်မျိုးဖြစ်ချေသည်ဟု အမိန့်တော်ဖြင့် တား မြစ်တော်မူရာမှအစ တစစပျောက်ကွယ်ခဲ့ရသည်။

ရှမ်းပြည်တလွှား၌ မိစ္ဆာဒိဋ္ဌိအယူဖြင့် စော်ဘွားတို့ သေ လျှင် စော်ဘွားစီးသော ဆင်မြင်း၊ ချစ်သောကျွန်တို့ကို သတ်၍ တွင်း၌ အတူမြှုပ်သောအကျင့်ကိုလည်း မြစ်တော်မူ သည်။ ပရိယတ္တိသာသနာတော် မတည်လေဟူ၍ မိုးမိတ်၌ တဆူ၊ အုန်းပေါင်၌တဆူ စေတီတည်တော်မူကာ ဝတ္တကမိုး မြေလှူတော်မူသည်။ ဇေတဝန်ကျောင်းရံတဆယ်နှင့်တကွ မိုးမိတ်တွင် ကျောင်းတကျောင်း ဆောက်၍ ပါဠိအဋ္ဌကထာ ဋီကာကျနသော အရိယာသံဃာတို့ကို တောင်းပန်၍ ထား တော်မူသည်။ ပိဋကတ်တော်များကိုလည်း ကျောင်း၌ ထားတော်မူသည်။စော်ဘွားမှစ၍ အမှူးအမတ်ခေါင်အကြီး တို့ကိုလည်း တလလေးသီတင်း ၅ ပါးသီလ၊ ၈ ပါးသီလတို့ကို ခံ၍ တရားနာစေသည်။ မြို့သူရွာသားတို့အားလည်း စစ်ကဲ တော်တို့ကဆော်ဖန်၍ တလလေးသီတင်း တရားနာရသည်။

မှန်သုံးရပ်ကို သိမ်းပြီးစကလည်း အရညဝါသီ၊ ဂါမဝါသီ ပုဂ္ဂိုလ်တို့အား ပင့်တော်မူ၍ ရွှေမော်ဓောဘုရား၌ ပရိက္ခရာ ၈ ပါးနှင့်တကွ ဆွမ်းလုပ်ကျွေးတော်မူသည်။ သီတင်းသုံး၊ သူတော်အစရှိသည့် မစားရတတ်၊ မဝတ်ရတတ်သော သူတို့ အား ပုဆိုးအင်္ကျီကြေးငွေ ဆန်စပါး၊ ငပိတိုက်တော်မှ များ စွာထုတ်၍ အလှူကြီးပေးတော်မူသည်။

နိုင်ငံတော်အလုံးကိုလည်း ရေအပြင်ကဲ့သို့ တချက်တည်း

ညီညွတ်အောင် စီရင်တော်မူ၍ ဘုရင့်နောင်လက်ထက် အလွန်သာယာစည်ပင်သည်။ အလေးတင်းတောင်းကို ဟံသာဝတီ နေပြည်တော်နှင့် တညီတည်းပြုတော်မူသည်။ နိုင်ငံခြား ကုန်ကူးသန်းမှုကို အားပေးရုံမက သင်္ဘောဆိပ် မြို့ကြီးများသို့ လွယ်ကူစွာ ဝင်ထွက်နိုင်ရန် လမ်းဖွင့်ပေးသဖြင့် သင်္ဘောလမ်း ချောင်းကမ်းဘေးတလျှောက်တွင် ရွာများ ထိစပ်လုမတတ် စည်ကားသည်။ နိုင်ငံခြားကုန်စည်များ ကူးသန်းရောင်းဝယ်မှု အုပ်ချုပ်ရန် ပွဲစားကြီး ၇ ယောက် ခန့်ထားသည်။ ဆိပ်ကမ်းအကောက်နှုန်း၊ ပွဲခစသည်တို့ကို သက်ညှာစွာယူ၍ နိုင်ငံခြားကုန်ကူးသန်းမှု စည်ပင်သည်။

လွှတ်တော်ရုံးတော်များမှ တရားစီရင်သော်လည်း မကျေနပ်သည့် ဆင်းရဲနွမ်းပါးသူ တရားမစွဲနိုင်သူတို့အဖို့ ရွှေနားတော်ကြား ခေါင်းလောင်းထိုး၍ လျှောက်ကြား စေရန် ခေါင်းလောင်းကြီးကို ဝင်းတော်၌ ဆွဲထားသည်။ လယ်ယာ စိုက်ပျိုးရေးကို အားပေးထောက်မတော်မူသော အားဖြင့် နယုန်လမှ တန်ဆောင်မုန်းလအထိ ၆ လအတွင်း မှုခင်းတရား မဖြစ်ပွားစေရန်နှင့် မင်းတရားကြီးစိုးပိုင်တော်မူသော တိုင်းပြည် မြို့ရွာ ဟူသမျှတို့မှ ရာဇဝလ္လဘ မင်းခအမှုထမ်း အရာရှိတို့က အဆင့်အခေါ် မရှိစေရန် အမိန့်ထုတ်ပြန် ထားတော်မူသည်။

**ဘုရင့်အစိုးရစံနစ်။** ။ဘုရင့်အစိုးရစံနစ်သည် ရှေးအကျဆုံးအစိုးရစံနစ်တခု ဖြစ်သည်။ ယင်းစံနစ်အရ နိုင်ငံ၏ အုပ်ချုပ်ရေးအာဏာသည် အုပ်ချုပ်သူ ဘုရင့်လက်၌ တည်ရှိလေသည်။ ဘုရင်တဦးတည်းလက်ထဲ၌သာ အချုပ်အချာအာဏာတည်သော အုပ်ချုပ်ရေးမျိုး ဖြစ်သည်။ သို့ရာတွင် ယခုခေတ်တွင်မူ နိုင်ငံ၏အထွတ်အထိပ်ဘုရင်ဟု တင်မြှောက်ထားသူ လက်တွင် အုပ်ချုပ်ရေး အာဏာသည် လုံးဝသော်ငင်း၊ တစိတ်တဒေသသော်ငင်း၊မထင်မရှားသော်ငင်း မည်မျှပင်ရှိစေကာမူ၊ အစိုးရလုပ်ကိုင်သမျှကို ထိုသူတဦးတယောက်တည်း၏ အမည်ဖြင့်ထားကာ လုပ်ကိုင်ဆောင်ရွက် သွားလျှင်ပင် ဘုရင့်အစိုးရစံနစ်ဟု တွင်သည်။ ယခုခေတ် ဘုရင့်အစိုးရဟူသည်မှာ ရွေးကောက်တင်မြှောက်ရသော ဘုရင့်အစိုးရ၊သို့မဟုတ် ပြည်သူအလိုကျဘုရင့်အစိုးရနှင့်မိရိုးဖလာ ဘုရင့်အစိုးရဟူ၍ငင်း၊ သက်ဦးဆံပိုင် ဘုရင့်အစိုးရနှင့်စည်းမျဉ်းခံဘုရင့်အစိုးရ၊ သို့မဟုတ် အာဏာကန့်သတ် ထားခြင်းခံရသည့် ဘုရင့်အစိုးရဟူ၍ငင်း နှစ်မျိုးနှစ်စားစီ ကွဲပြားခြားနားနေသည်ကို တွေ့ရသည်။

မိရိုးဖလာ ဘုရင့်အစိုးရစံနစ်မှာ မိဖ၏ အရိုက်အရာကို သားသမီးဖြစ်သူများက ဆက်ခံ၍ တိုင်းနိုင်ငံကို အုပ်ချုပ်သောစံနစ်ဖြစ်သည်။ ရှေးအခါက ခေါင်းဆောင် အကြီးအကဲ၊ သို့မဟုတ် ရှင်ဘုရင်လုပ်၍ အုပ်ချုပ်သူများသည် ကျွမ်းကျင် လိမ်မာစွာအုပ်စိုးသောအခါ သူတို့၏ သားသမီးများသည်လည်း သူတို့ကဲ့သို့ပင် အုပ်ချုပ်မှု၌ ကျွမ်းကျင်လိမ်မာမည်ဟူသော အယူအဆဖြင့် သားစဉ်မြေးဆက် ဆက်ခံအုပ်ချုပ်စေရာမှ မိဖအရိုက်အရာ ဆက်ခံရသော အစဉ်အလာ ဖြစ်ပေါ် ခဲ့သည်။ ထိုစံနစ်သည် ယခုထက်တိုင် ကမ္ဘာပေါ်၌ တည်မြဲနေသေးသည်။ ဂရိတ် ဗြိတိန်အစရှိသော ခေတ်မှီနိုင်ငံများတွင် မိရိုးဖလာ ဘုရင့်အစိုးရစံနစ်ကို လက်ခံထားသော်လည်း၊ ထီးနန်းဆက်ခံရေးကို ဥပဒေစည်းမျဉ်းဖြင့် သတ်မှတ်ထားလေသည်။ ရွေးကောက်တင်မြှောက်ရသော ဘုရင့်အစိုးရစံနစ်မျိုးသည် မိရိုးဖလာ ဆက်ခံသော ဘုရင်များအုပ်ချုပ်မှုတွင် မကျွမ်းကျင် မနိုင်နင်း၍ အမှားမှားအယွင်းယွင်း ဖြစ်ခဲ့သောကြောင့် ပေါ်ပေါက်လာသည်ဟု ယူဆရန်အကြောင်းရှိသည်။ရှေးရောမတို့ကောင်းစားစဉ်က ရှင်ဘုရင်များကို ထိုကဲ့သို့ အများသဘောတူ ရွေးကောက်တင်မြှောက်ခဲ့ကြသည်။ ရောမသာသနာစောင့် နိုင်ငံတော်ဧကရာဇ်မင်းကိုလည်း ရွေးကောက်၍ တင်မြှောက်ခဲ့လေသည်။ ပိုလန်နိုင်ငံတွင်လည်း ဘုရင်ကို ရွေးကောက် တင်မြှောက်သည့်စံနစ်ကို တခါက အသုံးပြုခဲ့သည်။ ကမ္ဘာဦးက လူများသည် ခွန်အားအကြီးမားဆုံးနှင့် လက်နက် အကောင်းဆုံးရှိသူတို့၏ ကာကွယ်စောင့်ရှောက်မှုကို ခံလိုသဖြင့် ထိုသူတို့ကို ခေါင်းဆောင်အကြီးအကဲအဖြစ်ဖြင့် တင်မြှောက်ခဲ့ကြသည်။ ထိုခေါင်းဆောင် အကြီးအကဲများမှာ ဘုရင်များ၏ ရှေ့တော်ပြေးများဖြစ်၍ အစတွင် ဘုရင်များကိုလည်း ထိုသူတို့ကဲ့သို့ ရွေးကောက်တင်မြှောက်ကြမည်မှာ ယုံမှားဖွယ်ရာ မရှိချေ။

သက်ဦးဆံပိုင် ဘုရင့်အစိုးရ စံနစ်တွင် အုပ်စိုးသူ ဘုရင်၊ သို့မဟုတ် ဘုရင်မသည် လက်အောက်ခံ နိုင်ငံသားများ၏ အသက်ဦးဆံကို ပိုင်သည်ဟု နားလည်ကြသည်။ ဥပဒေများပြုရာတွင်ငင်း၊ဥပဒေအရ ဆောင်ရွက်ရာတွင်ငင်း၊ဥပဒေအရ တရားစီရင်ရာတွင်ငင်း ဘုရင်သည် အချုပ်အချာပင် ဖြစ်တော့သည်။ ဘုရင့်ဆန္ဒသည် နိုင်ငံ၏ ဆန္ဒဖြစ်ပေ၏။ ကမ္ဘာ့သမိုင်း တလျှောက်လုံးတွင် သက်ဦးဆံပိုင်ဘုရင်များကို အတော်ပင် တွေ့ရှိခဲ့ရလေသည်။ ရှေးခေတ် မြန်မာဘုရင်များသည်ငင်း၊ ရုရှ၊ တူရကီဘုရင်များသည်ငင်း သက်ဦးဆံပိုင် ဘုရင်များဖြစ်ကြသည်။ သက်ဦးဆံပိုင် စံနစ်သည် ယခုထက်တိုင် အာရှနှင့် အာဖရိကတိုက်များ၌ အချို့ နိုင်ငံများတွင် အမြစ်တွယ်လျက် ရှိနေသေးသော်လည်း၊ လူတို့၏ အသိဉာဏ် တိုးပွားလာသည်နှင့်အမျှ တဖြည်းဖြည်း တိမ်ကောလျက် ရှိနေလေပြီ။ သက်ဦးဆံပိုင် စံနစ်သည် တခါတရံ ရဟန်းမင်းအစိုးရစံနစ်နှင့် ရောထွေးနေတတ်သည်။ ရဟန်းမင်း အစိုးရစံနစ်တွင် အုပ်ချုပ်သူသည် ဘုရား သခင်၏ဆန္ဒ၊ သို့မဟုတ် တိုက်ရိုက်ညွှန်ကြားချက်အတိုင်း ဆောင်

ရှက်သူဟု ယူဆလေသည်။ ထိုကဲ့သို့သော အစိုးရစံနစ်မျိုးမှာ သက်ဦးဆံပိုင် အစိုးရ စံနစ်နှင့် မည်သို့မျှ မခြားနားတော့ချေ။

စည်းမျဉ်းခံ ဘုရင့်အစိုးရစံနစ်အရ ဘုရင်၊ သို့မဟုတ် ဘုရင်မသည် နိုင်ငံအုပ်ချုပ်မှုဆိုင်ရာ အကြီးအကဲပင် ဖြစ်သော်လည်း၊ အချုပ်အချာအာဏာကို မိမိထင်သလို သုံးစွဲပိုင်ခွင့်မရှိချေ။ နိုင်ငံကို ဘုရင့်ဆန္ဒအရမဟုတ်ဘဲ နိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအရ အုပ်ချုပ်သည်။ ဘုရင်၏ အာဏာကို ကန့်သတ်၍ စည်းကမ်းချထားသောအစိုးရစံနစ်မျိုး ဖြစ်သည်။ စည်းမျဉ်းခံဘုရင့်အစိုးရဖြစ်ပေါ် လာစေရန် တခါတရံ လူထုသည် မိမိတို့၏ အခွင့်အရေးများကို ခေါင်းမာသော ဘုရင်များထံမှ တိုက်ယူရသည်။ တခါတရံတွင်ကား ဘုရင်များကိုယ်တိုင်ကပင် အလိုအလျောက် အခွင့်အရေးများကို ပေးအပ်လေသည်။ အမှန်အားဖြင့် စည်းမျဉ်းခံ ဘုရင့်အစိုးရသည် အခြေခံ ဥပဒေအရ တည်ထောင်ထားသော အစိုးရတမျိုးဖြစ်၍၊ သမတအစိုးရနှင့် မူအားဖြင့် အတူတူဖြစ်လေသည်။ သို့ရာတွင် သမတအစိုးရ၏ အကြီးအကဲဖြစ်သော သမတမှာ မဲဆန္ဒဖြင့် ရွေးကောက်တင်မြှောက်ရသူ ဖြစ်၍၊ဘုရင်မှာမူကား မိဖရိုးရာအလိုက် ဆက်ခံရသူဖြစ်လေသည်။ စည်းမျဉ်းခံ ဘုရင့်အစိုးရစံနစ်၏ နှစ်လိုဖွယ်အချက်တရပ်မှာ အစိုးရအကြီးအကဲ၊ သို့မဟုတ် ဘုရင်များ တဦးပြီးတဦး ဆက်ခံစိုးစံရာတွင် အဆက်မပြတ်ခြင်းဖြစ်လေသည်။ အဓိကချွတ်ယွင်းချက်မှာကား သဘာဝမကျသောမိရိုးဖလာ ဆက်ခံရေးစံနစ်ကို လက်ခံထားခြင်းပင်ဖြစ်သည်။ စင်စစ်အားဖြင့် ခေတ်သစ်စည်းမျဉ်းခံ ဘုရင့်အစိုးရများတွင် ဘုရင်၊ သို့မဟုတ် ဘုရင်မများသည် အုပ်ချုပ်ရေးအကြီးအကဲ ဟူ၍ အမည်ခံသူများ သာလျှင် ဖြစ်နေပေသည်။တကယ့်အချုပ်အချာ အာဏာများကိုမူ လူထုကတင်မြှောက်ထားသော ကက်ဗိနက်ဝန်ကြီး အဖွဲ့ကသာ ပိုင်ဆိုင်အသုံးပြုပိုင်ခွင့် ရှိလေသည်။ ဂရိတ်ဗြိတိန်နိုင်ငံ အစိုးရသည် အထင်ရှားဆုံးသော စည်းမျဉ်းခံ ဘုရင့် အစိုးရ ဖြစ်သည်။ ဒိန်းမတ်၊နော်ဝေး၊ ဆွီဒင်၊ ယိုးဒယား၊ လာအို၊ နယ်သာလန်စသော နိုင်ငံများတွင်လည်း အလားတူ စည်းမျဉ်းခံ ဘုရင့်အစိုးရများ ထွန်းကားလျက် ရှိလေသည်။

**ဘူတန်နိုင်ငံ။** ။ဟိမဝန္တာ တောင်တန်း၏ အရှေ့တောင်တောင်စောင်းတွင်တည်ရှိသော ဘူတန်နိုင်ငံသည်လွတ်လပ်သည့်နိုင်ငံကလေး တနိုင်ငံဖြစ်သည်။မြောက်ဖက်တွင်တိဗက်ပြည်ရှိ၍ အရှေ့အနောက်နှင့်တောင်ဖက်တို့တွင်အာသံ၊ ဆစ်ကင်နှင့် ဗင်္ဂလားပြည်နယ်များ အသီးအသီးတည်ရှိသည်။ မြောက်လတ္တီတွဒ် ၂၆° နှင့် ၂၈° ကြားနှင့် အရှေ့လောင်ဂျီတွဒ် ၈၉° နှင့် ၉၂° ကြားတွင် တည်ရှိလေသည်။

ဘူတန်နိုင်ငံ၏အကျယ်အဝန်းသည် စတုရန်းမိုင် ၁၈,၀၀၀ ကျော်ကျော်ခန့်ရှိ၍ တနသ်ာရီတိုင်း၏ ထက်ဝက်ခန့် ရှိပြီးလျှင် ရခိုင်တိုင်းသာသာ ကျယ်ဝန်းသည်။ အရှေ့မှအနောက်သို့ မိုင် ၁၉၀ ရှည်၍ တောင်နှင့် မြောက်မိုင် ၉၀ ကျယ်သည်။ ၁၉၅၄ ခုနှစ် ခန့်မှန်းခြေအရ ဘူတန်နိုင်ငံ၏ လူဦးရေသည် ၃၀၀,၀၀၀ ခန့်ရှိသည်။ ဘူတန်နိုင်ငံသည် အများအားဖြင့် တောင်ထူထပ်သော ဒေသဖြစ်သည်။ ဗြဟ္မပုတ္တရမြစ်၏ မြစ်လက်တက်များ ဖြစ်သော မားနတ်စသည့် မြစ်ကလေးများသည် ဘူတန်နိုင်ငံကို တောင်မှ မြောက်သို့ ဖြတ်၍ စီးဆင်းလေသည်။

ဘူတန်နိုင်ငံသည် ကျဉ်းသော်လည်း ဘူတန်နိုင်ငံ၏ ရာသီဥတုသည် တနေရာနှင့်တနေရာ မတူပေ။ တနေရာနှင့် တနေရာ ခရီးမကွာလှမ်းသော်လည်း တည်ရာဒေသ အနိမ့်အမြင့်ကွာလှသဖြင့် ဘူတန်နိုင်ငံ၏ ရာသီဥတုသည် ထိုသို့ တနေရာနှင့်တနေရာ မတူခြင်း ဖြစ်သည်။ မိုးရေချိန်သည် တနှစ်လျှင်လက်မ ၂၀၀ မှ ၃၀၀ အထိရွာသည်။ တောင်များသည် သစ်တောများဖြင့် ဖုံးအုပ်လျက်ရှိ၍၊ အနိမ့်ပိုင်းများတွင် ပိုင်းထင်းရှူးပင်၊ ဝက်သစ်ချပင်၊ သင်းဝင်ပင် စသည့် အပင်များပေါက်ပြီးလျှင် အမြင့်ပိုင်းတွင် ကွန်နီဖာ ထင်းရှူးပင်များပေါက်သည်။ ဘူတန်နိုင်ငံတွင် မြေပြန့်ဒေသဟူ၍ အလွန်နည်းသဖြင့် လယ်ယာစိုက်ပျိုးရေးကို အနည်းငယ်သာ လုပ်ကိုင်နိုင်ကြသည်။ တောင်ခါးပန်းများတွင် လှေကားထစ်ကွင်းများပြုလုပ်၍ လယ်ယာစိုက်ပျိုးနိုင်က အကျိုးရှိမည်ဖြစ်သော်လည်း အကုန်အကျခံ၍ မပြုပြင်နိုင်ကြသဖြင့် ကြီးပွားတိုးတက်မှု မရှိချေ။ အဓိက စိုက်ပျိုးကြသော ကောက်ပဲသီးနှံများမှာ စပါး၊ ဂျုံ၊ ပြောင်းဖူး၊ နှံစားပြောင်း၊ ရှရီမန်ဂျုံ တို့ဖြစ်သည်။

ဘူတန်နိုင်ငံသူ နိုင်ငံသားတို့သည် အများအားဖြင့် ဘူတီးယားလူမျိုးများဖြစ်၍ တောင်ပိုင်းတွင် နီပေါလူမျိုး အနည်းငယ်နေထိုင်သည်။ ဘူတီးယား လူမျိုးများသည် အပင်ပန်းခံနိုင်၍ လုံ့လဝီရိယ ရှိကြသည်။ လယ်ယာ စိုက်ပျိုးရေး အပြင်၊ နွားမြင်းမွေးမြူရေး လုပ်ငန်းကိုလည်း လုပ်ကိုင်သည်။ ကိုးကွယ်သော အယူဝါဒမှာ လာမာ ဗုဒ္ဓအယူဝါဒ ဖြစ်သည်။

လွန်ခဲ့သည့် အနှစ် ၂၀၀ ကျော်က ဘူတန်နိုင်ငံတိုင်းရင်းသားများဖြစ်သော တေးဖပ်လူမျိုးတို့ကို တိဗက်လူမျိုးတစုက တိုက်ခိုက်ကာ ဘူတန်နိုင်ငံကို သိမ်းပိုက်ထားခဲ့ကြသည်။ ဘူတန်နိုင်ငံသည် ထိုအခါက များစွာကျယ်ဝန်းပြီးလျှင် ယခု ဒါဂျီလင်မြို့တည်ရာ ဒေသတဝိုက်နှင့် တောင်ဖက်ရှိ လွင်ပြင်များ၊ အိန္ဒိယသွား တောင်ကြားလမ်းများကိုပင် ပိုင်ဆိုင်ခဲ့သည်။ ၁၇၇၂ ခုနှစ်တွင် ဗြိတိသျှတို့သည် ဘူတန် နယ်စပ်အထိ နယ်ချဲ့လာသည်။ ထိုအခါ ဘူတန်နိုင်ငံပိုင် ဒါဂျီလင်မြို့ဒေသတလွှားနှင့် တောင်ကြား လမ်းများကို အလိုရှိသော

ဘူတန်နိုင်ငံ



ဘူတန်နိုင်ငံ ပြည့်ရှင် မဟာရာဇာမင်းမြတ် စိုးစံတော်မူရာ နန်းတော်ဖြစ်သည်။ ထိုနန်းတော်ကို တောင်ခါးပန်းတွင် တည်ထား၍၊ ခံတပ်သဖွယ် အသုံးပြုနိုင်ရန်လည်း ကျင်လည်ပါးနပ်စွာ ဆောက်လုပ်ထားသည်။ ဘူတန်နိုင်ငံသည် တိဗက်ပြည်နှင့် လွန်စွာနီးစပ်သဖြင့်၊ တိဗက်လူမျိုးတို့နှင့်မခြား နေထိုင်လေ့ရှိကြသည်။

ကြောင့် ဗြိတိသျှတို့သည် ဘူတန်ဘုရင်များနှင့် ရင်းနှီးစွာ ဆက်ဆံရန် ကြိုးစားသည်။ သို့ရာတွင် ဘူတန်နိုင်ငံက ဆက်ဆံရန် ငြင်းဆိုသောကြောင့် ၁၈၄၁ ခုနှစ်တွင် ဗြိတိသျှတို့က အလိုရှိသော လွင်ပြင်များနှင့် တောင်ကြား လမ်းများကို အဓမ္မသိမ်းယူရာမှအစ ဘူတန်နှင့် ဗြိတိသျှတို့ စစ်ဖြစ်သည်။ ၁၈၆၅ ခုနှစ်တွင် စစ်ပြေငြိမ်းသောအခါ ဘူတန် နိုင်ငံက ဒါဂျီလင်နှင့် တောင်ကြားလမ်းများကိုလက်လွှတ်ရ၍ ဗြိတိသျှအစိုးရက ဘူတန်နိုင်ငံအား ထောက်ပံ့ကြေးအဖြစ် တနှစ်လျှင် အိန္ဒိယငွေ ၅၀,၀၀၀ ပေးခဲ့သည်။ ၁၉၁၀ ခုနှစ်တွင် ဘူတန်နိုင်ငံ၏ ပြည်ပရေးရာများကို ဗြိတိသျှအစိုးရအား လက်ဝါးကြီးအုပ်ခွင့် ပေးလိုက်ရပြန်သည်။ ပြည်တွင်းရေးရာများကိုကား ဗြိတိသျှတို့ လုံးဝမစွက်ဖက်ချေ။ နှစ်စဉ်ငွေထောက်ပံ့ကြေးကိုလည်း အိန္ဒိယငွေ ၁၀၀,၀၀၀ အထိ တိုးမြှင့် လိုက်သည်။ ဒုတိယကမ္ဘာစစ် အတွင်းကမူ ထောက်ပံ့ကြေး အဖြစ် အိန္ဒိယငွေ ၂၀၀,၀၀၀ ပေးသည်။ ၁၉၄၉ ခုနှစ်တွင်မူ ထောက်ပံ့ကြေး အိန္ဒိယငွေ ၅၀၀,၀၀၀ ပေးရန် သဘောတူစာချုပ် ချုပ်ဆို၍ ယင်းစာချုပ်အရ ၁၈၆၅ ခုနှစ်က ဗြိတိသျှတို့သိမ်းပိုက်ထားသော ၃၂ စတုရန်း မိုင်ရှိ ဒေဝန်ဂီရီနယ်ကို ဘူတန်နိုင်ငံအား ပြန်လည်ပေးအပ်သည်။ သို့ရာတွင် နိုင်ငံခြားရေးဌာမှ အိန္ဒိယသြဇာခံပင် ဖြစ်သည်။

ဘူတန်နိုင်ငံသည် တိဗက်နှင့် အိန္ဒိယနိုင်ငံတို့အကြားတွင် တည်ရှိ၍ ထိုနိုင်ငံများမှ ယဉ်ကျေးမှုကို ရသည်။ ထို့ကြောင့် နိုင်ငံအုပ်ချုပ်ရေးတွင် တိဗက်စံနစ်လည်း ဆန်သည်။ အိန္ဒိယရှေးခေတ်အုပ်ချုပ်ရေးစံနစ်လည်း ပါဝင်သည်။ တိဗက်နိုင်ငံ၌ကဲ့သို့ ဂိုဏ်းအုပ်လာမာဘုန်းတော်ကြီးက အုပ်ချုပ်သည်။ ထိုဘုန်းတော်ကြီးအား ဓမ္မရာဇာဟုခေါ်သည်။ ဓမ္မရာဇာ ပျံလွန်လျှင် တိဗက်နည်းအတိုင်း ရဟန်း၏ လူဝင်စားကိုရှာဖွေ၍ နောက်ထပ် ဓမ္မရာဇာ တင်မြှောက်သည်။ သို့ရာတွင် နယ်စားအပေါင်းက ရွေးကောက် တင်မြှောက်သော ဒိဗ္ဗရာဇာခေါ် မင်းကသာ နိုင်ငံကို ကိုယ်ထိလက်ရောက် အုပ်ချုပ်သည်။ ၁၆ ရာစုနှစ် အလယ်မှစ၍ ယင်းစံနစ်အတိုင်း သာသနာပိုင်နှင့်ဘုရင် ပူးတွဲအုပ်ချုပ်ခဲ့ရာ ၁၉၀၇ ခုနှစ်အထိ ဖြစ်သည်။ ၁၉၀၇ ခုနှစ်တွင် တနိုင်ငံလုံး၏ ဆန္ဒအတိုင်း တောင်ဆာနယ်စား ဆာ အပ်ယင်းဝန်ချုပ်အား မဟာရာဇာအဖြစ် ရွေးကောက်တင်မြှောက်၍ ဘုရင်တဦးတည်း အုပ်ချုပ်သော စံနစ် တီထွင်လိုက်သည်။ထိုမဟာရာဇာ၏ သားစဉ်မြေးဆက်တို့သည် ဘူတန်နိုင်ငံကို ယခုတိုင် ဆက်လက် အုပ်ချုပ်လျက်ရှိသည်။ ၁၉၅၂ ခုနှစ် အောက်တိုဘာလ ၂၇ ရက်နေ့တွင် မဟာရာဇာကြီး၏မြေး ယခုလက်ရှိ မဟာရာဇာ ဂျစ်ဂမီဒေါ်ဂျီဝန်ချုပ်အရိုက်အရာခံယူသည်။

ဘူတန်နိုင်ငံ၏ နွေရာသီမြို့တော်သည် တာရှိချောဇွန်းမြို့ ဖြစ်၍ ဆောင်းရာသီမြို့တော်သည် ပွန်နက်ခါးမြို့ ဖြစ်သည်။

# ကျောက်အမျိုးမျိုးကိုလေ့လာသောပညာ

**ပထဝီမြေကြီးတခုလုံးကို လေ့လာရသော ကျယ်ဝန်းနက်နဲသည့် ပညာရပ်ဖြစ်၍၊ နီးစပ်ရာသဘောတူ ဘာသာရပ်ခွဲ များစွာ ပါဝင်သည်။ ဘူမိဗေဒကို စံနစ်တကျ လေ့လာခြင်းသည် နှစ် ၂၀၀ ပင် မပြည့်တတ်သေးသော်လည်း ကျောက်အမျိုးမျိုး ဖြစ်ပေါ်ရပုံ၊ တောင်များ ပေါ်ပေါက်လာပုံ စသော မေးခွန်းများကို ဘူမိဗေဒပညာရပ်က ဖြေရှင်းပေးနိုင်သည်။**

**ဘူမိဗေဒ။** ။ဘူမိဗေဒပညာဟူသည် ပထဝီ မြေကြီးကို လေ့လာသော ပညာပင်ဖြစ်၏။ ကမ္ဘာဦးတည်စ လွန်ခဲ့သောနှစ်ပေါင်း သန်း ၄,၅၀၀ မှ မျက်မှောက်ခေတ်အထိ ကမ္ဘာမြေကြီး အတွင်း အပြင်ရှိသော ကျောက်အမျိုးမျိုး၏ သဘော၊ ပေါ်ပေါက်ပုံ၊ ပြောင်းလဲပုံ အစရှိသည်တို့ကို လေ့လာခြင်းပင် ဖြစ်လေသည်။

ကာလအားဖြင့် နှစ်ပေါင်း သန်း ၄,၅၀၀ အတွင်းဖြစ်ရပ်များအပြင်၊ လေ့လာဖွယ်ရာ ဝတ္ထု ပစ္စည်းများမှာလည်း ကမ္ဘာတခုလုံး၏ အတွင်းအပြင်ရှိ ပထဝီမြေကြီးတခုလုံး ဖြစ်လေရာ၊ အလွန်မှပင် ကျယ်ဝန်းနက်နဲလှ၏။ ဤသို့ကျယ်ဝန်းနက်နဲမှုကြောင့်လည်း ဘူမိဗေဒပညာရပ်တွင် အခြား သိပ္ပံပညာများနည်းတူ ဘာသာရပ်ခွဲများ စိတ်ပိုင်းကာ အသေးစိတ် လေ့လာမှုများ ပြုလုပ်ကြလေသည်။

ဘူမိဗေဒပညာရပ်၏ ဘာသာရပ်ခွဲများကား အောက်ပါအတိုင်းပင် ဖြစ်၏။

**ရူပဘူမိဗေဒ** သည် ကမ္ဘာပထဝီမြေကြီး၏ အတွင်းအပြင်ရှိ ရုပ် ဝတ္ထုပစ္စည်းများ၏ ပေါ်ပေါက်ပုံ၊ ပြောင်းလဲပုံ၊ ကြေမွပျက်စီးပုံ စသော လုပ်ငန်းအသီးအသီးကို လေ့လာခြင်းဖြစ်သည်။ ဤပညာရပ်တွင်ပင် ကဏ္ဍအလိုက် အနုစိတ်လေ့လာမှုများရှိ၏။ ပုံစံအားဖြင့် အဏ္ဏဝဗေဒသည် ပင်လယ်သမုဒ္ဒရာထုကိုငုံး၊ လျှင် ပညာ (ဘူကမ္ပဗေဒ) သည် မြေလျှင်ကို ငုံး ထပ်မံ၍ အသေးစိတ် လေ့လာကြသည်။

**နေထားဘူမိဗေဒ**သည် ဖိအား၊ တွန်းအား၊ ကန်အား၊ ဒဏ်အားစသော အားအသီးအသီးတို့၏ ဒဏ်ကြောင့် ပေါ်ပေါက်လာသော ကျောက်လွှာကျောက်စိုင်တို့၏ နေထားကို လေ့လာခြင်းဖြစ်သည်။ **ဒိုင်နမစ်ဘူမိဗေဒ၊ တက်တိုးနစ်**



မြန်မာ့ကျောက်ခေတ်ဦးတွင် တွေ့ရှိရသော အင်ကြင်းကျောက်ဖြင့် ပြုလုပ်ထားသော လူသုံးကရိယာများ။ ညောင်ဦးမှ ရရှိသည်။

ကျောက်ဆည်တောင်ပေါ်ရှိ ဝေဘူကျောက်ကို ပါးပါးလွှာလွှာ ဖြတ်ထားပြီး၊ မိုက္ကရိုစကုပ်အောက်တွင် ကြည့်သောအခါ တွေ့မြင်ရသည့် ဝေဘူကျောက် ဖြတ်ပိုင်းပုံ။ ဤပညာကို သေလဗေဒ ဟု ခေါ်သည်။

လွန်ခဲ့သောနှစ်သန်းပေါင်း ၅၀ ခန့်က ဖြစ်ပေါ်ခဲ့သော ထုံးကျောက်လွှာများအတွင်းရှိအဏုရုပ်ကြွင်းကျောက်များ၏ဖြတ်ပိုင်းပုံ။အဏုရုပ်ကြွင်းကျောက်များကို လေ့လာသော ပညာမှာ အဏုနိခါတက ဗေဒဖြစ်၍၊ ရေနံမြေဒေသရှိ ကျောက်လွှာများ ပြန်လှန်ဆက်စပ်ရေးတွင် အထူး အသုံးဝင်သည်။

စသော ပညာရပ်ခွဲများသည် နေထားဘူမိဗေဒတွင် ပါဝင်ကြသည်။

**ခနိဇဗေဒ** သည် ခနိဇများ၏ ဓာတုဖြစ် တည်ဆောက်ပုံ၊ သွင်ပြင်၊ မူလအစရှိသော ခနိဇ၏သဘာဝကို လေ့လာသောပညာဖြစ်သည်။

**သေလဗေဒ**ဟူသည်မှာ ခနိဇများ စုပေါင်းတည်ဆောက်ထားသော ကျောက်များကို လေ့လာသော ပညာပင် ဖြစ်၏။ ဘူမိဗေဒသဘောအားဖြင့် မာသည် ပျော့သည် မဟူ၊ ကမ္ဘာ့အပေါ်ယံ မြေလွှာတွင် ရှိသမျှ မြေဝတ္ထုပစ္စည်းအားလုံးကို ကျောက်ဟုပင် ခေါ်ဆိုသည်။ ကျောက်များသည်



ပထမဆုံး ဘူမိဗေဒမြေပုံကို ရေးဆွဲခဲ့သူ ဝီလျံစမစ်

ယေဘုယျအားဖြင့် မီးသင့်ကျောက်၊ အနည်ကျကျောက်နှင့် သွင်ပြောင်းကျောက်ဟူ၍ ၃ မျိုး ရှိပေရာ သေလဗေဒပညာဘွင်လည်း ဤကျောက် ၃ မျိုးကို အနုစိတ်လေ့လာသော ဘာသာစိတ်များရှိလေသည်။

**နိဒါတကဗေဒ** (ရုပ်ကြွင်းကျောက်ပညာ) သည် ရုပ်ကြွင်းကျောက်များကိုလေ့လာသောပညာဖြစ်၏။ ရုပ်ကြွင်းကျောက်များသည် အတိတ်တွင် နေထိုင်ခဲ့သော သက်ရှိဝတ္ထုပစ္စည်းများ၏ အကြွင်းအကျန်များ ဖြစ်လေရာ၊ ယင်းတို့ကို လေ့လာခြင်းဖြင့် ထိုခေတ်၏ အခြေအနေကို သိသာနိုင်သည်။ ရုပ်ကြွင်းကျောက်များသည် ကျောက်လွှာများ၏သက်တမ်းကို စူးစမ်းရာတွင်လည်း အထူးအသုံးဝင်သည်။ နိဒါတကဗေဒတွင် သစ်ရုပ်ကြွင်းကျောက်များကို လေ့လာသော ပုရာရုက္ခဗေဒ၊ သတ္တဝါရုပ်ကြွင်း ကျောက်များကိုလေ့လာသော ပုရာပါဏဗေဒ၊ အလွန်သေးငယ်သော ရုပ်ကြွင်းကျောက်များကို လေ့လာသော အဏုနိဒါတကဗေဒဟူ၍ ဘာသာစိတ်များ ရှိပြန်လေသည်။

**ထရဗေဒ**ကို မှုကား အခြားဘာသာရပ်ခွဲများ၏ လေ့လာမှုကို ပေါင်းစပ်ကာ ကျောက်လွှာထပ်များ၏ အတိတ်သမိုင်းကို လေ့လာခြင်း ဖြစ်သောကြောင့် အချို့ ပညာရှင်များက သမိုင်းဘူမိဗေဒဟူ၍လည်း ခေါ်သည်။

**ဘောဂဘူမိဗေဒ**ဘာသာရပ်ခွဲမှာမူ ဘူမိဗေဒပညာရှင်၏ စီးပွားရေး သဘော လေ့လာမှု ဖြစ်သည်။ ဘောဂအင်အား၏ အခြေခံကုန်ကြမ်းများဖြစ်သော သတ္တုများ၊ သတ္တု မဟုတ်သော အခြားခနိဇများ၊ လောင်စာများ စသည်တို့၏ သဘာဝနှင့် စီးပွားရေးအရ ထုတ်လုပ်နိုင်မှုကို လေ့လာသော ပညာဖြစ်လေသည်။

**အင်ဂျင်နီယာဘူမိဗေဒ**သည် အင်ဂျင်နီယာတည်ဆောက်မှုလုပ်ငန်းများတွင် လိုအပ်သော ဘူမိဗေဒပညာရပ်ပင်ဖြစ်သည်။ ရေလှောင်ကန်များ၊ တမံများ၊ တန်တားများ၊ဥမင်များ ဖောက်လုပ်ရာဝယ် မြေအနေအထားကိုလေ့လာ၍ မည်သို့ ဆောက်သင့်သည်ဟု ကြံဆရသော ပညာမှာ အင်ဂျင်နီယာဘူမိဗေဒပင်ဖြစ်၏။လူ့လောကတွင် အိမ်တွင်း သုံးရန်နှင့် စက်မှုလုပ်ငန်းများအတွက် ရေအမြောက်အမြား လိုအပ်လေရာ၊ ရေစိမ့်လွှာ၊ ရေအောင်း ကျောက် စသည်တို့ကို လေ့လာ၍ ရေရနိုင်သော ကျောက်လွှာကို ရှာဖွေရသော ဇလဗေဒ (ဥဒကဗေဒ) သည် အင်ဂျင်နီယာ ဘူမိဗေဒ၏ အစိတ်အပိုင်းတရပ်ပင် ဖြစ်လေသည်။

ဘူမိဗေဒပညာရပ်သည် ဓာတုဗေဒ၊ ရူပဗေဒတို့ကဲ့သို့ အခြေခံသိပ္ပံပညာမဟုတ်ဘဲ၊ ပထဝီမြေကြီးကို ယင်းအခြေခံသိပ္ပံပညာ၏ နည်းစံနစ်သဘောများ အသုံးပြုကာ လေ့လာထားခြင်းဖြစ်၏။ ထို့ကြောင့် ဘူမိဗေဒသည် အခြားသိပ္ပံပညာများနှင့် ဆက်သွယ်မှု မှီခိုမှု ရှိသည်။ပုံစံအားဖြင့်နိဒါတကဗေဒသည် ပါဏဗေဒနှင့် ဆက်သွယ်နေကာ၊ ခနိဇဗေဒနှင့် သေလဗေဒသည် ဓာတုဗေဒနှင့် ရူပဗေဒတို့နှင့်ကင်း၍မတည်နိုင်ချေ။ နေထားဘူမိဗေဒသည် ဘူမိဗေဒပုစ္ဆာများကို သင်္ချာနည်းဖြင့် ဖြေရှင်းခြင်းသာ ဖြစ်လေသည်။

မျက်မှောက်ခေတ်တွင်မှ ပေါ်ပေါက်ထွန်းကားလာ၍၊ ဘူမိဗေဒနှင့် နွယ်နေသော ဘာသာရပ်များမှာ ဘူမိရူပဗေဒနှင့် ဘူမိဓာတုဗေဒတို့ဖြစ်ကြသည်။ ဘူမိရူပဗေဒပညာသည်ဒြဗ်ဆွဲအား၊သံလိုက်အား၊ လျှပ်စစ်တုံ့ခံမှုနှင့် လျှင်လှိုင်းတို့ကို အသုံးပြုကာ ပထဝီမြေကြီး (အထူးသဖြင့် အတွင်းပိုင်း) ကို လေ့လာသော ပညာဖြစ်သည်။ (ဘူမိရူပဗေဒ — ရှု။) ဘူမိဓာတုဗေဒပညာသည်ကား ကမ္ဘာ့အပေါ်ယံ မြေလွှာ၏ ဓာတုဒြပ်သဘောကို လေ့လာခြင်း ဖြစ်သည်။ ယင်းပညာ




























လွန်ခဲ့သော နှစ်ပေါင်း သန်း ၃၀၀ ခန့်က ဖြစ်ပေါ်ခဲ့သော ရှမ်းပြည်တောင်ပိုင်းရှိ ကုန်းပြင်မြင့် ထုံးကျောက်လွှာများမှ ရရှိသော ရုပ်ကြွင်း ကျောက်များပုံဖြစ်သည်။ ယင်းကို လေ့လာသောပညာကို နိခါတက ဗေဒ ဟု ခေါ်သည်။

တွင် နောက်ဆုံးထွန်းကားလာသော လေ့လာမှုမှာ မြေဆီလွှာတွင် ပါရှိသော ဓာတုဒြပ်ကို လေ့လာခြင်းဖြင့် မြေအောက်တွင် မည်သို့သောအကျိုးပြု သတ္တုသိုက်ရှိနိုင်မည်ကို စူးစမ်းခြင်းပင် ဖြစ်လေသည်။

ထို့ကြောင့် ဘူမိဗေဒကို လေ့လာရာတွင် နည်း ၂ သွယ်ရှိသည်။ ပဌမနည်းမှာ သိပ္ပံပညာသဘောသက်သက် ဖြစ်ကာ ပထဝီမြေကြီး၏ သဘောနေထား အတိတ်သမိုင်းကိုလေ့လာခြင်းဖြစ်၍၊ ဒုတိယနည်းကား ဤပညာရပ်ကို အသုံးပြုကာ စီးပွားရေး ရှုထောင့်မှ လေ့လာခြင်းပင်ဖြစ်၏။ သို့သော်မည်သည့်နည်းဖြင့် လေ့လာစေကာမူ အခြေခံမှာ ဘူမိဗေဒမြေပုံ ဖြစ်၍ ယင်းကို ကွင်းဆင်းဘူမိဗေဒ ပညာဖြင့် ရေးဆွဲရလေသည်။

ဘူမိဗေဒကို ဥရောပသမိုင်း ခေါမ(ဂရိ) ခေတ်၊ ရောမခေတ်တို့တွင်ပင် လေ့လာမှုရှိကြောင်း တွေ့ရှိရသော်လည်း စံနစ်တကျ လေ့လာမှုမှာ နှစ် ၂၀၀ပင် မပြည့်သေးချေ။ခေါမခေတ်ပညာရှိ အယ်ရစ္စတိုတယ်သည် ငလျင်လှုပ်ခြင်းကို ကမ္ဘာပထဝီမြေအတွင်းရှိ ဝါယောဓာတ်ကြောင့် ဖြစ်ပေါ်သည်ဟု ယူဆခဲ့၏။ ၁၆ ရာစုနှစ်တွင် ရောမပန်းချီကျော် ဇာဝိ လီယိုနာဒိုဒါဗင်း ချီက ပင်လယ်ခရုများရှိရာ လက်ရှိကုန်းမြင့်များသည် တကြိမ်က ပင်လယ်အောက်တွင်ရှိခဲ့၍ နောက်မှ မြေမြင့်တက်လာခဲ့ခြင်း ဖြစ်သည်ဟု တွေးယူခဲ့ဘူးလေသည်။

ခေတ်သစ်ဘူမိဗေဒကိုကား ၁၇၈၅ ခုနှစ်တွင် စကော့လူမျိုး ဂျိမ်း ဟတ်တန် ပြုစုသော "ကမ္ဘာပထဝီ မြေနိယမ" စာအုပ်မှ စတင်ခဲ့သည်ဟု ယူဆရပေမည်။ ဂျိမ်းဟတ်တန်သည် "ပစ္စုပ္ပန်သည် အတိတ်၏ သော့ချက်ဖြစ်သည်" ဟူသော ယူနီဖော်မီတေးရီးယန်း အယူအဆဖြင့် ဘူမိဗေဒ၏ အခြေခံ အယူအဆကို အုတ်မြစ်ချခဲ့သူ ဖြစ်လေသည်။

၁၈၁၅ ခုနှစ်တွင် အင်္ဂလိပ်လူမျိုး ဝီလျံစမစ်သည် အင်္ဂလန်ပြည်နှင့် ဝေလပြည်၏ ဘူမိဗေဒမြေပုံကို ရေးဆွဲတင်ပြကာ ရုပ်ကြွင်းကျောက်များဖြင့် ကျောက်စဉ်ကို စူးစမ်း၍၊ ဘူမိအတိတ်ကာလကို သမိုင်းသဖွယ် လေ့လာနိုင်ကြောင်းဖြင့် ထရေဗေဒအခြေခံ သဘောကို တီထွင်ကြံဆခဲ့သည်။ ယင်းတို့၏ အယူအဆများကို ဆာ ချားလိုင်းယဲက ပိုမိုခိုင်မြဲပြန့်ပွားစေခြင်းဖြင့် ဘူမိဗေဒပညာသည် ဥရောပတိုက် အနောက်မြောက်ပိုင်းတွင် စတင်တည်မြဲခဲ့သည်။

ဂျိမ်းဟတ်တန်နှင့် ခေတ်ပြိုင်လောက်တွင် ဥရောပတိုက်၌လည်း ဘူမိဗေဒပညာသည် ထွန်းကားလျက်ရှိ၏။ ထိုခေတ်တွင် ကျော်ကြားသူမှာ ဂျာမန်လူမျိုး ပါမောက္ခအဗရာဟမ် ဂေါ့တလော့ ဗာနာဖြစ်သည်။ ဗာနာသည် မီးသင့်ကျောက်အပါအဝင် ကျောက်များအားလုံး၏ မူလသည် အာပေါဓာတ်ကြောင့် ဖြစ်သည်ဟူသော နက်ပကျွန်းအယူအဆကို ဦးဆောင်ခဲ့သူဖြစ်၏။ ဤအယူအဆသည် မှားယွင်းသော အယူအဆဖြစ်သည်နှင့်အညီ ၁၉ ရာစု နှစ်ဦးတွင်ပင် ယုံကြည်သူ မရှိတော့ချေ။ ပြင်သစ်နိုင်ငံတွင်ကား ဘူမိယုဂ်ကုန်ဆုံးတိုင်းပင် ကပ်ဆိုးကာ သတ္တဝါများ သေကြေပျက်စီး၍ ယုဂ်သစ်တွင် သတ္တဝါသစ်များ ဖန်ဆင်းခဲ့သည် ဟူသော ကပ်ဆိုးပြောင်းလဲခြင်း အယူအဆကို တီထွင်ခဲ့သူ ဇော့ဇက် လေအိုပို ကူဗီယေးသည် ထိုခေတ်တွင် ထင်ရှားခဲ့လေသည်။

၁၉ ရာစုနှစ်တွင်မူကား မျက်မှောက်ခေတ် ဘူမိဗေဒအယူအဆအများပင် စတင်ပေါ်ပေါက်လာခဲ့ပြီးလျှင်၊ ဘူမိဗေဒပညာ လေ့လာမှုသည်လည်း ဥရောပတိုက်တွင်သာ မကတော့ဘဲ၊ မြောက်အမေရိကတိုက်၊ ဩစတြေးလီးယားတိုက်နှင့် အာရှတိုက်တို့သို့ ပြန့်ပွားလာခဲ့၏။ ၁၉ ရာစုနှစ် နှောင်းပိုင်းနှင့် ၂၀ ရာစုနှစ်တွင်မူကား အာဖရိကတိုက်သို့ပါ ပြန့်ပွားသွားလေသည်။

မြန်မာနိုင်ငံတွင်မူ ဘူမိဗေဒလေ့လာမှုသည် မြန်မာမင်းများလက်ထက်က ကျောက်မျက်ရတနာ အကဲဖြတ်နိုင်ရန်


ခေတ်သစ် ဘူမိဗေဒကို အုတ်မြစ်ချခဲ့သူ ဂျိမ်း ဟတ်တန်

အတွက်သာ အခါကရှိခဲ့၍ သိပ္ပံပညာတရပ် အနေဖြင့် ပညာသက်သက်လေ့လာမှုကား မရှိခဲ့ပေ။ ဘူမိဗေဒမှတ်တမ်း အနေဖြင့် အစောဆုံးတွေ့ရှိရသော မှတ်တမ်းမှာ ၁၅၉၉ ခုနှစ်တွင် ရေးသားခဲ့သော ရပ် ဖစ်၏ခရီးသွား မှတ်တမ်းဖြစ်၏။

**INDEX.**

- 11 — Recent & Sub-Recent
- 10 — Namyao beds
- 9 — Rhætic
- 8 — Plateau limestone
- 7 — Namhsim sandstones
- 6 — Panghsapye graptolite horizon
- 5 — Naungkangyi beds
- 4 — Pangyun beds
- 3 — Bawdwin volcanic series
- 2 — Chaung magyi series
- 1 — Tawngpeng granite with Mica schist
- D — Dykes
- Dips
- Faults
- Boundaries undefined
- C — Conglomerate

*Small unmapped outliers of Rhætic,? limestone occur on the surface of the Plateau limestone east of the dotted line......*




SECTION ALONG THE LINE C—D

GEOLOGICAL MAP SHOWING BAWDWIN AND SURROUNDING COUNTRY.

*Scale, 1 inch = 4 miles.*

ဘူမိဗေဒပညာ၏ အခြေခံသည် ဘူမိဗေဒမြေပုံပင်ဖြစ်သည်။ ယင်းမြေပုံများကို မြေပေါ်တွင်တွေ့ရှိရသော ကျောက်လွှာများကို မှတ်သားကာ ရေးဆွဲထားသည်။ အထက်ပါပုံမှာ ရှမ်းပြည်မြောက်ပိုင်းရှိ ခဲ၊ ငွေ၊ သွပ် စသော တွင်းထွက်ပစ္စည်းများထွက်သော တောင်ပိုင်နယ် ဘော်တွင်းဒေသ၏ ဘူမိဗေဒ မြေပုံဖြစ်သည်။

ထိုမှတ်တမ်းတွင် တနင်္သာရီ ကမ်းရိုးတန်းဖက်တွင် တွေ့ရှိရသော သံဖြူအကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရသည်။ ရှေးမှတ်တမ်းများအနက် ၁၇၉၉ ခုနှစ်ထုတ် ဟီရမ်ကောက်စ၏ အမရပူရမြို့တော်သို့ ဧရာဝတီမြစ်ကြောင်းဖြင့် ဆန်တက်သော ခရီးသွားမှတ်တမ်းတွင် ရေနံချောင်း ရေနံတွင်းများအကြောင်း ရေးသားထားချက်သည်လည်း စိတ်ဝင်စားဖွယ်ကောင်းပေသည်။

မြန်မာနိုင်ငံ၏ ဘူမိဗေဒလေ့လာမှု သမိုင်းကို စိစစ်ကြည့်သော် အင်္ဂလိပ်-မြန်မာ စစ်ပွဲများနှင့် အထူး ဆက်စပ်နေကြောင်းတွေ့ရှိရသည်။ အင်္ဂလိပ်-မြန်မာစစ်ပွဲပြီးတိုင်း အင်္ဂလိပ် မစ်ရှင်တဖွဲ့လာရိုးရှိလေရာ ထိုအဖွဲ့တိုင်းပင် ဘူမိဗေဒစူးစမ်းလေ့လာမှုများ ပြုလုပ်လေ့ရှိကြောင်းတွေ့ရှိရလေသည်။

ပဌမ အင်္ဂလိပ်-မြန်မာစစ်ပွဲအပြီးတွင် လာရောက်သော ဂျော်ကရော့ဖို့မစ်ရှင်အဖွဲ့မှ ကောက်ယူခဲ့သည့် ဘူမိဗေဒစံများကို လန်ဒန်ဘူမိဗေဒ တော်ဝင်အသင်းကြီး၏ ဥက္ကဋ္ဌဖြစ်ခဲ့ဘူးသူ ဝီလျံ ဗတ်ကလန်က လေ့လာခဲ့၍ ဒုတိယအင်္ဂလိပ်-မြန်မာ စစ်ပွဲအပြီး လာသော ဆာဟင်နရီယူး မစ်ရှင်အဖွဲ့တွင်ကား ဘူမိဗေဒပညာရှင် တီ အိုလဒမ် ပါဝင်ခဲ့ရာ၊ ယင်းဘို့၏ ဘူမိဗေဒမှတ်တမ်းများသည် မြန်မာနိုင်ငံဘူမိဗေဒ လေ့လာရာတွင် မှတ်တိုင်များပင် ဖြစ်ကြပေသည်။

မြန်မာနိုင်ငံ၏ ဘူမိဗေဒကိုလေ့လာ စူးစမ်းသူများသည် ၄ မျိုး ၄ စား ရှိသည်။ ယင်းတို့မှာ အစိုးရ ဘူမိဗေဒ တိုင်းတာရေးဌာန၊ ရေနံနှင့်သတ္တုတွင်းကုမ္ပဏီများ၊ တက္ကသိုလ်နှင့် ပုဂ္ဂလိက လေ့လာသူများဖြစ်ကြ၏။ အစိုးရဘူမိဗေဒတိုင်းတာရေး ဌာနသည် ဘူမိဗေဒတိုင်းတာ လေ့လာရေးလုပ်ငန်းကို အချိန်ပြည့် လုပ်သူများဖြစ်၍ လုပ်ငန်းအတွင်ဆုံး ဖြစ်သည်။

ပဌမ အင်္ဂလိပ်-မြန်မာစစ်ပွဲအပြီးတွင် အင်္ဂလိပ်တို့က ရခိုင်နှင့် တနင်္သာရီကမ်းမြောင်ဒေသကို သိမ်းယူခဲ့သော်လည်း၊ ထိုကာလတွင် အိန္ဒိယပြည်၌ ဘူမိဗေဒတိုင်းတာရေး ဌာနဟူ၍ မဖွင့်လှစ်ရသေးချေ။ ဒုတိယ အင်္ဂလိပ်-မြန်မာ စစ်ပွဲအပြီးကာလတွင်မှ ထိုဌာနစတင်ဖွင့်လှစ်ခဲ့ပြီးလျှင် ရခိုင်ကမ်းရိုးတန်းရှိ ရွှံ့မီးတောင်များနှင့် တနင်္သာရီကမ်းရိုးတန်းရှိ သံဖြူသတ္တုသိုက်များကို လေ့လာသည်။ ၁၈၇၀ ပြည့်နှစ်လောက်ရောက်သောအခါတွင်မှ အောက်မြန်မာပြည်ကိုပါ လေ့လာကြလေသည်။

၁၈၈၅ ခုနှစ်တွင်အထက်မြန်မာနိုင်ငံပါ ကျရှုံးသောအခါတွင်မှ အိန္ဒိယဘူမိဗေဒ တိုင်းတာရေး ဌာနသည် မြန်မာပြည်အဖွဲ့တဖွဲ့ ဖွဲ့ကာ သီးသန့်လေ့လာရန် စီစဉ်ခဲ့သည်။ ထိုစဉ်က အထူးလေ့လာခဲ့သော ဒေသများမှာ ရေနံမြေနှင့် ပတ္တမြားနယ်မြေတို့ ဖြစ်၏။ နောင်တွင် ရှမ်းပြည်၊ အထက် မြန်မာပြည်နှင့် မြေလတ်ပိုင်း၊ တနင်္သာရီ စသောဒေသများတွင် စံနစ်တကျ ဘူမိဗေဒ သဘောအားဖြင့် တိုင်းတာလေ့လာမှုများ ပြုလုပ်သည်။ ၁၉၃၇ ခုနှစ်တွင် မြန်မာပြည်သည် ၉၁ ဌာန အုပ်ချုပ်ရေးအရ အိန္ဒိယပြည်နှင့် ခွဲခွါ လိုက်သောကြောင့် မြန်မာပြည် ဘူမိဗေဒဌာနဟူ၍ သီးခြားဌာနတခုတည်ထောင်ခဲ့၏။ သို့သော် ထိုဌာနသည်အိန္ဒိယ ဘူမိဗေဒ တိုင်းတာရေးဌာန၏ ဌာနခွဲမျှသာဖြစ်ကာ၊ လေ့လာရေး လုပ်ငန်းအားလုံးကို ပင်မဌာနနှင့် ပူးတွဲဆောင်ရွက်ခဲ့ရလေသည်။ မြန်မာပြည် ဘူမိဗေဒကို လေ့လာရာတွင် တိုင်းတာရေးဌာန အနေဖြင့် ကျော်ကြားသူများမှာ တီအိပ်ချ်ဒီလာတု (ရှမ်းပြည်မြောက်ပိုင်း)၊ အက်ဒွင် ပတ်စကို(နောင်တွင် ဆာဘွဲ့ရသည်) (မြန်မာ့ ရေနံအင်အား)၊ ဂျေ ကော့ဂင်ဗရောင်း (ဘော်တွင်း၊ ရှမ်းပြည် မြောက်ပိုင်းနှင့် တောင်ပိုင်း၊ တနင်္သာရီဒေသ)၊ ဂျီဒီပီ ကော့တာ (မြေလတ်)၊ အီးအယ်ဂျီ ကလက် (ခရီတေးရှပ်ကျောက်စဉ်စု၊ မြန်မာ့နိုင်ငံ သံဖြူနှင့် တန်စတင်၊ သရက်မင်းဘူး) တို့ဖြစ်ကြသည်။

ရေနံကုမ္ပဏီများအနက် ဘီအိုစီ ရေနံကုမ္ပဏီသည်ဘူမိဗေဒလေ့လာရာတွင် အတက်ကြွဆုံး ဖြစ်၏။ ရေနံထွက်သော တတိယကပ်ကျောက်များရှိရာ မြန်မာပြည် အလယ်ပိုင်းချိုင့်ဝှမ်းကို ဘီအိုစီ ရေနံကုမ္ပဏီသည် အသေးစိတ် လေ့လာခဲ့၏။ တတိယကပ်အတွင်း ဖြစ်ပေါ်ခဲ့သော ကျောက်စဉ်များကို ခွဲခြားရာ၌ ၁၉၃၃ ခုနှစ်က တင်ပြခဲ့သော ဘီအိုစီ ဘူမိဗေဒပညာရှင်များ၏ အယူအဆကို ယခုအခါ အားလုံးကပင် လက်ခံကြသည်။ ဘီအိုစီရေနံကုမ္ပဏီ ဘူမိဗေဒပညာရှင်များအနက် ထင်ရှားသူများမှာ ဂျီဒဗျူ လက်ပါး၊ အက်ဖ အီအင်၊ စီအေ ဆန်ဆမ်နှင့် အိပ်ချ်အာ၊ တိန်းရှုတို့ဖြစ်ကြ၏။ အင်ဒိုဘားမားရေနံကုမ္ပဏီခေါ် အိုင်ဘီပီရေနံကုမ္ပဏီတွင် ဘူမိဗေဒ ပညာရှင်များရှိသော်လည်း ကျော်ကြားမှုမရှိလှချေ။ တီအို မောရစ် တဦးသာလျှင် မြန်မာ့ ကျောက်ခေတ်ကရိယာများကို လေ့လာခြင်းတွင် ထင်ပေါ်ခဲ့လေသည်။

ရန်ကုန် တက္ကသိုလ်အနေဖြင့်မူ ၁၉၂၃ ခုနှစ်တွင် ပါမောက္ခ အယ် ဒတ်ဒလေ စတမ့်ကို စတင်ခန့်ထားခဲ့ရာမှ ဘူမိဗေဒဌာန စတင်ပေါက်ဖွားခဲ့၏။ စစ်ကြိုခေတ် တလျှောက်လုံးတွင် တက္ကသိုလ်ဘူမိဗေဒဌာနသည် ဌာနငယ်တရပ် အဖြစ်နှင့်သာ ရှိခဲ့သည်။ ပါမောက္ခစတမ့်သည် ရိုးမရေနံကုမ္ပဏီတွင် ခေတ္တထမ်းရွက်ခဲ့ဘူးရာမှ မြန်မာနိုင်ငံ၏တတိယကပ်ကျောက်များကို အသေးစိတ်လေ့လာခဲ့ဘူးသည်။ ထိုလေ့လာမှုကို မှီငြမ်းပြု၍ ပါမောက္ခစတမ့်သည် တတိယကပ်ကျောက်များနှင့် စပ်လျဉ်း၍ အရေးပါသော အခြေခံ အယူအဆများကို ထုတ်ဖော်ခဲ့သူ ဖြစ်၏။ ၁၉၃၀ ပြည့်နှစ် မတိုင်မီ တက္ကသိုလ်ကထိကဖြစ်ခဲ့ဘူးသူ အိပ်ချ်အယ် ချစ်ဗားသည် ထိုခေတ်အထိ လေ့လာပြီးသမျှသော ဘူမိဗေဒတွေ့ရှိ

ချက်များကို စုပေါင်းကာ မြန်မာနိုင်ငံဘူမိဗေဒနှင့် မြန်မာနိုင်ငံဓာတ်သတ္တုအရင်းအမြစ်များ ဟူသော စာအုပ် ၂ အုပ်ကို ပြုစုခဲ့သူဖြစ်လေသည်။

ပုဂ္ဂလိက လေ့လာသူများအနက် ၁၉ ရာစု နှစ်ဦးပိုင်းတွင် တနင်္သာရီကမ်းမြှောင်ဒေသရှိ ကျောက်များနှင့် ဓာတ်သတ္တုများကို လေ့လာခဲ့သူ အက်ဖ မေဆွန်သည် ထင်ရှား၏။ ထိုပုဂ္ဂိုလ်ကြီးသည် မြန်မာ ဓာတ်သတ္တု အခေါ်အဝေါ်များကိုလည်း သိပ္ပံအမည်များအရ စာရင်းပြုလုပ်သွားခဲ့သူဖြစ်သည်။ ၁၉ ရာစုနှစ်အလယ်ပိုင်းတွင် အီး၊ အို၊ ရိုင်လေ၏ လေ့လာမှုများကို တွေ့ရှိရ၏။ ၂၀ ရာစုနှစ်တွင်ကား ဒုတိယကမ္ဘာစစ်ကြီး မတိုင်မီနှစ်များအတွင်း၌ အမေရိကန် ယထာဘူတအသင်းနှင့် အမေရိကန် သဘာဝသမိုင်း ပြတိုက်ကြီးက ကြီးမှူးသော အရှေ့တောင် အာရှစူးစမ်းလေ့လာရေး အဖွဲ့သည် စိတ်ဝင်စားဖွယ်လေ့လာမှုများ ပြုလုပ်ခဲ့သည်။ အဖွဲ့ခေါင်းဆောင်မှာ ဟဲလမတ် ဒါ တာရားဖြစ်၍၊ ရည်ရွယ်ချက်မှာ ပီကင်းလူနှင့် ဂျာဗားလူ ပေါ်ပေါက်ရာ တရုပ်နိုင်ငံနှင့်အရှေ့ အိန္ဒိယကျွန်းစု (ယခုအခေါ် အင်ဒိုနီးရှားနိုင်ငံ) အကြားရှိ မြန်မာပြည်တွင် ရှေးဦးလူများ ရှိနိုင်ကောင်းသောကြောင့် စူးစမ်းရှာဖွေနိုင်ရန် လာရောက်ခြင်း ဖြစ်သည်။ ထိုအဖွဲ့သည် ကျောက်ခေတ်လူရိုးများ မတွေ့ရှိခဲ့သော်လည်း အထက်မြန်မာပြည်တွင် ကျောက်ခေတ်လူသုံးပစ္စည်းများ တွေ့ရှိခဲ့ခြင်းကို မှီငြမ်းပြုကာ မြန်မာ့ကျောက်ခေတ်လူကို "အညာသီယန်" ဟူ၍ပင် မှည့်ခေါ် သွားခဲ့လေသည်။

**ဒေါက်တာ ဦးညီညီ**

# ကမ္ဘာမြေကြီး၏အတွင်းပိုင်းလေ့လာခြင်း

***လူတို့မျက်စိဖြင့်မမြင်မတွေ့နိုင်သော ကမ္ဘာမြေကြီး၏ အတွင်းပိုင်းကို လက်တွေ့လေ့လာစမ်းသပ်နည်းများဖြင့် အရေးကြီးသော သတ္တု၊ ရေနံ စသည်တို့ကို ရှာဖွေလျက်ရှိကြသည်။ ဘူမိရူပဗေဒသည် မျက်မှောက်ခေတ်တွင်မှ ပေါ်ပေါက်လာသော်လည်း အရေးကြီးသော ဘာသာရပ်အနေဖြင့် နိုင်ငံကြီးများတွင် လေ့လာလျက်ရှိကြလေပြီ။***

**ဘူမိရူပဗေဒ။** ။ဘူမိရူပဗေဒ ဆိုသည်မှာ ရူပဗေဒ၏ သဘောတရားများကို အသုံးပြု၍ ကျွန်ုပ်တို့နေထိုင်သော ကမ္ဘာမြေကြီးအကြောင်းကို လေ့လာသော သိပ္ပံပညာဖြစ်သည်။ ဤပညာသည် ဘူမိဗေဒနှင့် ရူပဗေဒပညာ နှစ်ရပ်ပေါင်းစပ်၍ ပေါ်ထွက်သော ပညာဖြစ်၍ အထက်ပါ သိပ္ပံပညာနှစ်ရပ်စလုံးပင် အကျုံးဝင်နေသည်။ ကမ္ဘာမြေကြီး၏ နက်နဲလှသော အကြောင်းအရာများကို လက်တွေ့ စမ်းသပ်ချက်များဖြင့် ပိုမိုနားလည်အောင် ပြုလုပ်ခြင်းသည် ဘူမိရူပဗေဒပညာပင် ဖြစ်ပေသည်။

ဘူမိဗေဒပညာရပ်သည် ကမ္ဘာမြေကြီး၏ ခက်ခဲ နက်နဲမှုကြောင့် ရှေးယခင်အခါက စာဖြင့် ရေးသားဖော်ပြ နိုင်သော သိပ္ပံပညာအဖြစ်နှင့်သာ ဖွံ့ဖြိုးလာခဲ့သည်။ အခြားတဖက်မှာ ကြည့်မည်ဆိုလျှင် ရူပဗေဒပညာသည်အင်အားနှင့် စွမ်းအင်များအကြောင်းကို လေ့လာသော ဘာသာရပ်ဖြစ်သောကြောင့် လက်တွေ့ သိပ္ပံပညာအဖြစ် တိုးတက်လာပေသည်။ ယခုအချိန်မှာဆိုလျှင် ဘူမိဗေဒပါရဂူများသည် ကမ္ဘာမြေအကြောင်းကို အတော်အတန် နက်နက်နဲနဲ သိလာကြပြီဖြစ်၍ ယင်းတို့၏ ယူဆချက် အတွေးအခေါ်များကို လက်တွေ့ စမ်းသပ်၍ အထောက်အထားပြုရန် လိုအပ်လာပြီဖြစ်ရာ၊ ရူပဗေဒပါရဂူများ၏ လက်တွေ့ စမ်းသပ်ချက်တွင် ကျွမ်းကျင်မှုကို အသုံးပြုလာကြသည်။ ဘူမိရူပဗေဒသည် ဤကဲ့သို့ပြန့်ပွားလာသော သိပ္ပံပညာတရပ်ဖြစ်သည်။

အမေရိကန် ဘူမိဗေဒအသင်းကြီးသည် ဘူမိဗေဒပညာကို အောက်ပါအတိုင်း ၇ မျိုးခွဲခြားထားသည်။

၁။ မိုးလေဝသပညာ — လေအကြောင်း သိပ္ပံ ပညာ၊

၂။ ဥဒကဗေဒ — — မြေပေါ် မြေအောက်ရှိ ရေများအကြောင်း လေ့လာသောသိပ္ပံပညာ၊

၃။ အဏ္ဏဝဗေဒ — — ပင်လယ် သမုဒ္ဒရာများ အကြောင်း လေ့လာသော သိပ္ပံပညာ၊

၄။ မီးတောင်ပညာ — မီးတောင်နှင့် သက်ဆိုင်သမျှကို လေ့လာသော သိပ္ပံပညာ၊

၅။ ဘူကမ္ပဗေဒ — — လျှောင်လှုပ်ခြင်းနှင့် အခြား မြေကြီး၏တုန်လှုပ်ခြင်းအကြောင်းများကို လေ့လာသော သိပ္ပံပညာ၊

၆။ ဘူမိသံလိုက်ဗေဒ (မြေ၏သံလိုက်ဓာတ်ပညာ) — ကမ္ဘာမြေကြီး၏သံလိုက်ဓာတ်၊ လျှပ်စစ်ဓာတ်များ အကြောင်း လေ့လာသော သိပ္ပံ ပညာ၊

၇။ မြေခိုးတိုင်းပညာ — ကမ္ဘာမြေ၏ ပုံပန်း သဏ္ဌာန်နှင့် ဒြပ်ဆွဲအား အကြောင်း လေ့လာသော သိပ္ပံပညာ၊







သရက်ခရိုင်အတွင်းရှိ ရင်းနိုင်ရွာတွင် ပဲခူးကျောက်စဉ်စု ကျောက်လွှာများ ခွာစောင်းနေထားနှင့် ထိပ်ပိုင်းတွင် အံလွဲပြတ်နေပုံ။ ကျောက်လွှာများ၏ နေထားကို လေ့လာသည့်ပညာကို နေထား ဘူမိဗေဒဟု ခေါ်သည်။ (အပေါ်-ဝဲ)

လွန်ခဲ့သော နှစ်ပေါင်းတသန်းကျော်က အသက်ရှိခဲ့သော သစ်ပင်တပင်၏ ကျောက်ဖြစ် ရုပ်ကြွင်းပုံ။ ယင်းကို မြန်မာနိုင်ငံ အလယ်ပိုင်းရှိ ဧရာဝတီ ကျောက်စဉ်စုတွင် အများအပြားတွေ့ရ၍ အင်ကြင်းကျောက်ဟု ခေါ်ဝေါ်ကြသည်။ (အပေါ်-ယာ)

ရေနံချပ် ရေနံမြေ။ နောက်ဖက်တွင် ခွာစောင်း တခုကို တွေ့ရှိနိုင်သည်။ (ယာ)

ရေနံချောင်း ရေနံမြေတွင် ရေနံတွင်းများကို တွေ့ရှိရပုံ။ ရေနံရှာဖွေရာ၌ ဘူမိဗေဒနှင့် ဘူမိရူပဗေဒ ပညာရပ်များသည် အခြေခံဖြစ်သည်။



၈။ တက်တိုနိရူပဗေဒ — ကျောက်စိုင်ကျောက်ခဲများ ပုံသဏ္ဌာန် ပြောင်းလဲခြင်း၊ ရိုးမတောင်တန်းများ ပေါ်ပေါက်ခြင်း၊ ကမ္ဘာမြေ မြင့်တက်ခြင်း နိမ့်ဆင်းခြင်းတို့၏ အကြောင်းအရာကို လေ့လာသော သိပ္ပံပညာ၊

အထက်ပါ ဘာသာရပ်များ အားလုံးကို ဘူမိဗေဒပညာ လေ့လာသူတဦးသည် အားလုံးကုန် မလေ့လာနိုင်ပေ။ ပဌမ ၃ ဘာသာသည် ကျယ်ပြန့်လွန်း၍ သီးသန့် ဘာသာတရပ်စီအဖြစ်ဖြင့် လေ့လာကြရသည်။ ကျန်ရှိသော ဘာသာရပ်များကိုမူ များသောအားဖြင့် ဘူမိရူပဗေဒ၏ ဘာသာရပ်များဟု ယူဆကာ လေ့လာခြင်း ပြုကြလေသည်။

ဘူမိရူပဗေဒသည် လူတို့၏ မျက်စိဖြင့် မမြင်နိုင်သော ကမ္ဘာမြေ၏ အတွင်းပိုင်းကိုအဓိက အားဖြင့် လေ့လာသည်။ ကမ္ဘာမြေ၏အတွင်း၌မည်ကဲ့သို့သော ဓာတ်သတ္တု၊ကျောက်ခဲများရှိသနည်း။ ထိုဓာတ်သတ္တု၊ ကျောက်ခဲများသည် အခဲလိုက်ရှိသလော၊ အရည်လော၊ သို့မဟုတ် ကတ္တရာစေးကဲ့သို့ စေးပျစ်နေသလော စသည်ဖြင့် လူတို့အတွက် မသိသေးသောအကြောင်းအရာများကို သွယ်ဝိုက်သော နည်းဖြင့် သိနိုင်ရန်ကြိုးစားခြင်းပင် ဖြစ်သည်။ ထို့ပြင် ကမ္ဘာမြေ၏ ပုံသဏ္ဌာန်၊အတိုင်းအတာ၊ အဝန်းနှင့်အလေးချိန်များကို တွက်ဆခြင်းသည်လည်း ဘူမိရူပဗေဒပညာတွင် အကျုံးဝင်လေသည်။

ပမာအားဖြင့် ကမ္ဘာမြေ၏ သံလိုက်ဓာတ်သည် နှစ်ပေါင်းများစွာအတွင်း မည်သို့ ပြောင်းလဲသည်ကို လေ့လာခြင်းဖြင့် ကမ္ဘာမြေ၏အတွင်း၌ ဓာတ်သတ္တုများ မည်ကဲ့သို့ ပေါင်းစပ်နေသည်ကို ခန့်မှန်းနိုင်သည်။ မြေလျှောင်လှုပ်ခြင်းကို လေ့လာ၍ ကမ္ဘာမြေအတွင်း၌ အလွှာများသည် ဘယ်နှစ်လွှာရှိသည်ကို ခန့်မှန်း တွက်ဆနိုင်သည်။ ကမ္ဘာမြေ၏ ဒြပ်ဆွဲအား ပြောင်းလဲပုံကို လေ့လာ၍ ကမ္ဘာမြေ၏ ပုံပန်းသဏ္ဌာန်အကြောင်းကို ခန့်မှန်းနိုင်သည်။ ကမ္ဘာသည် ဘောလုံးကဲ့သို့ မလုံးဘဲ လိမ်မော်သီးကဲ့သို့ ဝင်ရိုးစွန်းနှစ်ဖက်တွင် အနည်းငယ်ပြားချပ်နေကြောင်းကို သိလာသည်။

ထိုလေ့လာချက်များမှ ထွက်ပေါ်ရရှိသော နည်းတို့ကို တိုးတက်ထွန်းကား လာစေ၍ ထိုလေ့လာနည်းများဖြင့် လူတို့အတွက် အရေးကြီးသောသတ္တု၊ ရေနံ စသည် ရှာဖွေရာတွင် အသုံးပြုသည်။ ဘူမိရူပဗေဒနည်းဖြင့် သတ္တု၊ ရေနံရှာဖွေခြင်းသည် ယခုအခါ ကမ္ဘာပေါ်တွင် အလွန်ပင် အသုံးတွင်လျက် ရှိသည်။ ဘူမိရူပဗေဒ သတ္တု၊ရေနံ ရှာနည်းသည် ပင်ရင်းဘူမိရူပဗေဒပညာထက်ပင် တိုးတက် ပြန့်ပွားလာ၍ ယင်းကို ယခုအခါ အလွန်အရေးကြီးသော ဘာသာတရပ်အနေဖြင့် ကမ္ဘာ့ရှေ့ဆောင် တိုင်းပြည်ကြီးများတွင် လေ့လာလျက်ရှိကြသည်။

ဘူမိရူပဗေဒ သတ္တု၊ ရေနံရှာဖွေနည်းကို အောက်ပါ အတိုင်း ၄ မျိုး ၄ စား ခွဲခြားနိုင်သည်။

**၁။ ဒြပ်ဆွဲအားကို အသုံးပြု၍ရှာနည်း။**

ဤနည်းသည် ကမ္ဘာ၏ ဒြပ်ဆွဲအား ပြောင်းလဲပုံကို လေ့လာခြင်းဖြင့် မြေအောက် ၂ မိုင် ၃ မိုင်ခန့်တွင် မည်သည့်ကျောက်များမည်ကဲ့သို့ တည်ရှိနေမည်ကို ခန့်မှန်းနိုင်သည်။

**၂။ သံလိုက်ဓာတ်အားကို အသုံးပြု၍ ရှာနည်း။**

ဤနည်းသည် ကမ္ဘာ၏ သံလိုက်ဓာတ် ပြောင်းလဲပုံကို လေ့လာခြင်းဖြင့် မြေအောက်၌ သံလိုက် သတ္တုရှိ မရှိကိုခန့်မှန်းနိုင်သည်။

**၃။ မြေကြီးကို တုန်လှုပ်စေခြင်းဖြင့် ရှာဖွေနည်း။**

ဤနည်းသည် ပေ ၁၀၀ ခန့်နက်သော တွင်းခေါင်းထဲ၌ ဒိုင်းနမိုက် (ယမ်းဘီလူး) ထည့်ဖောက်ခြင်းဖြင့် မြေကြီးကို တုန်လှုပ်စေကာ၊ ထိုဗဟိုနေရာမှ ဖြာထွက်လာသော တုန်ခါ လှိုင်းများကို မြေပေါ်တွင် ဖမ်းယူလေ့လာခြင်းဖြင့် မြေအောက်ရှိ ကျောက်လွှာများ အကြောင်းကို တွက်ဆခန့်မှန်းနိုင်သည်။

**၄။ လျှပ်စစ်ဓာတ်အား အသုံးပြု၍ရှာဖွေနည်း။**

ကမ္ဘာမြေ၏မူလလျှပ်စစ်ဓာတ်အား ပြောင်းလဲပုံကို လေ့လာခြင်းဖြင့်၎င်း၊ မြေပေါ်မှ မြေအောက်သို့ လျှပ်စစ် ဓာတ်များ လွှတ်၍ ပြန်လည် ဖမ်းယူကာ လေ့လာခြင်းဖြင့်၎င်း ဓာတ်သတ္တုများရှိ မရှိကို ခန့်မှန်း တွေးဆနိုင်သည်။

ထို့ကြောင့် နိဂုံးချုပ်အားဖြင့် ဘူမိရူပဗေဒပညာသည် အလွန်ပင် ကျယ်ပြန့်လှသည်။ သိပ္ပံပညာရပ် အနေနှင့် လေ့လာရာတွင်လည်း ဘူမိဗေဒနှင့် ရူပဗေဒပညာ နှစ်ခုစလုံး လေ့လာရ၍ စိတ်ဝင်စားဖွယ် ကောင်းသည်။ ရေနံ၊ သတ္တု ရှာဖွေရာတွင်လည်းအသုံးဝင်ခြင်းကြောင့် စီးပွားရေးသမားဖြစ်သည့် သတ္တုတွင်း၊ရေနံတွင်းရှာဖွေသူများကို အထောက်အပံ့ အကူအညီဖြစ်စေ၍ ပို၍ စိတ်ဝင်စားဖွယ် ကောင်းပေသည်။ ဦးထွန်းဦးမောင်

**ဘူမိရူပဗေဒနှစ်၊ ကမ္ဘာ့။** ။၁၉၅၇ ခုနှစ် ဇူလိုင်လ ၁ ရက်မှ ၁၉၅၈ ခုနှစ် ဒီဇင်ဘာလ ၃၁ ရက်နေ့ အထိ၊ ၁ နှစ်နှင့် ၆ လ အချိန်ကာလကို "ကမ္ဘာ့ ဘူမိရူပဗေဒနှစ်" ဟူ၍ သတ်မှတ် ထားလေသည်။ ဤအချိန်ကာလ အတွင်း ကမ္ဘာ့အရပ်ရပ်မှ သိပ္ပံပညာရှင်များ ပူးပေါင်းပြီးလျှင်

၍၊ကမ္ဘာကြီး၏ အကြောင်းခြင်းရာ တို့ကို ပိုမိုပြည့်စုံစွာ သိရှိ နားလည်ရန်အတွက် စူးစမ်းလေ့လာသုတေသန ပြုလုပ်ကြလေသည်။

၎င်းသို့ပြုလုပ်ကြသည့် သုတေသန လုပ်ငန်းရပ်သည်ကား ကမ္ဘာတဝှန်းလုံးရှိ သိပ္ပံပညာရှင်များ ပူးပေါင်းဆောင်ရွက်သည့် လုပ်ငန်းဖြစ်သဖြင့် လူ့လောက သမိုင်းတွင် အကြီးကျယ်ဆုံးသော စံနမူနာပြ ပူးပေါင်းဆောင်ရွက်မှု လုပ်ငန်းကြီးတရပ်ပင် ဖြစ်လေသည်။

## ကမ္ဘာ့ဘူမိရူပဗေဒနှစ် ဖြစ်ပေါ်လာပုံ

ကမ္ဘာ့သိပ္ပံပညာရှင်များ စုပေါင်း၍ သုတေသန ပြုလုပ်ကြသည်မှာ ၎င်းအကြိမ်သည် တတိယအကြိမ် ဖြစ်သည်။ ပဌမနှင့် ဒုတိယအကြိမ် သုတေသန ပြုခဲ့သော သိပ္ပံပညာရပ်များသည် ကမ္ဘာ့ဝင်ရိုးစွန်းဒေသဆိုင်ရာ အတွက်မျှသာဖြစ်သဖြင့် ယင်းလုပ်ငန်းများ၏ နှစ်ကာလ အပိုင်းအခြားကို "ကမ္ဘာ့ဝင်ရိုးစွန်းနှစ်" ဟု ခေါ်တွင်ခဲ့လေသည်။

ပဌမကမ္ဘာ့ဝင်ရိုးစွန်း နှစ်ကို ၁၈၈၂–၈၃ ခုနှစ်တွင် ကျင်းပခဲ့၍ တိုင်းနိုင်ငံပေါင်း ၁၂ နိုင်ငံ ပါဝင်ပြီးလျှင် ဝင်ရိုးစွန်းဒေသဆိုင်ရာ မိုးလေဝသ၊ ဘူမိသံလိုက်ဗေဒ၊ ဩဘာသများ (အာကာသ ရောင်ခြည်) အကြောင်းများကို သုတေသန ပြုခဲ့ကြလေသည်။

ထိုနောက် နှစ်ပေါင်း ၅၀ အကြာ၊ ၁၉၃၂–၃၃ ခုနှစ်တွင် "ဒုတိယကမ္ဘာ့ဝင်ရိုးစွန်းနှစ်" ကို တဖန်ကျင်းပ ပြုလုပ်ခဲ့ကြပြန်သည်။၎င်းအကြိမ်၌ ပဌမအကြိမ်က လုပ်ငန်းစဉ်များ အပြင် လျှပ်စစ်ကဲ့သို့ ဓာတ်ငွေ့ထုရှိ ရေဒီယိုဓာတ်အကြောင်းကိုပါ စူးစမ်းလေ့လာ သုတေသန ပြုလုပ်ခဲ့ကြလေသည်။

၎င်းကဲ့သို့ ကမ္ဘာ့ ဝင်ရိုးစွန်းနှစ် ၂ ကြိမ်ကျင်းပပြုလုပ်ခဲ့သဖြင့် ဝင်ရိုးစွန်း ဒေသများ ဆိုင်ရာ အဖိုးတန်လှသော ဗဟုသုတများ ရှာဖွေတွေ့ရှိခဲ့ရလေသည်။

လွန်ခဲ့သော နှစ်အနည်းငယ် အတွင်းက သိပ္ပံပညာရပ်များ လျင်မြန်စွာ တိုးတက် ထွန်းကားလာမှုကြောင့် ဒုတိယကမ္ဘာ့ဝင်ရိုးစွန်းနှစ် ကျင်းပပြီးနောက် နှစ်ပေါင်း ၂၅ နှစ်ကြာသောအခါ၊တတိယ ကမ္ဘာ့ဝင်ရိုးစွန်းနှစ်ကို ၁၉၅၇–၅၈ ခုနှစ်တွင် ကျင်းပရန် တောင်းဆိုကြလေသည်။

ကမ္ဘာ့ဝင်ရိုးစွန်း နှစ် ၂ ကြိမ် ကျင်းပပြုလုပ်၍ သုတေသနလုပ်ငန်းများ ဆောင်ရွက်ခဲ့ကြသည်မှာ ဒေသအားဖြင့်၎င်း၊ သိပ္ပံပညာရပ် လုပ်ငန်းစဉ်အားဖြင့်၎င်း ကျဉ်းမြောင်းလှ ပေသည်။ ဝင်ရိုးစွန်း ဒေသဆိုင်ရာ အကြောင်းတို့ကိုသာလျှင် ပိုမိုသိကျွမ်းနားလည်ရန် လိုအပ်သည်မဟုတ်သေး။ အပူပိုင်းဒေသများနှင့် စပ်လျဉ်းသော အချို့ အကြောင်းခြင်းရာတို့ကို သိပ္ပံပညာရှင်များ သိကျွမ်းနားလည်ရန် လိုအပ်သေးကြောင်း ဝန်ခံရပေမည်။

ထို့ကြောင့် တတိယအကြိမ်၌ တကမ္ဘာလုံး နေရာအနှံ့အပြား သိပ္ပံပညာရပ်မျိုးစုံကို ကျယ်ကျယ်ပြန့်ပြန့် စူးစမ်းလေ့လာသုတေသနပြုလုပ်ကြရန် သဘောတူညီကြပြီးလျှင် "တတိယ ကမ္ဘာ့ ဝင်ရိုးစွန်းနှစ်" ဟူသောအမည် အစား "ကမ္ဘာ့ ဘူမိရူပဗေဒနှစ်" ဟူ၍ ပြောင်းလဲ ခေါ်ဝေါ်လိုက်လေသည်။

## သိပ္ပံပညာအစည်းအရုံးများ၏အပြည်ပြည်ဆိုင်ရာ ကောင်စီ

ကမ္ဘာ့ ဘူမိရူပဗေဒနှစ် ကျင်းပရေး လုပ်ငန်းကို စိတ်ပါဝင်စားသော တိုင်းနိုင်ငံအသီးအသီးမှ သိပ္ပံပညာ အစည်းအရုံးများ စုပေါင်း၍ သိပ္ပံပညာအစည်းအရုံးများ၏ အပြည်ပြည်ဆိုင်ရာကောင်စီကို ဖွဲ့စည်းတည်ထောင်ထားလေသည်။ ကမ္ဘာ့ ဘူမိရူပဗေဒနှစ် စီမံကိန်း အကောင်အထည်ဖော်ရန်အတွက် ယင်းကောင်စီက အထူးကော်မီတီတရပ် ဖွဲ့စည်းထားသည်။ ထိုအထူး ကော်မီတီ၌ တိုင်းနိုင်ငံ အသီးအသီးမှ ကိုယ်စားလှယ်များ ပါဝင်လေသည်။ ထိုအထူးကော်မီတီကို ကမ္ဘာ့ ဘူမိရူပဗေဒနှစ် အထူးကော်မီတီဟူ၍ ခေါ်သည်။ ထိုကော်မီတီမှ ပုဂ္ဂိုလ်များသည် ကမ္ဘာအနှံ့အပြားသို့သွားရောက်၍ သုတေသန လုပ်ငန်းကို ပြုလုပ် ဆောင်ရွက်နိုင်မည် မဟုတ်ပေ။ထို့ကြောင့် တိုင်းနိုင်ငံအသီးအသီး၌ အမျိုးသား ကော်မီတီများ ဖွဲ့စည်းစေပြီးလျှင်၊ ကမ္ဘာ့ ဘူမိရူပဗေဒနှစ် လုပ်ငန်းများကို ဆောင်ရွက်စေလေသည်။

## ဆောင်ရွက်သည့်လုပ်ငန်းစဉ်များ

ကမ္ဘာ့ဘူမိရူပဗေဒနှစ်အတွင်း ကမ္ဘာတဝှန်းလုံး နေရာအနှံ့အပြားတွင် အောက်ပါ သိပ္ပံပညာရပ်များနှင့် စပ်လျဉ်း၍ သုတေသန လုပ်ငန်းများကို ပြုလုပ် ဆောင်ရွက်ကြလေသည်။

(၁) ဩဘာသ (အာကာသရောင်ခြည်) တောက်ပခြင်း
(၂) ကော့စမစ်ရောင်ခြည်
(၃) ဘူမိသံလိုက် ဓာတ်အား
(၄) ရေခဲထုဗေဒ
(၅) ကမ္ဘာ့ဆွဲအား တိုင်းတာမှု
(၆) လျှပ်စစ်ကဲ ဓာတ်ငွေ့ထု
(၇) လောင်ဂျီတွဒ်နှင့် လတ္တီတွဒ်
(၈) မိုးလေဝသပညာ
(၉) ချူကလီယာရောင်ခြည် ဖြာထွက်ခြင်း
(၁၀) အဏ္ဏဝဗေဒ
(၁၁) ဘူကမ္ပဗေဒ
(၁၂) နေရောင်အင်အား လှုပ်ရှားမှု
(၁၃) ဒုံးပျံနှင့် ဂြိုဟ်တုများ

### မိုးလေဝသလုပ်ငန်းများ

ကမ္ဘာ့ ဘူမိရူပဗေဒနှစ် အတွင်း ဆောင်ရွက်ရသည့် မိုးလေဝသလုပ်ငန်းများမှာ—

(၁) မြေပြင်နှင့် အထက်လေကြောင်း တိုင်းထွာ ချက်များ
(၂) နေရောင်ခြည်အားနှင့် နေရောင်ခြည် ဖြာထွက်ခြင်း
(၃) အိုဇုန်း
(၄) လေထု
(၅) လေထုလျှပ်စစ်ဓာတ်
(၆) လေထုဓာတုဗေဒ
(၇) လေထုနျူကလီယာ ရောင်ခြည်ဖြာထွက်ခြင်း ဟူ၍ လုပ်ငန်း ၇ မျိုးရှိလေသည်။

### ကမ္ဘာ့မှတ်တမ်းများ စုဆောင်းရာဗဟိုဌာန

ကမ္ဘာ့ဘူမိရူပဗေဒနှစ် အတွင်း ကမ္ဘာတဝှန်းလုံး နေရာအနှံ့အပြားတွင် တိုင်းထွာချက်များ မှတ်ယူကြရုံနှင့် ဤစီမံကိန်း၏ လုပ်ငန်းများ ဆုံးခန်းတိုင် ရောက်ပြီဟု မဆိုနိုင်သေးပေ။ ကမ္ဘာအရပ်ရပ်မှ မှတ်တမ်းများကို စုဆောင်းခြင်း၊ ထိုနောက် ပုံနှိပ်ထုတ်ဝေဖြန့်ချိခြင်းသည်လည်း အရေးကြီးသော လုပ်ငန်းတရပ်ပင် ဖြစ်သည်။

ထိုကြောင့် ကမ္ဘာအရပ်ရပ်၌ တိုင်းထွာမှတ်ယူထားသော မှတ်တမ်းများ စုဆောင်းရန်အတွက် ကမ္ဘာ့မှတ်တမ်းများစုဆောင်းရာ ဗဟိုဌာနများကို (၁) ဆွစ်ဇာလန်နိုင်ငံ ဂျီနီးဗားမြို့၌၎င်း၊ (၂) အမေရိကန် ပြည်ထောင်စု၊ ကယ်ရီလီးနားပြည်နယ် အက်ရှဗီးမြို့၌၎င်း၊ (၃) ဆိုဗီယက်ရုရှနိုင်ငံ မော်စကိုမြို့၌၎င်း ဖွင့်လှစ်ထားရှိလေသည်။

ကမ္ဘာ့ဘူမိရူပဗေဒနှစ် စီမံကိန်းတွင် ပါဝင်ဆောင်ရွက်ကြသော တိုင်းပြည်များတွင် သက်ဆိုင်ရာ အမျိုးသားကော်မီတီက မိမိတို့တိုင်းပြည်အတွင်း မှတ်ယူသော မှတ်တမ်းများကို စုဆောင်း၍ ကမ္ဘာ့မှတ်တမ်းများ စုဆောင်းရာ ဗဟိုဌာနများသို့ ပေးပို့ရလေသည်။

ကမ္ဘာ့မှတ်တမ်းများ စုဆောင်းရာ ဗဟိုဌာနသည် ကမ္ဘာအရပ်ရပ်မှ မှတ်တမ်းများကို စုဆောင်း၍ အသေးစိတ်မှတ်တမ်းတင်ဓာတ်ပုံ စက္ကူ ကပ်ပြားများဖြင့် ကူးယူပြီးလျှင်၊ ကမ္ဘာတဝှန်းလုံးသို့ ဈေးနှုန်း သက်သာစွာဖြင့် ဖြန့်ချိရောင်းချရန် တာဝန် ယူရလေသည်။

"ကမ္ဘာ့ဘူမိ ရူပဗေဒနှစ်" လုပ်ငန်းများသည် သိပ္ပံပညာရပ်များ တိုးတက်မှုအတွက် လေ့လာသော သုတေသနလုပ်ငန်းရပ် ဖြစ်သောကြောင့် ဤလုပ်ငန်းကို ကမ္ဘာ့အကျိုးပြုလုပ်ငန်းဟူ၍ ခေါ်ဆိုထိုက်လေသည်။ ဦးစီး ဆောင်ရွက်ကြသော သိပ္ပံပညာရှင်များအားလည်း ကမ္ဘာ့အကျိုးပြုပုဂ္ဂိုလ်များ အဖြစ် မှတ်တမ်းတင်၍ ဂုဏ်ပြုအပ်လှပေ သတည်း။

ဦးထွန်းရင်

**ဘူရိဒတ်ဇာတ်တော်။** ။ဗုဒ္ဓမြတ်စွာ၏ ထင်ရှားသော ဘဝကြီး ဆယ်ပါးကို ပြသည့်ဇာတ်တော်ကြီး ဆယ်ဘွဲ့တွင် ဘူရိဒတ်ဇာတ်တော်သည် ဆဋ္ဌမြောက်ဖြစ်သည်။ ဘုရားရှင်သည် သာဝတ္ထိပြည်၊ ဇေတဝန် ကျောင်းတော်၌ သိတင်းသုံးတော်မူစဉ်၊ ဥပုသ်သီတင်း ဆောက်တည်ကြသော ဒါယကာတို့ကို အကြောင်းပြု၍၊ဘုရားရှင်ကိုယ်တော်တိုင်လည်း၊ ရှေးရှေးဘဝ၊ ဘူရိဒတ်နဂါးမင်းဖြစ်စဉ်က၊ကြီးစွာသော စည်းစိမ်ကိုစွန့်၍ ကြီးစွာသော ဆင်းရဲ ဒုက္ခကို ခံကာ၊ သီလပါရမီကို ထိန်းသိမ်းဖြည့်တင်းတော်မူခဲ့ကြောင်းအတိတ်ဆောင်ဟောကြားတော်မူခြင်းဖြစ်သည်။ ဂါထာပေါင်း ၂၉၈ ပုဒ်ဖြင့်တန်ဆာဆင် ဟောကြားတော်မူသော ထိုဘူရိဒတ် ဇာတ်တော်တွင် ယဇ်ပူဇော်ခြင်း၏ အပြစ်များကို ညွှန်ကြားဖော်ပြဟောကြားထားသည်။ ထိုဇာတ်တော်၏ အကြောင်းအရာကား ဤသို့တည်း။

ရှေးလွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ တပါးသော ဗြဟ္မဒတ်မင်းကြီးသည် မိမိ၏ သားတော် ဥပရာဇာ၌ စည်းစိမ် အခြံအရံ များပြားပြန့်ပွားလှသဖြင့်၊ ထီးနန်းအန္တရာယ်ဖြစ်မည်စိုးသောကြောင့်၊ သားတော်ကို မိမိလွန်မှသာ လျှင်၊ တိုင်းပြည်သို့ ပြန်လာရန် မိန့်ကြား၍၊ ပြည်မှ ထွက်စေသည်။ သားတော် ဥပရာဇာသည် ခမည်းတော်၏ အမိန့်အတိုင်း တိုင်းပြည်မှ ထွက်ခဲ့ရာ၊ ယမုနာမြစ်၏ အနီး တခုသော တောင်ကြား၌ ရသေ့အသွင်ဖြင့် တောရပ်ခိုမှီး နေခဲ့လေသည်။

ထိုအခါ ယမုနာမြစ်အောက်ရှိ နဂါးပြည်မှ မုဆိုးမဖြစ်သော နဂါးမသည် ကာမဘော်ဖြင့် ပျော်ပါးလိုသဖြင့် နဂါးပြည်မှထွက်ခဲ့ရာ၊မြစ်အနီးအနားရှိ ရသေ့၏ ကျောင်းသင်္ခမ်းသို့ ရောက်လာသည်။ နဂါးမသည် သဒ္ဓါကြောင့် ရသေ့ဝတ်ခြင်း မဟုတ်သည်ကို စူးစမ်းသိရှိရ၍ ရသေ့နှင့်အတူ ရင်းနှီးနေထိုင်ခဲ့ရာ၊ သားတယောက်၊ သမီးတယောက် ပေါက်ဖွားခဲ့သည်။ တနေ့တွင် ဗာရာဏသီမင်းကြီး နတ်ရွာလားသဖြင့် ရသေ့အား ထီးနန်းဆက်ခံရန် မှူးမတ်တို့က လာရောက်ခေါ်ဆောင်သည်။ နဂါးမသည် ဇာတ်မတူသော လူ့တိုင်းပြည်လိုက်ပါနေထိုင်ခြင်း မပြုလိုသဖြင့်၊ မင်းသားသည် သားတော် သမီးတော် နှစ်ပါးကိုသာ ခေါ်ဆောင်၍ တိုင်းပြည်သို့ ပြန်ကာမင်းပြုလေသည်။

ထိုမင်းသည် နဂါးမ မှာသည့်အတိုင်း နဂါးသွေးပါသော သားတော် သမီးတော်တို့အတွက် ရေကန်ကြီးတူး၍ ရေကစားပျော်ရွှင်စေသည်။ တနေ့တွင် လိပ်တကောင်ကို ရေကန်တွင်း၌ တွေ့ကြသည်။ လိပ်ကို သားတော် သမီးတော်တို့က

ကြောက်ရွံ့သဖြင့် ငိုကြွေရာ၊ မင်းကြီးသည်လိပ်ကို ဖမ်းစေ၍ အပြစ်ပေးစေသည်။ မင်း၏ အမတ်တို့က အပြစ်ဒဏ်အမျိုးမျိုးဖြင့် ခြိမ်းခြောက်ရာ ထိုစူဠလိပ်က မတုန်မလှုပ်နေခဲ့သည်။ အမတ်တဦးက ယမုနာမြစ်ဝဲတွင် ချမည်ဟု ခြိမ်းခြောက်သောအခါ၊ လိပ်က သည်းစွာ ငိုသည်။ ထိုအခါမင်းချင်းတို့က လိပ်၏ပရိယာယ်ကို မသိနားမလည်ကြသဖြင့်၊ လိပ်ကိုဝဲ၌ ချခြင်းသည် လိပ်အတွက် ကြီးလေးသော အပြစ်ဖြစ်မည်ဟု ယူဆကြ၍ ယမုနာဝဲ၌ ချလေသော်၊ လိပ်သည် ဘေးအန္တရာယ်ကင်းစွာဖြင့် ရေအယဉ်၌ မျောပါ၍၊ နဂါးပြည်သို့ ရောက်သွားသည်။ ထိုကြောင့် 'စူဠလိပ်ကို ရေ၌လွှတ်သကဲ့သို့'' ဟု ဆိုရိုးစကား ပြုခဲ့ကြလေသည်။

လိပ်သည် နဂါးလုလင်ပျိုတို့နှင့် တွေ့လေရာ၊ ပရိယာယ်ကြွယ်သောလိပ်ဖြစ်၍၊ ဘေးကင်းစေရန် မိမိသည် ဗာရာဏသီမင်းက နဂါးမင်းကြီးအား မိမိ၏ သမီးတော် သမုဒ္ဒဇာကို ဆောက်နှင်းလို၍ သံတမန်အဖြစ် စေလွှတ်သဖြင့် ရောက်လာခြင်း ဖြစ်ကြောင်း ပြောကြားရာ၊ နဂါးတို့ယုံကြည်ကြသည်။ ထို့ကြောင့် တန်ခိုးကြီးသော ဓတရဋ္ဌနတ်နဂါးမင်းထံပို့ပေးရာ၊ နဂါးမင်းအားလည်း လိပ်က အထက်ပါအတိုင်း လျှောက်ထားသဖြင့် နဂါးမင်းကလည်း မင်္ဂလာကိစ္စစီစဉ်ရန် နဂါးလုလင်တမန်များကို ဗာရာဏသီမင်းထံ စေလွှတ်လိုက်လေသည်။

ဗာရာဏသီ မင်းထံ နဂါးတမန်တို့ ရောက်ရှိ၍ အကျိုးအကြောင်း ကြားလတ်သော်၊ လူမင်းသမီးတော်ကို ဖားစိမ်းငါးစိမ်းစား တိရစ္ဆာန်မျိုးဖြစ်သော နဂါးမင်းနှင့် မဆောက်နှင်းနိုင်ကြောင်း ငြင်းဆိုသည်။ နဂါးလုလင်တို့ ပြန်သွား၍ နဂါးမင်းအား လျှောက်ကြားလေသော် နဂါးမင်းကြီး အမျက်ထွက်၍ နဂါးအပေါင်းကို ဆင့်ခေါ်ကာ ဗာရာဏသီတပြည်လုံးကို နဂါးတို့ဖြင့် ပြည့်စေ၍၊ တိုင်းပြည်လူထုချောက်ချား တုန်လှုပ်အောင် ခြိမ်းခြောက်စေသည်။ ထိုအခါ ဗာရာဏသီမင်းလည်း မနေသာသဖြင့် သမီးတော်ကို ဓတရဋ္ဌနဂါးမင်းအား ဆောက်နှင်း ရလေသည်။

နဂါးမင်းသည် သမုဒ္ဒဇာအား နဂါးပြည်သို့ ခေါ်ဆောင်ခဲ့သော်လည်း၊ နဂါးပြည်ဟူ၍၎င်း၊ မိမိတို့သည် နဂါးများဖြစ်သည်ဟူ၍၎င်း မသိရလေအောင် နဂါးပြည်ကို နတ်ပြည်ကဲ့သို့ ဖန်ဆင်းကာ နတ်နှင့်တူသော စည်းစိမ်အခြံအရံကို ပေးထားသဖြင့် မင်းသမီးသည် နဂါးပြည်၌ နဂါးမင်း၏ ချစ်ခင်မြတ်နိုးမှုကို ခံယူကာ ပျော်ရွှင်စွာ စံစားနေခဲ့သည်။ ကာလကြာသော် သုဒဿန၊ ဒတ္တ၊ သုဘောဂနှင့် အရိဋ္ဌဟူသော သားတော် ၄ ပါးကို ဖွားသည်။ တခါသော် သားတော်အငယ် အရိဋ္ဌက နဂါးအသွင် ဇာတိရုပ်ပေါ် အောင် ဖန်ဆင်းပြမှ မိမိသည် နဂါးပြည်၌ နဂါးမင်း၏ မိဖုရား ဖြစ်နေကြောင်းကို သမုဒ္ဒဇာမင်းသမီး သိတော်မူသည်။ အရိဋ္ဌသည်လည်း မယ်တော်ကို နဂါးဇာတိ ဖန်ဆင်းပြသရာတွင် မယ်တော်ကြောက်လန့်ကာ လှဘ်ချလိုက်၍ မျက်စိတဖက်ပျက်လေသဖြင့် ကာဏာရိဋ္ဌဟု အမည်တွင်လေသည်။ ဓတရဋ္ဌနဂါးမင်းသည် သားတော်များ အရွယ်ရောက်လတ်သော် နိုင်ငံတော်ကို ၅ စုခွဲ၍၊ ၄ စုတွင် သားတော် တပါးစီ အုပ်ချုပ်မင်းပြုစေသည်။ ဒတ္တနဂါးမင်းသည် မိမိပိုင်နက်အတွင်း၌ နေထိုင်၍ တရားသဖြင့် မင်းပြုသည်။ နဂါးတို့၏ ပြဿနာ အရပ်ရပ်တို့ကိုလည်း ဖြေရှင်း ပေးလေသည်။ အခြား သားတော်တို့သည် ခမည်းတော် မယ်တော်တို့အား တလတကြိမ် အဖူးအမြင် အခစားလာကြသည်။ ဒတ္တနဂါးမင်းကမူ လခွဲတကြိမ် အဖူးအမျှော်လာသည်။

တရံခါသော် နတ်နဂါးတို့ကိုအစိုးရသောဝိရူပက္ခနတ်မင်းကြီးသည် ဓတရဋ္ဌနဂါးမင်းကြီးနှင့် သားတော်များ အပါအဝင် နဂါးပရိသတ်နှင့်တကွ၊ သိကြားမင်းထံ အခစားဝင်ရောက်သည်။ ထိုအခါတွင် နတ်နဂါး သိကြားပရိသတ်၌ ပြဿနာတခုပေါ် သည်။ထိုပြဿနာကို ဒတ္တနဂါးမင်းက ဖြေရှင်းပေးနိုင်သဖြင့်၊ သိကြားမင်းက မြေကြီးနှင့် တူသော ကျယ်ပြန့်သော ပညာရှိပေသည်ဟု ချီးကျူး၍ ဘူရိဒတ် (ဘူရိဒတ္တ)ဟုအမည်ပေးသည်။ ထိုအခါမှစ၍ ဒတ္တနဂါးမင်းအား ဘူရိဒတ်ဟု ခေါ် ဝေါ်ကြလေသည်။

ဘူရိဒတ်သည် ထိုအခါမှစ၍ သိကြားမင်းထံ မပြတ်ခစားရသည်။ သိကြားမင်း၏ စည်းစိမ်ကို တွေ့မြင်ရဖန် များလေသော် သိကြားမင်း၏စည်းစိမ်ကို တောင့်တလေသည်။ ထို့ကြောင့် ဖားစိမ်းစား ငါးစိမ်းစား နဂါးအဖြစ်ထက်၊ နတ်အဖြစ်ကို ရလိုသည်အတွက် ဥပုသ် သိတင်းဆောက်တည်ရန် ခမည်းတော် မယ်တော်တို့ထံ ခွင့်ပန်၍ ဥပုသ်သိတင်းသုံးလေသည်။

နဂါးပြည်၌ ဥပုသ် ဆောက်တည်ရာ၌ အနှောင့်အယှက်မကင်း၍ လူ့ပြည်သို့ သွားရောက်၍ အေးချမ်းစွာ ဥပုသ်သိတင်းသုံးရန် အကြံဖြစ်ခဲ့သည်။ ထို့ကြောင့် ဗာရာဏသီပြည်အနီး ယမုနာမြစ်ကမ်းပါးထက်တွင် ဥပုသ်သိတင်းသုံး၍ နေခဲ့သည်။ ထိုအချိန်တွင် နေသာဒမုဆိုးပုဏ္ဏား သားအဖသည် သမင်လိုက်ရာမှ ဘုရားလောင်းဘူရိဒတ် ဥပုသ်သိတင်းသုံးရာအရပ်သို့ ရောက်လာသည်။ နဂါးမင်းသည် ထိုပုဏ္ဏားသားအဖက မိမိအား ဤနေရာ၌ တွေ့ကြောင်းကို အလမ္ဗာယ်သမားအား လမ်းညွှန်လေသော်၊ မိမိဥပုသ်ဆောက်တည်ခြင်းကို အနှောင့်အယှက်ပြုမည်စိုး၍၊ ထိုသားအဖကို နဂါးပြည်သို့ ဆောင်ပြီးလျှင် နတ်နှင့်တူသော စည်းစိမ်အခြံအရံကိုပေးထားသည်။သို့သော်ကာလကြာညောင်းလာလျှင် နေသာဒ ပုဏ္ဏားသားအဖတို့ မပျော်ပိုက်သဖြင့်၊ လူ့ပြည်သို့ပြန်ပို့ရသည်။ ဘူရိဒတ်နဂါးမင်းသည် ပုဏ္ဏားသားအဖ လူ့ပြည်သို့ ပြန်ရောက်၍ ဆင်းရဲပင်ပန်းစွာ နေခဲ့ရ

သော်၊ မိမိဥပုသ်သိတင်းသုံးရာ အရပ်ကို အလမ္ပါယ်သမားအား ညွှန်ပြမည်ကို စိုးရိမ်သဖြင့် ခပ်သိမ်းသောအလိုကို ပေးနိုင်သည့် ပတ္တမြားကို လက်ဆောင်ပေးသည်။ သို့သော် နေသာဒပုဏ္ဏားသည် ရဟန်းပြုလို၍ လူ့ပြည်သို့ ပြန်လိုပါသည်ဟု ဘူရိဒတ်အား ပြောကြားထားမိပြီဖြစ်ရကား ထိုပတ္တမြားကို ငြင်းပယ်ခဲ့လေသည်။

အခြား ပုဏ္ဏားတဦးသည် ဂဠုန်တခုက ရသေ့တပါးအားပေးသည့် နဂါးနှင့်မြွေတို့ ကြောက်သော မန္တာန် တခုကို ထိုရသေ့ထံမှ ရခဲ့၍ အလမ္ပါယ်အဖြစ် အသက်မွေးရန် ထွက်ခဲ့သည်။ ယမုနာမြစ်ကမ်းဘေးတွင် အလိုခပ်သိမ်းရစေသော ပတ္တမြားကို ထား၍ ရေကစားရှင်ပျော်နေသောနဂါးမပျိုတို့သည် ပုဏ္ဏား၏ မန္တာန် ရွတ်ဆိုသံကို ကြားလျှင် ကြောက်လန့် ထွက်ပြေးကြသဖြင့် ပတ္တမြားကို ပုဏ္ဏားရလေသည်။

နေသာဒပုဏ္ဏားသားအဖနှင့် ထိုပုဏ္ဏားတို့ တွေ့ကြလေရာ ပတ္တမြားကို နေသာဒပုဏ္ဏားသားအဖတို့မြင်လျှင် နေသာဒသည်ပတ္တမြားကို ရလိုပြန်သည်။ ထိုပတ္တမြားလက်ထဲ ရောက်က အလိုခပ်သိမ်း တောင့်တ၍ ပြည့်စုံနိုင်သည်ကို သိသဖြင့် ရွှေအချိန်တရာနှင့် လဲမည်ဟုဆိုသည်။ သို့သော် ပုဏ္ဏားက ငြင်းဆန်သဖြင့် ထူးခြားသော နဂါးမင်းနေရာကို ညွှန်ပြသောအားဖြင့် ပတ္တမြားနှင့်နဂါးလဲလေသည်။ နေသာဒ၏ သား သောမဒတ်ကမူ အဖသည် ကျေးဇူးရှင်ကို ပြစ်မှားသည်ဟု အဖကို စွန့်ခွာ ထွက်ပြေးပြီးလျှင် ဟိမဝန္တာ၌ ရသေ့ပြုလေသည်။

အလမ္ပါယ် ပုဏ္ဏားသည် နေသာဒညွှန်ပြသော ဘူရိဒတ်နဂါးမင်း ဥပုသ်ပြုရာသို့ လာခဲ့သည်။ ထိုအချိန်တွင် နဂါးမင်းသည် အမိဋ္ဌာန်ဆောက်တည်၍ ဥပုသ်ပြုလျက်ရှိရာ နေသာဒနှင့် အလမ္ပါယ်သမားတို့ကို မြင်၍၊ ယင်းတို့၏ အမှုကိုသိသော်လည်း ဥပုသ်ပျက်မည်စိုးသဖြင့် အမျက်ကိုထိန်းသိမ်းပြီးလျှင် ရန်တုံ့မမူဘဲ အလမ္ပါယ်သမား၏ ဖမ်းဆီးခြင်းကို ခံတော်မူသည်။ အလမ္ပါယ် ပုဏ္ဏားသည် ဘုရားလောင်းနဂါးမင်းကို အားနည်းလေအောင် ရိုက်ဖွပ် နင်းခြေပြီးမှ ပခြုပ်တွင် ထည့်သည်။ ဘုရားအလောင်းတော်သည် မိမိ၏ ဥပုသ်ကို မပျက်စေရန်ဆင်းရဲဒုက္ခကြီးစွာခံ၍ သီလကို ထိန်းသိမ်းတော်မူခဲ့လေသည်။အလမ္ပါယ် ပုဏ္ဏားလည်း နဂါးမင်းကို ယူဆောင်၍ အရပ်ရပ်၌ လှည့်လည်ကာ နဂါးမင်းအား ကပြစေရာ လာဘ်သပ်ပကာ များစွာရရှိ၍ ကြွယ်ဝချမ်းသာလေသည်။

ထိုအချိန်တွင် မယ်တော် သမုဒ္ဒဇာသည် မကောင်းသော အိပ်မက်ကို မြင်မက်သဖြင့် လူ့ပြည်သို့ သွား၍ ဥပုသ်သိတင်းသုံးနေသော ဘူရိဒတ်အတွက် စိုးရိမ် ပူပန်နေသည်။ အခြား သားတော်များ တလတကြိမ် အဖူးအမြင် ရောက်လာကြသောအခါ သားတော်များအား ဘူရိဒတ်ကို လိုက်လံရှာဖွေစေသည်။ သားတော်ကြီး သုဒဿနသည် ညီတော် လတ် သုဘောဂအား ဟိမဝန္တာသို့ သွား၍ မြစ်ကြီး ၅ စင်း၌ ဘူရိဒတ်မင်းအားရှာစေသည်။ ညီတော်အငယ် ကာဏာရိဋ္ဌကိုမူ နတ်ပြည်၌ ရှာစေသည်။ မိမိကိုယ်တိုင်မူ လူ့ပြည်သို့ ရသေ့ရောင်ဖန်ဆင်း၍ ရှာဖွေရန် ထွက်ခဲ့သည်။ သုဒဿနနှင့်အတူ မိထွေးတော်၏ သမီး အဇမုခီနဂါးမင်းသမီးလည်း ဖားမငယ်သဏ္ဌာန် ဖန်ဆင်း၍ လိုက်ပါခဲ့သည်။

အလမ္ပါယ်ပုဏ္ဏားသည် ဗာရာဏသီမင်း သာဂရဗြဟ္မဒတ်၏ ရှေ့၌ အလမ္ပါယ်ကစားပြရန် ရောက်ရှိနေသည်။ ဗာရာဏသီမင်းကား ခမည်းတော်၏ ရိုက်ရာကို ဆက်ခံသူ ဖြစ်၍ သမုဒ္ဒဇာ၏ မောင်တော်ပင်တည်း။ ထို့ကြောင့် ဘူရိဒတ်နဂါးမင်းတို့၏ ဦးရီးတော်ဖြစ်ပေသည်။ ထိုနေရာသို့ သုဒဿနနှင့် နှမတော်တို့သည်လည်း ရောက်ရှိ လာကြသည်။

အလမ္ပါယ် ပုဏ္ဏားသည် ပခြုပ်တွင်းမှ နဂါးမင်းကို ထုတ်၍ အမျိုးမျိုးဖန်ဆင်းကပြရန် စေခိုင်းသည်။ နဂါးမင်းသည် ပခြုပ်တွင်းမှထွက်၍ ပရိသတ်ကိုကြည့်သည်ရှိသော်၊ မိမိ၏ နောင်တော်နှင့် နှမတော်တို့ကို မြင်သဖြင့် မျက်ရည်ယိုစီးကာ နောင်တော်ထံသို့ ရှေးရှုသွားသည်။ ပရိသတ်တို့လည်း ကြောက်လန့်တကြား ဖြစ်၍ တိမ်းရှောင်ပြေးကြရာ သုဒဿနတပါးတည်း ကျန်ရစ်သည်။ ထိုအခါ ဘူရိဒတ်သည် နောင်တော်၏ ခြေဖမိုး၌ ဦးခေါင်းတင်၍ ငိုသည်။ သုဒဿနလည်း ငိုသည်။

ထိုအခြင်းအရာကို အလမ္ပါယ်သမား မြင်လျှင် ရှင်ရသေ့အားနဂါးကပေါက်လိုက်သည်ဟု ထင်မှတ်၍ နဂါးဆိပ်ကျအောင် မန္တာန်ဖြင့် ကုမည်ဟုဆိုသည်။ ထိုအခါ သုဒဿနက မိမိအား ကုရန်မလို၊ မိမိထက်တတ်သော မြွေသမား မည်သည်မရှိဟု ဆိုရာမှစ၍ အလမ္ပါယ် ပုဏ္ဏားနှင့် သုဒဿနတို့ ပညာစွမ်း ပြိုင်ကြသည်။သုဒဿနသည် အဇမုခီ ဖားငယ်၏ အကူအညီဖြင့် မိမိတို့၏ တန်ခိုးကို ပြလေသော် အလမ္ပါယ်သမားရှူး၍ တကိုယ်လုံး နူသွားသဖြင့် ကြောက်ရွံ့ ထိတ်လန့်ကာ ဘူရိဒတ်နဂါးမင်းအား လွှတ်ရလေသည်။

ထိုအခါမှ ဘူရိဒတ်၊ သုဒဿနနှင့် အဇမုခီတို့သည် မိမိတို့၏ အဖြစ်မှန်ကို ဖော်ပြကြသဖြင့် ဗာရာဏသီ မင်းလည်း မိမိ၏တူတော်များဖြစ်ကြောင်းကို သိရှိရသည်။ ထိုနောက် တောထွက်၍ ရသေ့ပြုကာ တရားအားထုတ်လျက်ရှိနေသော ဗာရာဏသီမင်းကြီးဟောင်း ဘူရိဒတ်တို့၏ ဘိုးတော်ထံသွားရောက် ကန်တော့ကြရန် အချိန်းအချက် ပြုကြပြီးသော် ဘူရိဒတ်တို့သည် နဂါးပြည်သို့ ပြန်ခဲ့ကြလေသည်။

ထိုအချိန်တွင် ဟိမဝန္တာ၌ ဘူရိဒတ်ကို ရှာဖွေသော သုဘောဂနဂါးမင်းသည်ကျေးဇူးသစ္စာမဲ့သောနေသာဒပုဏ္ဏားကို တွေ့သဖြင့် နဂါးပြည်သို့ ယူဆောင်ခဲ့သည်။ အပန်းဖြေ

လျက်ရှိသော ဘူရိဒတ်၏ အိပ်ဆောင်တံခါးဝတွင် စောင့်ရှောက်လျက်ရှိသော ကာဏာရိဋ္ဌသည် ယခင်ဘဝက ပုဏ္ဏား ဖြစ်ခဲ့ဘူးသဖြင့်၊ နေသာဒကို မြင်လျှင် ပုဏ္ဏားတို့သည် ဗြဟ္မာမင်း၏ သားဖြစ်၍ မညှဉ်းဆဲအပ်၊ ညှဉ်းဆဲသော် ဗြဟ္မာမင်း အမျက်ထွက်၍ နဂါးပြည်အလုံး ပျက်စီးလတ္တံ့။ ပုဏ္ဏားတို့သည် မြင့်မြတ်၏။ ယဇ်ပူဇော်ခြင်းကိုပြုသည်။ ယဇ်ပူဇော်ခြင်းသည် ကျေးဇူးကြီးလှသည်ဟူ၍ ယဇ်ပူဇော်ခြင်း၏ အကျိုးရှိပုံတို့ကို ထုတ်ဖော်ချီးကျူးသည်။ ထိုအခါ ဘူရိဒတ်အား လာရောက် ဖူးမြင်ကန်တော့ကြသော နဂါးပရိသတ်တို့သည် ကာဏာရိဋ္ဌ၏ စကားကို နာရလျှင် ယဇ်ပူဇော်မှုဖက်သို့ စိတ်ညွတ်ကြလေသည်။

ဘူရိဒတ် နဂါးမင်းသည် လဲလျောင်းအပန်းဖြေရာမှ ကာဏာရိဋ္ဌ၏စကားကို ကြားလျှင်၊နဂါးပရိသတ်ကိုလည်းသမ္မာဒိဋ္ဌိအယူကို ညွှန်ပြလိုသဖြင့်၊ ယဇ်ပူဇော်ခြင်း၏ မှားယွင်းပုံတို့ကို ရှင်းလင်းဟောကြား၍ နဂါးပရိသတ်တို့အား အယူမှန်ကို ရစေသည်။ နေသာဒပုဏ္ဏားအားလည်း နဂါးပြည်မှ နှင်ထုတ်စေသည်။

ဘူရိဒတ် နဂါးမင်းသည် အချိန်အချက်ပြုသော နေ့တွင် ဘိုးတော် ဗာရာဏသီမင်းဟောင်းအား ပူဇော် ကန်တော့ရန် အခြံအရံပရိသတ်နှင့် သွားသည်။ မယ်တော်နှင့်နောင်တော် ညီတော်များလည်း နောက်မှ လိုက်ပါကြသည်။ သာဂရဗြဟ္မဒတ်မင်းလည်း ခမည်းတော်ထံ အဖူးအမြင် လာသဖြင့် ဆွေတော်မျိုးတော်တစု ပြန်လည် တွေ့ဆုံ ကြရသည်။ ဘူရိဒတ်နဂါးမင်းသည် အသက်ထက်ဆုံး သီတင်းသီလ ဆောက်တည်၍ အသက်တမ်းစေ့ လတ်သော် ပရိသတ်နှင့်တကွ နတ်ပြည်၌ ဖြစ်သည်။ မယ်တော် သမုဒ္ဒဇာလည်း နဂါးပြည်၌ပင် အနိစ္စရောက်သည်။

ဇာတ်ပေါင်းသော် ဘူရိဒတ်နဂါးမင်း၏ ခမည်းတော် မယ်တော်တို့သည် ဘုရားရှင်၏ ခမည်းတော် မယ်တော် များဖြစ်လာကြသည်။နေသာဒပုဏ္ဏားမှဆိုးသည် ဒေဝဒတ်၊ သားသောမဒတ်သည် အာနန္ဒာ၊ အဇမုခီသည် ဥပ္ပလဝဏ်ထေရီ၊ သုဒဿနသည် ရှင်သာရိပုတ္တရာ၊ သုဘောဂသည် ရှင်မောဂ္ဂလာန်၊ ကာဏာရိဋ္ဌသည် သုနက္ခတ်စသည်ဖြင့် အသီးအသီးဖြစ်လာ၍၊ ဘူရိဒတ်နဂါးမင်းကား သုံးလူ့ထွတ်ထား ရှင်တော်ဘုရား ဖြစ်လာလေသည်။

**ဘူးသီးတောင်မြို့။** ။ဘူးသီးတောင်မြို့သည် မေယုနယ်ခြား ခရိုင်အတွင်းရှိ ဘူးသီးတောင်မြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ မယုမြစ်ဖျား လက်ျာဖက်ကမ်းတွင် မြို့တည်ထား၍၊ မယုမြစ်ကမ်း၏မြေပြန့်အရပ်တွင် အကျယ်ဆုံးသောနေရာ၌ တည်ရှိ ပြီးလျှင်၊ လေကွယ်သော ချောင်းကောင်း ရှိသော သင်္ဘောဆိပ်မြို့တမြို့လည်း ဖြစ်လေသည်။ ဘူးသီးတောင်မြို့သည် စစ်တွေမြို့မှ မြောက်ယွန်းယွန်း ၇၅ မိုင်ခန့်အကွာတွင် တည်ရှိသည်။ ပင်လယ်မှ မိုင် ၁၀ ခန့် ဝေးကွာသည်။

ဘူးသီးတောင် မြို့နယ်သည် စတုရန်းမိုင် ၇၉၀ ခန့် ကျယ်ဝန်းသည်။ တောင်ကုန်းထူထပ်သော မြို့နယ်ဖြစ်သည်။မယုမြစ်သည် မယုတောင်တန်းနှင့်ယှဉ်ပြိုင်လျက် ဘူးသီးတောင်မြို့နယ်အတွင်း မြောက်ဖက်မှ တောင်ဖက်သို့ ဖြတ်သန်း စီးဆင်းသည်။ မယုမြစ်ကို ဘူးသီးတောင်မြို့အနီးတွင် ကုလားပန်းဇင်မြစ်ဟု ခေါ်သည်။ မိုးရာသီအခါ မိုးများသောဒေသဖြစ်သည်။ နွေရာသီအခါ အတော်အတန် ပူအိုက်သည်။ ဘူးသီးတောင်မြို့၏ အကျယ်အဝန်းမှာ ၄၀၉ ဧကခန့်ရှိ၍၊ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ မြို့ပေါ်ရှိ လူဦးရေမှာ ၃,၁၉၃ ယောက်ဖြစ်သည်။ ရခိုင်ဗုဒ္ဓအယူဝါဒီများက ၄၀ ရာခိုင်နှုန်းခန့်သာရှိ၍၊ အစ္စလမ်အယူဝါဒီတို့သည် လူဦးရေ အများဆုံး ဖြစ်ကြလေသည်။

မြို့နယ်၏ အဓိကလုပ်ငန်းမှာ ဆန်စပါးစိုက်ပျိုးရေး ဖြစ်၍၊ အဓိကထွက်ကုန်သည်လည်း ဆန်စပါးပင် ဖြစ်သည်။ ငြုတ်၊ ကြက်သွန်နှင့် အခြား သစ်သီးသစ်နှံများကိုလည်း စိုက်ပျိုးလုပ်ကိုင်ကြသည်။

မြို့နယ်အတွင်း၌၎င်း၊ ခရိုင်အတွင်း၌၎င်း ကူးသန်းရေး သွားလာရေးအတွက် များသောအားဖြင့် ရေကြောင်းလမ်းကို အားပြုကြရသည်။ ရေကြောင်းလမ်းများတွင် ပြည်တွင်းရေကြောင်းသယ်ယူ ပို့ဆောင်ရေး အဖွဲ့ပိုင် သင်္ဘောများ ခုတ်မောင်းသွားလာလျက်ရှိသည်။ ဘူးသီးတောင်နှင့် နတ်မြစ်ဝပေါ်ရှိ မောင်းတောမြို့ကို ကုန်းလမ်းခရီးဖြင့်လည်း သွားလာနိုင်၍၊ ၁၅ မိုင်ခန့်ရှည်လျားသော မော်တော်ကားလမ်းရှိသည်။

ဘူးသီးတောင်မြို့ပေါ်နှင့် အနီးအနားတွင် ရှေးရှေး ဗုဒ္ဓအယူဝါဒီ ရခိုင်မင်းတို့တည်ထားသော စေတီပုထိုးများ ရှိခဲ့သော်လည်း မုဂျာဟစ်များ လက်ချက်ကြောင့် အများအပြား ပျက်စီးခဲ့ရသည်။ တန်ခိုးကြီးဘုရားတဆူ ဖြစ်သော ရင်ငွေတော်ဘုရား (ဗုဒ္ဓမြတ်စွာဘုရား၏ ရင်ငွေတော်ဖြင့် သွင်းလုပ်ထားသည်ဟု ဆိုသည်။)သည် ၁၉၄၂ ခုနှစ်ကပင် သောင်းကျန်းသူများ လက်ချက်ကြောင့် ပျောက်ကွယ် နေခဲ့သည်။ မြို့ပေါ်တွင် ထင်ရှားသော ဗုဒ္ဓအယူဝါဒီဘုန်းကြီးကျောင်းများမှာ (၁) သဋ္ဌေးကုန်းကျောင်း၊ (၂) သပြေကုန်းကျောင်း၊ (၃) တပ်ရာမြဒင်ကျောင်းတို့ ဖြစ်ကြသည်။ တပ်ရာကျောင်းဟု ခေါ်ခြင်းမှာ မြန်မာနိုင်ငံကို ဗြိတိသျှတို့စစ်ပြုရန် စစ်ပြင်စဉ်အခါက ထိုအရပ်တွင် တပ်စွဲပြီး စစ်သားစုဆောင်းခဲ့သောကြောင့်ဟု ဆိုသည်။

ရှေးရခိုင်မင်းတို့ စိုးမိုးစဉ်က ဘူးသီးတောင်မြို့ အနီး တဝိုက်တွင် မြို့တည်၍ ထီးနန်းစိုက်ခဲ့ဟန်တူသည်။ ဘူးသီးတောင်မြို့မှ တမိုင်ခန့်အကွာတွင် နန်းတော်ရာ ကုန်းမြင့်တခု

ကို တွေ့ရှိရ၍ ထိုနန်းတော်ရာကို အစွဲပြုပြီးလျှင် ဘူးသီးတောင်မြို့၏ အရှေ့ဖက်၊ မြစ်တဖက်ရှိ ရွာကို နန်းရာကုန်းရွာဟုခေါ် ဝေါ်ကြသည်။

ဘူးသီးတောင်မြို့မှ ၁၅ မိုင်ခန့် ဝေးသော အရပ်တွင် မြန်မာနိုင်ငံ၌ အကြီးဆုံး ရေတံခွန်တခုဖြစ်သော စိုင်းတင်ရေတံခွန်ရှိသည်။

ဘူးသီးတောင်ဟု ခေါ်ဆိုခြင်းမှာ မြို့အရှေ့ဖက်ချောင်းဖျားတွင် သိုက်နန်းတခု ရှိသည်။ ထိုသိုက်နန်း၌ ရွှေဘူးသီး ငွေဘူးသီးများရှိသည်ကို အစွဲပြု၍ ဘူးသီးတောင်ခေါ်သည်ဟု ဆိုကြလေသည်။

**ဘေဒါရီ။** ။ဘေဒါရီ မင်းသမီးကလေး၏ ဘဝဖြစ်စဉ်တို့သည် ဆန်းကြယ်စိတ်ဝင်စားဖွယ်ကောင်း၍ ဒဏ္ဍာရီပုံပြင်ဆန်လှပေရာ၊ မြန်မာလူမျိုးတို့ နှစ်သက်စွဲလမ်းသော ပုံပြင်များတွင် တခုအပါအဝင် ဖြစ်ပေသည်။

ဘေဒါရီသည် သရေခေတ္တရာပြည်ကို တည်ထောင်သော ဒွတ္တဘောင်မင်းကြီး၏ မယ်တော်ဖြစ်သည်။ ဘေဒါရီ၏ ဘဝဖြစ်စဉ်(အရပ်ရပ်)ကို ရာဇဝင်သမိုင်းများ၌ အောက်ပါ အတိုင်း ပါရှိလေသည်။

သာသနာသက္ကရာဇ် ၄၀ ခန့်တွင် ဒုတိယတကောင်းဆက် အစွန် သာကီဝင်မင်းမျိုး သတိုးတဆဲ့ခုနစ်ဆက်မြောက် သတိုးမဟာရာဇာမင်းကြီး၏ လက်ထက်တွင် အရပ် ၁၂ တောင်ရှိသော တောဝက်ကြီး တကောင်သည် တကောင်းပြည်၏ ရွာစွန်ပြည်နားသို့ ဝင်ရောက် ဖျက်ဆီးသည်။ မင်းကြီးသည် မိဖုရားကြီး၏ မောင်တော် အိမ်ရှေ့ဥပရာဇာ ခေပဒူတမင်းသားကို ဝက်ကြီး၏ ရန်ကို နှိမ်နင်းရန် စေလွှတ်တော်မူသည်။ (ခေပဒူတ — ရှု။)

ခေပဒူတမင်းသားသည် ဝက်ကြီးကို အစဉ်တစိုက် လိုက်လံ နှိမ်နင်းရာ၊ သရေခေတ္တရာပြည် တည်ရာ အနီး ကျွန်းတကျွန်းသို့ ရောက်မှ ဝက်ကြီးကို ခွင်းရသည်။ သို့သော် တကောင်းပြည်မှ အလွန်ဝေးလှသော အရပ်သို့ ခရီးလွန်ခဲ့ပြီးဖြစ်၍ မင်းသား၏ စိတ်ဆန္ဒတွင်လည်း ပစ္စုပ္ပန်စီးပွားကို မရှာလိုတော့ဘဲ သံသရာစီးပွားကို ရှာလိုသောကြောင့် ထိုအရပ်တွင်ပင် ရသေ့ရဟန်းပြုနေရာ များမကြာမီ ဈာန်အဘိညာဉ် ရတော်မူသည်။

ထိုအချိန်ခန့်တွင် သမ္ဘူလမည်သော ပျူမင်းကို ဓညဝတီက နှောင့်ယှက်သိမ်းယူလေသဖြင့် ထိုမင်း၏ မိဖုရားနန်းခန်းသည် အလုံးအရင်းနှင့် ထွက်ခွာလာပြီးလျှင် သကျအင်းအရပ်တွင် နေထိုင်သည်။ မိဖုရားမှစ၍ ထိုအရပ်၌ နေကုန်သော သူတို့သည် ခေပဒူတရှင်ရသေ့အား ကိုးကွယ်မှီခိုရာ ပြုကုန်သည်။

ရှင်ရသေ့သည် တခုသော ကျောက်ခွက်၌ ရေဟောင်းမပြုတ် သန့်စင်တော်မူသည်။ သမင်မယ်တခုသည် ထိုရေဟောင်းကို မပြုတ် လျက်စမှတ်ပုလေ၍ ကာလရှည်လျားလတ်သော် သမင်မယ်ဝမ်း၌ ပဋိသန္ဓေတည်သည်။ နေ့လစေ့သော် လူမိန်းမငယ်ကို ဖွားလေသည်။

ဖွားမြင်သော ကလေးငယ်၏ ငိုသံကြားလျှင်၊ အမိဖြစ်သော သမင်မသည် လန့်၍ ပြေးသည်။ ရှင်ရသေ့သည် ကလေးငိုသံကြား၍ သွားရောက်ကြည့်လတ်သော်၊ အဆင်းအင်္ဂါနှင့် ပြည့်စုံသော သတို့သမီးငယ်ကို တွေ့ရသည်။ ထိုအခါအကျိုး အကြောင်း ဆင်ခြင်ပြီးသော်၊ အမိဌာန် ပြုလေသဖြင့် လက်ချောင်းမှ ထွက်သော နို့ရည်ကို တိုက်ကျွေးသည်။ ယင်းသို့ဖြင့် ကလေးငယ်အား ပြုစုကျွေးမွေးလာခဲ့၍ ဘေဒါရီဟူသော အမည်ကို ပေးလေသည်။

ဘေဒါရီသည် အသက် ၁၇ နှစ်အရွယ်သို့ ရောက်လတ်သော် ရသေ့ရဟန်းတို့မည်သည် မိန်းမတို့နှင့်အတူ နေခြင်းငှါမသင့်၊ သူတပါးမြင်သော်လည်း မလျော်ဟု ရှင်ရသေ့၌ အကြံဖြစ်သည်။ ထို့ကြောင့် တနေ့လုံး ရေမှာကြာ၍၊ ညဥ့်အချိန်တန်မှ ပြန်ရောက်နိုင်လေအောင် ရေဆိပ်မှ ရေသယ်ရန် မထွင်းသော ဗူးမျောက်မြီးကို ပေးသည်။ ဗူးမျောက်မြီးကို ရေမှာ နစ်စေပြီးလျှင်၊ ထိုဗူးစက်တွင် ကျည်တောက်ဖြင့်ခံ၍ ရေကိုပြည့်စေရသည်။ ယင်းသို့ဖြင့် ဘေဒါရီကို တနေကုန် ရေဆိပ်၌ ကြာစေလျက်၊ ညဥ့်အချိန်တန်မှ ကျောင်းသင်္ခမ်းသို့ ပြန်ရောက်စေသည်။

ခေပဒူတမင်းသားသည် ဝက်ကြီးရန်ကို ခွင်းသည့်နှစ်၊ သာသနာသက္ကရာဇ် ၄၀ ပြည့်နှစ်၌ပင် တကောင်းမင်း၏ မိဖုရားကြီး ကိန္နရီဒေဝီသည် မဟာသမ္ဘဝ၊ စူဠသမ္ဘဝ မျက်မမြင် ညီနောင်ကို အမြွှာဖွားသည်။ မင်းကြီးက ရှက်စနိုး၍သူမသိအောင် ဖျောက်ဖျက်ရန် မိန့်ကြားသော်လည်း ရင်၌ဖြစ်သောအသွေးအရည်ဖြစ်၍ မိဖုရားသည် မစွန့်ပစ်နိုင်ဘဲ ဝှက်ထားသည်။ သို့သော် သာသနာသက္ကရာဇ် ၅၉ ခုနှစ်တွင် သားတော်တို့အား ဝှက်ထားကြောင်း မင်းကြီးသိလေ၍၊ သတ်ခိုင်းရာ မိဖုရားသည် သားတော်တို့အား ဖောင်၌တင်၍ မျှောလိုက်သည်။

ဖောင်သည် ဧရာဝတီမြစ်ကြောင်း တလျှောက် စုန်လာခဲ့ရာ၊ လမ်းခရီးတွင် စန္ဒမုခီဘီလူးမ၏ ကုစားမှုကြောင့် မင်းသားများသည် မျက်စိအလင်းရရှိခဲ့ကြသည်။ မင်းသားတို့၏ ဖောင်သည် အစဉ်တစိုက် စုန်လာခဲ့ရာ ဘေဒါရီ ရေခပ်ရာ ရေဆိပ်သို့ ရောက်ခဲ့သည်။

မင်းသားတို့သည် ဘေဒါရီ ရေခပ်ပုံကိုမြင်လျှင် ဗူးကိုယူ၍ သန်လျက်ဖြင့် မျက်နှာဝကို လှီးပြီးလျှင် အစေ့ကို သွန်ကာရေမှာခပ်စေ၍ ကျည်တောက်ကို ပြည့်စေသည်။ ဘေဒါရီလည်း ကျည်တောက်တွင် ရေပြည့်လျှင် ခမည်းတော် ရှင်ရသေ့၏ ကျောင်းသို့ ပြန်သွားလေသည်။

ရေဆိပ်မှစောစီးစွာ ပြန်လာသော ဘေဒါရီအား ရှင်ရသေ့တွေ့လျှင် အကြောင်းကို စုံစမ်း၍ မင်းသားတို့အား ခေါ်ယူပြီးသော် စေ့စုံစွာမေးမြန်းသည်။ မင်းသား နှစ်ပါးလည်း အကြောင်းကို လျှောက်ထားသော်၊ မိမိ၏တူတော်ရင်းများဖြစ်နေသည့်အတွက် မင်းသားအကြီး မဟာသမ္မတနှင့် သမီးတော် ဘေဒါရီကို စုံဖက်ပေးလေသည်။

ရှင်ရသေ့သည် ဘုန်းတန်ခိုးကြီးမားသူလည်း ဖြစ်သည်။ အဋ္ဌာရသ၌လည်း အပြီးတိုင်တတ်သူ ဖြစ်သည်။ ရာဇပရိယာယ်၌အလွန်လိမ္မာတော်မူသည်။ ထို့ကြောင့် မိမိအားဆည်းကပ်ကိုးကွယ်လျက်ရှိသောပျူမိဖုရားအမှူးရှိသော သူတို့အား တူတော် မဟာသမ္မတကို မင်းအဖြစ်ပေးအပ်ရန် ရှင်ရသေ့က မိန့်ကြားသည်။ ပျူမိဖုရားလည်း မဟာသမ္မတမင်းသား၏ ဘုန်းလက်ရုံးနှင့် ပြည့်စုံသည့်အဖြစ်ကို သိ၍သဘောကြိုက်ညီကာ၊ မင်းသားအား မင်းမြှောက်သည်။ ယင်းသို့ဖြင့် မဟာသမ္မတမင်းသားသည် သကျအင်းအရပ်တွင် သာသနာသက္ကရာဇ် ၆၀ ပြည့်နှစ်၌ မင်းအဖြစ် အုပ်စိုးသည်။ မဟာသမ္မတမင်းသည် ဘေဒါရီမိဖုရားအပြင်၊ ပျူမိဖုရားကိုလည်း မိဖုရားအဖြစ်တင်မြှောက်လေသည်။ သို့သော် ပျူမိဖုရား၌ သမီးတော်တပါးဖွားမြင်ပြီးနောက် မကြာမီ အနိစ္စရောက်လေသည်။

ဘေဒါရီ မိဖုရားတွင် ဒွတ္တဘောင်မင်း ပဋိသန္ဓေ ၃ လရှိသောအခါ၊ မဟာသမ္မတမင်းသည် သက်တော် ၂၆ နှစ်တွင် နတ်ပြည်စံသည်။ ထို့ကြောင့် သာသနာသက္ကရာဇ် ၆၆ နှစ်တွင် စူဠသမ္မတသည် နောင်တော်၏ ရိုက်ရာကိုဆက်ခံ၍ မင်းပြုသည်။ စူဠသမ္မတမင်းသည် မရီးတော်ဘေဒါရီကိုပင် မိဖုရားမြှောက်သည်။ ဘေဒါရီ မိဖုရား၏ သားတော် ဒွတ္တဘောင်ကား နောင်အခါတွင် သူမြတ် ၇ ဦးတို့၏ အစောင့်အရှောက် အကူအညီဖြင့် သရေခေတ္တရာမြို့ကို တည်ခဲ့သည်။ ဘေဒါရီ မိဖုရား အနိစ္စရောက်သည့် နှစ်ကိုကား မတွေ့ရချေ။

**ဘဲ**။ ။ဝမ်းဘဲ — ရှု။

**ဘဲငန်း**။ ။ငန်း — ရှု။

**ဘဲတူဖျံတူကောင်**။ ။ဘဲတူဖျံတူကောင်သည် **ငါးလည်း** မဟုတ်၊ ကြက်ငှက်လည်း မဟုတ်၊ ဖျံဟုလည်း လုံးလုံး လျားလျား မခေါ်သာ၊ တွားသွားသတ္တဝါဟုလည်း မဆိုနိုင်သော်လည်း ထိုသတ္တဝါလေးမျိုးတို့၏ အနေအကျင့် အသွင်အပြင်များ ရောထွေးရှိနေသည့် ထူးဆန်းသော သတ္တဝါမျိုးဖြစ်သည်။ ဘဲနှုတ်သီးကဲ့သို့ နှုတ်သီးပြားပြားရှိ၍၊ ခြေချောင်းလက်ချောင်းများ အကြား အရေပြားဖြင့် ဆက်နေကာ၊ ဖျံ၏အမွေးမျိုး ဖျံ၏အမြီးကဲ့သို့ အမွေးထူ အမြီးပြားကြီးမျိုးလည်းရှိပြန်သဖြင့် ထိုသတ္တဝါကို ဘဲတူ ဖျံတူကောင် (ဒပ်ဗီး၊ သို့မဟုတ် ပလက်တီပတ်) ဟုခေါ်လေသည်။

ဘဲတူဖျံတူကောင်သည် ဩစတြေးလီးယားတိုက် တောင်ပိုင်းဒေသများနှင့် တက်စမေးနီးယားစသော အနီး အနားကျွန်းများ၌သာ တွေ့ရှိရသည်။ ရှေးကျသော သတ္တဝါများ၏အသွင်အပြင် အင်္ဂါလက္ခဏာများရှိ၍၊ သက်ရှိ သတ္တဝါများတဖြည်းဖြည်း တဆင့်ပြီး တဆင့် ပြောင်းလဲဖြစ်ပေါ်လာပုံကိုသာဓကပြုသည့်သတ္တဝါဖြစ်လေသည်။ ထိုသတ္တဝါသည် ဘဲများ၊ ကြက်များ၊ မိကျောင်းများကဲ့သို့ ဥများ အုသော်လည်း၊ အကောင်ငယ်များ ပေါက်လာသည့် အခါ နို့တိုက်သည်။ ဘဲတူ ဖျံတူကောင်၏ ကိုယ်အလျားသည် ၁၈ လက်မမှ လက်မ ၂၀ အထိ ရှိသည်။ ဝမ်းဘဲမျိုးတို့၏ ခြေထောက်ကဲ့သို့ ခြေချောင်းများအကြား အရေပြားဖြင့်ဆက်နေသဖြင့်၎င်း၊ လှေ်တက်ပုံနှင့် ဆင်ဆင်တူသော အမြီးပြားရှိသဖြင့်၎င်း ရေကူးခြင်းနှင့် ရေငုပ်ခြင်း၌ အလွန်ကျင်လျင်လေသည်။ နူးညံ့ ချောမွတ် သိပ်သည်းသော သားမွေးရှိသဖြင့် ယင်း၏ ခန္ဓာကိုယ်တွင် ရေမတင်ချေ။ နားရွက်အင်္ဂါကို ထင်ထင်ရှားရှား မမြင်တွေ့နိုင်သော်လည်း



ဩစတြေးလီးယားနိုင်ငံတွင် တွေ့ရလေ့ရှိသည့် ဘဲတူဖျံတူကောင်

## ဘော်ကြိုဘုရား



ဘော်ကြိုဘုရားဟုအမည်တွင်သော မုဋ္ဌောခစေတီအနီး၌ပင် တည်ရှိ၍ စင်စစ်ဘော်ကြိုဘုရားဟု ခေါ်ဝေါ်ထိုက်သည်ဟု အချို့က ယူဆလျက် ရှိသော စောမွန်လှ ခေါ် ရှင်မွန်လှစေတီအား အသစ်ပြန်လည် မွမ်းမံပြီးနောက် ဖူးမြင်ရပုံ ဖြစ်သည်။ ဘော်ကြိုသည် ပေါ့ကြိုဟူသော ရှမ်းစကားမှ ရွေ့လျောလာခြင်းဖြစ်၍ အဖကြိုဆိုသောနေရာ ဟု ဆိုလိုသည်။ အနော်ရထာမင်းသည် မိုင်းမောပြည်သူ မိဖုရားစောမွန်လှအား မိဖုရားအရာမှချကာ နေရင်းအရပ်သို့ပြန်ပို့စေသည်တွင် ခမည်းတော် မိုင်းမောစော်ဘွားကြီးကမုဋ္ဌောစေတီအနီးရှိအရပ်မှ သမီးတော် စောမွန်လှအားလာ၍ ကြိုသဖြင့် ထိုအရပ်ကို နောင်သော် ပေါ့ကြိုဟုခေါ်တွင်ခဲ့သည်။ထိုအရပ်တွင် စောမွန်လှသည် ရင်ကွဲနာကျ၍ ကွယ်လွန်လေသော်၊ ခမည်းတော် စော်ဘွားကြီးက သမီးတော်အားရည်စူး၍ ထိုအရပ်ရှိ နမ္မတူမြစ်ကမ်းနဖူး၌ပင် ရုပ်ပွားတော်၊ ဆင်းတုတော်နှင့် သရီယဓာတ်တော်များကို ဌာပနာ၍ စေတီတဆူ တည်ထားရာ ထိုစေတီကို စောမွန်လှ(ဝါ)ရှင်မွန်လှစေတီဟုခေါ်ဝေါ်ခဲ့ကြသည်။ ထိုပြင် စော်ဘွားကြီးသည် ရှင်မွန်လှစေတီ အနီးအနား၌လည်း ရွာကြီး တည်ပေးခဲ့ရာ၊ စော်ဘွားကြီးကသမီးတော်အား ကြိုလာသောအရပ်ဖြစ်သဖြင့် ပေါ့ကြိုရွာဟု ခေါ်ဝေါ်ခဲ့ရာမှ ကာလကြာရှည်ကြာသော် ဘော်ကြိုရွာဟု အမည်တွင်ခဲ့သည်။ထို့ကြောင့် ရှင်မွန်လှစေတီသာလျှင် ဘော်ကြိုဘုရားဟု ခေါ်ဝေါ်ထိုက်သည်ဟု အချို့က ယူဆကြသည်။

ယင်းတို့သည် အလွန်နားပါးကြသည်။ ယင်း၏နှုတ်သီးသည် အရေပြားဖြင့် ဖုံးအုပ်လျက်ရှိ၍၊ ထိုနှုတ်သီး၏ ထိပ်ဖျားတွင် နှာခေါင်းပေါက်များရှိသည်။ ရေအောက်သို့ ငုပ်လျှိုးပြီးသော် ရေအောက်မှငုင်း၊ ရွှံ့နွံထဲမှငုင်း ပိုးမွှားတီကောင်စသည်တို့ကို နှုတ်သီးဖြင့် ထိုး၍ရှာဖွေစားသောက်ကြသည်။ ငယ်စဉ်က သွားများ ပေါက်သော်လည်း၊ မကြာမီ ထိုသွားများ ကျွေသွားကာ၊ယင်းတို့အစား ချိုသား ကဲ့သို့မာကြောသော သွားနှင့်ဆင်ဆင်တူသည့် အချွန်များထွက်လာသည်။ အစာများကို ထိုချိုသွားများနှင့် ဝါးစားသည်။

ခြေလေးချောင်းရှိရာ၊ ယင်းခြေတို့၌ ချွန်မြသော ခြေသည်းများရှိသည်။ ဘဲတူဖျံတူကောင် အမသည် ထိုခြေသည်းများဖြင့် မြစ်ချောင်းကမ်းပါးတွင် လိုဏ်ခေါင်းတူး၍ နေတတ်သည်။ ထိုလိုဏ်ခေါင်းသည် ပေ ၂၀ မှ ၅၀ အထိ ရှည်လျားသည်။ ထိုလိုဏ်ခေါင်းအဆုံးတွင် ဥများ အုသည်။ ဥများသည် မြွေဥ၊ လိပ်ဥများကဲ့သို့ အခွံပါးသည်။ ဥများမှ အကောင်ငယ်များ ပေါက်လာသောအခါ၊ မိခင်ဖြစ်သူသည် ယင်း၏ အမြီးဖြင့် အကောင်ပေါက်စ ကလေးများကို ပိုက်ထွေးပြီးသော် နို့တိုက်လေ့ရှိသည်။ အကောင်ငယ်များ ပေါက်ပြီးစအချိန်တွင် သားမွေး မရှိသေးချေ။ ယင်းတို့သည် အသိုက်ထဲတွင် လပေါင်းများစွာ ကြာအောင် နေတတ်ကြလေသည်။

ဘဲတူဖျံတူကောင် အထီး၏ နောက်ခြေချောင်းများတွင် ဆူးရှိသည်။ ထိုဆူးများသည် အဆိပ်ဂလင်းများနှင့် ဆက်သွယ်နေသည်။ ယင်းတို့အား ရန်မူလာလျှင် ကုတ်ခြစ်၍ အဆိပ်တက်စေခြင်းဖြင့် ရန်ကိုကာကွယ်ရန် ဖြစ်သည်။ သို့သော် ယင်းတို့သည် အလွန်နူးညံ့သိမ့်မွေ့၍ ကြောက်တတ်သော သတ္တဝါများ ဖြစ်ကြသည်။ ယင်းတို့အား ဖမ်းမိလျှင်လည်း ကြောက်တတ်လွန်းလှ၍ မကြာမီ သေကြသည်။ ယင်းတို့၏ အသံသည် ခွေးပေါက်စကလေးများ၏ ဟိန်းသံနှင့် တူလေသည်။

ဘဲတူဖျံတူကောင်တို့ကို ယခင်က သားမွေးအလို့ငှါ ဖမ်းဆီးခဲ့ကြသည်။ ယခုမူ ဩစတြေးလီးယားအစိုးရက ဖမ်းဆီးခွင့် မပြုတော့ချေ။

ယင်းတို့သည် နို့တိုက်သတ္တဝါများအနက် မွန်နိုထရီးမာတာခေါ် အနိမ့်ဆုံးမျိုးစဉ်၌ ပါဝင်ကြသည်။ ဘဲတူဖျံတူကောင်ကို ပါဏဗေဒ အလိုအားဖြင့် အော်နီသိုရင်းကျူးအနှာတီနပ်ဟုခေါ်သည်။

**ဘော်။** ။ငွေသတ္တု — ရှု။

**ဘော်ကြိုဘုရား။** ။ရွှေးကမွေတော်ဟူ၍ငင်း၊ မုဋ္ဌောဟူ၍ငင်း ခေါ်ဆိုပြီးလျှင် ယခု ဘော်ကြိုဘုရားဟုခေါ်တွင် နေသော စေတီသည် ရှမ်းပြည်မြောက်ပိုင်း ကျောက်မဲခရိုင် သီပေါမြို့နယ်တွင်ပါဝင်သော ဘော်ကြိုရွာကြီး၌ တည်ရှိသည်။ ဘော်ကြိုရွာသည် သီပေါနှင့် ကျောက်မဲအကြားတွင် ရှိ၍၊ မန္တလေး-လားရှိုး မီးရထားလမ်းနှင့် မော်တော်ကားလမ်းသည် ဘော်ကြိုရွာကြီးကို ဖြတ်သန်း သွားသည်။ မီးရထားလမ်းအားဖြင့် ဘော်ကြိုသည် သီပေါမြို့မှ ၆ မိုင်ခန့်ငင်း၊ ကျောက်မဲမြို့မှ ၁၄ မိုင်ခန့်ငင်း ကွာဝေး၍ ဘော်ကြိုဘုရားပွဲတော်အခါတွင် သွားရေးလာရေး အဆင်ပြေပေသည်။

ဘော်ကြိုစေတီသည် ဘော်ကြိုရွာ၏အနောက်ဖက်တွင် တည်ရှိသည်။ စေတီ၏ သမိုင်းအဆိုမှာ သီရိဓမ္မာသောကမင်းတရားကြီး လက်ထက် ကိုးတိုင်းကိုးဌာနသို့ ဗုဒ္ဓသာသနာ ပျံ့နှံ့စေရန် သာသနာပြုစေလွှတ်ရာ ထိုအရပ်ဒေသသို့လည်း သာသနာပြု မထေရ်တပါး ရောက်ရှိလာသည်။ ထိုမထေရ်သည် ဂေါတမဘုရား အလောင်း ဝက်မင်း ဖြစ်စဉ်က ကျက်စားပျော်ပါးခဲ့ရာ ဖြစ်သော ဝက်လူးအိုင်နေရာ၊ နမ္မတူမြစ်ကမ်းဘေးတွင် သရီယ ဓာတ်တော် မွေတော်များကို ဌာပနာ၍ စေတီတည်ထားပြီးသော် မုဋ္ဌောစေတီဟု ဘွဲ့တော် သခဲ့သည်ဟု ဆိုလေသည်။

အထက်တွင် ဆိုခဲ့သော မုဋ္ဌောစေတီကို ဘော်ကြိုရွာ အနီး၌ တည်ရှိသဖြင့် နောင်အခါ ဘော်ကြိုဘုရားဟုလည်းခေါ်တွင်လာသည်။ ပြုပြင်မွမ်းမံခြင်းကိုလည်း အထပ်ထပ် ပြုခဲ့ကြသည်။ စင်စစ် ဘော်ကြိုဘုရားဟု ခေါ်ဝေါ်ထိုက်သော စေတီမှာ ရှင်မွန်လှ၊ သို့မဟုတ် စောမွန်လှစေတီသာလျှင် ဖြစ်သည်ဟု ဆိုကြသည်။ ထိုစေတီသည် မုဋ္ဌောစေတီအနီး၌ပင်ရှိသည်။စောမွန်လှ စေတီသည် စောမွန်လှနှင့် စပ်လျဉ်း၍ တည်ထားခဲ့သောစေတီဖြစ်ပေသည်။ အချို့လူတို့၏ အယူအဆမှာ ဘော်ကြိုသည် ပေါ့ကြိုဟူသော ရှမ်းစကားမှ ရွေ့လျော့လာခြင်းဖြစ်သည်။ “ပေါ့” သည် ရှမ်းဘာသာအားဖြင့် အဖဟု အဓိပ္ပါယ်ရ၍၊ “ကြို” သည် ကြိုဆိုသည်ကို ဆိုလိုရာ၊ အဖကိုဆိုသောနေရာဟု ဆိုလိုသည်။ ယင်းသို့ခေါ်ဆိုရသောအကြောင်းရင်းကား ဤသို့တည်း။

ကောဇာ သက္ကရာဇ် ၄၀၀ ခန့်က ပုဂံပြည့်ရှင် အနော်ရထာမင်းသည် မိုင်းမောပြည်သူ မိဖုရားစောမွန်လှ (ဝါ) ရှင်မွန်လှအားအချို့မောင်းမမိဿံတို့၏ ကုန်းချောချက်ကြောင့် မိဖုရားအရာမှချ၍ မိုင်းမောပြည်သို့ ပြန်ပို့သည်။ ထိုအခါ စောမွန်လှ၏ ခမည်းတော် မိုင်းမော စော်ဘွားကြီးသည် မုဋ္ဌောစေတီအနီး၊ ယခုဆားတွင်းရှိသော နေရာမှ သမီးတော်အား လာ၍ကြိုသဖြင့် ထိုနေရာကို“ပေါ့ကြို”ဟု နောင်အခါ ခေါ်တွင်ခဲ့ကြသည်ဟု ဆိုသည်။

ထိုနေရာတွင် စောမွန်လှသည် ရင်ကွဲနာကျ၍ ကွယ်လွန်သွားလေရာ၊ ခမည်းတော်သည် သမီးတော်အား ရည်စူး၍၊ နမ္မတူမြစ်ကမ်းနဖူး၌ပင် ရုပ်ပွားတော်၊ဆင်းတုတော်နှင့် သရီ

ယခုတော်များကို ဌာပနာ၍ စေတီတဆူ တည်ထားရာ ထိုစေတီကို စောမွန်လှ (ဝါ) ရှင်မွန်လှစေတီဟု ခေါ်ဝေါ်ခဲ့ကြသည်။ စော်ဘွားကြီးသည် အနီးအနား၌လည်း ရွာတည်ပေးခဲ့ရာ၊ စော်ဘွားကြီးက သမီးတော်အား အကြိုလာသော အရပ်ဖြစ်သဖြင့် နောင်အခါ ပေါ့ကြိုရွာဟုခေါ်ဝေါ်ခဲ့ကြရာမှ ကာလရှည်ကြာသော် ဘော်ကြိုရွာဟု ဖြစ်လာလေသည်။

ရှင်မွန်လှစေတီသည် ဆိုခဲ့သည့်အတိုင်း ဘော်ကြိုရွာ အမည်တွင်ခဲ့သည့် အကြောင်းရင်းနှင့် ဆက်စပ်နေသဖြင့် အချို့က ဘော်ကြိုဘုရားဟုသာ၍ ခေါ်သင့်သည်ဟု ဆိုကြခြင်းဖြစ်သည်။ ထိုစေတီသည် ကာလကြာမြင့်သဖြင့် ပျက်စီးယိုယွင်းခဲ့ရာ ပြုပြင်ရန် ကြိုးစားခဲ့သော်လည်း မအောင်မြင်ခဲ့ဟု သိရသည်။ သို့သော် ၁၃၂၂ ခုနှစ် ပြာသိုလအတွင်းမှစ၍ မြို့နယ်ဆိုင်ရာ အုပ်ချုပ်ရေးအရာရှိ အရာခံများ၊ ရဲ၊ တပ်မတော်နှင့် လူထုတို့တွဲဖက်၍ ပြုပြင်ခဲ့ကြရာ ၁၃၂၃ ခုနှစ်၊ သီတင်းကျွတ်လတွင် ပြီးစီးအောင်မြင်၍ ပွဲလမ်းသဘင်ချိမ့်ချိမ့်သဲသဲ ကျင်းပခဲ့လေသည်။

ဘော်ကြိုဘုရားပွဲတော်ကို နှစ်စဉ် တပေါင်းလ၌ ကျင်းပလေ့ရှိသည်။ စေတီယံတဆူပင်ဖြစ်လင့်ကစား ရှမ်းပြည်ဘုရားပွဲများအနက် အကြီးကျယ်ဆုံးအစည်ကားဆုံးဖြစ်၍ မြန်မာနိုင်ငံအရပ်ရပ်၌ ဘော်ကြိုဘုရားပွဲတော်သည် လူသိများပြား ထင်ရှားလှသည်။ ထိုဘုရားပွဲတော်အခါတွင် ရှမ်းပြည်အရပ်ရပ်မှသာမက၊ မြန်မာပြည်မမှ ဘုရားဖူးများ၊ ဈေးသည်ကုန်သည်များလည်း လာရောက်ကြ၍ ဘုရားပွဲတော်ဈေးစည်ကားလှသည်။ ပွဲတော်သို့ လာရောက်ကြသော ပရိသတ် ဦးရေသည် ၅ သောင်းကျော်ခန့်မျှပင် ရှိတတ်သည်။ အဓိကရ တန်ခိုးကြီးစေတီမဟုတ်ဘဲ၊ထိုမျှကြီးကျယ်စည်ကားရသည်မှာ ဘော်ကြိုဘုရားပွဲတော်တွင်၊ ယခင်က ဆိုင်ရာအာဏာပိုင်များသည် လောင်းကစား ပွဲများကို အကြီးအကျယ် ကျင်းပနိုင်ရန် ခွင့်ပြုထားခဲ့သောကြောင့် ဖြစ်သည်။ ဘုရားပွဲတော်ကျင်းပသည့် ရက်သတ္တပတ်အတွင်း ဘုရားပွဲသွားများ စရိတ်သက်သာစွာဖြင့် သွားလာနိုင်စေရန် အစိုးရက မီးရထားခနှုန်းများကိုလည်း လျှော့ပေးရသည်။

ဘော်ကြိုဘုရားကို အကြောင်းပြု၍ ဘော်ကြိုရွာကိုလည်း လူသိများခဲ့သည်။ ထိုရွာသည် အိမ်ခြေ ၁ ရာခန့်မျှသာရှိ၍ လူဦးရေ ၅ ရာခန့်သာရှိသော ရှမ်းရွာကြီး တရွာပေတည်း။ မော်တော်ကားလမ်း၏ တဖက်တချက်တွင်အိမ်များ ဆောက်လုပ်ထား၍ ရွာတန်းရှည်တခုဖြစ်သည်။ မီးရထားဘူတာရုံကို ၁၈၉၈ ခုနှစ်ကပင် ဘော်ကြိုရွာ၌ ဖွင့်လှစ်ထားခဲ့သည်။ မီးရထားလမ်းသည် ရွာ၏ နောက်ကျောဖက်မှ ဖြတ်သန်းသွား၍ ဘူတာရုံသည် ရွာ၏အနောက်ဖက်မိုင်တမတ်ခန့်တွင်ရှိသည်။ထိုမှာဖက်တွင် ဘုန်းကြီးကျောင်းနှင့် ဘုရားစေတီများလည်းရှိရာ ဘော်ကြို ဘုရားလည်း ပါဝင်သည်။



ဘော်ကြိုဘုရားဟု အများခေါ်တင်လျက်ရှိသည့် မုဋ္ဌောစေတီ

ဘော်ကြိုရွာနှင့် ပတ်ဝန်းကျင်မှ ထွက်ကုန်များမှာ ဆား၊ လိမ်မော်၊ ရှောက်ချို၊ သံပရာနှင့် ဆန်စပါးတို့ဖြစ်သည်။ ရွာ၏အရှေ့မြောက်ဖက်တွင် ဆားတွင်းများရှိ၍ ရွာ၏ နောက်ကျောတွင် စပါးလယ်ကွင်းများရှိသည်။ ဘော်ကြိုတွင် ငါးရက်တစျေးရှိသည်။ ဈေးရှိသောအပိုင်းကို ရွာသစ်ဟု ခေါ်ကြ၍ စေတီများရှိသော အပိုင်းကို ရွာဟောင်းဟု ခေါ်ကြလေသည်။

**ဘော်ဆိုင်းမြို့**။ ။ရှမ်းပြည် တောင်ပိုင်း၊ မြေလတ်ဒေသ၌ရှိသော မြို့ကလေးတမြို့ဖြစ်သည်။ဟဲဟိုးမြို့၏ မြောက်ဖက် ၁၉ မိုင်ကွာ၊ ပင်းတယမြို့၏ အရှေ့ဖက် ၁၂ မိုင်ကွာ၊ ရပ်စောက် (ဗထူးတပ်) မြို့၏ တောင်ဖက် ၃၆ မိုင်ကွာတွင် တည်ရှိလျက် တောင်များဖြင့် ဝိုင်းရံပတ်ကာ စိမ်းစိုသာယာကြည်နူးဖွယ်ကောင်းသောမြို့လည်း ဖြစ်သည်။ အောင်ပန်း-ရပ်စောက် လမ်းနှင့် ရွှေညောင်-ရပ်စောက်လမ်း အကြား၌ရှိပြီးလျှင် ပင်လယ်ရေပြင်မှ အမြင့်ပေ ၄,၃၀၀ ကျော်တွင် မြို့တည်ထားသည်။ ကုန်းမြင့်တွင် တည်ထားသော မြို့ဖြစ်၍ နွေရာသီအခါ အပူချိန်ဖာရင်ဟိုက် ဂ၆ ဒီဂရီခန့်ရှိ၍၊ ဆောင်းအခါ ၄၇ ဒီဂရီခန့်ရှိသဖြင့် ရာသီဥတုအပူအအေး မပြင်းထန်လှချေ။ မိုးရေချိန်မှာ အများဆုံး လက်မ ၅၀၊ အနည်းဆုံး လက်မ ၃၀ ခန့် ရွာသွန်းသည်။

ဘော်ဆိုင်းမြို့သည် ဘော်ဆိုင်းနယ်၏ ရုံးစိုက်မြို့ ဖြစ်သည်။ ဘော်ဆိုင်းနယ်၏ အကျယ်အဝန်းသည် စတုရန်း မိုင် ၅၀ ခန့်ရှိ၍ ကျေးရွာပေါင်း ၃၂ ရွာပါဝင်သည်။ လူဦးရေ ၅,၀၉၁ ယောက်ရှိသည်။ ဘော်ဆိုင်းနယ်၏ မြောက်ဖက်၌ ရပ်စောက်၊ အရှေ့ဖက်၌ ညောင်ရွှေ၊ တောင်ဖက်၌ ပွေးလှ၊ အနောက်ဖက်၌ ပင်းတယနယ်တို့ ရှိသည်။ ကုန်းခေါင်ခေါင်ဒေသမျိုးဖြစ်၍ မြစ်ချောင်းအလွန်နည်းပါးသည်။ သို့သော် ဘော်ဆိုင်းမြို့၏ တောင်ဖက် ၈ မိုင်ကွာတွင် ရေထွက် စခန်းဟုရှိသည်။ ထိုရေထွက်စခန်းမှ ဆဲ့နှစ်ရာသီပတ်လုံး အဆက်မပြတ် စမ်းရေထွက်ကျနေ၍ ပတ်ဝန်းကျင် ရပ်ရွာများမှ လူသူတိရစ္ဆာန်အပေါင်းတို့ သုံးစွဲမကုန် ရှိသည်။ ထို့ပြင် ထိုရေထွက်စခန်း၏ အရှေ့တောင် ယွန်းယွန်းရှိ မြင့်မားသော တောင်ထိပ်ပေါ်၌လည်း အစဉ် မကုန်မခန်း နိုင်သော ရေထွက်ကန်ကြီးတခု ရှိလေသည်။

ဘော်ဆိုင်းမြို့၏ အကျယ်အဝန်းသည် အလျား ၁ မိုင်ခွဲ အနံ ၆ ဖာလုံရှိ၍၊ မြို့မရပ်၊ သဖန်းပင်ရပ်၊ ကံဦးရပ်၊ ပြည်သာရပ်၊ ကံသာရပ်၊ ကံပြင်ရပ်၊ ကျောင်းတောင်ရပ် ဟူ၍ ရပ်ကွက် ၇ ကွက်ရှိသည်။ မြို့ပေါ်၌ အိမ်ခြေ ၃၇၀ ခန့်ရှိပြီးလျှင် လူဦးရေမှာ ၁,၇၃၇ ယောက် ဖြစ်သည်။ မြို့ပေါ်၌ ၎င်း၊ နယ်အတွင်း၌၎င်း နေထိုင်ကြသူများမှာ၊ ဓနု၊ တောင်ရိုး၊ တောင်သူ စသော အမျိုးသားများသာ အများအားဖြင့် ဖြစ်ကြ၍ ဗုဒ္ဓအယူဝါဒကို သက်ဝင်ယုံကြည်သူများဖြစ်ကြလေသည်။

ဘော်ဆိုင်းမြို့ကို ရှမ်းဘာသာဖြင့် "မော်ဆုံ" ဟုလည်း ခေါ်ဝေါ်သည်။ "မော်" ဟူသော ဝေါဟာရမှာ ရှမ်းဘာသာဖြင့် ငွေသတ္တုဟုအဓိပ္ပါယ်ရသည်။ ထိုဒေသတွင် ငွေ၊ ခဲ စသောသတ္တုများ ထွက်ရှိ ခြင်းကြောင့် "မော်ဆုံ" ဟု ရှမ်းဘာသာဖြင့် ခေါ်ဝေါ်ရာမှ "ဘော်ဆိုင်း" ဟု မြန်မာသံဖြင့် ခေါ်ဝေါ်လာဟန် ရှိသည်။

သို့သော် ရှေးသူဟောင်းတို့ အလိုမှာကား ရှေးရှေးက အလောင်းစည်သူ မင်းကြီးသည် ဖောင်စကြာဖြင့် တိုင်းခမ်းလှည့်လည်တော်မူရာ၊ ထိုအရပ်သို့ ရောက်လျှင် ဖောင်သည် ရှေ့မသွား၊ နောက်မဆုတ်ဘဲ ဆိုင်းငံ့နေသည်။ ထို့ကြောင့် ပုဏ္ဏားဖြူ၊ ပုဏ္ဏားညိုတို့အား မေးမြန်းစုံစမ်းသောအခါ၊ ထိုအရပ်သည် နောင်အခါ သာသနာပွင့်လင်း၍ စည်ပင်ဖွံ့ဖြိုးမည့်အရပ်ဖြစ်ကြောင်းကို လျှောက်ထားသည်။ ထိုအခါမင်းတရားကြီးသည် ယခုမြို့၏တောင်ဖက်တွင် ရွှေခြယ်မြစည်းလက်ဝတ် ရတနာနှင့်တကွ အဖိုးတန် ရွှေငွေ ကျောက်သံပတ္တမြားတို့ကို ဌာပနာ၍ စေတီတဆူတည်သည်။ ယခုအခါ ရွှေမြစည်းစေတီတော်ဟု ခေါ်သည်။ ထို့ပြင် ရေထွက်ကန်ကြီးရှိသော တောင်ပေါ်၌လည်း ဘုရားရှင်၏ ဓာတ်တော် မွေတော်များနှင့် အဖိုးထိုက်သော ရတနာများကို ဌာပနာ၍ စေတီတဆူတည်ထားရာ၊ ယခုအခါ မွေတော်စေတီဟု ခေါ်သည်။ ယင်းသို့ မင်းတရားကြီးသည် ထိုဒေသကို ခြိမ့်မြင့်ပြီးနောက်၊ထိုအရပ်၌ ဖောင်တော်ဆိုင်းသဖြင့် ဖောင်တော်ဆိုင်းအရပ်ဟု သမုတ်ခဲ့သည်။ ထို့ကြောင့် ဖောင်တော်ဆိုင်းဟု ခေါ်တွင်ခဲ့ရာမှ ဖောင်ဆိုင်း၊ ထို့မှတဖန် ဘောင်ဆိုင်းဟု တွင်လာပြီး ဘော်ဆိုင်းဟု ရွှေ့လျောလာသည်ဟုဆိုသည်။ အထက်တွင် ဖော်ပြခဲ့သော ရေထွက်စခန်းနှင့် ရေထွက်ကန်ကြီးသည်လည်း နောင်အခါ ထိုဒေသ၌ အခြေစိုက် နေထိုင်ကြမည့် လူအများနှင့် သတ္တဝါတို့အတွက် ရေရစေရန် အလောင်းစည်သူမင်းကြီး အဓိဋ္ဌာန်ကြောင့် ပေါ်ထွက်ခဲ့သော ရေထွက်များဟု ဆိုလေသည်။

ဘော်ဆိုင်းမြို့ ဖြစ်ပေါ်လာမည့် ဒေသတွင် အလောင်းစည်သူခေတ် (မြန်မာသက္ကရာဇ် ၄၇၀ ကျော်ခန့်) အခါက ပင် လူအနည်းအကျဉ်း ရှိနေပြီဟုဆိုသည်။ ဘော်၊ ငွေ၊ ခဲ စသော သတ္တုများ သယံဇာတဖြစ်ပေါ်နေသဖြင့် ယင်းတို့ကို တူးဖော်၍ ရောင်းဝယ်ဖောက်ကား နေထိုင်ကြသည်။ မြန်မာ သက္ကရာဇ် ၇၈၈ (ခရစ်နှစ် ၁၄၂၆ ခုနှစ်) တွင် နန်းတက်သော မိုးညှင်းမင်းတရားကြီးသည် ထိုဒေသမှ ဘော်၊ ခဲ တို့ ထွက်ရှိကြောင်း ကြားသိတော်မူသဖြင့် ဓာတုဗေဒပညာရပ်ကို ကျွမ်းကျင်သော ဦးမူနွယ်နှင့် ဦးမူသီးညီနောင်နှစ်ဦးအား ထိုဒေသသို့ သွားစေ၍၊ ထိုဒေသ၌ ဖွားစားအုပ်

# ဘော်ဆိုင်းမြို့







ဘော်ဆိုင်းမြို့၏ ရှုခင်း တစိတ်တဒေသ

ဘော်ဆိုင်းမြို့သည် သာယာစိုပြည်၍ ခဲသတ္တုလုပ်ငန်းထွန်းကားသောမြို့ဖြစ်သည်။ တူးပြီးသော သတ္တုများကို ရွေးချယ်ပြီးနောက် (ယာ)၊ ရေဖြင့် စင်စွာဆေးကြောပြီးလျှင် (အောက်၊ ဝဲ)၊ အိတ်များထဲထည့်၍ (အောက်၊ ယာ)တင်ပို့ရောင်းချလေ့ရှိကြသည်။





ချုပ်စေပြီးလျှင်၊ သတ္တုတွင်းများမှ တူးဖော်ရရှိသော ဘော်ငွေသားတို့ကို ဆက်သရန် အမိန့်တော်ဖြင့် စေလွှတ်သည်။

ထိုကြောင့် ဦးမူနွယ်နှင့် ဦးမူသီးညီနောင်တို့ သား မယား အခြွေအရံနှင့် ထိုဒေသသို့ ရောက်လာသည်။ ညီနောင် နှစ်ဦးသည် တူးဖော်ရရှိသော သယံဇာတ ခဲရိုင်း၊ သတ္တုများကို ကျိုချက်ပြီးလျှင် ထုတ်ယူရရှိသော ဘော်ငွေသားတော်များကို မိုးညှင်းမင်းတရားထံ ဆက်သရသည်။ ဘော်ငွေများ ထွက်ရှိသဖြင့် ထိုနယ်ကို ဘော်တွင်းနယ်ဟုလည်း ခေါ်ဝေါ်ကြလေသည်။

ဦးမူနွယ်တို့ ညီနောင်၏ ပြုပြင်အုပ်ချုပ်မှုကြောင့် ထိုဒေသသည် လူနေစည်ကားများပြားလာသည်။ ဦးမူနွယ်သည် ဘော်ဆိုင်းဒေသကို အုပ်ချုပ်ပြီးလျှင်၊ ဦးမူသီးကမူ ဘော်ဆိုင်းမှ တောင်ဖက် ၉ မိုင်ခန့် အကွာရှိ ကျောက်ထပ်ဒေသကို အုပ်ချုပ်သည်။ ထိုအခါမှစ၍ ထိုဒေသတို့သည် မြန်မာဘုရင်၏ လက်အောက်ခံ သီးခြားနယ် ဖြစ်ခဲ့သည်။ဘော်ဆိုင်းတွင် ဦးမူနွယ်ကွယ်လွန်သည့်အခါ နယ်လူထုက တင်မြှောက်ဟန်တူသော ဦးအုန်းခိုင်က အုပ်ချုပ်သည်။ ထိုနောက် ဦးသာစု ဆိုသူက အုပ်ချုပ်၍ ဦးသာစု ကွယ်လွန်လျှင် သားဖြစ်သူ ဦးနွယ်က ဆက်ခံသည်။ဦးနွယ်အား ဆက်ခံသူမှာ ဦးပွဲဖြစ်သည်။ ဦးပွဲ၏ လက်ထက်တွင် (ခရစ် ၁၇၇၄ ခုနှစ်) ငွေခွန်မှူးဟူသော ရာထူးအမည်အရည်ဖြင့် ခန့်အပ်ခြင်းခံရ၍ ဘော်ဆိုင်းနှင့် ကျောက်ထပ်နှစ်နယ်ကို ပူးပေါင်းအုပ်ချုပ်သည်။

ထိုနောက် ဦးပွဲ၏ ညီ မင်းဘိုးကျော်၏ သား တဦးပင်ဖြစ်သော မင်းမောင်ထွန်း(မင်းမောင်ညွန့်)၊ မင်းမောင်ဝိုင်း၏ သား မင်းကြာရွက်၊ သို့မဟုတ် စောကြာရွက်တို့ အစဉ်တစိုက် အုပ်ချုပ်လာသည်။ စောကြာရွက်သည် မြန်မာ သက္ကရာဇ် ၁၂၄၀ ပြည့်နှစ် (ခရစ် ၁၇၇၇) တွင် ရာထူးကို လက်ခံခဲ့ရာ၊ စောကြာရွက်၏ လက်ထက်တွင် မြန်မာနိုင်ငံတော်သည် ဗြိတိသျှ အစိုးရလက်အောက်သို့ ရောက်သည်။ ဗြိတိသျှတို့ မသိမ်းပိုက်မီကလေးတွင် ဘော်ဆိုင်းနယ်တွင် လူနေအိမ်ခြေများ မီးရှို့ဖျက်ဆီးခြင်း ခံရသေးသည်။

မင်းကြာရွက် ကံကုန်လျှင် သားသမီးမထွန်းကား၍ မင်းမောင်ဝိုင်း၏သမီးတဦးဖြစ်သော မခင်သဲနှင့် နန်းခုံမင်းသား စောခေါင်တို့မှ ထွန်းကားသော စောခမ်းဆိုင်က ဆက်ခံသည်။ စောခမ်းဆိုင် လက်ထက်တွင် အင်္ဂလိပ်မင်းတို့ အလိုကျ ညောင်ရွှေနယ်နှင့် ပူးပေါင်း (မြန်မာ ၁၂၇၉ ခုနှစ်၊ အင်္ဂလိပ် ၁၉၂၇ ခုနှစ်) လိုက်သည်။ထိုကြောင့် စောခမ်းဆိုင်သည် ညောင်ရွှေစော်ဘွား လက်အောက်ခံ မြို့စားအဖြစ် အုပ်ချုပ်ရသည်။ ထိုအခါမှ စ၍ ဘော်ဆိုင်းနယ်သည် ညောင်ရွှေနယ်၏ လက်အောက်ခံ ဖြစ်သွားလေသည်။

စောခမ်းဆိုင် အငြိမ်းစားယူပြီးနောက်တွင် ညောင်ရွှေမှ ထမံ့စာအမည်ရှိ ပုဂ္ဂိုလ်တဦးကို စေလွှတ်အုပ်ချုပ်သည်။ နယ်သူ နယ်သားများနှင့်ဆက်ဆံရေး မပြေပြစ်သဖြင့်မကျေနပ်မှုများရှိခဲ့သည်။ ထမံ့စာကွယ်လွန်သောအခါ နယ်သူ နယ်သားများ ဆန္ဒအရ၊ မင်းမောင်ဝိုင်း၏သမီး တဦးဖြစ်သော မခင်ဖုံးမှ ပေါက်ဖွားသည့် မခင်တိုင် (ဒေါ်တော်)နှင့် သတ္တုတွင်းသူဌေး တန်ဘိုးရင်တို့၏ သား တန်စစ်ဟန်ခေါ် ဦးစစ်ဟန်အား အုပ်ချုပ်စေခဲ့သည်။ မိဖများ ဖြစ်ကြသော တန်ဘိုးရင်နှင့် ဒေါ်တော်တို့သည် နယ်အတွင်း၌ လောကီ လောကုတ္တရာရေးဆိုင်ရာ အဆောက်အအုံ ကုသိုလ်ကောင်းမှုတို့ကို ပြုခဲ့သည့်နည်းတူ၊ ဦးစစ်ဟန်သည်လည်း မိဘတို့ လက်ငုတ်လက်ရင်းအတိုင်း မြို့ရွာနယ်ပါ စည်ပင် ဖွံ့ဖြိုးရေး အတွက် အထူးဆောင်ရွက်လျက်ရှိသည်။ ဦးစစ်ဟန်သည် ၁၉၅၀ ပြည့်နှစ်တွင် ဟဲဟိုးမြို့စားအဖြစ်လည်း ဆောင်ရွက်ရသည်။ ၁၉၅၉ ခုနှစ်တွင် ရှမ်းပြည်နယ်များ၌ ပဒေသရာဇ် အုပ်ချုပ်ရေးစံနစ်မှ ပြည်သူ့အုပ်ချုပ်ရေး စံနစ်သို့ပြောင်းခဲ့သည်။ ၁၉၆၀ ပြည့်နှစ် အထွေထွေ ရွေးကောက်ပွဲကြီးတွင် ဦးစစ်ဟန်ညောင်ရွှေ မြောက်ပိုင်း မဲဆန္ဒနယ်မှ အမတ်အဖြစ် အရွေးခံရ၍ ရှမ်းပြည်နယ်ကောင်စီ၏ ဒုတိယ သဘာပတိအဖြစ် ဆောင်ရွက်ရသည်။ ထိုနောက် ထိုနှစ် အတွင်း၌ပင် ရှမ်းပြည်နယ်အစိုးရ၏ ဘဏ္ဍာရေး၊ အခွန်တော်နှင့် သာသနာရေး ဝန်ကြီးအဖြစ် ဆောင်ရွက်ရလေသည်။

ခဲသတ္တုတူးဖော်ရေးလုပ်ငန်းသည် မြို့နယ်၏ အဓိကဖြစ်သည်။ ဦးမူနွယ်တို့ လက်ထက်က သယံဇာတဖြစ်ပေါ်နေသော ခဲရိုင်းများကို ကျိုချက်ရရှိသည့်ခဲသားမှ ဘော်ငွေကျိုချက်ထုတ်ယူသည့် တိုင်းရင်းသား နည်းစံနစ်သည် ကွယ်ပျောက်သွားသည်။ ထိုကြောင့် ယခုအခါ ခဲရိုင်းများ၊ ခဲသားများ၊ချော်ဖြူများနှင့် ချော်ချေးများအတိုင်းသာ နိုင်ငံခြားသို့ တင်ပို့ရောင်းချနိုင်ခဲ့သည်။ခဲရိုင်းမှခဲကျိုချက်ရာတွင် ကျန်ရှိသောချော်ချေးများကို နိုင်ငံခြားသို့ တင်ပို့ရုံသာမက မြန်မာနိုင်ငံအတွင်းရှိ၊ ရွှေဘို၊ ကျောက်မြောင်း၊ တွံတေး၊ ပုသိမ်၊ ပျဉ်းမနား၊ တောင်ငူ၊ မော်လမြိုင်မြို့များမှ စဉ့်အိုးလုပ်ငန်းတွင် စဉ့်ချော်အဖြစ် အသုံးပြုရသဖြင့် ထိုမြို့များသို့လည်း တင်ပို့ရောင်းချရသည်။

ခဲသတ္တုလုပ်ငန်းအပြင် စိုက်ပျိုးရေးလုပ်ငန်းထွက် ပစ္စည်းများဖြစ်သော သနပ်ဖက်၊ လက်ဖက်ခြောက်၊ လက်ဖက်စို၊ အာလူး၊ မြေပဲ၊ ဂျုံစသည်တို့ကို တိုးတက်ထွက်အောင် ဆောင်ရွက်လျက် ရှိကြ၍၊ မြို့နှင့်တကွ နယ်၏ စီးပွားရေး အခြေအနေမှာ စည်ပင်ဖွံ့ဖြိုးလျက်ရှိသည်။

လမ်းပန်း ဆက်သွယ်ရေးတို့မှာ မီးရထား ဘူတာရုံနှင့် လေယာဉ်ဆိပ်ရှိသော ဟဲဟိုးသို့ နှစ်လုံးပေါက် သွားလာနိုင်သည့် ၁၉ မိုင်ရှည်လျားသော ကျောက်လမ်းရှိသည်။ ထို့ပြင် ပင်းတယသို့ နှစ်လုံးပေါက် သွားလာနိုင်သည့် ၁၂ မိုင် ရှည်

လျှားသော ကျောက်လမ်းလည်း ရှိသည်။ ဘော်ဆိုင်းမြို့တွင် ငါးရက်တစျေးရှိရာ၊ တောင်ကြီး၊ ညောင်ရွှေ၊ ဟဲဟိုး၊ ပင်းတယစသော မြို့များမှ ရောင်းဝယ်သူများ လာရောက်ကြ၍ စည်ကားပေသည်။

အလောင်းစည်သူမင်း တည်ထားခဲ့သည် ဆိုသော ရွှေမြစည်းစေတီ၊ မွေတော်စေတီတို့အပြင်၊ ဘော်ဆိုင်းမြို့၏ အနောက် တောင်ဖက်၊ သာယာလှသော ကုန်းမြေမြင့်တွင် အလောင်းစည်သူမင်းပင် တည်ထားခဲ့သည် ဆိုသော ဖောင်ဆိုင်းစေတီတော်တဆူလည်း ရှိသေးသည်။ရွှေမြစည်းစေတီတော်ကို ဦးမူနွယ်၏ လက်ထက်တွင်၎င်း၊ မင်းကြာရွှက်လက်ထက်တွင်၎င်း ထပ်မံပြုပြင်၍၊ ယခု ဦးစစ်ဟန်၏ လက်ထက်တွင်လည်း ထပ်မံပြုပြင်ပြန်သည်။ဂန္ဓကုဋိတိုက်၊ သာသနာ့ဗိမာန် အဆောက်အအုံများစသည်တို့ကို အသစ်ဆောက်လုပ်လှူဒါန်းသည်။ ရွှေမြစည်းစေတီပုရဝဏ် အတွင်း၌ ဆင်ဖြူများရှင် မင်းတရားလက်ထက်၊ ၁၂၂၅ ခုနှစ်က အမိန့်စာချွန်တော်ဖြင့် တည်ဆောက်၍ သိမ်သမုတ် ခဲ့သော သိမ်တခုလည်းရှိသည်။ မြို့၏အလယ်တွင် ကျောက်တန်းစီခြယ် လုပ်ကိုင်ထားသော အလျား ၄ ဖာလုံ၊ အနံ ၂ ဖာလုံ ရှိသည့် ရေကန်ကြီး ရှိသည်။ ဘော်ဆိုင်းမြို့၏ အလယ် ကုန်းမြင့်ထက်တွင်လည်း ကံဦးစေတီတော်နှင့် ကံဦးကျောင်းတိုက်ကြီး ရှိလေသည်။

သာသနိကအဆောက် အအုံများအပြင်၊ အလယ်တန်းကျောင်း၊ ပြည်သူ့ ဆေးပေးဌာန၊ သတ္တုဆေးကြောရာဌာန စသည်ဘို့လည်း ရှိ၍၊ ရပ်ကွက်အလိုက် ဖြောင့်ဖြူးသော လမ်းများဖြင့် အနေအထား လှပသောမြို့ ဖြစ်လေသည်။

မြို့နှင့်နယ်အတွင်း အစည်ကားဆုံး ပွဲတော်မှာ ကဆုန်လဆန်း ၁၀ ရက်နေ့မှ လပြည့်နေ့အထိ ကျင်းပသော ရွှေမြစည်းစေတီ ဘုရားပွဲတော်နှင့် ဗောဓိညောင်ရေသွန်းပွဲတော်ဖြစ်သည်။ ရွှေမြစည်း စေတီဘုရားပွဲတော်ကို ကဆုန်လ၌ ပြုလုပ်မှသာ မိုးကောင်း၍ မြို့နယ် လူထုချမ်းသာ ငပြောမည်ဟု ယုံကြည်ကြလေသည်။ မြန်မာ နှစ်သစ်ကူးချိန်တွင် တောင်ရိုး၊ ဓနုအမျိုးသားများ၏ သကြံန်တက်ပွဲခေါ်သော တာတက်ပွဲကိုလည်း ဘုန်းတော်ကြီးကျောင်းများ၌ ကျင်းပ၍၊အိုးစည်ပုံမောင်းများ တီးမှုတ်ကာ တပျော်တပါး ဆွမ်းကပ် လှူဒါန်းကြလေသည်။

**ဘော်တွင်း ( သတ္တုတွင်း )။** ။နမ္မတူ ဘော်တွင်းဟူသောအမည်ဖြင့် ပို၍လူသိများသောဘော်တွင်းဒေသသည် ရှမ်းပြည်မြောက်ပိုင်း တောင်ပိုင် နယ်တွင်ရှိသည်။ နမ္မတူ ဘော်တွင်းဟု တဆက်တည်းခေါ်လေ့ ရှိကြသော်လည်း ဘော်တွင်းနှင့် နမ္မတူသည် တနေရာစီ ဖြစ်သည်။ဘော်တွင်းသည် နမ္မတူမြို့၏ အရှေ့မြောက်ဖက် ၁၂ မိုင်ခန့် ဝေးသော အရပ်တွင်ရှိ၍၊ မြေအောက်တူးဖော်ရေးလုပ်ငန်းသက်သက် လုပ်ကိုင်ရာ စခန်းဖြစ်သည်။ နမ္မတူတွင် ဘော်ချက်စက်ရုံကြီးရှိ၍၊ ဘော်တွင်းမှ တူးဖော်ရရှိသော သတ္တုရိုင်းများကို ကျိုချက်သန့်စင်ပေးခြင်းကို ဆောင်ရွက်ပေးရသော ဌာနဖြစ်သည်။ စင်စစ် နမ္မတူသည် ဘော်တွင်း ဒေသမှ သတ္တုလုပ်ငန်းကို အကြောင်းပြု၍ နာမည် ထင်ရှားလာခြင်း ဖြစ်သည်။(နမ္မတူမြို့ — ရှု။)အလုပ်သဘောအားဖြင့်ဆက်စပ်နေသဖြင့် နမ္မတူဘော်တွင်းဟု ခေါ်ဝေါ်ခဲ့ကြဟန် တူပေသည်။ ဘော်တွင်း၌ ပြည်ထောင်စု မြန်မာနိုင်ငံ အစိုးရနှင့် ဗြိတိသျှပိုင် ဘားမားကော်ပိုရေးရှင်း လီမိတက်တို့ ပူးပေါင်းကာ ဘားမားကော်ပိုရေးရှင်း (၁၉၅၁) လီမိတက်အမည်သစ်ဖြင့်၊ ၁၉၅၂ ခုနှစ်အတွင်းမှစ၍၊ သတ္တုတူးဖော်ရေး ဖက်စပ်လုပ်ငန်းကို တည်ထောင် ဆောင်ရွက်လျက် ရှိလေသည်။

ဘော်တွင်းဒေသသည် ပြည်ပိုင် အစိုးရက သတ္တုတူးဖော်ခွင့် ပြုထားသည့် အကျယ်အဝန်းအရ၊ စတုရန်း ၁၀ မိုင်ပတ်လည်ရှိသည်။ ပျမ်းမျှခြင်းအားဖြင့်၊ ပင်လယ် ရေပြင်မှ ပေ ၃,၂၀၀ ကျော်မြင့်၍၊ အနိမ့်ဆုံး အပိုင်းသည် ပေ ၂,၆၀၀ ဖြစ်ပြီးလျှင်၊ အမြင့်ဆုံးအပိုင်းသည် ၄,၆၁၅ ပေဖြစ်သည်။ ထိုဒေသကိုဖြတ်သန်းစီးဆင်းသည့် မြစ်ကို စတန်းမြစ်ဟူ၍၎င်း၊ ရှမ်းဘာသာဖြင့် နမ့်ပန်းယန်၊ သို့မဟုတ် နမ့်ဟောင်မို၊ သို့မဟုတ် နမ့်မော်မြစ်ဟူ၍၎င်း ခေါ်ဆိုကြသည်။ ထိုမြစ်ဖြတ်သန်းစီးဆင်းရာ တလျှောက်တွင် ပေတထောင်ခန့်နက်သော ချောက်ကမ္ဘားကြီးကို ဖြစ်ပေါ်စေသည်။

ဘော်တွင်းဒေသတဝိုက်သည် တောင်ကုန်းထူထပ်သည်။ နမ္မတူမှ ဘော်တွင်း တလျှောက်တွင်၊ စတန်းမြစ်အောက်ပိုင်း၌၊ သစ်ပင် ဝါးပင်အတော်အသင့် ပေါက်ရောက်သော်လည်း၊ နမ္မတူမှ ၇ မိုင် အကွာ လိုပါမှ လွန်သော် သစ်ပင် ဝါးပင်တို့ တဖြည်းဖြည်း ပါးသွားပြီးလျှင် ဘော်တွင်း ဒေသသို့ ရောက်သည့်အခါ တောင်ကုန်း တောင်တန်းများတွင် မြက်ပင်များသာ ပေါက်ရောက်သည်ကို တွေ့ရသည်။ အထူးသဖြင့် သတ္တုတွင်းများအနီးနှင့် အရှေ့မြောက်ဖက် ယွန်းယွန်းတွင် တောင်များသည် တောင်ကတုံးများ ဖြစ်ကြ၍ အခြား သစ်ပင်ဝါးပင်များ မပေါက်ရောက်ပေ။

ဘော်တွင်း၌ အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း မြေအောက်တူးဖော်ရေး လုပ်ငန်းများကိုဆောင်ရွက်သည်။မြေအောက်လိုဏ်ခေါင်းများသို့ မာမီယန်ထွက်ပေါက်ရှိ ဓာတ်လှေကားဖြင့် ဆင်းကြရသည်။ လိုဏ်ခေါင်း အထပ်ထပ်မှ တူးဖော် ရရှိသော သတ္တုရိုင်းများကို မြေအောက် ဥမင်လမ်းကြောင်းအတိုင်း ဓာတ်ရထား တွဲငယ်ကလေးများဖြင့် ၁ မိုင်ခန့်ဝေးသော ကျားစခန်း ဘူတာရုံ (ဘော်တွင်းနှင့် နမ္မတူအကြားရှိ ဘူတာရုံ) အထိ ပို့ပေးရသည်။ ယင်းမှ တဖန်၊နမ္မတူဘော်ချက်စက်ရုံအထိ မီးရထားဖြင့်ပို့ပေးရသည်။



နာမည်ကျော် ဘော်တွင်း၏ ရှုခင်းတရပ်

ဘော်တွင်းမြို့သည် မြို့ပိုင်ရုံးစိုက်မြို့ ဖြစ်သည်။ ဘားမားကော်ပိုရေးရှင်း ကုမ္ပဏီပိုင် အလုပ်ရုံများ၊ စတိုးများ၊ စာကြည့်တိုက်၊ ရဲဌာန စသည်တို့ဖြင့် သိုက်သိုက်မြိုက်မြိုက် ရှိ၍၊ ကုမ္ပဏီပိုင် သတ္တုတွင်းမြို့ကလေး တမြို့ သဖွယ်ရှိ၏။ ယင်းသို့ ဖွံ့ဖြိုးတိုးတက်သော ဒေသအဖြစ် ရောက်ရှိလာသည့် ဘော်တွင်းဒေသ၏ သမိုင်းသည် ရာစုနှစ်များနှင့် ချီ၍ ကာလကြာရှည်ခဲ့ပေပြီ။ ယခုလက်ရှိ အံ့ခြေအနေသို့ရောက်ရှိခဲ့ခြင်းသည် ဘားမားကော်ပိုရေးရှင်း လီမိတက်၏ စွမ်းဆောင်ချက်ကြောင့် ဖြစ်ရာ ဘော်တွင်း၏ သမိုင်းတွင် ထိုကုမ္ပဏီသည် အရေးကြီးဆုံးသော ကဏ္ဍမှ ပါဝင်ခဲ့ပေသည်။

ရှေးရာစုနှစ်ပေါင်းများစွာကပင် ဘော်တွင်း ဒေသ၌ သတ္တုများ တူးဖော်လုပ်ကိုင်ခဲ့ကြသည့် အထောက်အထားများကို တွေ့ရှိကြရသည်။ အချို့က ရှေးနှစ်ပေါင်း ၁,၀၀၀ ကျော်ခန့်ကပင် စတင် လုပ်ကိုင်ခဲ့သည်ဟု ဆိုကြသည်။ သို့သော် ထိုအဆိုကို အထောက်အထား ခိုင်လုံစွာ မပြနိုင်ချေ။ ထောက်လှမ်း စုံစမ်းရသမျှတို့ကို အထောက်အထား ပြုရလျှင်၊ ဘော်တွင်းဒေသ၌ သတ္တု တူးဖော်ရေးလုပ်ငန်းသည် အနှစ်တထောင်ကျော် မရှိနိုင်သေးကြောင်း သိရသည်။ ဘော်တွင်း၌ တွေ့ရှိရသော (တရုပ်ဘာသာဖြင့် ရေးထိုးထားသည့်) ကျောက်စာအရ၊ ဘော်တွင်း၌ သတ္တုတူးဖော်ခြင်းကို ခရစ်နှစ် ၁၄၁၂ ခုနှစ်ခန့်က စတင်ခဲ့သည်ဟု သိရ၏။

ဘော်တွင်း၌ သတ္တုတူးဖော်ခြင်းကို စတင်ခဲ့သူများသည် တရုပ်လူမျိုးများ ဖြစ်ကြသည်။ ထိုအချိန်က တရုပ် နိုင်ငံတွင် "မင်" မင်းဆက်ဖြစ်သော ရင်ဟိုမင်း လက်ထက်တော် ဖြစ်သည်။ ထိုမင်းသည် နန်းစံ ၉ နှစ်မြောက်သော နှစ်တွင် ဘော်တွင်းဒေသကို တိုက်ခိုက် သိမ်းပိုက်သည်။ ထို့နောက်တွင် သတ္တုတူးဖော်ခြင်းကို စတင်ခဲ့သည်။ သို့သော်ထိုမင်း လက်ထက်တွင် သတ္တုလုပ်ငန်း မဖွံ့ဖြိုးခဲ့ချေ။ ၁၇၉၆ ခုနှစ်မှ ၁၈၂၂ ခုနှစ် အတွင်းဖြစ်သော ချီယာချင်းမင်း လက်ထက်မှ စတင်၍ လုပ်ငန်းအောင်မြင် လာသည်။ ၁၈၆၈ ခုနှစ်အထိ ထိုဒေသဘွင် ဘော်လုပ်ငန်းသည် တိုးတက်ဖွံ့ဖြိုးခဲ့သည်။

ထိုခေတ်ကာလတွင် ဘော်တွင်းဒေသသို့ ပဌမဆုံးရောက်ရှိလာသော ဥရောပတိုက်သားသည် ဆိုင်းဆိုသူဖြစ်၍၊ ဗန်းမော်မြို့မှ ၆ ရက် ခရီးကွာဝေးသော ဘော်တွင်း ဒေသသို့ ၁၇၉၅ ခုနှစ်တွင် ရောက်ရှိကြောင်း၊ ခရီးသွားမှတ်တမ်း၌ ဖော်ပြခဲ့သည်။

၁၈၂၇ ခုနှစ်တွင် ဘော်တွင်းမှ ကုန်သည်များနှင့် တွေ့ဆုံရသော ကရောဖို့အမည်ရှိ ဥရောပတိုက်သားက၊ ဘော်တွင်းမှ နှစ်စဉ် ထွက်ရှိသော ဘော်ငွေသား၏ အလေးချိန်သည် ကျပ် အချိန် ၉၆၀,၀၀၀ (ပေါင် စတာလင် ၁၂၀,၀၀၀)ဟု သိရှိရကြောင်း၊ အင်းဝမင်းသို့ နှစ်စဉ်ဘဏ္ဍာတော် အဖြစ် ဆက်သ ရသော ဘော်ငွေသားသည် ကျပ်အချိန် ၄,၈၀၀

(ပေါင်စတာလင် ၆၀၀)ဖြစ်ကြောင်း၊ ဘော်တွင်း၌ အလုပ်သမားဦးရေ တထောင်ခန့် ရှိကြောင်း စသည်တို့ကို ကြားသိရသမျှ မှတ်တမ်း တင်ခဲ့လေသည်။

၁၇၉၅ ခုနှစ်တွင် ဆာအာသာဖယ်ယာ၏ အဖွဲ့ဝင် တဦးအဖြစ် အထက်မြန်မာနိုင်ငံသို့ ရောက်ရှိခဲ့သော ဒေါက်တာအိုလဒမ်၏ မှတ်တမ်းအရမှာမူ၊ ဘော်တွင်း၌ ထိုအချိန်က လူပေါင်း တသောင်းကျော်ခန့် အလုပ် လုပ်နေကြကြောင်း၊ ဘော်တွင်းမှ တနေ့လျှင် ဘော်ငွေသားပိသာချိန် လေးဆယ်ထွက်ကြောင်း စသည်တို့ကို ဖော်ပြခဲ့သည်။အဆိုပါ အချက်များတွင် ချဲ့ထွင်ပြောဆိုချက်များ ပါရှိကောင်း ပါရှိမည် ဖြစ်သော်လည်း ၁၇၉၅ ခုနှစ်ခန့်က ဘော်တွင်း၌ သတ္တုလုပ်ငန်းစည်ပင် ဖွံ့ဖြိုးလျက် ရှိကြောင်းကိုမူ ခိုင်ခိုင်လုံလုံ သိရှိရလေသည်။

တရုပ်တို့ ကြီးစိုးသည့်အချိန်ကလည်း ဘော်တွင်း ဒေသတွင် ကြီးကျယ်စည်ကားခဲ့ဟန် တူပေသည်။ ကျောက်စာဝန် တော်စိန်ခို၏အလိုအရ မဝေးလှသော ခေတ်က ဘော်တွင်းဒေသ၌ လူပေါင်း ၂၀,၀၀၀ ခန့် နေထိုင်ခဲ့သည်ဟု ဆိုသည်။ ယခုတွေ့ရှိရသော အထောက်အထားများအရ၊ ထိုလူဦးရေဂဏန်းသည် များလွန်းလှသည်ဟု ဆိုရပေမည်။ သို့သော် ဘော်တွင်းဒေသ၏အနောက်ဖက်၊ အနောက်မြောက်ဖက်နှင့် မြောက်ဖက်တို့တွင် ရန်သူများ တိုက်ခိုက်လာပါက ခုခံတွန်းလှန်ရန် အခိုင်အမာ ပြုလုပ်ထားသော ရှေးခံတပ် အပျက်အစီးများသည် ၁၂–၁၄ မိုင်ခန့် ရှည်လျားသည်ကို တွေ့ကြရသည်။

ဘော်တွင်းတဝိုက်ရှိ တောင်စောင်း၊ တောင်ခါးပန်းစသော လူနေအိမ်ခြေ တည်နိုင်သည့် နေရာများတွင် လူနေအိမ်ခြေ ထူထပ်စွာ ရှိခဲ့ပြီးလျှင်၊ ကျောက်ခင်းလမ်း တလမ်းဖြင့် ဆက်သွယ်ထားခဲ့ကြောင်းများကိုလည်း တွေ့ရသည်။ ဘော်တွင်းကို ဖြတ်သန်းစီးဆင်းသည့် ချောင်းကို ကျောက်ဖြင့်ပြီးသော ခုံးတန်တား ၃ ခုဖြင့် ကျော်ဖြတ်ထားရာ၊ တန်တားတို့၏ အလျားသည် ၁၆–၂၀ ပေခန့် ရှိ၍၊ အနံ ၆ ပေခန့် ရှိသည်။ ကျောက်ခုံးတန်တား ၃ ခု အနက် တခုကိုသာ မပျက်မစီးတွေ့ကြရသည်။ လှေကား ပြက်ကျယ်ကျယ်ကြီးများဖြင့် ဆင်းတက်ရသော ကျကျနန ဆောက်လုပ်ထားခဲ့ဟန် တူသည့် တန်ဆောင်း အပျက်အစီးများကို ထောက်ရှု၍ တခေတ်က ထိုဒေသတွင် လူအများအပြားနေထိုင်ခဲ့ကြကြောင်း မှန်းဆရလေသည်။

၁၈၆၈ ခုနှစ်တွင်မူ ဘော်တွင်း၌ သတ္တုလုပ်ငန်း ရပ်ဆိုင်းသွားကြောင်း သိရသည်။ ရပ်ဆိုင်းခဲ့ရသော အကြောင်းမှာ အမျိုးမျိုး ဖြစ်နိုင်သည်။ အဓိက အကြောင်းသည် ပန်းသေးများ ထကြွခြင်းနှင့် တိုင်းရင်းသား ရှမ်း၊ ကချင် စသည်တို့ တော်လှန်ပုန်ကန်ခြင်းကြောင့် ဟု ယူဆရလေသည်။

ဆိုခဲ့သောနှစ်တွင် တရုပ်ပြည်မနှင့် နမ့်တူ အပါအဝင် မြန်မာနိုင်ငံအကြားရှိ တောင်ကုန်းဒေသမှ ပန်းသေးလူမျိုးတို့ ထကြွကြသည်။ ယင်းတို့ ထကြွကြလျှင် ဘော်တွင်းဒေသမှ ကချင်နှင့် ရှမ်းတို့ကလည်း ဘော်တွင်း၌ကြီးစိုးနေသော တရုပ်တို့ကို ပုန်ကန်ကြသည်။ ထိုအခါ တရုပ်ပြည်မနှင့် ဘော်တွင်း ဒေသမှ တရုပ်တို့ အဆက်ပြတ်ကာ၊ ထိုဒေသကို စွန့်ပြေးရန် ဖြစ်လာသည်။ ဘော်တွင်း၌ ကြီးစိုးခဲ့သော တရုပ်တို့သည် ဘော်တွင်းအတွက် အလုပ်သမားများကို တရုပ်နိုင်ငံမှ ခေါ်ယူခဲ့ကြသည်။ ယင်းတို့ကို ကျေးပိုင် ကျွန်ပိုင် စံနစ်ဖြင့်၎င်း၊ ရာဇဝတ်ကြောင်းဖြင့် မင်းဒဏ်ခတ်၍၎င်း ခေါ်ယူခဲ့ခြင်းဖြစ်ရာ၊ တိုင်းရင်းသားတို့ အုံကြွမှုကို အခါ အခွင့်ယူလျက် ထိုတရုပ်အလုပ်သမားတို့သည်လည်း ဘော်တွင်းဒေသကို စွန့်၍ နေရင်းဇာတိသို့ ပြန်ထွက်ပြေးကြသည်။ ထိုကြောင့် သတ္တုလုပ်ငန်းများ ရပ်ဆိုင်းသွားပြီးသော်၊ ထိုအချိန်မှစ၍ တရုပ်တို့ကြီးစိုးသော သတ္တုလုပ်ငန်းသည် ဘော်တွင်း၌ အဆုံးတိုင်ခဲ့လေသည်။

ထိုစဉ်က တရုပ်တို့တူးဖော်လုပ်ကိုင်ခဲ့သော ဘော်ငွေသား စံချိန်သည် ယနေ့စံချိန်ထက် မညံ့ဟုသိရသည်။ တရုပ်တို့သည် ငွေသားကိုသာ ထုတ်ယူ၍ အခြားပါဝင်သော သတ္တုများကို ခေတ်အလျောက် တန်ဖိုးမရှိ၍ စွန့်ပစ်ကြသည်။ ယခုထက်တိုင် နမ့်တူဘော်တွင်း မီးရထားလမ်းဘေးရှိ ပန်းယန်မြစ်ကမ်းနဖူး၌ တရုပ်တို့ စွန့်ပစ်ထားခဲ့သော သတ္တုရိုင်းအစအနများ၊ ချော်ချေးများကို တွေ့ကြရသေးသည်။

တရုပ်တို့ စွန့်ပစ်သော ချော်ချေးများ၊ သတ္တုရိုင်းအစအနများတွင် ခဲသားနှင့် အခြားသတ္တုများလည်း ပါရှိသည်။ တရုပ်တို့တူးဖော်ခဲ့သော သတ္တုရိုင်းတန်ချိန်သည် ၂၅၀,၀၀၀ (ထိုအထဲတွင် တန်ချိန် ၅၀,၀၀၀ ခန့်သည်ငွေနှင့်ခဲ ရောနှောပါရှိသော သတ္တုရိုင်းများ ဖြစ်ကြသည်) ဟု ခန့်မှန်းကြသည်။အချို့ကမူ သတ္တုရိုင်းတန်ချိန် ၁,၀၀၀,၀၀၀နှင့် ဘော်ငွေသား အောင်စ ၁၀,၀၀၀,၀၀၀ ဟု ခန့်မှန်းသည်။ တရုပ်တို့ စွန့်ထားသည့် ဘော်ငွေသားကိုသာ ထုတ်ယူပြီး ခဲသားများ ကျန်နေသေးသော ချော်ချေးများသည် တောင်ပုံ ရာပုံဖြစ်နေရာ ယင်းတို့ကို အကြောင်းပြု၍ ဥရောပတိုက်သားများသည် ဘော်တွင်း၌ သတ္တုလုပ်ငန်းကို ပြန်၍ အသက်သွင်းခဲ့ကြလေသည်။

တရုပ်တို့ စွန့်ခွာသွားလေသဖြင့် ဘော်တွင်းသတ္တုလုပ်ငန်းများ ရပ်ဆိုင်းနေခဲ့ရာ၊ ၁၇၉၁ ခုနှစ်တွင် အေစီ မာတင်ဆိုသူ ဗြိတိသျှလူမျိုးတဦးသည် ဘော်တွင်းဒေသသို့ ရောက်ရှိလာသည်။ အေစီ မာတင်သည် တရုပ်တို့ စွန့်ထားသော သတ္တုရိုင်း အစအနများ တောင်ပုံ ရာပုံဖြစ်နေသည်ကို တွေ့မြင်ရာမှ ယင်းတို့ကို ကျိုချက်ယူလျှင် အခြားအဖိုးတန်သတ္တုများ ရရှိနိုင်သေးကြောင်း တွေ့မြင်သိရှိရသဖြင့်၊ ဘော်

တွင်း၌ သတ္တုလုပ်ငန်းကို ဥရောပတိုက်သားများ ပြန်၍ စကြပြန်လေသည်။

အေစီ မာတင်သည် ဂျေ ဆာကီဆိုသူနှင့် နှစ်ဦး စပ်ကာ စတုရန်း ၄ မိုင်ကျယ်သော မြေကို ပြည်ပိုင်အစိုးရထံမှ ဂရန် ယူ၍ သတ္တုလုပ်ငန်းကို စတင်ခဲ့သည်။ ယင်းတို့၏ လုပ်ငန်း သည် ချော်ချေးများမှ ခဲစသော သတ္တုများ ကျိုချက်ထုတ် ယူခြင်း ဖြစ်သည်။ သို့သော် အကျိုးများစွာ မဖြစ်ထွန်းခဲ့ ချေ။ ထို့ကြောင့် အမ် အီး ကင်ဒါစလေ ဆိုသူနှင့် တွဲဖက်၍၊ မြန်မာပြည် သတ္တုတူးဖော်တိုးချဲ့ရေး အေဂျင်စီကို ဖွဲ့စည်း ဆောင်ရွက်ကြသည်။ ထိုအေဂျင်စီအဖွဲ့ကို ၁၉၀၃ ခုနှစ်တွင် ဂရိတ်အိစတင်းမိုင်းနင်း ကုမ္ပဏီ ဟုခေါ် တွင် အသိအမှတ်ပြု သည်။ ထိုကုမ္ပဏီသည်လည်း များစွာ အကျိုး ကျေးဇူးမခံ စားရချေ။ ထို့ကြောင့် ဘားမားမိုင်း အင် စမယ်လတင်း လီ မိတက်သို့ ရောင်းချလိုက်ပြန်သည်။ ၁၉၀၈ ခုနှစ်တွင် ထို ကုမ္ပဏီသည် ဘားမားမိုင်းလီမိတက် ဟု အမည်ပညတ် ပြောင်းပြန်သည်။ နောင်အခါ ဘားမားမိုင်းလီမိတက်၏ ငွေရင်းတွင် ၉၉.၈ ရာခိုင်နှုန်း အစုပါဝင်ထားသော ဘားမား ကော်ပိုရေးရှင်း လီမိတက် (လန်ဒန်) ၏ အမည်ကို ယူလိုက် ပြန်လေသည်။ ယင်းသို့ဖြင့် ဘားမားကော်ပိုရေးရှင်း လီမိ တက်သည် ဘော်တွင်းဒေသတွင် စခန်းထလာခဲ့လေသည်။

ဘားမားကော်ပိုရေးရှင်း လီမိတက်၏ လက်အောက်သို့ ဘော်တွင်း သတ္တုလုပ်ငန်း ရောက်သွားသောအခါ ကုမ္ပဏီ၏ ပဌမဆုံးရည်ရွယ်ချက်သည် တရုပ်တို့ စွန့်ထားခဲ့သော ချော် ချေး သတ္တုရိုင်းအစအနများကို မန္တလေးတွင် ရှိနေသော သတ္တုကျိုစက်သို့ ပို့ဆောင်နိုင်ရန် ဘော်တွင်းမှ မန့်ပွေးသို့ မီးရထားလမ်းဖောက်လုပ်ရေးဖြစ်သည်။ သို့သော် ၁၉၀၉ ခု နှစ်တွင်သာ ထိုရည်ရွယ်ချက် ပေါက်မြောက်၍ ရထားလမ်း ဖောက်လုပ် ပြီးစီးခဲ့သည်။ ပြည်မ မီးရထားလမ်းနှင့် ဆက်မိ လေအောင် နမ့်ယော်အထိ ဖောက်လုပ်ရသည်။ နမ့်ယော် သည် မန္တလေးမြို့ဟောင်းဘူတာမှ ၁၆၅ မိုင် ကွာ၍၊ ဘော် တွင်းမှ နမ့်ယော်အထိမီးရထားလမ်းသည် ၄၄ မိုင်ရှည်လျား ပေရာ၊တောတောင် အထပ်ထပ်၊လျှိုမြောင်အသွယ်သွယ်တို့ ကို ဖြတ်သန်းကာ ခဲယဉ်း ပင်ပန်းစွာ ဆောက်လုပ်ခဲ့ရသဖြင့် ကုမ္ပဏီ၌လည်း ငွေရေးကြေးရေးများစွာပင် ထိခိုက် ခဲ့လေ သည်။သို့သော်နောင်အခါတွင်မူ ထိုမီးရထားလမ်းကြောင့် တဖက်တလမ်း ပြန်၍ အကျိုးရှိခဲ့သည်။ ထိုမီးရထားလမ်း ကို ယခုတိုင်လည်း အသုံးပြုလျက် ရှိသည်။

ယင်းမီးရထားလမ်းကို ဖောက်လုပ် ပြီးစီးခဲ့သော်လည်း သတ္တုကျိုစက်ရုံကို မန္တလေး၌ ထားရှိသဖြင့်၊ သယ်ယူပို့ ဆောင်ရေးအတွက် ပြည်ပိုင်အစိုးရ မီးရထားကိုလည်း အ သုံးပြုနေရပြန်ပေရာ စရိတ်တက်လှသောကြောင့် ထင်သ လောက် အကျိုးမရှိခဲ့ပေ။ ထို့ကြောင့်ဂဏန်းကြေ၍ အရှည် မှန်းတတ်သော ကုမ္ပဏီသည် ၁၉၁၁ ခုနှစ်တွင် သတ္တုကျိုစက် ရုံကို မန္တလေးမှဖြုတ်ပြီးသော် နမ္မတူ၌ ပြောင်းရွှေ့တပ်ဆင် လေသည်။ ထိုအခါမှသာလျှင် ကုမ္ပဏီ၌ အကျိုး ခံစားမှုကို တစတစ ရရှိလာသည်။

စင်စစ် ကုမ္ပဏီ ဖွံ့ဖြိုးတိုးတက်လာခြင်းသည် တရုပ်သတ္တု ကျောခေါ် သုံးမကုန် ယူမခန်းအောင်ကြွယ်ဝလှသော သတ္တု ကျောကို တွေ့ရှိပြီးသည့်နောက်ပိုင်းတွင်သာ ဖြစ်သည်။ ၁၉၁၁ ပြည့်နှစ်အထိ၊ ကုမ္ပဏီသည် မြေအောက်သတ္တု တူး ဖော်ရေးကို ထိရောက်စွာ မလုပ်ကိုင်သေးဘဲ တရုပ်တို့ စွန့်ခဲ့ သော ချော်ချေးများ၊ သတ္တုရိုင်းအစအနများမှ ဘော်ငွေ သား၊ခဲသားနှင့် အခြားသတ္တုများကို ကျိုချက်ထုတ်ယူခြင်း သာ ပြုခဲ့သည်။ ၁၉၁၃ ခုနှစ်တွင်သာ ထုတ်ယူမကုန်အောင် အဖိုးထိုက်လှသောငွေတွင်းကြီးနှင့် ပမာတူသည့် တရုပ် သတ္တုကျောကို တွေ့ရှိခဲ့ပေသည်။ ထိုအချိန်မှစ၍ ကုမ္ပဏီ သည် အလွန်ဖွံ့ဖြိုးတိုးတက်ခဲ့ လေသည်။

ဘားမား ကော်ပိုရေးရှင်း လီမိတက်သည် ကြီးပွား တိုး တက်ခဲ့ပေရာ၊ဒုတိယကမ္ဘာစစ်ကြီးခေတ်က မြန်မာနိုင်ငံတွင် အမြတ်စွန်းဆုံးဖြစ်သော ဘီအိုစီရေနံကုမ္ပဏီနှင့်ပင် ပခုံး ချင်း ယှဉ်နိုင်အောင် အမြတ်အစွန်းများခဲ့သည်။ လစဉ်မြေ အောက်တူးဖော်ရေးလုပ်ငန်းမှ သတ္တုရိုင်း တန်ချိန်ပေါင်း ၄၀,၀၀၀ မျှ တူးဖော်နိုင်ခဲ့၍၊ နမ္မတူ ဘော်ချက် စက်ရုံမှ တန်ချိန် ၁၀,၀၀၀ ကျော်ကို လစဉ် ကျိုနိုင်ခဲ့သည်။ ထိုစဉ် က သတ္တုတွင်း အလုပ်သမားသက်သက် ၆,၀၀၀ ကျော် မျှ ရှိခဲ့သည်။ သတ္တုချက်စက်ရုံကြီး တခုနှင့်ပင် မနိုင်နင်း၍၊ နမ္မတူမှ ၃၂ မိုင်တွင် စက်ရုံကြီးတခုကို ဒုတိယ ကမ္ဘာစစ်ကြို ခေတ်က တည်ဆောက်ခဲ့ရာ အထပ် ၇ ထပ် ရှိသောစက်ရုံ ကြီးဖြစ်သည်။ သို့သော် ဒုတိယ ကမ္ဘာစစ်ကြီး အတွင်းက စစ်ဒဏ်ကြောင့် ပျက်စီးသွားခဲ့လေသည်။

ဘားမား ကော်ပိုရေးရှင်း ကုမ္ပဏီသည် ပဌမကမ္ဘာစစ် နှင့် ဒုတိယကမ္ဘာစစ်အကြားတွင် တရှိန်ရှိန် တိုးတက်လာ သည်။ ငွေနှင့်ခဲသာမက၊ ဘော်တွင်းမှ ကြေး၊ သွပ်၊ ချော် သံ၊ ပလက်တီနံနှင့် ရွှေအနည်းငယ်လည်း ထွက်ရှိသည်။

ဘားမားကော်ပိုရေးရှင်း ကုမ္ပဏီသည် တိုးတက်ကြီးပွား လာသည့် အလျောက်၊ ၁၉၁၉ ခုနှစ် ဒီဇင်ဘာလတွင် ဘား မားကော်ပိုရေးရှင်းကုမ္ပဏီ (လန်ဒန်) ကိုဖျက်သိမ်း၍ ဘား မားကော်ပိုရေးရှင်းကုမ္ပဏီ (အိန္ဒိယ) ဟု မြန်မာပြည်၌ ပြန် ၍ ဖွဲ့စည်းတည်ထောင်ပြီးနောက်၊ လန်ဒန်ကုမ္ပဏီ၏ လုပ်ငန်း များကို ဆက်လက်ဆောင်ရွက်သည်။ ဂရိတ်အိစတင်း မိုင်း နင်း ကုမ္ပဏီက မြေစတုရန်း ၄ မိုင်ပတ်လည် ဂရန်ခံထား သော သတ္တု တူးဖော်ခွင့် မြေငှါးစာချုပ်ကို ဖျက်သိမ်း၍ အိန္ဒိယအစိုးရနှင့် ဂရန်မြေငှါး စာချုပ်သစ် ထပ်မံချုပ်ဆို သည်။ ထိုဂရန်သစ်အရ၊ ၁၀ စတုရန်းမိုင် ပတ်လည်မြေ၌

သတ္တုတူးဖော်ခွင့် ရရှိ၍၊ ၁၉၂၀ ပြည့်နှစ် ဇန်နဝါရီလမှစတင်ပြီးလျှင် အနှစ် ၃၀ ဂရန် ခံယူ ရရှိခဲ့လေသည်။

ထိုဂရန်နှစ်မစေ့မီကလေး ဖြစ်သော ၁၉၄၈ ခုနှစ်တွင် မြန်မာနိုင်ငံသည် လွတ်လပ်ရေး ရရှိခဲ့သည်။ ပြည်ထောင်စု မြန်မာနိုင်ငံ၏ သယံဇာတပစ္စည်းများနှင့် စပ်လျဉ်း၍ ပြည်ထောင်စု၏ အခြေခံဥပဒေအရ၊ ပြည်ထောင်စု အစိုးရသည် ဘားမားကော်ပိုရေးရှင်း လီမိတက်၏ သတ္တုတူးဖော်ခွင့် ဂရန်နှစ်စေ့လျှင် နောက်ထပ်ဂရန် ၂၅ နှစ် ထပ်မံခွင့်ပြုပေးသည်။ သို့သော် ၁၉၅၂ ခုနှစ်တွင် ကုမ္ပဏီကို ဖျက်သိမ်း၍ ကုမ္ပဏီအသစ် တည်ထောင်သည်။ ထိုကုမ္ပဏီသစ်ကို ဘားမားကော်ပိုရေးရှင်း လီမိတက် (၁၉၅၁) ဟု အမည် ပညတ်ပြောင်း၍ ပြည်ထောင်စုအစိုးရက ကုမ္ပဏီ၏ အရင်းငွေထက်ဝက် အစု ၅၀ ရာခိုင်နှုန်းပါဝင်၍၊ ဘားမားမိုင်း လီမိတက် (လန်ဒန်)က အစု ၅၀ ရာခိုင်နှုန်း ပါဝင်လေသည်။

စစ်ကြိုခေတ်က အမြတ်အစွန်း အလွန်များ၍ ကြီးကျယ်သော လုပ်ငန်းကြီးကို ဆောင်ရွက်လျက် ရှိသော်လည်း၊ မြန်မာတိုင်းရင်းသားတို့သည် နမ္မတူနှင့် ဘော်တွင်း ဒေသအကြောင်းကို ကောင်းစွာမသိခဲ့ကြချေ။ သို့သော် ကမ္ဘာကမှ မြန်မာပြည်မှ ဘော်ငွေသား ရတနာမြေအကြောင်း သိရှိနေခဲ့ကြသည်။ စစ်ပြီးခေတ်တွင်မူ စစ်ကြိုခေတ်အခြေအနေအတိုင်း ဘော်တွင်း၌ ရင်းစားပြန်ထိုးနိုင်ရန် ဘားမားကော်ပိုရေးရှင်း လီမိတက်သည် ကြိုးစားနေရဆဲဖြစ်သည်။ များသောအားဖြင့် မြေအောက် တူးဖော်ရေးကို ကောင်းစွာ မဆောင်ရွက်နိုင်သေးဘဲ၊ ယခင်ကတူးဖော်ပြီး၍ ကျန်ခဲ့သော သတ္တုမြေဟောင်းများကိုသာ ပြန်လည် ကျိုချက်နေရရာ၊ အလုပ်သဘောအားဖြင့် စက်လည်ရုံမျှသာ ဖြစ်ခဲ့သည်။ ထိရောက်စွာ ပြန်လည်လုပ်ကိုင်နိုင်ပါက ဘော်တွင်းသည် ပြည်ထောင်စု မြန်နိုင်ငံအတွက် နိုင်ငံခြား ဝင်ငွေအများအပြား ရရှိစေနိုင်သော ဒေသဖြစ်လာ ပေလိမ့်မည်။

**ဘော်နယ်။** ။ရှမ်းပြည် တောင်ပိုင်း မြေလတ်ပိုင်း၌ ရှိသောဘော်နယ်သည် မြေလတ်ပိုင်းတွင် မြောက်ဖက်စွန်း အကျဆုံးဖြစ်သည်။ မြန်မာပြည်မဖက်မှ ကျောက်ဆည် ခရိုင်နှင့် နယ်ချင်းစပ်လျက်ရှိသည်။ မြောက်ဖက်တွင် ကျောက်ဆည်ခရိုင်မှ ရဲယမန်းကျေးရွာရှိသည်။ အရှေ့ဖက်တွင် ရပ်စောက်နယ်၊ တောင်ဖက်တွင် ရေငံ (ရွှာင်) နယ်နှင့် အနောက်ဖက်တွင် ကျောက်ဆည်ခရိုင်တို့ရှိသည်။ နယ်၏ အကျယ်အဝန်းသည် စတုရန်းမိုင် ၇၄၀ ရှိပြီးလျှင် လူဦးရေမှာ ၉,၀၀၀ ကျော်ခန့်ဖြစ်သည်။ နယ်အတွင်း၌ နေထိုင်ကြသူများသည် များသောအားဖြင့် နေ့လူမျိုးများ ဖြစ်ကြ၍၊ ဗုဒ္ဓအယူဝါဒီများ ဖြစ်ကြလေသည်။

ဘော်နယ်၏ မြို့တော်ကို တောင်ခြေရှိ မြို့ကြီးခေါ် သည့်မြို့ကိုဌင်း၊ တောင်ပေါ်ဒေသရှိ ရေဦးမြို့ကိုလည်း တောင်ပေါ်ဒေသဆိုင်ရာ မြို့တော်အဖြစ်ဌင်း ထားရှိလေသည်။

ဘော်နယ်သည် တောတောင် ထူထပ်သည်။ မြေမျက်နှာပြင်ကို ပကတိအပိုင်းအခြားအားဖြင့် နှစ်ပိုင်း ခွဲခြားထားသည်။ ဇော်ဂျီမြစ်ရိုး တလျှောက်ကို မြောက်လက်ဟု ခေါ်၍၊ မြေလတ်ကုန်းမြင့်ဒေသများကို တောင်လက်ဟု ခေါ်သည်။ ဇော်ဂျီမြစ်ဝှမ်း မြေပြန့်နှင့် ကုန်းပြင်မြင့် အကြားရှိ ဒေသသည် အလွန်တောင်ကုန်း ထူထပ်သည်။

ဘော်နယ်၏ အနောက်ဖက်၊ မြောက်ဖက်နှင့် အရှေ့ဖက် နယ်နိမိတ်တို့ကို တောင်ရိုး တောင်တန်းများက သတ်မှတ်ပိုင်းခြား ထားသည်။ အနောက်ဖက်မှ တောင်တန်းသည် မြန်မာပြည်မ ထဲသို့ တဖြည်းဖြည်း ဝင်ရောက် သွားသည်။ ပေ ၅,၀၀၀ ကျော်သော တောင်ထွတ်အနည်းငယ်ခန့်သာ ရှိသည်။

မြစ်ငယ်နှင့် ဇော်ဂျီမြစ်ကို ပိုင်းခြားထားသော တောင်တန်းသည် ဘော်နယ်၏ မြောက်ဖက်နယ်နိမိတ်ဖြစ်၍၊ ထိုတောင်တန်းမှ အချို့တောင်ထွတ်များသည် ပေ ၅,၀၀၀ နီးပါးရှိသည်။ အရှေ့ဖက်၌ ရပ်စောက်နှင့် ဘော်နယ်ကို ခြားထားသော တောင်တန်းသည် ပင်းတယနှင့် ရေငံ (ရွှာင်) နယ်တို့မှ လာသော မဲနယ်တောင်၏ အဆက် ဖြစ်သည်။ ပေ ၆,၀၀၀ ကျော်မြင့်သော တောင်ထွတ်များရှိသည်။ အရှေ့တောင်ရိုးနှင့် အနောက် တောင်ရိုး အကြားရှိ တောင်ထွတ်ကို ငွေတောင်ဟု ခေါ်၍ ၅,၆၀၄ ပေ မြင့်သည်။ လွယ်မွှေတောင်ထွတ်သည် ပေ ၅,၁၄၀ မြင့်လေသည်။

နယ်အတွင်းရှိ မြစ်ချောင်းများမှာ ဇော်ဂျီမြစ်နှင့် ယင်း၏လက်တက်များဖြစ်သည်။ ဇော်ဂျီမြစ်သည် မြေလတ်ပိုင်းကို ဖြတ်သန်း၍ ကျောက်ဆည်ခရိုင်အတွင်းသို့ စီးဝင်သည်။ ထိုမြစ်သည်ဌင်း၊ ယင်း၏ လက်တက်များ ဖြစ်ကြသော တတားနီ၊ တောင်ဒို၊ နခ့်လွယ် ချောင်းတို့သည်ဌင်း လှေသင်္ဘောဖြင့် သွားလာရေးအတွက် အသုံးမပြုနိုင်ချေ။ နယ်အတွင်း လယ်မြေယာမြေတို့ကို ရေပေးသွင်းရန်အတွက်မူ အသုံးဝင်လေသည်။

ငွေတောင်အနီးတွင် ငွေတွင်းများရှိ၍ ရှေးအခါက တူးဖော် လုပ်ကိုင်ခဲ့ကြသော်လည်း များစွာ အကျိုးကျေးဇူး မရှိခဲ့ချေ။ ဇော်ဂျီမြစ်နှင့် တတားနီချောင်းများတလျှောက်တွင် ကျွန်းသစ်၊ မဲ့ယွန်း(သစ်ကတိုး)နှင့် ရှား အနည်းငယ်ထွက်သော သစ်တောများ ရှိလေသည်။

ရှမ်းပြည် မြေလတ်ပိုင်းရှိ နယ်များအနက် ဘော်နယ်သည် မြေဩဇာကောင်းမွန်သဖြင့် စိုက်ပျိုးရေးလုပ်ငန်းသည် အဓိကဖြစ်သည်။ ဇော်ဂျီမြစ်နှင့် ယင်း၏ လက်တက် မြစ်ချောင်းများ၏ မြစ်ဝှမ်းမြေပြန့်ဒေသများ၌ဌင်း၊ တောင်ကုန်းစောင်းများ၌ဌင်း စိုက်ပျိုးခင်းများ ယာခင်းများကို

လုပ်ကိုင်ကြသည်။ အာလူး၊ ဂျုံ၊ ကော်ဖီ၊ ပဲအမျိုးမျိုးနှင့် သနပ်ဖက်ဆေးလိပ် လိပ်ရသော သနပ်ဖက်ပင်တို့ကို စိုက်ပျိုး လုပ်ကိုင်ကြသည်။ မြေသြဇာကောင်း၍ စိုက်ပျိုးရေး ဖြစ်ထွန်းစေကာမူ၊ ယခင်က တောတောင် ထူထပ်၍ သယ်ယူပို့ဆောင်ရေး မလွယ်ကူသဖြင့် ရောင်းဝယ်ဖောက်ကားမှု ဖွံ့ဖြိုးသင့်သလောက် မဖွံ့ဖြိုးခဲ့ပေ။ ထို့ကြောင့် ၁၉၄၅ ခုနှစ်မှစ၍ စော်ဘွားကြီး စဝ်ခွန်အောင်က ဦးစီးခေါင်းဆောင်ပြီးလျှင် နယ်လူထုအကူအညီဖြင့် ရေဦးမှ ကျောက်ဆည် အထိ ပေါက်သော ၃၇ မိုင်ရှည်လျားသည့် မော်တော်ကားလမ်းမကြီးကို ဖောက်လုပ်ခဲ့ရာ၊ ၆ နှစ်အကြာတွင် ပြီးစီးခဲ့သည်။ အခြားလမ်းပန်းအဆက်အသွယ်များမှာ အောင်ပန်းမြို့မှ ရေဦးအထိ ၄၇ မိုင်၊ ကျုံးမှ ရေဦးအထိ ၃၇ မိုင်၊ ရေဦးမြို့မှ မြို့ကြီးအထိ ၃၇ မိုင်၊ မြို့ကြီးမှ ကျောက်ဆည်အထိ ၂၂ မိုင် မော်တော်ကားလမ်း အသီးအသီး ရှိလေသည်။

ဘော်နယ်၏ နောက်ကြောင်းသမိုင်းကို ပြန်လှန် ကြည့်သည့်အခါ၊ ထိုဒေသကို စတင် အုပ်ချုပ်ခဲ့သူသည် ကိုးသိမ်ရှင်ဟုခေါ်တွင်သူ တဦးဖြစ်ကြောင်း သိရ၍၊ အမည် နာမ အတိအကျ မသိရချေ။ အလောင်းစည်သူမင်းသည် တောင်တန်းဒေသတခွင် တိုင်းခမ်း လှည့်လည်စဉ်က ထိုပုဂ္ဂိုလ်လိုက်ပါခဲ့သည်ဟု ဆိုသည်။ ကိုးသိမ်ရှင်သည် အကျင့်သီလဉာဏ်ပညာနှင့် ပြည့်စုံသူတဦးလည်း ဖြစ်သဖြင့် မင်းတရားကြီးနှစ်သက်တော် မူသောကြောင့် ဘော်နယ်ဒေသ တခွင်နှင့် တကွ ဆင်တစီးကို အပိုင်စားပေးခဲ့သည်။ ကိုးသိမ်ရှင် စီရင်အုပ်ချုပ်ရသော ဒေသသည် အရှေ့ဖက်၌ ယခု ရပ်စောက်နယ်ရှိ ရွှေအင်းတောင်စေတီ၊ တောင်ဖက် ယခု ရေင်(ရွာင်) နယ်ရှိ ရွှေပွင့်လင်းစေတီ၊ အနောက်ဖက်၌ ယခု ကျောက်ဆည်ခရိုင်ရှိ ရွှေပွင့်လန်းစေတီ၊ မြောက်ဖက်၌ မြစ်ငယ်-သိုးဆယ်နယ်ခြားစသဖြင့် အပိုင်းအခြား ရှိလေသည်။

ကိုးသိမ်ရှင်ကို ဆက်ခံသူမှာ မြေးဖြစ်သူ သုဒေဝ ဖြစ်သည်။ ထိုနောက် အဆက်ဆက်အုပ်ချုပ်လာခဲ့ရာ နောက်ပိုင်းတွင် ဦးကြာအိုဆိုသူ အုပ်ချုပ်သည်။ ဦးကြာအိုသည် ၁၇၇၃ ခုနှစ်တွင် ကွယ်လွန်ရာ ဦးညိုလှိုင် အုပ်ချုပ်သည်။ ဗြိတိသျှတို့ မြန်မာနိုင်ငံကို သိမ်းပိုက်ပြီးနောက်တွင် ဘော်နယ်၌ ခိုးသား ဓားပြ ထူပြောလွန်းသဖြင့် ဘော်နယ် မြောက်ပိုင်းဒေသကို ကျောက်ဆည်ခရိုင်ဝန် လက်သို့ လွှဲအပ်ခဲ့ရာ ၁၇၉၅ ခုနှစ်တွင်မှ မြေလဘ် နယ်ထဲသို့ ပြန်၍ ပူးပေါင်းစေခဲ့သည်။ မြို့စားဖြစ်သူ ဦးညိုလှိုင်ကို ဗြိတိသျှ အစိုးရက ခရစ်နှစ် ၁၈၈၆ ခုနှစ်တွင် ငွေခွန်မှူးဟူ၍ အသိအမှတ်ပြုပြီးလျှင် ၁၉၀၇ ခုနှစ်တွင်မူ မြို့စားအဖြစ် ဆက်လက် အသိအမှတ်ပြုသည်။ ထိုပြင် ဦးညိုလှိုင်အား အေ၊ တီ၊ အမ်နှင့် ကေ၊ အက်စ၊ အမ်ဘွဲ့များဖြင့် ချီးမြှင့်ခဲ့လေသည်။

ဦးညိုလှိုင် ကွယ်လွန်ပြီးနောက်တွင် မြေးဖြစ်သူ စဝ်ခွန်နောင်က မြို့စားရာထူးကို ဆက်ခံသည်။ စဝ်ခွန်နောင် ကွယ်လွန်ပြီးနောက်တွင် ညီဖြစ်သူ စဝ်ခွန်အောင်က ဆက်ခံအုပ်ချုပ်သည်။ စဝ်ခွန်အောင်သည် ဒုတိယကမ္ဘာစစ်မတိုင်မီနှစ်များတွင် မြို့စားရာထူးဆက်ခံရန် အလုပ်သင်နေဆဲ ဖြစ်သည်။ စစ်ဖြစ်လာသောအခါ အခြေအနေ ရှုပ်ထွေးနေသဖြင့် ၁၉၄၅ ခုနှစ် ဗြိတိသျှ အစိုးရတို့ ပြန်လည်ရောက်ရှိလာပြီးနောက်မှ မြို့စားအဖြစ် ခန့်အပ်ခံရသည်။ မြန်မာနိုင်ငံ လွတ်လပ်ရေးရပြီးသည့်နောက်တွင်မြို့စားအဖြစ်မှ စော်ဘွားအဖြစ် တိုးမြှင့် အသိအမှတ်ပြုခြင်း ခံရ၏။ ၁၉၅၉ ခုနှစ်တွင် ရှမ်းပြည်နယ် အုပ်ချုပ်ရေး စံနစ် ပြောင်းပြီးသည်နောက်၌ ၁၉၆၀ ပြည့်နှစ် အထွေထွေ ရွေးကောက်ပွဲကြီးတွင် အမတ်အဖြစ် အရွေးခံရပြီးလျှင် ရှမ်းပြည်နယ် အစိုးရပြန်ကြားရေးနှင့် ယဉ်ကျေးမှု ဝန်ကြီးအဖြစ် ဆောင်ရွက်ခဲ့ရသည်။

ဘော်နယ်တွင် မြို့ကြီးရှိ ငါးဆူဘုရားသည် အထင်ရှားဆုံးဖြစ်၍၊ ဘုရားပွဲတော်သည်လည်း အကြီးကျယ်ဆုံးဖြစ်သည်။ ငါးဆူဘုရားဟု ခေါ်ဝေါ်ခြင်းမှာ ဇော်ဂျီမြစ် အတွင်းမှ ဆယ်ယူ ရရှိသော ရုပ်ပွားတော် ငါးဆူကို တည်ထားခြင်း ဖြစ်သည်။ ထို့ပြင် အလောင်းစည်သူ မင်း၏ ရွှေလှံတော် စိုက်ခဲ့ရာ အရပ်၌ တည်ထားသည်ဆိုသော ရေဦးမြို့အနီးရှိ ရွှေလှံတော်စေတီ၊ ဒလပင်ရွာအနီး ရှေးနှစ်ပေါင်း ၃၀၀ ခန့်က ရွှေဥဒေါင်း၏ ဥများတွေ့သဖြင့် တည်ထားသော ရွှေဒေါင်းဥစေတီ၊ ငွေတောင်အနီးမှ ငွေတောင်ဘုရားစသည်တို့ ရှိခဲ့သော်လည်း ယခုအခါ ထင်ရှားခြင်း မရှိတော့ချေ။

ရေဦးမြို့တွင် အထက်တန်းကျောင်း တကျောင်း ရှိ၍၊ မြို့ကြီး၊ ဆည်ရွာ၊ ကျောက်ဂူပြင်၊ ကျောက်ဂူထိ၊ ဒလပင်၊ ရေးကြမ်းပျဉ် စသည့် ကျေးရွာများတွင်လည်း မူလတန်းကျောင်းများရှိသည်။ နယ်လူထု ကျန်းမာရေးအတွက် ရေဦးမြို့တွင် မကြာမီက ဆေးရုံတရုံဆောက်လုပ်ထားရှိသည်။ ယခင်က ဘော်နယ်၌ ဆေးရုံမရှိသဖြင့် မကျန်းမမာ၍ဆေးရုံတက်ပြီး ကုသလိုသူတို့သည် ကျောက်ဆည်၊ သို့မဟုတ် ကလေးမြို့ဆေးရုံများသို့ သွားရောက်ခဲ့ကြရလေသည်။

**ဘောဂဗေဒ**။ ။ဘောဂဗေဒ ပညာသည် လူတဦးချင်းသော်၎င်း၊ လူအစုလိုက်သော်၎င်း အချင်းချင်း ဆက်သွယ်ပုံအကြောင်းရပ်နှင့် လူတို့၏ ရုပ်ဝတ္ထု အလိုဆန္ဒဖြည့်စွမ်းမှုဆိုင်ရာ ပြဿနာများကို စံနစ်တကျ သိပ္ပံနည်းအရ လေ့လာတင်ပြထားသော အကြောင်းရပ်များ ပါဝင်သည့် လူမှုရေး သိပ္ပံပညာတရပ် ဖြစ်သည်။

တခါက ဘောဂဗေဒပညာသည် နေအကြောင်း လေ့လာသော ပညာဖြစ်သည်ဟု ဆိုကြသည်။ သို့ရာတွင် ယခုအခါ ဘောဂဗေဒဟူသည်မှာ လူဘို့၏ စီးပွားရေး အပြုအမူကို၎င်း၊ ရှားပါးသော ကုန်ထုတ်လုပ်မှုအားစုများကို အကျိုး

အများဆုံး ရရှိရန် မည်ကဲ့သို့ ခွဲဝေအသုံးချခြင်းကိုင်း၊ ထုတ်လုပ်ပြီးသော ကုန်စည်များကို မည်သို့ ခွဲဝေပုံ အကြောင်းများကိုင်း လေ့လာသော လူမှုရေး သိပ္ပံပညာတရပ် ဖြစ်သည်ဟု ယေဘုယျအားဖြင့် လက်ခံလာခဲ့ကြသည်။

ဘောဂဗေဒကို ၁၉ ရာစုနှစ်ကုန်ခါနီးကျမှ အင်္ဂလိပ်ဘာသာဖြင့် အီကော်နိုးမစ်ဟု ခေါ်ဝေါ်၍၊ ထိုအလျင်ကမူ ပေါ်လစ်တီကယ်အီကော်နိုမီဟု ခေါ်သည်။ ထိုစဉ်အခါက ထိုဝေါဟာရနှင့် ဆီလျော်စွာပင် ဘောဂဗေဒပညာရှင်တို့သည် နိုင်ငံတခုလုံးနှင့် သက်ဆိုင်သော စီးပွားရေး ပြဿနာများကိုင်း၊ နိုင်ငံတော် အစိုးရတို့ လက်ခံ ကျင့်သုံးသင့်သော သဘောထားဝါဒများကိုင်း လေ့လာ ဆွေးနွေးပြဋ္ဌာန်းခဲ့ကြသည်။ နိုင်ငံ တနိုင်ငံသည် သွင်းကုန်ထက် ထုတ်ကုန်ကများသင့်သည်ဟူသော ဝါဒကို ၁၆ ရာစုနှင့် ၁၇ ရာစုနှစ် ကုန်သွယ်မှုရေးရာ ပညာရှင်များက ပြဋ္ဌာန်းခဲ့သည်။ နိုင်ငံ တနိုင်ငံ၏ စီးပွားရေး အဖွံ့ဖြိုးစေနိုင်ဆုံးသော နည်းသည် နိုင်ငံတော် အစိုးရများက စီးပွားရေး လုပ်ငန်းများတွင် ဝင်ရောက် မစွက်ဖက်ဘဲ ပုဂ္ဂလိက လုပ်ငန်းပိုင်ရှင်များကိုလွတ်လပ်စွာ လုပ်ကိုင်ခွင့် ပေးသင့်သည်ဟူသော မစွက်ဖက် ဝါဒအကြောင်းကို ၁၇၇၆ ခုနှစ်တွင် အက်ဒမ် စမစ်ဆိုသူ စကော့လူမျိုး ဘောဂဗေဒ ပညာရှင်က သူ၏ စာအုပ်တွင် ရေးသားဖော်ပြခဲ့၏။ (စမစ်,အေ — ရှု။) တီ၊အာ၊မယ်သွူ ဆိုသူအင်္ဂလိပ်လူမျိုး ဘောဂဗေဒပညာရှင်ကလည်း လူဦးရေတိုးပွားမှုများလွန်းပါက တိုင်းပြည်၏ စီးပွားရေး ထိခိုက်မည့် အကြောင်းတို့ကို အကျယ်တဝင့် တင်ပြခဲ့ဘူးသည်။ ဒေးဗစ်ရီကာဒိုဆိုသူဘောဂဗေဒပညာရှင်တဦးကမူ နိုင်ငံတနိုင်ငံတွင် မည်သည့် ဘဏ်စံနစ်မျိုး ရှိသင့်ကြောင်းကိုင်း၊ မည်သည့် အခွန်တော်စံနစ်မျိုး ရှိသင့်ကြောင်းကိုင်း၊ နိုင်ငံခြားနှင့် ကုန် ကူးသန်းရောင်းဝယ်ခြင်းဖြင့် မည်သို့အကျိုးဖြစ်ထွန်းနိုင်ကြောင်းကိုင်းလေ့လာရေးသားခဲ့၏။ စီးပွားရေး စံနစ်များ အဆင့်ဆင့် ပြောင်းလဲလာပြီးလျှင် နောက်ဆုံး၌ ဘုံနိုင်ငံပေါ်ပေါက်လာမည်ဟူသော အကြောင်းကို ကားလမတ်က တင်ပြခဲ့ဘူးသည်။ (မတ်,ကားလ — ရှု။) ထိုပညာရှင်ကြီးများသည် နိုင်ငံတခုလုံး၏ စီးပွားရေးပြဿနာများကို ခြုံ၍ လေ့လာ တင်ပြကြကာ၊ ယင်းပြဿနာများကို ဖြေရှင်းရာတွင် သုံးသင့်သော သဘောထားဝါဒကိုပါ တင်ပြကြ၏။ ထို့ကြောင့် ဘောဂဗေဒကို ထိုအချိန်က ပေါ်လစ်တီကယ်အီကော်နိုမီ (ဝါ) နိုင်ငံရေးရာ စီးပွားရေး ပညာဟု ခေါ်ခြင်းဖြစ်သည်။

အထက်ပါ လေ့လာမှုများကို ထောက်ရှု၍ ဘောဂဗေဒ၏ အဓိကလေ့လာချက်သည် စီးပွားရေးစံနစ်၏ သဘောတရား ဖြစ်ကြောင်းကို တွေ့ရသည်။ ထိုထက် တိကျစွာ ဖော်ပြဦးမည်။ တိုင်းပြည် တပြည်တွင် ကုန်ထုတ်လုပ်မှု အားစုများဖြစ်သော မြေယာလုပ်သားနှင့် အရင်းအနှီးတို့ကို လုပ်ငန်းအမျိုးမျိုး၌ ခွဲဝေလုပ်ကိုင်ခြင်းဖြင့် ကုန်ပစ္စည်း အမျိုးမျိုးထွက်၏။ ဤသို့ ခွဲဝေရာ၌ မည်သည့်လုပ်ငန်းတွင် မည်သည့် ကုန်ထုတ်လုပ်မှုအားစု မည်မျှ အသုံးပြုပြီးလျှင် မည်သည့် ကုန်ပစ္စည်းမျိုး မည်မျှ ထုတ်မည်ဟူသော ပြဿနာ ပေါ်ပေါက်ရခြင်း၏ အကြောင်းရင်းမှာ ထုတ်လုပ်မှု အင်အားစုများကို လိုသမျှ မရရှိနိုင်ဘဲ ရှားပါးသောကြောင့် ဖြစ်၏။ သို့ဖြစ်၍ ထိုရှားပါးသော ကုန်ထုတ်လုပ်မှု အားစုများကို အကျိုး အရှိဆုံးနည်းဖြင့် အသုံးပြုရန် လို၏။ ဤနေရာ၌ သတိပြုရန် အချက်မှာ မည်သည့် ကုန်ပစ္စည်းများကို ထုတ်လုပ်သင့်သည်ဟု ဆုံးဖြတ်ရာတွင် လောကနီတိသဘောတရားအားဖြင့် ဆုံးဖြတ်ခြင်းမျိုး မဟုတ်ဘဲ၊ စီးပွားရေး အကျိုးအများဆုံး ရရှိရေးကို ရှေးရှု၍ ဆုံးဖြတ်ခြင်းကိုသာ ဆိုလိုသည်။ မည်သည့် ကုန်ပစ္စည်းမျိုး မည်မျှ ထုတ်လုပ်ရမည်ဟူသော ပြဿနာများကို အာဏာရှင် နိုင်ငံများ၌ အာဏာရှင် လုပ်သူက ဆုံးဖြတ်ပေး၍၊ စီးပွားရေးတွင် လွတ်လပ်စွာ လုပ်ကိုင်ခွင့် ရှိသော နိုင်ငံများတွင် အလုပ်ရှင်နှင့် စားသုံးသူပေါင်း မြောက်မြားစွာတို့က ဆုံးဖြတ်ကြသည်။ ဤသို့လူပေါင်း မြောက်မြားစွာက ဆုံးဖြတ်ကြသော်လည်း ယင်းတို့၏ ဆုံးဖြတ်ချက်များသည် တခုနှင့် တခု ဆက်စပ်မှု ကင်းမဲ့ခြင်း မရှိပေ။ အကြောင်းမှာ လူတို့၏ ဆုံးဖြတ်ချက်များသည် ကုန်ပစ္စည်းအသီးအသီး၏ နှိုင်းရှည့်တန်ဖိုးနှင့်ဈေးနှုန်းတို့ကို အကြောင်းပြု၍ ပြုလုပ်ကြသောကြောင့် ဖြစ်သည်။

တဖန် ကုန်ပစ္စည်း အသီးအသီးတို့၏ နှိုင်းရှည့် တန်ဖိုးသည် မည်သည့် အချက်များအပေါ်၌ တည်သနည်း ဟူမူ ဝယ်လိုအားနှင့် ရောင်းလိုအားတည်း ဟူသော အချက် အလက်များအပေါ်၌ တည်ရှိ နေသည်ဟု ဆိုရပေမည်။ ဤတွင် ဤအချက်များကို လေ့လာကြပြန်၏။ ဤသို့ လေ့လာရာ၌ သိပ္ပံနည်းများကို အသုံးပြု၍ ဘောဂဗေဒ သီအိုရီများဖြစ်ကြသော ဝယ်လိုအားနှင့် ရောင်းလိုအား သဘောတရားစသည်တို့ကို ထုတ်ဖော်ကြ၏။ဤသို့ဖြင့် ယင်းဘာသာရပ်ကို သိပ္ပံဆန်ဆန် အီကော်နိုးမစ်ဟူ၍ ခေါ်ဆို လာကြခြင်း ဖြစ်သည်။ ထို့ကြောင့် အက်ဒမ် စမစ်မှစ၍ ယခုခေတ် ဘောဂဗေဒပညာရှင်များ လက်ထက်ဘိုင် စားသုံးသူ ကြိုက်ဈေးနှုန်း စံနစ်၏ သဘောတရားကို လေ့လာသော တန်ဖိုးသီအိုရီသည် ဘောဂဗေဒပညာရပ်၏ အဓိက အပိုင်းကြီးတပိုင်းဖြစ်သည်ကို တွေ့ရ၏။

ဘောဂဗေဒ ပညာရပ်တွင် ဤသို့ ကုန်ပစ္စည်းအမျိုးမျိုး၏ ဈေးနှုန်းအချိုးအစားများကို လေ့လာသည့်အပြင်၊ ကုန်ပစ္စည်းအားလုံး၏ပျမ်းမျှဈေးနှုန်း အခြေအနေ အကြောင်းကို လေ့လာသည့်အပိုင်းလည်း ပါရှိသည်။ ဒုတိယ အပိုင်းတွင် ငွေနှင့် ဈေးနှုန်းများ၏ ဆက်သွယ်မှုကို အဓိက ထား၍

လေ့လာထား၏။ ယင်းအပိုင်းသည် စျေးနှုန်းများ မငြိမ်သက်မှုနှင့် စီးပွားရေးအခြေအနေ မငြိမ်သက်မှုတို့၏ အကြောင်းရင်းများကို လေ့လာ စူးစမ်းသည့် ဘောဂဗေဒ ပညာပိုင်းဖြစ်၍ ဘောဂဗေဒ၏ အရေးကြီးသော အပိုင်း တပိုင်းဖြစ်သည်။

အထက် ဖော်ပြပါ ဘောဂဗေဒ ပညာရပ်၏ အပိုင်းကြီး ၂ ပိုင်းသည် တပိုင်းနှင့်တပိုင်း ဆက်စပ်နေသည်ဟု သိရှိကြသော်လည်း၊ ၁၉၃၅ ခုနှစ်အထိ ယင်းအပိုင်းတို့၏ ဆက်စပ်မှုကို တိတိကျကျ ရှင်းလင်း ဖော်ပြနိုင်ခြင်း မရှိခဲ့ပေ။ ၁၉၃၅ ခုနှစ်တွင် ဂျေ၊အမ်၊ကိန်းဆိုသူ ဘောဂဗေဒ ပညာရှင် တဦးက အလုပ်အကိုင်၊ အတိုးနှင့် ငွေတို့၏ အထွေထွေ သီအိုရီခေါ် စာအုပ်ကို ရေးသားထုတ်ဝေသည့်အခါကျမှသာ ဘောဂဗေဒပညာရပ်၏ အပိုင်း ၂ ပိုင်းသည် ဆက်စပ်မိသွားလေသည်။ သို့သော် ကိန်း၏ အထွေထွေသီအိုရီသည် ဘောဂဗေဒ နယ်ပယ်တွင် အလွန်နာမည်ကြီးခဲ့ခြင်းမှာ ထိုအချက်ကြောင့်သာမဟုတ်ဘဲ၊ ထိုထက်ပို၍ အရေးကြီးသော အချက်များ ပါရှိသောကြောင့်ဖြစ်၏။ အထူးသဖြင့် ကိန်း၏ သီအိုရီကြောင့် ကျွန်ုပ်တို့သည် စီးပွားရေးစံနစ်၏ အသွင်အပြင်ကို ကြေးငွေဝါဒ၊ အစိုးရဘဏ္ဍာရေးဝါဒ စသည်တို့ဖြင့် လိုသလို ပြုပြင်နိုင်ကြောင်းကိုလည်း သိရှိနားလည်လာကြ၏။ ထိုအခါမှ စ၍ စီးပွားရေးစံနစ်ကို ထိန်းသိမ်းပေးရန်နှင့် လိုသလို ပြုပြင်နိုင်ရန် သင့်တော်သောဝါဒနှင့် နည်းလမ်းများကို နိုင်ငံတော်အစိုးရတို့က ရှာဖွေရရှိနိုင်တော့၏။ ဤတွင် ဘောဂဗေဒသည် နိုင်ငံအုပ်ချုပ်မှုနှင့် ပြန်လည် ဆက်သွယ် လာပြန်သည်ကို တွေ့ရ၏။

ဤသို့ ပြန်လည် ဆက်သွယ် လာသည်နှင့်အညီ နိုင်ငံတော်အစိုးရတို့သည် စီးပွားရေးနယ်၌ တိုက်ရိုက်သော်၎င်း၊ သွယ်ဝိုက်၍သော်၎င်း ပါဝင်စွက်ဖက်လာကြ၏။ ဤသို့ ပါဝင်စွက်ဖက်လာရာ၌ စံနစ်တကျဖြစ်စေရန် စီမံကိန်းများ နည်းဖြင့် ဆောင်ရွက်လာကြ၏။ ဤတွင် စီမံကိန်း ဆိုင်ရာ ဘောဂဗေဒ ပညာတရပ် တိုးလာပြန်၏။

စီးပွားရေးစံနစ်၏ အသွင်အပြင်ကို ပြုပြင် နိုင်သည့်နည်းများ ဤသို့ရရှိသော်လည်း၊ ယင်းသည့် နည်းများသည် တိုးတက် ဖွံ့ဖြိုးနေသော တိုင်းပြည်များနှင့်သာသက်ဆိုင်သည် က များ၏။ မဖွံ့ဖြိုးသေးသော တိုင်းပြည်များတွင် ပုံသေကားချ အသုံးမပြုနိုင်ပေ။ စီးပွားရေး အခြေအနေ မငြိမ်သက်ခြင်းဟူသော ပြဿနာသည် မဖွံ့ဖြိုးသေးသော တိုင်းပြည်များတွင် အရေးမကြီးလှပေ။ စီးပွားရေး ဖွံ့ဖြိုးရန်နှင့် နိုင်ငံ၏ ကုန်ထုတ်လုပ်မှုအားစု လျင်မြန်စွာ တိုးတက်ရေး၊ ထွက်ကုန် တိုးတက်ရေးစသည်တို့သာ ထိုနိုင်ငံများ၏ အဓိက ပြဿနာများဖြစ်၏။ သို့ဖြစ်၍ မဖွံ့ဖြိုးသေးသော နိုင်ငံများ အတွက်ကိုမူ နိုင်ငံ၏စီးပွားရေး တိုးတက်မှုသည် မည်သည့် အချက်များအပေါ်၌ တည်နေသည်ကို၎င်း၊ တိုးတက်မှုမြင့်မားစေရန် မည်သို့ ဆောင်ရွက်ရန်ကို၎င်း လေ့လာဖို့ လိုအပ်၏။ ယင်းအကြောင်းအရာများလေ့လာသောအပိုင်းကို ဖွံ့ဖြိုးမှုဆိုင်ရာ ဘောဂဗေဒနှင့် တိုးတက်မှု ဆိုင်ရာဘောဂဗေဒဟု ခေါ်ကြ၏။ ဤပညာရပ်များကို မျက်မှောက်ခေတ် ဘောဂဗေဒ ပညာရှင်အမြောက်အမြား စိတ်ဝင်စားစွာလေ့လာလျက် ရှိကြသည်။ ဆက်စပ်လျက်ရှိသော အခြားပညာရပ်များမှာမူ အပြည်ပြည်ဆိုင်ရာ ဘောဂဗေဒနှင့် နိုင်ငံတော် ဘဏ္ဍာရေးအကြောင်းများ ဖြစ်ကြ၏။ ထိုပညာရပ်များသည်လည်း ဘောဂဗေဒပညာရပ်၏ အရေးကြီးသောအပိုင်းများ ဖြစ်ကြသည်။

အထက်၌ ဖော်ပြခဲ့သော ဘောဂဗေဒ ပညာအပိုင်း အမျိုးမျိုး၌ သဘောတရား၊ သို့မဟုတ် သီအိုရီများကို ထုတ်ဖော်ရာ၌ သိပ္ပံပညာနည်းများဖြစ်သော သာမည၁ ကြံနည်းနှင့် အချုံကြံနည်းများကို အသုံးပြု၏။ ပဌမနည်းတွင် ဆန်းစစ်လိုသော စီးပွားရေး အချက်အလက်များကို အဆိုများ အဖြစ် ယူဆ၍၊ ယင်းအဆိုများမှ တက္ကဗေဒဆိုင်ရာ ဆင်ခြင်ခြင်းနည်းဖြင့် သီအိုရီကို ကောက်နုတ်ဆွဲယူကြသည်။ ဒုတိယ နည်းတွင်မူ စီးပွားရေးအချက်အလက်များကို စုဆောင်းရာ၌ စာရင်းစု နည်းလမ်းကိုအသုံးပြု၏။ ထို့ကြောင့် စီးပွားရေးစာရင်းစုများသည် ဘောဂဗေဒ၏ အရေးကြီးသော အပိုင်းတပိုင်းဖြစ်၏။ ထို့အပြင် လက်ရှိစီးပွားရေး အခြေအနေကို ပိုမိုနားလည်ရန် စီးပွားရေး သမိုင်းကို ပြန်လည်သုံးသပ်သည့် နည်းကိုလည်း အသုံးပြု၏။ ထို့ကြောင့် စီးပွားရေး သမိုင်းကိုလည်း ဘောဂဗေဒ ပညာရှင်တို့လေ့လာကြ၏။ သိပ္ပံနည်းအမျိုးမျိုးဖြင့် ထုတ်ဖော်၍ရရှိသော သဘော တရားနှင့် သီအိုရီများကို လက်တွေ့စီးပွားရေး ပြဿနာများ လေ့လာရာ၌ အသုံးပြု၏။ ဤသို့ လေ့လာဆွေးနွေးသည့်အပိုင်းကို အသုံးချဘောဂဗေဒဟူ၍ ခေါ်သည်။ ဦး အေးလှိုင်

**ဘောလခဲနယ်။** ။ကယား ပြည်နယ်၏ အနောက်ဖက်ဒေသဖြစ်၍ တောင်ပိုင်းဘောလခဲနှင့် မြောက်ပိုင်း ဘောလခဲဟူ၍ နယ် ၂ နယ်ရှိသည်။ ထိုနယ် ၂ နယ်သည် ဆက်စပ်လျက်မရှိဘဲ ကြယ်ဖိုးကြီးနယ်က ကြားခံလျက်မြောက်ဖက်တွင် တနယ်၊ တောင်ဖက်တွင် တနယ်အဖြစ် တည်ရှိနေကြသည်။ တောင်ပိုင်း ဘောလခဲနယ်သည် မူလဘောလခဲနယ် ဖြစ်၍၊ မြောက်ပိုင်းနယ်သည် နောက်မှ ပူးပေါင်းပါဝင်ခဲ့ခြင်း ဖြစ်လေသည်။

တောင်ပိုင်း ဘောလခဲနယ်၏ အရှေ့ဖက်နှင့် တောင်ဖက်တွင် ကန္တာရဝတီ နယ်ရှိ၍ မြောက်ဖက်နှင့် အနောက်ဖက်တွင် ကြယ်ဖိုးကြီးနယ်ရှိသည်။ မြောက်ပိုင်း ဘောလခဲနယ်၏ အရှေ့ဖက်တွင် ကန္တာရဝတီနယ်၊ တောင်ဖက်တွင် ကြယ်

ဖိုးကြီးနယ်နှင့် မြောက်ဖက်နှင့် အနောက်ဖက်တွင် မိုးပြဲနယ် ရှိလေသည်။

တောင်ပိုင်းနှင့် မြောက်ပိုင်း ဘောလခဲနယ် ၂ ရပ်ပေါင်း၏ အကျယ်အဝန်းသည် ၅၆၅ စတုရန်းမိုင်ဖြစ်သည်။ ထိုနယ်သည် မြောက်ပိုင်းရှိ၊ နန်းမယ်ခုံမြို့၏ ပတ်ဝန်းကျင်မှ အပ ကျန်ဒေသတို့တွင် တောင်ကုန်းထူထပ်သည်။ သစ်တောကြီးများနှင့် ရေတံခွန်စိမ့်စမ်းပေါများသည်။ တောင်ပိုင်း ဘောလခဲနယ်၏ အနောက်မြောက် နယ်စပ်မှ စီးဆင်းလာသော ထူးချောင်းသည် အရှေ့မြောက် နယ်စပ်မှ စီးဆင်းလာသည့် ပွန်ချောင်းနှင့် ထူးချောင်း ရွာတွင်ဆုံ၍၊ တောင်ဖက်သို့ စီးဆင်းလာပြီးလျှင်၊ ဖားစောင်းရွာ အထက်နားတွင် သံလွင်မြစ်အတွင်းသို့ စီးဝင်လေသည်။

တောင်ပိုင်းဘောလခဲနယ်ရှိ မော်ချီးသတ္တုတွင်းများသည် ကမ္ဘာကျော် သတ္တုတွင်းများ ဖြစ်ကြသည်။ ခဲမဖြူနှင့် တန်စတင် ထွက်သည်။ သတ္တုတူးဖော်ရေးလုပ်ငန်းသည် ဘောလခဲနယ်၏ အဓိက လုပ်ငန်းတရပ် ဖြစ်သည်။ ထိုနယ်၏အရေးပါသော အခြားလုပ်ငန်းကြီးတရပ်မှာ သစ်လုပ်ငန်းဖြစ်သည်။ မြောက်ပိုင်း ဘောလခဲနယ်မှ နန်းမယ်ခုံမြို့၏ ပတ်ဝန်းကျင်ရှိ မြေပြန့်ဒေသများတွင် လယ်ယာစိုက်ပျိုးရေးကို လုပ်ကိုင် ကြသည်။ တောင်ကုန်းဒေသများတွင် တောင်ယာလုပ်ကိုင်ခြင်း၊ ရှားစေးချက်ခြင်း စသည်တို့ကို လုပ်ကိုင်ကြလေသည်။

၁၉၅၆ခုနှစ်ခန့်မှန်းသန်ကောင်စာရင်းအရဘောလခဲနယ်၏ လူဦးရေသည် ၁၉,၃၁၀ ယောက်ဖြစ်သည်။ နယ်အတွင်း၌ နေထိုင်ကြသောလူမျိုးများမှာ ကယားယင်းဘော်၊ယင်းတလဲ၊ ပဒေါင်၊ မနုမနော၊ဗရဲ(ပရဲ) စသည်တို့ဖြစ်ကြသည်။ ယင်းတို့တွင် ဗုဒ္ဓအယူဝါဒီ၊ ဗရင်ဂျီဂိုဏ်းဝင်၊နှစ်ခြင်း ဂိုဏ်းဝင်နှင့်နတ်ကိုးကွယ်သူဟူ၍ အသီးအသီး ရှိကြလေသည်။

ဘောလခဲနယ်တွင် တိုက်နယ် ၇ နယ်ပါဝင်၍၊ ကျေးရွာပေါင်း ၁၁၆ ရွာပါဝင်သည်။ ဘောလခဲနယ်၏ မြို့တော်မှာ တောင်ပိုင်းဘောလခဲနယ်ရှိ ဘောလခဲမြို့ဖြစ်သည်။ (ဘောလခဲမြို့ — ရှု။)

ကူးသန်း သွားလာရေး လမ်းပန်း အဆက်အသွယ်များမှာ ဘောလခဲမြို့မှ တောင်ဖက်၊ သံလွင်မြစ်ကမ်းပေါ်ရှိ ခဲမဖြူမြို့ အထိ မော်တော်ကားလမ်းရှိ၍၊ ထိုမှတဖန် မော်ချီးသတ္တုတွင်းများကို ဖြတ်လျက် ပြည်နယ်၏အပဖြစ်သော သံတောင် (ကရင်ပြည်နယ်) နှင့် တောင်ငူ (ပြည်မ) တို့အထိ လမ်းပေါက်သည်။ ဘောလခဲမြို့မှ မြောက်ဖက်သို့ကြယ်ဖိုးကြီးနယ်နှင့် မြောက်ပိုင်း ဘောလခဲမှ နောင်ပုလဲမြို့ကို ဖြတ်ကာ၊ ပြည်နယ်၏ မြို့တော် လွိုင်ကော် အထိ ရောက်သည်။ လွိုင်ကော်မှတဖန် ပြည်နယ်၏ အပြင်အပဖြစ်သော တောင်ကြီးမြို့ (ရှမ်းပြည်တောင်ပိုင်း) အထိ မော်တော်ကားလမ်းရှိသည်။ နောင်ပုလဲမှ နန်းမယ်ခုံကို ဖြတ်၍၊ မိုးပြဲမြို့ အထိ လမ်းကြမ်းရှိလေသည်။

ဘောလခဲနယ်ကို မြန်မာသက္ကရာဇ် ၁၁၂၀ ပြည့်နှစ်တွင် ဖဘန့် (ပဗန်း) အမည်ရှိ မင်းကစတင် တည်ထောင်ခဲ့သည်။ ယင်းအခါက နယ်မှာ တောင်ပိုင်း ဘောလခဲနယ်ဖြစ်သည်။ မြောက်ပိုင်း ဘောလခဲနယ် ပါဝင်ခြင်း မရှိသေးပေ။ သက္ကရာဇ် ၁၂၇၅ ခုနှစ်တွင် နန်းတက်အုပ်ချုပ်သော စောဖျာစဝ်ခွန်ငယ် လက်ထက်တွင် မြောက်ဖက်မှ နန်းမယ်ခုံနှင့် နောင်ပုလဲနယ်တို့၌ မင်းဆက် ပြတ်သဖြင့် နယ်သူနယ်သားများ၏ ဆန္ဒအရ အနောက်ပိုင်းကယားနယ်ချင်းဖြစ်သော ဘောလခဲနယ်တွင် ပူးပေါင်းပါဝင်ခဲ့ရာ၊ ထိုနယ် ၂ နယ်(နန်းမယ်ခုံနှင့် နောင်ပုလဲ)ကို စောဖျာစဝ်ခွန်ငယ်က မြောက်ပိုင်း ဘောလခဲနယ်ဟု သတ်မှတ်အုပ်ချုပ်လေသည်။

ဒုတိယကမ္ဘာစစ်ကြီး ပြီးဆုံးပြီးနောက် ခရစ်နှစ် ၁၉၄၅ ခုစက်တင်ဘာလတွင် စဝ်ခွန်ငယ်သည် အိုမင်းမစွမ်း ရှိလာသဖြင့်၊ သားတော်စဝ်ငယ်ဒူးအား အရိုက်အရာကို ဆက်ခံအုပ်ချုပ်ရန် လွှဲအပ်သည်။ စဝ်ငယ်ဒူးသည် ကယားပြည်နယ်အား ပြည်ထောင်စု မြန်မာနိုင်ငံနှင့် ပူးပေါင်းရေးကို လိုလား၍ ပူးပေါင်းရေးကို ကိုယ်တိုင် ပါဝင်ဆောင်ရွက်ခဲ့လေသည်။

**ဘောလခဲမြို့။** ။ဘောလခဲမြို့သည် ကယား ပြည်နယ် ဘောလခဲနယ်၏ မြို့တော်ဖြစ်သည်။ လွိုင်ကော် - မော်ချီးကားလမ်းတွင်တည်ရှိ၍၊လွိုင်ကော်မြို့မှ တောင်ဖက် မိုင် ၅၀၊ မော်ချီးမြို့အောက်ရွာမှမြောက်ဖက် ၄၃ မိုင်ကွာဝေးပြီးလျှင် ပွန်ချောင်း၏ အနောက်ဖက်ကမ်းပါးတွင် တည်ရှိသည်။

ဘောလခဲမြို့သည် အရှေ့နှင့်အနောက် မိုင်ဝက်ခန့် ရှိ၍ တောင်နှင့် မြောက် တမိုင်ခန့်ရှိသည်။ ရှေးခေတ်ကောင်းစဉ်က လူဦးရေ ၅,၀၀၀ ခန့်ရှိခဲ့သော်လည်း လွတ်လပ်ရေး ရပြီးသည့်နောက်ပိုင်းတွင် နယ်အခြေအနေ မငြိမ်သက်သဖြင့် လူဦးရေ ၇၀၀ ခန့်မျှသာ ရှိသည်။ မြို့ပေါ်တွင် နေထိုင်ကြသူများသည် အများအားဖြင့် ယင်းတလဲနှင့် ကယား လူမျိုးများ ဖြစ်ကြ၍ ဗုဒ္ဓအယူဝါဒီနှင့် နတ်ကိုးကွယ်သူများ ဖြစ်၏။

ဘောလခဲမြို့ကို စတင်တည်ထောင်ခဲ့သူမှာ ပဌမ ဖဘန့်မင်းကြီးဖြစ်သည်။ မြို့၏မြောက်ဖက်ရှိ တဘောလျှာချောင်းနှင့် မြို့လယ်ရှိ တခဲလျှာချောင်းတို့ကို အစွဲပြု၍ တဘော–တခဲဟု ခေါ်ရာမှ ကာလရွေ့လျောသော် ဘောတခဲ၊ ဘောတခဲမှ ဘောလခဲဟု ခေါ်တွင်လာသည်။ ယင်းတလဲစကားဖြင့် တဘောလျှာချောင်းသည်အမိချောင်းဟုအဓိပ္ပါယ်ရ၍၊ တခဲလျှာ ချောင်းသည် အဖ ချောင်းဟု အဓိပ္ပါယ်ရသည်။ ထို့ကြောင့် ဘောတခဲ၊ သို့မဟုတ် ဘောလခဲမြို့ကို မိဖမြို့ဟု ခေါ်ဆိုနိုင်ပေသည်။

ရှေးက စော်ဘွားအုပ်ချုပ်သော မြို့ဖြစ်သည်။ သို့သော် ၁၉၆၀ ပြည့်နှစ် စက်တင်ဘာလ ၁ ရက်နေ့မှစ၍ကယားပြည်နယ်အစိုးရ အုပ်ချုပ်ရေးလက်အောက်သို့ ပြောင်းကာ လက်ထောက် မြို့ပိုင်၏ ရုံးစိုက်မြို့ ဖြစ်နေလေသည်။

မြို့နှင့် ပတ်ဝန်းကျင်ဒေသများမှ ကျွန်းသစ်၊ ရှား၊ နှမ်း၊ ဝါ ထွက်သည်။ မြို့နယ်လူထု၏ အလုပ်အကိုင်မှာ ကုန်သည်နှင့် ယာလုပ်ငန်းတို့ဖြစ်သည်။ ကူးသန်းသွားလာရေး အတွက် လွိုင်ကော်-မော်ချီ ကားလမ်းကို အသုံးပြုကြရသည်။

ထင်ရှားသော အဆောက်အအုံမှာ ဒုတိယ ဖဘန့်မင်း တည်ထားခဲ့၍၊ သားတော် စော်ဘွားကြီး စဝ်ခွန်ငယ်က ထီးတော် တင်ခဲ့သော စေတီတဆူနှင့် ဘုန်းကြီးကျောင်း တကျောင်းရှိသည်။ ဘောလခဲ စော်ဘွားကြီး၏ ဟော်နှင့် နတ်ဟော်တို့မှာမူ ပျက်စီးယိုယွင်းလျက် ရှိနေသည်။

မြို့ပေါ်နှင့် နယ်တွင် စည်ကားသော ပွဲတော်တို့မှာ အထက်တွင် ဖော်ပြခဲ့သော စေတီတော်ကို နှစ်စဉ် တပေါင်းလတွင် ပွဲတော်ကျင်းပသည်။ ယင်းတလဲစကားဖြင့် မာလုပွဲခေါ် တံခွန်တိုင်ပွဲတော်ကို တန်ခူးလတွင်၎င်း၊ ဆော့ဒေါင်းပွဲခေါ် ကောက်ညှင်းထုပ် ပွဲတော်ကို သီတင်းကျွတ်လတွင်၎င်း ကျင်းပကြလေသည်။

**ဘောလယ်။** ။ဘောလယ်သည် ကုန်းဘောင်ခေတ် ဒုတိယပိုင်းဖြစ်သော သက္ကရာဇ် ၁၂၀၀ ကျော်ကျော် အခါမှ စတင်၍ ပေါ်ပေါက်လာသည့် ကဗျာတမျိုးဖြစ်သည်။ ယင်းကဗျာမျိုးကို ရွှေဘိုမင်းတရားကြီးနှင့် အနောက်နန်း မိဖုရား မမြကလေးတို့မှ မြင်သည့် သမီးတော် လှိုင်ထိပ်ခေါင်တင် စဘင် တီထွင်စပ်ဆိုခဲ့ဟန်တူသည်။ စိန်ခြူးကြာညောင်၊ ပုလဲမြိတ်စုံ၊ ထုံပန်းမာလာ၊ နာဂဆဒ္ဒန်၊ ရှုလဲညာထွေချီ ကဗျာများမှာ ဘောလယ်များ ဖြစ်ကြသည်။ ယင်းကဗျာမျိုးကို လှိုင်ထိပ်ခေါင်တင် ကိုယ်တိုင် ဘောလယ်ဟု မှည့်ခေါ်ခဲ့ခြင်း ဖြစ်တန်ရာသည်ဟု အချို့က ယူဆကြသည်။ (လှိုင်ထိပ်ခေါင်တင် — ရှု။)

ဘောလယ်ဟု အမည်တွင်ခြင်း အကြောင်းကို ပညာရှိတို့ အမျိုးမျိုး ကြံဆကြသည်။ အချို့ပညာရှင်တို့က ဘောလယ်ဟူသော ဝေါဟာရသည် ဘဝလယ်ဟူသော စကားမှ ရွေ့လျောလာသည်။ ဤလူ့ဘုံ လူ့ဘဝကြီး၌ ဆင်းရဲ ချမ်းသာသည် အစဉ် မဟုတ်၊ အမျိုးမျိုးသော ဒုက္ခသုခတို့နှင့် စုန်ဆန် တက်သက် တွေ့ကြုံနေကြရသည်။ ယင်းသို့ တွေ့ကြုံနေကြရခြင်းကား ရှေးဘဝက ပြုခဲ့ဘူးသော ကံအကြောင်းပြန်လည်လာသောကြောင့် ဖြစ်သည်။ ဤသို့ မိမိဘဝ လည်လာသည်ကို အစွဲပြု၍ ဘဝလည်၊ထိုမှ ဘဝ်လည်၊ ဘောလည်၊ ဘောလယ်ဟူ၍ ဖြစ်လာသည်ဟု ယူဆကြသည်။ အချို့ကလည်း ပါဠိအဘိဓာန် ကျမ်းတွင် ဘာဝသဒ္ဒါ၏ အနက် ၇ ချက်ပြရာ၌ တင့်တယ် စံပယ်ခြင်းအနက် ပါဝင်သည်ဖြစ်၍ ကဗျာသီချင်းတို့၏ အလယ်မှာ တင့်တယ်သော ဂုဏ်ထူးရှိသည့် သီချင်းဟု ဆိုလိုသည်ဟု ယူကြပြန်သည်။ အချို့ ဆရာတို့ကမူ လှိုင်မင်းသမီးသည် လှိုင်မြို့ကို စားရသောကြောင့် ဘောလယ် ဟူသောမြို့လည်း လှိုင်မြို့နယ်ပယ်တွင် ပါဝင်ရကား ဘောလယ်တွင် ဤသီချင်းကို စတင်စပ်ဖွဲ့သည်ကို အစွဲပြု၍၎င်း၊ လှိုင်မြို့နှင့် ဘောလယ်မြို့စား စဘင်စပ်ဆိုသည်ကိုစွဲ၍၎င်း ဘောလယ်တွင်သည်ဟု ထင်မြင်တွေးဆကြသည်။ သုံးထောင့်ရှာတွင် အစပြုသည်ကို အစွဲပြု၍ သုံးထောင့်အိုင်ခေါ်ကြကြောင်းကို အထောက်အထား ပြုကြလေသည်။ အချို့ပညာရှင်တို့ကမူကား လှိုင်မင်းသမီး၏ ကြင်ဖက်တော် ကနောင်မင်းသားသည် မိဖုရားငယ်များနှင့်သာ ပျော်ပါးစံစားပြီးလျှင် မိမိအပေါ်၌ စိုက်ပျိုးခဲ့သော ရွှေမေတ္တာတော် ယိမ်းယိုင်နေသည့်အတွက်မောင်တော်ဘုရားမိမိအပေါ် သို့သဘောတော်ပြန်လည် လာစေရန် ဖွဲ့ဆိုအပ်သော သီချင်းဖြစ်သောကြောင့် သဘောလည်ဟု ခေါ်ရာမှ 'သ'ကျေ၍ ဘောလည်ဖြစ်ကာ၊ ယင်းမှ ဘောလယ်ဖြစ်လာသည်ဟု ဆိုကြသည်။

ဘောလယ်ကဗျာ၌ အများအားဖြင့် အချိုး ၅ ချိုးရှိပြီးလျှင်.အဆုံးတွင် ပတ်ပျိုး သီချင်းခံကြီးများကဲ့သို့ သဖြန်နှင့် နိဂုံးအုပ်သည်ကို တွေ့ရသည်။ အချိုး ၄ ချိုး၊ ၆ ချိုး၊ ၇ ချိုး စသည်ဖြင့် စပ်ထားသော ဘောလယ်များလည်း ရှိ၍သဖြန်ဖြင့် နောက်ဆုံး မအုပ်သော ဘောလယ်များလည်း ရှိသည်။ အချိုးတိုင်း၌ အခံပိုဒ်၊ အအုပ်ပိုဒ်ဟူ၍ ၂ ပိုဒ်စီ ပါလေသည်။ ပုံစံအားဖြင့်၊ စိန်ခြူးကြာညောင်ချီ ဘောလယ်ကို အောက်တွင် ဖော်ပြထားသည်။

"စိန်ခြူးကြာညောင်၊ လရောင်လင်းပါလို့၊ မှန်ရွှေဖြူ ပြတင်းငယ်က၊ မယ်ခုမျှော်၊ သုံးချက်စည်တော်၊ ရိုက်ဆော်ညှင်းတယ်လေး၊ လင်းပြန်လုနော်။ ။သဇင်သင်းပါဘဲ့....ခင်းပြန့်ပေါ်၊ လာနိုးငယ် မယ်မျှော်လို့၊ တကိုယ်တော်ထူး၊ ထွေရာစိတ်ကူးပါလို့၊ ဖူးရွှေလက်တင်၊ ဖြစ်ရှေးကုန်စဉ်၊ ဘဝင်တုန်ဆွေးတယ်လေး၊ တွေးကြံလိုက်ရင်။ ။သစ္စာတော် စူးပါစေ့၊ ဆိုဦးကပင်၊ ခင်လေးကို မောင်ကြင်ငဲ့၊ သည်သက်တွင်ဘဲ၊ ရှောင်သွေမလွဲပါဘု-ယုံတော့မေ၊ ပြဒုမဘွေ....သီဟာဆင့်တယ်လေး၊ စိုးညာမြင့်နေ။ ။နတ်ဒေဝီ ဖြားသော်လဲ....တပါးကိုမသွေ့၊ ရှစ်ဗြဟ္မာချေပါလို့၊ အောင်ဇေယျာညွန်း၊ မတ်ချွေရွှေဝန်းငယ်နှင့်၊ ရေသွန်းတော်ခံ၊ မဟေသီမှန်၊ ဒေဝီတပ်တယ်လေး၊ ဦးဆယ်ထပ်ရုံ။ ။သည်မယ် ထင်စားပါလို့၊ ကြင်အားငယ်သန်၊ခုများမှာ၊သူတဥာဏ်နဲ့ မူဟန်တော်ခြား၊ ပူတော်မူအားရန်ကော့၊ မျက်ထားသော်သုန်၊ မချစ်ပြင်ပြင် .... သခင်ကိုယ်တော် စိမ်းတယ်လေး၊ ပိန်းပိတ်သို့မှုန်။"

ထိုစိန်ခြူးကြာညောင်ချီ ဘောလယ်တွင် "စိန်ခြူးကြာညောင်၊ လရောင်လင်းပါလို့၊ မှန်ရွှေဖြူ ပြတင်းငယ်က၊ မယ်

ခုမျှော်”ဟု အခံပိုဒ်ပြုပြီး နောက် ‘သုံးချက်စည်တော်၊ ရိုက်ဆော်ညှင်းတယ်လေး၊ လင်းပြန်လုနော်’ ဟု အအုပ်ပိုဒ်ဖြင့် ချထားလေသည်။ ထိုအတူပင် ကျန်အချီးများ၌လည်း ‘ဖူးရွှေလက်**တင်**’ နှင့်အဆုံးသတ်သော အခံပိုဒ်ကို ‘တွေးကြံလိုက်**ရင်**’ အဆုံးသတ်သော အအုပ်ပိုဒ်နှင့်၎င်း၊ ‘ယုံတော့**မေ**’ အဆုံးသတ်သော အခံပိုဒ်ကို ‘စိုးညာမြင့်**နေ**’ အဆုံးသတ်သော အအုပ်ပိုဒ်ဖြင့်၎င်း၊ ‘ရေသွန်းတော်**ခံ**’ နှင့် အဆုံးသတ်သော အခံပိုဒ်ကို ‘ဦးဆယ်ထပ်**ရံ**’ နှင့် အဆုံးသတ်သော အအုပ်ပိုဒ်ဖြင့်၎င်း၊ ‘မျက်နှာထားတော်**သုန်**’ နှင့် အဆုံးသတ်သော အခံပိုဒ်ကို ‘ပိန်းပိတ်လို့**မှုန်**’ နှင့် အဆုံးသတ်သော အအုပ်ပိုဒ်ဖြင့်၎င်း စီကုံးထားသည်ကို တွေ့ရပေမည်။ စပ်ဆိုရာတွင် ပဌမပဒကို အက္ခရာ လေးလုံးဖွဲ့၍ ဂရုသံဖြင့် ချီပြီးလျှင်၊ အဆုံးပဒတွင်လည်း အက္ခရာ လေးလုံးဖြင့်ပင် ဖွဲ့ကာ သံလျော့ခေါ် ဂရုသံနှင့်ပင် ချရလေသည်။

ပဌမချီးမှတပါး ကျန်အချီးများ၌ အခံပိုဒ်၌ အက္ခရာ ၈ လုံးမှ ၁၀ လုံးအထိထား၍ ဂရုသံဖြင့်ချီပြီးလျှင် အဆုံးတွင် အက္ခရာ ၄ လုံးထား၍ ဂရုသံဖြင့်ပင် ချရလေသည်။ အချီး ၅ ချီးစလုံး၌ပင် အစချီသော ဂရုကာရန် အဆုံးသတ်သော ဂရုကာရန်တို့ကို ညီညွတ် မှန်ကန်စေရသည်။ အချီးတိုင်း၏ အအုပ်ပိုဒ်များတွင် ‘လေး’ ဟူသော အက္ခရာအမြဲ ပါရလေသည်။ ပုံစံအားဖြင့်ဆိုသော် ‘စိန်ခြူးကြာညောင်’ ချီ ဘောလယ်၌ ပဌမချီး၏ အအုပ်ပိုဒ်တွင် ‘ရိုက်ဆော်ညှင်းတယ်လေး’ ဟု၎င်း၊ ဒုတိယချီး အအုပ်ပိုဒ်တွင် ‘ဘဝင်တုန်ဆွေးတယ်လေး’ ဟု၎င်း၊ တတိယချီးတွင် ‘ဘွေသီဟာ ဆင့်တယ်လေး’ဟု၎င်း၊ စတုတ္ထချီးတွင် ‘ဒေဝီဘပ်တယ်လေး’ဟု၎င်း၊ ပဥ္စမချီးတွင် ‘သခင်ကိုယ်တော်စိမ်းတယ်လေး’ ဟု၎င်း ပါသည်ကို တွေ့ရပေလိမ့်မည်။

ဘောလယ်၏အခြား ထူးခြားချက်တခုမှာ အချီး တခုနှင့် တခု ကာရန် ဆက်စပ်နေခြင်းပင်ဖြစ်သည်။ ပဌမ ချီး၏ အချကာရန်နှင့် ဒုတိယချီး၏ အချီကာရန်သည်၎င်း၊ ဒုတိယ ချီး၏ အချကာရန်နှင့် တတိယချီး၏ အချီကာရန်သည်၎င်း၊ တတိယချီး၏ အချကာရန်နှင့် စတုတ္ထချီး၏ အချီကာရန်သည်၎င်း၊ စတုတ္ထချီး၏ အချကာရန်နှင့် ပဥ္စမချီး၏ အချီကာရန်သည်၎င်း ထပ်မိ ဟပ်မိ စေရသည်။ စိန်ခြူးကြာညောင်ချီ ဘောလယ်ကိုပင် ပုံစံအားဖြင့် ကြည့်မူ ပဌမ ချီးတွင် ‘လင်းပြန်လု**နော်**’ဟု ချ၍ ဒုတိယအချီးတွင် ‘ခင်းပြန့်**ပေါ်**’ နှင့် ချီသည်။ ဒုတိယချီးတွင် ‘တွေးကြံလိုက်**ရင်**’ နှင့် ချ၍ တတိယချီးတွင် ‘ဆိုဦးက**ပင်**’ နှင့်ချီသည်။ တတိယချီးတွင်‘စိုးညာမြင့်**နေ**’နှင့်ချ၍ စတုတ္ထချီးတွင် ‘တပါးကိုမ**သွေ**’ နှင့် ချီသည်။ စတုတ္ထချီး တွင် ‘ဦးဆယ်ထပ်ရံ’ နှင့် ချ၍ ပဥ္စမချီးတွင် ‘ကြင်အားငယ်**သန်**’နှင့်ချီထားသည်ကို တွေ့နိုင်သည်။ အခြား ဘောလယ်များ၌လည်း ယင်းသို့ချည်းနှင်နှင်တွေ့ရလေသည်။ဤကား ရိုးရိုး ဘောလယ်များ အကြောင်း ဖြစ်သည်။

ယခုခေတ် ဘောလယ်ကဗျာကို အမျိုးမျိုး ဆန်းကွန့်ရေးစပ်ကြသေးသည်ကို တွေ့ရသည်။ ကာရန်နဘေပိုဒ်ပေါင်းများစွာ တွန့်၍ ကွန့်၍ ထားခြင်းကြောင့် ယင်းခေတ် ဆန်းဘောလယ်ကို ထပ်တွန့် ဘောလယ်ဟုလည်း ခေါ်ကြသည်။ နဘေကာရန် အတွန့်အကွန့်များမှလွဲ၍ ရေးသားပုံ ရေးသားနည်းမှာ ရိုးရိုးဘောလယ်အတိုင်းပင် ဖြစ်ပေသည်။

**ဘောလယ်မြစ်။** ။ဘောလယ်မြစ်သည် ပဲခူးတိုင်း အင်းစိန်ခရိုင်နှင့် ဧရာဝတီဘိုင်း မအူပင် ခရိုင်ကို ပိုင်းခြားထားသကဲ့သို့ စီးဆင်းလျက်ရှိသော မြစ်ဖြစ်သည်။

လှည်းဆိပ်ရွာ အထက်နားမှနေ၍ လှိုင်မြစ်မှ အနောက်ဖက်သို့ ခွဲထွက်ပြီးနောက် တဖန် တောင်ဖက်သို့ စီးဆင်းလာကာ ကုက္ကိုဝရွာအနားတွင် ကုက္ကိုဝမြစ်ထဲသို့ စီးဝင်သည်။ ကုက္ကိုဝမြစ်သည်လည်း ထန်းတပင်မြို့အထက်နား၌ လှိုင်မြစ်မှ အနောက်ဖက်သို့ ခွဲထွက်လာသော မြစ်ဖြစ်သည်။ ဘောလယ်မြစ်တလျှောက်အနီး ဝန်းကျင်တွင် အင်းများ အလွန်ပေါသဖြင့် အင်းကုန်များ ကူးသန်းရောင်းဝယ်ရာတွင် ဘောလယ်မြစ်သည် အလွန်အသုံးဝင်သည်။ ဥတုသုံးပါးစလုံးတွင် လှေသင်္ဘောများ သွားလာ နိုင်သည်။

ဘောလယ်မြစ်ပေါ်တွင် တည်ရှိသော ထင်ရှားသည့် မြို့ရွာများမှာ ဘောလယ်၊ နဲသမိန်၊ ညောင်ဆိပ်၊ ချောင်းဂွ၊ ခတ်တော်ကုန်း၊ တော်လဘဲ့ စသည်တို့ ဖြစ်သည်။

# လူသိများသော ကစားခုန်စား

**အနောက်တိုင်းများတွင် လူကြိုက်အများဆုံးသော ကစားနည်းဖြစ်သည့် ဘောလုံးကစားခြင်းကို မြန်မာနိုင်ငံကလည်း လက်ခံကာ ရာသီမရွေး ကစားနေလေပြီ။ ထိုကစားနည်းမှာ တဦးကောင်း တယောက်ကောင်း မဟုတ်ဘဲ အများနှင့် အဖွဲ့လိုက်ကစားရသည့်ပြင် အားကစားစိတ်ဓာတ်ကို လှုံ့ဆော်ပေးလေသည်။**

**ဘောလုံးကစားခြင်း။** ။အပြည်ပြည်ဆိုင်ရာကစားနည်းဥပဒေဖြင့် ကစားကွင်းအတွင်း၌ တဖက်နှင့် တဖက် ဘောလုံးကို အပြိုင်အဆိုင် အရှုံးအနိုင်ကန်၍ ဂိုးသွင်းကစားခြင်းကို ဘောလုံးကစားခြင်းဟု ခေါ်သည်။ ဘောလုံးကို ခြေဖြင့်



၁၉၆၁ ခုနှစ်၊ ဧပြီလတွင် ဗန်ကောက်မြို့၌ ကျင်းပသော အာရှလူငယ် ဘောလုံးဖိုလ်လုပွဲတွင် ပဋ္ဌမရွှေဖလားဆုကြီးကို ဆွတ်ခူးခဲ့သော မြန်မာလူငယ် ဘောလုံးအသင်းသားများ

ကန်၍ ကစားရသောကြောင့် အင်္ဂလိပ်ဘာသာဖြင့် ဖွတ် (ခြေ) ဘော(ဘောလုံး) ဟုခေါ်သည်။

ဘောလုံး ကစားရာတွင် ဆော့ကာနှင့် ရပ်ဗီဟူ၍ ဘောလုံးကစားနည်း ၂ မျိုးရှိသည်။ ဆော့ကာ ဘောလုံး ကစားနည်းသည် ယခု မြန်မာနိုင်ငံ၌ လူသိများ၍ ခေတ်စားသော ဘောလုံးကစားနည်းဖြစ်၍ ရပ်ဗီဘောလုံး ကစားနည်းသည် အမေရိကန် ဘောလုံးကစားနည်းဟု မြန်မာတို့ခေါ်ကြသည့် ကစားနည်းဖြစ်သည်။

**ဆော့ကာဘော်လုံးကစားခြင်း။** ။မြန်မာနိုင်ငံ၌ ခေတ်စားသော ဆော့ကာ ဘောလုံးကစားနည်းသည် ရှေးဗက်ဗီလုံးနှင့် အီဂျစ်လူမျိုးများ ခေတ်ကောင်းချိန် အခါကပင် ပေါ်ပေါက်ခဲ့ပြီး ဖြစ်သည်။ ထိုနောက် ဂရိနိုင်ငံမှ စပါးတန်းစစ်သည်တော်များ ကစားကြသည်မှစ၍ ရောမနိုင်ငံဖက်သို့ ကူးစက်လာသည်။ ရောမနိုင်ငံကြီး ယိုင်လဲသွားသောအခါ ဘောလုံးကစားခြင်း အလေ့ပျောက်သကဲ့သို့ ဖြစ်သွားပြီးမှ ၁၈၆၁ ခုနှစ်တွင် ဣတလီနိုင်ငံကြီးကို သွေးစည်းထူထောင်နိုင်လာသောအခါ တဖန်ခေတ်စားလာပြန်သည်။ အင်္ဂလန်ပြည်သို့ ရောမစစ်သည်တို့ သွားရောက်တိုက်ခိုက်သောအခါ ယင်းဘောလုံး ကစားခြင်းအလေ့သည် အင်္ဂလန်ပြည်သို့ ရောက်သွားသည်။ သို့ရာတွင် ၁၄ ရာစုနှင့် ၁၅ ရာစုနှစ်များအတွင်း တတိယ အက်ဒွပ်ဘုရင်၊ ဒုတိယ ရစ်ချတ်ဘုရင်နှင့် စတုတ္ထ ဟင်နရီဘုရင်များ လက်ထက်က ဘောလုံးကစားခြင်းသည် ကြမ်းတမ်းသော ကစားနည်း တမျိုးဖြစ်သည်ဟု ယူဆကာ၊ ရာဇဝတ်ပြစ်မှုနည်းတူ တရားဥပဒေဖြင့် တားမြစ်ခဲ့ဘူးသည်။ ထိုအချိန်က ဘောလုံးကစားပုံမှာ ယခုခေတ်ကဲ့သို့မဟုတ်ဘဲ၊ဂိုးပေါက်တခုနှင့်တခု ၂ မိုင် ၃ မိုင်ကွာ၍ တခါကစားလျှင် မွန်းလွဲ ၂ နာရီ အချိန်မှ ညနေ နေဝင်ချိန် အထိကြာသည်။ သို့ရာတွင် ၁၉ ရာစုနှစ် ရောက်သောအခါ အင်္ဂလိပ် လူမျိုးတို့သည် စည်းစံနစ်ကျနစွာ သတ်မှတ်၍ ဘောလုံးကစားလာကြရာ၊ ယခုအခါ ဘောလုံးကစားခြင်းသည် အင်္ဂလိပ်လူမျိုးတို့၏ ကစားနည်းကဲ့သို့ဖြစ်လာသည်။ ၁၈၉၆ ခုနှစ်တွင် ကျင်းပသော အိုလင်းပစ်အားကစား ပြိုင်ပွဲကြီးမှစ၍ အပြည်ပြည်ဆိုင်ရာ စည်းမျဉ်းဥပဒေတခု သတ်မှတ်၍ ဘောလုံး ကစားသည့် အလေ့ ပေါ်ပေါက် လာသည်။

မြန်မာ နိုင်ငံသို့မူ ဘောလုံးကစားခြင်း အလေ့သည် ဗြိတိသျှတို့ သိမ်းပိုက်အုပ်စိုးစမှ စတင် ရောက်ရှိလာသည်။ ၁၈၉၅ ခုနှစ်တွင် မြန်မာနိုင်ငံ၌ ဝါတာလော့ ဒိုင်းဆုလုပွဲ စတင်ပေါ်ပေါက်လာသည်။ ၁၉၀၀ ပြည့်နှစ်တွင် စီနီယာတန်းနှင့် ဂျူနီယာတန်း ဘောလုံးအမှတ်ပေး ပြိုင်ပွဲစတင် ကျင်းပသည်။ ထိုအချိန်အထိ မြန်မာ ဘောလုံး အသင်းဟူ၍ ကျကျနန မရှိသေးဘဲ၊ အင်္ဂလိပ်စစ်တပ်များမှ ဂေါ်ရာများသာ ကစားလျက်ရှိကြသည်ကို တွေ့ရသည်။ ၁၉၀၃ ခုနှစ်မှ

စတင်၍ မြန်မာဘောလုံးအသင်းများပေါ်ပေါက်လာသည်။ ၁၉၁၄ ခုနှစ်မှစ၍ အထက်မြန်မာပြည်နှင့် အောက်မြန်မာပြည် လက်ရွေးစင် အသင်းချင်း ယှဉ်ပြိုင် ကစားပွဲ ပေါ်လာရာ ၁၉၃၉ ခုနှစ်အထိဖြစ်သည်။ ၁၉၁၂ ခုနှစ်တွင် ခရိုင်လက်ရွေးစင် အသင်းချင်း ယှဉ်ပြိုင်ကစားပွဲ ပေါ်လာခဲ့၍ ၁၉၃၃ ခုနှစ်အထိ ကစားခဲ့ကြသည်။ ၁၉၄၉ ခုနှစ်တွင် ဝါတာလော့ဒိုင်းလုပွဲကို ဒန်းလော့ဒိုင်းလုပွဲဖြင့် အစားထိုးခဲ့၏။ ထို့မှ တဖန် ၁၉၅၇ ခုနှစ်တွင် ဗိုလ်ချုပ်အောင်ဆန်း ဒိုင်းလုပွဲ ဖြစ်လာကာ နှစ်စဉ် ကျင်းပလျက်ရှိသည်။ ၁၉၅၂ ခုနှစ်မှစ၍ တိုင်းနှင့် ပြည်နယ် ဘောလုံးပွဲများ ကျင်းပကာ၊ အထက်အောက် မြန်မာပြည်လူငယ်ဘောလုံးပွဲများ၊ နိုင်ငံခြားဘောလုံးအသင်းများနှင့်ယှဉ်ပြိုင်ကစားပွဲများလည်း နှစ်စဉ်ကျင်းပနိုင်ခဲ့သည်။အာရှအားကစားပြိုင်ပွဲနှင့် အရှေ့တောင်အာရှကျွန်းဆွယ် အားကစား ဘောလုံးပွဲများသို့လည်း မြန်မာဘောလုံးအသင်းများ သွားရောက်ယှဉ်ပြိုင်နိုင်ခဲ့ကြသည်။ ၁၉၆၁ ခုနှစ် ဧပြီလတွင် ယိုးဒယားနိုင်ငံ ဗန်ကောက်မြို့၌ ကျင်းပသော တတိယအကြိမ်မြောက် အာရှလူငယ်ဘောလုံးဗိုလ်လုပွဲ၌ မြန်မာလူငယ်အသင်းက တပွဲမျှ ရှုံးနိမ့်ခြင်းမရှိဘဲ၊ ရွှေဖလားဆုကြီးကို ဆွတ်ခူးရရှိခဲ့သည်။

၁၉၆၁ ခုနှစ် ဒီဇင်ဘာလအတွင်း မြန်မာနိုင်ငံ ရန်ကုန်မြို့တွင် ကျင်းပခဲ့သော ဒုတိယအကြိမ်မြောက် အရှေ့တောင်အာရှကျွန်းဆွယ် အားကစားပွဲတော်တွင် မြန်မာအသင်းက ဒုတိယငွေတံဆိပ်ဆု ဆွတ်ခူးခဲ့သည်။ ထို့ပြင် ၁၉၆၃ ခုနှစ် ဧပြီလတွင် မလ္လာယုနိုင်ငံ၌ ကျင်းပခဲ့သော ပဉ္စမအကြိမ်မြောက် အာရှလူငယ် ဘောလုံးဗိုလ်လုပွဲတွင်လည်း မြန်မာလူငယ်အသင်းသည် တပွဲမျှ မရှုံးဘဲ၊ ရွှေဖလားဆုကြီးကို ဆွတ်ခူးရရှိခဲ့ပြန်လေသည်။

ဆော့ကာဘောလုံး ကစားသည့်အခါ အဖွဲ့ ၂ ဖွဲ့ ယှဉ်ပြိုင်ကစားရသည်။ တဖွဲ့တွင် ၁၁ ယောက်စီ ယှဉ်ပြိုင်ကစားရ၍ ရှေ့တန်းတွင် လူ ၅ ယောက်၊ အလယ်တန်း လူ ၃ ယောက်၊ နောက်ဆုံးတန်းတွင် လူ ၂ ယောက်နှင့် ဂိုးစောင့်တယောက် ရှိသည်။ ထို့ကြောင့် မြန်မာတို့က နားလည်လွယ်အောင် ငါးယောက်တန်း၊ သုံးယောက်တန်း၊ နှစ်ယောက်တန်း၊ ဂိုးစောင့်ဟုခေါ်သည်။ ကစားသူများသည် ဘောလုံးကို ခြေဖြင့်သာကန်၍ ကစားရသည်။ ဂိုးစောင့်သူမှတပါး ကျန်ကစားသူများသည် ဘောလုံးကို လက်ဖြင့် မထိရချေ။ ဆော့ကာဘောလုံး ကစားရာ၌သုံးသော ဘောလုံးသည် လုံးဝိုင်း၍ လုံးပတ် ၂၇ လက်မမှ ၂၈ လက်မအထိ ရှိသည်။ အလေးချိန် ၁၃ အောင်စမှ ၁၅ အောင်စအထိ ရှိသည်။ ဘောလုံးသည် အတွင်းမှ လေသွင်းထားသော ကြက်ပေါင်စေး ဘောလုံးဖြစ်၍ အပြင်မှသားရေဖြင့် ချုပ်ထားသော ဘောလုံးစွပ်ထားသည်။ ဘောလုံးကစားကွင်း၏ အလျားမှာ အနည်းဆုံး ကိုက် ၁၀၀ နှင့် အများဆုံးကိုက် ၁၃၀ အတွင်းရှိ၍၊ အနံမှာ အနည်းဆုံးကိုက် ၅၀ နှင့် အများဆုံးကိုက် ၁၀၀ အတွင်း ရှိသည်။ ဘောလုံးကွင်း၏ နယ်နိမိတ်များကို မျဉ်းကြောင်းတို့ဖြင့် သတ်မှတ်ထားလေသည်။

ဂိုးတိုင်များသည် တည့်မတ်နေရ၍ ဂိုးတိုင်နှစ်ဘိုင်မှ ဘောလုံးကွင်း၏ ထောင့်နှစ်ခုသို့ အကွာအဝေးမှာ တဖက်နှင့် တဖက် တူညီရလေသည်။ တိုင်နှစ်တိုင် ကြားရှိ ဂိုးပေါက်သည် ၈ ကိုက်ကျယ်၍ အမြင့် ၈ ပေရှိလေသည်။ဂိုးတိုင်နှစ်ခု၏ဘေးဖက် ၆ ကိုက်စီကွာဝေးသည့် နေရာများမှ ကွင်းထဲသို့ ထောင့်မှန်မျဉ်းကြောင်းကို ၆ ကိုက်မျှဝေးအောင်ဆွဲပြီးလျှင် ထောင့်လေးခုကို ဆက်ထားသော မျဉ်းကြောင်းအတွင်းရှိ ဧရိယာသည် ဂိုးဧရိယာ၊သို့မဟုတ် ဂိုးသမား၏နယ်ဖြစ်သည်။ပင်နယ်တီ ဧရိယာဆိုသည်မှာ ဂိုးတိုင် နှစ်ခု၏ ဘေးဖက် ၁၈ ကိုက်အကွာ ဂိုးမျဉ်းကြောင်းပေါ်မှ နေ၍ ကွင်းထဲသို့ ထောင့်မှန်မျဉ်းကြောင်းများကို ၁၈ ကိုက်မျှ အရှည်ရှိအောင် ဆွဲပြီးလျှင် ထိုနေရာလေးခုကို ဆက်ထားသော မျဉ်းကြောင်းများအတွင်းရှိ ဧရိယာဖြစ်လေသည်။ ပင်နယ်တီဘောလုံး ထားရမည့် နေရာမှာ ဂိုးပေါက်၏ အလည်တည့်တည့်မှ ကွင်းအတွင်းဖက်သို့ ၁၂ ကိုက်ကွာဝေးသည်။

ဘောလုံးစတင် မကစားမီ မည်သည့် အသင်းက ဘောလုံးကွင်း၏ မည်သည့်ဖက်မှ ကစားရမည်၊ သို့မဟုတ် မည်သည့် အသင်းက ဘောလုံးစတင်ပေး၍ ကစားရမည် စသည်တို့ကို ခရာကိုင် ဒိုင်လူကြီးက မျှောက်ပန်းလှန်ခြင်းဖြင့် ဆုံးဖြတ်ပေးသည်။ မျှောက်ပန်းလှန်ရာတွင် နိုင်သည့် အသင်းက ကြိုက်သည့်ဖက်မှ စတင်ကစားနိုင်သည်။ မျှောက်ပန်းလှန်ရာတွင် ရှုံးသည့်အသင်းက ဘောလုံးစတင်ပေး၍ ကစားရသည်။ ဘောလုံးကစားသူများ၏ ရည်ရွယ်ချက်မှာ ဘောလုံးကို မိမိတို့ဖက်သားအချင်းချင်း အပေးအယူ ပြုလုပ်ကာ တဖက်ရှိ ဂိုးအနီးသို့ အရောက်ယူဆောင်ပြီးနောက် ဂိုးပေါက်ထဲသို့ ဝင်အောင် ကန်သွင်းရန်ဖြစ်လေသည်။ဘောလုံးကစားရာတွင် ဂိုးအများဆုံး ရသည့်ဖက်မှ အနိုင်ရလေသည်။

ဘောလုံးပွဲ စတိုင်း ဘောလုံးကို စတင်ကန်ရသူမှာ ငါးယောက်တန်းအလယ်လူ ဖြစ်လေသည်။ ဘောလုံး ကစားနေစဉ် တဖက်မှ ကန်လိုက်သော ဘောလုံးသည် တဖက်ရှိ ဂိုးပေါက်ထဲသို့ စည်းကမ်းနှင့် လျော်စွာ ဝင်ရောက်သွားလျှင် ဂိုးရလေသည်။ အကယ်၍ တဖက်မှ သွင်းလိုက်သော ဘောလုံးသည် ဂိုးပေါက်ထဲသို့ မဝင်ဘဲ ဂိုးတိုင်၊ သို့မဟုတ် ဂိုးတိုင်အပေါ်တန်းကို ထိမှန်၍ ကွင်းထဲသို့ ပြန်ကျလာလျှင် ကစားမြဲ ကစားသွားရ၏။ ဘောလုံးသည် ကွင်းနယ်နိမိတ်ဖြစ်သော ဘေးနှစ်ဖက် မျဉ်းကြောင်းအပြင်ဖက်သို့ ရောက်ရှိသွားလျှင် ဒိုင်လူကြီးက ခရာမှုတ်၍ အချက်ပေးရသည်။ ထိုအခါ ထိုသို့ဘောလုံးအပြင်ဖက်သို့ ထွက်သွားသည့် အ

တွက် တာဝန်မရှိသည့်ဖက်မှ ကစားသူ တယောက်သည် ဘောလုံးထွက်သွားသည် နေရာမျဉ်းကြောင်း နောက်နားတွင် တည့်မတ်စွာရပ်၍ ဘောလုံးကို လက်နှစ်ဖက်နှင့် ကိုင်ကာ ခေါင်းပေါ်သို့ မြှောက်ပြီးလျှင် မိမိဖက်သားရှိရာ ကွင်းထဲသို့ ပစ်ပေးရသည်။ ထိုသို့ ပစ်ပေးသည့်အခါ ခြေထောက်နှစ်ဖက်စလုံးသည် မြေကြီးမှ ကြွမသွားစေရချေ။ ဤသို့ ပစ်လိုက်သောဘောလုံးသည် ကွင်းထဲရှိ ကစားသူတယောက်နှင့်ထိပြီးမှသာ ဘောလုံးပစ်သူသည် ဘောလုံးကို ဆက်လက်ကန်နိုင်ခွင့်ရှိ၏။ ဘောလုံး ကစားသူ တယောက်သည် ဘောလုံးကစားနေစဉ် တဖက်မှ ကစားသူများ၏ နောက်ဖက်ဂိုးမျဉ်းကြောင်းအနီးသို့ ရောက်နေလျှင် စည်းကျော်သည် ဟု ခေါ်သည်။ ထိုသို့ စည်းကျော်သွားလျှင် ဒဏ်အပေးခံရလေသည်။

တဖက်မှ ကန်လိုက်သော ဘောလုံးသည် အခြား တဖက်ရှိ ဂိုးမျဉ်းကြောင်းအပြင်သို့ ရောက်သွားလျှင် ဘောလုံးကိုကောက်ယူလာကာ ဘောလုံးထွက်သွားသည့်ဖက် ဂိုးတိုင်အနီးကွင်းထဲရှိ ဂိုးမျဉ်းကြောင်းထောင့်တွင် ဘောလုံးတည်ကာ ဘောလုံးထွက်သွားသည့် ဖက်မှ ဂိုးစောင့်သူကဖြစ်စေ၊ နှစ်ယောက်တန်း လူတဦးဦးက ဖြစ်စေ တဖက်သို့ ကန်ထုတ်ရသည်။ ထိုသို့ ကန်ရသည်ကို ဂိုးကန်ဟု ခေါ်၏။ အကယ်၍ ဘောလုံးသည် တဖက်မှ ကစားသူကြောင့် မဟုတ်ဘဲ၊ မိမိတို့ဖက်မှ ကစားသူတယောက်ယောက်ကြောင့် မိမိတို့၏ ဂိုးမျဉ်းကြောင်းအပြင်သို့ ရောက်ရှိသွားခြင်း ဖြစ်ပါမူ ထောင့်ကန်အပြစ်အပေးခံရသည်။ ထိုအခါ တဖက်မှကစားသူ တယောက်သည် ဘောလုံးအပြင်သို့ ထွက်သည့် နေရာနှင့်အနီးဆုံးဖြစ်သော အလံထောင်ထားသည့် ဘောကွင်းထောင့် အနီးမှနေ၍ ဘောလုံးကို ဂိုးဆီသို့ ကန်ပို့ရသည်။ ထိုသို့ထောင့်မှ ကန်ပို့ခြင်းကို ထောင့်ကန်ဟု ခေါ်သည်။

ဂိုးသမားသည် ပင်နယ်တီ ဧရိယာအတွင်းတွင် လက်များကို အသုံးပြုနိုင်ခွင့် ရှိသည်။ သို့ရာတွင် ဘောလုံးကို လက်တွင်ကိုင်၍ သယ်ယူသွားခြင်း မပြုနိုင်ပေ။ ဂိုးသမားသည် ဘောလုံးကို ယှဉ်ပြိုင်ကစားသူထံမှလုယူနေစဉ် ဂိုးသမား၏ လက်ထဲသို့ မရောက်ခင်တွင်၎င်း၊ ဂိုးသမားသည် ဂိုးဧရိယာအပြင်ဖက်သို့ ရောက်ရှိနေစဉ်တွင်၎င်း၊ ကစားသူများက ဘောလုံးကို ဝင်ရောက်တိုက်ခိုက် ကန်ကြောက်နိုင်လေသည်။ ဂိုးသမားက မြဲမြံစွာ ဖမ်းမိထားပြီးလျှင်ကား မည်သူမျှ ဝင်မလုနိုင်ပေ။ ဂိုးသမားမဟုတ်သော အခြား ပါဝင်ကစားသူ တယောက်ယောက်သည် ဘောလုံးကို လက်ဖြင့် ထိကိုင်ပုတ်ခတ်မိလျှင် ထိသည့်နေရာမှ ဘောလုံးကို ထိသူ၏ဖက်သို့ အခြားတဖက်မှ ကန်ပို့ခွင့်ရလေသည်။ ကစားသူ တယောက်သည် မိမိနှင့် ယှဉ်ပြိုင်ကစားသူ တယောက်အား လက်နှင့်ဆွဲခြင်း၊ တွန်းခြင်းစသည်တို့ကို မပြုလုပ်ရ။ ထိုအပြင် နောက်မှနေ၍ အတင်းဝင်ရောက် တိုက်ခိုက်ခြင်း မပြုရ။ ဖော်ပြခဲ့ပြီးသော အပြစ်များကို ကျူးလွန်လျှင် ဖရီးကစ်ခေါ် ဘောလုံးကို အပြစ်ကျူးလွန်သည့် နေရာမှ နေ၍ မိမိဖက်သို့ အသားလွတ် ကန်ပို့ခြင်း ခံရလေသည်။ ယင်းအပြစ်များကို ပင်နယ်တီဧရိယာအတွင်း ကျူးလွန်ခဲ့လျှင် ပင်နယ်တီပေးခြင်း ခံရ၏။ ပင်နယ်တီရသောအခါ ရသည့် ဖက်မှ ကစားသူ တဦးဦးသည် ပင်နယ်တီဘောလုံး ထားသည့် ၁၂ ကိုက်ကွာ ပင်နယ်တီအမှတ်မှနေ၍ ပင်နယ်တီအပေးခံရသည့်ဖက်၏ ဂိုးထဲသို့ ဘောလုံးကို ကန်သွင်းရ၏။ ထိုသို့ ကန်သွင်းစဉ် ဘောလုံးကို ဂိုးသမားမှ တပါး အခြားမည်သူမျှ တားဆီးနိုင်ခွင့် မရှိချေ။

အင်္ဂလန်ပြည်တွင် ဘောလုံးတခါကစားလျှင် မိနစ် ၉၀ ကြာသည်။ ယခင်က မြန်မာနိုင်ငံတွင် တနာရီသာ ကစားသော်လည်း ယခု အခါတွင် တကမ္ဘာလုံးတွင် ကစားနေသကဲ့သို့ မိနစ် ၉၀ ပင် ကစားသည်။ ကစား၍ ၄၅ မိနစ် ရှိလျှင် ၁၀ မိနစ်မျှ အနားပေးသည်။ အနားပေးပြီးနောက် ဂိုးနေရာချင်း ပြောင်းလဲ၍ နောက်ထပ် ၄၅ မိနစ် ဆက်လက်ကစားကြလေသည်။

**ရပ်ဗီဘောလုံးကစားခြင်း။** ။ရပ်ဗီ ဘောလုံးကစားနည်းကို ၁၈၄၁ ခုနှစ်တွင် ရပ်ဗီမြို့၌ စတင်တီထွင် ကစားရာမှ ထိုအမည်ရလာခြင်းဖြစ်သည်။ ၁၈၂၃ ခုနှစ်တွင် အင်္ဂလန်ပြည် ရပ်ဗီမြို့၌ ဘောလုံးကန်ကစား ပြိုင်ပွဲ ကျင်းပစဉ် ဘောလုံးသမားတဦးသည် ဘောလုံးကို ခြေဖြင့် ကန်ရုံဖြင့် အားမရ၍လက်ဖြင့်ပါ ထိကိုင်ပုတ်ခတ် ကစားခဲ့သည်။ ဘောလုံးကန်ကစားရာ၌ ဘောလုံးကို လက်ဖြင့်ကိုင်ခြင်းသည် စည်းမျဉ်းမကျသော်လည်း ကစား၍ ကောင်းကြောင်းကို ထိုအခါမှစ၍ သိသဖြင့် ယင်းကစားနည်း ပေါ်ပေါက် လာခဲ့သည်။ ရပ်ဗီ ဘောလုံးကစားသည့်အခါ ဘောလုံးကို ခြေဖြင့် ကန်ရုံသာမဟုတ် လက်ဖြင့်လည်း ပုတ်ခတ် သယ်ယူကစားနိုင်သည်။ ဆော့ကာ ဘောလုံးကစားသကဲ့သို့ပင် အဖွဲ့ ၂ ဖွဲ့ ယှဉ်ပြိုင်ကစားကြရသည်။ သို့ရာတွင် တဖွဲ့လျှင် ရှေ့တန်း ၈ ယောက်၊ အလယ်တန်း ၂ ယောက်၊ နောက်ဆုံးတန်း ၂ ယောက်နှင့် ဂိုးစောင့်တယောက် ပေါင်း ၁၅ ယောက်စီထက်မများ ကစားလေ့ ရှိသည်။

ရပ်ဗီ ဘောလုံးကစားရာ၌ မိနစ် ၈၀ ကြာသည်။ ကစား၍ မိနစ် ၄၀ ကြာလျှင် ၅ မိနစ်မျှ အနားပေးရသည်။ အနားပေးပြီးနောက် ဂိုးနေရာချင်းလဲ၍ နောက်ထပ် မိနစ် ၄၀ ထပ် ကစားရသည်။

ရပ်ဗီဘောလုံး ကစားရာ၌ ဘဲဥပုံ ဘောလုံးကိုသုံးသည်။ ဘောလုံးသည် အလျား ၁၁ လက်မမှ ၁၁ ၃/၄ လက်မအထိ ရှည်၍ အဝန်း ၂၄ လက်မမှ ၂၅ ၁/၂ လက်မ အထိ ရှိသည်။ အလေးချိန်အားဖြင့် ၁၃ ၁/၂ မှ ၁၅ အောင်စ အထိ ရှိသည်။

ရပ်ဗီ ဘောလုံး ကစားကွင်းသည် အလျားကိုက် ၁၁၀၊ အနံ ၇၅ ကိုက်ရှိသည်။ ဂိုးပေါက်များ၏ နောက်တွင် ဘောလုံးသေစည်းနှင့် သတ်မှတ်ထားသော မြေကွက်ငယ် တခုစီ ရှိသည်။ ဂိုးပေါက် အကျယ်မှာ ၁၈½ ပေရှိ၍ ဖြတ်တင်ထားသော တန်းအမြင့်မှာ ၁၀ ပေမြင့်သည်။

ကစားသူများသည် ဘောလုံးကို ဂိုးသွင်းခြင်းဖြင့်၎င်း၊ တဖက်ရှိ ဂိုးစည်းအပြင်ဖက်သို့ ဘောလုံးကို လက်နှင့် ကိုင်၍ ထိစေခြင်းဖြင့်၎င်း ထရိုင်းခေါ် အမှတ်ရအောင် လုပ်ရသည့် ဘောလုံးကို ဂိုးတိုင် ၂ တိုင်ကြားဖြတ်တင်ထားသော တန်းပေါ်မှ ကျော်၍ ဝင်အောင် ကန်နိုင်လျှင် ဂိုးတဂိုးရသည်။ ဘောလုံးသည် ဂိုးတိုင်၊ ဂိုးတန်းတို့ကို ထိသွားသည်ဖြစ်စေ၊ ကျော်ထွက်ပြီးမှ ပြန်ဝင်လာသည်ဖြစ်စေ တန်းကျော်လျှင် ဂိုးရသည်။ ရပ်ဗီကစားရာ၌ အနိုင်အရှုံးကို အမှတ်ဖြင့် ဆုံးဖြတ်သည်။ တဖက်ဂိုးစည်းအပြင်ဖက်သို့ ဘောလုံးကို ကိုင်၍ လက်နှင့် ထိစေနိုင်က ၃ မှတ်ရ၍ သာမန်ဂိုးတဂိုးအတွက်လည်း ၃ မှတ်ရသည်။ အထူးဂိုးဖြစ်လျှင် ၄ မှတ်ပေးသည်။

ရပ်ဗီ ဘောလုံးကစားခြင်းသည် ကစားရာ၌ ကြမ်းတမ်းနိုင်၍၊ မြန်မာတို့ စိတ်ဝင်စားခြင်း မရှိသဖြင့် မြန်မာနိုင်ငံ၌ ခေတ်မစားချေ။ အင်္ဂလန်နှင့် အမေရိကန် နိုင်ငံတို့တွင် အထူး ခေတ်စားသော ကစားနည်းမျိုး ဖြစ်သည်။

**ဘိုမယ်၊ရှင်။** ။"မင်းဆက် ငါးသွယ်၊ရှင်ဘိုမယ်၊နန်းလယ်တင်သည်သာ"ဟု ကဝိလက္ခဏာသတ်ပုံတွင် ရည်ညွှန်းစပ်ဆိုခံရလောက်အောင် မင်း ၅ ဆက်တိုင်တိုင် မိဖုရားတင်မြှောက်ခံရသူ ရှင်ဘိုမယ်ကား ပင်းယတစီးရှင် သီဟသူ၏မြစ်၊ မင်းကြီးစွာစော်ကဲ၏ တူဖြစ်သော သိခ်သူငယ်နှင့် မင်းကြီးစွာစော်ကဲ၏ သမီးတော် စောစလကာဒေဝီတို့ စုံဖက်ရာမှ မြင်သော သမီးတော်ဖြစ်သည်။ ဘိုမယ်ကား ရုပ်အဆင်း လှသည်။ မာနခက်ထန်သည်။ရက်စက်လေသည်။

ဘိုမယ် ၈ နှစ်အရွယ်တွင် အင်းဝပထမမင်းခေါင် (၇၆၇–၇၇၃) က မိဖုရားမြှောက်၍ တောင်ညာတင်သည်။ ၇၆၉ ခုနှစ်တွင် မွန်တို့ ပြည်သို့ ဘုရင်မင်းခေါင် စစ်ချီရာတွင် မိဖုရားရှင်ဘိုမယ်နှင့် မိဖုရားရှင်မိနောက်တို့လည်း ပါသွားသည်။ စားရေရိက္ခာ မလုံလောက်၍ မြန်မာတပ်များ တပ်ဆုတ်သည်ကို မွန်တို့အပြင်းအထန် လိုက်တိုက်ရာ ရှင်မိနောက်ကို ဆင်နှင့်တကွ မွန်မင်း ရာဇာဓိရာဇ်ရလိုက်သည်။ ရှင်ဘိုမယ်မှာမူ ဆင်ထက်မှ လျောကျ၍ ချောင်းနားတွင် ကျန်ခဲ့သည်ကို ဆင်လေးသဖြင့် နောက်မှ ဖြည်းဖြည်းလိုက်လာသူ ဆင်ကဲတွေ့၍ ဆောင်ယူခဲ့ရသည်။ ရှင်ဘိုမယ်နှင့် ဆင်ကဲကို ဘုရင်မင်းခေါင် ယုံကြည်တော်မမူသဖြင့် ဆင်ကဲအား ကွပ်သည်။ နောက်မှ မှားကြောင်းသိသည်။ ဆင်ကဲနှင့်ဘိုမယ် အဖြစ်အပျက် ဇာတ်လမ်းကို အလွမ်းအသောကလေးများဖြည့်၍ ဇာတ်ကပြကြသဖြင့် လူသိများလေသည်။ ဦးကုလားမဟာရာဇဝင်၌ကား ဘိုမယ်ဟုမဆို၊ မောင်းမငယ် တဦးဟုသာ ဆိုသည်။ ဘုရင်မင်းခေါင် နတ်ရွာစံသောအခါ မိဖုရားရှင်မိနောက်တွင် မြင်သောသားတော် ဆင်ဖြူရှင်သီဟသူ (၇၇၃–၇၈၇) နန်းတက်၍ ရှင်ဘိုမယ်အားပင် ဆက်လက် မိဖုရားမြှောက်သည်။ ဆင်ဖြူရှင် သီဟသူတွင် မိဖုရားကြီး စောမင်းလှ ရှိသော်လည်း သီဟသူသည် ရှင်ဘိုမယ်အား သာလွန်စွာ မြတ်နိုးယုယတော်မူသဖြင့် မိဖုရားစောမင်းလှသည် နန်းတွင်းမှဆင်း၍၊ ရွှေစေတီအနောက်ဖက်၌ တန်ဆောင်းကြီး ဆောက်နေလေသည်။ ထိုကြောင့် မိဖုရား စောမင်းလှကို ရာဇဝင်များ၌ တန်ဆောင်းရှင် စောမင်းလှဟု တွင်ခြင်း ဖြစ်သည်။ သို့ရာတွင် ၇၈၄ ခုနှစ်တွင် မွန်မင်းသမီးရှင်စောပု(ရှင်စောပု — ရှု။)ရောက်လာသောအခါ၊ သီဟသူသည် ရှင်ဘိုမယ်အား အမေ့အလျော့ထား၍ ရှင်စောပုအားသာ ယုယတော်မူလှသဖြင့် ရှင်ဘိုမယ်သည် စိတ်နာကာ အုန်းဘောင်လယ်သံဘွားထံသို့ စေသည်။ သီဟသူသည် အောင်ပင်လယ် အရပ်၌ ကိုယ်လုပ်မောင်းမနှင့် ပျော်ပါးနေခိုက် လုပ်ကြံပြီးလျှင် အင်းဝရွှေနန်းကို တက်၍ မင်းပြုပါဟု မှာသည့်အတိုင်း အုန်းဘောင်လယ်သံဘွား အလုံးအရင်းနှင့်ချီလာကာ ဆင်နှင့် တိုက်သည်။ သီဟသူလည်း ရဲခက်စံလှဟူသော ဆင်ကိုစီး၍ ခံတော်မူသည်တွင် မခံနိုင်ချေ၍၊ ဆင်တော် ညွှံသို့ကျလျှင် ကိုယ်တော်ကိုလည်း မြှား ၃ ချက် သင့်လေသည်။ ဆင်ဖြူရှင် ကံကုန်လျှင် အမှုးအမတ်တို့စည်းရုံး၍ ရှမ်းတို့ကိုတိုက်ရာ၊ ရှမ်းတို့ပြေးရသဖြင့် အုန်းဘောင်လယ်သံဘွား အင်းဝနန်းကို မရချေ။

၇၈၇ ခုနှစ် တော်သလင်းလတွင် ခမည်းတော်၏အရိုက်အရာကို တန်ဆောင်းရှင် စောမင်းလှသားတော် မင်းလှငယ် ဆက်ခံသည်တွင် ရှင်ဘိုမယ်အား ထုံးစံအတိုင်း ဆက်လက် မိဖုရားမြှောက်သည်။ နန်းတက်စဉ်က မင်းလှငယ်သည် အသက် ၉ နှစ်မျှသာရှိသေးသည်။ ရှင်ဘိုမယ်သည် ရှေးက ရည်ငံရင်းရှိသော ကလေးကျေးတောင်ညိုအား အလျင်ချီလာရန် အခေါ် လွှတ်သဖြင့် ချီလာသော် မင်းလှငယ်အား အဆိပ်ကျွေးသတ်ကာ ကလေးကျေးတောင်ညိုအား နန်းတင်သည်။ ရှင်ဘိုမယ် မိဖုရား ဖြစ်ပြန်သည်။

၇၈၇ ခုနှစ် နတ်တော်လတွင် ကလေးကျေး တောင်ညို နန်းတက်စ၌ပင် မိုးညှင်းစားသတိုး အင်းဝသို့ချီလာသဖြင့် ကလေးကျေးတောင်ညိုမင်းသည် ဘယဂါမဏိကို ရှေ့တည်စေပြီးလျှင် အလုံးအရင်း ဆင်မြင်းနှင့်တကွ မိဖုရားဘိုမယ်ကို ယူ၍ ညဥ့်တွင် ရခိုင်ဖက်သို့ ပြေးတော်မူသည်။ ရခိုင်သို့ မရောက်မီ ပဲလွန်တောင်သို့ ရောက်လျှင် ရုတ်တရက် နာမကျန်းဖြစ်၍ လွန်သည်။ ဘိုမယ်သည် ဟံသာဝတီသို့ ပြေး

ဝင်ရန် အကြံပြုသော်လည်း၊ ရာဇာဘိသေကခံ မိဖုရားကို နောက်ဆက်၍ မင်းပြုသော မင်းတို့သည် မရှုတ်မချဘူးလေ၊ ဤတွင်ပင်ပြည်ထဲရေးကို မြှော်တင်း၍ နေတော်မူသင့်သည်ဟု လျှောက်သဖြင့် မန်းစက်တော်ရာတွင် တပ်တည်၍ အလုံးအရင်းနှင့် နေသည်။

၇၇၇ ခုနှစ်တွင် မိုးညှင်းမင်းတရား အင်းဝရွှေနန်းကို သိမ်းပိုက်ပြီးနောက် မန်းစက်တော်ရာတွင် အလုံးအရင်းနှင့် နေသော မိဖုရား ဘိုမယ်ကို ဝေါ၊ ရွှေလှေ စသည်တို့ဖြင့် ဆောင်ယူ၍၊ ဘယဂါမဏိကို သံခြေကျဉ်းနှင့် ဆောင်ယူခဲ့သည်။ မင်းတရားကြီးက ရှင်ဘိုမယ်ရောက်လျှင် ကိုယ်တော် မကျွန်းသည်ကို ဧမ်းသပ်၍ မေးတော်မူသည်ကို ရှင်ဘိုမယ်က ကျွန်ုပ်နေ၏ သည်ဟု ဆိုသည်။ (မိုးညှင်းမင်းတရား — ရှု။)မိုးညှင်းမင်းတရားကား အင်းဝ ပထမမင်းခေါင်မင်းသားဘဝက အလုပ်အကျွေးအဖြစ် လိုက်နေသော မင်းဥဒိန်ဖြစ်သောကြောင့် ရှင်ဘိုမယ် ဤသို့ဆိုခြင်းဖြစ်သည်။ ရှင်ဘိုမယ်အား အင်းဝနန်းတွင်းတွင် သာယာစွာ အိမ်ဆောက်၍ နေတော်မူစေသည်။

ယင်းသို့လျှင် အင်းပထမမင်းခေါင်မှ မိုးညှင်းမင်းတရား လက်ထက်တိုင်အောင် မင်း ၅ ဆက်လုံး မိဖုရားတင်မြှောက်ခံရသော ရှင်ဘိုမယ်သည် မိုးညှင်းမင်း လက်ထက်အင်းဝတွင် ကံကုန်သည်။ မိဖုရား ဘိုမယ်တွင်သားသမီး ထွန်းကားသည်ဟု သမိုင်းများ၌ မပါရှိချေ။

**ဘိုကလေးမြို့။** ။ဘိုကလေးမြို့သည် အောက်မြန်မာနိုင်ငံ ဧရာဝတီတိုင်း၊ ဖျာပုံခရိုင်အတွင်းရှိ ဘိုကလေးမြို့နယ်၏ ရုံးစိုက်မြို့ ဖြစ်သည်။ ခုန်ညင်းတန်းမြစ်နှင့် ကျိုက်ပိမြစ်တို့ ပေါင်းဆုံရာ အရပ်၌ ခုန်ညင်းတန်းမြစ်၏ မြစ်ကွေ့ လက်ဝဲဖက်ကမ်းပေါ်တွင် မြို့တည်ထားသည်။ မြစ်အကွေ့ပေါ်၌ တည်ထားသောမြို့ဖြစ်၍၊ မြစ်ကို နှစ်ဖက်မျက်နှာစာပြုထားသည်။ ပင်လယ်ကမ်းရိုးတန်း မြို့နယ်အတွင်း၌ ရှိသော ဘိုကလေးမြို့သည် ပင်လယ်မှ ၄၃ မိုင်ခန့် ကွာဝေးသည်။ ဖျာပုံခရိုင် အတွင်း လူဦးရေအများဆုံးနှင့် အရောင်းအဝယ်စည်ကားဆုံးမြို့ ဖြစ်လေသည်။

ဘိုကလေးဟုခေါ်တွင်ခဲ့ခြင်းမှာ လွန်ခဲ့သော နှစ်ပေါင်း ၆၀—၇၀ ခန့်က ယခု ဘိုကလေးမြို့၏ တဖက်ကမ်းတွင် သာပေါင်းရွာကြီးဟူ၍ ရှိသည်။ ထိုစဉ်က ဘိုကလေးမြို့ဖက်တွင် ဆင်နေကျွားအောင်း မြက်တိုကွင်းနှင့် ကနစိုတောကြီးမျှသာဖြစ်နေသည်။ အင်္ဂလိပ်ကပြား အမဲလိုက် မုဆိုးတဦးသည် ယခုမြို့တည်ထားသည့်နေရာနှင့် မနီးမဝေးနတ်ချောင်းခေါ်သည့် ချောင်းဝတွင် ဗိုလ်တဲသဏ္ဍာန် အိမ်ကလေးဆောက်၍နေသည်။ အနီးအနား နတ်ချောင်း ကမ်းစပ်တွင်လည်းတဲလေးငါးလုံးရှိသည်။ထိုတဲအိမ်ကလေးများနှင့် အမဲလိုက်ကပြားတို့ နေထိုင်ရာ အစုကိုအမဲလိုက် အင်္ဂလိပ်ကပြားကို အစွဲပြုပြီးလျှင် ဗိုလ်ကလေးစုဟုခေါ်သည်။ အရပ်ရပ် အနယ်နယ်မှ သစ်ခုတ်ထင်းခုတ်လာကြသော လှေသမ္ဗန်တို့သည် သေနတ်လက်နက်ရှိရာ ဗိုလ်ကလေးအစု၌ ရပ်နားခိုလှုံကြသည်။ ယင်းသို့ဖြင့် ထိုအိမ်စုကို လူသိများ၍ လာရောက်နေထိုင်ကြသူများလည်း တဖြည်းဖြည်း များပြားလာသဖြင့် ရွာဖြစ်လာသောကြောင့် ဗိုလ်ကလေးရွာ၊ ထိုနောက် မြို့ဖြစ်လာကာ၊ ဗိုလ်ကလေးမြို့ (ဘိုကလေးမြို့) ဟုတွင်လာခဲ့သည်ဟု ဆိုကြလေသည်။

ဘိုကလေးမြို့နယ်သည် ဖျာပုံခရိုင်အတွင်း အနောက်တောင်ဖက် ကျသောမြို့နယ်ဖြစ်သည်။ဧရာဝတီ မြစ်ဝကျွန်းပေါ်ဒေသဖြစ်၍ မြေနိမ့် မြေပြန့်များ ဖြစ်ပြီးလျှင် မြစ်ချောင်းပေါများသည်။ ခုန်ညင်းတန်းမြစ်နှင့် ကျိုက်ပိမြစ်တို့ပေါင်းဆုံပြီးနောက်၊ တောင်ဖက်သို့ ဆက်လက်စီးဆင်းရာ ထိုအခါတွင် ဘိုကလေးမြစ်ဟု ခေါ်တွင်၍ ဗင်္ဂလားအော်အတွင်းသို့ စီးဝင်သည်။ ထိုမြစ်သည်ပင်လယ်ပိုင်းသို့ စီးဆင်းရာတွင် အောက်မြန်မာနိုင်ငံ ရေငန်ပိုင်း၌ ထင်ရှားလှသော ရေငန်ပိုင် ဦးရှင်ကြီးနတ်နှင့် စပ်လျဉ်းသည့် ကျွန်းညိုကြီး၊ မိန်းမလှကျွန်း၊ ဆတ်ကျွန်းစသော စိမ်းစို သာယာသော ကျွန်းများကို ဖြတ်သန်းသွားလေသည်။ ဘိုကလေးမြို့၏ အနောက်ဖက်တွင် နတ်ချောင်းခေါ်သော ချောင်းကြီးသည် ခုန်ညင်းတန်းမြစ်အတွင်းသို့ စီးဝင်လေသည်။

ဘိုကလေးမြို့နယ်၏ထက်ဝက် သာသာမျှသောဒေသများသည် ထင်းတောများ ဖြစ်ကြသည်။ မြေနုကျွန်းပေါ် ဒေသဖြစ်၍၊ ကနစို၊ ကြွတ်နံ၊ ကန့်ပလာ၊ မြင်းက၊ ဗျူး၊ လမုစသော ထင်းတောများ ပေါက်ရောက်သည်။ ထို့ကြောင့် ဘိုကလေးမြို့နယ်၏ အဓိက ထွက်ကုန် တမျိုးသည် ထင်းဖြစ်သည်။ အစိုးရကြိုးဝိုင်း ထင်းတောများဖြစ်၍၊ ထင်းတောများ မပြုန်းရလေအောင်၊ ထင်းခုတ်ယူနိုင်ရန် ကြိုးဝိုင်းထင်းတောများကို အလှည့်ကျ ဖွင့်ပေးရသည်။ ဧရာဝတီမြစ်ဝကျွန်းပေါ်တခုလုံး၌ သုံးနေကြသော ထင်းများသည် များသောအားဖြင့် ဘိုကလေးမြို့နယ်ထွက် ဖြစ်ကြသည်။ ထို့ပြင် မီးသွေးလည်း ဖုတ်၍ တင်ပို့ရောင်းချသဖြင့် ရန်ကုန်တွင် ဘိုကလေးမီးသွေးကို လူသိများသည်။ ကနစို ဒုသစ်ကြီးများကို အိမ်သုံး၊ကျောင်းဆောက်သစ်အဖြစ် သုံးနိုင်ရန် သစ်စက် ၁၅ စက်ဖြင့် ခွဲစိတ်တင်ပို့ ရောင်းချလေသည်။

အခြား အရေးပါသော ထွက်ကုန်မှာ ဆန်စပါးဖြစ်သည်။ မြို့၏ ဆင်ခြေဖုံးနှင့် မြို့နယ်အတွင်း ဆန်စက်များ ၂၀ ကျော် ၃ ခန့်ရှိသည်။ ပင်လယ်ဆိပ်ကမ်းရွာကြီးများ ဖြစ်ကြသော ဧရာရွာ၊ အမာရွာ၊ ကဒုံကနိရွာကြီးများမှ ငပိ၊ ငခြောက်၊ ငန်ပြာရည် စသော ပင်လယ်ထွက်ကုန်များကို အကြီး အကျယ် လုပ်ကိုင်ကြသည်။ ကိုင်းသောင်၊ သောင်ကဘုံး စ

သော ပင်လယ်ကမ်းရိုးတန်းရှိ သဲသောင်ကြီးများမှ လိပ်ဥများကိုလည်း မြောက်မြားစွာ ရရှိလေသည်။

ဘိုကလေးမြို့နယ်၏ အကျယ် အဝန်းသည် ၁,၀ဂဂ စတုရန်းမိုင်ဖြစ်၍ ဖျာပုံခရိုင်အတွင်း အကျယ်ဝန်းဆုံးသော မြို့နယ်ဖြစ်သည်။ သူကြီးတပိုင်ကျေးရွာပေါင်း ၇၆ ရွာပါဝင်၍၊ မြို့နယ်တခုလုံး၏ လူဦးရေသည် ၁၃၁,၁၇၅ ယောက်(၁၉၅၆ ခုနှစ်ခန့်မှန်းခြေ သန်ကောင်စာရင်း)ဖြစ်သည်။ မြို့ပေါ်ရှိလူဦးရေမှာ ၂၃,၂၁၁ ယောက် (၁၉၅၃ ခုနှစ် သန်ကောင်စာရင်း)ဖြစ်သည်။ မြို့ပေါ် နှင့် မြို့နယ်အတွင်း နေထိုင်ကြသော လူမျိုးများအနက် ဗုဒ္ဓအယူဝါဒီမြန်မာလူမျိုးများ၏ ဦးရေသည် အများဆုံးဖြစ်၍၊ ကရင်၊ တရုပ်နှင့် အိန္ဒိယလူမျိုးများလည်း ရှိလေသည်။

မြို့နယ်အတွင်း ပူအိုက် စိုစွတ်သော ရာသီဉတုရှိ၍၊ မိုးရာသီအခါ မိုးများလေသည်။

မြစ်ချောင်းပေါများသော အရပ်ဒေသဖြစ်၍ မြို့နယ် အတွင်း၌၎င်း၊ မြို့နယ်မှ အပသို့၎င်း ရေလမ်းခရီးဖြင့် သွားလာကူးသန်းခြင်းကို ပြုလုပ် ကြသည်။ ရန်ကုန်-မော်လမြိုင်ကျွန်း (မြောင်းမြခရိုင်) သွား ပရသဖအဖွဲ့ပိုင် သင်္ဘောများသည် ဘိုကလေးမြို့နှင့် ဘိုကလေးမြို့နယ်အတွင်းရှိ မြင်းကကုန်းရွာကြီးကို ဖြတ်သန်း သွားသည်။ ထိုသင်္ဘောများသည် ဖျာပုံခရိုင်၏ နယ်ပိုင်ရုံးစိုက်မြို့ ဖြစ်သော ကျိုက်လတ်မြို့၌လည်း ရပ်နားသည်။ ဖျာပုံမြို့နှင့် ဘိုကလေးမြို့သို့ ရက်ခြား ခုတ်မောင်းသော ပရသဖသင်္ဘောများလည်း ရှိသည်။ ထို့ပြင် မြို့နယ်အတွင်းနှင့် အပသို့ သွားလာခုတ်မောင်းသော ပုဂ္ဂလိကပိုင် သင်္ဘောများလည်း ရှိလေသည်။

ဘိုကလေးမြို့သည် ဗြိတိသျှတခေတ်လုံး ဒိစတြိတ်ကောင်စီ အုပ်ချုပ်ရေးဖြင့်သာ ရှိနေခဲ့ရာ ၁၉၅၉ ခုနှစ် ဒီဇင်ဘာလ ၄ ရက်နေ့မှ စ၍ မျူနီစီပယ် အုပ်ချုပ်ရေးသို့ ပြောင်းခဲ့လေသည်။

ဘိုကလေးမြို့တွင်အထက်ပိုင်းနှင့်အောက်ပိုင်းဟူ၍ရပ်ကွက်ခွဲခြားထားသည်။ မြို့ပေါ်၌ မြို့ပိုင်ရုံး၊ သမဝါယမရုံး၊ အစိုးရတန်းမြင့်ကျောင်း၊ အလယ်တန်းကျောင်း၊ ဆေးရုံ၊ ရဲဌာနစသော အစိုးရအဆောက်အအုံများ ရှိသည်။ ကြီးကျယ်ထင်ရှားသော အဆောက်အအုံများမှာ သာသနိက အဆောက်အအုံများ ဖြစ်ကြသည်။ ယင်းတို့မှာ စေတီ သုံးထပ်ငုံ၍ တည်ထားသော အောင်စကြာ စေတီ၊ မြို့လည် ဘုရားတန်ဆောင်းကြီး၊အင်္ဂလိပ်ခေတ်ကပင် ငွေ ၃ သိန်းခန့် အကုန်အကျခံကာ ခမ်းနားစွာ ဆောက်လုပ်ထားသော စံကျောင်းခေါ် သည့် စာသင်တိုက်ကျောင်းကြီးနှင့် ဒွါရကျောင်း၊ ကံဦးကျောင်း၊ မိတ္ထီလာကျောင်းဟူ၍ ကျောင်းကြီး ၄ ကျောင်းအပြင် ကျောင်းငယ်ပေါင်း ၄၀ ကျော်ခန့် ရှိသည်။

မြို့ပြင်အစပ်တွင် ၁၉၅၁ ခုနှစ်က တူးဖော်ခဲ့သောအလျား ပေ ၁,၃၆၀၊ အနံပေ ၆၃၀ ရှိ မဟာသီလဝံကန်တော်ကြီးသည် နွေရာသီအခါ ရေရှားပါးမှု အခက်အခဲကို ဖြေရှင်းပေးသော ဘိုကလေးမြို့၏ ကျက်သရေဆောင် ကန်ကြီးလည်း ဖြစ်ပေသည်။

# မြန်မာ့ဇာတ်သဘင်ပါရမီရှင်

**ရုပ်ချော အသံကောင်း၍ အဆိုပိုင်၊ အကနိုင်သူအဖြစ် ကျော်ကြားသူမှာ မြန်မာဇာတ်သဘင်လောကတွင် ရှာမှရှားပေမည်။ ထိုကဲ့သို့သော ပါရမီထူးသူပေါ် ပေါက်လာသည်နှင့်အမျှ ဇာတ်သဘင်တခေတ် မဆန်းဘဲမနေနိုင်သည်ကို တင်ပြထားသည်။ ထူးခြားသော သဘင်ပါရမီရှင် တဦးဖြစ်၍ အဆို၊ အကသာမက အပြကိုလည်း ဆန်းသစ်တီထွင်ကာ မြန်မာ့သဘင်ကို တိုးချဲ့ခဲ့သဖြင့် မြန်မာ့ဇာတ်သဘင်ကို တခေတ်ထွင်ခဲ့သူဟု ခေါ် ဆိုကြလေသည်။**

**ဘိုးစိန်၊ ဦး**( မြန်မာ ၁၂၄၄–၁၃၁၅ )။ ။မြန်မာ့သဘင်လောကတွင်သာမက အနောက်နိုင်ငံတလွှား၌ပါ ထင်ရှားသော ဇာတ်ဆရာနှင့် ဇာတ်မင်းသားကြီးကား ဘုရားဒါယကာ ဦးဘိုးစိန် ဟူ၍၎င်း၊ ဂရိတ်ဘိုးစိန် ဟူ၍၎င်း ကျော်ကြားသော ဦးဘိုးစိန်ကြီး ဖြစ်သည်။

ဦးဘိုးစိန်ကို ၁၂၄၄ ခုနှစ် ကဆုန်လဆန်း ၁ ရက် တနင်္လာနေ့တွင် မြောင်းမြမြို့နယ် လူဝေါင်းကျွန်း ဌာနအပိုင် ခ လောက်သိုက်ရွာ၌ အဖ ဦးစံဒွန်း၊ အမိ ဒေါ်ရွှေရုပ်တို့မှ ဖွားမြင်သည်။ ဖွားမြင်ရာ ခလောက်သိုက်ရွာကို အကြောင်းပြု၍ ငယ်မည်မောင်သိုက်ဟု တွင်သည်။ မိခင်ရော ဖခင်ပါ မြေဝိုင်းခေတ် မင်းသမီး မင်းသားကြီးများ ဖြစ်သည်။ ဦးဘိုးစိန်၏ မွေးချင်းမောင်နှမဘိုသည် မင်းသမီး၊ မင်းသား၊ဇာတ်သမားများပင်ဖြစ်သည်။ဦးဘိုးစိန်၏ အစ်မကြီး မသက်ပုံ၊ယောက်ဖ ကိုအောင်မင်း၊ အစ်ကို ကိုကြာယုံတို့သည် ထိုခေတ်က မင်းသမီး မင်းသားများဖြစ်ကြသည်။ ချစ်စရာဒရေမွှေးဟူသော အမည်တွင်သည့် နာမည်ကျော် မင်းသားလဘ် ကိုချစ်စရာသည် ဦးဘိုးစိန်၏အစ်ကို ကိုကြာယုံ ဖြစ်သည်။

အသက် ၇ နှစ်အရွယ်မှစ၍ မောင်ဘိုးစိန်သည် ကျုံပျော်မြို့ဦးနန္ဒိယကျောင်း၌ ပညာဆည်းပူးရာ ၁၂ နှစ်သားအထိဖြစ်သည်။ တခါတရံ အကအခုန်များရှိသောအခါ မောင်ဘိုးစိန်

ကလေးအား သင်ကြားပြသ၍ ပါဝင်ကပြစေသည်။ ပညာသင်နေခိုက်ပင် အစ်မဖြစ်သူ မင်းသမီးကြီး မစိန်တုပ်နှင့် ဦးရီးစမွယ်ညွန့်တို့ ဇာတ်ထဲတွင် လင်းကွင်းတီးမှအစ ဆိုင်းနောက်ထ အဖြစ်အထိ ဝင်ရောက် အမှုထမ်းခဲ့ရသည်။ ညီဖြစ်သူ၏ သဘင်ဝါသနာကို ရိပ်မိသော အစ်ကို ကိုကြာယုံသည် ဘိုးစိန်ကလေးအား ညောင်တုန်းမြို့မှ ကျုံ့ပျော်မြို့သို့ ဇာတ်ကရန် ရောက်လာသော ဆိုင်းဆရာ ဦးစံချိန်ထံတွင် ပညာသင်ရန် အပ်နှံ လိုက်သည်။ ထိုအခါမှစ၍ မောင်သိုက်ဟူသော ငယ်မည်မှ မောင်စိန် ဟူသော အမည်သို့ပြောင်းသည်။ ဦးစံချိန်ထံတွင် ရှေးဦးစွာ ဝါးလက်ခုပ်တီးရ၍ မကြာမီပင် လင်းကွင်းကြီးနှင့် ဝါးလက်ခုပ်ဖက်၍ ကိုင်နိုင်လာသည်။ အားလပ်သည့်အခါတွင်လည်း ကြေးနောင်ဝိုင်းထဲဝင်၍တီးယင်း ဆိုင်းပါတီးတတ်လာသည်။ ရပ်ရွာဘုရားပွဲများရှိသည့်အခါ အရပ်ဇာတ်မင်းသားအဖြစ် ဝင်ရောက်ကပြရသည်။ ကျုံ့ပျော်မြို့ မြတ်ချမ်းသာဘုရားပွဲတော်တွင် ဘုရားလူကြီး ဦးစံဦးက ညောင်တုန်းမြို့မှ အငြိမ့်မင်းသမီး မစိန်ခင်နှင့် ဘိုးစိန်ကလေးအား တွဲဖက်ကစေရာ၊ နာမည်ရမင်းသမီးကိုပင် မှီအောင် ကနိုင်သောကြောင့် နာမည်ပို၍ ထွက်လာသည်။ ထိုအချိန်က ဘိုးစိန်ကလေးသည် ၁၂ နှစ်သားသာ ရှိသေးကြောင်းကို "လက်တသစ်ကယ်မှ မကြွားပါဘူး၊ ၁၂ နှစ်သားရယ်က မင်းသား ဖြစ်တယ်တဲ့ကွယ်" ဟု သူ့သီချင်းထဲတွင် ထည့်၍ ဆိုထားလေသည်။ ထိုအချိန်က ရှင်ပင် မပြုရသေးချေ။

၁၂၅၇ခုနှစ်တွင် သာမဏေ တော်ပြီးနောက် လူထွက်သောအခါ အစ်ကိုဖြစ်သူ ထောင်သော ဇာတ်အဖွဲ့တွင် မောင်ဘိုးစိန်သည် အကူအညီဇာတ်ဆရာဖြစ်လာသည်။ ယင်းဇာတ်ဖွဲ့တွင် ကကြီးဒေါင့်သူ မင်းသမီး မမြညွန့်နှင့်တွဲဖက်၍ ခေါင်းဆောင်မင်းသားအဖြစ် ကခဲ့ရသည်။ ၁၆ နှစ်သားအရွယ်တွင် မင်းသမီး မမြညွန့်နှင့် အကြောင်းပါသည်။ သဘင်ပညာဆက်လက်မကြိုးစားနိုင်မည်စိုးသဖြင့် ဆွေမျိုးများက မမြညွန့်နှင့်ခွဲသည်။ထိုနောက် အစ်ကိုဖြစ်သူ ဦးချစ်စရာက မန္တလေးမြို့တွင် သဘင်ပညာဆည်းပူးရန် ခေါ် သွားရာ တွဲဖက် ကရန် မင်းသားကောင်း အရှာထွက်လာကြသော ဆင်ဖြူကျွန်း ဆရာအေး၊ ယောကျ်ားမင်းသမီး အောင်ဗလတို့နှင့် ဘိုးစိန်တို့ အစမ်းတပွဲ တွဲဖက် ကပြသောအခါ၊ ပရိသတ် အလွန် ကြိုက်လေသည်။ ဘိုးစိန်နှင့် အောင်ဗလတို့ သည် ၁၂၆၀ ပြည့်နှစ်မှ ၁၂၆၅ ခုနှစ်အထိ ၅ နှစ်နီးနီး တွဲဖက် ကပြရာမှာ ဘိုးစိန် အောင်ဗလ ဟူသော အမည်သည် တောရောမြို့ပါ ထင်ရှားလာသည်။ သူတို့ ၂ဦးတွဲမိမှပင် ဘိုးစိန် ရန်ကုန် ရောက်လာသည်။ (အောင်ဗလ — ရှု။)

၁၂၆၅ ခုနှစ်တွင် ဘိုးစိန်သည် ဇာတ်ဆရာ ဦးစိန္တာ၊ မသောင်တို့၏ ဇာတ်အဖွဲ့တွင် မင်းသမီး ငွေစိန်၊ ငွေရီ၊ ညိုညိုစသော ညီအစ်မတစုနှင့် တွဲဖက် ကရသည်။ ငွေစိန် အခြားဇာတ်သို့ ရောက်သွားသောအခါမှ မင်းသမီး မစိန်ဥနှင့် တွဲကရသည်။ ယင်းသို့ ကပြရင်း မစိန်ဥနှင့် အကြောင်းပါသည်။ တဖန် ၁၂၆၉ ခုနှစ်တွင် မြန်မာမင်းလက်ထက် ရွှေတိုက်စိုးတောင်ခွင်မင်းကြီး၏ သမီး ခင်ခင်လတ်ကြီးနှင့် လက်ထပ်လေသည်။ထိုအချိန်ကစ၍ ကိုယ်ပိုင် ဇာတ်ထောင်ကာ ဇာတ်မင်းသား၊ ဇာတ်ဆရာနှင့် ဇာတ်ပိုင်ရှင် ဖြစ်လာသည်။ ထိုနောက် လက်ထောက် မင်းသမီးလေး မကြင်ယုံနှင့် အကြောင်းပါရာ၊ ဦးဘိုးစိန်ကွယ်လွန်သည်အထိ ထင်းပုံခေါင်းချ ပေါင်းကြလေသည်။ ဦးဘိုးစိန်နှင့် ဒေါ်ကြင်ယုံတို့တွင် သားသမီး ၇ ယောက်ရှိသည့်အနက် သားများ ဖြစ်သော ကနက်စိန်၊ ကိုစိန်ကြိုင်နှင့် တသက်စိန်တို့သည် ဖခင်၏ သဘင်ပညာ မတိမ်ကောစေရန် စိန်မဟာ သဘင် အဖွဲ့ကြီးကို ဆက်လက် ကပြနေကြသည်။ ဦးဘိုးစိန်သည် ၁၃၁၅ ခုနှစ် ပြာသိုလဆန်း ၇ ရက်နေ့တွင် အသက် ၇၁ နှစ်အရွယ်၌ ရန်ကုန်မြို့ နေအိမ်တွင် ကွယ်လွန်သည်။ မကွယ်လွန်မီ၊ လွတ်လပ်ရေးရပြီး နောက်တနှစ်တွင် ပြည်ထောင်စု မြန်မာနိုင်ငံအစိုးရက ဦးဘိုးစိန်အား ဝဏ္ဏကျော်ထင်ဘွဲ့ဖြင့် ချီးမြှင့်သည်။ ဗြိတိသျှ အစိုးရလက်ထက် ပဌမကမ္ဘာစစ်ကြီးအတွင်းကလည်း ကြက်ခြေနီ သူနာပြုတပ် ရံပုံငွေအတွက် ကပြကူညီသည်ကို ဂုဏ်ပြုသောအားဖြင့် တီ၊ ပီ၊ အက် (စ) ခေါ် တိုင်းကျိုး ပြည်ကျိုးဆောင်ဘွဲ့ ချီးမြှင့်ခြင်း ခံခဲ့ရလေသည်။



ဦးဘိုးစိန် နုပျိုစဉ်က မင်းသမီး ကောလိပ်စိန်နှင့် အတူ တွဲဖက်ကပြစဉ်

ဦးဘိုးစိန်သည် ဗုဒ္ဓစာပေ၌ နှံ့စပ်သည်။ ဗဟုသုတ ကြွယ်ဝသည်။ ဗုဒ္ဓတရားတော်ကို လူအများဆုံး အလွယ်တကူ နားလည် သဘောပေါက်အောင် ဝါဒဖြန့်ရန်လည်း စေတနာ အလွန်ထက်သန်သည့် အလျောက်၊ သီချင်းဆိုရာ၌ပင် ပါဠိ ပါဌ်သား တရားစကားများထည့်၍ ဆိုတတ်သည်။ တရား မသိဘဲ သဘင်လုပ်ခြင်းသည် တဏှာသက်သက် အား ပေးခြင်း ဖြစ်သည်ဟု ယူဆသော ဦးဘိုးစိန်သည် သဘင် ပညာကို အနုပညာမြောက်အောင် ပြုရုံသာမက၊ တရား အ နှစ်သာရ ပါအောင်လည်း အားထုတ်သည်။ ဦးဘိုးစိန်တို့ ဇာတ်စကစဉ်က ဇာတ်သဘင်လောကတွင် ချင်းဖဝေး၊ ချင်း ရွှေလုံး၊ ဆင်ကဲ ဘွိုမယ်၊ ကံသဒေဝကြည် လက်ခြောက်ဖက် စသော ဒဏ္ဍာရီဇာတ်များကို အကများသော်လည်း ဦးဘိုး စိန်သည် ဇာတ်နိပါတ်တော်များကို ကပြလျှင် အပြစ်ရှိ မရှိ၊ မန်လည် ဆရာတော် ဘုရားကြီးအား မေးလျှောက်ပြီး နောက် တရားပြသည့်သဘောနှင့် ကလျှင် အပြစ်မရှိကြောင်း အဆုံးအဖြတ် ပေးသည်နှင့် ဒဏ္ဍာရီများကို စွန့်ကာ၊ ဇာတ် နိပါတ်များကို ချည်း ကသည်။ ပဌမကသည့် ဇာတ်မှာ ဝိ နည်းတော်မှ ရှင်သုဒိန်ဇာတ်ဖြစ်သည်။ ဦးဘိုးစိန်၏ ဇာတ်ကို ကြည့်မြင်ရသောဆရာတော်အချို့က တရားဟောသည်ထက် ဘိုးစိန် ကပြသည်က ပို၍ ထိရောက်ကြောင်း မိန့်မြွက်ကြ သည်ဟု ဆိုလေသည်။

ဦးဘိုးစိန်တွင် ထူးခြားသော သူပိုင် ဟန် ရှိသည်။ ထိုဟန် ကို လူကြိုက်များသည်။ ရှေး ဆိုဟန် ဆိုနည်းတို့ဖြင့် မရောင့် ရဲဘဲ၊ ယင်းတို့ကို အခြေခံ၍ ဟန်သစ် ဖန်တီးလေ့ရှိသည်။ သီ ချင်းများကို နိုင်ငံခြားသံ ယူ၍ စသုံးသူမှာလည်း ဦးဘိုးစိန် ပင်ဖြစ်သည်။ သို့ရာတွင် နိုင်ငံခြားသံကို ငုံယူပြီးနောက် မြန်မာအသံထဲသို့ နားဝင်ချိုအောင်၊ မထောင့်အောင် ပြု ပြင် သွင်းယူသည်။ ဦးဘိုးစိန်သည် ငိုချင်းအဆို၌လည်း တမူ ထူးသူဖြစ်သည်။ အထူးသဖြင့် ပတ်စာပိုး ငို၊ သို့မဟုတ် တပေါက်တင်ငိုသည် ဦးဘိုးစိန် စထွင်သည့် ငိုချင်းဖြစ်သည်ဟု ကျော်ကြားသည်။ "ဆွဲမြည့ာယ်လေ ခွဲရမှာ တဖေလွှမ်း ပါဘိ၊ ငွေစန်းယုန်စနီသို့၊ ပုံဟန်ချီလွဲလွဲဝင်းငယ်ကြောင့်" အ စချီသော ဒွေးချိုးကိုင်း၊ "လှဒေဝီ မေပျိုဖြန်းငယ်ကြောင့်၊ ညနေရီ နေညိုသန်းမှာဖြင့်၊ ဖေငိုခန်းပေါ် တော့တယ်"အစချီ သော လေးချိုးကိုင်း ပတ်စာပိုးငိုဟန်သစ်ဖြင့် ဆိုလေရာ ပရိ သတ်များစွာ စွဲလမ်းနှစ်သက်သည်။ ဇာတ်ခုံပေါ် ၅ ပေါက် သံဖြင့် ရှေးက သီချင်းဆိုရိုး ရှိခဲ့သော်လည်း ၆ ပေါက် သံဖြင့် စထွင်သီဆိုသူမှာ ဦးဘိုးစိန် ဖြစ်သည်။ မဲဇာတောင် ခြေ ပတ်ပျိုးမှ ၆ ပေါက်သံကို ဦးဘိုးစိန် စယူလေသည်။

အဆိုပိုင်ရုံမက ဦးဘိုးစိန်သည် အသံလည်း သာသည်။ အ သံကို သာအောင်၊ စိတ်နေ သဘာဝနှင့် လိုက်လျောအောင် နေရာနှင့်နေရာ သွင်းသွားတတ်သူ ဖြစ်သည်။ ပိုးခန်းပန်းခန်း၌ ထွေသံ၊ ငေါ်သံ၊ ကြွသံ၊ ထသံ၊ ညှသံ၊ ဆွေးသံများ သွင်းနိုင် သည်။ အသံကောင်းရုံသာ မဟုတ်၊ အပြောလည်း ပိုင်သူဖြစ် သည်။ ဇဝနဉာဏ်ထက်သူ ဖြစ်သည့်အလျောက် ခဏခြင်း၌ပင် လိုရာကို စီကာ ပတ်ကုံး ပြောလိုက် ဆိုလိုက် လုပ်နိုင် သည်။ နာရီဝက် ၄၅ မိနစ် အမျှင် မပြတ်အောင် ပြောပြီး နောက်မှ သီချင်းကို ဖြတ်ထားသောနေရာမှ ပြန်ကောက်ဆို နိုင်သူ ဖြစ်သည်။ အပြောတွင် ဦးဘိုးစိန်ကို မှီသူ မည်သည့် ဇာတ်မင်းသားမျှ ယခုတိုင် မပေါ် သေးချေ။

ဦးဘိုးစိန်သည် အဆိုအပြော၌သာမက၊အက၌လည်း ထွင် သူ ဖြစ်သည်။မင်းသမီး တလက်သာမဟုတ်၊ ၂ လက် ၃ လက် နှင့် တွဲကသည်မှာလည်း ဦးဘိုးစိန်အစဖြစ်သည်။ အနောက် နိုင်ငံ ခြေကကို အတုခိုး၍ နရီစည်းပိုက်ျအောင် ထွင်ယူသည်။ လူဟန်အလှ၊ ကိုယ်ခါးပခုံးတို့ကိုလည်း မြန်မာပီအောင် ဖြည့် စွက်ပေးရာ၊ "ဘိုးစိန်ခြေ က" ဟူ၍ပင် ဇာတ်သဘင် လောက တွင် ထင်ရှားလာသည်။ မြန်မာအကရိုးရိုးတွင် ဘိုးစိန်သည် ခြေကို နောက်ထိုး၍ ကသည်။ ယခုခေတ်အရပ်သူအရပ်သား များ အက စ၍သင်လျှင် သင်ခြင်း ခြေကို နောက်ထိုး၍ က ခြင်းသည် ဘိုးစိန် စကသော အကဖြစ်သည်။ သစ္စာထား ခန်းတို့၌ တီးလုံးနှင့် အကိုက်၊ ဒူးကြိုး၊ ပေါင်ကြိုး၊ လက်ကြိုး၊ ခေါင်းကြိုးတို့ဖြင့် ထထကြွကြွ ခြေမြှောက် လက်မြှောက်၊ ခုန် က၊ လက်မြှောက်က၊ ပရိသတ် အာရုံ မပြတ်အောင် ကကြိုး တပုဒ်ဆို ဆိုသလောက် ကခုန် စွမ်းနိုင်အောင် အရည် အ ချင်းရှိသည်။ ယင်းအကကိုပင် ဇာတ်သမားများ အတုခိုး၍ ဘိုးစိန် အကဟု ဆိုကြသည်။ မင်းသမီး ၁၂ ယောက်၊ ၁၆ ယောက်၊ အယောက် ၂၀ စသည်နှင့် ယိမ်းဟူ၍ စသည်မှာ လည်း ဦးဘိုးစိန် ထွင်မှုဖြစ်သည်။ အင်္ဂလိပ် ကပြားမကလေး များကိုပင် ယိမ်းသမအဖြစ် ငှါး၍ ကသည်။ (ယိမ်း —— ရှု။)

အက၌သာမဟုတ် အပြဖက်၌လည်း ဦးဘိုးစိန်သည် ကောင်းသူဖြစ်သည်။သူ့လက်ထက်ကျမှ ဇာတ်ခုံပေါ် တွင် အ ဆောင် အယောင် ဟိတ် ဟန် ဆန်းပြားလာသည်။ ဇာတ်ခုံ ပေါ် ၌ ရေနံဆီမီးတိုင်ထွန်း၍ကရာမှ လသာမှန်အိမ်၊ လျှပ်စစ် ဓာတ်မီးစသည်ဖြင့် စ၍ ထွန်းသူမှာ ဦးဘိုးစိန်ဖြစ်သည်။ "ဘိုးစိန်တို့ကတော့ ဖန်သီးကတောင် မီးထတောက်အောင် လုပ်နိုင်သဟေ့" ဟု ရင်သပ်အံ့သြရသည်အထိ ဖြစ်သည်။ ဇာတ်ကွက်နှင့် လိုက်အောင်လည်း မီးအလင်းအမှောင် ပြုပြင် ပေးသည်။ အဝတ်အစားကိုလည်း လှသည်ထက် လှ၍ ပရိသတ် စွဲသည်ထက် စွဲအောင်မင်းသမီး မင်းသား ဆင်တူ ဝတ်သည့် အလေ့ကို ဦးဘိုးစိန်ပင် စထွင်သည်။ လူရွှင်တော် များအား တိုက်ပုံအင်္ကျီ၊ ခေါင်းပေါင်းစသည်တို့နှင့် ဆင် ပေးကာ အပြကို အရေးပေးခဲ့သည်။

ဇာတ်သဘင်လောကတွင် ဦးဘိုးစိန်သည် ဇာတ်ဆောင် လှုပ်ရှားမှု၊ သီချင်းအဆို၊အက၊ အပြော၊ ဇာတ်ခန်း၊ ဇာတ်

ကွက်၊ အဆင်အပြင်၊ မီးအယူအဆ စသည်ဖြင့် ဇာတ်ပွဲတခု တွင် သဘာဝကျအောင် သရုပ်ဆောင်ရာ၌ အမျှားအပြား တီထွင်ခဲ့သဖြင့် ဦးဘိုးစိန်အား သဘင်ဥသျှောင်အဖြစ် ဥ ဒါန်း တွင်စေသည်။ နာမည်ကျော် ဇာတ်မင်းသားကြီးများ ဖြစ်ကြသော ဦးစိန်အုပ်၊ အိမ်နောင် ဦးစံတုပ်၊ ဦးစိန်ကတုံးတို့ နှင့် အပြိုင် ကရသည့်ကြားမှပင် ဦးဘိုးစိန်၏ နာမည်မသေ ဘဲ ကျော်သည်ထက် ကျော်လာခြင်းမှာ ဦးဘိုးစိန်သည် အ မျိုးသား အနုပညာကို ထိန်းသိမ်းရုံမက နယ်ကျယ်အောင် တိုးချဲ့နိုင်သူ ဖြစ်ခြင်းကြောင့်ဟု ဆိုရပေမည်။ သဘင်သည် ကလေးများသည် ဦးဘိုးစိန် ကပြီးသော ဇာတ်ထုပ် ဇာတ် ကွက် ငိုချင်းများကို ရှိသေစွာ လာရောက် တောင်းယူကာ၊ မိမိတို့မြို့ရွာရောက်သောအခါ "ကိုဘိုးစိန် ကပြသော မည် သည့်ဇာတ်ကို ယနေ့ကမည်" ဟု ကြော်ငြာလိုက်လျှင် ရုံ လျှံအောင် စည်လှသည်ဟုဆိုကြသည်။

# ဘုန်းတောက်သော ဘဝရှင်မင်းတရား

**ဘိုးတော်ဦးဝိုင်းဟု ဆိုလျှင် ကုန်းဘောင်ဆက်တွင် အထူးထင်ရှားသော ဘုရင်တဆူဟု လူသိများသည်။ ထိုမင်းလက်ထက်၊ မြန်မာနိုင်ငံသည် များစွာကျယ်ဝန်းလာ၍ နိုင်ငံခြားသားများ ဂရုစိုက်လေ့လာခြင်း ခံခဲ့ရသည်။ တိုင်းပြည်ဝပြောစည်ပင်၍ စာပေနှင့် သာသနာရေး ထွန်းပြောင်ခဲ့လေသည်။**

**ဘိုးတော်ဘုရား** (မြန်မာ ၁၁၀၆–၁၁၈၁)။ ။ ဘိုးတော် ဘုရားသည် ကုန်းဘောင်နန်းတည် အလောင်းမင်း တရား ကြီးနှင့် မဟာမင်္ဂလာ ရတနာဓိပတိ သီရိရာဇာစန္ဒာဒေဝီဘွဲ့ခံ မိဖုရားခေါင်ကြီးတို့မှ မြင်သည့် စတုတ္ထသားတော် ဖြစ်သည်။ (အလောင်းဘုရား — ရှု။) ၁၁၀၆ ခုနှစ် တန်ခူး လပြည့် ကျော် ၆ ရက် တနင်္လာနေ့တွင် ဖွားမြင်၍ ငယ်မည်မှာ မောင် ရွှေဝိုင်းဖြစ်သည်။

သက်တော် ၁၀ နှစ် အရွယ်တွင် သတိုးမင်းလှရွှေတောင်၊ ၁၆ နှစ်တွင် သတိုးမင်းစော၊ ၂၀ တွင် သုမေဓရာဇာဘွဲ့အမည် များကို ခြီးမြှင့်ခံရသည်။ ခမည်းတော်နှင့် နောင်တော် ၂ ပါး လက်ထက် ဗဒုံ၊ မြဝတီမြို့များကို ကံကျေးခံရ၍ ဗဒုံမင်းသား ဟု ထင်ရှားသည်။ ထို့ကြောင့်လည်း ၁၁၄၃ ခုနှစ် တပို့တွဲလ ပြည့်ကျော် ၁၄ ရက်တနင်္လာနေ့တွင် မင်းအဖြစ်သို့ ရောက် တော်မူသောအခါ ဗဒုံမင်းတရားကြီးဟု ခေါ်ကြသည်။ မင်း တရားကြီးနောက် ထီးနန်းဆက်ခံသူ စစ်ကိုင်းမင်းနှင့်သာယာ ဝတီမင်း၏ ဘိုးတော် ဖြစ်သဖြင့်လည်း ဘိုးတော်ဘုရားဟု ရာဇဝင်တွင်ကျော်ကြားခဲ့သည်။ ၁၁၄၄ ခုနှစ်တပို့တွဲလဆန်း ၇ ရက်နေ့တွင် မြစ်ငယ်မြစ် မြောက်ဖက် ထီးပေါင်းကား အ ရပ်၌ အမရပူရမြို့နှင့်တကွ ထီးနန်းကို စတင်တည်စိုက်သော ကြောင့် အမရပူရ ပဌမ မြို့နန်းတည်မင်းဟုလည်း တွင်သည်။ (အမရပူရမြို့ — ရှု။) ဘိုးတော်ဘုရားသည် ၁၁၄၅ ခုနှစ် တွင် တကြိမ်၊ ၁၁၄၆ ခုနှစ်တွင် တကြိမ် ရာဇာဘိသေက မုဒ္ဓါ ဘိသေကခံပြီးလျှင် ထီးဆောင်းမင်္ဂလာ မဟာဥကင်သဖွင့် တော်မူ၍ သီရိ ပဝရ တိလောက ပဏ္ဍိတ မဟာဓမ္မ ရာဇာ၊ သီရိ ပဝရ ဝိဇယာ နန္တယသ တြိဘဝနာ ဒိတျာဓိပတိ ပဏ္ဍိတ မဟာ ဓမ္မရာဇာဓိရာဇာ တံဆိပ်နာမံများကို ခံတော်မူသည်။ ၁၁၆၆ ခုနှစ်တွင် သီရိမင်္ဂလာ မဟာသုဘတ္တာဟူသော ဆင်ဖြူ မတစီးနှင့် ၁၁၆၇ ခုနှစ်တွင် နိဗ္ဗာန ပစ္စယနာဂရာဇာ ဆင်ဖြူ တစီးကို ရတော်မူ၍ ရွှေစက်တင်တော်မူပြီးလျှင် ဆဒ္ဒန်ဆင် မင်းသခင်ဘွဲ့ ခံတော်မူသည်။

ဘိုးတော်ဘုရားသည် ခမည်းတော်၏ ဆန္ဒအရ ကုန်း ဘောင် မင်းဆက်တွင် စတုတ္ထမင်းဖြစ်ရန် ရှိသော်လည်း နောင်တော်ဆင်ဖြူရှင် မင်းက သားတော် စဉ့်ကူးမင်းအား အရိုက်အရာလွှဲအပ်ခဲ့သဖြင့် တူတော်များဖြစ်သော စဉ့်ကူး မင်းနှင့်ဖောင်းကားစားမင်းတို့အား ဖယ်ရှင်းပစ်ပြီးနောက်မှ ထီးနန်းကို ဆက်ခံရသဖြင့် ကုန်းဘောင်မင်းဆက်တွင် ဆဌ မင်းဖြစ်ခဲ့ရသည်။ (ကုန်းဘောင် မင်းဆက်။ စဉ့်ကူးမင်း — လည်းရှု။)

နန်းတက်စတွင် ဘိုးတော်ဘုရားသည် ထီးနန်းအန္တရာယ် ကြောင့် မင်းဆွေစိုးမျိုး မှူးမတ်အမှုထမ်းအမြောက်အမြား တို့ကို ကွပ်မျက်သုတ်သင်ခဲ့ရသည်။ တရုပ်မြန်မာ စစ်ပွဲတွင် ထင်ရှားသော ဝန်ကြီး မဟာသီဟသူရကို မရှုတ်မချ ဝန်ကြီး အရာနှင့် သူကောင်းပြုသော်လည်း မကြာမြင့်မီ ညီတော် စည်သာမင်းသားနှင့် မသင့်သော အကြံအစည် ကြံစည် ကြောင်းသိသဖြင့် ကြံရာပါသူတို့နှင့်တကွ ထုံးစံနှင့်အညီစီရင် တော်မူရသည်။ (မဟာသီဟသူရ၊ဗိုလ်မှူး — ရှု။) ၁၁၄၄ ခု နှစ်တွင် ငဖုန်းဆိုသူ ရှမ်းအမျိုးသားတယောက်က မိမိကိုယ် ကို ဟံသာဝတီရောက်မင်းတရားကြီး၏သားတော်မင်းရဲမြတ် ဖုန်းဟုဆိုကာ ဖောင်းကားစား မောင်မောင်၏ ကြွင်းကျန် ပုန်းလျှိုးနေသေးသော ကျေးကျွန်တို့နှင့် ပေါင်း၍ နန်းမြို့ တွင်းသို့ အတင်းဝင်ရောက် ပုန်ကန်ရာ နှိမ်နင်းတော်မူပြီး နောက် ငဖုန်းနှင့် အပေါင်းပါတို့ကို ကွပ်မျက်တော်မူရသည်။ ပုသိမ်နယ်မှ မွန် ၃၀၀ ကျော်တို့သည် ရန်ကုန်သို့ ချီတက် တိုက်ခိုက်သိမ်းယူကြသည်ကိုလည်းနှိမ်နင်းရသည်။ ၁၁၄၅ ခု

နှစ်တွင် ဘိုးတော်ဘုရားသည် သားတော်ကြီး သတိုးဓမ္မ ရာဇာဘွဲ့ခံ ရတနာရွှေတောင်မင်းကို အိမ်ရှေ့အရာ နှင်းတော်မူရာ ညီတော် ပင်းတလဲမြို့စား စိတ်ထောင့်၍ ထီးနန်းကို ကြံစည်သဖြင့် ထုံးစံနှင့် အညီ စီရင်ရသည်။ ၁၁၇၀ ပြည့်နှစ်တွင် သားတော် မဟာဥပရာဇာ နတ်ပြည်စံသောအခါ မြေးတော်စစ်ကိုင်းမင်းသားအား အိမ်ရှေ့နှင်းတော်မူသည်။ (ဘကြီးတော် —— ရှု။)

သက္ကရာဇ် ၁၁၄၆ ခုနှစ် တန်ဆောင်မုန်းလတွင် ရခိုင်ဓညဝတီပြည်ကြီးကို သိမ်းယူတော်မူမည်ဟု သားတော် မဟာဥပရာဇာကို အချုပ်ခန့်၍ အလုံးအရင်းနှင့် ချီစေသည်။ မဟာဥပရာဇာသည် စစ် ၄ ကြောင်းဖြန့်၍ချီတက်ရာ ရခိုင်တို့ အပြင်းအထန် ခုခံတိုက်ခိုက်ကြသော်လည်း ရခိုင်တို့ ရှုံးကာ သံတွဲမြို့နှင့်တကွ တောင်စဉ် ခုနစ်ခရိုင်သာမက ရခိုင်တပြည်လုံးကို မင်းနှင့်တကွ ရရှိသည်။ ရခိုင်ဘုရင်နှင့်တကွ မင်းဆွေမင်းမျိုး မှူးမတ်ပညာသည်များ၊ အလျားအတောင် ၂၀ လုံးပတ် ၆ တောင်ရှိ အမြောက်ကြီးနှင့် ခဲယမ်း မီးကျောက် အမြောက်သေနတ်များ၊ ဆင်မြင်းလူသူ ၃ သောင်းကျော်နှင့် တကွ ယိုးဒယားလုပ် ကြေးရုပ် ၃၀ ကျော်တို့ကို ဆောင်ယူ၍ တပို့တွဲ လပြည့်ကျော် ၇ ရက်နေ့တွင် ရခိုင်မှပြန်လာသည်။

ထိုပြင်ရခိုင်မင်းများအစဉ်အဆက်ကိုးကွယ်သောမဟာမုနိရုပ်ပွားတော်ကြီးကိုလည်း တောင်ကုပ်လမ်းဖြင့် ပင့်ဆောင်ကာ ပန်းတောင်းမြို့ ဆိပ်ကမ်းမှ ရွှေဖောင်တော်နှင့် တင်ဆောင်၍ အမရပူရမြို့သို့ရောက်လျှင် မြို့မြောက်ဖက်၌ ရွှေပြာသာဒ်နှင့် တည်ထားကိုးကွယ်သည်။ ရှေးက ရခိုင်ပြည်ကို မြန်မာတို့ တိုက်ခိုက် အောင်မြင်ခဲ့ဘူးသော်လည်း ခရီး အထောက်အလှမ်း မသင့်ခြင်းကြောင့် ကြာရှည်သိမ်းပိုက်မထားနိုင်ခဲ့ချေ။ ဘိုးတော်ဘုရားလက်ထက်တော်တွင်မှ ရခိုင်မင်းဆက် ပြတ်လေတော့သည်။

ရခိုင်ကို ဘိုးတော်ဘုရား သိမ်းပိုက်လိုက်သဖြင့် မြန်မာ့နယ်စပ်သည် ဗြိတိသျှတို့ သိမ်းပိုက်ထားသော ဗင်္ဂလားနယ်နှင့် တစပ်တည်း ဖြစ်ခဲ့ရာ နယ်စပ်အရှုပ်အထွေးများ ပေါ်ပေါက်ခဲ့သည်။ ထိုအပြင် မြန်မာတို့ အိန္ဒိယသို့ စေလွှတ်သော သာသနာရေးအဖွဲ့အား ဗြိတိသျှတို့က နိုင်ငံရေး မကင်းဟု ယူဆကာ တားမြစ်သည်။ ဤအချက်များကြောင့် ဘိုးတော်ဘုရားနှင့် ဗြိတိသျှတို့ အဆက်အသွယ် ပြုလာရသည်။

သက္ကရာဇ် ၁၁၅၆ (ခရစ်နှစ် ၁၇၉၅) ခုနှစ်တွင် အရှေ့အိန္ဒိယကုမ္ပဏီမှ ကက်ပတိန် မိုက်ကယ်ဆိုင်းအား ဘိုးတော်ဘုရားထံသို့ စေလွှတ်ကာ မြန်မာဘုရင်နှင့် ကုမ္ပဏီတို့ အကြား ဖြစ်ပေါ်နေသော အရှုပ်အထွေးများကို ဖြေရှင်းစေသည်။ ဘိုးတော်ဘုရားက ကက်ပတိန်ဆိုင်းသည် ဗင်္ဂလားအစိုးရက စေလွှတ်သော ကိုယ်စားလှယ်သာ ဖြစ်သည်ဟု ယူဆကာ အရေးမပေးနေသည်။ သို့ရာတွင် မြန်မာမှူးမတ်များနှင့် ကက်ပတိန်ဆိုင်းသည် ကုန်သွယ်ရေး ခွင့်ပြုချက်အချို့ကို သဘောတူညီမှု ရရှိအောင် စွမ်းဆောင်နိုင်ခဲ့သည်။

ကက်ပတိန်ဆိုင်း၏အစီရင်ခံချက်အရအရှေ့အိန္ဒိယကုမ္ပဏီသည် မြန်မာတို့နှင့် သံတမန်လဲလှယ်ရန်နှင့် ကုန်ကူးသန်းရောင်းဝယ်ရန်အလို့ငှါ သက္ကရာဇ် ၁၁၅၆ (ခရစ် ၁၇၉၆) ခုနှစ်တွင်ကက်ပတိန်ကောက်စအား ကိုယ်စားလှယ်အဖြစ်ရန်ကုန်သို့စေလွှတ်ပြန်သည်။ ကက်ပတိန်ကောက်စသည်၁၁၅၇ခုနှစ်တွင်အမရပူရနေပြည်တော်သို့ ဆန်တက်၍ ဘိုးတော်ဘုရားထံလက်ဆောင်ပဏ္ဏာများနှင့်တကွ အဖူးအမြော် ဝင်သည်။ ကက်ပတိန်ကောက်စကမိမိအားဗြိတိသျှတို့၏ဘုရားဝင်ကိုယ်စားလှယ်အဖြစ် အသိအမှတ်ပြုရန်တောင်းဆိုသည်ကို မြန်မာတို့က ငြင်းပယ်သည်။ မြန်မာတို့အမြင်တွင်ကက်ပတိန်ကောက်စသည် မြန်မာပြည်ရှိ ဗြိတိသျှကုန်သည်များအား ကြီးကြပ်ရန်လာသော ကုန်သည်တဦးဟုသာမြင်သည်။ သို့ဖြင့် ကက်ပတိန်ကောက်စသည် ရန်ကုန်မှ ပြန်လာခဲ့ရသည်။

၁၁၅၉ ခုနှစ်တွင် ရခိုင်တွင် မြို့သူကြီးသေန်တဲဆိုသူ ခေါင်းဆောင်သောပုန်ကန်မှုတရပ်ပေါ် ပေါက်လာခဲ့သည်။ မြန်မာတို့သည် သေန်တဲအား လိုက်လံတိုက်ခိုက်သောအခါ ဗြိတိသျှပိုင်နက်ဖြစ်သော ဗင်္ဂလားနယ်ထဲသို့ အလုံးအရင်းဖြင့်ခိုသည်။ မြန်မာတို့ကလည်း ဗြိတိသျှ ပိုင်နက်တွင်းသို့ပင် လိုက်လံဝင်ရောက် တိုက်ခိုက်ခဲ့သည်။ သို့ဖြစ်၍ ဗြိတိသျှနှင့် မြန်မာဆက်ဆံရေးမှာ တင်းမာသည်ထက် တင်းမာလာလေသည်။ ကလကတ္တားရှိ ဗြိတိသျှဘုရင်ခံ ဝယ်လက်စလေသည် ဘိုးတော်ဘုရားအား သားတော် အိမ်ရှေ့မင်းနှင့် တောင်ငူမင်းတို့က နန်းချမည်ဆိုက နန်းချနိုင်လောက်အောင် အားနည်းသည်ဟု အယူရှိသည်။ ထို့ကြောင့် ကက်ပတိန်ဆိုင်းအား အိမ်ရှေ့မင်းနှင့် တောင်ငူမင်းထံ ချဉ်းကပ်ရန် ဒုတိယအကြိမ် စေလွှတ်သည်။ သို့ရာတွင် ဝယ်လက်စလေ ထင်မြင်သကဲ့သို့ ဘိုးတော်ဘုရားသည် အားနည်းသော ဘုရင်မဟုတ်ကြောင်းကို ကက်ပတိန်ဆိုင်း သိရှိရသည်။ ဘိုးတော်ဘုရားသည် ဒုတိယအကြိမ် ထပ်မံရောက်လာသော ကက်ပတိန်ဆိုင်းအား ပဌမခေါက်ထက်ပင် အရေးမပေးရှိသည်။ ဗြိတိသျှ ကိုယ်စားလှယ်ထက် ပြင်သစ် ကိုယ်စားလှယ်မှာ ပိုမို၍ အရေးပေးခံရသည်ကို ကက်ပတိန်းဆိုင်း သိမြင်ခံစားခဲ့ရသည်။ သို့ဖြစ်၍ မြန်မာတို့ထံပါး ပြင်သစ်တို့ အရေးသာနေမှုကို ဖြိုဖျက်ရန် ကလကတ္တားရှိ ဗြိတိသျှတို့အဖို့ လိုအပ်လာသည်။ ထို့ကြောင့် ကက်ပတိန်ဆိုင်း ပြန်လာသောအခါ ကက်ပတိန်ကန်းနင်းကို ထပ်မံ၍ စေလွှတ်ပြန်သည်။

ကက်ပတိန်ကန်းနင်း အဖွဲ့သားများသည် အင်းဝသို့ သက္ကရာဇ် ၁၁၇၀ ပြည့်နှစ်တွင် ရောက်လာကြသည်။ ကက်ပတိန်ကန်းနင်း၏ အစီရင်ခံစာတွင် မြန်မာနိုင်ငံ အခြေအနေသည်

အင်အားနည်းပါးနေကြောင်း၊ ဗြိတိသျှတို့၏ အင်အားကို မြန်မာတို့ အထင်မကြီးကြောင်းနှင့် စစ်တကောင်းနှင့်ဒက္ကား ကို မြန်မာတို့ တိုက်ခိုက်ရန် ကြံရွယ်နေကြောင်း ပါရှိသည်။

သက္ကရာဇ် ၁၁၇၂ ခုနှစ်တွင် သူပုန်သေနတ်တဲ၏သားချင်း ပံ့သည် ဗင်္ဂလားနယ်မှ ရခိုင်သို့ ဝင်ရောက်တိုက်ခိုက်သည်။ မြန်မာတို့က ချင်းပံ့ကို ဗြိတိသျှတို့ အားပေးသည်ဟု ယူဆသဖြင့် ဗြိတိသျှ မြန်မာ ဆက်ဆံရေးမှာ ပိုမိုဆိုးရွားလာလေသည်။

ဘိုးတော်ဘုရားလက်ထက်တွင် မြန်မာတို့သည် ယိုးဒယားသို့ မကြာခဏ ချီတက်ရလေသည်။ သက္ကရာဇ် ၁၁၄၇ ခုနှစ်တွင် မင်းတရားကြီးကိုယ်တော်တိုင် တကြိမ်၊ ၁၁၄၈ ခုနှစ်တွင် မင်းကြီး နန္ဒကျော်ထင်ကို အအုပ်အချုပ်ခန့်၍တကြိမ်၊ ၁၁၅၃၊ ၁၁၅၄ ခုနှစ်များတွင် သားတော် မဟာဥပရာဇာ အုပ်ချုပ်၍ တကြိမ် ယိုးဒယားသို့ ချီရာ အရေးမလှ၍ ဆုတ်ခဲ့ရသည်က များသည်။

ဘိုးတော်ဘုရား လက်ထက်တွင် တရုပ် မြန်မာဆက်ဆံရေး ပြေပြစ် ချောမောသည်။ ၁၁၄၉ ခုနှစ် တန်ခူးလပြည့်ကျော် တရက်နေ့တွင် တရုပ်ဥတည်မင်းထံမှ ၂ ပြည့်တပြည် မဟာမိတ် ဖြစ်လိုကြောင်း ရွှေပေရာဇသံ၊ အထူးထူးသော လက်ဆောင်တော်များနှင့် အေးဆော်ရဲကို သံအကြီး ခန့်၍ လူ ၃၀၀ ကျော်နှင့် ဘိုးတော်ဘုရား ရွှေဘဝါးတော်အောက်သို့ လာရောက်ရာ လက်ခံတော်မူပြီးနောက် တရုပ်ဥတည်မင်းထံသို့ ပြန်လည်ဆက်သရန် ရွှေပေရာဇသံလက်ဆောင်တော်များနှင့်တကွ လက်ရွေးကြီးမှူး နေမျိုးရွှေတောင်၊ သီဟကျော်ခေါင်၊ ဝေလုသာရတို့ကို သံဘက်ခန့်၍ အေးဆော်ရဲနှင့် အတူ ပြန်ထည့်လိုက်သည်။ ၁၁၅၁ ခုနှစ်ကဆုန်လတွင် တရုပ်ဥတည်မင်းက သကျမုနိ ရုပ်တုတော် စွယ်တော်ပွားများ ပင့်ဆောင် ပို့ရောက်သည်ကို မြစ်ညာ အုန်းတစဉ်ရောက် ကိုယ်တော်တိုင် ကြိုတော်မူပြီးလျှင် ရတနာရွှေပန်းတောင်းတို့ဖြင့် ခံတော်မူ၍ ဘုံ ၉ ဆင့်ရှိသော ရန်နိုင် လှော်ကားတော်ထက်တင်ဆောင် ပင့်ယူတော်မူသည်။ ထိုနှစ် တန်ဆောင်မုန်းလတွင် တရုပ်ဥတည်မင်းက ဆက်သသော အဖိုးအတိုင်း မသိထိုက်သည့် လက်ဆောင် ရတနာများနှင့်တကွ သမီးကညာ ၃ ပါး နေပြည်တော်သို့ ရောက်ရာ အခမ်းအနား ကြီးကျယ်စွာဖြင့် ကြိုဆို ဆက်သခံသည်။ သမီးအကြီး တာကူငြင်ကို သီရိမဟာဂန္ဓာရ ဒေဝီ၊ သမီးအလတ် ဇကူငြင်ကို သီရိမဟာပဥ္စာလဒေဝီ၊ သမီးအငယ်သံကူငြင်ကို သီရိမဟာဂန္ဓာရ စန္ဒာဒေဝီဟူသော ဘွဲ့အမည်ဖြင့် မြှောက်စားတော်မူသည်။

ဝဇ္ဇီတိုင်း ဝေသာလီပြည်ကြီးကိုအစိုးရသော မင်းကလည်း ၁၁၅၈ ခုနှစ်တွင် လက်ဆောင်ပဏ္ဏာများနှင့်တကွ သမီးတော် စုံပါဝတီကို ဆက်သ၍ ဘဝါးကျွန်အဖြစ် ခံရာ ဝေသာလီမင်းသမီးအား သီရိမဟာ ဝိမလာဒေဝီဘွဲ့ဖြင့် မြှောက်စားလေသည်။ ထိုနောက် စုံပါဝတီ၏ ညီမတော် ရွတ်ပုရိ၊ ပဒုမ္မနိဥပေါထရာ သမီးကညာ ၃ ပါးကို ဝေသာလီမင်းက ဆက်သ၍ ဘဝါးကျွန်အဖြစ် ခံတော်မူသည်။ မဇ္ဈိမတိုက် ၁၆ တိုင်းကလည်း အထူးထူးသော လက်ဆောင် ပဏ္ဏာတို့ဖြင့် နှစ်စဉ်မပြတ် ဆက်သပို့ရောက်သည်။ သီဟိုဠ်မင်းကလည်း သာသနာတော် တည်ထွန်း ပွင့်လင်းအောင် မစ ပြုစုတော်မူပါမည့် အကြောင်း အထူးထူးသော လက်ဆောင်များဖြင့် ခြေတော်ဦးခိုက်၍ သီဟိုဠ်တကျွန်းလုံး နှင်းအပ် ဆက်သသည်။

၁၁၇၄ ခုနှစ်တွင် မဏိပူရ ကသည်း စော်ဘွား မဟာရာဇာနှင့်ဇူပရာဇာတို့ မသင့်မတင့် ရှိသောကြောင့် ဇူပရာဇာထွက်ပြေးလာ၍ ဘိုးတော်ဘုရားထံ ခြေတော်ဦးခိုက် ခိုဝင်လာသည်။ မဟာရာဇာဇူပရာဇာညီနောင် ၂ ဦး သင့်တင့်ရန် ဖြန်ဖြေဖို့ မဟာရာဇာအား အခေါ်လွှတ်ရာ မလာမရောက်နေသဖြင့် ချီတက်တိုက်ခိုက်စေရာ မဏိပူရမြို့ကို သိမ်းယူ ရရှိလေသည်။

ဘိုးတော်ဘုရားသည် သူပုန် သူကန်တို့အား တဖက်တွင် အောင်မြင်စွာ နှိမ်နင်းငြိမ်ဝပ်စေခဲ့၍၊ တဖက်ကလည်း နိုင်ငံတော် စည်ပင် ဝပြောတိုးတက်ရေးကို ဆောင်ရွက်ခဲ့သည်။ မြန်မာနိုင်ငံအရပ်ရပ်၌ရှိသည့် ရှေးမင်းဟောင်းတို့ စိုက်ထားခဲ့သော ကျောက်စာ များကို စုဆောင်း၍ နေပြည်တော်သို့ ပို့စေကာ အသစ်ပြင်ဆင် စိုက်လုပ်စေသည်။ ယင်းသို့ ကျောက်စာများကို စုဆောင်းခြင်းအားဖြင့် ဘုရင်ပိုင်ဆိုင်သောမြေ၊ သံဃာ့မြေ၊ ဘုရားမြေ စသည်တို့ကို ကွဲကွဲပြားပြား သိနိုင်ခဲ့သည်။ ထိုနောက် ငယ်ဆရာ ဖြစ်သော တွင်းသင်းတိုက်ဝန် မဟာစည်သူအား ကျောက်စာဝန်ခန့်တော်မူသည်။ တွင်းသင်းတိုက်ဝန်သည် ထိုကျောက်စာတို့ဖြင့် ညှိနှိုင်းကာ ညောင်ရမ်းခေတ်က ဦးကုလားရေး မဟာရာဇဝင်ကြီးကို ပြင်ဆင်၍ ရာဇဝင်သစ်ကို ရေးသား ပြုစုသည်။ ၁၁၄၅ ခုနှစ်တွင် ဘိုးတော်ဘုရားသည် သာလွန်မင်းတရားကြီး လက်ထက်တော်ကကဲ့သို့ မြို့ရွာ နယ်ပယ် လူနေ အိမ်ခြေ၊ ထွက်သောအသီးအနှံ၊ အရောင်းအဝယ်အခွန် အကောက်နှုန်း စသည်တို့ကို စစ်တမ်းထုတ်စေသည်။ ထိုပြင် မြို့ရွာ နယ်နိမိတ်အလိုက် အပိုင်းအခြား လက်စွဲကိုယ်ရံတော် စုသား ငန်းသား အသည် ဒိုင်ထမ်းတို့ကို ရှေးအစဉ် အဆက်အတိုင်း မငုပ် မတိမ်စေရ၊ အမှန်အကန် သီးသန့်ခြားနားတော်မူ၍ အသည်ဒိုင်ထမ်းတို့မှာ အိမ်ခြေ ၂၅ လျှင် တဒိုင် စည်းကြပ် ဖွဲ့စုတော်မူသည်။ ယင်းစာရင်း စုငန်းစာရင်းများကိုလည်း ပေထက်တင်၍ ရွှေတိုက်တော်၌ သွင်းတော်မူသည်။

သာသနာရေးဖက်၌လည်း ဘိုးတော်ဘုရားသည် အထူး ဂရုပြုကာ ဆောင်ရွက်တော်မူ၏။ စစ်ကိုင်း အိမ်တော်ရာရှိ အောင်မြေလောက စေတီတော်၊ ရေဝတီမြစ်၏ အနောက်

ဖက်ရှိ မင်းကွန်း စေတီတော် တို့သည် ဘိုးတော်ဘုရား၏ ကောင်းမှုတော်များဖြစ်သည်။ မင်းကွန်းစေတီတော်ကြီးမှာ အထုအထည် ကြီးမားလွန်းရကား ပြီးဆုံးသည့် တိုင်အောင် မတည်ဆောက်နိုင် ဖြစ်ခဲ့ရသည်။ မင်းကွန်းစေတီ အနီး၌ပင် ပိသာ ၅၅၅၅၅ ခန့် အချိန်ရှိသောကြေးခေါင်းလောင်းကြီး ကိုလည်း ဘိုးတော်ဘုရားက သွန်းလုပ် လှူဒါန်းတော်မူသည်။ (မင်းကွန်း — ရှု။) နိုင်ငံတဝှန်းရှိ မြို့ပေါင်း ၅၆ မြို့သို့ တမြို့လျှင် ပိဋကတ်တော်တစုံနှင့် သံဃာတော် ၅ ပါးကို သာသနာပြု စေလွှတ်တော်မူသည်။ သီဟိုဠ်မှလည်း သာသနာပြု စုပါမည့်အကြောင်း လျှောက်ထားသဖြင့် ပိဋကတ်စာပေနှင့် ရဟန်းတော်များပို့၍ သာသနာပြုသည်။ သီရိဓမ္မာသောက မင်းကြီးသည် မုဋ္ဌေဘုရားများကို တချိန်တခါတည်း တည်လုပ်သကဲ့သို့ ဘိုးတော်ဘုရားသည် မြန်မာနိုင်ငံ အရပ်ရပ်ရှိ ဌာန ၂၃၀ ၌ရွှေဂူ ၂၃၀ ကို တချိန်တည်း တည်တော်မူသည်။ ထို့ပြင် သပိတ်မှောက်အောက်တိုင် ပြိုပျက်နေသော ဟံသာဝတီ - မော်ဓောရှင် စေတီတော်ကို ပြန်လည် တည်လုပ်ရန် ဝန်ကြီးမဟာသီဟသူရအား ကံကျွေးလက်ခ ငွေတော်ပေးအပ်၍ စေလွှတ်ပြင်ဆင်တော်မူစေသည်၊ ပြိုကျပျက်စီးသော အခြား ထင်ရှားသည့် ဘုရားစေတီတော်များကိုလည်း အသစ်တည်၍ ရွှေထီးအထွတ်တင်လှူတော်မူသည်။ ရဟန်းသံဃာတော်များ အတင်ဂိုဏ်း အရုံဂိုဏ်းဟူ၍ ဂိုဏ်းကွဲကြရာ ဘိုးတော်ဘုရားက ကျောင်းတိုက် အပြင်အပသို့ ထွက်ကြွတော်မူကြသည့်အခါ သင်္ကန်းကိုရုံသင့်သည်ဟု အရုံဂိုဏ်းကို အနိုင်ပေး၍ ဆုံးဖြတ်ကာ သာသနာတော်အား တညီတညွတ်တည်း ဖြစ်စေခဲ့သည်။

ဘိုးတော်ဘုရား လက်ထက်၌ အနောက်အိန္ဒိယ မဇ္ဈိမဒေသ တိုင်းကြီးအရပ်ရပ်သို့လည်းမှူးမတ်အရာရှိတို့ကို ပညာတော်သင် အဖြစ် အကြိမ်ကြိမ် စေလွှတ်၍ လောကီ လောကုတ္တရာကျမ်းများ၊ ဆေးကျမ်း၊ ဓာတ်ကျမ်း၊ ဗေဒင်ကျမ်း၊ အကျင့်သိက္ခာနှင့် စပ်သောကျမ်းစသည်ဖြင့် ဗင်္ဂလီ၊ နာဂရီ၊ သက္ကတဘာသာတို့ဖြင့် ရေးသားထားသော ကျမ်းပေါင်း ၁၀၀ ကျော်ကို ရှာဖွေ စုဆောင်းပြီးလျှင် ပါဠိဘာသာ၊ မြန်မာဘာသာ ပြန်ဆိုစေသည်။ အိန္ဒိယနိုင်ငံတဝှန်းကို လှည့်လည်ခဲ့သော မြန်မာမှူးမတ်တို့သည် မဟာဗောဓိပင်ကို ဝင်ရောက် ဖူးမျှော်၍ ဗောဓိပင်ပွား ၂ ပင်ကို ပင့်ဆောင်ခဲ့ကြသည်။

ဘိုးတော်ဘုရားသည် နိုင်ငံတော် စည်ပင် ဝပြောရေးအတွက် မန္တလေးအရှေ့ဖက် အောင်ပင်လယ်ကန်နှင့် ယင်းကန်၏ မြောက်ဖက်ရှိ မောင်းမကန် ဟုလည်း ခေါ်သော နန္ဒာကန်တို့ကို ပြုစုတော်မူသည်။ ယခုအခါ မေမြို့သို့ တက်သော ကားလမ်းကြီးဖြစ်သည့် အောင်ပင်လယ်ကန်၏ လက်ရှိ ကန်ရိုးကြီးမှာ ဘိုးတော်ဘုရား ထပ်မံ ဆည်ဖို့တော်မူသော ကန်ရိုးသစ်ကြီးပင် ဖြစ်သည်။ ၁၁၅၇ ခုနှစ်တွင် သတ္တဝါအပေါင်းတို့ မှီခိုရာ ဖြစ်စိမ့်သောငှါ ဘိုးတော်ဘုရားသည် မိတ္ထီလာကန်ကို ဆည်ဖို့တော်မူသည်။ သက္ကရာဇ် ၁၁၆၂ ခုနှစ်တွင် ပြည်သူပြည်သားတို့အား စပါးတသိန်း ဝေငှပေးလှူတော်မူသည်။ နိုင်ငံတော်အတွင်း အရက်သေစာသောက်စားခြင်း၊ သားကြီး ငါးကြီးတို့ကို သတ်ဖြတ်ရောင်းချခြင်းတို့ကို တားမြစ်တော်မူသည်။

ဘိုးတော်ဘုရား လက်ထက်တွင်စ၍ မြန်မာနိုင်ငံ၌ မြန်မာငွေဒင်္ဂါးများ စတင် သွန်းလုပ်သည်။ ၁၁၄၃ ခုနှစ်တွင် အင်္ဂလန်ပြည်မှ ဆက်သလာသော ဒင်္ဂါးစက်ဖြင့် အမရပူရရွှေမြို့တော်၌ ငွေဒင်္ဂါး ကြေးနီဒင်္ဂါးများ သွန်းလုပ်သည်။

ယင်းသို့ သာသနာတော်အကျိုး၊ နိုင်ငံတော်အကျိုးများကို မပြတ် ဆောင်ရွက်တော်မူသော ဘိုးတော်ဘုရားသည် သက္ကရာဇ် ၁၁၈၀ ခုနှစ် နယုန်လဆန်း ၁၃ ရက်နေ့တွင် စည်းစိမ်တော် ၃၈ နှစ်၊ သက်တော် ၇၅ နှစ်အရွယ်၌ နတ်ပြည်စံတော်မူသည်။

ဘိုးတော်ဘုရား၏ မိဖုရားခေါင်ကြီးကား မင်းသီရိရန္တဇ သမီးတော် မဟာအတုလ ဒေဝီနှင့် အင်းဝ ဗိုလ်မှူးတို့၌ ၁၁၀၅ ခု နှစ်တွင်မြင်သည့် သမီးတော် အောင်မြေဘုံကျော်ကျောင်းဒါယိကာမ သီရိ ပဝရ မဟာရာဇိန္ဒာ မင်္ဂလာရတနာဒေဝီဖြစ်သည်။ ၁၁၂၂ ခုနှစ်တွင် မင်းတရားကြီးနှင့် စုလျားရစ်ပတ်၍ ၁၁၆၈ ခုနှစ် တပေါင်းလတွင် နတ်ပြည်စံသည်။

ဘိုးတော်ဘုရားတွင် သားတော်သမီးတော်ပေါင်း ၁၂၂ ယောက်ရှိသည်တွင် သမီးတော် ၆၁ ပါး၊ သားတော် ၆၁ ပါး ဖြစ်သည်။

ဘိုးတော်ဘုရားသည် အတတ်ပညာရှိသည်။ ဆင်ခြင်တိုင်းထွာတတ်သော ဉာဏ်လည်း ရှိသည်။ ရဲရင့်တည်ကြည်သည်။ ပညာရှိတို့ကို မြတ်နိုးတော်မူ၍ ပညာရှိတို့နှင့် မပြတ်တိုင်ပင်လေ့ရှိသည်။ ဘိုးတော်ဘုရား လက်ထက်၌ လုပ်ရည် ကြံရည်နှင့်ပြည့်စုံသော အမှုထမ်းကောင်း မှူးမတ်သူရဲကောင်း ပေါများသဖြင့် နိုင်ငံတကာမှ ဘဝါးကျွန်အောက်ပြု၍ ချစ်ကြည်မှုကို ပြုကြသည်။ ဘိုးတော်ဘုရားသည် ရန်သူတို့ကို အကျပ်အတည်းနှိပ်ကွပ်သော်လည်း သစ္စာစောင့်သိသော ကျွန်တော်မျိုးတို့ကိုကား မြှောက်စား ချီးမြှင့်တော်မူသည်။ ဘိုးတော်ဘုရား လက်ထက်၌ မှူးကောင်းမတ်ကောင်း သူရဲကောင်းတို့သာ ပေါသည်မဟုတ်၊ စာဆိုပညာရှိကြီး များစွာလည်း ထွန်းကားခဲ့သည်။ မင်းလက်ဝဲသုန္ဒရ၊ တွင်းသင်းမင်းကြီး မဟာစည်သူ၊ ဝက်မစွတ်မြို့စားနဝဒေး၊ အမတ်ကြီး ဦးပေါ်ဦး၊ သာချင်း ဆရာကြီး ဦးအောင်ဖြိုး၊ ဝန်ကတော် မယ်ခွေ၊ မင်းပူးဆရာတော် ဦးဩဘာသ စသည်တို့သည် ဘိုးတော်ဘုရား လက်ထက် ကျော်ကြားသော စာပြု စာဆို ပညာရှိကြီးများ ဖြစ်သည်။

**ဘိုးရာဇာ** (လွန်၊မြန်မာ ၇၇၃) ။ ။ဘိုးရာဇာသည် အင်းဝခေတ်တွင် အလွန်ထင်ရှားသော ပညာရှိ အမတ်ကြီး တဦးဖြစ်သည်။ မင်းပေးသည့် ရာဇာဟူသော အမည်တွင် ဝယဝုဒ္ဓိကိုထောက်၍ အဘိုးထပ်ဆင့်လျက်၊မင်းနှင့်တကွ မှူးမတ်ပြည်သူတို့က အဘိုး ရာဇာဟူ၍ ခေါ်ဝေါ်ခဲ့ကြရာမှ ဘိုးရာဇာဟုတွင်ခဲ့ခြင်း ဖြစ်၏။ မင်းရာဇာဟူ၍လည်း ခေါ်ဝေါ်ခဲ့ကြသည်။ထိုပြင် မူလနေရပ်ကို အစွဲပြု၍လည်း ဝန်စင်းမင်းရာဇာဟူ၍ ခေါ်ဝေါ်ကြသေး၏။ဘိုးရာဇာသည် ထွန်တုံးမှထိပ်ဆုံးသို့ ရောက်အောင်ကြိုးပမ်းခဲ့သူ ဖြစ်လေသည်။ ဘိုးရာဇာ၏ မိဖ မည်ရည် မွေးဖွားသက္ကရာဇ်များကိုမူ အတိအကျ မတွေ့ရပေ။ သုသောဓိတ မဟာရာဇဝင်နှင့် မဏိရတနာပုံ ကျမ်းများအလိုအရ ဘိုးရာဇာသည် အင်းဝ နေပြည်တော်မှ ၇၂ မိုင်ဝေးကွာသော မိတ္ထီလာနယ် ဝန်စင်းရွာမှ အသည်သားတဦးဖြစ်သည်။ ထိုအသည်သားသည် ငယ်ရွယ်စဉ်ကပင် ဗဟုသုတကို လေ့လာလိုက်စားခဲ့သည်။ အရွယ်ရောက် ကာလ ငန်စင်းရွာသူကြီး၏ သမီးနှင့် ရည်ငံသည်။ သူကြီးက ဤသူငယ်သည် ဗဟုသုတကိုသာ လေ့လာလိုက်စားသည်။ကြိုးကြိုးပမ်းပမ်း ဆင်းရဲခံ၍ လုပ်ကိုင်စားမည့်သူ မဟုတ်ဟု ယူဆ၍ မနှစ်သက်ချေ။ သို့သော် သမီးနှစ်သက်သူ ဖြစ်သဖြင့် သမီးအလိုကျ ခွင့်ပြုလျက်၊ လယ်နှင့်နွားတရှဉ်းကိုပေး၍ လွတ်ရာတွင် နေစေလေသည်။

မြန်မာ သက္ကရာဇ် ၇၃၀ ပြည့်နှစ်တွင် မိတ္ထီလာ ကန်တော်ကျိုးပေါက်သဖြင့် အင်းဝဘုရင် မင်းကြီးစွာစော်ကဲ ကိုယ်တော်တိုင် လာရောက် ဆည်ဖို့ပြုပြင်ရာ၊ ကန်ရိုးပေါ်တွင် မိန်းမရုပ်နှင့် နတ်ကွန်းတခုကို တွေ့ရှိ၏။ ထိုနတ်ကွန်း အ အကြောင်းကို သိမှီလောက်သော သူတို့အား မေးမြန်းရာ မတင်မလျှောက်နိုင်ရှိကြသည်။ ပြောကြားနိုင်မည့်သူကိုမေးစစ်ရာ၊ ဝန်စင်းသူကြီးသမက်သည် အမှတ်အသား အကြားအမြင်နှင့် ပြည့်စုံကြောင်း လျှောက်၍ ခေါ်စေ၏။ ဝန်စင်းသူကြီးလည်း သမီးကို ခေါ်လျက်၊ အသည်သားအား မင်းဧကရာဇ်က တောင်းခေါ်ကြောင်း ကြောက်လန့် တကြားပြောသည်။ သမီးဖြစ်သူလည်း စိုးရိမ်ကြီးစွာဖြင့် ခင်ပွန်းသည် ယာထွန်ရာသို့ လိုက်ကာ အကြောင်းကြား၏။ အသည်သားလည်း မိမိပညာ အကျိုးကို ခံစားရတော့မည်ဟု ပြောကြား၍၊ ဇနီးသည်၏ ပူပန်မှုကို ပြေပျောက်စေလျက် ခိုင်းစေနေသော နွားတရှဉ်း၏ ဦးချိုတွင် သပြေပန်း စည်း၍ အပြီးတိုင် လွှတ်လိုက်ပြီးမှ ဘုရင်ထံ အခစား ဝင်လေသည်။

မင်းကြီးစွာက ထိုနတ်ကွန်းအကြောင်းကို မေးမြန်းတော်မူရာ၊ နတ်ကွန်း မဟုတ်ပါ၊ အရှင့်ဘေးလောင်းတော် အနော်ရထာမင်းစောသည် မိတ္ထီလာကန် ဆည်လာရာတွင်၊ အလွန်မြတ်နိုးသော မိဖုရားငယ် ကြမ္မာကုန်၍၊ ရွှေစင်ဖြင့်သွန်းလုပ်ထားသည့် ထိုမိဖုရားငယ်၏ ရုပ်တုကို ကန်ရိုးတွင် အခိုင်အခံ့ မြှုပ်နှံထားပြီးသော်၊ ထိုရွှေရုပ်နှင့်တူသော သစ်သားရုပ်ကို တန်ဆောင်းပြာသာဒ်ပြုလျက် ကန်ရိုးပေါ်တွင် ထားတော်မူခဲ့ခြင်း ဖြစ်ပါသည်။ ထိုအရုပ်ကို လူတို့က စားဦးသောက်ဦးတင်၍ နတ်ကွန်းခေါ်ဝေါ်ပသတ်ကြခြင်း ဖြစ်ပါသည်ဟူ၍ အသည်သားက တင်လျှောက်၏။ထိုတင်လျှောက်ချက်အရ ကန်ရိုးကန်ပေါင်ကို ဖျက်ယူတူးဖော်စေရာ၊ ရွှေသားရုပ်ပုံကို ရလေသည်။ မင်းကြီးစွာလည်း ဝန်စင်းအသည်သား၏ အမှတ်အသား အတင်အလျှောက် ရုပ်ရည် သဏ္ဍာန်တို့ကိုနှစ်သက်သဖြင့် ဆုလာဘ်များစွာပေးသနားပြီးနောက်၊ နန်းတော်သို့ ခေါ်ယူတော်မူ၏။ အသည်သားသည်လည်း အင်းဝသို့ ရောက်သောအခါ တောင်မြင့်ကျောင်းတွင်တည်းနေသည်။ ထိုညဉ့်တွင် ဝန်စင်း အသည်သား ထွေးသော တံထွေးကို ကျောင်းဦး၌ ကိုးကွယ်သော ရုပ်တုတော်ခံဘွင်းဖြင့် ခံသည်ဟု ကျောင်းနေသူမြတ် အိပ်မက်မြင်၏။ အိပ်မက်ကို ဝန်စင်းအသည်သားအား ပြန်ကြားလျှင်၊ မင်းမြတ်သည် ကျွန်ုပ်လျှောက်လဲသမျှကို ယူတော်မူမည်ဟုဖတ်ကြားသည်။

ဝန်စင်း အသည်သား အင်းဝသို့ရောက်၍ တနှစ်ခန့်ကြာလျှင်၊ အတွင်းသင်းမှူး ငနု ပုန်ကန်သောကြောင့်၊ ငနု၏ အစ်ကို မင်းကြီး၏ ယောက်ဖတော် ရာဇသင်္ကြံအား အမျက်တော် ရှိ၍ အရေးယူရန် မင်းကြီးက အသည်သားနှင့် တိုင်ပင်၏။ အသည်သားသည် မင်းကြီးနှင့်တကွ သားတော်အစဉ် မြေးတော်အဆက် မြစ်တော်အညွန့် တိုင်အောင် အကျိုးများမည့် စကားတို့ဖြင့် လျှောက်ကြားလေသည်။ မင်းကြီး နှစ်သက်တော်မူသဖြင့်၊ စည်းတပြစ်ကြီး မရှိသည်ဖြစ်၍ စည်းတပြစ် အမည်နှင့်အဆောင်အယောင် ပေးတော်မူလေသည်။ (စည်းတပြစ် — ရှု။) ထိုနောက်တွင် ပြည်ရေး ပြည်မှု အစုစုကို မင်းကြီးလည်း စည်းတပြစ်အမတ်ကို တိုင်ပင်၏။ စည်းတပြစ် အမတ်လည်း မင်းနှင့်တကွသော တိုင်းပြည် အကျိုးကိုရှေးရှုလျက် အထူးထူးသော ပုံပြင်နည်းနာတို့ဖြင့် အရေးမှန်ရာကို လျှောက်ထားခဲ့လေသည်။ သားတော် ဘုရင် မင်းခေါင်လက်ထက်တွင် စည်းတပြစ်အမတ်သည် ရာဇာဟူသောအမည်နှင့် ကြီးစွာသော အဆောင်အယောင် ပေးသနားခြင်းခံရလေသည်။ မင်းရာဇာကား ဘုရင်မင်းကြီးစွာ လက်ထက် စည်းတပြစ်အမည်ကို ခံသည်။ သားတော် ဘုရင် မင်းခေါင်လက်ထက်တွင်မှ ရာဇာ အမည်ကို ခံသည်။

မင်းရာဇာသည် ပေါ်ပေါက်လာသော ပြဿနာ အရပ်ရပ်တိုင်းကို ချိန်ဆိုင်းမှန်းဆလျက် လျှော်ကန်သင့်မြတ်လှသည့် ဥပမာ ပုံဆောင်ပြီးလျှင် ဘုရင်မင်းတို့ နားဝင်လွယ်အောင် လျှောက်နိုင်စွမ်းရှိပေသည်။ မင်းရာဇာ၏ လျှောက်ထားချက် စကားများမှာလည်း နေ့စဉ် တွေ့ကြုံနေရသည့် အဖြစ်အပျက်များကို ပမာတင်စား ပုံခိုင်းထားခြင်း ဖြစ်သဖြင့် လူတိုင်းပင် နားလည်လွယ် သိမှတ်လွယ်၏။

ထင်ရှားသော လျှောက်ထုံးတခုမှာ မြန်မာ သက္ကရာဇ် ၇၃၂ ခုနှစ်တွင် ကလေးမြို့နှင့် မိုးညှင်းမြို့တို့ စစ်ဖြစ်၍ အင်းဝ မင်းထံ နှစ်ဖက်လုံးမှ စစ်ကူ တောင်းလာလေသည်။ ကလေး ကလည်း နိုင်လျှင် မိုးညှင်းကိုဆက်ပါမည်ဆိုလာ၏။ မိုး ညှင်းကလည်း နိုင်လျှင် ကလေးကို ဆက်ပါမည် ဆိုလာ၏။ ထိုအရေးကို မင်းကြီးစွာစော်ကဲက စည်းတပြစ်အား တိုင်ပင် လေသော်၊ လယ်ထွန်ယောကျ်ား ဥပမာပြကာ လျှောက် သည်။ လယ်ထွန်ယောကျ်ားတဦးသည် လယ်ထွန်နေစဉ် တွင် တောစပ်၌ ကြက် ၂ ကောင် ခွပ်နေသည်ကို မြင်၍ ဤသို့ ကြံ၏။ ယခု ကြက်ကိုဖမ်းလျှင် လယ်လည်းမညက် သေး၊ ကြက်လည်း မပန်းသေး၊ လယ်လည်းညက်စေ၊ ကြက် လည်းပန်းစေဦး ဟူ၍ လယ်ကို ဆက်၍သာ ထွန်လေသည်။ လယ်ညက်၍ကြက်ပန်းချိန်မှပင် ခြေကို ငင်ကာ ယူလေသကဲ့ သို့ ပြုတော်မူဟု လျှောက်လေသည်။ လျှောက်ထားချက် အတိုင်း မင်းကြီးလိုက်နာတော်မူခဲ့ရာတွင် နှစ်ပြည်ထောင် လုံးကို ရလေသည်။

မင်းရာဇာသည် အင်းဝနေပြည်တော်တွင် မင်းကြီးစွာ စော်ကဲလက်ထက်တွင် သာမက၊ ၇ လသာ နန်းစံရသော ဆင်ဖြူရှင် တရဖျားအပြင်၊ ဘုရင်မင်းခေါင်၏ လက်ထက် တိုင် မင်းသုံးဆက်၊ နှစ်ကာလ ၅၃ နှစ်မျှ ကြာအောင် တိုင်း ကျိုး ပြည်မှုများကို ထမ်းဆောင်ခဲ့သည်။ မြန်မာ သက္ကရာဇ် ၇၈၃ ခုနှစ် ဘုရင်မင်းခေါင် နတ်ရွာစံသည့် နှစ်တွင်ပင် ပညာ ရှိအမတ်ကြီး ဘိုးရာဇာ ကြမ္မာကုန်လေသည်။

**ဘိုးလှိုင်၊ ဦး၊ ယောအတွင်းဝန်** (မြန်မာ ၁၁၈၁ — ၁၂၄၅)။ ။မြန်မာ့သမိုင်းနှင့် မြန်မာ့ ဂန္ထဝင်တို့တွင် ယောအ တွင်းဝန်ဟူ၍၎င်း၊ ရွှေပြည်ဝန်ဟူ၍၎င်း၊ ရွှေပြည်မင်းကြီးဟူ၍ ၎င်း၊ ယောမင်းကြီး ဟူ၍၎င်း၊ ဝက်မစွတ် မြို့စားဟူ၍၎င်း၊ မကွေးမြို့စား ဝန်ရှင်တော် မင်းကြီးဟူ၍၎င်း ဘွဲ့အမည်နာမ အမျိုးမျိုးနှင့် ထင်ရှားကျော်စောသော ဦးဘိုးလှိုင်သည် မြန် မာ့ နိုင်ငံရေးနှင့် အုပ်ချုပ်ရေး အတွေးအခေါ် အယူအဆတို့ ကို ခေတ်နှင့် လျော်အောင် တိုးတက်ဖွံ့ဖြိုးစေရန် ကြံဆရွက် ဆောင်ခဲ့သော မြန်မာ့ နိုင်ငံရေး သုခမိန်တဦး ဖြစ်သည်။

မြန်မာ့ဂန္ထဝင်တွင် နိုင်ငံတော် တည်တံ့ကြီးပွား တိုးတက် ရေးကို ဦးထိပ်ထား၍ အများပြည်သူတို့ ကျင့်ဝတ် မည်သို့ ရှိအပ်သည်ကို ပြဆိုသော စာဏကျနီတိကျမ်း၊ ရာဇနီတိ ကျမ်း၊ လောကနီတိကျမ်းစသော နီတိကျမ်းတို့သည် များ စွာရှိကုန်သည်။ ထိုကျမ်းတို့သည် မင်းနှင့်တကွသော တိုင်း သူပြည်သားတို့ ပါဝင်သည့် လူ့အဖွဲ့အစည်းကို ကွပ်ကဲထိန်း သိမ်း လမ်းညွှန်ပေးသော သဘောရှိသည်ဖြစ်၍၊ ယခုခေတ် မျက်စိနှင့်သော် နီတိကျမ်းဟူသည်မှာ နိုင်ငံရေးအတွေးအ ခေါ် အယူအဆ အခြေခံတို့ကို ပြဆိုသောကျမ်းများ ဖြစ် သည်ဟု ဆိုရလိမ့်မည်။ ဦးဘိုးလှိုင်သည် ထိုရှေးနီတိကျမ်း တို့၌ ဖွင့်ဆိုသော ရှေးရိုးစဉ်လာ မြန်မာ့အတွေးအခေါ် အ ယူအဆတို့ကို နိုင်ငံခြားနှင့် ကူးလူးဆက်ဆံရာမှ ရရှိအပ် သော နိုင်ငံရေး၊ အုပ်ချုပ်ရေး၊စီးပွားရေး၊ လူမှုရေး အသိ တရားများနှင့် နှီးဆ၍၊ ထိုခေတ် မြန်မာနိုင်ငံသားတို့အား အမြင်သစ်တရပ် ပေးခဲ့သည်။ ဦးဘိုးလှိုင် ရေးသားစီရင် သော ရာဇဓမ္မသင်္ဂဟကျမ်းသည် ဤအချက်ကို သက်သေပြု သည်။ ထိုကျမ်းတစောင်နှင့်ပင် ကျမ်းပြုပုဂ္ဂိုလ်သည် နိုင်ငံ ရေး သုခမိန် ဟူသော ပညတ်ကို ခံယူဆိုက်သည်။ စင်စစ် ဦးဘိုးလှိုင်သည် သက္ကတ၊ ပါဠိ၊ မြန်မာစာပေတို့၌သာ နှံ့ စပ်သည်မဟုတ်၊ အနောက်တိုင်း ဝိဇ္ဇာနှင့် သိပ္ပံပညာတို့၌ လည်း နှံ့စပ်သည်။ သို့ဖြစ်၍ အနောက်ဘိုင်းမှ ရအပ်သော ပညာဗဟုသုတတို့ကို မြန်မာပစ္စည်းဖြစ်အောင် ကြံဆောင် ရင်းနှင့် မြန်မာ့ရိုးရာကိုလည်း ထိန်းသိမ်းပေးသည်။ ဤ၌ နိုင်ငံခြား ဗဟုသုတပြန့်ပွားအောင်ပြု၍၊ မြန်မာ့ရိုးရာ ယဉ် ကျေးမှုတို့ကိုလည်း ပြန်လည်ထုတ်ဖော်သော မြဝတီဝန်ကြီး ဦးစ၏ အစဉ်အလာကို ယောအတွင်းဝန် ဦးဘိုးလှိုင်က ဆက် လက်ထိန်းသိမ်းသည်ဟု ဆိုရမည် ဖြစ်၏။ (စ၊ဦး၊မြဝတီဝန် ကြီး — ရှု။)

ယောအတွင်းဝန်သည် ဘကြီးတော် လက်ထက် ၁၁၈၁ ခု နှစ် နှောင်းတန်ခူးလဆန်း ၁၁ ရက် သောကြာနေ့တွင် မြင်း ခြံမြို့အထက် တလုပ်မြို့အဝင်အပါ ရွာပုလဲရွာ၌ အဖ ရေနံ ချောင်းမြို့စား၊ ယင်းတောဝန်ကြီးမင်း၊ သတိုးမင်းလှကျော် ထင်နှင့် အမိဝန်ကြီးကတော် မယ်ငြိမ်းတို့မှ ဖွားမြင်သည်။ ငယ်မည်မှာ မောင်ဘိုးလှိုင် ဖြစ်သည်။ မောင်လှိုင် ဟူ၍ လည်း တွင်၏။ မျိုးရိုးအားဖြင့် မှူးမတ်မျိုးဖြစ်သည်။

ယင်းတောဝန်ကြီးသည် ဘိုးတော်မင်းတရားကြီး၏ ချစ် ကျွမ်းဝင်သော ရဲဘော်ရွှေပြည်ဝန် လက်ဝဲဝင်းတော်မှူး၏ သားမက်ဖြစ်သူ စာရေးတော်ကြီး၏သားတည်း။ ဤသည် ကို ရည်၍၊ ဘိုးတော်မင်းတရား၊ ဘကြီးတော်မင်းတရား၊ မင်းတုန်းမင်းတရား တည်းဟူသော မင်း ၃ ဆက်စလုံး၌ အ ဘိုးသည်၎င်း၊ အဖသည်၎င်း၊ မိမိသည်၎င်း အစဉ်အဆက် မပြတ် ပြည့်ရှင်မင်းတို့၏ ရဲဘော်ချည်းသာ ဖြစ်ခဲ့သည်ကို ဦးဘိုးလှိုင်သည် များစွာ ဂုဏ်ယူသည်။

မောင်ဘိုးလှိုင်သည် ရှေးဦးစွာ တလုပ်မြို့နယ် ကျပွံ့ရွာ လျှင် ဖွားရာဇာတိ ရှိသော မဟာထေရ်ထံ သာမဏေဘဝနှင့် ပညာ သင်ယူသည်။ မောင်ဘိုးလှိုင် အသက် ၉ နှစ်ရွယ် ရောက်သော်၊ သာယာဝတီမင်းသည် ဘကြီးတော်မင်းတရား ကို ထီးနန်းချ၍ စိုးစံတော်မူသည်။ ၁၂၀၆ ခုနှစ် နယုန်လ ဆန်း ၇ ရက်နေ့တွင် သာယာဝတီမင်းသည် ယင်းတောဝန် ကြီးအား ပြည်မင်းနှင့် ကြံရာပါဟု ဆို၍၊ ကိုယ်တော်ဘိုင် ကွပ်မျက်တော်မူသည်။ ထိုအခါ ယင်းတောဝန်ကြီးကတော်



လောကီ လောကုတ္တရာ နှစ်ဖြာနှစ်ဝ နှံ့စပ်ကာ ကျမ်းပေါင်းများစွာ ပြုစုခဲ့သူ ရှေးပြည်ဝန်ကြီး ယောအတွင်းဝန် ဦးဘိုးလှိုင်

သည် ၁၆ နှစ်သားအရွယ် မောင်ဘိုးလှိုင်အား ကိုရင်လူထွက်စေ၍၊ မင်းတုန်းမင်းသားနှင့် မြောက်ဆောင်တော်မိဖုရားတို့ထံ သားအဖြစ် မွေးစားရန် အပ်နှံသည်။ အရှင်နှစ်ပါးတို့လည်း မောင်ဘိုးလှိုင်ကို ထပ်မံ၍ ရှင်သာမဏေပြုပြီးလျှင် ပင်းဆရာတော်၊ ပြည်ဆရာတော်၊ ဗားဂရာ သာသနာပိုင် ဆရာတော်တို့ထံ အပ်နှံ၍ ပညာသင်ကြားစေသည်။

၁၂၁၄ ခုနှစ်၌ မြန်မာနှင့် အင်္ဂလိပ်တို့ ဒုတိယအကြိမ် စစ်ဖြစ်၍ ပဲခူးကို သိမ်းပိုက်သည်ကို အကြောင်းပြု၍၊ တိုင်းပြည်မငြိမ်မသက်ရှိစဉ်၊ နောင်တော် ပုဂံမင်း အထင်လွဲမှားမှုကြောင့် မင်းတုန်းမင်းသားနှင့် ကနောင်မင်းသား ညီနောင်တို့သည် ရတနာသိင်္ဃသို့ တိမ်းရှောင်ကြရသည်။ ထိုအခါ မင်းတုန်းမင်းသားသည် မဲထီးကျောင်း၌ ပဉ္စင်းပျိုအဖြစ်နှင့် ပညာသင်ကြားနေဆဲဖြစ်သော မောင်ဘိုးလှိုင်ကို လူဝတ်လဲစေ၍ ခေါ်ဆောင်သွားသည်။ ၁၂၁၄ ခုနှစ်ပြာသိုလဆန်း ၁၁ ရက်နေ့တွင် ရတနာသိင်္ဃမြို့အနီး တအုံ့ရွာညောင်ပင်ကြီးစခန်းသို့ ရောက်သော် စစ်နှစ်ဖက်ညပ်၍ မဆုတ်သာ မတက်သာရှိနေသော မင်းတုန်းမင်းသားအား ကသည်းနယ်ထဲတွင် ခိုလှုံ၍ အရေးတော်ပုံကို ကြံမည့်အစား၊ စစ်ဦးစစ်ခကောင်းဆဲတွင် တော်လှန်မှသာ အရေးတော်ပုံ အောင်မြင်မည်ဟု မောင်ဘိုးလှိုင်က အကြံပေးသည်။ ဤအကြံအတိုင်း ဆောင်ရွက်၍ အလိုတော်ပြည့်လတ်သော်၊မင်းတုန်းမင်းသားသည် ပုဂံမင်းကို နန်းချ၍ မင်းအဖြစ်ကို ယူတော်မူသည်။ မင်းတုန်းမင်းတရားလည်း မောင်ဘိုးလှိုင်ကို အရည်အသွေးထောက်မြော်၍ရှင်း၊ ရင်နှစ်မပြား မွေးစားတော်မူခဲ့ရင်းကို အကြောင်းပြု၍ရင်း မင်းလှစည်သူဘွဲ့ဖြင့် ယောမြို့ကို စားစေသည်။ ဤသည်တွင် ယောမြို့စားမင်းသားဟု ထင်ရှားလာသည်။ ယောမြို့စားမင်းသားသည် မြင်းတင်ခွန်ကို စားရ၍၊ ကုလားဝန်အရာ၌ ခန့်အပ်ခြင်းကို ခံရကြောင်း အဆိုရှိသည်။ ကုန်းဘောင်ဆက် မဟာရာဇဝင် တော်ကြီး၌ကား ဤအကြောင်းကို ဖော်ပြထားခြင်း မရှိချေ။ သို့ရာတွင် နိုင်ငံခြား ဆက်ဆံရေးကိစ္စတို့တွင် ယောမြို့စား မင်းသားသည် လက်တွေ့ ပါဝင် ဆောင်ရွက်ရသည့် သာဓကများစွာ ရှိလေသည်။

၁၂၁၅ ခုနှစ်တွင် ယောမြို့စား မင်းသားသည် မကွေးမြို့စား ဝန်ကြီး သတိုး မင်းကြီးမင်းလှ မဟာသီဟသူ၏ သမီး အသက် ၂၀ အရွယ်ရှိ ခင်ဖြူနှင့် ထိမ်းမြားလက်ထပ်သည်။ ၁၂၁၉ ခုနှစ်တွင် အသက် ၂၈ အရွယ်၌ ယောမြို့စားသည် မင်းကြီးမင်းလှမဟာစည်သူဘွဲ့နှင့် အတွင်းဝန်အရာ၌ သူကောင်းပြုခြင်း ခံရပြီးလျှင်၊ ငွေခွန် ၁၂ ရပ်၊ အကောက်၊ ရေနံ၊ ဈေး၊ ပွဲ၊ ကင်း၊ ကူးတို့ တို့ကို စားရသည်။ ယောမြို့စား အတွင်းဝန်ဖြစ်လျှင် ဖြစ်ခြင်း ပိဋကတ်သုံးပုံကို ကျောက်ထက်အက္ခရာ တင်သည့် ကိစ္စ၌ ကြီးမှူးဆောင်ရွက်ရသည်။

၁၂၂၇ ခုနှစ်တွင် မင်းအမျက်တော်ရှ၍ ယောအတွင်းဝန်သည် ပဥ္စမဦးစွာ ရာထူးမှ နုတ်ပယ်ခြင်းကို ခံရလေသည်။ သို့ရာတွင် ၁၂၂၈ ခုနှစ် မြင်ကွန်းမြင်းခုန်တိုင် အရေးတော်ပုံ၌ ကနောင်မင်းသားကြီး လုပ်ကြံခံရသည်တွင် တိုင်ပင်ဖော် တိုင်ပင်ဖက်ကို အလိုရှိတော်မူသော မင်းတုန်းမင်းတရားကြီးသည် ဦးဘိုးလှိုင်ကို ယောမြို့စား မင်းကြီး မဟာမင်းလှစည်သူ ဘွဲ့ဖြင့် ဆောင်ကြီးရွက်ကြီး အစီးအနင်းနေရာတော်များကို အထက်က သူကောင်းပြုတော်မူရင်း အတိုင်း ပြန်၍ ပေးသည်။ သို့ရာတွင် အတွင်းဝန်ရာထူးကိုမူကား ၁၂၃၁ ခုနှစ်ကျမှသာ ပြန်၍ ပေးသည်။ ထိုအခါ ကျီဝန် အရာကိုပါ ရခြင်းကြောင့်၊ ယောအတွင်းဝန်သည် အတွင်းဝန်ကျီဝန် ယောမြို့စား မင်းကြီးမင်းလှမဟာစည်သူ ဟူသော ဘွဲ့အမည်ကို ခံယူရသည်။ ဤအတွင်း ယောအတွင်းဝန်သည် မြန်မာ-အင်္ဂလိပ် ရောင်းရေးဝယ်မှုစာချုပ် ချုပ်ဆိုရာ၌ရှင်း၊ အင်္ဂလိပ်တို့က ဗန်းမော်ကို စခန်းပြု၍ ယူနန်နယ်နှင့် ကူးသန်းရောင်းဝယ်ရန် နည်းလမ်းရှာရာ၌ရှင်း သံတမန် ဆက်ဆံရေး လုပ်ငန်းတို့တွင် ဘုရင်မင်းမြတ်၏ အတိုင်ပင်ခံ အဖြစ်ဖြင့် ဆောင်ရွက်သည်။

၁၂၃၃ ခုနှစ်ပဥ္စမသင်္ဂါယနာတင်သော နှစ်တွင် မင်းတုန်းမင်းတရားသည် ယောအတွင်းဝန်အား ပုဂံပြည် ကျော်စွာမင်း တည်ထားသော ဘုရားကို ပြင်ရန် စလင်းမြို့သို့ စေလွှတ်သည်။ သို့ရာတွင် ဗျစ်ရည်ကို ဆေးခါးကြီးရည်နှင့် တူကြောင်း ပြောမိသည်ကို အကြောင်းပြု၍ ယောအတွင်းဝန်အား ကုန်းချောကြရာ၊ မင်းတုန်းမင်းတရားသည် စလင်းသို့အသွား မြင်းခြံမြို့သို့ ရောက်နေသော ယောအတွင်းဝန်ကို

ရာထူးမှ ချ၍ အကျယ်ချုပ်နှင့် တောင်မြို့(အမရပူရ)သို့ ပို့သည်။သို့ရာတွင်ယောအတွင်းဝန်သည် ၆ လမျှသာအချုပ်ခံရ၍၊ရာထူးသို့ ပြန်လည် ခန့်အပ်ခြင်းခံရသည်။ ထိုနောက် တဖန် ပညာမရှိသော အမတ်တို့ ဘုန်းကြီးလျှင်၊ ပြည်ရွာပျက်တတ်ကြောင်း မင်းတုန်းမင်းတရားကြီးအား မထောက်မညှာလျှောက်ထားမိသောကြောင့်၊ နောက်တနှစ်တွင် အကျယ်ချုပ်နှင့် ရာထူးမှ လျှောချခြင်းကို ခံရပြန်သည်။ သို့သော် ၁၂၃၆ ခုနှစ်တွင် ပတ္တမြားနယ်မြေ ဓာတ်သတ္တုတူးဖော်ရေးဆိုင်ရာ မြန်မာ–ပြင်သစ် စာချုပ်ကိစ္စနှင့် စပ်လျဉ်း၍၊ နိုင်ငံခြား သံတမန်ဆက်ဆံရေးအကြောင်းကိစ္စပေါ်လာသော အခါ မင်းတုန်းမင်းတရားသည် ယောအတွင်းဝန်ကို ပြန်ခေါ်၍၊ မင်းကြီး မင်းလှမဟာစည်သူဘွဲ့အမည် အပ်နှင်းပြီးလျှင်၊ ဝက်မစွတ်မြို့ကို စားစေသည်။ အတွင်းဝန်ရာထူးအပြင်၊ ရွှေပြည်ဝန်လည်း ခန့်တော်မူသည်။ ဤသည်တွင် အတွင်းဝန်ရွှေပြည်ဝန် ဝက်မစွတ်မြို့စားဟု ထင်ရှားပြန်သည်။

၁၂၃၆ ခုနှစ်တွင် မင်းတုန်းမင်းတရားကြီးသည် မဟာသမ္မတတင်မြှောက်သော နည်းအတိုင်း မုဒ္ဒါဘိသိက်ခံတော်မူသည်။ ထိုအခမ်းအနားတွင် ရွှေပြည်ဝန်သည် ကြီးမှူးစီစဉ်ရသည်။ ၁၂၃၈ ခုနှစ်တွင် မင်းတုန်းမင်း၏ အရှေ့နန်းမတော် မိဖုရားခေါင်ကြီး နာမကျန်းရှိသောအခါ ရွှေပြည်ဝန်သည် အနောက်နိုင်ငံဆေးအတတ်တတ်သော ဂျာမန်အမျိုးသား သစ်တောဝန် တဦးနှင့်အတူ မိဖုရားခေါင်ကြီးအား ပြုစုစောင့်ရှောက်သည်။ သို့သော် မိဖုရားခေါင်ကြီးသည် ဝေဒနာမှ မသက်သာဘဲ နတ်ပြည်စံတော်မူသည်။ ၁၂၃၉ ခုနှစ်တွင် ရွှေပြည်ဝန်ကြီး ကိုယ်တိုင် ကြီးမှူး ကြပ်မလုပ်ဆောင်သော မဟာအတုလ ဝိဇိတာရာမတိုက် မဟာအတုလ ဝေယန်ကျောင်းတော်ကြီး ပြီးစီးသည်။ ၁၂၄၀ ပြည့်နှစ် သီတင်းကျွတ် လဆန်း ၆ ရက်နေ့၌ မင်းတုန်းမင်း တရားကြီး နတ်ပြည်စံလေသည်။

သီပေါမင်းတရား ထီးနန်းဆက်ခံသောအခါ ရွှေပြည်ဝန် ဝက်မစွတ်မြို့စားသည် သတိုး မင်းကြီး မင်းလှမဟာမင်းခေါင် သီဟသူဘွဲ့ဖြင့် ဝန်ကြီး ခန့်အပ်ခြင်းကို ခံရသည်။ ၁၂၄၀ ပြည့်နှစ် နတ်တော်လဆန်း ၇ ရက်နေ့တွင် မင်းအစရှိသော အစိုးရသူကြီးတို့ ကျင့်အပ်သော ကျမ်းဖြစ်သည့် ရာဇဓမ္မသင်္ဂဟကျမ်းကို ရေးသားဆက်သသည်။ ဤအတွင်း ဝက်မစွတ်မြို့စား ဝန်ကြီးသည် မကွေးမြို့စားဝန်ကြီး ဖြစ်လာဟန်တူသည်။ သို့ရာတွင် ရာဇဓမ္မသင်္ဂဟကျမ်းကို ရေးသားဆက်သွင်းပြီး ၂ လမျှ အကြာတွင် မကွေး မြို့စား ဝန်ကြီးသည် အရာကျပြန်သည်။ ဤကား နောက်ဆုံးအရာကျခြင်းပင်ဖြစ်သည်။ထိုနောက်၌ကား မကွေးမြို့စားဝန်ကြီးဟောင်းသည် မင်းခစားအဖြစ်မှ လွတ်ပြီဖြစ်၍ မိမိဝါသနာ ပါသော ကျမ်းပြုစုခြင်း လုပ်ငန်းတို့ကို လွတ်လပ်စွာ ပြုစုနိုင်ခဲ့လေသည်။ ရွှေပြည်ဝန်ကြီးသည် မိမိ၏ အာယုဒါယအပိုင်း အခြားကို သိခြင်းကြောင့်၊ တလခန့်ကတင်ကြို၍ မိမိ၏နောက်ဆုံးနေ့အတွက် ပြင်ဆင်သည်ဟု ဆိုကြသည်။ မကွေးမြို့စားဝန်ကြီးဟောင်း ဦးဘိုးလှိုင်သည် သတိပဋ္ဌာန် တရားတော်ကို နာယူရင်း၊ ၁၂၄၅ ခုနှစ် ဝါခေါင်လပြည့်ကျော် ၈ ရက်နေ့ညတွင် ကွယ်လွန်လေသည်။

ကျန်ရစ်သော သားသမီးတို့ကား ရွှေပြည်ဝန် မင်းလှကျော်ထင်ဘွဲ့ခံ သားအကြီး မောင်မောင်ဘ၊ မှန်နန်း အပျိုတော်စဉ့်ကိုင် ရွာစားသုသီရိကဥ္စနာဘွဲ့ခံ သမီးစောဘိုမယ်နှင့် မှန်နန်း အပျိုတော် ယင်းတောရွာစား သုသီရိပဘာ ဘွဲ့ခံ သမီးစောဥမ္မာတို့ ဖြစ်သည်။ ရွှေပြည်ဝန်ကြီး ပြုခဲ့ဘူးသော ကောင်းမှုမှာ ၁၂၃၃ ခုနှစ်တွင် ငွေ ၃ သိန်းကျော် အကုန်အကျခံ၍ ဆောက်လုပ်ရေစက်ချလှူဒါန်းသော ဇလ္လာကာရာမ အုတ်ကျောင်းဖြစ်သည်။

ယောအတွင်းဝန်သည် မြောက်မြားစွာသော ကျမ်းတို့ကိုပြုစုစီရင်ခဲ့သည်။ ၁၂၂၅ ခုနှစ်တွင် အိမ်ရှေ့စံ ကနောင်မင်းသားကြီး၏ အမိန့်အရ ဘာသျှကာရဆရာ စီရင်သော လီလာဝတီ ဂဏန်းကျမ်းကို သက္ကတမှ မြန်မာသို့ပြန်ဆို ရေးသားသည်။ အိမ်ရှေ့စံ ကနောင်မင်းသားသည် ဥရောပတိုက်၌ထွန်းကားသော ပညာရပ်များကို မြန်မာနိုင်ငံ၌ ပြန့်ပွားအောင် ခေတ်လူငယ်များကို စည်းရုံးခဲ့သည်။ ဤစီမံကိန်းဖြင့် ပြင်သစ်၊ ဣတလီ၊ အင်္ဂလန် စသော နိုင်ငံတို့သို့ ပညာတော်သင် ၇၀ ကို စေလွှတ်ခဲ့သည်။ ထိုပညာတော်သင်တို့အနက် ဖန်ချက် ဝန်ထောက်သည် ယောအတွင်းဝန်ထံပါးတွင် အမှုတော်ထမ်းရွက်ရဘူးသည်။ ၁၂၃၀ ပြည့်နှစ်၌ ယောအတွင်းဝန်သည် ထိုဖန်ချက်ဝန်ထောက် မင်းထင်ပညာ သိဒ္ဓိကျော်၏ အကူအညီဖြင့် ဓာတုဗေဒပညာရပ်တို့ကို မြန်မာဘာသာသို့ ပြန်ဆိုသော လောကဓာတ် ဆေးကျမ်းကြီးကို ပြုစုသည်။၁၂၃၁ ခုနှစ်တွင် မြန်မာဘာသာဖြင့် ကြေးနန်းရိုက်နည်းကို ယောအတွင်းဝန် ကိုယ်တိုင် တီထွင်၍ လိပိဒိပိကာ ကျမ်းအမည်ဖြင့် စီရင်ရေးသားသည်။ ထိုကျမ်းကို မန္တလေးမြို့၌ ရုံးစိုက်သော ဗြိတိသျှ ကိုယ်စားလှယ် မေဂျာမက္ကမေဟန်က အင်္ဂလိပ်ဘာသာ ပြန်ဆိုသည်။ ထိုနှစ်တွင် ဘုရင့်အမိန့်အရ မြင်းတို့၏ ဗေ့ကြန်လက္ခဏာကို ပြဆိုသော အဿဗေဒကျမ်းကို ရေးသားသည်။

၁၂၃၃ ခုနှစ်တွင် ယောအတွင်းဝန်သည် အမရပူရမြို့၌ အကျယ်ချုပ်နှင့် နေစဉ် ဝိမုတ္တိရသကျမ်းကို ပြုစုသည်။ထိုကျမ်းမှာ မဂ္ဂင်ရှစ်ပါးကို အရှေ့တိုင်း အနောက်တိုင်းအယူဝါဒတို့နှင့် ယှဉ်၍ ဆန်းစစ်သော ကျမ်းဖြစ်ရာ၊ အချို့သော အဆိုအမိန့်တို့နှင့်စပ်လျဉ်း၍မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးက ပြင်းထန်စွာ ဝေဖန်သည်။ သို့သော် “ကောင်းမှုန်နက်နဲ” သော အချက်တို့ကိုလည်း ဝန်ခံတော်မူသည်။ ဤကျမ်း၌ တင်ပြ

သော အယူအဆတို့၌ ခေတ်ဟောင်း အယူဝါဒတို့ကို တော်လှန်ပုံပြသည့် သဘောများပါရှိသည်။

၁၂၃၄ ခုနှစ်တွင် "မဟာသမ္မာ တဆယ့်တပါးနှင့် ကပ်အဆုံးအဖြတ် ကပ္ပဝိနိစ္ဆယကျမ်း" ဟုခေါ်သော မဟာသမ္မတ ဝိနိစ္ဆယကျမ်းကို ရေးသားသည်။ ၁၂၃၅ ခုနှစ်၌ယခင် ၁၂၁၁ ခုနှစ်တွင် ရေးလက်စဖြစ်သော သဒ္ဒသင်္ဂဟ ကျမ်းကို ဆက်လက် စီရင်၍ ပြီးသည်။

၁၂၃၇ နှစ်တွင် မင်းတုန်းမင်းတရား၏ သမီးတော် စလင်းမြို့စား မင်းသမီး တောင်းပန်ချက်အရ ယောအတွင်းဝန်သည် အနောက် နိုင်ငံ၌ ထွန်းကားလျက်ရှိသော "အနာတမီ" ခေါ်လူ့ခန္ဓာအိမ်ဖွဲ့စည်းပုံကိုပြဆိုသည့်ခန္ဓာဗေဒကျမ်းကိုဣတ္ထိသျှိဘာသာမှယူ၍ ကာယာနုပဿနာကျမ်းအဖြစ်ဖြင့် ပြုစုသည်။ ထိုကျမ်း၌ ကမ္မဋ္ဌာန်း တရားတို့ကို အနောက်တိုင်းသိပ္ပံပညာ အယူအဆနှင့် ညှိနှိုင်းပြဆိုသည်။

ပုဂံဝန်ထောက်မင်း ဦးတင်၏ အဆိုအမိန့်တရပ်တွင် ရှေ့ကပြဆိုခဲ့သော ၁၂၄၀ ပြည့်နှစ်ရေး ရာဇဓမ္မသင်္ဂဟကျမ်းသည် သီပေါမင်းကို ဆုံးမသော ကျမ်းဖြစ်သည်ဟု ဖော်ပြသည်။ ထိုကျမ်းသည် မြန်မာ့ နိုင်ငံရေးနှင့် အုပ်ချုပ်ရေး ဝါဒသစ်တို့ကို ဘုရားဟောကျမ်းဂန်နှင့် ယှဉ်၍ချမှတ်သော ကျမ်းဖြစ်သည်။ အနောက်နိုင်ငံ ပါလီမန်အုပ်ချုပ်ရေးစံနစ်တို့ကို မှတည်၍၊ ဥပဒေနှင့်အုပ်ချုပ်သော ဘုရင်စံနစ်ကို တည်ထောင်ရန်နှင့် ဘုရင်မင်းမြတ်တို့၏ ဘဏ္ဍာရေးအာဏာကို ကန့်သတ်ရန်ဟူသော သဘောတရားများကို ထိုကျမ်း၌တွေ့ရသည်။ ထိုခေတ်မျက်စိနှင့် ကြည့်သော် ထိုသဘောတရားတို့သည် အုပ်ချုပ်ရေးစံနစ်တရပ်ကို အကြီးအကျယ် ပြောင်းလဲစေသည့် ရည်ရွယ်ချက်၌ သက်ဝင်လေသည်။ ဤအကြောင်းကြောင့် ဝက်မစွတ်မြို့စား ဝန်ကြီးသည် ရာထူးမှ ကျရသည်ဟု ယူဆနိုင်သည်။ ၁၂၄၂ ခုနှစ်တွင် မင်းခစားအဖြစ်မှ လွတ်သော ဦးဘိုးလှိုင်သည် ကင်းဝန်မင်းကြီး တောင်းပန်ချက်အရ ဥတုဘောဇနသင်္ဂဟကျမ်းကို စီရင်သည်။ ထိုကျမ်းသည် ထိုခေတ်ရှိ မြန်မာတို့အတွက် ပြည်သူ့ကျန်းမာရေးလမ်းညွှန်ဖြစ်သည်။ ထိုကျမ်းတွင် အရှေ့တိုင်း အနောက်တိုင်းဆေးပညာရပ်တို့ကို ပိုင်းခြား ထုတ်ဖော်ထားသည်။ ၁၂၄၂ ခုနှစ်၌ပင် ကင်းဝန်မင်းကြီး၏ တောင်းပန်ချက်အရ သုဗောဓာလင်္ကာရကျမ်းနိသျှသစ် ဖြစ်သော အလင်္ကာနိသျှ ကျမ်းကို ရေးသားစီရင်သည်။ ထိုကျမ်း၌ ဦးဘိုးလှိုင်သည် ဗန္ဓတည်းဟူသော ဖွဲ့နွဲ့ခြင်း၌ အောင်မြင်လျှင် စာပေမြောက်သည် ဟူသော အယူအဆကို တင်ပြသည်။

၁၂၄၄ ခုနှစ်တွင် ဗေဒင်ပညာကို ဖွင့်ဆိုသော မဟာသုဇာတကကျမ်းကို ရေးသားစီရင်သည်။ ထိုကျမ်းတွင် ဦးဘိုးလှိုင်သည် "အာယုဒါယတွက်ပုံနှင့် စုတိရမည်ကို ဆိုသော နိယျာနိကအပိုင်း" တို့ကို ပြဆိုထားသည်။ ဤသည်ကို ရည်၍ ဦးဘိုးလှိုင်သည် မိမိ၏ အာယုဒါယ အပိုင်းအခြားကို ကြိုတင်သိရှိသည်ဟု နှောင်းလူတို့က ယူဆကြသည်။ ယော အတွင်းဝန် ‚ ရွှေပြည်ဝန် ဝက်မစွတ်မြို့စား ဝန်ကြီး ပြုစုသော အထက်ပါ ကျမ်းတို့ကို ကြည့်ခြင်းအားဖြင့် ကျမ်းပြုပုဂ္ဂိုလ်သည် ပညာဗဟုသုတအရာ၌ စွယ်စုံဖြစ်သည်မှာ ထင်ရှားသည်။ ထိုကြောင့်လည်း ထိုပုဂ္ဂိုလ်ကို ခေတ်၏ ခေါင်းဆောင်ဟု ခေါ်ဆိုအပ်ပေသည်။

ဗြိတိသျှ မြန်မာနိုင်ငံ ဝန်ရှင်တော်မင်းကြီး၏ အတွင်းဝန်ဖြစ်သူ ဂျေ၊ တဲလဗွိုက်ဗိုးလားသည် ၁၂၃၂ ခုနှစ်၌မန္တလေးနေပြည်တော်သို့ လာရောက်၍ နန်းတော်တွင်း ဝင်ရောက်ခစားသောအခါ၊ ယောအတွင်းဝန်နှင့် တွေ့ရကြောင်းကို မှတ်တမ်းတင်ထားသည်။ ထိုမှတ်တမ်းတွင် ယော အတွင်းဝန်သည် ရွှေကြိုး ၁၂ ကြိုးပါဝင်သော စလွယ်နှင့် ပိုးပုဆိုး ဝတ်ဆင်သည်ကို တွေ့ရကြောင်း၊ အဝတ်အစားမှာ အဖြူချည်းသာဖြစ်ကြောင်း၊ ရုပ်ရည်ရူပကာအားဖြင့် တင့်တယ်ခန့်ညားကြောင်း၊ ယောအတွင်းဝန်သည် အိန္ဒိယသမိုင်း၌ စိတ်ပါဝင်စားကြောင်း စသည်ဖြင့် ရေးသားထားသည်ကို တွေ့ရသည်။

ယောအတွင်းဝန်၌ အကြောင်းခြင်းတတ်တို့ကို စူးစမ်းမေးမြန်း၍ အကြိမ်ကြိမ် အဖန်ဖန် စစ်ဆေးတတ်သော ဝါသနာရှိသည်။ ထိုဝါသနာမှာငယ်ဆရာ ပခန်းမင်းကြီးထံမှ ဥပနိသျှခံယူခဲ့သော ဝါသနာဖြစ်သည် ဟု မော်ဘီဆရာသိန်းကြီးက ဆိုသည်။ ထိုဝါသနာကြောင့် ယောအတွင်းဝန်နှင့် တွေ့ဆုံရသော နိုင်ငံခြားသားအချို့တို့က ယောအတွင်းဝန်သည် အမေးအမြန်းထူ၍ သူတပါးကို မယုံသင်္ကာ ရှိတတ်သူဟု အထင်လွဲကြသည်။ သို့သော် ထိုဝါသနာကြောင့် ယော အတွင်းဝန်သည် သိပ္ပံနည်းအရ စူးစမ်းတတ်သော အလေ့ကို ရရှိသည်။ ယင်းသို့ စူးစမ်းဆင်ခြင်ပြီး၍ မှန်ပြီဟု ဆုံးဖြတ်မိလျှင် ထိုဆုံးဖြတ်ချက်အတိုင်း မထောက်မညှာ မှန်ရာကို ဆိုဝံ့သောသတ္တိရှိသည်။ထိုသတ္တိကြောင့် ယောအတွင်းဝန်၏ ယထာဘူတစကားတို့သည် တော်လှန်ရေး သဘောတရား၌ သက်ဝင်၍ နေလေသည်။ ဤအကြောင်းကြောင့် ယခုခေတ်လူတို့သည် ယောအတွင်းဝန်အား နှလုံးရည် တော်လှန်ရေးခေါင်းဆောင်တဦး အနေဖြင့် ပူဇော် သက္ကာရပြုလျက် ရှိကြသည်။ **ဦးထင်ဖတ်**

**ဘိုးသာ၊ ဆာ** (ခရစ် ၁၈၅၇–၁၉၃၃)။ ။ဆာဘိုးသာသည် ဗြိတိသျှခေတ် မြန်မာစီးပွားရေးလောကတွင် ထွန်းပေါက်ကျော်ကြားလှသော ပုဂ္ဂိုလ်ကြီးတဦး ဖြစ်သည်။ ဟံသာဝတီခရိုင်ဖားကူးရွာတွင်ဖွားမြင်၍မိဖများမှာ မြေပိုင်ရှင် ဦးညွန့်နှင့် ဒေါ်ဒွေးတို့ဖြစ်ကြသည်။ မွေးချင်း ၅ ယောက်ရှိရာ၊ အစ်ကို ၄ ယောက်နှင့် နှစ်မ ၁ ယောက်ဖြစ်လေသည်။

ဦးဘိုးသာသည် ငယ်စဉ်က ဘုန်းတော်ကြီး ကျောင်းတွင် ပညာဆည်းပူးခဲ့သည်။ အသက်၂၀ အရွယ်တွင် စပါးလုပ်ငန်းသို့ ဝင်ရောက်၍ စပါးပွဲစားအဖြစ် လုပ်ကိုင်သည်။ ဖြောင့်မတ် တည်ကြည်ခြင်း၊ ဥာဏ်ပညာဖြင့် ပြည့်စုံခြင်း၊ စီးပွားရေးလာဘ်မြင်တတ်ခြင်း စသော လုပ်ရည်ကိုင်ရည်တို့နှင့် ပြည့်စုံသူဖြစ်သဖြင့် တရှိန်ရှိန် တိုးတက်ကြီးပွားလာခဲ့ရာ မြန်မာ့စီးပွားရေးလောကတွင် ခေါင်းဆောင်ကြီးတဦး ဖြစ်လာ၍၊ ဆန်စပါးလုပ်ငန်းတွင် မြန်မာလူမျိုးထဲမှ အကျွမ်းကျင်ဆုံးသော ပုဂ္ဂိုလ်ကြီးအဖြစ်ကို စီးပွားရေးလောကမှ အသိအမှတ်ပြု ဝန်ခံလာကြရသည်။

ဦးဘိုးသာသည် ဘုရားတရား အလွန်ကြည်ညို၍ စေတနာသဒ္ဓါတရား ထက်သန်သူလည်း ဖြစ်သည်။ ငွေကြေး အကူအညီဖြစ်စေ၊ အကြံဉာဏ် အကူအညီဖြစ်စေ တောင်းခံလာလျှင်၊ မည်သည့်အခါမျှ နှောင့်နှေးငြင်းပယ်လေ့ မရှိဟုဆိုကြသည်။ သာသနာရေးဖက်တွင် ရွှေတိဂုံစေတီတော်ကြီးမြောက်ဖက်စောင်းတန်းရှိ ဆရာဘိုးသာ တန်ဆောင်း၊ အခြား စရပ်များနှင့် ဘုန်းကြီးကျောင်း များစွာတို့ကို ဆောက်လုပ် လှူဒါန်းခဲ့၍၊ လူမှုရေးဖက်တွင် အင်းစိန်၌ ဆေးရုံတခု ဆောက်လုပ် လှူဒါန်းခဲ့သည်။ ပရိယတ္တိ စာပေ အားပေး ခြီးမြှင့်ရေးအတွက်လည်း ငွေအား လူအားဖြင့် လှိုက်လှိုက် လှဲလှဲ ဆောင်ရွက်ခဲ့သည်။



ဆရာဘိုးသာ

ဦးဘိုးသာသည် အမျိုးသားအချင်းချင်းယိုင်းပင်းကူညီမှု၊ လူသားအချင်းချင်း ယိုင်းပင်းကူညီမှုများစွာကို ဆောင်ရွက်ခဲ့သော ပုဂ္ဂိုလ်ကြီးတဦး ဖြစ်သည်။ ပဌမ ကမ္ဘာစစ် အတွင်းက ဗြိတိသျှ အစိုးရအဘွက် စစ်သား စုဆောင်းရေးကိုလည်း ကူညီ ဆောင်ရွက်ပေးခဲ့သည်။ ဗြိတိသျှခေတ် မြန်မာပြည် ဥပဒေပြု လွှတ်တော်အမတ် အဖြစ်၎င်း၊ သမာဓိမြို့ဝန်အဖြစ်၎င်း နှစ်ပေါင်းများစွာ ဆောင်ရွက်ခဲ့သည်။ ရွှေတိဂုံစေတီတော်၏ ဂေါပကအဖွဲ့ဝင် တဦး အဖြစ်လည်း နှစ်ပေါင်းများစွာ တာဝန်ယူ လုပ်ကိုင်ခဲ့သည်။ ထိုပြင် အခြားလောကီလောကုတ္တရာ အသင်းအဖွဲ့များတွင်လည်း ပါဝင်ဆောင်ရွက်ခဲ့လေသည်။

ဦးဘိုးသာအား ဗြိတိသျှ အစိုးရက ၁၉၁၇ ခုနှစ်တွင် ကေ၊ အိုင်၊ အိပ် ဘွဲ့ဖြင့်၎င်း၊ ၁၉၁၉ ခုနှစ်တွင် အို၊ ဘီ၊ အီး ဘွဲ့ဖြင့်၎င်း၊ ၁၉၂၃ ခုနှစ်တွင် စီ၊ အိုင်၊ အီး ဘွဲ့ဖြင့်၎င်း ခြီးမြှင့်ခဲ့သည်။ ဦးဘိုးသာသည် ဆာဘွဲ့ကို ၁၉၂၇ ခုနှစ်တွင် ရရှိလေသည်။

ဆာဘိုးသာသည် ဒေါ်ရီနှင့်လက်ထပ်ထိမ်းမြားခဲ့၍ သား ၂ ယောက် သမီး ၁ ယောက် ထွန်းကားသည်။ ကင်းဗဲလမ်း (ငါးထပ်ကြီးဘုရားလမ်း) နေအိမ်တွင် ၁၉၃၃ ခုနှစ် ဩဂုတ်လ ၂၆ ရက်နေ့၌ ကွယ်လွန် အနိစ္စ ရောက်လေသည်။

**ဘင်ခရာ။** ။ဘင်ခရာ ဟူသော ဝေါဟာရသည် ဘင်နှင့် ခရာခေါ် တူရိယာ ၂ မျိုးကို အလိုက်သင့် တွဲခေါ် ထားခြင်း ဖြစ်သည်။ ဘင်သည် အနောက်နိုင်ငံသုံး တီးစရာ တူရိယာ ဖြစ်၍ ခရာသည် မှုတ်စရာတူရိယာဖြစ်သည်။ ယင်းတူရိယာ ၂ မျိုးကို တွဲဖက်၍ တီးမှုတ်သော တူရိယာသမားများ အဖွဲ့ကို ဘင်ခရာ တီးဝိုင်းအဖွဲ့ဟု ခေါ်ကြသည်။

ဘင်သည် သစ်သား၊ သို့မဟုတ် သတ္တုဖြင့်ပြုလုပ်ထားသော စည်ပြွတ်သဏ္ဌာန် ကိုယ်ထည်တွင် အဝ၌ သားရေကြက်၍ ဖုံးအုပ်ထားသော တူရိယာမျိုး ဖြစ်သည်။ ပုံနှင့် ခပ်ဆင်ဆင် တူသော်လည်း ပုံသည် အဝထက် ကိုယ်ထည်ရှည်၍ ဘင်သည် အဝက ကိုယ်ထည်ထက် ကျယ်သည်။ ယခုခေတ်အသုံးများသောဘင်မှာ ၃ မျိုးရှိသည်။(၁)ထိပ် ၂ဖက်စလုံးသားရေကြက်ထားသောဘင်မျိုး။ ယင်းကို ထောင်၍ ထိပ်ဖုတပ်ထားသော တုတ်ဖြင့် ၂ဖက်စလုံး တီးနိုင်သည်။ (၂) အဝတဖက်၌သာ သားရေကြက်၍ အောက်ဖက်ကို တိရစ္ဆာန်အူကြိုးဖြင့် ခက်ထားသော ဘင်မျိုး။ယင်းကို သားရေကြက်သောဖက်ကို အပေါ် ကထားပြီးလျှင် တုတ်ဖြင့် တီးရသည်။ (၃)ခရားပုံ အောက်ဖက်သို့ ရှူးလုံးသွား၍ ထိပ်ဝတခု၌သာ သားရေကြက်ထားသောဘင်မျိုး။ယင်းကိုတုတ်ဖြင့်ပင်တီးရသည်။ ဘင်သည် ရှေးအီဂျစ်များ ကောင်းစားစဉ် ခေတ်ကပင် သီးဗီးလူမျိုးများ အသုံးပြုခဲ့သော တူရိယာဖြစ်ခဲ့သည်။

အထူးသဖြင့် စစ်တပ်များ၌ စတင် အသုံးပြုသော တူရိယာ မျိုးဖြစ်သည်။

ခရာဟူသည်မှာ ပြွတ်ရှည်ကို ရစ်ခွေထားသော အ နောက်နိုင်ငံသုံး ပြွေတမျိုးဖြစ်သည်။ သို့ရာတွင် ပြွေကဲ့သို့ အစအဆုံး တဖြောင့်တည်း မဟုတ်ဘဲ၊ အဝသည် ကားကျယ် နေသည်။ ပြွေတံတခုသာမက အပိုပြွေတံတခုပါ ပါ၍ မှုတ် သည့်အခါ လိုရာတူရိယာသံကို ဖြစ်စေခြင်းငှါ အပိုပြွေတံကို ဆွဲထုတ် ဆွဲသွင်း ပြု၍ မှုတ်ရသော ပြွေမျိုးကို ခရာရှည်ကြီး ဟုခေါ်သည်။ ခရာကို ယေဘုယျအားဖြင့် ကြေးသတ္တုဖြင့် ပြုလုပ်၍ တခါတရံ ငွေဖြင့်လည်း လုပ်တတ်သည်။ ရှေးအခါ က ခရာအတံသည် ဖြောင့်စင်းနေသော်လည်း အကိုင် အ တွယ်ခက်သဖြင့် ယခုခေတ် ခရာတံကို ရစ်ခွေပြုလုပ်ထားကြ သည်။ ယခုခေတ်သုံး ခရာများတွင် အသံတွင် လိုသလိုမှုတ် နိုင်ရန် အခင်ပါရှိသည်။ သံစုံတီးဝိုင်းများတွင် မှုတ်သော ခရာသည် ၅ ပေခွဲခန့်အထိ ရှည်တတ်သည်။

စစ်တပ်များတွင် အလေးပြု၊ လူခေါ်၊ သတိပေး စသည် တို့ ပြုလုပ်သည့်အခါ ခရာမှုတ်သည့် အလေ့သည် ယခုတိုင် ရှိလေသည်။

ဘင်နှင့်ခရာကို အသားပေးကာ သယ်ဆောင်၍ ရသော အခြား အတီးအမှုတ်ကရိယာများကိုပါ ယှဉ်တွဲတီးမှုတ်သော ဘင်ခရာတီးဝိုင်းအဖွဲ့မျိုးသည် ရှေးနှစ်ပေါင်းများစွာမှ စတင် ပေါ်ပေါက်ခဲ့လေသည်။ သို့ရာတွင် အတီးအမှုတ် ကရိယာ များ တဖြည်းဖြည်းတိုးတက်ပေါ် ပေါက်လာသောအခါ ပို၍ ခမ်းနားသော ဘင်ခရာတီးဝိုင်းများ ပေါ်ပေါက်လာလေ သည်။ ယခုခေတ် ဘင်ခရာတီးဝိုင်းမျိုးသည် ၁၇၆၃ ခုနှစ် လောက်က ပရပ်ရှားဘုရင် ဖရက်ဒရစ်-သ-ဂရိတ်က စစ်ဘင် ခရာတီးဝိုင်း ဖွဲ့စည်းရန်အမိန့် ပေးလိုက်သည်မှစခဲ့သည်ဟု ဆို ရပေမည်။ စစ်တပ်များချီတက်ရာ၌ မြိုင်မြိုင် ဆိုင်ဆိုင် ညီညီ ညာညာ ချီတက်နိုင်ရန် စစ်ဘင်ခရာ တီးဝိုင်းများက ဦး ဆောင်ရသည်။

**ဘင်ဂျို။** ။ဘင်ဂျိုသည် ကြိုးနှင့် သားရေ ပေါင်းစပ်ထား ၍ လက်ဖြင့် တီးခတ်ရသော တူရိယာတမျိုး ဖြစ်သည်။ ပုံ သဏ္ဌာန်အားဖြင့်သော်ကား သစ်သား၊ သို့မဟုတ် သတ္တုခွေ ဝိုင်းအပေါ်၌ သားရေပြား ပါးပါး ကြက်ထားသည့် စည် မျက်နှာတွင် ၂ ပေခန့် ရှည်လျားသော လက်တံတပ်ထား သည်။စည်မှာ တဖက်ပိတ်စည်ပြားဖြစ်၍ ဘင်ဂျိုအိုးမည်၏။ မူလက ဘင်ဂျိုတွင် ကြို ၅ ချောင်း တပ်၏။ နှိပ်နိုင်သော ကြိုး ၄ ကြိုးနှင့် နှိပ်မရဘဲ လက်မဖြင့် ခတ်ရသော ကြိုးတို တချောင်းဖြစ်၏။ နောင်သော် အသံကြီးများ တီးခတ်နိုင် ရန်အတွက် ကြိုး ၆ ချောင်း၊ ၇ ချောင်း၊ ၉ ချောင်း တပ် ဘင်ဂျိုများ ပေါ်လာသည်။ ယင်းကြိုးများကို တပ် ဆင်ရာ၌ လက်တံထိပ်ဘွင် ရှိသော ဒလက်ကလေးများတွင် ကြိုးကိုရစ်လျက် ဘင်ဂျိုအိုးဖြစ်သော ခွေဝိုင်းစည်၏အောက် ဖက်ထိပ်အထိ သွယ်တန်းပြီးလျှင် စည်မျက်နှာ အစွန်းတွင် ရှိသော ခုတုံးပေါ်၌နေထားတကျ တွယ်ထားရ၏။ ကြိုးများ ၏အောက်နှင့် လက်တံပေါ်တွင် အသံစဉ် အမျိုးမျိုးညှိယူရ ရှိနိုင်သည့် ကန့်လန့်ဖြတ် သတ္တုချောင်းကလေးများ ရှိ၏။ လက်ဝဲလက်ဖြင့် ဆိုင်ရာကြိုးကို နှိပ်ယူကာ လကျ်ာလက်ဖြင့် ကြိုးကို တီးခတ်ရ၏။ ကြိုးများကို တင်းစွာရစ်လျက် အသံ ကို ညှိကာတီးခတ်သည်ဘွင် ကြိုးသံသည် သားရေသံနှင့်ရော နှော ထွက်ပေါ်လာသောကြောင့် စောင်းသံပိုသံနှင့် မတူ ဘဲ၊ တမူထူးခြားသော ဂီတသံ ဖြစ်လာသည်။

ဘင်ဂျိုကို အမေရိကတိုက်သို့ အာဖရိကတိုက် အနောက် ပိုင်းမှ နီးဂရိုးများ ယူဆောင်လာသည်ဟု အချို့က ယူဆကြ ၏။ အာရပ်လူမျိုးတို့၏ ဂီတာနှင့် တူသော တူရိယာ တမျိုး ကို နီဂရိုးများ အတုယူကြဟန် တူ၏။ ယခုအမေရိကန်ပြည် ထောင်စုရှိ နီးဂရိုးများ တီးသော ဘင်ဂျိုမှာ အဆိုပါ'ဘေနီ ယာ' ခေါ် တူရိယာမှ ဆင်းသက် ကွဲပြားလာသည်ဟု ယူဆ နိုင်ပေသည်။ အချို့ကမူ ကြိုးတပ်တူရိယာဟု အဓိပ္ပါယ်ရ သော 'ဘန်ဒေါ်' ဟူသော စကားမှ ပျက်လာသည်ဟု ယူဆ ကြ၏။ ဘင်ဂျိုကို နီးဂရိုးတို့က ဘန်ဂျာဟူ၍ငင်း၊ ဘွန်ဂျာ· ဟူ၍ငင်း ရှေးအခါက ခေါ်ခဲ့သည်ဟုလည်း ဆိုသည်။



ဘင်ဂျိုတီးနေပုံ

ဘင်ဂျိုကို ၁၈ ရာစုနှစ်ခန့်က စတင် တီးခတ်၍ တဖြည်းဖြည်း ခေတ်စားလာလေသည်။ အမေရိကန်ပြည်ထောင်စု တောင်ပိုင်းရှိ ပြည်နယ်များမှ နီးဂရိုးများ သီချင်းဆိုရင်း တွဲဖက်တီးမှုတ်သော ဘင်ဂျိုများသည် အစတွင် သပ်ရပ်ခြင်း မရှိလှချေ။ မူရင်းဘင်ဂျိုများမှာ ကြိုး ၅ ချောင်းတပ်ဖြစ်၍ လက်တံ အလွန်ရှည်သည်။ နောက်ကြိုး ၄ ချောင်း တပ် လက်တံတို ဘင်ဂျိုတမျိုးပေါ်လာ၏။ ယူကလေလီဟုခေါ်လျက် ပို၍ ငယ်သော ဘင်ဂျိုသည်လည်း ခေတ်စားသော ဘင်ဂျိုတမျိုးဖြစ်သည်။

ဘင်ဂျိုသည် တူရိယာ သံစုံတီးဝိုင်းကြီးများတွင် ပါဝင်လေ့ရှိသော တူရိယာမျိုး မဟုတ်ပေ။ သို့သော်လည်း မည်သည့် သီချင်းမျိုးကို မဆို သာယာနာပျော်ဖွယ် ဖြစ်အောင် တီးခတ် နိုင်သောကြောင့် ယခုအခါ ကမ္ဘာ အနှံ့အပြားတွင် တီးခတ်လျက် ရှိကြသည်။ မြန်မာ နိုင်ငံတွင်လည်း ဘင်ဂျိုကို မြန်မာသံစဉ်ညှိယူ၍ တီးခတ်ကြလေသည်။

**ဘင်းပင်။** ။ဆေးခြောက်ပင် — ရှု။

**ဘိုင်ပင်။** ။သစ်ပုပ်ပင် ဟူ၍ရင်း၊ စောဖျပင်ဟူ၍ရင်း ခေါ်သော ဘိုင်ပင်သည် ဒက်တစ်ကေစီအီး မျိုးရင်းတွင် ပါဝင်၍ ယင်းကို ရုက္ခဗေဒအလိုအားဖြင့် တက်တြာမီလီ နျူဒီဖလိုရာ ဟု ခေါ်သည်။ အထက်နှင့် အောက်မြန်မာနိုင်ငံ ချိုင့်ဝှမ်းဒေသများ၌ ပေါများ၍ တခါတရံ အစုလိုက်ပေါက်တတ်သော တောသစ်ပင်ကြီးမျိုး ဖြစ်သည်။ ဘိုင်ပင်တို့သည် များသော အားဖြင့် အမြင့် ပေ ၁၀၀ ကျော်ရှိ၍ မြန်မာနိုင်ငံ သစ်ပင်တို့တွင် ပင်စည် အရင်း၌ ကျားကန်မြစ်များ အထူအတုဘ်ဆုံး အပင်များ ဖြစ်ကြသည်ဟု ယူဆရသည်။

ဘိုင်ပင်၏ အသားမှာ မွဲပြာရောင်ဖြစ်၍ ပျော့လည်း ပျော့၊ ပေါ့လည်း ပေါ့သည်။ သို့သော် ကြာရှည်ခံသော သစ်မျိုး မဟုတ်ပေ။ ခွဲဖြတ် စိတ်ဖြာပြီးနောက် အမြန် ခြောက်သွေ့အောင် မပြုလုပ်နိုင်ပါက သစ်သား၏ အရောင် အဆင်း ပျက်ပြားသွားတတ်သည်။

သို့ရာတွင် ဘိုင်ပင်၏ အသားသည် ထင်ရှူးသေတ္တာကဲ့သို့ ပစ္စည်းထည့်ရန် ပေါ့ပါးသော သေတ္တာများပြုလုပ်ရာ၌ အသုံးကျသော သစ်သား ဖြစ်ရာ၊ အိန္ဒိယ နိုင်ငံတွင် ထိုသေတ္တာမျိုးကို ဘိုင်သားဖြင့် အများအပြား ပြုလုပ်လေ့ ရှိကြသည်။မီးခြစ်သေတ္တာအိမ်များကိုလည်း ထိုသစ်သားဖြင့် ပြုလုပ်နိုင်သည်။ မြန်မာနိုင်ငံ၌ ဘိုင်သားကို လှေများ စပ်ခြင်း၊ ပုဂံနယ်တွင် ကျောက်ကာသေတ္တာပြုလုပ်ခြင်း စသည်တို့၌ အသုံးပြုကြသည်။



အမြင့်ပေ ၁၀၀ ကျော်အထိ ပေါက်တတ်၍ သစ်ပုပ်ဟူ၍ရင်း၊ စောဖျပင်ဟူ၍ရင်း ခေါ်တွင်သည့် ဘိုင်ပင် (ဝဲ)၊ ဘိုင်ပင်သည် ပင်စည်ရင်း၌ ကျားကန်မြစ်အထူဆုံးသော အပင်ဖြစ်သည်(ယာ)။

မြန်မာနိုင်ငံ ပင်လယ်ကမ်းရိုးတန်း ဒေသများ၌ ဘိုင်တောင်ရှည်ခေါ် ချုံပင်များ ပေါက်ရောက်သည်။ တနင်္သာရီတိုင်း တောင်ဖက်ပိုင်းရှိ ပင်လယ် ကမ်းတလျှောက်တွင် ကဘိုင်ပင်၊ ဘိုင်တောင်ပင်၊ ကမြိုင်ပင် ဟူ၍ အမည် ၃ မျိုးဖြင့် ခေါ်သော သစ်ပင်တို့ကို တွေ့မြင် နိုင်သေးသည်။

**ဘဒ္ဒကမ္ဘာ။** ။ဘုရား ငါးဆူ ပွင့်သော ကမ္ဘာကို ဘဒ္ဒကမ္ဘာဟုခေါ်သည်။ ဘုရား မပွင့်သော ကမ္ဘာလည်း ရှိ၏။ ဘုရားမပွင့်သော ကမ္ဘာကို ဘုရားမှ ဆိတ်ခြင်းကြောင့် သုညကမ္ဘာဟု ခေါ်၏။ သုညကမ္ဘာမျိုး၌ ဘုရား ပွင့်ရိုးထုံးစံမရှိသည်သာမက၊ ပစ္စေကဗုဒ္ဓါ၊ ရဟန္တာနှင့် စကြဝတေးမင်းတို့သော်မှ မပေါ်ချေ။ ဘုရားပွင့်သောကမ္ဘာကိုကား ဘုရားမှ မဆိတ်ခြင်းကြောင့် အသုညကမ္ဘာဟု ခေါ်သည်။ ထိုဘုရားပွင့်သော အသုညကမ္ဘာသည်လည်း ဘုရားတဆူပွင့်လျှင် သာရကမ္ဘာ၊ နှစ်ဆူပွင့်လျှင် မဏ္ဍကမ္ဘာ၊ သုံးဆူပွင့်လျှင် ဝရကမ္ဘာ၊ လေးဆူပွင့်လျှင် သာရမဏ္ဍကမ္ဘာ၊ ငါးဆူ ပွင့်လျှင် ဘဒ္ဒကမ္ဘာဟု ငါးပါးအပြားရှိသည်။ ငါးဆူထက် လွန်၍ကား မပွင့်ချေ။ ယခု ဤကမ္ဘာကား ဘုရားငါးဆူပွင့်သော ဘဒ္ဒကမ္ဘာတည်း။

ဤကမ္ဘာမှ စ၍ ရေတွက်လျှင် အထက် လေးသင်္ချေနှင့် ကမ္ဘာတသိန်း ကာလအတွင်း၊ ပွင့်လင်းတော်မူကြသော ဘုရားရှင်များနှင့် ကမ္ဘာ၏အရေအတွက်တို့မှာ—

| ကမ္ဘာ | ဘုရား |
|---|---|
| သာရမဏ္ဍကမ္ဘာ | (၁) တဏှင်္ကရာဘုရား (၂) မေဓင်္ကရာ ဘုရား (၃) သရဏင်္ကရာဘုရား (၄) ဒီပင်္ကရာဘုရား |
| ထိုနောက် သေလ အသင်္ချေ သုဉ်း၏။ | — — — — |
| သာရကမ္ဘာ | (၁) ကောဏ္ဍညဘုရား |
| ထိုနောက် ဘာသ အသင်္ချေ သုဉ်း၏။ | — — — — |
| သာရမဏ္ဍကမ္ဘာ | (၁) မင်္ဂလဘုရား (၂) သုမနဘုရား (၃) ရေဝတဘုရား (၄) သောဘိတဘုရား |
| ထိုနောက် ဇယ အသင်္ချေ သုဉ်း၏။ | — — — — |
| ဝရကမ္ဘာ | (၁) အနောမဒဿီဘုရား (၂) ပဒုမဘုရား (၃) နာရဒဘုရား |
| ထိုနောက် ရုစိရ အသင်္ချေ သုဉ်း၏။ | — — — — |
| သာရ ကမ္ဘာ | (၁) ပဒုမုတ္တရဘုရား (ကမ္ဘာတသိန်းထက်) |
| ထိုနောက် ကမ္ဘာ ၇၀,၀၀၀ ခန့် သုဉ်း၏။ | — — — — |
| မဏ္ဍကမ္ဘာ | (၁) သုမေဓ ဘုရား (၂) သုဇာတ ဘုရား (ကမ္ဘာ သုံးသောင်းထက်) |
| ထိုနောက် ကမ္ဘာ ၂၈,၂၀၀ ခန့် သုဉ်း၏။ | — — — — |
| ဝရကမ္ဘာ | (၁) ပိယဒဿီဘုရား (၂) အတ္ထဒဿီဘုရား (၃) ဓမ္မဒဿီဘုရား (ကမ္ဘာ ၁,၈၀၀ ထက်) |
| ထိုနောက် ကမ္ဘာ ၁,၇၀၅ သုဉ်း၏။ | — — — — |
| သာရကမ္ဘာ | (၁) သိဒ္ဓတ္ထဘုရား (၉၄ ကမ္ဘာထက်) |
| ထိုနောက် တကမ္ဘာ သုဉ်း၏။ | — — — — |
| မဏ္ဍကမ္ဘာ | (၁) တိဿဘုရား (၂) ဖုဿဘုရား (၉၂ ကမ္ဘာထက်) |
| သာရကမ္ဘာ | (၁) ဝိပဿီဘုရား (၉၁ ကမ္ဘာထက်) |
| ထိုနောက် ၅၉ ကမ္ဘာသုဉ်း၏။ | — — — — |
| မဏ္ဍကမ္ဘာ | (၁) သိခီဘုရား (၂) ဝေဿဘူဘုရား (၃၁ ကမ္ဘာထက်) |
| ထိုနောက် ၂၉ ကမ္ဘာသုဉ်း၏။ | — — — — |
| ဘဒ္ဒကမ္ဘာ | (၁) ကကုသန်ဘုရား (၂) ကောဏာဂုံ ဘုရား (၃) ကဿပဘုရား (၄) ဂေါတမဘုရား (၅) မေတ္တေယျဘုရား (ပွင့်တော်မူ လတ္တံ့။) |

ကမ္ဘာ ဖြစ်ပေါ် လာသည် ရှိသော် အကယ်၍ ဘုရား တဆူသာ ပွင့်သော ကမ္ဘာဖြစ်ငြားအံ့၊ ကမ္ဘာဦးအစ မဟာဗောဓိပင် ပေါက်ရောက်ရာ၌ ရှစ်ပါးသော ပရိက္ခရာတစုံ သီးသော ပဒုမာကြာ တပင်ပေါက်၏။ နှစ်ဆူပွင့်ငြားအံ့၊ ပရိက္ခရာနှစ်စုံ သီးသော ပဒုမာကြာတပင် ပေါက်၏။ သုံးဆူ ပွင့်ငြားအံ့၊ ပရိက္ခရာသုံးစုံသီးသော ပဒုမာကြာတပင်ပေါက်၏။ လေးဆူ ပွင့်ငြားအံ့၊ ပရိက္ခရာ လေးစုံသီးသော ပဒုမာကြာ တပင် ပေါက်၏။ ငါးဆူပွင့်ငြားအံ့၊ ပရိက္ခရာ ငါးစုံသီးသော ပဒုမာကြာတပင် ပေါက်၏။

ဘုရား ပွင့်မည့် ကမ္ဘာလော၊ မပွင့်မည့် ကမ္ဘာလောဟု ပုဗ္ဗနိမိတ် အကြည့် အရှုလာကြသော သုဒ္ဓါဝါသဗြဟ္မာတို့သည် ထိုပရိက္ခရာတို့ကို တွေ့မြင်သောအခါ အလွန် ဝမ်းမြောက် ဝမ်းသာ ဖြစ်ကြ၍ ယူထားပြီးလျှင်၊ နောင်ပစ္ဆိမဘဝိက ဘုရားလောင်းတို့ ဘောထွက်သောအခါ ကပ်လှူကြသည်။ ထိုထို ပွင့်ကုန်သော ဘုရားတို့သည် ဤဇမ္ဗူဒီပါ လကျ်ာ တောင်ကျွန်း၌ သာလျှင် ပွင့်တော်မူကြကုန်သည်။

**ဘဒ္ဒဝဂ္ဂီညီနောင်။** ။ဘဒ္ဒဝဂ္ဂီ ညီနောင်တို့ကား ဂေါတမ မြတ်စွာဘုရား လက်ထက်တွင် ကောသလမင်းကြီး၏ သားတော် သုံးကျိပ်ဖြစ်၏။ လှပတင့်တယ်သော အဆင်း အရောင်ရှိ၍ ပျိုမြစ်နုနယ်သော အသက်အရွယ် ရှိကုန်သော ထိုဘဒ္ဒဝဂ္ဂီ ညီနောင်သုံးကျိပ်တို့သည် မြို့ပြည်ရွာဝယ် လူများတို့အလယ်၌ ငါတို့အလိုရှိတိုင်း ကာမဂုဏ်ချမ်းသာကို ခံစားမြူးထူးလျှင် သူတထူး ကဲ့ရဲ့ လေရာသည်။ တောခမ်းဝါ၌နေရမူကား သူတပါးကို မငဲ့ကွက် မရှက်မကြောက်ရပြီ။ ငါတို့ ဆန္ဒရှိတိုင်းပင် ပျော်ပါးရတော့မည်ဟု ကြံ၍ မိဂဒါဝုန်တောနှင့် ဥရုဝေလ တောအကြား တခုသော တောအုပ်သို့ မိမိတို့ မယားများနှင့် တကွ သွားရောက် ပျော်ပါးလျက် နေကြလေသည်။ ထိုသုံးကျိပ်တို့တွင် တယောက်သော မင်းသားသည် မယားမရှိ၍ အဆင်းပြင်လျာ လှပသော ပြည့်တန်ဆာ မတယောက်ကို မယားပြု၍ ပျော်ပါးလေသည်။ တနေ့သ၌ မင်းသား အိပ်ပျော်နေသော အခိုက်တွင် အဖိုး ထိုက်သော ဥစ္စာရတနာတို့ကို ထိုပြည့်တန်ဆာမသည် ယူ၍ ပြေးလေ၏။ ထိုအကြောင်းကို ကျန်မင်းသား နှစ်ကျိပ်ကိုးယောက် သိကြသောအခါ အားလုံး လိုက်လံရှာဖွေကြ၏။

ထိုအချိန်၌ ဂေါတမ မြတ်စွာဘုရားသည် မိဂဒါဝုန်တောအရပ်မှသည် ဥရုဝေလတောသို့ ရှေးရှုကြွတော်မူရာတွင် ခရီးအကြား၌ တောအုပ် တခုကို တွေ့၍ ထိုတောအုပ်ကို ဝင်ပြီးသော် သစ်ပင်ကြီးရင်း၌ သီတင်းသုံးနေတော်မူလေသည်။

မင်းသားသုံးကျိပ်လည်း သစ်ပင်ရင်း၌ သီတင်းသုံးနေတော်မူသော ဘုရားသခင်ကို မြင်၍ ချဉ်းကပ်ပြီးလျှင် မိန်းမ တယောက်ပြေးသွားသည်ကို မြင်ပါ၏လောဟု မေးမြန်းကြ၏။ အဘယ်ကြောင့် ထိုမိန်းမကို ရှာကြကြောင်း မြတ်စွာဘုရားက မေးမြန်းလေလျှင်၊ မင်းသားသုံးကျိပ်လည်း အကျိုးအကြောင်းကို လျှောက်ကြားကြ၏။ ထိုအခါ မြတ်စွာဘုရားက မယားကို ရှာဖွေခြင်းနှင့် မိမိကိုယ်ကို ရှာဖွေခြင်းတွင် မည်သည်က မြတ်ကြောင်း မေးမြန်း၏။ မင်းသား သုံးကျိပ်လည်း မိမိကိုယ်ကို ရှာဖွေခြင်းက မြတ်သည် ထင်ကြောင်း လျှောက်ထားကြ၏။ ထိုအခါတွင် ရှင်တော်ဘုရားက မာဘုဂါမတို့နှင့် ပေါင်းဖက်ခြင်းကြောင့် ပျက်စီး ဆုတ်ယုတ်တတ်ကြောင်း၊ ဆင်းရဲ ဒုက္ခဟူသမျှတို့သည် မာတုဂါမတို့ကို မှီ၍သာ ဖြစ်ကုန်ကြောင်း၊ မိန်းမတို့ကို ကြည်ညိုသှုဉ်နှဲမှိဝဲသော သူသည်ကား ယောကျ်ားတကာတို့ဘွင် အယုတ်မာဆုံးဖြစ်သော ယောကျ်ားဖြစ်ကြောင်းတို့ကို တရား ဒေသနာဖြင့် ပြတော်မူ၏။

ဤသို့ ကာမဂုဏ်တို့၏ အပြစ်ကို ပြတော်မူ၍ သစ္စာလေးပါးကို ဟောကြားတော်မူလျှင် မင်းသားတို့သည် အချို့ကားသောတာပန်၊အချို့ကား သကဒါဂါမ်၊ အချို့ကား အနာဂါမ် တည်၍ ဟေဘိက္ခုရဟန်းချည်း ဖြစ်ကြကုန်၏။ ထိုမင်းသားသုံးကျိပ်တို့ကား တုဏ္ဍိလဇာတ်၌ သေသောက်ကြူး သုံးကျိပ် ဖြစ်ကုန်၍၊ ဘုရားလောင်း မဟာတုဏ္ဍိလသက်မင်း၏ အဆုံးအမ၌ တည်သဖြင့် ပဉ္စသီ၊ အဋ္ဌင်္ဂီ၊ ဒသသီတို့ကို ဆောက်တည်ကြ၏။ ထိုကောင်းမှုအကျိုးကြောင့် မဂ်ဖိုလ်ကို ရကြလေသတည်း။

**ဘိက္ခု။** ။ဘိက္ခုဟူသော အမည်သည် ပါဠိအမည် ဖြစ်၏။ ပိဋကတ်တော်၌ (ဘိက္ခု-ဘိက္ခဝေ-ဘိက္ခဝေါ) စသည်ဖြင့် နေရာအနှံ့အပြား သုံးစွဲလေ့ရှိသည်။ အချို့ နေရာ၌ ရဟန်းနှင့်သာ သက်ဆိုင်သည်။ အချို့ နေရာ၌ အများနှင့် သက်ဆိုင်သည်။ သို့သော်လည်း မြတ်စွာဘုရား တရားဟောရာ၌ ပရိသတ် လေးပါး၊ ပရိသတ်ရှစ်ပါးရှိရာ ရဟန်းသာလျှင် အကြီးအမှူး အဓိက ပဓာနဖြစ်သောကြောင့် (ဘိက္ခု - ဘိက္ခဝေ-ဘိက္ခဝေါ)စသည်ကိုရဟန်းဟူ၍သာ မြန်မာပြန်ဆိုကြသည်။ ထိုကြောင့် ဘိက္ခုကို ရဟန်းဟူ၍သာ မှတ်ယူအပ်သည်။ ရဟန်းသည်လည်း ရဟန်းယောကျ်ား၊ ရဟန်းမိန်းမ နှစ်မျိုးရှိရာ ရဟန်းယောကျ်ားကိုသာ ယူရမည်။ (ရဟန်း — ရှု။)

ဦးကြီးဖေ

**ဘိက္ခုနီ။** ။ဘိက္ခုနီဟူသော အမည်သည် ပါဠိ အမည် ဖြစ်၏။ မြန်မာပြန်ဆိုလျှင် ရဟန်းမိန်းမဟု အဓိပ္ပါယ်ရ၏။ (ရဟန်း — ရှု။) ထိုရဟန်းမိန်းမကား မြတ်စွာဘုရား လက်ထက်တော်ကပင် ရှိခဲ့၏။ မိထွေးတော် ဂေါတမီသည် သာကီဝင် မင်းသမီး ငါးရာနှင့်တကွ ရှေးဦးစွာ ရဟန်းပြု၏။ နောက်အဆင့်ဆင့် ပွားများလာ၍ သာသနာတော်တွင် ရဟန်း

မိန်းမသာသနာ ရဟန်းမိန်းမသံဃာ ဟု သီးခြားဖြစ်လာသည်။ ထိုစဉ်အခါက မဇ္ဈိမဒေသဘွင် ရဟန်းမိန်းမတို့သည် အလွန် များကုန်၏။

သာသနာနှစ် ၂၃၅ ခုသို့ ရောက်သောအခါ အရှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်သည် တတိယ သင်္ဂါယနာတင်ပြီးကိုးတိုင်း ကိုးဌာနသို့သာသနာပြု စေလွှတ်တော်မူရာ အရှင်မဟိန္ဒမထေရ်သည် သီဟိုဠ်ကျွန်းသို့ သာသနာပြု ကြွတော်မူ၏။ ထိုအခါ အနုဠာဒေဝီသည် သတို့သမီးငါးရာ၊ နန်းတွင်းသူ ငါးရာအားဖြင့် နောက်ပါမိန်းမတထောင်နှင့်တကွ ရဟန်းပြုသဖြင့် သီဟိုဠ်ကျွန်း၌ ရဟန်း မိန်းမ သာသနာ ပြန့်ပွား ထွန်းကားခဲ့သည်။

အရှင်ယောနက ဓမ္မရက္ခိတ မထေရ်သည် မြန်မာ နိုင်ငံအထက်ပိုင်း အပရန္တတိုင်း(သုနာပရန္တတိုင်း) သို့ သာသနာပြု ကြွလာတော်မူ၏။ ထိုအခါ အမျိုးသမီးခြောက်သောင်းတို့သည် ရဟန်းပြုသဖြင့် အပရန္တတိုင်း၌ ရဟန်းမိန်းမ သာသနာ ပြန့်ပွားထွန်းကားခဲ့သည်။

အရှင် သောဏမထေရ်နှင့် အရှင် ဥတ္တရ မထေရ် တို့သည် မြန်မာနိုင်ငံ အောက်ပိုင်း သုဝဏ္ဏဘူမိတိုင်း သထုံပြည်သို့ သာသနာပြု ကြွလာတော်မူကြ၏။ ထိုအခါ အမျိုးသမီး တထောင့်ငါးရာ တို့သည် ရဟန်းပြုကြသဖြင့် ရဟန်း မိန်းမ သာသနာ ပြန့်ပွား ထွန်းကားခဲ့သည်။ (အခြား ဌာနတို့၌ ရဟန်း မိန်းမ သာသနာ ပြန့်ပွားထွန်းကားခြင်း မရှိ၊ ရဟန်း ယောကျ်ား သာသနာသာ ပြန့်ပွား ထွန်းကား ခဲ့သည်။)

ဤသို့ မြန်မာနိုင်ငံ အထက်ပိုင်း၊အောက်ပိုင်းတို့၌ သာသနာနှစ် ၂၃၅ ခုလောက်က ပြန့်ပွား ထွန်းကား ခဲ့သော်လည်း၊ သာသနာနှစ် ၁၆၀၁ ခုတွင် ပုဂံပြည် နော်ရထာမင်းစောသည် သထုံပြည်သို့ ချီတက်၍ ပိဋကတ်တော်တို့ကို ပင့်သောအခါ၌ ခုတ်တော်မွေတော် ပိဋကတ်တော်အစုံ သုံးဆယ်နှင့် ပိဋကတ်ကျမ်းဂန် တတ်မြောက်သော အရိယာ သံဃာတော် တထောင်တို့ကို ပင့်ဆောင်သည်ဟု မဟာ ရာဇဝင်ကြီးနှင့် သာသနာလင်္ကာရ၌ အဆိုရှိသဖြင့် ထိုစဉ်အခါက ရဟန်းမိန်းမ မပါလာသည့်ပြင် ပုဂံပြည်၌ ရဟန်း ယောကျ်ားများပင် အဆက်ပြတ်၍ မရှိတော့ကြောင်း ထင်ရှားသည်။

ထိုအတွက် မဇ္ဈိမဒေသ၌ ရဟန်းမိန်းမ သာသနာသည် နှစ်ပေါင်း မည်မျှလောက် တည်ရှိ၏ဟု မခန့်မှန်းနိုင်သော်လည်း မြန်မာ နိုင်ငံ၌ကား နှစ်ပေါင်း တထောင်၊ သို့မဟုတ် တထောင်ကျော်မျှလောက်သာ တည်ရှိလိမ့်မည်ဟု ခန့်မှန်းနိုင်သည်။ ပိဋကတ်ကျမ်းဂန် တတ်မြောက်သော ဆရာတော်ကြီးတို့ကလည်း ရဟန်းမိန်းမ သာသနာကား နှစ်ပေါင်း တထောင်လောက်သာ တည်ရှိ၏ဟု အမိန့်ရှိသည်ကို ကြားရဘူး၏။

**ဦးကြီးဖေ**

**ဘုတ်ငှက်**။ ။ဘုတ်ငှက်သည် ဥသြမျိုးနှင့်အတူကျူကျူလီဒီးမျိုးရင်းတွင် ပါဝင်၍ ပါဏဗေဒ အလိုအားဖြင့် စင်ထရိုပတ် ဆိုင်နင်ဆစ်ဟု ခေါ်သည်။ ဥသြနှင့်မျိုးတူသော်လည်း ဥသြကဲ့သို့ အခြား ငှက်၏ အသိုက်တွင် ဥအုလေ့မရှိ။ မိမိ အသိုက်နှင့် မိမိ ဥအုသည်။တောကြီးကန်းအရွယ် အလျား ၁၈ လက်မရှိ၍ ကိုယ်မှာ တောက်ပြောင် မည်းနက်ပြီးလျှင် အတောင်သည် အုန်းခွံရောင် နီကျင့်ကျင့် ဖြစ်သည်။ အတောင်



ပျင်းရိလေးတွဲစွာ အသံကို မြင့်လိုက်နိမ့်လိုက် အော်တတ်သည့် ဘုတ်ငှက်

နှင့် အမြီးသည် ကြီး၍ လေးလေးပျံတတ်သည်။ အဖိုနှင့်အမ ပုံသဏ္ဌာန်ချင်း တူသည်။

ဘုတ်သည် ပုန်းလျှိုးနေ၍ မြေပြင်ပေါ်တွင် အစာရှာစားသည်။ အထူးသဖြင့် စိုက်ပျိုးခင်းနှင့် မြေကွက်လပ်များတွင် အတွေ့ရများသည်။ချုံထူ၍ စွတ်စိုသော နေရာများကို ကြိုက်နှစ်သက်၍ ရေနှင့် ဝေးဝေးမနေချေ။ တောတွင်းရှိ စမ်းချောင်း ကမ်းပါးတလျှောက် ပေါက်သော ကိုင်းတော၊ ဗိဇတ်တောများတွင် ပိုးကောင်များ၊ နှံကောင်၊ ဖွတ်၊ ပုတတ်၊မြွေနှင့် အလားတူ အစာများကို ရှာဖွေစားကြသည်။ အစာ ရှာဖွေရာတွင် မြေပေါ်၌ အမြီးကို မ၍ တည်ငြိမ်စွာ သွားလာနေသည်ကို တွေ့ရတတ်သည်။ အန္တရာယ်နှင့် တွေ့သောအခါတွင် ထူးခြားစွာ ဖြည်းဖြည်းနှင့် မှန်မှန် မြက်တော၊ ချုံတောထဲသို့ ပျံသွားလေ့ရှိသည်။ မိုးရွာပြီး စတွင် ဘုတ်သည် ချုံဖျား၌ ဖြစ်စေ၊ ငါးရုံဖျား၌ ဖြစ်စေ နှစ်ခြိုက်စွာ နေစာလှုံလေ့ ရှိသည်။

ဘုတ်၏ အသံမှာ လေးနက်၍ အု-အု ဟု ဖြည်းဖြည်းနှင့် မှန်မှန် အော်လေ့ ရှိသည်။ အထူးသဖြင့် နွေဥတုတွင် အော်တတ်၍ အဝေးကပင် ကြားနိုင်သည်။ အော်သည့်အခါအမြီးကို မ၍ ဖြန့်ထားသည်။ ဦးခေါင်းသည် အောက်သို့ စိုက်လာ၍ လည်ချောင်းလည်း ပွလာသည်။ တကိုယ်လုံးလည်း တုန်နေသည်။ တခါတရံ ကု-ကု ဟုလည်း ၆ ကြိမ်မှ အကြိမ် ၂၀ ခန့်အထိ အော်လေ့ ရှိသည်။ တကောင် အော်လျှင် အနီးအနားတဝိုက် ဘုတ်များကပါ ဝိုင်း၍ အော်တတ်ကြသည်။

ဘုတ်သည် အသိုက်ကို ချုံဖုတ်၊ မြက်ဖုတ်၊ သစ်ကိုင်းခွများတွင် ပြုလုပ်၍ မိုးဥတုတွင် သားပေါက်တတ်သည်။ တမြုံလျှင် ၃ ဥမှ ၅ ဥအထိရှိ၍ ပုံသဏ္ဌာန်မှာ ရှည်မျောမျော ဖြစ်ပြီးလျှင် ကြမ်းတမ်းသည်။ အပြောက်အစက် မရှိချေ။ အရောင်မှာ အဖြူမွဲရောင် ဖြစ်သည်။ အဖိုအမ နှစ်ဦးလုံးပင် အသိုက်လုပ်ခြင်း၊ ဝပ်ခြင်းနှင့် သားငယ်များ ထိန်းကျောင်းပြုစုခြင်းများကို ခွဲဝေ လုပ်ဆောင်ကြသည်။

ဘုတ်များကို အရှေ့တိုင်း နိုင်ငံများတွင် အနှံ့အပြား တွေ့ရသည်။ မြန်မာနိုင်ငံ တဝှန်းလုံးတွင် နေ၍ အမြင့် ပေ ၄,၀၀၀ အထိ တွေ့ရတတ်လေသည်။

**ဘုတ်နံ့။** ။ဘုတ်နံ့ ငှက်သည် ဘုတ်အငယ်စားပင် ဖြစ်သည်။ ဘုတ်ကဲ့သို့ ကျူကျူလီဒီးမျိုးရင်းတွင် ပါဝင်၍၊ ပါဏဗေဒ အလိုအားဖြင့် စင်ထရိုပတ် ဗင်ဂါလင်ဆစ်ဟု ခေါ်သည်။အလျား ၁၅ လက်မရှိသည်။ အတောင်များမှာ အုန်းခွံရောင် နီကျင့်ကျင့် ရှိသော်လည်း ဘုတ်ငှက်ထက် အရောင်ဖျော့သည်။ ကိုယ်ထည်မှာ မည်းနက်၍ အဝါရောင်ဖျော့ဖျော့ အစင်းများ ပါရှိသည်။ ဆောင်းတွင်းအခါတွင် ကိုယ်မွေးများမှာအညိုရောင် ဖြစ်လာသည်။ အော်သံမှာ ကျယ်လောင်၍ ပြတ်သားသည်။ ကိုင်းတောနှင့် သက်ငယ်တောများတွင် ကျက်စား၍ တခါတရံမှသာ အခြား အရပ်များ၌ တွေ့ရတတ်သည်။

ဘုတ်နံ့သည် မိုးတွင်းအခါတွင် သားပေါက်သည်။ အသိုက်ကို ကိုင်းတောထဲတွင် သစ်ရွက်ခြောက်များနှင့် ပြုလုပ်လေ့ရှိသည်။ ဥများမှာ ဘုတ်ဥထက် အနည်းငယ် ငယ်သည်။ ဘုတ်နံ့ကို အရှေ့နိုင်ငံများတွင် အနှံ့အပြား တွေ့ရ၍ မြန်မာနိုင်ငံ အနှံ့အပြား ကွင်းပြင်နှင့် မြစ်ဝှမ်းများတွင် တွေ့နိုင်လေသည်။

**ဘုတ်ပြင်းမြို့။** ။ဘုတ်ပြင်းမြို့သည် မြန်မာနိုင်ငံ အောက်ပိုင်း၊ တနင်္သာရီတိုင်း မြိတ်ခရိုင်အတွင်းရှိ ဘုတ်ပြင်းမြို့နယ်၏ ရုံးစိုက်ရာ မြို့ဖြစ်သည်။ တနင်္သာရီ ကမ်းခြေပေါ်တွင်



မြိတ်ခရိုင်ရှိ ဘုတ်ပြင်းမြို့ကို ဂါတ်တောင်ပေါ်မှ ဤသို့သာယာကြည်နူးဖွယ်ရာ ရှုမြင်ရသည်။

တည်ရှိသည်။ မြို့နယ်အကျယ်အဝန်းမှာ ၂,၃၇၁ စတုရန်းမိုင်ဖြစ်၏။

မြို့နယ်တနယ်လုံးမှာ တောတောင် ထူထပ်၍ ပင်လယ်ကမ်းခြေတွင် လမုတောများရှိ၏။ ကမ်းခြေမှာ သောင်တိမ်ဖြစ်သောကြောင့် သင်္ဘောကြီးများ မဝင်နိုင်ချေ။ ဘုတ်ပြင်းမြို့သို့ သင်္ဘောငယ်ကလေးများသာ ဝင်နိုင်သည်။ ဘုတ်ပြင်းမြို့နှင့် မိုင် ၄၀ အကွာတွင်ရှိ၍ တောအုပ် ထူထပ်သော ကျွန်းကလေးများကြားရှိ ရေကြည်တဝိုက်မှာ ပုလဲငုပ်ရာစခန်းဖြစ်၏။ ဘုတ်ပြင်းမြို့အနီး တောင်ဖက်တွင် သံဖြူတွင်းများရှိ၍ ယင်းဒေသသို့ ကုန်းလမ်းပေါက်သည်။ ရေလမ်းလွယ်ကူသောကြောင့် ကုန်းလမ်းများ မရှိသလောက်ပင်ဖြစ်သည်။

ကမ်းခြေတလျှောက်တွင် မြန်မာလူမျိုးနှင့် မလေး (ပသျှူး) လူမျိုးတို့နေထိုင်၍ အတွင်းဖက် မြစ်ချောင်းတလျှောက်တွင် ယိုးဒယားလူမျိုးများ နေထိုင်ကာ တောင်ပေါ်တွင် ကရင်များ နေထိုင်ကြသည်။ မြိတ်နယ်ကို ယိုးဒယားတို့ ပိုင်ဆိုင်စဉ်အခါက ဘုတ်ပြင်းသည် အရေးပါ အရာရောက်ခဲ့သော်လည်း ယခုအခါ မစည်ကားတော့ချေ။ ဘုတ်ပြင်းမြို့ လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်း အရ ၆၃၁ ယောက်ခန့် ဖြစ်လေသည်။

**ဘဏ်နှင့်ဘဏ်လုပ်ငန်း။** ။ဘဏ်တိုက်သို့ လူတိုင်း ရောက်ဖူးကြမည် မဟုတ်သော်လည်း ဘဏ်တိုက်အကြောင်းကို ကြားဖူးသူများကား နည်းလှမည် မဟုတ်ချေ။ ဘဏ်၌ စုငွေထားရှိသည်၊ ဘဏ်မှ ငွေထုတ်လာသည် စသော အသုံးအနှုန်းများကို ရံဖန်ရံခါ ကြားသိကြမည့် နည်းတူ ချက်လက်မှတ်ဟူသော ဝေါဟာရကိုလည်း ကြားဘူး နားဝ ရှိကြပေမည်။ သို့သော် ချက်လက်မှတ်၊ ချက်လက်မှတ် သုံးသည့်စံနစ် စသည်တို့ကား အဘယ်ကဲ့သို့နည်း ဟူ၍ အသေးစိတ်သိသောသူကား မများလှသေးချေ။

ချက်လက်မှတ် ဆိုသည်မှာ ဘဏ်တခုခု၌ ငွေအပ်နှံထားသော သူသည် ထိုဘဏ်တွင် သူအပ်နှံထားသောငွေများမှ ငွေမည်ရွေ့မည်မျှကို သူ၏ ချက်လက်မှတ် ရရှိသော သူအားထုတ်ပေးစေရန် ထိုဘဏ်သို့ ညွှန်ကြားလိုက်သော အမိန့်လွှာပင် ဖြစ်သည်။ ယခုခေတ်တွင် ငွေအပေးအယူ အပြောင်းအလဲလုပ်ကြရာ၌ ငွေစက္ကူ၊ငွေဒင်္ဂါးစသည်တို့ကို အသုံးနည်း၍ ချက်လက်မှတ်ကို အသုံးများလာကြ၏။ အနောက် နိုင်ငံများတွင် ချက်လက်မှတ် သုံးစွဲသော အလေ့အထမှာ တိုးတက်လျက် ရှိလေသည်။ ယူနိုက်တက် ကင်းဒမ်းခေါ် ဗြိတိန်နိုင်ငံ၌ ယခုအခါတွင် ရောင်းဝယ်ရေး လုပ်ငန်းအဝဝတို့တွင် ချက်လက်မှတ် သုံးသော စံနစ်ဖြင့်သာ ဆောင်ရွက်ကြ၏။ အနောက်တိုင်း နိုင်ငံများမှာကဲ့သို့ ချက်လက်မှတ်သုံး အလေ့အထ မတိုးတက်သေးသော မြန်မာနိုင်ငံ၌ပင် ယခုအခါ ချက်လက်မှတ်များကို ရှေးကထက် ပို၍ သုံးစွဲလာလေပြီ။

ရှေးအခါက လူအများသည် ငွေပိုငွေလျှံ များကို စဉ့်အိုး၌ဖြစ်စေ၊ ဝါးကျည်တောက်၊ သေတ္တာ၊ ဗူး၊ ခွက်၊ ကြုတ် စသည်တို့၌ဖြစ်စေ၊ ကျစ်ကျစ်ပါအောင် ထည့်၍ လူသူလေးပါး မသွားလာသည့် ချောင်ကျကျနေရာတွင် မြှုပ်နှံသိုမှီးထားတတ်ကြလေသည်။ သို့မဟုတ်ခဲ့လျှင်လည်း ထိုငွေပိုငွေလျှံကို အသိမ်းရ လွယ်ကူ၍ ငွေပြန်ပေါ် လွယ်သော ရွှေများ၊ ကျောက်မျက်ရတနာများဖြင့် ဖလှယ်ကာ လုံခြုံမည်ထင်ကြသည့် စိတ်ချရသော သေတ္တာတွင်း၌ငှင်း၊ သူတပါးမထင်စားသည့် တိုင်ခေါင်း နံရံခေါင်း များ၌ငှင်း သိုဝှက်သိမ်းဆည်းထားလေ့ ရှိကြလေသည်။ ဤအလေ့အထမျိုးကို နယ်စွန် နယ်ဖျားကျသည့် တောလက်ကျေးရွာများ၌ ယခုတိုင်အောင် ပြုလုပ်လျက် ရှိသည်ကို တွေ့ရ၏။

ယခုခေတ်တွင်ကား မြို့ကြီးများ၌ နေထိုင်သူများသည် မိမိတို့၏ ငွေပိုငွေလျှံ များကို မိမိတို့ကိုယ်တိုင် မသိမ်းထားဘဲ ဘဏ်များသို့ လွှဲအပ်ကာ ထိန်းသိမ်းစောင့်ရှောက်စေကြလေသည်။

ဘဏ်၌ ငွေအပ်ငွေထုတ် ပြုလုပ်သည့် စံနစ်ကို အောက်တွင် ပုံစံတခုအနေဖြင့် ဖော်ပြထားသည်။ ဦးမူဆိုသူ၌ ငွေဒင်္ဂါး၊ ငွေစက္ကူမှစ၍ ငွေပိုငွေလျှံ များစွာရှိရာတွင် ထိုငွေများကို တနေရာရာ၌ သိုဝှက် သိမ်းဆည်းထားရန်လည်း စိတ်မချနိုင်၊ သွားလေရာရာသို့ မိမိနှင့် တပါတည်း ယူဆောင်ရန်လည်း မလိုလားသဖြင့် ဦးမူသည် ယင်းငွေများကို ဘဏ်သို့ ယူသွားပြီးလျှင် ဘဏ်မန်နေဂျာအား သိမ်းဆည်းထားရန် အပ်နှံလိုက်၏။ ထိုအခါ ဘဏ်မန်နေဂျာသည် ဦးမူ လိုသည့်အခါ၌ ထိုအပ်ငွေ၏ တချို့တဝက်ကို ဖြစ်စေ၊ အားလုံးကို ဖြစ်စေ ပြန်လည် ထုတ်ပေးမည်ဟူသော ကတိ ဝန်ခံချက်ဖြင့် ဦးမူအပ်လာသော ငွေများကို လက်ခံလျက် အပ်ငွေစာရင်းကို ဖွင့်ပြီးလျှင် ဦးမူအား ချက်လက်မှတ် စာအုပ် တအုပ်ကို ထုတ်ပေးလိုက်လေသည်။

ငွေအပ်ခြင်း နှစ်မျိုးနှစ်စားရှိသည်။ ဦးမူအပ်သကဲ့သို့ ငွေရှင်၏ သဘောအလျောက် အလိုရှိသည့်အခါ လိုသမျှငွေကို ထုတ်ယူနိုင်သည့် စည်းကမ်းချက်ဖြင့် အပ်နှံခြင်းကို “စာရင်းရှင်” ငွေအပ်ခြင်းဟု ခေါ်သည်။ စာရင်းရှင် အပ်ငွေများကို အချိန်မရွေး ထုတ်ပေးရသည့် စည်းကမ်းချက်ကြောင့် ဘဏ်သည် (ငွေကို) လှည့်၍ သုံးစွဲရန် အခွင့် အလမ်း နည်းပါးသည်ဖြစ်ရာ အချို့ ဘဏ်များက ထိုသို့သော အပ်ငွေများအတွက် အတိုး မပေးကြချေ။ အချို့ ဘဏ်များကမူ စတိသဘောမျိုးဖြင့် အနည်းငယ်ပေးလေ့ ရှိကြသည်။ အခြား အပ်နှံခြင်းတမျိုးကား ငွေရှင်သည် ဘဏ်နှင့် သဘောတူညီထားသော အချိန်စေ့မှသာလျှင် မိမိ၏ ငွေကို



ရန်ကုန်မြို့ ဆူးလေဘုရားလမ်းနှင့် ကုန်သည်လမ်းဒေါင့်ရှိ ပြည်ထောင်စု မြန်မာနိုင်ငံဘဏ်

ထုတ်ယူရမည်။ ထိုအတောအတွင်း၌ မထုတ်ယူရဟူ၍ စည်းကမ်းသတ်ထားကာ အပ်နှံခြင်းပင် ဖြစ်သည်။ ထိုသို့ အပ်နှံခြင်းကို "စာရင်းသေ" ငွေအပ်ခြင်း (ဝါ) ''အပ်ငွေစာရင်းဖွင့်ခြင်း''ဟုခေါ်သည်။ အချိန် သတ်မှတ်ထားသည့် အလျောက် ဘဏ်များသည် ထိုသို့သော အပ်ငွေမျိုးကို အခြားလုပ်ငန်းတို့၌ လှည့်၍ အသုံးပြုနိုင်ကြသည် ဖြစ်ရာ၊ စာရင်းသေ အပ်ငွေများအတွက် အတိုးငွေ ခပ်များများပေးလေ့ရှိကြသည်။

ဦးမူသည် ချက်လက်မှတ် စာအုပ်ရသောအခါ မိမိ၏ထိုးမြဲလက်မှတ်ပုံစံကို ရေးထိုး၍ ဘဏ်သို့ ပေးအပ်ခဲ့ရပေသည်။ ငွေထုတ်လိုသည့်အခါ ချက်လက်မှတ်တွင် မည်သူမည်ဝါအား ငွေ မည်၍ မည်မျှ ပေးပါဟု ညွှန်ကြားဖော်ပြလျက် ထိုးမြဲလက်မှတ်ကို ရေးထိုးပေးရ၏။ ချက်လက်မှတ်ရသူက ဘဏ်သို့တဆင့် ပို့ရပြန်၏။ ထိုအခါ ဘဏ်တိုက်က ဦးမူ၏ ထိုးမြဲလက်မှတ်ကို ယခင်က ထားခဲ့သော ပုံစံနှင့် တိုက်ဆိုင် စစ်ဆေးပြီးနောက် မှန်ကန်သည်ဟု ကျေနပ်လျှင် ချက်လက်မှတ်တွင် ဖော်ပြထားသော ငွေကို ထုတ်ပေး ရလေသည်။

ပုံစံအားဖြင့် ဦးမူသည် ကုန်စုံဆိုင်ရှင် ဦးထွန်းအား ကုန်ဖိုးငွေသော်၎င်း၊ အကြွေးကိုသော်၎င်း ပေးဆပ်ရန် ငွေလိုသည်ဟု ဆိုကြပါစို့။ ထိုအခါဦးမူသည် ဘဏ်သို့ ကိုယ်တိုင်သွားရောက်ပြီးလျှင် မိမိ၏စာရင်းရှင် အပ်ငွေများမှ လိုသမျှသောငွေကို ထုတ်ယူလျက် ဦးထွန်းအား လက်ထဲ လက်ရောက် ရှင်းလင်းပေးဆပ်မည် ဆိုက ကိုယ်တိုင် ပေးဆပ်နိုင်လေသည်။ ထိုသို့မဟုတ်ဘဲ ကိုယ်တိုင် ဒုက္ခမခံလိုသော် ချက်လက်မှတ်တွင် ဦးထွန်းအား ပေးရန်ရှိသော ငွေကို အတိအကျဖော်ပြပြီးလျှင် ဦးထွန်းအား၊ သို့မဟုတ် ဦးထွန်းက စေလွှတ်လိုက်သော သူအား ထုတ်ပေးရန် ညွှန်ကြား၍ မိမိထိုးမြဲလက်မှတ်ကို ရေးထိုးပြီးနောက် ထိုချက်လက်မှတ်ကို ဦးထွန်းအား ပေးလိုက်နိုင်သည်။ ဦးထွန်းသည် ချက်လက်မှတ်ကို ရရှိသောအခါ ချက်လက်မှတ်၏ ကျောဖက်တွင် မိမိ၏နာမည်ကို ထပ်မံရေးထိုးလျက် ဘဏ်သို့ မိမိကိုယ်တိုင် ဖြစ်စေ၊ တဦးတယောက်ကို စေလွှတ်၍ဖြစ်စေ အဆိုပါ ချက်လက်မှတ်ပြပြီးသော် ငွေထုတ်ယူနိုင်၏။ အကယ်၍ ဦးထွန်းသည် ဘဏ်၌အပ်ငွေရှိက ဦးမူထံမှရသော ထိုငွေကို ထုတ်

မယူဘဲ မိမိ၏ အပ်ငွေစာရင်း၌ လွှဲပြောင်း ထည့်သွင်းနိုင်သည်။

အကယ်၍ ဦးမူ အပ်ငွေရှိသော ဘဏ်သည် ဦးထွန်းအပ်ငွေရှိသော ဘဏ်နှင့် မတူလျှင် ဦးမူထံမှရရှိသော ချက်လက်မှတ်ကို ဦးထွန်းသည် မိမိအပ်ငွေရှိသောဘဏ်သို့ပင် ပေးပို့ကာ ထိုဘဏ်မှတဆင့် ဦးမူအပ်ငွေရှိသော ဘဏ်နှင့် အပြန်အလှန်စာရင်းရှင်းယူနိုင်သည်။ ထို့ကြောင့် ဘဏ်ပိတ်ချိန်ရောက်သည့်အခါ ဘဏ်တိုက်ခွဲတို့၌ လက်ခံရရှိသမျှသော ချက်လက်မှတ်ကို ဗဟိုဘဏ်တိုက်ကြီးသို့ ပို့ကြရသည်။ ထိုမှတဖန် အခြားဘဏ်များနှင့် ဆိုင်သော ချက်လက်မှတ်များကို ဘဏ်စာရင်းရှင်းရုံသို့ ပို့လျက် မိမိနှင့် ဆိုင်သော ချက်လက်မှတ်များနှင့် အပြန်အလှန် စာရင်းရှင်း၍ ငွေထုတ်ယူကြရလေသည်။ ဘဏ်စာရင်းရှင်းရုံ ဆိုသည်မှာ အဖွဲ့ဝင်ဘဏ်တိုက်ကြီးများ၏ ချက်လက်မှတ်ပေါင်း များစွာတို့ကို နေ့စဉ် အပြန်အလှန် စာရင်းရှင်းပေးရာ ဌာန ဖြစ်သည်။ ချက်လက်မှတ်များကို အပြန်အလှန် စာရင်းရှင်းပြီးသည့်နောက် အဖွဲ့ဝင် ဘဏ်တခုသည် အခြားအဖွဲ့ဝင် ဘဏ်တခုပေါ်၌ ငွေရရန်ရှိနေသေးလျှင် ဗဟိုဘဏ်တိုက်ချုပ်မှတဆင့် ငွေထုတ်ယူရ၏။ သို့မဟုတ် စာရင်းလွှဲပြောင်းယူရ၏။ လုပ်ငန်း ဖွံ့ဖြိုးထွန်းကားသည့် မြို့ကြီးများတွင် အပြန်အလှန် စာရင်းရှင်းသော အလုပ်ကို နေ့စဉ် နှစ်ကြိမ်မျှ ဘဏ်စာရင်းရှင်းရုံက ဆောင်ရွက်ပေးရလေသည်။

ယူနိုက်တက်ကင်းဒမ်း နိုင်ငံတွင် လန်ဒန်မြို့ရှိ အင်္ဂလန်နိုင်ငံတော်ဘဏ်သည် ဘဏ်တကာတို့၏ ဗဟိုဘဏ်တိုက်ချုပ်ဖြစ်သည်။ ဒုတိယကမ္ဘာစစ် မဖြစ်မီက မြန်မာနိုင်ငံတွင် ရန်ကုန်မြို့ရှိ အိန္ဒိယရီဇတ်ဘဏ် (အိန္ဒိယသီးသန့်ဘဏ်)သည် အခြားဘဏ်များ၏ ဗဟိုဘဏ်တိုက်ချုပ်ပင်ဖြစ်၏။ အိန္ဒိယရီဇတ်ဘဏ်၏ စီမံအုပ်ချုပ်မှုဖြင့် ဆောင်ရွက်လျက်ရှိသော ရန်ကုန် ဘဏ် စာရင်းရှင်း ရုံသည် ၁၉၄၀ ပြည့်နှစ်တွင် ချက်လက်မှတ်ပေါင်း ၈၀၆,၅၀၂ စောင်၊ သင့်ငွေပေါင်း ၁၀၀၆,၈၂၇,၁၂၃ ကျပ်မျှကို စာရင်း ရှင်းပေးခဲ့ရလေသည်။ ၁၉၄၈ ခုနှစ်တွင် ပြည်ထောင်စု မြန်မာနိုင်ငံ ပေါ်ပေါက်လာသော အခါ၌ကား ဗဟိုဘဏ်တိုက်ချုပ်သည် ပြည်ထောင်စု မြန်မာနိုင်ငံဘဏ် ဖြစ်၍ ယခင်က အိန္ဒိယ ရီဇတ်ဘဏ်၏ လုပ်ငန်းဆောင်တာများကို ဆက်လက် ဆောင်ရွက်လျက် ရှိလေသည်။

ဗဟို ဘဏ်တိုက်ချုပ်သည် ငွေလွှဲ စာချုပ်များ အတွက် ဘဏ်နှုန်းများကို သတ်မှတ်ညွှန်ကြားစဉ် သတ်မှတ် ကျေညာလေ့ရှိသည်။ ဘဏ်နှုန်းဆိုသည်မှာ ငွေလွှဲစာချုပ်များကို ဝယ်ယူ၍ ငွေချေရာတွင် စာချုပ်တန်ဖိုးမှ ဘဏ်က နုတ်ယူလိုက်သည့် အနည်းဆုံးသော လျော့ငွေပင် ဖြစ်သည်။ ဗဟိုဘဏ်တိုက်ချုပ်မှ ကျေညာသော ဘဏ်နှုန်းကို အမှီပြု၍သာလျှင် အခြားသော ဘဏ်များသည် မိမိတို့ထံ အပ်နှံထားသော အပ်ငွေများအတွက် အတိုးနှုန်းထားကို သတ်မှတ်လေ့ရှိသည်။

ငွေလွှဲစာချုပ် ဟူရာ၌ လူတဦးမှတဦးသို့၎င်း၊ကုမ္ပဏီတခုမှ တခုသို့၎င်း ဖော်ပြပါငွေကို သတ်မှတ်ထားသော အချိန်ကာလတွင် ပေးရန် ကတိပြုချုပ်ဆိုထားသော စာချုပ်စာတမ်းကို ဆိုလိုလေသည်။ ကုန်သည်တဦးသည် အခြား တနိုင်ငံမှ ကုန်သည်တဦးအား ကုန်များ ရောင်းချလိုက်သည်တွင် ကျသင့်သော ကုန်ဖိုးငွေကို ဖော်ပြပြီးနောက် ၃ လဆိုင်း၊ ၄ လဆိုင်းစသည်ဖြင့် အချိန်ကာလကို သတ်မှတ်ပြီးလျှင် စာချုပ်တခု ပြုလုပ်၍ ကုန်ဝယ်သူထံ ပို့လိုက်၏။ ကုန်ဝယ်သူသည် စာချုပ်ပါ စည်းကမ်းချက်များကို သဘောတူခဲ့သော် စာချုပ်တွင် လက်မှတ်ရေးထိုး၍ ကုန်ရောင်းသူထံသို့ ပြန်ပို့ရ၏။ ထိုစာချုပ်မှာ ငွေလွှဲစာချုပ်ပင် ဖြစ်လေသည်။ ကုန်ရောင်းသူသည် စာချုပ်ပါငွေကို ထုတ်ယူမည့်သူဖြစ်၍ ကုန်ဝယ်သူသည် စာချုပ်ကို ဝန်ခံသူဖြစ်လေသည်။ စာချုပ် ဝန်ခံသူသည် အခြေခိုင်လုံ၍ နာမည်ကောင်းရှိသောသူ ဖြစ်မှသာလျှင် စာချုပ်၏ တန်ဖိုးမှာ ကောင်း၍၊ ရောင်းရာ၌လျော့နှုန်း သက်သာလေသည်။ ငွေလွှဲစာချုပ်များမှာ လက်ပြောင်းရောင်းချနိုင်သော စာချုပ်များ ဖြစ်ကြ၏။

စုရိုးစုစဉ် ငွေစုသောသူများအတွက်ငွေစုဘဏ်များလည်း ရှိကြသေးသည်။ ယင်းတို့မှာ အစုစပ်ဘဏ်များ (ရင်းဖက်စုဖက် ဘဏ်များ) နှင့် စာတိုက်ငွေစုဘဏ်များ ဖြစ်ကြ၏။ အင်္ဂလန်ပြည်တွင် အစုစပ်ဘဏ်များမှာ ကြီး ၅ ကြီးဟုခေါ်လေ့ ခေါ်ထရှိသော ဘဏ်တိုက်ကြီး ၅ ခုတို့၏ ဘဏ်တိုက်ခွဲများ ဖြစ်ကြသည်။ ကြီး၅ ကြီးကား ဗာကလေး၊ လွိုက်၊ မစ်ဒလန်၊ နေရှင်နယ်ပရောဗင်ရှယ်နှင့် ဝက်စမင်စတာဘဏ် လီမိတက်တို့ဖြစ်ကြသည်။ ထိုသို့ စုဆောင်း အပ်နှံထားသော ငွေများအတွက် ဘဏ်များက အတိုးအနည်းငယ် ပေးကြသည်။ စာတိုက်ငွေစုဘဏ်သည် စုငွေတရာအတွက် တနှစ်လျှင် ၂ ၃/၄ ရာခိုင်နှုန်း အတိုးပေးလေသည်။

ဘဏ်လုပ်ငန်း၏ ဇာစ်မြစ်ကို ပြန်ပြောင်းလေ့လာသော် အလယ်ခေတ်တွင် ထွန်းကား ခေတ်စားခဲ့သော ဣတလီနိုင်ငံရှိ ငွေလဲစားသူများနှင့် သူတို့၏ လုပ်ငန်းများမှ တဆင့် တိုးတက်ကြီးပွား ပေါ်ပေါက် လာသည်ကို တွေ့ရမည် ဖြစ်သည်။ ထိုငွေလဲစားသူများသည် ဣတလီနိုင်ငံရှိ မြို့အသီးအသီးတို့တွင် လမ်းဘေး၌ ခုံတန်းလျားများ တည်ခင်း၍ ငွေလဲလှယ်သော အလုပ်ကို လုပ်ကိုင်ကြရာမှ စုပေါင်းဖွဲ့စည်း၍ လုပ်ကိုင်သော ဘဏ်လုပ်ငန်းကို စတင် ခဲ့ကြလေသည်။ (ခုံတန်းလျားကို ဣတာလျံ ဘာသာဖြင့် ဗန်က ဟု ခေါ် ၍ ထိုစကားမှ ယခုခေတ်သုံးသော ဘဏ်ဟူသော ဝေါဟာရ ဆင်းသက်လာသည်ဟု ဆိုသည်။) သို့အားဖြင့် ပဌမဆုံး ဖြစ်သော ကုန်သွယ်ရေးဆိုင်ရာဘဏ်ကို ၁၅၈၇ ခုနှစ်တွင် ဗင်းနစ်

မြို့၌ တည်ထောင် ဖွင့်လှစ်ခဲ့လေသည်။ ထိုဘဏ်ကား ဗန်ကိုဒယ်လာပီအာဇားဒယ်ရီအယ်လတိုပင် ဖြစ်၏။ ဣတလီနိုင်ငံ၌ အမြစ်တွယ်ခဲ့သော ဘဏ်လုပ်ငန်းသည် အင်္ဂလန်ပြည်သို့ ၁၃ ရာစုနှစ်တွင် မျိုးပြန့်ခဲ့သည်။ ဣတလီနိုင်ငံမှ လောင်းဗတ်လူမျိုးတို့သည် အစပဋ္ဌမ၌ပုပ်ရဟန်းမင်းကြီး အတွက် အခွန်ဘဏ္ဍာ ကောက်ခံရန် ကိုယ်စားလှယ်တော်များ အဖြစ်ဖြင့် ၁၃ ရာစုနှစ်တွင် အင်္ဂလန်ပြည်သို့ ရောက်ရှိလာကြ၏။ လောင်းဗတ် တို့သည် ဇာတိမျိုးရိုး အားဖြင့် ရွှေပန်းဟိမ်သည်များဖြစ်ကြသည်။ သူတို့သည် လန်ဒန်မြို့ တနေရာတွင် နေထိုင်ကြလျက် နေသား ထိုင်သား ကျလာသောအခါ သူတို့၏ လာရင်းလုပ်ငန်းအပြင်၊ သူတို့၏ မိရိုးဖလာလုပ်ငန်းဖြစ်သော ငွေချေးငှါးခြင်း၊ အပ်ငွေလက်ခံခြင်း၊ ငွေလဲလှယ်ခြင်းများကို လုပ်ကိုင် လာကြသည်။ ထိုမှ တဆင့်ထက် တဆင့် တိုးတက်လျက် ဘဏ်လုပ်ငန်းသည် ပေါ်ထွက်ပွင့်ကားလာသည်။ ၁၆၉၄ ခုနှစ်တွင် အင်္ဂလန်ဘဏ်ကို အစိုးရအကူအညီနှင့် တည်ထောင်ခဲ့၏။ လောင်းဗတ်တို့နှင့် သူတို့၏ လုပ်ငန်းဆောင်တာတို့ကို အမှတ်တရ ဖြစ်စိမ့်သောငှါ ယင်းတို့မူလ အခြေတည်ရာ နေရာကို လောင်းဗတ်လမ်းဟု ခေါ်ခဲ့ကြ၏။ ယခုအခါ လောင်းဗတ်လမ်းသည် လန်ဒန် မြို့၏ ကူးသန်း ရောင်းဝယ်ရေး ဆိုင်ရာ အချက်အခြာ နေရာဖြစ်သည့်ပြင် ကမ္ဘာ့စီးပွားရေး ယန္တရားများ ဖြစ်သော အလုပ်တိုက်နှင့် ဘဏ်တိုက်များ တည်ရှိရာ ဗဟိုရပ်ကွက်ကြီးလည်း ဖြစ်နေလေသည်။

**ဘန်းစကား။** ။ဘန်းစကားသည် များသော အားဖြင့် သဘင်သည်တို့ပြောဆိုသုံးစွဲသော စကားတမျိုး ဖြစ်သည်။ သဘင်သည် တို့သာ ပြောဆို သုံးစွဲသောကြောင့်လည်း ဆိုင်းစကားဟု တွင်နေဟန် တူသည်။ ယခုအခါတွင် သဘင်သည်လောကနှင့် ကားသမား လောကတွင် အများအားဖြင့် အသုံးပြုပြောဆိုလျက် ရှိသည်။ စာပေသုံးမဟုတ်သော အရပ်စကားကို လူအများ နားလည် နိုင်မည် ဖြစ်သော်လည်း ဘန်းစကားကိုမူကား လူတိုင်းနားလည် နိုင်ရန် ခဲယဉ်းသည်။ သို့တစေဘန်းစကားသည် အရပ်စကားမှပေါက်ဖွားကြီးထွားလာရသည်ဟု ဆိုရမည်ဖြစ်သည်။ အကယ်၍ ဘန်းစကား တလုံးသည် အသုံးတွင်ကျယ်လာကာ စာပေသုံး ဝေါဟာရ ဖြစ်သွားလျှင်မူကား ဘန်းစကားဟု မခေါ်နိုင်တော့ချေ။ ဘန်းစကားသည် မည်သည့် ဘာသာ စကားရပ်၌မဆို ရှိကြစမြဲဖြစ်သည်။

ယခုခေတ် လူအများပြောဆိုနေကြသည့် 'အသုံးမကျအရာမဝင်သူ' ဟု အဓိပ္ပါယ်ရသော 'ဖွဲ' ကိုဎင်း၊ 'အလွန်ချောသည်'ဟု အဓိပ္ပါယ် ရသော 'ရက်စက်သည်' ကိုဎင်း၊ ကားသမား လောကတွင် ပြောဆိုနေကြသည့် 'ပိုက်ဆံမရသည့်သူ၊ တန်ဖိုးမရှိသည့်သူ' ဟု အဓိပ္ပါယ်ရသော 'ခဲပဲစေ့' ကိုဎင်း လူတိုင်း နားလည်ကြမည် မဟုတ်ချေ။ ထိုနည်းတူစွာ မန္တလေးဖက်တွင် ပြောဆိုနေသော 'ကာတစ်' (မိန်းမတင်ပါးဆုံ) နှင့် 'ဝါဟစ်' (မိန်းမရင်သား) စသည်တို့ကို အောက်ပြည်အောက်ရွာတွင် နေထိုင်ကြသူများ နားလည်သူနည်းသည်။ လက်ဖက်ရည်ဆိုင်တွင် 'နောင်ဂျိန်'ဟု ပြောလျှင် 'ရေနွေးကြမ်း၊ လက်ဖက်ရည်ကြမ်း' ဟုနားလည်သည်။ ဘောလုံးပွဲတွင် 'ပင်မှည့်'ဟု ပြောလျှင် 'သူနာပြုသမား' ဟု နားလည်သည်။ 'ခေါက်ဆွဲ စားသည်' ဟု ပြောလျှင် 'ငွေစားသည်'ဟု နားလည်သည်။ ယင်းသို့ အားဖြင့် ဘန်းစကားကို သူ့အသိုက် အဝန်းနှင့် သူသာ နားလည်သည်။ အသိုက်အဝန်း ပြင်ပမှ ပုဂ္ဂိုလ်များ မသိစေလိုသော စကားလုံးများကို ဘန်းစကားဖြင့် ပြောလေ့ ရှိသည်။ ထိုအခါ ဘန်းစကားသည် လျှို့ဝှက် စကားသဘောသို့ သက်ရောက်သွားသည်။

ဘန်းစကားကိုများသောအားဖြင့် စာသင်ကျောင်းများ၊ ရုံးများ စသည်တို့က စတင် ထွင်တတ်ကြောင်း သိရသည်။ တောင်ပန်နီ (ခေါးပြဂိုဏ်းကြီး)၊ မြွေပွေး (သတ္တိရှိသော ခေါးပြ)၊ ဇိတ် (သွေးကြောင်သူ)၊ အာကာ (အောက်စောင့်)၊ ဗျောက်၊ အတို (ခြောက်လုံးပူးသေနတ်)၊ နာနတ်သီး (လက်ပစ်ဗုံး) စသည်တို့သည် ရဲအဖွဲ့ကြီးက ထွင်သော ဘန်းစကား အချို့ ဖြစ်သည်။ ထိုနည်းတူစွာ ပြည်ဘွင်းရေကြောင်းသယ်ယူပို့ဆောင်ရေးဌာန၊ မီးရထားဌာန စသော လုပ်ငန်းဌာနကြီးများကလည်း ဘန်းစကားများကို ထွင်ကြမည်သာဖြစ်၏။ယင်းကဲ့သို့ထွင်ကြရာ၌ အကြောင်းယုတ္တိတန်သည် မတန်သည်၊ ဆီလျော်သည် မဆီလျော်သည်မှာ ပဓာန မဟုတ်။ သက်ဆိုင်ရာ အသိုက်အဝန်းအတွင်းရှိ လူအများက နားလည် လက်ခံသုံးစွဲခြင်းသည်သာလျှင် ပဓာနဖြစ်သည်။

ဘန်းစကားတွင် ပြောင်လှောင် သရော်လိုဟန် အရိပ်အယောင်များ တွေ့ရတတ်သည်။ ထွင်ထားသောစကားလုံး၏ အသံထွက်သည်ပင်လျှင် တခါတရံ ရယ်ဖွယ် ဖြစ်နေသည်။ ပုံစံများမှာ ရှုံးတော့-ဆီးသွားသည်။ ဟားငနဲ-လူပြက်။ ဆိတ်လစိ-ဖြောင့်ချက်ပေးသူ ဟူသော စကားမျိုးများ ဖြစ်သည်။ 'စိတ်ဆိုး စိတ်ကောက် သည်' ကိုပင် အဘိဓမ္မာဆံဆံ 'စေတသိက်ယိုင်သည် 'ဟု သုံးစွဲနေကြသည်။ 'ဆော့သည်' ကို 'ဈာန်ပျံသည်' ဟု မအပ်မရာ ချဲ့ကား ထားသည်ကိုတွေ့ရသည်။

ဘန်းစကားတွင် ပါဝင်သော စကားလုံးတို့သည် နာမ်သာများ၍ ကြိယာ အလွန်နည်းသည်။ ထိုပြင် ဘန်းစကားဖြင့် ဝါကျ တပုဒ်ဖြစ်အောင် မဖွဲ့နိုင်။ သာမန်စကားတွင် ညှပ်၍ ပြောမှ ဝါကျတပုဒ် ဖြစ်သည်။

ဘန်းစကားတွင် မှန်စကားလုံး အနည်းငယ် တွေ့ရသည်။

(မွန်၊ က-ငါး။ မွန်၊ ဇဗ္ဗူ-ကွမ်းသီး။ မွန်၊ ပုင်-ထမင်း။) သို့သော် ဘန်းစကားအားလုံးသည် မွန်ဘာသာ စကားမှဆင်းသက်လာသည်ဟု မဆိုနိုင်ပေ။

## ဘန်းစကား

**က**

| | |
|---|---|
| က | ငါး(မွန်-က)။ |
| ကကြီး | မိန်းမရှင်၊ ပြည့်တန်ဆာမ။ |
| ကထစ် | ငါးခုတ်သည်။ |
| ကနဖိုး | မင်းသား။ ဇာတ်မင်းသား။ |
| ကပုပ် | ငါးပိ (မန္တလေး)။ |
| ကော | ပြောဆိုသည်။ |
| ကုန်း | ပဋိသန္ဓေ။ ကိုယ်ဝန်။ |
| ကုန်းထောက် | ပဋိသန္ဓေ ရှိသည်။ ကိုယ်ဝန်ဆောင်သည်။ |
| ကုန်းပွင့် | ကလေးမွေးသည်။ မီးဖွားသည်။ မျက်နှာ မြင်သည်။ |

**ခ**

| | |
|---|---|
| ခါ | မနှစ်သက်။ သဘောမကျ (မန္တလေး)။ |
| ခေါက် | သေသည် (မန္တလေး)။ |
| ချင်း | လုံချည်။ |
| ချင်းရှည် | ပုဆိုး။ |
| ချိန်သီး | တိုင်ကပ်နာရီ (ဟံသာဝတီ)။ |
| ခွါရေသောက် | ပင်ပန်းသည်။ |

**ဂ**

| | |
|---|---|
| ဂနိုင် | တောသား။ |
| ဂနိုင်ကျ | တောကျသည်။ |
| ဂေါ် | နောက်ပိုးသည်။ ပိုးပန်းသည်။ |
| ဂေါ်ငနဲ | နောက်ပိုး။ |
| ဂေါ်မစွံ | နောက်ပိုး၍မရသူ။ |
| ဂေါက် | မြင်း။ |
| ဂတ် | ဝမ်းဘဲ။ |
| ဂမ္ဘာ | အိုး။ |
| ဂုံးလုံး | အုန်းသီး။ |
| ဂျမ်းငနဲ | လူဆိုး၊ ခားပြ (မန္တလေး)။ |
| ပွဲကျွန်း | လူဆိုး။ ခားပြ (ဟံသာဝတီ) |

**င**

| | |
|---|---|
| ငတယော် | နှဲ့။ |
| ငနဲ | ယောကျ်ား။ |
| ငနှံ | ရွှေ၊ လက်ဝတ်လက်စား (ဟံသာဝတီ)။ |
| ငဝက် | ငွေ။ ပိုက်ဆံ။ |

**စ**

| | |
|---|---|
| စပယ် | ရေ။ |
| စပယ်တော့ | ရေချိုးသည်။ |
| စပယ်ဘိ | ရေကန်။ |
| စာပေါင်ပွဲ | ပြတ်သားသည် (မန္တလေး)။ |
| စေတသိက်ယိုင် | စိတ်ကောက်သည် (မန္တလေး)။ |
| စန့် | ခင်းသည်။ (ပုံစံ။ ဗျန့်တပွေစန့်ပါ)။ |
| စွာကျန် | ဖိပြောသည်။ ဖိသည်။ |
| စွတ်ဖား | အကျီ။ |

**ဇ**

| | |
|---|---|
| ဇဗ္ဗူ | ကွမ်း (မွန်-ဇဗ္ဗူ)။ |
| ဇဝ | ကွမ်းသီး။ |
| ဇဝအစ် | ကွမ်းအစ် |
| ဇဝက် | ပတ္တလား။ |
| ဇာ | ဘိန်း |
| ဇာငနဲ | ဘိန်းစား။ |
| ဇိ | မျက်စိ။ |
| ဇိခေ | မျက်စိမှုန်သည်။ မျက်စိ ပျက်သည်။ |
| ဇိရွှေး | မျက်စိ |
| ဇု | ဝက်သား။ |
| ဇုဂိုး | နွားသား (မန္တလေး)။ လိပ် (ဟံသာဝတီ)။ |
| ဇုဒေါ | နွားသား။ |
| ဇိုး | အရက် (မန္တလေး)။ |
| ဇိုးငနဲ | အရက်သမား။ |
| ဇိုးကတော် | မိဖုရား။ (ဟံသာဝတီ)။ |
| ဇက် | ဆိုင်း။ |
| ဇက်ငနဲ | ဆိုင်းသမား။ |
| ဇက်ဒေါက် | ပတ်မတီး။ |
| ဇက်အုပ် | ဆိုင်းဆရာ။ |
| ဇောင့် | သွားသည်။ |
| ဇာတ်ရုံ | နားရွက် (မန္တလေး)။ |
| ဇွတ် | ဝန်ကြီး (မန္တလေး)။ |
| ဇွတ်ရှည်ငနဲ | ဝန်ကြီး (ဟံသာဝတီ)။ |

**ဈ**

| | |
|---|---|
| ဈာန်ပျံ | ဆော့သည်။ |

**ည**

| | |
|---|---|
| ညာနမွေ | နာရီကြိုး (မန္တလေး)။ |
| ညွတ် | နှစ်သက်သည်။ သဘောကျသည်။ |

**ထ**

ထီဗယ် — မိဖုရား (မန္တလေး)။
ထစ် — ခုတ်သည်။

**ဒ**

ဒလိမ့် — လှည်း။
ဒေါက် — ဖိနပ်။
ဒေါက်တော့ — ဝါးလက်ခုပ်တီးသည်။ စည်းလိုက်သည်။
ဒေါက်ရှပ် — ရွှေထိုးဖိနပ်။ ခုံဖိနပ်။
ဒေါင် — လက်ဖက်။
ဒေါင်ခြောက် — လက်ဖက်ခြောက်။
ဒေါင်စပယ် — လက်ဖက်ရည်ကြမ်း။ ရေနွေးကြမ်း။

**န**

နိဂြောဓလေး — ကိုရင်ကလေး။
နက် — မစင်။ ချေး။
နက်ခါ — မစင်စွန့်သည်။ ချေးပါသည်။
နက်ပြေ့ — အိမ်သာ (မန္တလေး)။
နက်ဘိ — အိမ်သာ (ဟံသာဝတီ)။

**ပ**

ပဂိုး — ဆား။
ပလော — ငှက်ပျောသီး
ပုံး — ထမင်း (မွန်-ပုင်)။
ပုံးတွတ် — ထမင်းစားသည်။
ပုံးပြုတ် — ထမင်းချက်သည်။
ပုံးဖတ် — ဟင်း။
ပုံးရှည် — ခေါက်ဆွဲ။ ကြာဆံ။ မုံ့ဟင်းခါး။
ပွေ — ခု။ ယောက်။ (သင်္ချာပစ္စည်းစကား)။

**ဖ**

ဖလော့ — ငါးပိ။

**ဗ**

ဗလတ် — ပွဲ။
ဗလတ်ချိုး — အက (ဟံသာဝတီ)။
ဗလတ်ပျံ — အက (မန္တလေး)။
ဗျန့် — ဖျာ။
ဗျပ် — ဝါးလက်ခုပ် (မန္တလေး)။
ဗျပ် — ဖဲ။ ကက်ဖဲ (ဟံသာဝတီ)။
ဗျပ်ခြောက်တော့ — ကက်ဆွဲသည်။
ဗျပ်တော့ — ဖဲကစားသည်။

**ဘ**

ဘိ — အဆောက်အအုံ။ အိမ်။

**မ**

မကွဲ — သူခိုး။
မဏိ — ဦးခေါင်း။ ခေါင်း။
မဏိကွမ်းစား — ဦးခေါင်းကွဲကာ သွေးထွက်သည်။
မဒီ — မင်းသမီး။
မနုဿမှည့် — ပွဲကြည့် ပရိသတ်များသည် (ဟံသာဝတီ)။
မလေး — ဆေးလိပ်။
မလေးပေါ့ — ဆေးပေါ့လိပ်။
မလေးပြင်း — ဆေးပြင်းလိပ်။
မိုးကာ — ထီး။
မိုးပွဲ — ကန်တော့ပွဲ (နတ်အတွက်)။
မောင်မှိုင်း — ချဉ်ပေါင်ရွက်။
မံသ — နွားသား။ အမဲသား။
မျှာ — မိန်းမ ။
မြ — ဓား။
မြတော့ — ဓားဖြင့် ထိုးသည်။
မွေ့ — အိပ်သည်။
မှုံ — သနပ်ခါး။
မှုံတော့။ မှုံခြယ် — သနပ်ခါးလိမ်းသည်။

**ယ**

ယော — ဘုန်းကြီး။
ယောပွဲ — ကန်တော့ပွဲ (ဘုန်းကြီးအတွက်)။
ယောဘိ — ဘုန်းကြီးကျောင်း။

**ရ**

ရစ် — ကြက်။
ရပ် — သေသည်။
ရွဲ — မျက်စိ (မန္တလေး)။
ရွဲပဲ့ — မျက်စိပျက်သည်။
ရှု — ပွဲကြည့်ပရိသတ်။
ရှုကွက် — မျက်နှာ။
ရှုကွက်မှည့် — ရုပ်ချောသည်။ လှပသည်။
ရှုကွက်ယိုင် — အရုပ်ဆိုးသည်။
ရှုမှည့် — ပရိသတ် စည်ကားသည်။ (မန္တလေး)။
ရှူးတော့ — အပေါ့သွားသည်။ သေးပေါက်သည်။ ဆီးသွားသည်။
ရှပ် — အရက် (ဟံသာဝတီ)။
ရှပ်တော — လင်းကွင်းသမား။

**လ**

လောင် — မီး။
လောင်ဆီ — ရေနံဆီ။

| | |
|---|---|
| လောင်တော့ | မီးရှို့သည်။ မီးညှိသည်။ |
| လုံကာ | စောင်။ |
| လုံးငနဲ့ | လူပေါ။ ပေါတာ။ အရူး။ |
| လျှော | မြေ |
| လွှာ | စာ။ (သဝန်စာ) (မန္တလေး)။ |
| လွှာ | ကန့်လန့်ကာ (ဟံသာဝတီ)။ |
| လွှား | ပုဝါ။ |
| **ဝ** | |
| ဝ | တော်တော့။ ရပ်ထားတော့။ ရပ်ထား။ |
| **သ** | |
| သောတ | နား။နားရွက်။ |
| သဒ္ဒ | အသံ။ |
| သဒ္ဒမှည့် | အသံကောင်းသည်။ |
| သဒ္ဒလျှော | အသံမကောင်း။ |
| သဒ္ဒလွှင့် | သီချင်းဆိုသည်။ |
| **ဟ** | |
| ဟားငနဲ | လူပြက်။ |
| **အ** | |
| အိမ်မြှောင် | နာရီ (ဟံသာဝတီ)။ |
| အုံကန် | ဆီးသွားသည်။ အပေါ့ သွားသည်။ သေးပေါက်သည်။ |

**ဦးတင်လှ**

**ဘန်းယဉ်နယ်။**　။ဘန်းယဉ် နယ်သည် ရှမ်းပြည်နယ် တောင်ပိုင်းတွင် တည်ရှိသော ပြည်နယ်တခုဖြစ်သည်။ ရှမ်းပြည်ဘောင်ပိုင်းတိုင်း၊ တောင်ကြီး ခရိုင် အတွင်း၌ ပါဝင်၏။ ဘန်းယဉ်နယ်သည် နယ်နိမိတ်အားဖြင့် မြောက်ဖက်တွင် နောင်မွန်နယ်၊အရှေ့ဖက်တွင် မိုင်းပွန်နယ်၊ တောင်ဖက်တွင် သထုံနယ်၊အနောက် ဖက်တွင် ညောင်ရွှေနယ်တို့ဖြင့် ဝန်းပတ်လျက် ရှိသည်။ အကျယ် အဝန်းအားဖြင့် ၂၃၄ စတုရန်းမိုင်၊ ကျေးရွာပေါင်း ၁၄၉ ရွာ ပါဝင်၍ ၁၉၃၁ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၁၀,၂၃၈ ယောက်ရှိသည်။ ရုံးစိုက်မြို့ဖြစ်သော ဘန်းယဉ်မြို့သည် နယ်၏မြောက်ဖက် စွန်းတိုဆီသော ဒေသတွင် တည်ရှိသည်။

ဘန်းယဉ်နယ်၏ မြေမျက်နှာပြင်မှာ များသောအားဖြင့် သစ်ပင်ကင်းမဲ့သော ကုန်းမြင့်ပြန့်များသာ ဖြစ်သည်။ နယ်၏ အရှေ့ဖက်တွင် တောင်တန်းမြင့် တခု ဖီလာသန်းလျက်ရှိကာ အမြင့်ဆုံး တောင်ထွတ်ဖြစ်သော လွယ်မော်သည် ၈,၀၉၉ ပေမျှ မြင့်သည်။ ဘန်းယဉ်နယ် အတွင်း တံဖတ် (တံပက်)၊ နမ့်လွှာ်၊ နမ့်တံနှင့် နမ့်ဝန်ချောင်းများ စီးဆင်းသည်။ စင်စစ်သော်ကား ဘန်းယဉ်နယ်သည် တံဖတ်ချောင်း ချိုင့်ဝှမ်းအတွင်း၌ တည်ရှိသည် ဟု ဆိုနိုင်လေသည်။

ဘန်းယဉ်နယ်တွင် အဓိက စိုက်ပျိုးသော ကောက်သီးကောက်နှံမှာ စပါးဖြစ်သည်။ ဆည်မြောင်းအားဖြင့် ရေသွယ်ယူ စိုက်ပျိုးခြင်းဖြင့်လည်း တော်တော် များများပင် ထွက်သည်။ ကုန်းမြင့်တွင် တည်ရှိသော နေဆန်တိုက်နယ်တွင် တောင်စောင်းများကို လှေကားထစ်သဖွယ် ပြုလုပ်စိုက်ပျိုးသည်။ လွယ်ဟွမ်တွင် သနပ်ဖက် အများအပြားစိုက်ပျိုးသည်။ ရှေးအခါက မဲနည် စိုက်ပျိုးခဲ့သော်လည်း ထိုလုပ်ငန်းကို ယခုအခါ မလုပ်ကိုင် တော့ပြီ။ ဆန်စပါးအပြင် မည်သည့်ပစ္စည်းမျှ တင်ပို့ရောင်းချခြင်း မရှိချေ။ ဘန်းယဉ်နယ်တွင် သစ်တောဟူ၍ မရှိပေ။

ဘန်းယဉ်နယ်တွင် နေထိုင်သူအများစုမှာ တောင်သူများဖြစ်၏။ ရှမ်းလူမျိုးများနှင့် အင်းသားတို့လည်း နေထိုင်ကြသည်။ တောင်သူတို့သည် မြေနိမ့်ပိုင်းတွင် မနေကြပေ။ ရှမ်းများသည် အနောက်ဖက်နှင့် မြောက်ဖက် မြေပြန့် အရပ်များတွင် နေထိုင်ကြသည်။ အင်းသားများသည် ပြည်နယ်အဘွင်း ချောင်းရိုးများ တလျှောက်တွင် နေထိုင်ကြလေသည်။

**ဘိဂ်ပင်။**　။ဘိဂ်ပင်သည် ရူဗီအေစီအီး မျိုးရင်းတွင် ပါဝင်၍ ယင်းကို ရုက္ခဗေဒ အလိုအားဖြင့် စတက်ဖီဂျင်နီဒိုင်ဗာစီဖိုလီယာ ဟု ခေါ်သည်။ မြန်မာနိုင်ငံ တလျှောက်



အိမ်သုံးမီးသွေးအဖြစ် အသုံးဝင်သည့် ဘိဂ်ပင်၏ အပွင့်နှင့် အရွက်များ

တွင် မြောက်ဖက် အထက်ချင်းတွင်းအရပ်မှ တောင်ဖက် ထားဝယ်နယ်အထိ မြေညီသစ်တောများ၌ ဘိဂ်ပင်များကို တွေ့နိုင်သည်။ ဘိဂ်ပင်နှင့် နှောဘိဂ်ပင်၊ နှောသိမ်ပင်တို့မှာ အပင်တူများ ဖြစ်ကြသည်။ ဘိဂ်ပင်တို့သည် တောသစ်ပင် အလတ်စားများ ဖြစ်ကြ၍ အမြင့်ပေ ၅၀ အထိ ရှိကြသည်။ ပင်စည်လုံးပတ်မှာ ၆ ပေအထိ ရှိသည်။

ဘိဂ်သားသည် ဝါကြန်ကြန် အရောင်ရှိ၍ အတော် အသင့်မာသည်။ အသားပြင်မှာ ညက်ညော၍ ပြုပြင်ရန် လွယ်ကူသည့်ပြင် အသား သေလွယ်သည်။ နိုင်ငံခြားမှ လာသော ဗတ် (ချ) ခေါ် ဘုဇပတ် သစ်သားအစား အသားသေပြီးသော ဘိဂ်သားကို ခေတ်ပုံဘလောက်များ ပြုလုပ်ရာ၌ အသုံးပြုကြသည်။

တံစည်း၊ စို၊ ဆောက် စသော လက်နက်ကရိယာများ၏ လက်ကိုင်ရိုးများ၊ သစ်သား ပွတ်တိုင်စင်များ၊ စားပွဲ၊ သေတ္တာမှ စ၍ အိမ်အသုံးအဆောင်များကို ဘိဂ်သားဖြင့် ပြုလုပ်ကြသည်။ ဘိဂ်သား မီးသွေးမှာ အိမ်သုံးအတွက် အကောင်းဆုံး မီးသွေးဖြစ်သည်။

သာယာဝတီနယ်နှင့် ပဲခူးနယ်တွင်းရှိ မြေညီ သစ်တောများ၌ ပေါက်ရောက်သော သစ်ဖယောင်းပင်မှ သစ်သားသည်လည်း ပြုပြင်ရ လွယ်ကူသလို ရှိ၍ အတော် အတန် ခိုင်ခံ့သဖြင့် ဘိဂ်သားကို အသုံးချသည့် နေရာများတွင် ထိုသစ်သားကို အသုံးပြုနိုင်ဖွယ်ရာ ရှိပေသည်။

ဘိဂ်ပင်ကို ကရင် အမျိုးသားတို့က လဘော ဟူ၍၎င်း၊ ရှမ်းအမျိုးသားတို့က မဲ့နော ဟူ၍၎င်း အသီးအသီး ခေါ်ကြသည်။

**ဘိန်း။** ။ဘိန်းသည် ဘိန်းသီးမှ ရရှိသော အဆီဖြစ်သည်။ ဘိန်းပင်မှ ဖေဖွာရီလကုန်လောက်တွင် ပန်းများပွင့်၍ မိုးမကျမီ အသီးများ ကောင်းစွာ ကြီးရင့်ကြသည်။ ဘိန်းပင်သည် ပန်းပင်အရွယ် အပင်ငယ်ကလေးများ ဖြစ်သည်။ ပန်းပွင့်များမှာ ဆွတ်ဆွတ်ဖြူ၍ အသီးများမှာ အစိမ်းရောင်ဖြစ်သည်။ ဘိန်းပင်သည် စွတ်စိုသောရာသီဥတုကို ခံနိုင်ရည် မရှိသည့်အတွက် ဘိန်းသီးများမှ ဘိန်းဆီကို မိုးမကျမီ ထုတ်ယူကြရသည်။ ( ဘိန်းပင် — ရှု။ )

ဘိန်းဆီ ထုတ်ယူပုံမှာ ဘိန်းသီးများ၏ အခွံပေါ်၌ခြစ်ကြောင်းကလေးများ ပြုလုပ်ပေးရ၍၊ ထိုခြစ်ကြောင်းများမှ ထွက်လာသော ပန်းရောင်ဖြစ်သည့် စေးကပ်ကပ် အဆီကို သိမ်းဆည်းယူရသည်။ ဘိန်းခင်း အလုပ်သမားတို့သည် ၂ ရက်ခြား ၃ ရက်ခြားတခါ ပင်တိုင်းစေ့ လိုက်ပြီးလျှင် ဘိန်းသီးများကို ခြစ်ပေးရ၍၊ ၂ ကြိမ်မှ ၆ ကြိမ်အထိ ထိုကဲ့သို့ ခြားပြီး ခြစ်ပေးရသည်။

ဘိန်းသီးများမှ ရသော ဘိန်းဆီကို ခွက်ပြားကြီးများ



ဘိန်းပန်းပွင့်အလယ်၌ ထင်ရှားစွာ တွေ့မြင်ရသော အစေ့အိမ်သည် ဘိန်းဆီ ထုတ်ယူရရှိမည့် အသီးတောင့် ဖြစ်လာသည်။

တွင် ထည့်၍ ရက်သတ္တ ၄ ပတ်ခန့် နေပူလှန်းပေးသော အခါ ရေခြောက်ခန်းသွားသည့်အတွက် ပျစ်ခဲလာသည်။ ထိုနောက် ပျစ်ခဲနေသော အဆီကို နယ်ပေးရ၍ အလုံးများပြုလုပ်ပြီးလျှင် ဘိန်းလုံးများကို လုံးဝ သွေ့ခြောက်သွားသည် အထိ နေပူတွင် ထပ်တလဲလဲ လှန်လှော်ပြီး လှန်းပေးရပြန်သည်။ သွေ့ခြောက် သွားသောအခါ ဘိန်းလုံးများကို သေတ္တာများတွင်ထည့်၍ ကာလအတော်ကြာအောင် သိမ်းဆည်းထားလိုက်လေသည်။

ဘိန်းသည် ဆေးဝါးဖက်၌ အလွန် အဖိုးတန် အသုံးဝင်သော ပစ္စည်းဖြစ်သော်လည်း၊ ဘိန်းစားသူ ဘိန်းရှူသူများ အတွက် အကြီးအကျယ် တိတ်တိတ်ပုန်း ဘိန်းကုန်ကူးမှုများ ရှိခဲ့လေသည်။ ဘိန်းကုန်ကူးသည့် ကိစ္စကို လက်ဝါးကြီး အုပ်လိုမှုကြောင့် ရှေးက ပြည်ထောင်ချင်းချင်း စစ်မက်များပင် ဖြစ်ပွား ခဲ့ရဘူးလေသည်။ ဘိန်းသည် လူကို အကျင့်စာရိတ္တများ ပျက်ပြားစေခြင်း၊ စိတ်ဓာတ်ညှိုးဖျင်းစေခြင်း၊ ကျန်းမာရေး ချို့တဲ့စေခြင်း စသော ဆိုးကျိုးများကို ပေးတတ်သဖြင့် နိုင်ငံတိုင်းရှိ အစိုးရများက ဘိန်းရောင်းဝယ် သုံးစွဲရေးကို ဥပဒေများဖြင့် ကြပ်မတ်ကာကွယ် ထားကြရသည်။ အထူးသဖြင့် တရုပ်နိုင်ငံတွင် ယခင်က ဘိန်းစားသူ ဘိန်းရှူသူ အလွန်ပေါများသည့်အတွက် ဥပဒေဖြင့် ပြင်းထန်စွာ အရေးယူ ပိတ်ပင်ခဲ့ရပေသည်။ ဤသို့ အစိုးရအသီးအသီးက အရေးယူလျက် ရှိသော်လည်း တိတ်တိတ်ပုန်း ဘိန်းကုန်ကူး သူများနှင့် တိတ်တိတ်ပုန်း ဘိန်းစားသူ ဘိန်းရှူသူများ

ကား ကမ္ဘာအနှံ့တွင် ရှိမြဲ ရှိကြသေး၏။ သို့သော် ဘိန်းဖြတ်ဆေးရုံများတွင် ကုသပျောက်ကင်းသူများလည်း အများပင် ရှိပေသည်။

ဘိန်းသည် အလွဲသုံးစား ပြုသူတို့အား အကျိုးယုတ်စေနိုင်သည် မှန်သော်လည်း၊ ဆေးဖက်တွင်မူ လူတို့၏ ရောဂါဝေဒနာ သက်သာရေးအတွက် အထူးပင် အသုံးဝင်သည်။ ဆေးဖက်တွင် အသုံးပြုပုံမှာ ဘိန်းမှ ဖော်စပ်ရရှိသော အိုပီယိတ်ခေါ် ဆေးတမျိုးကို အိပ်မပျော် နိုင်လောက်အောင် ဝေဒနာ ပြင်းထန်နေသော လူနာတို့၏ ကိုယ်တွင်းသို့ ထိုးသွင်းပေးရသည်။ ထိုအခါ ဘိန်းအရှိန်ကြောင့် ခံစားနေရသည့် ဝေဒနာသက်သာပြီးလျှင် လူနာမှာ ကောင်းစွာ အိပ်ပျော်သွားတော့သည်။

ကမ္ဘာတွင်ဘိန်းကို အကြီးအကျယ် စိုက်ပျိုးသော နိုင်ငံများမှာ အိန္ဒိယ၊ အီရန်၊ တူရကီ၊ မက်ဆီဒိုးနီးယား၊ ဗူလဂေးရီးယား၊ အီဂျစ်၊ အာရှမိုင်းနားနှင့် တရုပ်နိုင်ငံတို့ ဖြစ်ကြသည်။ ဘိန်းခင်းများကို မစိုက်ပျိုးမီ ကောင်းမွန်စွာ ပြုပြင်ပေးရ၍ အိန္ဒိယနိုင်ငံ ဂင်္ဂါမြစ်ရိုး တလျှောက်ဘွင် အလွန် ကျယ်ဝန်းသော မြေပြန့်ပေါ်၌ စိုက်ပျိုးထားသော ဘိန်းခင်းကြီးများကို တွေ့နိုင်ပေသည်။

**ဘိန်းပင်။** ။ဘိန်းပင်သည် ဥယျာဉ်များထဲဘွင် အလှစိုက်ပျိုးသော ပန်းပင်မျိုးဖြစ်၍ အမျိုးပေါင်း ၅၀ ခန့်မျှရှိသည်။ ပန်းပွင့်များမှာ အပင်အမျိုးကို လိုက်၍ အဖြူ၊ အနီ၊ ပန်းရောင်၊ အဝါ၊ လိမ်မော်၊ ကြက်သွေး စသည်ဖြင့် အရောင်အမျိုးမျိုးရှိကြသည်။ ငိုက်နေသော အဖူးများ၊ လှပစွာ အစွမ်းကုန် ပွင့်နေကြသော အပွင့်များနှင့် ပိုးရောင်တောက်နေသည့် ပွင့်ချပ်များကို တွေ့ရသည်မှာ စိတ်ကိုများစွာ ပျော်ရွှင်စေလေသည်။

ဤဥယျာဉ်စိုက် ဘိန်းပင်များကို ဘိန်းပင်အရိုင်း အမျိုးမျိုးတို့မှ ရွေးချယ်ခြင်းဖြင့်၎င်း၊ မျိုးစပ်ယူခြင်းဖြင့်၎င်း ရရှိခဲ့လေသည်။ ထိုဘိန်းပင်အရိုင်းများထဲဘွင် ရုက္ခဗေဒ အမည်အားဖြင့် ပါပေးဗားဆွမ်နီဖာရမ် ဟု ခေါ်သော ဘိန်းထွက်သည့် ရှေးအကျဆုံး ဘိန်းပင်မျိုးသည် အရင်းခံပင်မ ဖြစ်သည်။ ဥရောပတောင်ပိုင်းနှင့် အာရှတိုက် အနောက်ပိုင်းဒေသများသည် ဤဘိန်းထွက်သော ဘိန်းပင်များ မူလပေါက်ရာ အရပ်များဖြစ်သော်လည်း ဘိန်းရရှိရေး အဘွက် အီရန်၊ အိန္ဒိယနှင့် တရုပ်နိုင်ငံများတွင် အကြီးအကျယ် စိုက်ပျိုးကြသည်။ ဘိန်းသီးအခွံပေါ်ရှိ ခြစ်ကြောင်းကလေးများမှ ထွက်သော အစေးသည် တဖြည်းဖြည်း ခြောက်လာ၍ နောက်ဘွင် ဘိန်းအကြမ်းစား ဖြစ်လာလေသည်။ (ဘိန်း — ရှု။) သီးတောင့်ထဲရှိ အစေ့များမှ ရောင်စုံဆေးခြယ်ရာဘွင် သုံးသော ဆီဆေးနှင့် စားသုံးဆီများကို ရနိုင်သည်။

ကြက်သွေးရောင် ပွင့်သော ဘိန်းပင်များသည် ဂရိဘ်ဗြိဘိန်ရှိ ဂျုံခင်းများနှင့် ဥရောပနိုင်ငံများဘွင် အသေ့ကျ



ဤသို့ဖွင့်လှစ်ထားသောဘိန်းခန်းများ ပပျောက်ရန် နိုင်ငံတိုင်း၌ နှိမ်နင်းလျက်ရှိသည်။



ဘိန်းဆီထုတ်ရန်မဟုတ်ဘဲ အလှစိုက်လေ့ရှိသော အနီရောင်ပန်းပွင့်သည့် ဘိန်းပင်

ပေါက်ကြသည်။ သို့သော် တောင်သူလယ်သမားများ အဖို့ ကား ပေါင်းပင်များသာ ဖြစ်၍ အနှောင့်အယှက် ဖြစ်ပေသည်။ ပဌမ ကမ္ဘာစစ်ကြီးအတွင်း ဖလန်းဒါးနယ် စစ်မြေပြင်များတွင် ပေါက်သော ဘိန်းပင်များသည် ဤကြက်သွေးရောင် ဘိန်းပင်များပင် ဖြစ်ကြသဖြင့် 'ပေါ်ပီနေ့' ဟူသော အမည်ပေါ် ပေါက်လာခဲ့ပေသည်။ တခါစိုက်ထားလျှင် ပြန်စိုက်ရန်မလိုဘဲ နှစ်တိုင်း အစေ့များကျ၍ ပြန်ပေါက်ကြသည်။

အဝါရောင်ပွင့်သော ဘိန်းပင်များသည် ဗြိတိန်နိုင်ငံရှိ တောင်တန်းဒေသများတွင် ပေါက်ရောက်၍ အခြားတမျိုးမှာ ပင်လယ်ကမ်းခြေတလျှောက်တွင် ပေါက်ကြသည်။

**ဘုန်းကြီးနှင့်ဘုန်းကြီးကျောင်း။** ။ဗုဒ္ဓ အယူဝါဒအရ ဘုရား၊ တရား၊ သံဃာတည်းဟူသော ရတနာသုံးပါးတွင် တပါးအဝင်အပါ ဖြစ်သည့် ရဟန်းသံဃာတော် များကား၊ လူလောကတွင် အမြင့်မြတ်ဆုံးတပါးဟု အသိအမှတ် ပြုကြသည်။ ရခဲသော ဒုလ္လဘတရားငါးပါးတွင် မနုဿတ္တဘာဝဒုလ္လဘ လူ၏အဖြစ်ကို ရနိုင်ခဲသည်ထက် လူဖြစ်လာသော်လည်း ပဗ္ဗဇိတဘာဝဒုလ္လဘ ဘုရား သာသနာတွင်း၌ ရဟန်းသာမဏေ၏ အဖြစ်ကိုရနိုင်ခြင်းက အဆပေါင်း များစွာ သာလွန်၍ ခဲယဉ်းသည် ဖြစ်သောကြောင့် ပါရမီထူးချွန်၍ ရဟန်းဘဝကို ရရှိကြသူများအား လူသာမန်တို့က အထူးပင် ရိုသေကိုင်းရှိုင်းကြလေသည်။

ရဟန်းဟူသည်မှာ ကိလေသာ ကာမဂုဏ်ဟူသမျှကို စွန့်ပယ်၍ သူတပါး ပေးလှူအပ်သော သင်္ကန်းပစ္စည်း၊ ဆွမ်းပစ္စည်း၊ ဆေးပစ္စည်းနှင့် ကျောင်းပစ္စည်း တည်းဟူသော ပစ္စည်းလေးပါးတို့နှင့်သာ ရောင့်ရဲတင်းတိမ်ပြီးလျှင်၊ မြတ်စွာဘုရားသခင် ချမှတ်တော်မူခဲ့သည့် ဝိနည်း သိက္ခာပုဒ်များကို တရိုတသေ စောင့်ထိန်းကာ တရားအားထုတ်လျက် လောကုတ္တရာအကျိုးစီးပွားကို ရှာကြံသော သူတော် သူမြတ်ဖြစ်လေသည်။ ဇာတ်အားဖြင့် သံဃာတော် နှစ်မျိုးရှိ၏။ (၁) အရိယာ သံဃာ (ဝါ) ပရမတ္ထသံဃာတော် ခေါ် အာသဝေါကင်းသည့် အရိယာဇာတ်ဝင် သူတော်စင်များ၊ (၂) ထို အရိယာသံဃာ အနွယ်တော်မှ ဆင်းသက် ပေါက်ဖွားလာသည့် သံဃာတော်ဟု အသိအမှတ် ပြုခံရသော ပုထုဇဉ် သံဃာတော်များ ဖြစ်လေသည်။

သံဃာ့ဘောင်တွင် သာမဏေနှင့် ရဟန်းဟူ၍ နှစ်မျိုးနှစ်စားရှိ၏။ သာမဏေမှာ သံဃာဂိုဏ်းဝင်တဦးပင် ဖြစ်သော်လည်း ရဟန်းနှင့်စာသော် အဆင့်အတန်းနိမ့်၏။ သို့ရာတွင် ရှင်သာမဏေများသည် ဆယ်ပါးသီလနှင့် လိင်ဆယ်ပါး၊ ဒဏ်ဆယ်ပါးအပါအဝင် ဖြစ်သည့် ၇၅ ပါးသော သာမဏေသိက္ခာပုဒ်တို့ကို ရိုသေစွာ လိုက်နာစောင့်ထိန်းကြရလေသည်။

ဗုဒ္ဓဝါဒီ ယောကျ်ားမှန်လျှင် ရှင်သာမဏေ အဖြစ်ဖြင့် သာသနာ့ဘောင်သို့ ဝင်ရသော အစဉ်အလာ ရှိ၏။ ယင်းသို့ဝင်ခြင်းကို ရှင်ပြုသည်ဟု ခေါ် သည်။ ရှင်ပြုသည့် အရွယ်မှာ အများအားဖြင့် လူပျိုဖော် မဝင်တဝင်နှင့် ဝင်စ အရွယ်ဖြစ်သော်လည်း သရဏဂုံကို ဌာန်ကရိုဏ်း ကျန ပီသစွာ ရွတ်ဆိုနိုင်သော အရွယ်မှစ၍ အထက်သို့ အသက် အပိုင်းအခြားမရှိ ရှင်ပြုနိုင်လေသည်။ ရှင်ပြုရာတွင် ငွေကြေးတတ်နိုင်သူများသည် ငွေအမြောက်အမြား အကုန်အကျခံသျက် ကြီးကျယ်သော မင်္ဂလာ အခမ်းအနားကို ပြုလုပ်ကြ၏။ သို့ရာတွင် မည်သည့်ဆင်းရဲနွမ်းပါးသူမဆို ပရိက္ခရာရှစ်ပါး ပြည့်စုံခဲ့လျှင် ဘုန်းတော်ကြီး တပါးပါးထံ၌ အကျဉ်းရုံး၍ ရှင်ပြုနိုင်လေသည်။ ရှင်သာမဏေဘဝတွင် အနည်းဆုံး ၇ ရက်လည်သည်တိုင်အောင် နေလေ့ ရှိကြသော်လည်း နေရမည့်ရက်ကို ပုံသေကားကျ ပိုင်းဖြတ်သတ်မှတ်ထားခြင်းကား မရှိချေ။ ရှင်ကျင့်ဝတ်သိက္ခာကို လုံခြုံအောင် စောင့်ထိန်း၍ နေနိုင်သမျှ နေခွင့်ရှိကြသည်။ ရှင်သာမဏေဘဝမှ လူမထွက်ဘဲ ပဉ္စင်းအဖြစ်သို့ ဆက်လက်ကူးပြောင်းပြီးလျှင် ရဟန်းဝတ်ဖြင့် အရိုးထုတ်သွားသူများလည်းရှိသည်။ အိမ်ထောင် မပြုသေးမီ ရှင်သမဏေအဖြစ် ခံယူ၍ ထိုဘဝမှ ရဟန်းဘဝသို့ ကူးပြောင်းကာ တသက်ပတ်လုံး ရဟန်း

အဖြစ် နေထိုင်သွားသူကို ယယ်ဖြူဟု ခေါ်၏။ အိမ်ထောင် ပြုပြီးမှ ရဟန်းဝတ်သူကိုကား တောထွက်ဟုခေါ်လေသည်။ ၇ ရက်၊ တလ စသော အချိန်ကာလ အပိုင်းအခြားအားဖြင့် ခေတ္တရဟန်းဝတ်ခြင်းကို ဒုလ္လဘရဟန်းခံသည်ဟု ခေါ်သည်။

ရှင်ပြုသကဲ့သို့ပင် ရဟန်းခံရာ၊ သို့မဟုတ် ပဉ္စင်းခံရာ၌လည်း အချို့ကြီးကျယ်စွာ အခမ်းအနားဖြင့် ပြုလုပ်ကြ၍ အချို့မှာ သင့်လျော်သလိုပင် သိမ်ဝင်ကာ ရဟန်း အဖြစ်ကို ခံယူကြလေသည်။ ရဟန်းဖြစ်နိုင်ရန်အတွက် လိုအပ်သော အရည်အချင်းများမှာ ရဟန်းလောင်းသည် မိဖနှစ်ပါး၏ တရားဝင်သော သားဖြစ်ခြင်း၊ ကြွေးမြီကင်းရှင်းခြင်း၊ မင်းပြစ် မင်းဒဏ်လွတ်ကင်းခြင်း၊ မိဖများ၏ သဘောတူ ခွင့်ပြုချက်ရခြင်း၊ အနည်းဆုံး အသက်တဆဲ့ကိုးနှစ်နှင့် နှစ်လ ပြည့်ပြီးဖြစ်ခြင်း၊ အနာရောဂါ ကင်းရှင်း၍ ကိုယ်လက်အင်္ဂါပြည့်စုံခြင်းနှင့် ပရိက္ခရာ ၈ ပါးပြည့်စုံစွာ ရှိခြင်းတို့ ဖြစ်လေသည်။ ပရိက္ခရာ ၈ ပါးကား (၁) ဒုကုဋ်ခေါ် ကိုယ်ရုံ သင်္ကန်းကြီး (၂) ကိုယ်ဝတ်-ဧကသီ (၃) သင်းပိုင် (၄) သပိတ် (၅) ခါးပန်းကြိုး (၆) ပဲခွပ် သို့မဟုတ် သင်ဓုန်းဓား (၇) အပ် (၈) ရေစစ်တို့ဖြစ်ကြ၏။ ထိုပစ္စည်းများမှာ ကိုယ်နှင့် ထက်ကြပ်မကွာ ယူဆောင်သွားရသော ရဟန်း၏ကိုယ်ပိုင် ပစ္စည်းများ ဖြစ်လေသည်။ (ပရိက္ခရာ၊ သင်္ကန်း၊ သပိတ်၊ — တို့ကိုလည်းရှု။)

ရဟန်းများသည် ၂၂၇ ပါးသော သိက္ခာပုဒ်ကို လုံခြုံစွာ စောင့်ထိန်းကြရ၏။ ထိုတွင် ရဟန်းတော်များ အထူးရှောင်ကြဉ်အပ်သော အဓိက အပြစ်ကြီး ၄ ခုရှိ သေးသည်။ ယင်းတို့မှာ အဗြဟ္မစရိယ အမှုဖြစ်သော မေထုန်မှီဝဲခြင်း၊ တမတ်၊ သို့မဟုတ် တမတ်ထက် ပိုလွန်သောသူတပါး၏ ပစ္စည်းဥစ္စာကို ခိုးယူခြင်း၊ လူဇာတ်ဖြစ်သူကို သတ်ဖြတ်ခြင်းနှင့် ဈာန်မရဘဲ ဈာန်ရ၏ဟု ပြောဆိုဝန်ခံခြင်းတို့ပင်ဖြစ်၏။ သံဃာဂိုဏ်းဝင် ရဟန်းတော်တပါးသည် အခြားသော အပြစ်များကို ကျူးလွန်ခဲ့သော် အာပတ်ဖြေခြင်း၊ ဝတ်စောင့်ခြင်း၊ ကံဆောင်ခြင်းစသည်တို့ဖြင့် ဒဏ်ခံ၍ သဒ္ဓိဖြစ်စေနိုင်သေး၏။ ဆိုခဲ့ပြီးသော အဓိက အပြစ်ကြီး ၄ ခုကို ကျူးလွန်ခဲ့သော်ကား ရဟန်းအဖြစ်တွင် တခဏမျှပင် မနေနိုင်တော့ပြီ။ ပါရာဇိက ကျရချေတော့၏။ အကြင်ရဟန်းတပါးသည် အဆိုပါ အပြစ်ကြီး လေးခုတွင် အပြစ်တခုကိုသော်၎င်း၊ အပြစ်အားလုံးကိုသော်၎င်း ကျူးလွန်ခဲ့ပြီးသော်လည်း ထိုအကြောင်းကို သူတပါးအား ဖွင့်ဟ၍လည်း မပြော၊ ရဟန်းအဖြစ်မှလည်း မထွက်ဘဲ နေလျှင်၊ ထိုရဟန်းသည် သင်္ကန်းကို ဝတ်ရုံထားသော်လည်း ရဟန်းကား မဟုတ်တော့ပြီ။ သီလစင်ကြယ်သော အခြားရဟန်းများနှင့် အတူတကွ ရောနှော နေထိုင်စားသောက်နိုင်ခွင့်လည်း မရှိတော့ပြီ။ ထိုရဟန်းနှင့် အတူနေထိုင်မိသော အခြား ရဟန်းတို့လည်း အပြစ်ရကြရလေတော့၏။ ထိုသို့ နေသူကား မိမိနှင့်တကွ သူတထူးအား လိမ်လည် လှည့်ဖြား အပြစ်ပြုနေသူသာ ဖြစ်၍ သံသရာ ဝန်လေးလှပေသည်။

လူတို့တွင် အသက်အရွယ်နှင့် ဂုဏ်အဆင့်အတန်း အကြီးအငယ်ကိုလိုက်၍ ရိုသေကိုင်းရှိုင်းကြရသကဲ့သို့ ရဟန်း သံဃာအချင်းချင်းလည်း ဝါကြီးဝါငယ်အလိုက် ရိုသေသမှု ပြုကြရ၏။ ရှေးမြန်မာဘုရင်များလက်ထက်က သာသနာ့ဝန်ထမ်း ရဟန်းတော်များကို အဆင့်အတန်း အမျိုးမျိုး ခွဲခြားထား၏။ယင်းတို့မှာ ၁၊ ရှင်သာမဏေ။ ၂၊ ပဉ္စင်း။ ၃၊ ခန်းနေဘုန်းကြီး။ ၄၊ ကျောင်းထိုင်ဘုန်းကြီး။ ၅၊ ဂိုဏ်းထောက်။ ၆၊ ဂိုဏ်းအုပ်။ ၇၊ ဂိုဏ်းချုပ်။ ၈၊ သာသနာပိုင် ဟူ၍ ဖြစ်၏။ ဤသို့ အဆင့်အတန်း အမျိုးမျိုး ခွဲခြားထားသော်လည်း သံဃာတော်များ စောင့်ထိန်းအပ်သော ဝိနည်းသိက္ခာပုဒ်များကို ရှင်သာမဏေများမှတပါး အားလုံး အတူတူပင် စောင့်ထိန်းကြရလေသည်။ ပိဋကတ်သုံးပုံကို အာဂုံဆောင်နိုင်သော ဆရာတော်ကြီးများပင်၊ သာမဏေ၊ ပဉ္စင်းငယ်များ နည်းတူ အရပ်တကာလှည့်၍ ဆွမ်းခံရ၏။ သို့ရာတွင် အသက် အရွယ်ကြီးရင့်၍ ဖျတ်လတ်ပေါ့ပါးစွာ မသွားလာနိုင်သည့် အခါတွင်ကား မိမိ၏ကျောင်းသင်္ခမ်းအတွင်း၌ပင် တပည့်သာမဏေရဟန်းများ၏ အလုပ်အကျွေးကို ခံယူလျက် သီတင်းသုံးနေထိုင်လေ့ ရှိကြလေသည်။

ဘုန်းကြီးကျောင်းတိုက်များတွင်အကြီးအကဲမှာ ကျောင်းထိုင်ဆရာတော်ဖြစ်သည်။ တပည့်ဘပန်းများအား စာပေပို့ချခြင်းနှင့် ကျောင်းတိုက်အတွင်းရှိ သံဃာများ၏ စည်းကမ်းသေဝပ်မှုအတွက် တလလျှင် ၄ ကြိမ်မျှ ဆုံးမဩဝါဒပေးခြင်းတို့မှာ ကျောင်းထိုင်ဆရာတော် ၏ ဝတ်တရားများ ဖြစ်သည်။ ဒုတိယအကြီးဆုံးမှာ တိုက်အုပ်ဆရာတော်ဖြစ်၏။ တိုက်အုပ်ဆရာတော်သည် ကျောင်းတိုက်ရှိသံဃာများ စည်းကမ်းသေဝပ်မှု အတွက် ကျောင်းထိုင် ဆရာတော်ထံ တာဝန်ခံရသည့်ပြင် ကျောင်းတိုက်တခုလုံး၏ သန့်ရှင်းရေးကိုလည်း ကြည့်ရှု ထိန်းသိမ်းရလေသည်။ တိုက်အုပ် ဆရာတော်အား အလုပ်ဝတ်ဘရားများတွင် ကူညီရန် တိုက်ကြပ် ဆရာတော်တပါးလည်း ထားရှိကြသေး၏။ ထို့ပြင် ဆွမ်းစားကျောင်းဘုန်းကြီးဟူ၍ သီးသန့်ထားရှိကြသည်။ထိုဆွမ်းစားကျောင်းဘုန်းကြီးသည် ကျောင်းတိုက်ရှိ သံဃာတော်တို့ အတွက် ဆွမ်းကိစ္စကို စီမံဆောင်ရွက်ရသည့်ပြင် ကျောင်းတိုက်ဆိုင်ရာ ပစ္စည်း ဘဏ္ဍာများကိုလည်း ထိန်းသိမ်းစောင့် ရှောက်ရလေသည်။ ကျန်သံဃာတော်တို့ကား နံနက်ပိုင်းတွင် ဆွမ်းခံရခြင်း၊ ထိုနောက် နေ့ဝါ ညဝါလိုက်ခြင်း၊ စာအံလေ့ကျက် ဘုရားဝတ်တက်ခြင်း၊ သာရေး နာရေး သာသနာ ရေးကိစ္စ စသည့် အမှုဘို့ကို ကျေပွန်စွာ ဆောင်ရွက်ကြရခြင်းတို့ ဖြစ်လေသည်။



မြန်မာနိုင်ငံတွင် နောက်ဆုံး စိုးစံတော်မူသော သီပေါမင်းနှင့် မိဖုရားခေါင်ကြီး စုဖုရားလတ်တို့ ပါဒတော်မမူမီ နောက်ဆုံး ရေစက်သွန်းချ လှူဒါန်းခဲ့သော မန္တလေး အနောက်ပြင် မြတောင်ကျောင်းတိုက်ကြီးပုံဖြစ်သည်။ ဤမြတောင်ကျောင်းတိုက်ကြီးကဲ့သို့ ကြီးကျယ်ခမ်းနားသော ကျောင်းတိုက်ကြီးများနှင့် ပရိယတ္တိသာသနာကို အားသွန်ခွန်စိုက် ကြိုးပမ်းနေကြသော ကျောင်းတိုက်ကြီးများမှာ မစိုးရိမ်ကျောင်းတိုက်၊ မိုးကောင်းကျောင်းတိုက်၊ ဘုရားကြီးကျောင်းတိုက်၊ ညောင်ရမ်းကျောင်းတိုက်၊ မဟာဝေယံဘုံသာကျောင်းတိုက်၊ အရှေ့ဝိသုဒ္ဓာရုံ၊ အနောက်ဝိသုဒ္ဓာရုံကျောင်းတိုက်၊ ရွှေကျင်ကျောင်းတိုက် စသည်တို့ ဖြစ်ကြသည်။ ထိုထိုသော ကျောင်းတိုက်များတွင် သံဃာသုံးရာမှ ငါးရာ၊ တထောင်ထိ ရှိ၍ သာသနာအကျိုးကို ကြိုးပမ်းအားထုတ်လျက် ရှိကြသည်။

အနောက် နိုင်ငံများတွင် ဘုန်းကြီးကျောင်းဖွင့်၍ ဘုန်းကြီးလုပ်သော စံနစ်ကို ခရစ်တော် မပေါ်မီကပင် ယဟူဒီလူမျိုးများ လိုက်နာကျင့်သုံးခဲ့ ကြလေသည်။ ထိုစံနစ်ပေါ်ပေါက် ထွန်းကားရာ ဒေသတို့ကား ဂျူဒီယားနှင့် အလက်ဇန္ဒြီးယားတို့ ဖြစ်ကြ၏။

ခရစ်တော်ပေါ်ပြီးနောက် ခရစ်ယန်အယူဝါဒ ပြန့်ပွားခါစအချိန်တွင် အရှည်ဝါသီ တောမှီကာ တရားဆောက်တည်သည့် ဓလေ့သည် ပေါ်ပေါက် ခေတ်စားလာခဲ့၏။ တောမှီပုဂ္ဂိုလ်တို့၏ ကျင့်စဉ်မှာ အိမ်ထောင် မပြုခြင်း၊ အသားမစားခြင်း၊ မူးယစ်စေသော သေရည် သေရက်တို့ကို ရှောင်ကြဉ်ခြင်း၊ ဘုရားဝတ်တက်ခြင်း၊ တရားတော်များကို ဆည်းပူးအားထုတ်ခြင်း၊ ပေးကမ်း စွန့်ကြဲခြင်း စသည်တို့ပင် ဖြစ်ကြလေသည်။

အီဂျစ်နိုင်ငံတွင်အေ ဒီ ၃ ရာစု နှစ်အလယ်လောက်၌ထိုသို့သော သူတော်စင်တို့သည် မြို့ရွာများနှင့် မလှမ်းမကမ်း နေရာတို့တွင် ကျောင်းသင်္ခမ်းများ ဆောက်လုပ်လျက် တောရဆောက်တည် နေခဲ့ကြ၏။ ထိုပုဂ္ဂိုလ်တို့သည် စိန်အန်ထော်နီ၏ ဩဝါဒ စည်းမျဉ်းများကို လိုက်နာ လေးစားခဲ့ကြသည်။ ခြိုးခြံစွာ နေထိုင်ကျင့်ကြံခြင်း၊ သမ္မာကျမ်းစာကို ဖတ်ရှုခြင်း၊ ဘုရားဝတ် ပြုခြင်းတို့မှာ အဓိက လိုက်နာ ကြရသော စည်းမျဉ်းများ ဖြစ်၏။ စိန်အန်ထော်နီ ကြီးမှူးသော တောရဆောက်တည်ရေးဂိုဏ်းသည် ပဌမဦးဆုံးသော ခရစ်ယန်ဘုန်းကြီး အဖွဲ့အစည်းပင် ဖြစ်သည်ဟု ဆိုနိုင်ပေသည်။ ထိုဂိုဏ်းသည် အီဂျစ် နိုင်ငံတွင် ၅ ရာစုနှစ် အလယ်လောက်အထိ ထွန်းကားခဲ့၏။

အနောက်နိုင်ငံ ဘုန်းကြီးကျောင်း တည်ထောင်ရေး သမိုင်းတွင် အထင်အရှားဆုံးသော ပုဂ္ဂိုလ်မှာ နာရှားနယ်မှ စိန်ဗင်နီဒစ်ဖြစ်၏။ သူ၏ မွေးဖွားခုနှစ်မှာ ခရစ်နှစ် ၄၈၀ ပြည့်ပတ်ဝန်းကျင်တွင် ဖြစ်သည်ဟုဆိုသည်။ စိန်ဗင်နီဒစ်၏ အယူအဆကား အယူဝါဒရေး လုပ်ငန်းတွင် လူမှုရေးရာ လုပ်ငန်းများလည်း အကျုံးဝင်နေသည့်အတွက် ဘုန်းကြီးများသည် ဘုရားဝတ်ပြုခြင်း၊ တရားအားထုတ်ခြင်းစသော အလုပ်တို့ကို နေ့စဉ် လူမှုရေးရာ တာဝန်ဝတ်တရားတို့နှင့် အလှည့်ကျ ထားကာ လုပ်ကိုင်သွားကြရမည်ဟူ၍ ဖြစ်လေသည်။ စိန်ဗင်နီဒစ်၏ ဩဝါဒမှာ လိုက်နာလေးစားသူ များသည့်အလျောက် အနောက် ဥရောပ နိုင်ငံများတွင် ပြိုင်ဖက်ကင်းစွာ ထွန်းကား ခဲ့လေသည်။ ဗင်နီဒစ်ဩဝါဒခံ ဘုန်းကြီးများသည် မည်းနက်သော ဝတ်ရုံကို ဝတ်ဆင်ကြသည့် အတွက် "ဘုန်းကြီးမည်းဂိုဏ်း" ဟူသော အမည်ဖြင့် ထင်ရှားခဲ့ကြ၏။

ခရစ်ယန် ဘုန်းကြီးကျောင်းများသည် ပင်ကိုယ် ဖူလုံမှုရှိသော အဖွဲ့အစည်းများ ဖြစ်ကြ၏။ ကျောင်းတိုက်တွင်း၌ ဘုန်းကြီးအပေါင်းကို ကျောင်းထိုင်ဘုန်းတော်ကြီးက အုပ်ချုပ်၍ ထိုဘုန်းတော်ကြီး၏ အစီအမံတို့ကို တိုက်အုပ် ဘုန်းကြီးနှင့် တိုက်ကြပ် ဘုန်းကြီးတို့က ကူညီဆောင်ရွက်ကြရ၏။ ကျောင်းတိုက်၏အလယ်တွင် ဘုရားဝတ်ကျောင်းကိုဆောက်လေ့ရှိကြ၍ ဝတ်ကျောင်းတွင် အောက်ပါ အချက်တို့ဖြင့် ပြည့်စုံအောင် စီမံ ထားကြရလေသည်။ ယင်းတို့မှာ (၁) ဘုန်းကြီးများ ဓမ္မသီချင်းသီဆို၍ ဘုရားကြည်ညိုရာ နေရာ၊ (၂) ဘုရားအား ဆွမ်းကပ်ပူဇော်ရာ ပလ္လင်အချို့နှင့် (၃) တနင်္ဂနွေ နေ့များတွင် စကြံလျှောက်ရန် နေရာများဖြစ်ကြ၏။

စိန်အန်ထော်နီ ဂိုဏ်းဝင် သူတော်စင်တို့သည် သီးခြားကျောင်းသင်္ခမ်း တဲငယ်တို့၌သာ နေထိုင်ကြသည်။ ကျောင်းသင်္ခမ်းတို့၌တစုတဝေးတည်း နေထိုင်သည့်ဘုန်းကြီးကျောင်းစံနစ်ကိုမူ အေဒီ ၃၄၀ ပြည့်နှစ်တွင် စိန်ပါခိုမိယက စတင်စီမံခဲ့လေသည်။ စိန်ပါခိုမိယသည် ၃၄၆ ခုနှစ်တွင် ပျံလွန်၏။ မပျံလွန်မီအတွင်း ထိုအရှင်သည် ဘုန်းကြီးကျောင်း ၉ ကျောင်းနှင့် သီလရှင် ကျောင်းတကျောင်းကို ဆောက်နိုင်ခဲ့ လေသည်။ စိန်ပါခိုမိယ ဂိုဏ်းဝင်များ လိုက်နာကြရသည့် စည်းမျဉ်းတို့မှာ စုဝေး၍ ဘုရားဝတ်တက်ခြင်း၊ စုဝေး၍ အစာစားခြင်း၊ကျောင်းပရဝုဏ်တွင် အလုပ်ကြမ်းလုပ်ရခြင်းတို့ဖြစ်၏။

၄ ရာစုနှစ်တွင် အီဂျစ်နိုင်ငံမှ ဘုန်းကြီးကျောင်း စံနစ်သည် အာရှမိုင်းနားနှင့် ဆီးရီးယားတို့သို့ ပြန့်ပွားသွားလေသည်။ ထိုမှ တဆင့် ပါးရှား၊ ဗက်ဗီလုံးနှင့် အာရေဗျနိုင်ငံတို့သို့ ကူးစက် ရောက်ရှိ သွားလေသည်။ ထင်ရှားသော ဂိုဏ်းခေါင်းဆောင်မှာ စိန်ဗားဆီးဖြစ်၏။ ခရစ်နှစ် ၃၆၀ ပြည့်ခန့်တွင် ပွန်တပ်ပြည်ရှိ နီယိုကေဆရီယားမြို့ အနီးတွင် စိန်ဗားဆီးသည် ဘုန်းကြီးကျောင်းကြီး တဆောင် ဆောက်လုပ်ခဲ့၏။ ထိုဂိုဏ်းက အဓိကထားသော စည်းမျဉ်းမှာ ဘုန်းကြီးများသည် ကိုယ့်အကျိုး စီးပွားထက် လူသတ္တဝါအများ၏ အကျိုးစီးပွားကို ဆောင်ကြရမည်ဟူ၍ ဖြစ်၏။ သို့အားလျော်စွာ စိန်ဗားဆီးဂိုဏ်း ဘုန်းကြီးကျောင်းများ အနီးတွင် ဘုန်းကြီးများကိုယ်တိုင် ကြီးကြပ်လုပ်ကိုင်သော ဆေးရုံများ၊ တည်းခိုရန် စရပ်များ၊ မိဘမဲ့ ကျောင်းများကို တွေ့ရှိနိုင်ပေသည်။

အနောက် ဥရောပ နိုင်ငံများသို့ ဘုန်းကြီးကျောင်း စံနစ်သွတ်သွင်းပေးသူမှာ စိန်အသနေးယုပ် ဖြစ်၏။ ခရစ်နှစ် ၃၄၀ ပြည့်ဘွင် စိန်အသနေးယုပ်သည် အခြား ဘုန်းကြီးနှစ်ပါးနှင့်အတူ ဣတလီနိုင်ငံ ရောမမြို့တော်သို့ ရောက်လာပြီးလျှင် ဘုန်းကြီးကျောင်း စံနစ်ကို စတင်ဖွင့်လှစ် လိုက်လေသည်။ ထိုမှတဆင့် အခြားအနောက် နိုင်ငံများသို့ ပြန့်ပွားသွားခဲ့လေသည်။

ထိုနောက် အရေးကြီးသော အဆောက်အအုံမှာ တောရကျောင်း ဖြစ်သည်။ ထိုကျောင်းတွင် ဘုန်းကြီးအိုကြီး ချားသည် ကျမ်းပြုခြင်းဖြင့်၎င်း၊ ဘုန်းကြီး ပျိုများသည် စာသင်

ခြင်းဖြင့်၎င်း အချိန်ကို ကုန်လွန်စေကြရ၏။ ဘုရားဝတ်ကျောင်းနှင့်မလှမ်းမကမ်း နေရာတွင် ဘုန်းကြီးများ ဆွမ်းစားခန်း ထားရှိလေသည်။ ဆွမ်းစားခန်း၏ကြမ်းပြင်မှာ ကောက်ရိုးခင်း၊ သို့မဟုတ် ကျူရိုးခင်းဖြစ်လျက် တနှစ်လျှင် သုံးလေးကြိမ်မျှ လဲလှယ်ပေးကြရသည်။ ဆွမ်းစားခန်းနှင့်ကပ်၍ ဆွမ်းချက်ရုံကို ထားရှိလေသည်။ ဘုန်းကြီးများ အိပ်ခန်းဆောင်မှာမူ တောရကျောင်းအနီးတွင်ထားရှိ၏။ရှေးအခါက ထိုအိပ်ခန်းဆောင်ကို ခန်းဆီးများ မကန့်ဘဲ အခန်းကျယ်ကြီး အဖြစ်ထားရှိခဲ့၍ နောက်မှ ဘုန်းကြီးတပါးစာ အိပ်ခန်းငယ်များကို ပြုလုပ်ခဲ့ကြသည်။

ဘုန်းကြီးကျောင်းတိုက်များတွင် မပါလျှင် မပြီးသော အခြား အဆောက်အအုံ များလည်း ရှိသေးသည်။ တခုမှာ ဘုန်းကြီး အိပ်ခန်းဆောင်အနီး၌ ကပ်၍ ဆောက်လုပ်ထားလေ့ရှိသော "သူနာရုံ" ဖြစ်၏။ နာဖျားမကျန်းရှိသူများနှင့် အိုမင်းမစွမ်း ရှိသူများသည် ထိုသူနာရုံသို့ လာရောက်ကာ ဆေးဝါးအကုအသနှင့် ကျွေးမွေးစောင့်ရှောက်ခြင်းကို ခံယူနိုင်ကြသည်။ အခြား အဆောက်အအုံတခုမှာ ခရီးသွား ခရီးလာများ ရပ်နားတည်းခိုရန် သာလာယံစရပ် ဖြစ်သည်။ ထိုအဆောက် အအုံများအပြင် မရှိနွမ်းပါး ဆင်းရဲသားများအား ပေးကမ်းစွန့်ကြဲရာဖြစ်သည့် အလှူတင်းကုပ်နှင့် မရှိဆင်းရဲသော ကလေးများအား စာသင်ကြားပေးသည့် အခလွတ် စာသင်ကျောင်းတို့လည်း ရှိကြသေး၏။ ထိုပြင် ဘုန်းကြီး အသုံးအဆောင်များကို ကျောင်းတိုက်အတွင်း၌ပင် ပြုလုပ်လေ့ ရှိကြသည့် အလျောက် လက်သမားရုံ၊ ပန်းဘဲရုံ၊ စာအုပ်ချုပ်ရုံ၊ စက်ရုံ၊ မှုံဖုတ်ရုံ၊ ဂျုံပြောင်းများကို သိုလှောင်ရာ ကျီစသည်ဖြင့် သက်ဆိုင်ရာ အဆောက်အအုံများကိုလည်း ကျောင်းတိုက် အတွင်း၌ပင် ဆောက်ထားကြလေသည်။

ယခုခေတ်ကဲ့သို့ ခမ်းနားထယ်ဝါသောစာကြည့်တိုက်များ မရှိခဲ့သော်လည်း၊ လက်ရေးမူများကို ဘုရားဝတ်ကျောင်း၊ သို့မဟုတ် တောရကျောင်းတို့တွင် ဘီရိုတွင်း၌ ထည့်ကာ တရိုတသေ သိမ်းဆည်းထားလေ့ရှိကြသည်။ ၁၅ ရာစုနှစ်သို့ ရောက်လာသောအခါ စာကြည့်တိုက် အတန်ပင် ပေါများလာလျက်၊ စာရေးခန်းများနှင့် တွဲထားကြသဖြင့် ကျယ်ဝန်း၍ သပ်ရပ်လာလေသည်။

ခရစ်ယန်ဘုန်းကြီး ကျောင်းများတွင် ဘုန်းကြီးများ နေ့စဉ် ကျင့်ဆောင် လိုက်နာရမည့် တာဝန် ဝတ်တရားတို့ကို စေ့စပ် သေချာသော အစီအစဉ်ဖြင့် ၁၂ ပိုင်း အညီအညာ ပိုင်းခြားကန့်သတ် ထားရှိ၏။ ယင်းတို့အနက် အရေးပါသော ဝတ်တရားများမှာ ဘုန်းကြီးအားလုံးသည် နံနက် ၂ နာရီအချိန်တွင် အိပ်ရာမှထ၍ ဘုရားဝတ်ကျောင်းသို့ သွားပြီးလျှင် ဘုရားဝတ် ပြုကြရ၏။ နေထွက်တပြူ အချိန်မှ နံနက် ၁၀ နာရီအချိန်အထိ တာဝန်ကျသော ကျောင်းတိုက်ဆိုင်ရာ အလုပ်ဝတ်ဘရားများကို လုပ်ကိုင်ကြရ၍ ၁၁ နာရီမှ ၁၁ နာရီခွဲအထိ တရားစာပေဘို့ကို လေ့လာဖတ်ကြားရလေသည်။ ထိုနောက် ဆုတောင်း ပတ္တနာပြု၍ နေ့လယ်စာကို စားသောက် ကြရသည်။ ဘုန်းကြီးများ သုံးဆောင်လေ့ရှိသော ခဲဖွယ်ဘောဇဉ်တို့မှာ ဟင်းသီးဟင်းရွက်၊ ကြက်ဥ၊ ငါး၊ ပေါင်မုံ့နှင့် စပျစ်ရည်များ ဖြစ်ကြသည်။ အမဲသားကိုကား စားခွင့် မရကြချေ။ စားသောက်ပြီးသောအခါ ကျောင်းတိုက် အသုံးအဆောင်များ ပြုလုပ်ရာဌာန အသီးအသီးသို့ သွားရောက်၍ ညနေ ၅ နာရီ အချိန်အထိ အလုပ် လုပ်ကြရပြန်သည်။ ညနေစာကို ၅ နာရီခွဲ အချိန်တွင် စားသောက်ကြ၍ တရားစာများကို ထိုနေ့အဖို့ နောက်ဆုံးအကြိမ် ရွတ်ဖတ်သရဇ္ဈာယ်ကြပြီးသော် ညနေ ၆ နာရီခွဲအချိန်တွင် အိပ်ရာသို့ ဝင်ကြရလေသည်။

အလယ်ခေတ် စောစောပိုင်းတွင် ပြင်သစ်၊ ဣတလီ၊ စပိန်၊ အင်္ဂလန်နှင့် အိုင်ယာလန် နိုင်ငံတို့၌ သီလရှင်ကျောင်းများ ပေါ် ပေါက်ခဲ့၏။ အဖွဲ့အစည်းအနေဖြင့်ကား ဘုန်းကြီးကျောင်းနှင့် အတူတူပင် ဖြစ်၏။ သီလရှင် ကျောင်းတကျောင်းကို သီလရှင် ကျောင်းအုပ်တဦး အုပ်ချုပ်၏။ ဘုရားရှိခိုးခြင်း၊ ကုသိုလ်ရေး လုပ်ငန်းများ လုပ်ခြင်း၊ ဆင်းရဲ နွမ်းပါးသူတို့အား စောင်မကြည့်ရှုခြင်း၊ နာမကျန်းသူများအား ဆေးဝါးကုသပြုစုခြင်း စသည်တို့ကား သီလရှင်တို့၏ အဓိက ဝတ်တရားများ ဖြစ်လေသည်။ ယခု အခါတွင် သီလရှင်ဂိုဏ်း အမျိုးမျိုး ထွန်းကား ပေါ်ပေါက်နေလေသည်။

**ဘုံဘိုင်ပြည်နယ်။** ။ဘုံဘိုင်ပြည်နယ်သည် အိန္ဒိယ ပြည်ထောင်စု နိုင်ငံတွင် ဖွဲ့စည်းပါဝင်သော ပြည်နယ်တခုဖြစ်ခဲ့၍ အိန္ဒိယကျွန်းဆွယ်၏ အနောက်ဖက်ဘွင် တည်ရှိသည်။ နယ်နိမိတ်အားဖြင့် မြောက်ဖက်တွင် ရာဇဋ္ဌာန်၊ အရှေ့ဖက်တွင် မဇ္ဈပဒေသ၊ တောင်ဖက်တွင် မိုင်ဆိုပြည်နယ်နှင့် အန္ဓရပဒေသပြည်နယ်၊ အနောက်ဖက်ဘွင် အာရေဗျ ပင်လယ်နှင့် အနောက်မြောက်ဖက်တွင် အနောက်ပါကစ္စတန်တို့ တည်ရှိသည်။ ဘုံဘိုင် ပြည်နယ်သည် အိန္ဒိယ ပြည်ထောင်စုတွင် အကျယ်ဝန်းဆုံး ပြည်နယ်ဖြစ်၍ ၁၉၀,၀၃၇ စတုရန်း မိုင်ရှိသည်။ လူဦးရေမှာ ၄၇,၂၆၅,၂၂၃ ယောက် ရှိသည်။ ပြည်နယ်၏ မြို့တော်မှာ ဘုံဘိုင်မြို့ဖြစ်ခဲ့သည်။ ပြည်နယ်ဘွင်း အများဆုံးပြောဆိုသော ဘာသာစကားတို့မှာ မရာသီနှင့် ဂူဂျရာတီ စကားတို့ဖြစ်သည်။

ဘုံဘိုင်ပြည်နယ်သည် မြေမျက်နှာပြင်အားဖြင့် အနောက်ဖက်ကမ်းရိုးတလျှောက်တွင် ရှည်လျားစွာတည်ရှိသော မြေပြန့်ကမ်းခြောင်ဒေသဖြစ်သည်။ အရှေ့ဖက်တွင် ပြည်နယ်တလျှောက်လုံး ဆိုသလိုပင် အနောက်ဂါတ်တောင်တန်းများ

သွယ်တန်းလျက် ရှိသည်။ ဘုံဘိုင်ပြည်နယ်တွင်း စီးဆင်းသော မြစ်ချောင်းတို့အနက် ထင်ရှားသောမြစ်များမှာ နာဗဒ္ဒါ(နရဗဒ္ဒါ)နှင့် တပတီ(တာပီ)မြစ်များဖြစ်၍ မြစ် ၂ စင်းလုံးပင် အာရေဗျပင်လယ်တွင်းသို့ စီးဆင်းသည်။ ဘုံဘိုင်ပြည်နယ်တွင် ရာသီဥတု ပူပြင်းသည်။ ဖာရင်ဟိုက် ဒီဂရီ ၈၀ ပျမ်းမျှရှိသည်။

ဘုံဘိုင်ပြည်နယ်မှ ထွက်ကုန်တို့အနက် ဝါဂွမ်းမှာ အဓိကဖြစ်၏။ အိန္ဒိယနိုင်ငံမှ ထွက်သမျှ ဝါဂွမ်း၏ ၄ ပုံ ၁ ပုံမှာ ဘုံဘိုင်ပြည်နယ်မှ ထွက်သည်။ ဝါဂွမ်းအပြင် ဆန်၊ ဂျုံ၊ နှံစားပြောင်း၊ လက်ဖက်၊ သကြား၊ အုန်းပင်ထွက် ပစ္စည်းတို့လည်း ထွက်၏။ ဘုံဘိုင်ပြည်နယ်မှ သံအနည်းငယ် တူးဖော်ရရှိသည်။ ထို့ပြင် ဗောက်ဆိုက်နှင့် ဂျစ်ပဆမ်တို့ကိုင်း၊ ကမ်းရိုးတလျှောက်တွင် ဆားကိုင်း ရရှိသည်။ သို့သော် လူဦးရေ တဝက်ကျော်သည် လယ်ယာ ကိုင်းကျွန်းကိုမှီ၍ အသက်မွေး ကြသည်။

ဘုံဘိုင်ပြည်နယ်သည် လမ်းပန်းဆက်သွယ်ရေး ကောင်းမွန်ပေသည်။ ကုန်း၊ ရေ၊ လေလမ်းကြောင်း အသွယ်သွယ်သည် မြို့တော်ဖြစ်သော ဘုံဘိုင်မြို့တွင် ဆုံကြသည်။(ဘုံဘိုင်မြို့ — ရှု။) သို့ဖြင့် ပြည်တွင်း ပြည်ပ ကောင်းစွာ ပေါက်ရောက်သောကြောင့် ဘုံဘိုင်ပြည်နယ်သည် ကူးသန်းရောင်းဝယ်ရေး ဖွံ့ဖြိုး၍ အိန္ဒိယနိုင်ငံတွင် အခြား ပြည်နယ်တို့ထက် ကုန်သွယ်မှုတွင် စည်ကားသည်။

ဘုံဘိုင် ပြည်နယ်တွင်းသို့ အင်္ဂလိပ်တို့သည် ခရစ် ၁၆၁၈ ခုနှစ်က ဦးစွာ ဝင်ရောက် နေထိုင်သည်။ ထိုစဉ်က ဧကရာဇ် ဂျဟန်ဂါ၏ ခွင့်ပြုချက်အရ အရှေ့ အိန္ဒိယ ကုမ္ပဏီသည် စူရတ်တွင် ကုန်တိုက်ဖွင့်ခွင့်ရသည်။ ၁၆၆၁ ခုနှစ်တွင် ဘုံဘိုင်မြို့သည် အင်္ဂလိပ်ပိုင်နယ် ဖြစ်လာသည်။ (ဘုံဘိုင်မြို့ — ရှု။) ဘုံဘိုင်နယ်သည် ၁၈၀၃ ခုနှစ်တွင် မကျယ်ဝန်းသေးချေ။ ၁၈၀၅ ခုနှစ်၌ ဂူဂျရတ်နယ်များကို ဘုံဘိုင်ပြည်နယ်တွင်းသို့ သိမ်းသွင်း၍ အခြားနယ်များကိုလည်း တဖြည်းဖြည်းပေါင်းစပ်လိုက်၏။ ဗြိတိသျှတို့ အုပ်စိုးစဉ်က ဗြိတိသျှတို့ လုံးဝအုပ်စိုးသည်မဟုတ်ဘဲ အချို့နယ်များတွင် မဟာရာဇာများ အုပ်ချုပ်သည်။ ဒုတိယကမ္ဘာစစ်အတွင်းက ဗြိတိသျှဘုရင်ခံ အုပ်ချုပ်သည်။ သို့သော် ၁၉၃၅ ခုနှစ် အိန္ဒိယပြည် အုပ်ချုပ်ရေးအက်ဥပဒေကို ပြဋ္ဌာန်းပြီးသည့်နောက်တွင် ပြည်သူတို့က ရွေးကောက်တင်မြှောက်ရသော ဝန်ကြီးအဖွဲ့သည် အုပ်ချုပ်ရေးတွင် အတော်အတန် ပါဝင် ဆောင်ရွက်ခွင့်ရလာခဲ့၏။ အိန္ဒိယနိုင်ငံ လွတ်လပ်ရေးရသောအခါ အိန္ဒိယပြည်ထောင်စုတွင် ပါဝင်သည်။ ခရစ် ၁၉၄၇ ခုနှစ်နှင့် ၁၉၄၉ ခုနှစ်တွင်၎င်း၊ ၁၉၅၆ ခုနှစ်တွင်၎င်း နိုင်ငံကို ပြန်လည် ဖွဲ့စည်းသောအခါပြည်နယ်တွင်းသို့ အခြားနယ်များကို သွတ်သွင်းလိုက်သောကြောင့် ပြည်နယ်သည်ကျယ်ဝန်းလာကာ အိန္ဒိယနိုင်ငံတွင် အကျယ်ဝန်းဆုံး ဖြစ်လာသည်။ ၁၉၆၀ ပြည့်နှစ် မေလ ၁ ရက်နေ့တွင် ဘုံဘိုင်ပြည်နယ်ကြီးကို ဂူဂျရတ်ပြည်နယ်နှင့် မဟာရဋ္ဌပြည်နယ်ဟူ၍ ပြည်နယ် ၂ ခု ခွဲလိုက်သည်။ ဂူဂျရတ်ပြည်နယ်တွင် ယခင်က ဘုံဘိုင်ပြည်နယ်အတွင်း၌ ပါဝင်ခဲ့သော အမဒါဗတ်၊ ဗာရိုဒါ၊ ဂျူနာဂတ်၊ ရာဇ့ဂျကော့ အစရှိသည့် ခရိုင် ၁၇ ခရိုင်အပြင်၊ ဌာနာခရိုင်အတွင်းမှ ရွာပေါင်း ၅၀ နှင့် အနောက် ခန်ဒက်ရှ ခရိုင်အတွင်းမှ ရွာပေါင်း ၁၅၆ ရွာတို့ ပါဝင်သည်။ အကျယ်အဝန်းမှာ ၇၂,၁၃၇ စတုရန်း မိုင်ဖြစ်၏။ လူဦးရေ ၁၆.၃ သန်း နေထိုင်သည်။ မြို့တော်အဖြစ် အမဒါဗတ်မြို့ကို ယာယီအားဖြင့် သတ်မှတ်ထား၏။

မဟာရဋ္ဌပြည်နယ်တွင် ဂူဂျရတ်ပြည်နယ်အတွင်း မပါမဝင် ကျန်နေသော ယခင်က ဘုံဘိုင်ပြည်နယ်၏ အစိတ်အပိုင်းများ ပါဝင်၏။ ၁၁၈,၉၀၃ စတုရန်းမိုင်ကျယ်ဝန်းသည်။ လူဦးရေ ၃၂.၂ သန်း နေထိုင်လျက် ရှိသည်။ မြို့တော်မှာ ဘုံဘိုင်မြို့ဖြစ်လေသည်။

**ဘုံဘိုင်မြို့။** ။ဘုံဘိုင်မြို့သည် ယခင် ဘုံဘိုင် ပြည်နယ်၏ မြို့တော်ဖြစ်သည်။ ယခုအခါတွင်မူ ၁၉၆၀ ပြည့်နှစ်က အသစ်ဖွဲ့စည်းလိုက်သော မဟာရဋ္ဌပြည်နယ်၏ မြို့တော် ဖြစ်၏။ အိန္ဒိယနိုင်ငံ၏ အနောက်ဖက် ကမ်းရိုးတန်း မြောက်ဖက်အဖျားရှိ ကျွန်းကလေးပေါ်တွင် တည်ရှိသည်။ ထိုကျွန်းသည် အလျား ၁၁ မိုင်ရှိ၍ အနံ ၃ မိုင်ခန့်ရှိသည်။ ပုံသဏ္ဌာန်မှာ လက်မနှင့် လက်ညှိုးကို အောက်ဖက်သို့ ခပ်ကွေးကွေး ညွှန်ပြသော ဗယ်လက်နှင့်တူ၏။ လက်မနှင့်တူသော အနောက်ပိုင်းမှာ ပေ ၂၀၀ ခန့်ရှိသော တောင်ကုန်းဖြစ်၍ မာလာဗာတောင်ကုန်းဟု ခေါ်တွင်လျက် ဘုံဘိုင်မြို့ရှိ ကြွေးရတတ်များ နေထိုင်ရာရပ်ကွက်ဖြစ်သဖြင့် လှပသော နေအိမ်တိုက်တာများ ရှိ၏။ အစွန်ဆုံး နေရာ၌ ကျယ်ဝန်းသော ဥယျာဉ်ခြံကြီးအတွင်းတွင် ဘုရင်ခံ၏ အိမ်တော်တည်ရှိ၏။ လက်ညှိုးထိပ်နှင့် တူသော နေရာတွင် မီးပြတိုက်ရှိ၍ အထက်သို့ တက်လာလျှင် မြို့တွင်းသို့ ရောက်၏။ ကျွန်း၏ အရှေ့ဖက်ပိုင်းဖြစ်ကာ လက်ညှိုးနှင့်တူသော အပိုင်းရှိ ကမ်းရိုးတန်းနှင့် အိန္ဒိယ ကုန်းမတို့ အကြားတွင် သဘာဝ အားဖြင့် ကောင်းမွန်လှသောသင်္ဘောဆိပ်ရှိ၏။ အိန္ဒိယနိုင်ငံအနောက်ဖက်ကမ်းခြေတွင် ဘုံဘိုင်မြို့သင်္ဘောဆိပ်သည် အထူးကောင်းမွန်သောကြောင့် အိန္ဒိယနိုင်ငံတွင် အရေးပါဆုံး ဆိပ်ကမ်းဖြစ်ရုံမကဘဲ ကမ္ဘာတွင်လည်း ထိပ်တန်း သင်္ဘောဆိပ် တခု ဖြစ်၏။ ဘုံဘိုင် သင်္ဘောဆိပ်သည် အဝ ၇ မိုင်ခန့် ကျယ်၍ အတွင်းသို့ ကျဉ်းဝင်သွားကာ လုံခြုံသော ဆိပ်ကမ်းဖြစ်၏။ ဘုံဘိုင်သင်္ဘောဆိပ်ကမ်းတွင် သင်္ဘောကျင်းများလည်း ရှိသည်။ ကမ္ဘာ အရပ်ရပ်မှ ပင်လယ်ကူးသင်္ဘောများ ဆိုက်

ကပ်သည်နှင့်အညီ ပင်လယ်ကြောင်း ကုန်သွယ်မှု ဖွံ့ဖြိုးပေသည်။ ဘုံဘိုင်မြို့သည် အိန္ဒိယနိုင်ငံ၏ တံခါးမတခု ဖြစ်ကာ ခေတ်မှီ တိုးတက်သော မြို့ပြကြီးတခုဖြစ်၏။ အိန္ဒိယနိုင်ငံ၏ ဒုတိယ အကြီးဆုံး မြို့လည်း ဖြစ်သည်။ မြို့တွင်း၌လည်း ထယ်ဝါ ခန့်ညားလှပသော အစိုးရရုံးများ၊ ကျောင်းများ၊ ဆေးရုံ၊ တက္ကသိုလ် အစရှိသည့် အဆောက်အအုံများ ရှိလျက် စည်ကားလေသည်။ ခရစ် ၁၉၅၀ ပြည့်နှစ် ဧပြီလတွင် "မဟာဘုံဘိုင်" စီမံကိန်းအရ မြို့ကိုတိုးချဲ့ခဲ့ရာတွင် မြို့တော်အကျယ်အဝန်းကို စတုရန်းမိုင် ၂၅ မိုင်မှ ၉၁ မိုင်ဖြစ်အောင် ဆင်ခြေဖုံးရပ်ကွက်များကို ဘုံဘိုင်မြို့အတွင်းသို့ သွတ်သွင်းခဲ့၏။ သို့အားဖြင့် လူဦးရေမှာလည်း ၅၁၀,၀၀၀ ယောက်ခန့် ထပ်တိုးလာ၏။ ဘုံဘိုင်မြို့၏ လူဦးရေမှာ ၂,၈၃၉,၂၇၀ ဖြစ်သည်။

ဘုံဘိုင်မြို့သည် ပင်လယ်ကြောင်း ကုန်သွယ်မှု ဖွံ့ဖြိုးသော သင်္ဘောဆိပ်မြို့ ဖြစ်သည်သာမက မီးရထားလမ်းများ ဆုံရာမြို့လည်း ဖြစ်၏။ ထို့ကြောင့် မီးရထားဖြင့်လည်း သယ်ယူပို့ဆောင်နိုင်သဖြင့် ကုန်သွယ်မှု အထူးတလည် ကောင်းမွန်ဖွံ့ဖြိုး၏။ ဘုံဘိုင်မြို့သည် စက်မှု လက်မှုလုပ်ငန်း၏ အချက်အခြာ ဒေသလည်းဖြစ်၏။ အထူးသဖြင့် ခြည်ထည်လုပ်ငန်းတွင် ကျော်ကြားထင်ရှား၏။ ခြည်ထည်များ ရက်လုပ် ထုတ်ဝေရုံသာမဟုတ် နိုင်ငံခြားမှသွင်းသောခြည်ထည်များကို ဖြန့်ဖြူးရာ၌လည်း ဘုံဘိုင်မြို့သည် အချက်အခြာ ဌာနဖြစ်သည်။ ခြည်ထည်လုပ်ငန်းမှ တပါး အခြားလုပ်ငန်းများမှာ ဆေးဆိုးလုပ်ငန်း၊ သားရေနယ်လုပ်ငန်းနှင့် ကြေးထည် ငွေထည် လုပ်ငန်းများဖြစ်၏။ ဝါဂွမ်း၊ ကောက်သီးကောက်နှံများနှင့် သစ်စေးများ စသည်တို့မှာ အဓိက ထုတ်ကုန်များဖြစ်လျက် အဓိကသွင်းကုန်များကား သတ္တု၊ စက်ကရိယာများနှင့် အထည်အလိပ်များပင်တည်း။

ဘုံဘိုင်မြို့သည် မြို့တော်ကြီးတခု ဖြစ်သည့် အလျောက် လူမျိုးပေါင်းစုံ နေထိုင်ရာ မြို့ဖြစ်၏။ အများစုမှာ ဟိန္ဒူ့အယူဝါဒီ အိန္ဒိယတိုင်းရင်းသားများ ဖြစ်၏။ ထို့အပြင် ဥရောပတိုက်သားများ၊ အာရပ် ကုန်သည်များ၊ အာဖဂန်လူမျိုးများ၊ သီဟိုဠ်လူမျိုးများ၊ တိဗက် လူမျိုးများ စသည်တို့လည်း နေထိုင်ကြသည်။ အိန္ဒိယသမုဒ္ဒရာ အရှေ့ပိုင်း၌ ခိုဂျာမွတ်စလင်များသည် ကူးသန်းရောင်းဝယ်မှုတွင် သွက်လက်၏။ သို့သော် စက်မှုလက်မှု၊ ကုန်သွယ်မှုနှင့် အခြား အသက်မွေးမှု လုပ်ငန်းအဝဝတွင် ရှေ့တန်းမှနေ၍အချုပ်အချာ ဖြစ်လျက် ဩဇာကိတ္တိရှိသူတို့မှာ လူနည်းစု ဖြစ်သော ပါရစီလူမျိုးတို့ ဖြစ်၏။ အိန္ဒိယနိုင်ငံ၏ စီးပွားရေးသည် ယင်းလူမျိုးတို့ လုပ်ကိုင် ဆောင်ရွက်ချက်ကြောင့် များစွာ တိုးတက်ခဲ့၏။

ဘုံဘိုင်ဟူသော အမည်သည် ဟိန္ဒူနတ်မင်း သိဝ၏ ဇနီးဘန်းဘေမံဘာနတ်သမီးကို အစွဲပြု၍ မှည့်ခေါ်သော အမည်ဖြစ်၏။ ဘုံဘိုင်မြို့ကို ၁၃ ရာစုနှစ်အတွင်းက စတင် တည်ထောင်ခဲ့၏။ ခရစ် ၁၃၄၈ ခုနှစ်အထိ ဟိန္ဒူတို့ လက်အောက်တွင် ရှိနေခဲ့၍ ထိုနှစ်တွင် ဂူဂျရတ်မှ မွတ်စလင်တို့ လာရောက်တိုက်ခိုက်သိမ်းပိုက်သဖြင့် ၁၅၃၄ ခုနှစ်အထိ ဂူဂျရတ်ပိုင် နယ်ဖြစ်ခဲ့လေသည်။ ၁၅၃၄ ခုနှစ်တွင် စူလတန်ဗဟာဒူးက ဘုံဘိုင်မြို့ကို ပေါ်တူဂယ်နိုင်ငံသို့ ပေးအပ်ခဲ့၏။ ပေါ်တူဂီတို့လက်မှတဆင့် ၁၆၆၁ ခုနှစ်တွင် အင်္ဂလိပ်တို့လက်သို့ ရောက်ရှိခဲ့သည်။ အင်္ဂလန်ပြည့်ရှင် ဒုတိယမြောက် ချားဘုရင်နှင့် ပေါ်တူဂီ မင်းသမီး ကက်သရင်းတို့ စုလျားရစ်ပတ်ရာတွင် ဘုံဘိုင်မြို့ကို မင်္ဂလာလက်ဖွဲ့အဖြစ် ပေါ်တူဂယ်နိုင်ငံက ပေးလိုက်၏။ ခရစ် ၁၉၄၇ ခုနှစ်တွင် အိန္ဒိယနှင့် ပါကစ္စတန်ဟူ၍ နှစ်နိုင်ငံခွဲလိုက်သောအခါ ဘုံဘိုင်ပြည်နယ်၏ မြို့တော် ဘုံဘိုင်မြို့သည် အိန္ဒိယသမတနိုင်ငံတွင် ပါဝင်လာခဲ့၏။ ၁၉၆၀ ပြည့်နှစ်တွင် ယခင်ဘုံဘိုင်ပြည်နယ်ကို ဂူဂျရတ်ပြည်နယ်နှင့် မဟာရဋ္ဌပြည်နယ်ဟူ၍ ခွဲလိုက်သောအခါ ဘုံဘိုင်မြို့သည် မဟာရဋ္ဌပြည်နယ်၏ မြို့တော်ဖြစ်လာလေသည်။

**ဘုမ္မစိုး။** ။ဘုမ္မစိုး၊ ရုက္ခစိုး၊ အာကာသစိုးဟု သုံးမျိုးရှိရာ၊ ပါဠိဘာသာ၌ ဘုမ္မစိုးကို ဘုမ္မ-ဘုမ္မဋ္ဌ၊ ရုက္ခစိုးကို ရုက္ခဋ္ဌ-အာကာသစိုးကို အာကာသဋ္ဌဟု သုံးစွဲလေ့ရှိကြ၏။ ဘုမ္မ၊ ဘုမ္မဋ္ဌ-မြေ၌ တည်သောနတ်၊ မြေကို အမှီပြု၍ နေသောနတ်၊ မြေကို ပိုင်ဆိုင်အုပ်စိုးသောနတ်။ရုက္ခဋ္ဌ-သစ်ပင်၌ တည်သောနတ်၊ သစ်ပင်ကို အမှီပြု၍ နေသော နတ်၊ သစ်ပင်ကို ပိုင်ဆိုင်အုပ်စိုးသောနတ်။ အာကာသဋ္ဌ- ကောင်းကင်ကို အမှီပြု၍ နေသောနတ်၊ ကောင်းကင်ကို ပိုင်ဆိုင်အုပ်စိုးသော နတ်ဟု အဓိပ္ပါယ်ရသည်။ ဘုမ္မစိုး၊ ရုက္ခစိုး၊ အာကာသစိုးတို့၌ စိုးဟူသော စကားမှာ ပိုင်ဆိုင် အုပ်စိုးခြင်း အဓိပ္ပါယ် ရ၏။ ပါဠိဘာသာနှင့် မြန်မာဘာသာကို တွဲစပ်၍ ခေါ်ဝေါ်ထားသော အမည် ဖြစ်သည်။

ထိုဘုမ္မဋ္ဌ၊ ရုက္ခဋ္ဌ၊ အာကာသဋ္ဌနတ်တို့သည်လည်း စာတုမဟာရာဇ်စသော အထက်နတ်တို့လည်း ရှိကြ၏။ လူ့ပြည်၌ ဖြစ်သော အောက်နတ်တို့လည်း ရှိကြ၏။ ယင်းနှစ်မျိုးတို့တွင် စာတုမဟာရာဇ် စသော အထက်နတ်တို့ကို ဘုမ္မဋ္ဌ၊ ရုက္ခဋ္ဌ၊ အာကာသဋ္ဌ ဖြစ်သော်လည်း ဘုမ္မစိုး၊ရုက္ခစိုး၊ အာကာသစိုး ဟုခေါ်ဝေါ်လေ့ မရှိကြ။ လူ့ပြည်၌ ဖြစ်သော အောက်နတ်တို့ကိုသာ ဘုမ္မစိုး၊ ရုက္ခစိုး၊ အာကာသစိုးဟု ခေါ်ဝေါ်လေ့ရှိကြ၏။

စာတုမဟာရာဇ် စသော အထက်နတ်တို့ကား နတ်တို့အရေအတွက်အားဖြင့် နှစ်ပေါင်း ငါးရာ တထောင် စသည် အသက်တမ်းရှိကြ၏။ လူ့ပြည်၌ ဖြစ်သော အောက်နတ်တို့

ကား အသက်တမ်းမရှိကြ။ မိမိတို့ ကံသာလျှင် ပမာဏ ရှိကြ၏။ အချို့ ဘုမ္မစိုးနတ်တို့သည် ခုနစ်ရက်သာ အသက်ရှည်ကြ၏။ အချို့ ဘုမ္မစိုးနတ်တို့သည် ကမ္ဘာ၏ လေးပုံတပုံ ဝိဝဋ္ဋဋ္ဌာယီအသင်္ချေယျကပ် တကပ်လုံး အသက်ရှည်ကြ၏။

စာတုမဟာရာဇ် စသော အထက်နတ်တို့သည် မိန်းမဖြစ်လျှင် အသက် တဆဲ့ခြောက်နှစ်အရွယ်၊ ယောကျ်ားဖြစ်လျှင် အသက်နှစ်ဆယ်အရွယ်၊ ကိုယ်အင်္ဂါအပြည့်အစုံ အရွယ်ရောက် လူလားမြောက်ပြီး ဥပပါတ် ပဋိသန္ဓေတမျိုးဖြင့်သာ နေသူများ ဖြစ်သောကြောင့် သားသမီးတို့ကို ဝမ်းဖြင့် လွယ်၍မမွေးကြကုန်။ ချီပိုးထိန်းယ မွေးမြူခြင်းလည်း မရှိကြကုန်။လူ့ပြည်၌ ဖြစ်သော အောက်နတ်ကား (၁) ဥပပါတ်ပဋိသန္ဓေ - အရွယ်ရောက် လူလားမြောက်ပြီးဖြစ်သော ပဋိသန္ဓေ။ (၂) သံသေဒဇပဋိသန္ဓေ - အပုပ် အစပ် စသောအညှိကိုစွဲ၍ ဖြစ်သော ပဋိသန္ဓေ။ (၃) အဏ္ဍဇပဋိသန္ဓေ-အဥ၌ဖြစ်သော ပဋိသန္ဓေ၊ (၄) ဇလာဗုဇပဋိသန္ဓေ-အမိဝမ်း၌ဖြစ်သော ပဋိသန္ဓေ၊ ဤလေးမျိုးတွင် တမျိုးမျိုးဖြင့် ပဋိသန္ဓေနေသူများ ဖြစ်သောကြောင့် အချို့ သားသမီးတို့ကို ဝမ်းဖြင့်လွယ်၍မွေးကြရ၏။ ချီပိုးထိန်းယ မွေးမြူကြရ၏။

လူ့ပြည်၌ ဖြစ်သော ဘုမ္မစိုး၊ ရုက္ခစိုး၊ အာကာသစိုးတို့သည် စာတုမဟာရာဇ်သို့ အကျုံးဝင်ကြ၏။ အချို့ ပညာဥာဏ် ထက်မြက်သော တိဟိတ်များ ဖြစ်၍ ပါရမီခံ ရှိသဖြင့် ကျွတ်တမ်းဝင်ကာ အရိယာအဖြစ်သို့ ရောက်နိုင်ကြ၏။ အချို့ တန်ခိုးအာနုဘော်နည်းပါးကြ၏။ အချို့တန်ခိုးအာနုဘော်ကြီးမားကြ၏။ အချို့ နတ်၌ဖြစ်သော အစာအာဟာရကို စားသောက်ကြ၏။ အချို့ လူတို့ အကိုးကွယ်ခံကာ စားသောက်ကြ၏။အချို့ ဆင်းဆင်းရဲရဲ အထိုက်အလျောက်ရှာဖွေစားသောက်ကြ၏။

ထိုဘုမ္မစိုး၊ ရုက္ခစိုး၊ အာကာသစိုး နတ်တို့သည် မိမိတို့ကံအားလျော်စွာ ပေါ်ပေါက်လာသော ဘုံဗိမာန်၌ နေကြ၏။ ထိုဘုံဗိမာန်များအနက် မြေ၊ တော၊ ချုံ၊ တောင်၌ တည်ရှိသော ဘုံဗိမာန်တို့ကို အထူးမဆို။ သစ်ပင်၌ တည်ရှိသော ဘုံဗိမာန်ကိုကား (၁) ရုက္ခဋ္ဌ-သစ်ပင်၏အထက်၌ သစ်ပင်နှင့်စပ်၍ တည်ရှိသော ဘုံဗိမာန် (၂) သာခဋ္ဌ-သစ်ပင်၏ အကိုင်းနှင့်စပ်၍ တည်ရှိသောဘုံဗိမာန်ဟု နှစ်မျိုးရှိ၏။ ရုက္ခဋ္ဌဘုံဗိမာန်သည် သစ်ပင်၏ အမြစ်မျှကျန်ရှိသေးလျှင် မပျက်စီးနိုင်။ သာခဋ္ဌ ဘုံဗိမာန်ကား သစ်ပင်၏ အကိုင်းတို့ မရှိလျှင် ပျက်စီးလေ၏ဟု အဆို ရှိသည်။

ထိုဘုမ္မစိုး၊ ရုက္ခစိုး၊ အာကာသစိုးတို့တွင် အာကာသစိုးသည် ကောင်းကင်ကို ပိုင်ဆိုင်အုပ်စိုးသောနတ်ဟု အဆိုရှိသဖြင့် အာကာသစိုးအတွက် ထင်ရှား၏။ ဘုမ္မစိုးနှင့်ရုက္ခစိုးကား မည်သည့် နတ်သည် ဘုမ္မစိုး မည်သည့်နတ်သည် ရုက္ခစိုးဟု အတိအကျ မှတ်သားရန် ခဲယဉ်း၏။ ခဲယဉ်းပုံကား 'မြေပြင်၊ သစ်ပင်၊ တော၊ချုံ၊ တောင်စသည်တို့၌ဘုမ္မစိုးနတ်တို့ကို သိမှတ်ကြရမည်' ဟုဓမ္မပဒအဋ္ဌကထာ၌ အဆိုရှိသည်။ 'မြေ၌ တည်သော နတ်တို့ဟူသည်ကား မြေ၌ တည်သော ကျောက်တောင်၊ တော၊ သစ်ပင်စသည်တို့၌ တည်သော နတ်တို့ပင်တည်း' ဟု ဗုဒ္ဓဝံသ အဋ္ဌကထာ၌ အဆိုရှိသည်။ 'မြေ၌ တည်သော နတ်တို့ဟူသည်ကား မြေဟူ၍ ရအပ်သော နေရာ ရှိသောနတ်တို့ပင်တည်း။ ထိုပါဠိဖြင့် သစ်ပင်၊ တောင်၌ နေသော နတ်တို့ကိုလည်း ယူရမည်' ဟု သံယုတ္တဋီကာ၌ အဆိုရှိသည်။ ဤသို့ အဋ္ဌကထာ၊ ဋီကာတို့၌ အမျိုးမျိုးအဆိုရှိသော်လည်း အားလုံး ခြုံ၍ ကြည့်လိုက်လျှင် 'သစ်ပင်၊ တော၊ ချုံ၊ တောင် စသည်တို့၌ တည်နေသော နတ်သည် ဘုမ္မစိုး' ဟု အဓိပ္ပါယ် ရ၏။ ယင်းအဓိပ္ပါယ် အရယူလျှင် သစ်ပင်၊ တော၊ ချုံ စသည်တို့၌ တည်နေသော ရုက္ခစိုးဟု သီးခြားမရှိနိုင်။ ဘုမ္မစိုးထည်းသို့ ပါဝင်သွားသောကြောင့် အတိအကျမှတ်ရန် ခဲယဉ်း၏။မည်သို့ပင်ဖြစ်စေကျွန်ုပ်တို့အယူအဆကားသစ်ပင်၊ တော၊ ချုံ၊ တောင် စသည်တို့၌ နေသည်ဖြစ်စေ၊ မနေသည် ဖြစ်စေ မြေကိုပိုင်ဆိုင်အုပ်စိုးသောနတ်ကား ဘုမ္မစိုး၊ သစ်ပင်၊ တော၊ ချုံ ကိုသာ ပိုင်ဆိုင် အုပ်စိုးသောနတ်ကား ရုက္ခစိုးဟု ခွဲခြား၍ အတိအကျ မှတ်သားရမည်ဖြစ်၏။ ထိုနတ်တို့၏ ဝတ္ထုသက်သေ အနည်းငယ်ကား အောက်ပါ အတိုင်း ဖြစ်၏။

မြတ်စွာဘုရားသည် ဗာရာဏသီပြည် ဣသိပတနမိဂဒါဝုန်တော၌ ပဉ္စဝဂ္ဂီငါးဦးကို အမှူးထား၍ ဓမ္မစကြာ တရားတော်ကို ဟောတော်မူသောအခါ၊ တရားနာရန် လာရောက်ကြသော နတ်ဗြဟ္မာတို့ကား အလွန် များပြားလှ၏။ ထိုနတ်ဗြဟ္မာတို့တွင် မြတ်စွာဘုရား ဓမ္မစကြာ တရားကို ဟောတော်မူကြောင်း ရှေးဦးစွာ ကြွေးကြော်သောနတ်တို့ကား ဘုမ္မစိုးတို့ ဖြစ်သည်။

မြတ်စွာဘုရားသည် ကပိလဝတ်ပြည်အနီး မဟာဝုန်တောကြီးဝယ် မဟာသမယသုတ်ကို ဟောတော်မူသောအခါ စကြဝဠာ တိုက်တသောင်းမှ တရားနာရန် လာရောက်ကြသော နတ်ဗြဟ္မာတို့ကား အလွန်များပြားလှ၏။ ထိုလာရောက်ကြသော နတ်ဗြဟ္မာတို့တွင်၊ ကပိလဝတ်ပြည်ကို အမှီပြု၍ နေသော ခုနစ်ထောင်သော နတ်တို့ကား ဘုမ္မစိုးတို့ဖြစ်သည်။

မြတ်စွာဘုရားသည် တနေ့သောအခါ ဂယာရွာကြီး၏ တံခါးအမှိုက်ပုံ၌နေသော သူစိလောမဘီလူးနှင့် ခရလောမဘီလူးတို့ကို တရားဟောတော်မူရာ၊ ထိုဘီလူးတို့သည် သောတာပန် အရိယာအဖြစ်သို့ ရောက်၍၊ ကိုယ် အင်္ဂါအဆင်း အရောင်လှပလျက် ဘုမ္မစိုးနတ်တို့ စည်းစိမ်ကို ခံစားကြရသည်။

မြတ်စွာဘုရားသည် အဂ္ဂါဠဝစေတီ၌ သီတင်းသုံးတော်မူစဉ် ရဟန်းတို့အား ကျောင်းဆောက်ရန် ခွင့်ပြုတော်မူသဖြင့်၊ ရဟန်းတပါးသည် ကျောင်းဆောက်ရန် တခုသော သစ်ပင်ကို ခုတ်မည်ပြုရာ၊ သစ်ပင်စောင့် ရုက္ခစိုးသည် သားငယ်

ကိုချီလျက် တားမြစ်သည်ကို မနာယူဘဲခုတ်သဖြင့်၊ သား ငယ်၏ လက်ကို ဖြတ်မိလေ၏။ ထိုအခါ ရုက္ခစိုးသည် အလွန် စိတ်ဆိုးရကား၊ ပုတ်ခတ်၍သတ်တော့မည်ဟု ရဟန်း၏ လက် တို့ကို ကိုင်၍ မြှောက်ချီပြီးမှ ဤရဟန်းကား သီလရှိသော ရဟန်းဖြစ်၏။ အကယ်၍သတ်လျှင် ငါ့မှာသေလွန်သောအခါ ငရဲသို့ကျချေမည်။ အခြားရုက္ခစိုးတို့လည်း ငါ၏နည်းကို ယူ၍ ရဟန်းများကို သတ်ကြလိမ့်မည်။ သို့အတွက် ရဟန်း၏အရှင် သခင်ဖြစ်သော မြတ်စွာဘုရားထံသွား၍ လျှောက်မည်ဟု ကြံစည်လျက်၊ ရဟန်း၏လက်တို့ကို လွှတ်၍၊ မြတ်စွာဘုရား ထံသွားကာ အကြောင်းစုံ လျှောက်လေ၏။ မြတ်စွာဘုရား လည်း ဖြစ်လာသော ဒေါသကို ချုပ်တည်း နိုင်ခြင်းသည် ကောင်းစွဟု သာဓုခေါ်ပြီးလျှင် တရားဟောတော်မူရာ၊ ရုက္ခ စိုးသည် သောတာပန် အရိယာအဖြစ်သို့ ရောက်လေ၏။ နောက် နေရန် ဘုံဗိမာန် မရှိတော့ပြီဟု လျှောက်ပြန်ရာ၊ မြတ်စွာဘုရားက ဂန္ဓကုဋိအဦးရှိ နတ်မရှိသော သစ်ပင်ကို ပေးတော်မူသဖြင့် ချမ်းသာစွာနေရသည်။

ကုသနာဠိဇာတ်၌ ဗာရာဏသီမင်းကြီး၏ တပင်တိုင်နန်း ပြာသာဒ်သည် တိုင်နဲ့နေသဖြင့်၊ လက်သမားတို့သည်ကျား ထောက်ရန် သစ်ကိုရှာဖွေရာ၊ ဉယျာဉ်တော်၌ မင်္ဂလာပြု သော သစ်ပင်ကို တွေ့သဖြင့် မင်းကြီးထံ ခွင့်ပန်ပြီးလျှင် ပူဇော်ပသ၍ နက်ဖြန်ခုတ်တော့မည်ဟု တိုင်ကြားပြီးပြန် ကြ၏။ သစ်ပင်စောင့် ရုက္ခစိုးလည်း နက်ဖြန် ခုတ်တော့မည် ကိုသိလျှင် ငါ့ဗိမာန်ပျက်တော့မည် ငါ့မှာ ရွှေ့ပြောင်းရန်နေ ရာလည်း မရှိဟု ပူပင်သောကရောက်လျက် သားငယ်တို့ကို ဖက်၍ ငိုကြွေးလေ၏။ အနီးရှိ အဆွေ ခင်ပွန်းဖြစ်သော ရုက္ခစိုး နတ်တို့လည်း ငိုကြွေးသံကို ကြားလျှင် လာရောက် မေးမြန်းကာ သစ်ပင်ကို ခုတ်တော့မည့် အကြောင်းကို သိ လျှင် တားမြစ်ရန် စိတ်မကူးကြဘဲ အဆွေရုက္ခစိုးကိုသာ ဖက် ၍ ငိုကြွေးကြပြန်၏။

ထိုအခါ အနီးရှိ သမန်းမြက်ဖုတ်ကျူရုံစောင့် ရုက္ခစိုးသည် ငိုကြွေးသံတို့ကို ကြား၍ လာရောက်မေးမြန်းပြန်ရာ၊ သစ်ပင် ကို ခုတ်တော့မည့်အကြောင်းကိုသိလျှင်၊ အဆွေ ရုက္ခစိုးအား အဆွေ မစိုးရိမ်ပါနှင့်၊နက်ဖြန် လက်သမားတို့ လာသောအခါ မခုတ်ရအောင် ကြံဆောင်မည်၊ ကျွန်ုပ်၏ ပညာဉာဏ်စွမ်းကို စောင့်ကြည့်ပါ ဝန်ခံလေ၏။ နက်ဖြန် လက်သမားတို့ လာ သောအခါ သမန်းမြက်ဖုတ် ကျူရုံစောင့် ရုက္ခစိုးသည် လက် သမားတို့ မြင်လောက်အောင် ပုတ်သင်ယောင်ဆောင်၍ ခုတ်တော့မည့် မင်္ဂလာသစ်ပင်၏ အမြစ်ကြားသို့ ဝင်ကာ အ ခေါင်းမှတက်သကဲ့သို့ပြု၍၊ ခွကြား၌နေလျက် ဦးခေါင်းကို ညိတ်ကာ ပြလေ၏။ ထိုအခါ လက်သမားတို့သည် ပုတ်သင် ကိုမြင်လျှင်၊ ဤသစ်ပင်ကား အခေါင်းရှိသည်၊ ကျားထောက် ရန် မသင့်ဟု မခုတ်တော့ဘဲ သွားကြ၏။

ထိုအခါ မင်္ဂလာသစ်ပင်စောင့် ရုက္ခစိုးသည် မိမိဗိမာန် မပျက်စီးသဖြင့် ဝမ်းမြောက် ဝမ်းသာ ရောက်လာကြသော ရုက္ခစိုးတို့အား အဆွေတို့ ကျွန်ုပ်တို့သည် တန်ခိုးအာနုဘော် ကြီးလျက် ပညာဉာဏ် သေးငယ်သောကြောင့် ဤအ ကြောင်းဥပါယ်ကို မသိမမြင်ကြကုန်။ သမန်းမြက်ဖုတ်ကျူရုံ စောင့် ရုက္ခစိုးကား တန်ခိုးအာနုဘော် သေးငယ်သော် လည်း၊ ပညာဉာဏ် ကြီးမားသောကြောင့် ဤအကြောင်း ဥပါယ်ကို သိမြင်ပါပေ၏ဟု ချီးကျူးလေသည်။

ကောင်းကင်ကို ပိုင်ဆိုင်အုပ်စိုး၍နေကြသော စာတုမဟာ ရာဇ် နတ်များ၊ တာဝတိံသာနတ်များနှင့်ယာမာနတ်များမှ စ၍ နေဝသည်၊ နာသည်၊ ယတန ပြဟ္မာများ တိုင်အောင် နတ်ပြဟ္မာတို့သည် အာကာသစိုးများဖြစ်ကြ၏။ ထိုပြင် စာ တုမဟာရာဇ်နတ်များနှင့် တစပ်တည်း တည်လျက် စာတု မဟာရာဇ် နတ်အဝင်အပါ၊ စကြဝဠာတောင် တိုင်အောင် အဆင့်ဆင့် တည်ရှိကြသော၊ မောဟကြောင့် အာဟာရ ပြတ်၍ သေသော ခိဍ္ဍာပဒေါသိကနတ်၊ ဒေါသကြောင့် သေ သော မနောပဒေါသိကနတ်၊ အအေးကို ဖြစ်စေသော သီတ ဝလာဟကနတ်၊ အပူကို ဖြစ်စေသော ဥဏှဝလာဟကနတ်၊ တိမ်ကို ဖြစ်စေသော အဗ္ဘဝလာဟကနတ်၊ မိုးကိုဖြစ်စေ သော ဝဿဝလာဟကနတ်၊ လနတ်၊ နေနတ်၊ ဂြိုဟ်နတ်၊ နက္ခတ်တာရာ နတ်တို့ကား၊ အာကာသစိုးများ ဖြစ်၏။ (ထို ဘုမ္မစိုး၊ ရုက္ခစိုး၊ အာကာသစိုးတို့ကား ထိုထိုပိဋကတ်တော် နိပါတ်တော်တို့၌ အလွန် များပြားကုန်၏။ အနည်းငယ်မျှ သာ ထုတ်ပြခြင်း ဖြစ်သည်။)

**ဦးကြီးဖေ**

**ဘုမ္မဇေယျ။** ။ကျုံးဝန်ဘုမ္မဇေယျ — ရှု။

**ဘုမ္မတီး။** ။ဘုမ္မဘီး ငှက်သည် ခို၊ ချိုးတို့နှင့်အဘု ကို လမ်ဗီဒီ မျိုးရင်းတွင် ပါဝင်၍ ထင်ရှားသော ငှက်မျိုးဖြစ် သည်။ ခိုလောက်ပင် အလျား ၁၃ လက်မရှိ၍ ကိုယ်ကာ ယ တုတ်ခိုင်သော ငှက်မျိုးဖြစ်သည်။ အမွေး အတောင် များမှာ တကိုယ်လုံး စိမ်းနေသောကြောင့် သစ်ရွက်စိမ်း များနှင့် ခွဲခြား၍ မရနိုင်ပေ။ တနှစ်လုံး အသင်းအအုပ်နှင့် နေတတ်၍ သစ်ပင်များပေါ်၌သာ ကျက်စားလေ့ ရှိသည်။ အထူးသဖြင့် အလေ့ပေါက် သဖန်းပင်များပေါ်၌ အတွေ့ရ များသည်။ သစ်ပင်ပေါ်၌ မလှုပ်မရှား နေတတ်ကြသော ကြောင့် ငှက်တအုပ်လုံးကိုပင် အောက်မှနေ၍ ကောင်းစွာ မမြင်နိုင်ချေ။ အသံကြားရမှသာ ယင်းတို့ရှိမှန်းသိရသည်။ လူလေချွန်သကဲ့သို့ အော်တတ်သည်။

ဘုမ္မတီး၏ ခြေထောက်သည် ဝါ၍၊ မေးစေ့နှင့် လည် ချောင်းသည် လိမ်မော်ရောင် ပေါက်နေသည်။ အမြီးရင်း ၌ အညိုတွင် အဖြူတန်းများရှိသည်။ ပျံသန်းသည့် အခါ



လူများ လေချွန်သံကဲ့သို့ သာယာ ငြိမ့်ငြောင်းစွာ ရင့်ရှူတတ်သည့် ဘုမ္မတီးငှက်ကို အရှေ့အာရှတောင်ပိုင်းနိုင်ငံများတွင် တွေ့ရသည်။

တောင်ပံရှိ အဖြူမှတ်ကြီးကို ကောင်းစွာ တွေ့နိုင်သည်။ အရွယ်နှင့် မလိုက်အောင် သန်မာကြီးမားသော ခြေချောင်းများရှိသောကြောင့် သစ်ပင်တက်ရာ၌ ကျွမ်းကျင်သည်။ ဘုမ္မတီးသည် သစ်သီးများကိုသာ စားရာ သဖန်းသီးများကို အထူးနှစ်သက်သည်။ အစေ့၊ အဆန်၊ အဖူး၊ အစို့များကို လည်းစားသောက်သည်။

ဘုမ္မတီးငှက်သည် မတ်လမှ ဇွန်လအတွင်း သားပေါက်သည်။ ချိုးကဲ့သို့ အသိုက်ကို အကိုင်းအခက် များဖြင့် တော်သင့်ရုံ ပြုလုပ်တတ်သောကြောင့် မလုံခြုံသဖြင့် ဥများကို အောက်မှ နေ၍ အထင်းသား မြင်နိုင်သည်။ တမြုံလျှင် များသောအားဖြင့် ဥ အဖြူ ၂ လုံးရှိတတ်၏။ ဥများမှာ မာ၍ ချောမွတ်သည်။

ဘုမ္မတီးငှက်များကို အိန္ဒိယနိုင်ငံ၊ မြန်မာနိုင်ငံနှင့် သီဟိုဠ်ကျွန်းတွင် အနှံ့အပြား တွေ့ရ၍ အရှေ့ဖက်တွင် ဗီယက်နမ်တောင်ပိုင်းနှင့် ယိုးဒယားထိအောင် တွေ့ရသည်။ မြန်မာနိုင်ငံ၌ နေရာအနှံ့အပြားတွင် ကျက်စားကြသော်လည်း၊ အထူးသဖြင့် အပူပိုင်းဒေသများတွင် အတွေ့ရများသည်။

**ဘုမ္မရာဇာ။** ။ဘုမ္မရာဇာပင်သည် အပေါ့ဆီနေစီအီး မျိုးရင်းနှင့် ရောဗေါဖီးယား မျိုးစုတွင် ပါဝင်သည်။ ယင်း၏ ရုက္ခဗေဒအမည်မှာ ရောဗေါဖီးယား ဆာပင်တီးနား ဖြစ်သည်။ ဘုမ္မရာဇာပင်သည် အမြင့် ၃ ပေကျော် ၄ ပေခန့်ရှိ၍၊ တည့်တည့် မတ်မတ် တက်သောချုံပင်မျိုးဖြစ်သည်။ ပင်စည်လုံးများတွင် ဖြူတူတူအခေါက်များရှိ၍ ယင်းတို့ကို ခွဲလိုက်သည့်အခါ၊ သို့မဟုတ် ယင်းတို့ အက်ကွဲလာသည့်အခါ အစေးများ ထွက်လာတတ်သည်။



အမြင့် ၃ ပေကျော်ရှိ၍ တည့်တည့်တက်သော ချုံပင်မျိုးဖြစ်သည့် ဘုမ္မရာဇာပင်၏အသီး၊ အပွင့်နှင့်အရွက်များ

အရွက်များသည် စိမ်း၍ လုံ့စွပ်ပုံသဏ္ဍာန်ရှိပြီးလျှင်၊ ရွက်ညှာတိုဖက်သို့ သွယ်၍ ဆင်းသွားသည်။ အရွက် ၃ ရွက်မှ ၅ ရွက်အထိ အခက်ထိပ်တွင် ဝိုင်း၍ပေါက်သည်။ အပွင့်များမှာ အချို့ ဖြူ၍ အချို့ ပန်းရောင်ဖြစ်ပြီးလျှင် အချို့မှာ အနီဖြစ်သည်။ အပွင့်များသည် အခိုင်လိုက် ပွင့်သည်။ အသီးများသည် ပဌမ စိမ်းနေရာမှ မှည့်သောအခါ ခရမ်းရောင်ဖြစ်လာသည်။ အသီးအတွင်း၌ မာသော အစေ့ရှိသည်။

ဘုမ္မရာဇာပင်၏ အမြစ်သည် ဆေးဖက်ဝင်သည့် အလျောက်၊ ယခုအခါ သွေးတိုးအားပြင်းခြင်းရောဂါ ကုသရန်




သွေးတိုးရောဂါ ကုသမှုတွင် အထူးဆေးဖက်ဝင်သည့် ဘုမ္မရာဇာမြစ်

အတွက် များစွာ အသုံးပြုကြသည်။ သွေးတိုးအားကို လျော့စေသည်။ ဘုမ္မရာဇာမြစ်သည် ငြိမ်စေသည့်သတ္တိလည်း ရှိသောကြောင့် ယခုအခါ အရူးကုရာ၌လည်း အသုံးပြုကြသည်ဟု ဆိုသည်။

ဘုမ္မရာဇာပင်သည် အပူပိုင်းတွင် ပေါက်ရောက်သော အပင်မျိုးဖြစ်သည်။ မြန်မာနိုင်ငံတွင် ကသာ၊ နမ်းခမ်း၊ ပျဉ်းမနား၊ တောင်ငူ၊ ဇီးကုန်း၊ ဥက္ကံ၊ တိုက်ကြီး၊ သထုံ၊ ကော့ကရိတ်၊ ကျိုက်မရောမြို့နယ်များတွင်ပေါက်ရောက်သည်။ တောင်ပိုင်းရှမ်းပြည်နယ်များ၌လည်း ပေါက်ရောက်လေသည်။

**ဘလ္လိက နှင့် တပုဿ။** ။ဘလ္လိကနှင့် တပုဿ တို့သည် ရာမညကိုင်း၊ ဥက္ကလာဇနပုဒ်၊ ပေါက္ခရဝတီမြို့ (ငါ) အသိတဥ္စနဂိုရ်မြို့မှ ကုန်သည် ညီနောင်တို့ ဖြစ်၏။ တပုဿကား အကြီး၊ ဘလ္လိကကား အငယ်ဖြစ်သည်။

မြတ်စွာဘုရား သခင်သည် မဟာဗောဓိပင်မှ တောင်မျက်နှာ အလံ ၄၀ ကွာတွင် လင်းလွန်းပင်ရင်း၌ ခုနစ်ရက်ပတ်လုံး သမာပတ်ကို ဝင်စားတော်မူ၍ ခုနစ်ရက်စေ့သော နံနက်၌၊ မျက်နှာသစ်တော်မူလိုသော အကြံတော်ဖြစ်လေသော်၊ သိကြားမင်းသည် ကြဇုသီး၊ ကွမ်းရိုးဒန်ပူ၊ အနောတတ် ရေများကို ကပ်လှူလာ၍ သုံးဆောင်ဘော်မူပြီးစအခါတွင်၊ ရာမညတိုင်း၊ ဥက္ကလာဇနပုဒ်၊ ပေါက္ခရဝတီမြို့မှ တပုဿနှင့် ဘလ္လိက ကုန်သည် ညီနောင်တို့သည် ကုန်သွယ်ခြင်းငှါ လှည်းငါးရာနှင့် မဇ္ဈိမဒေသသို့ လာကြသည်တွင် ဘုရားရှင်ရှိရာ အရပ်သို့ ရောက်လေသော် မိမိတို့ အဆွေဖြစ်ဘူးသော နတ်က လှည်းကို မသွားနိုင်အောင် ချုပ်နှောင်၍၊ ဗလိနတ်စာ ပူသောကာလ၊ နတ်က ကိုယ်ထင်ပြလျက် "လောက သုံးပါးတွင် အတုမရှိသော ဘုရားထင်ရှားဖြစ်တော်မူ၍ ယခု လင်းလွန်းပင်ရင်း၌ သီတင်းသုံးနေတော်မူသည်။ သင်တို့ အကျိုးစီးပွားများလိုမူကား တစုံတခုဖြင့် လှူဒါန်းပူဇော်ချေ" ဟု ဆို၏။

ထိုစကားကို ကြားလျှင် ညီနောင် နှစ်ပါးတို့သည် အားရဝမ်းသာရှိ၍ မိမိတို့ဘွင် ပါသော ကြွက်ကျစ်မုံ့၊ ပျားမုံ့ဆုပ်တို့ကို ယူ၍ ကပ်လာ၏။ ထိုအခါ ဃဋီကာရဗြဟ္မာလှူသော သပိတ်တော်သည် သုဇာဘာ နို့ဆွမ်းလှူစကပင် ကွယ်ခဲ့၍ "အဘယ်ဝတ္ထုဖြင့် ခံသော် လျော်အံ့နည်း၊ နောင်တော် ဘုရားတို့သည် အဘယ်ဝတ္ထုဖြင့် ခံသနည်း" ဟု ရှုတော်မူသော်၊ နောင်တော်ဘုရားတို့သည် သပိတ်တော်ဖြင့် ခံတော်မူကြသည်ကိုမြင်၍၊ သပိတ်တော်ကို အောက်မေ့လျက် ထိုမုံ့ကို ခံလိုသော အကြံတော်ဖြစ်လေသော်၊ စာတုမဟာရာဇ် နတ်မင်းကြီး လေးယောက်တို့သည် ဣန္ဒနီလာ ကျောက်ညိုဖြင့် ပြီးသော သပိတ် လေးလုံးကို ကပ်လာ၏။ ဘုရားသခင်သည်လည်း သပိတ်ကို ခံတော်မမူ၊ ယင်းသို့ ခံတော် မမူသော် ပဲနောက် အဆင်းရှိသော ကျောက်သပိတ်လေးလုံးကို လှူပြန်၏။ ထိုကျောက်သပိတ်ကို ခံတော်မူလျက် လေးလုံးသော သပိတ်ကို မိဋ္ဌာန်၍ နှိပ်လျှင်၊ အနားရေး လေးခုရှိသော သပိတ်တလုံးတည်း ဖြစ်သဖြင့် ထိုသပိတ်နှင့် ခံတော်မူ၏။ ထိုကုန်သည် ညီနောင်တို့အားလည်း

ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ၊

ဓမ္မံ သရဏံ ဂစ္ဆာမိ ဟူသော ဒွေဝါစိက သရဏဂုံကို ပေးတော်မူသည်။ ဦးခေါင်းတော်ကို သုံးသပ်၍ ဆံတော်ဓာတ် တလက်ဆုပ်ကိုလည်း အပ်တော်မူလိုက်၏။

ကုန်သည်ညီနောင်တို့လည်း အသိတဥ္စနဂိုရ်မြို့သို့ ရောက်ပြန်လှာသောအခါ၊ လူအပေါင်းအား ကုသိုလ်ကောင်းမှု

ဖြစ်ခဲ့လိုသောကြောင့်၊ မိမိသွားရာရာ ပူဇော်အံ့သောငှါ ဆံတော်နှစ်ဆူကို ထား၍၊ ကျန်သော ဆံတော်တို့ကို ရွှေကြုတ်၌ ထည့်၍ အသိတဥ္စနနဂိုရ်မြို့၏ အရှေ့မျက်နှာရှိ တမ္ဗဂုတ္တ တောင်ထိပ်ထက်၌ ဌာပနာ၍ စေတီလည်းကောင်း၊ စေတီယင်္ဂဏကိုလည်းကောင်း ပြု၍ပူဇော်ကုန်၏။

သွားရာရာဆောင်အံ့ဟူ၍ ယင်းတို့ထားသော ဆံတော်နှစ်ဆူကိုမူကား၊ ယင်းတို့၏ မေ့လျော့သောအဖြစ်ကို ကြည့်၍ ဇယသေနမည်သော နဂါးမင်းသည် ဘူမိန္ဓရမည်သော နဂါးပြည်သို့ ဆောင်လေ၍ ပူဇော်ပသ၏။

ဤတပုဿ ဘလ္လိက မည်သော ညီအစ်ကို နှစ်ယောက်တို့တို့လည်း၊ ဘုရားသခင် ဇေတဝန်ကျောင်းတော်၌ နေတော်မူ၍၊ ဥပါသကာများတို့ကို အစဉ်အတိုင်း ဌာနန္တရ၌ တည်တော်မူလတ်သော်၊ ရှေးဦးစွာသော သရဏဂုံမနက်ကိုယူသော ဥပါသကာ များတို့တွင် ဧတဒဂ္ဂ ထားတော်မူသတည်း။

အခါတပါး ဘုရားသခင် ရာဇဂြိုဟ်ပြည်၌ သီတင်းသုံးနေတော်မူလတ်သော်၊ တဖန်လည်းကောင်း ဤတပုဿ ဘလ္လိက ကုန်သည် နှစ်ယောက်တို့သည် ဘုရားသခင်သို့ ကပ်လေ၍၊ ဘုရားသခင်ကို ရှိခိုး၍၊ တင့်အပ်သော နေရာ၌ နေကုန်၏။ ဘုရားသခင်သည်လည်း ယင်းတို့ကို တရားဟောတော်မူပေ၏။ တပုဿသည် သောတာပန်ဖြစ်၍ ဥပါသကာလျှင်ဖြစ်၏။ ဘလ္လိကမူကား အဘိညာဉ်ခြောက်ပါးရှိသော ဘလ္လိကထေရ်မည်သော ရဟန္တာလျှင်ဖြစ်၏။

တပုဿသည် အသိတဥ္စနနဂိုရ်မြို့သို့ တဖန်ပြန်တုံ၍၊ တမ္ဗဂုတ္တ တောင်ထိပ်ထက်၌ဌာပနာသော ဆံတော်ဓာတ်စေတီ၌ ဝတ်ပဋိပတ်မူ၍၊ အသက်အဘိုင်း နေပြီးသော်၊ လွန်လေ၏။

**ဘွဲ့ချဉ်ပင်။** ။ဘွဲ့ချဉ်ပင်သည် စွယ်တော်၊ ဖလံ၊ မဟာလှေကား၊ ဝါပင်တို့နှင့်အတူ လီဂူမီနိုးစီး မျိုးရင်းတွင် ပါဝင်၍၊ ယင်း၏ ရုက္ခဗေဒ အမည်မှာ ဗော်ဟီးနီးယား ဗေရီးဂေတာဖြစ်သည်။ တောသစ်ပင် အလတ်စား ဖြစ်၍ ပေ ၂၀ မှ ၃၀ ထိမြင့်သည်။ အခေါက်မှာ ကြမ်း၍ ညိုသောအရောင်ရှိသည်။

ဘွဲ့ချဉ်ပင်၏ အရွက်များသည်အရင်းတွင် ၄ ပုံ ၁ ပုံမှ ၃ ပုံ ၁ ပုံထိ ကွဲနေ၍ ရွက်ကြောကြီးများ ၁၁ ခုမှ ၁၅ ခုအထိ ရွက်ညှာထိပ်မှ ဖြာထွက်လျက်ရှိသည်။ တပင်လုံး အရွက်များ ကြွေကုန်သည့်အခါမှ ပန်းများ ပွင့်ကြသည်။ ပန်းပွင့်များသည်ကြီး၍ အချို့မှာ အဖြူရောင်၊ အချို့မှာ ခရမ်းရောင် မကျတကျ ရှိကြသည်။ များသောအားဖြင့် ပွင့်ချပ် ၄ ခုသည် ခရမ်းရောင် ဖျော့ဖျော့အရောင်ရှိ၍ အကြီးဆုံးပွင့်ချပ်၏ အရောင်မှာ ခရမ်းရောင်ရင့်ရင့် ဖြစ်သည်။ ပွင့်ဖတ်အုံ၏ အောက်ပိုင်းသည် ပြွန်ပုံကဲ့သို့ရှိ၍ လက်မဝက်မှ တလက်မအထိ ရှည်သည်။ အထက်ပိုင်းသည် ပြွန်ပုံလောက် မရှည်ပေ။ ထိပ်တွင် ခွေးသွားစိတ်ကဲ့သို့ အချွန်ကလေး ၅ ခုရှိသည်။ ပွင့်ချပ်များသည် ၂ လက်မမှ ၂ လက်မခွဲထိ ရှည်သည်။ ကြီးထွား သန်မာသောဝတ်ဆံဖို ၅ ခုရှိသည်။ သီးတောင့်များသည် အလျား ၆ လက်မမှ ၁၂ လက်မထိ ရှည်၍ ပြက် တလက်မ မပြည့် တပြည့်ရှိသည်။ သီးတောင့်များ မှည့်သည့်အခါ ပေါက်ကွဲ၍ အစေ့များ လွင့်စင်သွားသည်။ ပန်းများသည် ဖေဖွာရီလမှ ဧပြီလထိ ပွင့်ကြသည်။

ထူးခြားသော အချက်တချက်မှာ၊ ရွက်မြွှာများသည် ညချမ်းအခါတွင် အထက်ပိုင်း မျက်နှာပြင်ချင်း ထိအောင် ပူးကပ်သွားသည်။ ရွက်ရင့်များမှာထက် ရွက်နုများတွင် ဤအချက်ကို ထင်ရှားစွာ တွေ့ရသည်။

ဘွဲ့ချဉ်ပင်ကို များသောအားဖြင့် ဥယျာဉ်များတွင် အလှအပစိုက်ပျိုးတတ်ကြသည်။ ယင်း၏ အခေါက်သည် ဆေးဖက်ဝင်သောကြောင့် အခေါက်များ ခွာကြလွန်း၍ အပင်များသေတတ်သည်။ အခေါက်မှ အမျှင်များလည်း ရသည်။ ဘွဲ့ချဉ်ပင်ကို အစေ့မှလွယ်ကူစွာစိုက်ပျိုးနိုင်၍ အမြင့် ၈ ပေ ၁၀ ပေခန့် ရောက်လျှင်ပင် ပန်းပွင့်တော့သည်။

ဘွဲ့ချဉ်ပင်များကို မြန်မာနိုင်ငံ၊ အိန္ဒိယနိုင်ငံတောင်တန်းဒေသများတွင် စွတ်စိုသော ဒေသများထက် ခြောက်သွေ့သောဒေသများ၌ တွေ့ရသည်။



ဘွဲ့ချဉ်ပင်၏ အပွင့်နှင့်အရွက်များ

**ဘွဲ့၊ တံဆိပ်၊ သင်္ဂဟ။** ။မြန်မာနိုင်ငံသည် ၁၉၄၈ ခုနှစ် ဇန်နဝါရီလ ၄ ရက်နေ့တွင် အချုပ်အချာ အာဏာပိုင်လွတ်လပ်သော နိုင်ငံအဖြစ်သို့ ရောက်ရှိကာ ပြည်ထောင်စု နိုင်ငံကို တည်ထောင်သည့် အချိန်မှစ၍ နိုင်ငံအစိုးရက ဂုဏ်ထူး၊ ဘွဲ့ထူးများ ပေးအပ်ခြင်း နည်းစံနစ်သစ်တီထွင်၍ နိုင်ငံတော် သမတက နှစ်စဉ် လွတ်လပ်ရေးနေ့ အထိမ်းအမှတ်အဖြစ်ဖြင့် ချီးမြှင့်ခဲ့ပေသည်။

ဂုဏ်ထူးဘွဲ့ထူးများကို သင်္ဂဟ၊ ဘွဲ့၊ တံဆိပ်၊ ဟူ၍ ၃ မျိုး ခွဲခြားရာ၌ သင်္ဂဟပြီးလျှင် ဘွဲ့၊ ဘွဲ့၏အောက် တံဆိပ် ဟူ၍ ဖြစ်သည်။

သင်္ဂဟအဖွဲ့တွင် သုဓမ္မသင်္ဂဟနှင့် ပြည်ထောင်စု စည်သူ သင်္ဂဟဟူ၍ ၂ ဖွဲ့ထားရှိပေသည်။ သင်္ဂဟအဖွဲ့ ၂ ဖွဲ့စလုံးအတွက် စစ်ဖက်ဆိုင်ရာ အရာရှိများအတွက်နှင့် နယ်ဖက်ဆိုင်ရာ အရာရှိများအတွက်ဟူ၍ ၂ မျိုးစီ ခွဲခြားထားသည်။ ယင်းသို့ ၂ မျိုးခွဲခြားထားသော်လည်း၊ အဆင့် အတန်းမှာ ခြားနားခြင်းမရှိပေ။ သုဓမ္မသင်္ဂဟတွင် ပဌမတန်းကို အဂ္ဂမဟာသီရိသုဓမ္မ၊ ဒုတိယတန်းကို သတိုးသီရိသုဓမ္မ၊ တတိယတန်းကို မဟာသီရိသုဓမ္မဟူ၍အဆင့်အတန်း ၃ မျိုးခွဲခြားထားသည်။ ပြည်ထောင်စု စည်သူသင်္ဂဟတွင် ပဌမတန်းကို အဂ္ဂမဟာသရေစည်သူ၊ ဒုတိယတန်းကို သတိုးမဟာသရေစည်သူ၊ တတိယတန်းကို မဟာသရေစည်သူ၊ စတုတ္ထတန်းကို သရေစည်သူ၊ ပဥ္စမတန်းကို စည်သူဟူ၍ အဆင့်အတန်း ၅ မျိုးခွဲခြားထားသည်။ ပြည်ထောင်စု စည်သူ သင်္ဂဟတွင် ဖော်ပြခဲ့သည့် အဆင့်အတန်း ၅ မျိုးအပြင်၊ စည်သူတံဆိပ်ဟူ၍လည်း တံဆိပ်ရှိသည်။ နိုင်ငံတော် သမတသည် သင်္ဂဟအဖွဲ့ နှစ်ခု၏ နာယကဖြစ်သည်။

သင်္ဂဟဂုဏ်ထူးများကို အခြားနိုင်ငံရှိ ဂုဏ်ထူးအဆင့် အတန်းများနှင့် နှိုင်းရှည့်ထားခြင်းမရှိ။ ပြည်ထောင်စု မြန်မာနိုင်ငံတွင်အကောင်းဆုံး အမြင့်ဆုံးဟုထားသော ဂုဏ်ထူး၊ ဘွဲ့ထူးများမှာ အခြားမည်သည့် နိုင်ငံများတွင်မဆို အကောင်းဆုံး၊ အမြင့်ဆုံးဟု ထားသောဂုဏ်ထူး၊ ဘွဲ့ထူးများနှင့် တန်းတူသည်ဟု ယူဆသည်။ ပြည်ထောင်စု နိုင်ငံအကျိုးအတွက် အသက်စွန့်ကြိုးပမ်း အမှုတော် ထမ်းရွက်ကြသော မြန်မာနိုင်ငံသားများနှင့် နိုင်ငံသားအဖြစ် ခံယူပြီးသူတိုင်း ဘွဲ့ထူး၊ ဂုဏ်ထူးများ ရရှိနိုင်သည့် အခွင့်အရေး ရှိသည်။

ဘွဲ့များတွင် သီရိပျံချီဘွဲ့၊ ဝဏ္ဏကျော်ထင်ဘွဲ့၊ အလင်္ကာကျော်စွာဘွဲ့၊ သိပ္ပံကျော်စွာဘွဲ့၊ ဇေယျကျော်ထင်ဘွဲ့ ဟူ၍ ၅ မျိုးရှိသည်။ သီရိပျံချီဘွဲ့ကို ပြည်ထောင်စုမြန်မာ နိုင်ငံ၏ ကောင်းရာ ကောင်းကျိုးကို ဖြစ်ထွန်းအောင် ထူးကဲကောင်းမွန်စွာ ဆောင်ရွက်သောသူများအား ချီးမြှင့်နိုင်သည်။ ဝဏ္ဏကျော်ထင်ဘွဲ့ကို အများပြည်သူတို့၏ ကောင်းရာကောင်းကြောင်းကို ဖြစ်ထွန်းအောင် ထူးကဲကောင်းမွန်စွာ ဆောင်ရွက်ခြင်းအတွက် ချီးမြှင့်နိုင်သည်။ အလင်္ကာကျော်စွာဘွဲ့ကို စာပေပရိယတ္တိ၊ သုခုမပညာ၊ ကခြင်း၊ သီခြင်း၊ ဂီတပညာအရပ်ရပ်တို့တွင် ထူးခြားကောင်းမွန်စွာ တတ်မြောက်သူများအားချီးမြှင့်နိုင်သည်။ သိပ္ပံကျော်စွာဘွဲ့ကို သိပ္ပံပညာ၊ ကုန်ကူးသန်းရောင်းဝယ်ရေးနှင့် စက်မှုလက်မှု ပညာရပ်များတွင် ထူးကဲကောင်းမွန်စွာ ဆောင်ရွက်သည့်အတွက် ချီးမြှင့်နိုင်သည်။ ဤဘွဲ့များမှာ စစ်ဖက်ဆိုင်ရာ အရာရှိများ၊ နယ်ဖက်ဆိုင်ရာ အရာရှိများ၊ အစိုးရအရာရှိ အမှုထမ်းမဟုတ်သူများကို ချီးမြှင့်နိုင်သော ဘွဲ့များဖြစ်သည်။ ယောကျ်ားဖြစ်စေ၊ မိန်းမဖြစ်စေ ချီးမြှင့်ခြင်းခံနိုင်ခွင့် ရှိသည်။ ဇေယျကျော်ထင်ဘွဲ့ကိုမူ စစ်ဖက်ဆိုင်ရာအမှုထမ်းကောင်းခြင်းအတွက် ချီးမြှင့်နိုင်သည်။

စစ်ဖက်ဆိုင်ရာ တံဆိပ်များကား ပဌမအဆင့်အတန်းဘွင် အောင်ဆန်း သူရိယ၊ ဒုတိယအဆင့်အတန်းတွင် သီဟသူရ၊ တတိယအဆင့် အတန်းတွင် သူရတံဆိပ်များဟူ၍ အဆင့်အတန်း ၃ မျိုးရှိသည်။ ဤမည်သော တံဆိပ်များကို ရန်သူနှင့် ရင်ဆိုင်တိုက်ခိုက်ရာတွင် သူရသတ္တိနှင့်တကွ မိမိတို့ ထမ်းဆောင်ရသည့် အလုပ်တာဝန်ဝတ်တရားများကို ခိုင်မြဲသောစိတ်နှင့် ဆောင်ရွက်မှုများအတွက် တပ်မတော်အရာရှိ အမှုထမ်း တပ်သားများအား ချီးမြှင့်သည်။ တပ်မတော်များနှင့် အတူတကွ အမှုတော်ထမ်းရွက်သော နယ်ဖက်ဆိုင်ရာ အစိုးရအရာရှိ၊ အမှုထမ်း၊ သို့မဟုတ် တပ်မတော်များအား ကူညီဆောင်ရွက်သော နယ်ဖက်ဆိုင်ရာအရာရှိ အမှုထမ်းများအား အထက်ပါ တံဆိပ်များ ချီးမြှင့်နိုင်သည်။ ထို့ပြင် ရန်သူတို့နှင့် ရင်ဆိုင်တိုက်ခိုက်ရာတွင် အသိအမှတ်ပြုထိုက်အောင် သူရသတ္တိနှင့် မိမိတို့အတွက် ကျရောက်သော တာဝန်ဝတ်တရားများကို ခိုင်မြဲသောစိတ်နှင့်ဆောင်ရွက်သော တပ်မတော် အရာရှိ၊ အမှုထမ်းများအား သူရဲကောင်းမှတ်တမ်းဝင်ဟု အစိုးရ အမိန့်ပြန်တမ်းတွင် ကျေညာနိုင်ခွင့် ရှိသည်။

မိမိတို့ အသက်ဘေးအန္တရာယ် ဆုံးရှုံးလောက်နီးထိအောင် လွန်ကဲ ထူးချွန်သောသူရသတ္တိနှင့် ဆောင်ရွက်သော တပ်မတော်အရာရှိ၊ အမှုထမ်းတပ်သားများအား အဆင့်အတန်း ၂ မျိုး ၂ စားခွဲခြား ချီးမြှင့်ပေရာ ပဌမအဆင့်အတန်းမှာ အောင်ဆန်းတံဆိပ်ဖြစ်၍ ဒုတိယအဆင့်အတန်းမှာ သီဟဗလ တံဆိပ်တို့ဖြစ်သည်။ ဤတံဆိပ်များကို လက်နက်ကိုင် တပ်မတော်အရာရှိ၊ အမှုထမ်းတပ်သားများအားသာမဟုတ်၊ နယ်ဖက်ဆိုင်ရာ အရာရှိ အမှုထမ်းများအားလည်း ချီးမြှင့်နိုင်ခွင့် ရှိသည်။ ဤတံဆိပ်များအပြင်၊ စစ်ဖြစ်နေသော ကာလအတွင်း ရန်သူတို့နှင့် ရင်ဆိုင်တိုက်ခိုက်ရာတွင် မဟုတ်သော်လည်း၊ အသိအမှတ်ပြုထိုက်အောင် သူရသတ္တိနှင့် မိမိတို့အတွက် ကျရောက်သော တာဝန်ဝတ်တရားများကို ခိုင်မြဲသောစိတ်နှင့် ဆောင်ရွက်သော တပ်မတော်အရာရှိ၊ အမှု

## အဂ္ဂမဟာသီရိသုဓမ္မ

ကြယ်ပွင့်



(ရှေ့)



(ကျော)

တံဆိပ်



(ရှေ့)



(ကျော)

ထမ်းများအား စစ်အမှုထမ်းကောင်းမှတ်တမ်းဝင်ဟု အစိုးရ အမိန့်ပြန်တမ်းတွင် ကျေညာနိုင်ခွင့်ရှိသည်။

နှစ်ပေါင်းကြာရှည်စွာ အစိုးရ၏ ကျေးဇူးသစ္စာတော်ကို စောင့်သိရိုသေလျက် ဂုဏ်ထူးရှိလောက်အောင်အမှုတော်ကို ထမ်းရွက်သည့်အတွက် စစ်မှုထမ်းကောင်းတံဆိပ် ပဌမတန်း၊ စစ်မှုထမ်းကောင်းတံဆိပ် ဒုတိယတန်း၊ စစ်မှုထမ်းကောင်း တံဆိပ် တတိယတန်းဟူ၍ ရာထူးအဆင့်အတန်းအလိုက် ချီး မြှင့်သည်။ ပဌမတန်း တံဆိပ်ကို ဒုတိယဗိုလ်မှူးကြီးများနှင့် ယှဉ်းအထက်မြင့်သော ရာထူးအရာရှိကြီးများအား ချီးမြှင့် သည်။ ဒုတိယတန်းတံဆိပ်ကို အထက်ဖော်ပြရာပါ ဗိုလ်တန်း အရာရှိများမဟုတ်သည့် အခြားဗိုလ်တန်း အရာရှိများအား ချီးမြှင့်သည်။ တတိယတန်း တံဆိပ်ကို ဗိုလ်တန်း အရာရှိ မဟုတ်သော အခြားတပ်မတော်တပ်သားများအား ချီးမြှင့် သည်။ စစ်မှုထမ်းကောင်း တံဆိပ် တတိယတန်းဖြင့် ချီးမြှင့် ခြင်းခံရသော တပ်မတော်သားများအတွက် အမှုတော်ထမ်း ရွက်ခြင်းမှ အငြိမ်းစားယူခွင့် ရသောအခါ အမတော်ငွေများ ဖြင့်လည်း ချီးမြှင့်သည်။

မြန်မာနိုင်ငံတွင်ဖက်ဆစ်ရန်သူတို့အားနှင်ထုတ်ပြီးနောက် နှင့် တိုင်းတပါး နယ်ချဲ့သမားတို့ အုပ်ချုပ်ခြင်းမှ လုံးဝလွတ် လပ်ရေးရပြီးနောက် ပြည်ထောင်စု မြန်မာနိုင်ငံအတွင်း ငြိမ် ဝပ် ပိပြားရေးအတွက် တိုက်ခိုက်သော စစ်ပွဲများတွင် ကျေ နပ်အောင် ထူးကဲ ကောင်းမွန်စွာ ပါဝင်တိုက်ခိုက်ကြသော ကြည်းတပ်၊ ရေတပ်၊ လေတပ်များမှ တပ်ဗိုလ် တပ်သားတို့ အား ချီးမြှင့်ရန် နိုင်ငံတော် စစ်မှုထမ်းတံဆိပ်ကို ပြဋ္ဌာန်း သည်။ ဤတံဆိပ်ကိုတပ်မတော်များမှ တပ်ဗိုလ်၊ တပ်သား များအပြင်၊မြို့ပြဘက်ဆိုင်ရာလက်နက်ကိုင်တပ်ဗိုလ်တပ်သား များကိုလည်း ချီးမြှင့်နိုင်ကြောင်း အထူးအမိန့် ပြန်တမ်း ထုတ်၍ ကျေညာနိုင်သည်။

## သတိုးသီရိသုဓမ္မ

### ကြယ်ပွင့်



(ရှေ့)



(ကျော)

### တံဆိပ်



(ရှေ့)



(ကျော)

## မဟာသီရိသုဓမ္မ



(ရှေ့)



(ကျော)

## ကြယ်ပွင့်  အဂ္ဂမဟာသရေစည်သူ  တံဆိပ်



(ရှေ့)



(ကျော)



(ရှေ့)



(ကျော)

## ကြယ်ပွင့်  သတိုးမဟာသရေစည်သူ  တံဆိပ်



(ရှေ့)



(ကျော)



(ရှေ့)



(ကျော)

## မဟာသရေစည်သူ



(ရှေ့)



(ကျော)

## သရေစည်သူ



(ရှေ့)



(ကျော)

**စည်သူ**



(ရှေ့)



(ကျော)

**စည်သူ တံဆိပ်**



(ရှေ့)



(ကျော)

**သီရိပျံချီ**



(ရှေ့)



(ကျော)

**ဇေယျကျော်ထင်**



(ရှေ့)



(ကျော)

**ဝဏ္ဏကျော်ထင်**



(ရှေ့)



(ကျော)

**အလင်္ကာကျော်စွာ**



(ရှေ့)



(ကျော)

## သိပ္ပံကျော်စွာ



(ရှေ့)



(ကျော)

## လွတ်လပ်ရေးတံဆိပ်



(ရှေ့)



(ကျော)

## ပြည်ထောင်စုရွှေတံဆိပ်



(ရှေ့)



(ကျော)

## ပြည်ထောင်စုငွေတံဆိပ်



(ရှေ့)



(ကျော)

## အမှုထမ်းကောင်းတံဆိပ် ပဌမတန်း



(ရှေ့)



(ကျော)

## အမှုထမ်းကောင်းတံဆိပ် ဒုတိယတန်း



(ရှေ့)



(ကျော)

ပြည်ထောင်စု တံဆိပ်များတွင် ပြည်ထောင်စု ရွှေတံဆိပ်နှင့် ပြည်ထောင်စု ငွေတံဆိပ်ဟူ၍ ၂ မျိုးရှိကာ၊ ယင်းတံဆိပ်များကို ရဲဌာန၊ စစ်ရဲဌာန၊ မီးသတ်ဌာန အရာရှိအမှုထမ်းများအား ချီးမြှင့်သည်။

ရဲအမှုထမ်းကောင်း တံဆိပ်များ အတွက် ရဲအမှုထမ်းကောင်းတံဆိပ် ပဌမတန်းနှင့် ရဲအမှုထမ်း ကောင်းတံဆိပ် ဒုတိယတန်းဟူ၍ တံဆိပ် ၂ မျိုးပြဋ္ဌာန်း၏။ ရဲဌာန၊ စစ်ရဲဌာနနှင့် မီးသတ်ဌာနများတွင် နှစ်ပေါင်းကြာရှည်စွာ အစိုးရကျေးဇူး သစ္စာတော်ကို စောင့်သိရိုသေလျက် ဂုဏ်ထူးရှိလောက်အောင် အမှုတော်ကို ထမ်းရွက်သူများအား ဤတံဆိပ်များကို ချီးမြှင့်သည်။

ဂုဏ်ထူး၊ ဘွဲ့၊ ဆု၊ တံဆိပ်တခုခုဖြင့် ချီးမြှင့်ခြင်းခံရသော သူတဦးတယောက်မှာ ဤကဲ့သို့ ချီးမြှင့်ခြင်း ခံရပြီးနောက် သစ္စာဖောက်မှုဖြင့် သော်၎င်း၊ အစိုးရအဖွဲ့အား တော်လှန်ပုန်ကန်မှုဖြင့်သော်၎င်း၊ စစ်တပ်ဝင်ဖြစ်လျက် သစ္စာဖောက်တော်လှန် ပုန်ကန်မှုဖြင့်၎င်း၊ အလုပ်တာဝန် ဝတ်တရားကို ဆောင်ရွက်ရာတွင် ကြောက်ရွံ့ခြင်း၊သတ္တိကင်းမဲ့ခြင်း၊စစ်တပ်မှ ထွက်ပြေးခြင်း၊ ဂုဏ်အသရေကင်းမဲ့သော အပြုအမူကို ပြုခြင်းတို့အတွက်သော်၎င်း ပြစ်မှုထင်ရှားအပြစ်ဒဏ်ထားခြင်းခံရလျှင်၊ မိမိရရှိပြီးသော ဂုဏ်ထူး၊ ဘွဲ့၊ ဆု၊ တံဆိပ်ကို ပြန်လည် သိမ်းဆည်းခြင်း ခံရမည်ဖြစ်သည်။ ပြန်လည်သိမ်းဆည်းထားသော ဂုဏ်ထူး၊ ဘွဲ့၊ တံဆိပ်ကို ပြည်ထောင်စုမြန်မာ နိုင်ငံတော် သမတက မိမိသဘောအလျောက် ရရှိသူအား ပြန်လည်ပေးအပ်နိုင်ခွင့် ရှိသည်။

အဆောင်အယောင်များကား သုဓမ္မသင်္ဂဟအဖွဲ့တွင် အဂ္ဂမဟာသီရိသုဓမ္မ အတွက် စလွယ်၊ ကြယ်ပွင့်နှင့် တံဆိပ်တို့ကို၎င်း၊ သတိုးသီရိသုဓမ္မအတွက် ကြယ်ပွင့်နှင့် တံဆိပ်တို့ကို၎င်း၊ မဟာသီရိ သုဓမ္မအတွက် တံဆိပ်ကို၎င်း ပြဋ္ဌာန်းသည်။ ပြည်ထောင်စု စည်သူ သင်္ဂဟအဖွဲ့တွင် အဂ္ဂမဟာသရေစည်သူ အတွက် ကြယ်ပွင့်နှင့် တံဆိပ်တို့ကို၎င်း၊ သတိုးမဟာသရေစည်သူအတွက် ကြယ်ပွင့်နှင့် တံဆိပ်တို့ကို၎င်း၊ မဟာသရေစည်သူ၊ သရေစည်သူနှင့် စည်သူအတွက် တံဆိပ်များကို၎င်း ပြဋ္ဌာန်းသည်။ ဘွဲ့ရသူတို့အား ရွှေ ၃ ကျပ်သားထက်မနည်း ပါဝင်သောရွှေတံဆိပ်များ ချီးမြှင့်သည်။

အဆောင်အယောင်တို့ကို ပြဋ္ဌာန်းထားသည်နှင့် အညီ ဝတ်ဆင်ရပေသည်။ နိုင်ငံခြားအစိုးရများက ပေးသော ဘွဲ့၊ ဆု၊ တံဆိပ်များအတွက် ဖဲကြိုးများကို ပြည်ထောင်စု မြန်မာ နိုင်ငံတော်အစိုးရက ပေးသောဘွဲ့တံဆိပ်များအတွက် ဖဲကြိုးများနောက် ပြီးဆုံးမှ တပ်ဆင်ရန် ပြဋ္ဌာန်းထားသည်။

**ဘွဲ့သီချင်း။** ။ကြိုး၊ ဘွဲ့၊ သီချင်းခံ၊ ပတ်ပျိုး အစရှိသည့် မြန်မာသီချင်းကြီးများ၏ အမည်နာမအခေါ် အဝေါ်များအနက် "ဘွဲ့"ဟူသော ဝေါဟာရမှာ "တျာဘွဲ့"၊ "တျာသံဘွဲ့"ဟူသော ဝေါဟာရစကားကို အတိုကောက်ခေါ်ဝေါ် သုံးပွဲကြရာမှ ဆင်းသက်ပေါက်ပွားလာသောဝေါဟာရဖြစ်လေသည်။ ရှေးသီချင်းများနှင့် စပ်လျဉ်း၍ မှတ်သားခဲ့ကြသောရှေးပေပုရပိုက်များကို လေ့လာကြည့်ရှုမည်ဆိုပါက "ဘွဲ့"ဟူ၍ အတိုကောက် ရေးသားသော အသုံးအနှုန်းများ အလွန် နည်းပါးလျက် "တျာဘွဲ့"၊ "တျာသံဘွဲ့" ဟူ၍သာ သုံးနှုန်းရေးသားကြသည်ကို တွေ့ရှိရပေမည်။ သို့သော် ဆင်ဖြူရှင် မင်းလက်ထက်၊ စလင်းစာဆိုတော် ရွှေတောင်နန္ဒသူ ရေးသားခဲ့သည့် ငွေတောင် ရကန်၌ "လူယဉ်လူကြွ၊ ဆိုသမျှမှာ၊ တေးတျာကြိုးဘွဲ့၊ တကဲ့မင်းသုံး၊ နှုတ်ယဉ်သည့် ထုံးမှာ၊ နှလုံးမွေ့လျော်အံ့" ဟူ၍ သီကုံး စပ်ဆိုခဲ့သည်ကို ထောက်ထားလျက် "ဘွဲ့" ဟူသော အတိုကောက် အသုံးအနှုန်းမှာလည်း မည်မျှလောက် ရေးကျသည်ကို ခန့်မှန်းနိုင်ပေသည်။ "တျာဘွဲ့" ၏ အနက် အဓိပ္ပါယ်နှင့်စပ်လျဉ်းလျှင်"တျာ"၏ အနက်မှာ တီးမှုတ်ခြင်း ဖြစ်၍ "ဘွဲ့" ၏ အနက်မှာ ဖွဲ့နွဲ့ခြင်းပင် ဖြစ်သည်။ ထိုကြောင့် "တျာဘွဲ့" ၏ အနက်မှာ "ဖွဲ့ဖွဲ့နွဲ့နွဲ့တီးမှုတ်ခြင်း" ဟူ၍ အဓိပ္ပါယ် ရရှိလေသည်။

ဘွဲ့သီချင်းများသည် ပုဂံခေတ်အခါလောက်ကပင် ပေါ်ပေါက် ထွန်းကားနေပြီဟု ယူဆရသည်။ ယခုခေတ် ကြွင်းကျန်ခဲ့သော ဘွဲ့သီချင်းများအနက်၊ သက္ကရာဇ် ၆၇၄ ခုနှစ်တွင် ပင်းယ၌ နန်းတက်တော်မူသော သီဟသူမင်းလက်ထက်တွင် ရေးသားသည်ဟု မိုးလှိုင်ကိုယ်တော် ပေမူတွင် တွေ့ရှိရသည့် အောက် ဖော်ပြပါ ဘွဲ့သီချင်းမှာ ရှေးအကျဆုံး ဘွဲ့သီချင်းတပုဒ်ဟူ၍ ယူဆရသည်။

ခါးပတ်တော်မှာ ရွှေခြည်စုံ၊ မှိုင်းလုံး ရွှေဝတ်လုံ။ ။ မလုံသာ ချမ်းအေးမြ။ ။မိုးသောက်ထ ရောင်ဖြူလာ တယ်ကို၊ ထိပ်ပန်းပန်ငယ်၊ မြင်းခင်း ကြွပါလို့လေး။ ။ အလှငယ်လာမည့် လမ်းငယ်ကို၊ မျှော်ယောင်တမ်းလို့လေး။ ။ရမန် ရမန်လယ်တွင်၊ မြင်ပါလိုက်ကဲ့ မယ့်ထိပ်တင်၊ မြင်းတဲ့ မြင်းဖြူရှင်။ ။သျှောင်တွင်လေ တင့်ဆုံး၊ နားမှာသာ ပန်းကြက်ရုံးငယ်နှင့် လေး။ ။သျှောင်လုံးနားတွင် အပြည့်သာဆင်၊ မြင်ပင် မြင်လိုက်ပါစလေ၊ မြင်ပင် မြင်လိုက်ပါစလေး။ ။ရွှေနန်း ငွေနန်းသူ၊ငယ်မူ ငယ်ရာ သားနှင့်၊ သနားချစ်စရာ။ ။

အထက်ပါ ဘွဲ့သီချင်း၏ သီကုံးစပ်ဆိုထားသော သီချင်းအပိုဒ်အနေအထားများကို လေ့လာကြည့်လျှင်၊ သီချင်းမချမီ အပိုဒ် ၃ ပိုဒ်သည်"အတိုင်းမသိ ဘုန်းတော်ကြီးပါဘိသကို" အစချီ ဝတ်တော်ရုံဘွဲ့ သီချင်းနှင့် "တရေးမက မိုးသောက်ထငယ်ကို" အစချီ ဝတ်တော်ရုံဘွဲ့ သီချင်းနှစ်ပုဒ်တို့၏ သီချင်းမချမီ အပိုဒ် ၃ ပိုဒ်အလိုက် တေးသွားများကဲ့သို့ ဆင်တူယိုးမှားအလိုက် တေးသွားများ ဖြစ်နိုင်ရုံမျှမက၊ သီချင်း

အချ "ရွှေနန်းငွေနန်းသူ၊ ယယ်မူငယ်ရာသားနှင့်၊ သနားချစ်စရာ" ဟူသော အပိုဒ်မှာလည်း အဆိုပါ ဝတ်တော်ရုံဘွဲ့ သီချင်း ၂ ပုဒ်၏ အချပိုဒ်များနှင့် စာသားများ ထပ်တူ ထပ်မျှ ဖြစ်နေသည်ကို တွေ့ရှိရသောကြောင့်၊ အထက်ပါ "ခါးပတ်တော်မှာ ရွှေခြည်စုံ" အစချီ ဘွဲ့ သီချင်းမှာ ဝတ်တော်ရုံဘွဲ့သီချင်းဟူ၍ ယူဆရသည်။

ရှေးကျသော ဘွဲ့သီချင်းများကို လေ့လာရာတွင် သက္ကရာဇ် ၇၂၆ ခုနှစ် အင်းဝသတိုးမင်းဖျားလက်ထက် အမည်မသိ စာဆိုတော်တဦး ရေးသားခဲ့သည့် အောက်ဖော်ပြပါ ဘွဲ့သီချင်းမှာလည်း ရှေးအကျဆုံး ဘွဲ့သီချင်းတပုဒ်ပင် ဖြစ်သည်။

ဆိတ်စာငယ်လေ မှတ်တမ့်။ ငြိုးငွေ့၍သာ။ စက်မေ့ရာ။ မေးကာ ပျော်မိခဲ့သည့်နှင့်လေ။ ။မင်းပျို နွဲ့ငယ်ကို။ တကယ်နိုင်လို။ မြင်းညိုကြီးငယ်နှင့်။ ။သူရောက်ကယ်ကြွဝင်။ ပျော်ရှင်နှစ်သက်။ ယဉ်ပါလှတယ် မွေ့ရာ။ တတောင်ထွာ အသာနွဲ့၍ စက်သည်နှင့်လေး။ ။သည်ဖြစ်ချက်ကယ်ကြောင့်။ အိပ်မက်ကယ်နှင့်ပင်၊ ထင်ပြန်မိတော့သည်။ သည်ဖြစ်ချက်ကယ်ကြောင့်။ အိပ်မက်ကယ်နှင့်ပင်၊ ထင်ပြန်မိတော့သည်။ ။

အထက်ပါ ဘွဲ့သီချင်း စပ်ဆိုသီကုံးထားသော အပိုဒ်အနေအထားများကို လေ့လာစစ်ဆေး ကြည့်ရှုမည် ဆိုပါက၊ ဝန်ကြီး ပဒေသရာဇာနှင့် ကုန်းဘောင်ခေတ် စာဆိုတော်များ စပ်ဆို သီကုံးခဲ့သည့် ဘွဲ့သီချင်းအလိုက် တေးသွားအပိုဒ်မျိုးအတိုင်း ထပ်တူထပ်မျှ စပ်ဆိုထားသည်ကို တွေ့ရှိရပေမည်။ ထို့ပြင် ဝန်ကြီး ပဒေသရာဇာနှင့်တကွ ကုန်းဘောင်ခေတ် စာဆိုတော်များ စပ်ဆိုခဲ့သော "မိုးဦးကာလ" အစချီ တောင်တက်ပိန်းဝင် တျာဘွဲ့၊ "ဥကင်ဘုံမြင့်" အစချီ ပလ္လင်ရှစ်ခန်းနှင့် ဥကင်တော်ဘွဲ့၊ "မင်္ဂလာသီရိ" အစချီ မန္တလေးမြို့တော်ဘွဲ့ စသည့် အချို့ ဘွဲ့သီချင်းမျိုးများ၏ အလိုက် တေးသွားများမှာ မိမိတို့ကိုယ်ပိုင်ဉာဏ်ဖြင့် တီထွင် စပ်ဆိုထားသော ဘွဲ့သီချင်းများ မဟုတ်ဘဲ၊ ရှေးက ရေးသား စပ်ဆိုပြီးဖြစ်သော ဘွဲ့သီချင်းအလိုက် တေးသွားများကို ထပ်တူလိုက်၍ အပိုဒ်များ ချဲ့ထွင်လျက် ရေးသားခဲ့ကြောင်း သိသာထင်ရှားလေသည်။

ယနေ့ ကျန်ရှိနေသော ဘွဲ့သီချင်းများအနက် အလိုက်တေးသွားအားဖြင့် ဘွဲ့သီချင်း အမျိုးအစားများကို အကြမ်းခွဲခြား ကြည့်မည် ဆိုပါက၊ (၁) မြဝတီ မင်းကြီးရေးသားခဲ့သော "ဥကင်ဘုံမြင့်" အစချီ ပလ္လင်ရှစ်ခန်းနှင့် ဥကင်တော်ဘွဲ့ သီချင်းအမျိုးအစား၊ (၂) "ဂန္ဓမာတောင်" အစချီ မဥ္ဇူသကနတ်ပန်းဘွဲ့ သီချင်းအမျိုးအစား၊ (၃) သုံးထပ်ဘွဲ့ သီချင်း အမျိုးအစားနှင့် (၄) ဝတ်တော်ရုံဘွဲ့ သီချင်းအမျိုးအစားဟူ၍ ၄ မျိုးလောက်သာလျှင် တွေ့ရှိရပေသည်။ အချို့ မြဝတီမင်းကြီး ရေးသားခဲ့သော ဘွဲ့သီချင်းအလယ်တွင် ရတုညှပ်၍ စပ်ဆိုခဲ့သည့် "မန္တလာဘုံ" အစချီ မန္တလေးဘွဲ့ သီချင်းမျိုး၊ သီချင်းအလယ်တွင် သံထောက်ညှပ်၍ စပ်ဆိုခဲ့သည့် "ဩဘာမင်္ဂလာ" အစချီ ဘုန်းတော်ဘွဲ့ သီချင်းမျိုးနှင့် သီချင်းအချတွင် သဖြန်ဖြင့် ချသည့် ဘွဲ့သီချင်းမျိုး သုံးလေးပုဒ်လောက်သာလျှင် အနည်းငယ် ထူးခြားစွာ စပ်ဆိုထားသည်ကို တွေ့ရှိရသည်။

အထက်ပါ ဘွဲ့သီချင်းအမျိုးအစား ၄ မျိုးအနက်၊ သုံးထပ်ဘွဲ့သီချင်း အမျိုးအစားမှာ "ဥကင်ဘုံမြင့်" အစချီဘွဲ့ ရိုးရိုး အမျိုးအစားနှင့် အလိုက် တေးသွားအားဖြင့် သိသိသာသာ ကွဲပြားခြားနားအောင် စပ်ဆို သီကုံးထားသော သဘောမျိုး မဟုတ်ဘဲ၊ ဘွဲ့ရိုး အက္ခရာအသံ ကာရန် ၂ လုံးနေရာ၌ ၃ လုံးထပ်၍၊ ကာရန် အနေအထားအားဖြင့် တမျိုးတဖုံ တီထွင် စပ်ဆိုထားခြင်းသာ ဖြစ်လေသည်။ ဘွဲ့ရိုးနှင့် သုံးထပ်ဘွဲ့တို့၏ အချီနှင့် အချပိုဒ်များတွင် အက္ခရာအသံ ကာရန် အနေအထား ကွဲပြားခြားနားချက်ကို နှိုင်းရှည့်လေ့လာကြည့်မည် ဆိုပါက၊ သုံးထပ်ဘွဲ့ သီချင်းအမျိုးအစား စပ်ဆိုသီကုံးပုံကို ရိပ်စားနိုင်ပေမည်။

### အချီပိုဒ်

| ဘွဲ့ရိုး | သုံးထပ်ဘွဲ့ |
|---|---|
| (၁) ဥကင်ဘုံမြင့်၊ | (၁) ရွှေဘုန်းပွင့်၊ နေနှုန်းမြင့်၊ |
| (၂) သီဟာဘွေ့၊ | (၂) တောက်ထိန်ပြောင်၊ |
| (၃) စိန်ကြောင်ရောင်လင်း၊ | (၃) မန်းဂီရိ-ဆန်းညီညို၊ |
| (၄) သစ်မင်း ယမနေ။ ။ | (၄) နန်းသီရိ လကျ်ာ တောင်။ ။ |

### အချပိုဒ်

| ဘွဲ့ရိုး | သုံးထပ်ဘွဲ့ |
|---|---|
| (၁) ဆောင်ဆောင်နန်းငယ်နှင့် | (၁) ရွှေမိုးငွဲ့-ငွေမိုး၊ |
| (၂) လေးခန်းငယ် ဒီပါ၊ | (၂) ထစ်ကြိုးငယ် ပွဲ့တင်၊ |
| (၃) ချုပ်ကာစိုးရလေ။ ။ | (၃) ထက်ခွင်ကျင်းတော့ သည်။ ။ |

သုံးထပ်ဘွဲ့ သီချင်းမျိုးများသည် အလောင်းဘုရားလက်ထက်ကပင် ထွန်းကားပေါ်ပေါက် နေပြီ ဖြစ်ကြောင်း သိရှိရသည်။ ယနေ့ ကျန်ရှိနေသော ဘွဲ့သီချင်းများအနက်၊ "ရွှေဘုန်းပွင့် - နေနှုန်းမြင့်" အစချီ အလောင်းဘုရား ယိုးဒယား ချီတော်မူသည့် အကြောင်းနှင့် စပ်လျဉ်း၍ သီကုံးထားသော ဘွဲ့သီချင်းနှင့် "ရွှေဘုန်းတော်-နေနှုန်းလျှော်" အစချီ ဦးလွန်းပြေ ရေးသားစီကုံးခဲ့သော ဘွဲ့သီချင်း ၂ ပုဒ်လောက်သာလျှင် တွေ့ရှိရခြင်း အားဖြင့် သုံးထပ်ဘွဲ့သီချင်းများသည် ဘွဲ့ရိုးသီချင်းများလောက် ခေတ်မစားဟု ယူဆရသည်။

ဝတ်တော်ရုံဘွဲ့ သီချင်းမျိုးများသည် အခြားဘွဲ့ သီချင်း

မျိုးများနှင့် အလိုက် တေးသွား အားဖြင့် လုံးဝမတူ၊ တမူ ကွဲပြား ခြားနားရုံမျှမက၊ သီချင်း အချီပိုဒ်များ၌ အများ အားဖြင့် အခြား ဘွဲ့သီချင်း အချီပိုဒ်မျိုးများကဲ့သို့ အတွဲ ၂ ချက်စည်းမျိုးဖြင့် မစဘဲ၊ ကြိုးသီချင်းအချီပိုဒ်များ၌ကဲ့သို့ နရည် တချက်စည်းဖြင့် တခါတည်း စတင် သီဆိုတီးမှုတ်ကြရသည်။ ထို့ကြောင့် ဝတ်တော်ရုံဘွဲ့သီချင်းများကို အချို့ပညာရှင်များက တချက်စည်းဖြင့် ကြိုးသီချင်းသဘောကဲ့သို့ သီဆိုတီးမှုတ်သော အလေ့အထများ ထွန်းကားပေါ် ပေါက်လာခဲ့ရလေသည်။ ထို့ပြင် ဝတ်တော်ရုံဘွဲ့များ စပ်ဆိုသီကုံးကြရာ၌ သီချင်းအပိုဒ် တိုဘိုတုတ်တုတ် စပ်ဆိုသီကုံးခဲ့ခြင်းမှာ အခြား ဘွဲ့သီချင်းများထက် ထူးခြားချက်တရပ်ပင် ဖြစ်လေသည်။ ဝတ်တော်ရုံ ဝေါဟာရ ခေါ် တွင်ခဲ့ခြင်းနှင့် စပ်လျဉ်း၍ "ခေါ်ပါယောင်နှင့် မျှော်ပါယောင်လေ" အစချီသီချင်းနှင့် "တရေးမက သန်းကောင်၊ မိုးသောက်ထယ်ကို" အစချီသီချင်း ၂ ပုဒ်ကို အထောက်အထားပြုလျက်၊ လှိုင်ထိပ်ခေါင်တင် မင်းသမီးသည် အိမ်ရှေ့မင်း အဆောင်တော်သို့ မကြွလာသဖြင့် စိန်ခြူးကြာညောင်ဘောလယ် ရေးသားဆက်သွင်းသကဲ့သို့ နန်းတွင်းသူ တဦးသည် အလည်ကြူးနေသော မိမိ၏ လင်တော်မောင် အပြန်ကို စောင့်မျှော်နေရင်း၊ တကိုယ်တည်း အလွန် ချမ်းအေးလွန်းသဖြင့် အဝတ်များ အထပ်ထပ် ခြုံရရုံရသည့်အကြောင်း စပ်ဆို သီကုံးဖွဲ့နွဲ့ရာမှ ဝတ်တော်ရုံဟူသော ဝေါဟာရ ထွန်းကားပေါ် ပေါက်လာခဲ့သည်ဟု ယူဆရသည်။ယနေ့အထိ ရှေးဝတ်တော်ရုံဘွဲ့ သီချင်း ၅ ပုဒ်လောက်သာလျှင် ရှာဖွေ တွေ့ရှိရသည်။ ဘွဲ့သီချင်းများအနက် ဝတ်တော်ရုံဘွဲ့ သီချင်း အမျိုးအစားများသည် ရှေးအကျဆုံးဟူ၍ ယူဆရသည်။

ဘွဲ့သီချင်းများကို စပ်ဆို သီကုံးကြရာ၌ အခြား သီချင်းများ စပ်ဆိုကြသည့်နည်းတူ အကြောင်း အရာမျိုးစုံတို့ကို ဖွဲ့နွဲ့သီကုံး ရေးသားသည်ကို တွေ့ရှိရငြားသော်လည်း၊ ကုန်းဘောင်ခေတ် ဘွဲ့သီချင်းများသည် အများအားဖြင့် ဘုရင်နှင့် သက်ဆိုင်ရာ မင်းခမ်းမင်းနား ပွဲသဘင်များနှင့် ဘုရင့်အသုံးအဆောင် ပစ္စည်းများ အကြောင်းအရာနှင့် စပ်လျဉ်း၍ ဥကင်တော်ဖွင့် အခမ်းအနားဘွဲ့၊ ပလ္လင်ရှစ်ခန်းနှင့် ဥကင်တော်ဘွဲ့၊ ထီးရှစ်စင်းဘွဲ့၊ လကျ်ာမင်းခမ်းတော်ဘွဲ့၊ လက်ဝဲမင်းခမ်းတော်ဘွဲ့၊ မင်းခမ်းအလံခုနစ်စင်း ရွှေတံခွန်ဘွဲ့၊ မင်းခမ်းတော်စုံဘွဲ့၊ မြို့တော်တံခါး ဆဲ့နှစ်ရပ်ဘွဲ့၊ လယ်ထွန်မင်္ဂလာဘွဲ့၊ နားထွင်းမင်္ဂလာဘွဲ့၊ ဆံထုံးတော်မင်္ဂလာဘွဲ့၊ သင်္ကြန်တော်ဘွဲ့၊ ရေသဘင်ဘွဲ့၊ ငါးသိုင်းဘွဲ့၊ မြင်းခင်းတော်ဘွဲ့၊ ဂူလီသဘင် မြင်းခင်းတော်ဘွဲ့၊ နတ်ကြီး ဆဲ့ငါးပါး ပူဇော်သဘင်ဘွဲ့၊ မုန်စီဆိုင်းဝိုင်းတော်ဘွဲ့၊ စောင်းတော်ဘွဲ့ အစရှိသည့် ဘွဲ့သီချင်းမျိုးများ အများအပြား ထူးခြားစွာ စပ်ဆိုသီကုံးခဲ့ကြသည်ကို တွေ့ရှိရလေသည်။

စာဆိုတော် ဝန်ကြီးပဒေသရာဇာ၊မြဝတီဝန်ကြီး၊ပြင်စည်မင်းသား၊ ဦးလွန်းပြေ၊ မယ်လုပ် တို့သည် ဘွဲ့သီချင်းများ သီကုံးစပ်ဆိုရာတွင် အထူးခြားဆုံး စာဆိုတော်များဟု ဆိုရပေမည်။ ဝန်ကြီး ပဒေသရာဇာ သီကုံး ဖွဲ့ဆိုခဲ့သော ဘွဲ့သီချင်းများမှာ မင်းခမ်းမင်းနား အကြောင်းအရာများနှင့် စပ်လျဉ်း၍ ဖွဲ့ဆိုထားသော ဘွဲ့သီချင်းမျိုးများမဟုတ်ဘဲ၊ ဆင်းရဲသားတောသူ တောင်သား၊ လယ်သမား၊ လှေထိုးသား၊ ထန်းတက်သမား စသည်များ၏ ဆင်းရဲပင်ပန်းကြီးစွာ ရှာဖွေလုပ်ကိုင်စားသောက်နေထိုင် နေကြရသော ဘဝသရုပ်ဖော် အကြောင်းအရာများကို ကွက်ကွက် ကွင်းကွင်း ဖွဲ့နွဲ့စပ်ဆိုခဲ့သည့် သီချင်းများသာ ဖြစ်လေသည်။ မြဝတီဝန်ကြီးသည် မင်းခမ်းမင်းနားနှင့် စပ်ဆိုင်သည့် ပွဲသဘင်အကြောင်း အရာများသာမက၊ဘုန်းတော်ဘွဲ့၊ မြို့ဘွဲ့၊ ကန်ဘွဲ့၊ ပန်းဘွဲ့၊ ရာသီဘွဲ့၊ အလွမ်းဘွဲ့၊ မယ်ဘွဲ့စသည့်အကြောင်းအရာများနှင့် စပ်လျဉ်း၍ စာဆိုတော်များအနက် ဘွဲ့သီချင်းများကို အများဆုံး သီကုံးစပ်ဆိုသွားခဲ့ လေသည်။ ပြင်စည်မင်းသားနှင့် ဦးလွန်းပြေတို့မှာ ဘုန်းတော်ဘွဲ့၊ မင်းခမ်းမင်းနားဘွဲ့၊ မြို့တော်ဘွဲ့၊ ကန်ဘွဲ့ စသည့်အကြောင်းအရာမျိုးစုံ ဘွဲ့သီချင်းများစပ်ဆိုခဲ့ကြသော်လည်း၊ မြဝတီဝန်ကြီး စပ်ဆိုခဲ့သော ဘွဲ့သီချင်းများနှင့် အရေအတွက် အားဖြင့် နှိုင်းစာလျှင် အလွန်နည်းပါးလှသည်။ အမျိုးသမီး စာဆိုတော် မယ်လုပ်ရေးသား သီကုံးခဲ့သောဘွဲ့သီချင်းများအနက်မင်းကွန်းခေါင်းလောင်းတော်ဘွဲ့သီချင်း ၃ ပုဒ်နှင့် ဓားသိုင်းဘွဲ့ ၄ ပုဒ်တို့မှာ အကြောင်းအရာအားဖြင့် ထူးခြားစွာ စပ်ဆိုသီကုံးထားသည်ကို တွေ့ရှိရသည်။ ယော်တိုးဝန်၊ သံတော်ဆင့် ဦးအောင်ပန်း၊ ဦးမင်းအောင်၊ ဝတ်မြေဝန်တို့သည်လည်း ဘွဲ့သီချင်းများ အနည်းအကျဉ်း စပ်ဆို သီကုံးခဲ့ကြသည်ကို တွေ့ရှိရသည်။

ဘွဲ့သီချင်းများကို သီဆိုတီးမှုတ်မည်ဆိုပါက အဆိုတော် မသီဆိုမီ တဲ့ဖက်တီးမှုတ်မည့်သူက "ဘွဲ့ခံ" ဟု ခေါ်သော တီးလုံး ပဌမတီးမှုတ်လေ့ ရှိသည်။ "ဘွဲ့ခံ" တီးလုံးဆုံးမှသာလျှင် သီဆိုသူက ဘွဲ့သီချင်းကို သီဆိုရသည်။ ဘွဲ့ရိုးသီချင်း မသီဆိုမီ တီးမှုတ်ရသော ဘွဲ့ခံတီးလုံးနှင့် ဝတ်တော်ရုံဘွဲ့ အမျိုးအစား မသီဆိုမီ တီးမှုတ်ရသော ဘွဲ့ခံတီးလုံးတို့သည် အလိုက်တေးသွားအားဖြင့်၎င်း၊ နရည် စည်းဝါးအားဖြင့်၎င်း ကွဲပြားခြားနားလှပေသည်။ ဘွဲ့သီချင်းအပိုဒ်တပိုဒ် ဆုံးတိုင်း တီးမှုတ်ရသော အတောကို "ဘွဲ့တော" ဟူ၍ သီးခြားခေါ်ဝေါ် သတ်မှတ်ထားရှိလေသည်။ ဘွဲ့သီချင်းကို စောင်းဖြင့် သီဆိုတီးမှုတ်မည်ဆိုလျှင် သံရိုးသံစဉ်ဖြင့်သာလျှင် သီဆိုတီးမှုတ်လေ့ရှိသည်။ဘွဲ့သီချင်းဆုံးလျှင် ကြိုးသီချင်းကိုဆက်လက် သီဆိုတီးမှုတ်လေ့ရှိသည်။ ယခုခေတ်အခါတွင် ဘွဲ့သီချင်းများကို အထူးသဖြင့် မင်္ဂလာအခမ်းအနားများ၌သာလျှင် သီဆိုတီးမှုတ်လေ့ရှိကြသည်။ ဦးမြဦး



မြန်မာဗျည်း ၃၃ လုံးတွင် မ သည် ၂၅ ခုမြောက်အက္ခရာဖြစ်သည်။ ပ၊ ဖ၊ ဗ၊ ဘ၊ မ ဟူသော ပ ဝဂ်တွင် ပါဝင်၍ မ အသံ၏ဖြစ်ရာဌာနမှာ ဩဋ္ဌဌာန် နှုတ်ခမ်းအရပ်ဖြစ်သည်။ မ ကို မ ဟူ၍ ပင်အသံထွက်သည်။မ အရေးအသား၏ မူလမှာ ဗြာဟ္မီ အက္ခရာ ဖြစ်သည်။ ဗြာဟ္မီ မှ ကုသန ဂုတ္တ ကဒံဗ သို့ အဆင့်ဆင့် ပြောင်းလဲလာပြီး နောက်၊ ကျောက်စာများတွင် နှင့် ပေစာများတွင် ဟု ရေးသားသည်ကို တွေ့ ရသည်။ဗြာဟ္မီအရေးအသား ကို တဖြည်းဖြည်းရေးဖန်များ၍ လေးထောင့် ကျောက် စာတွင် ထွင်းသောအခါ ဖြစ်လာ၏။ ထိုမှတဆင့် ယခု ရေးနေကြသော မြန်မာ အက္ခရာ မ ဖြစ်ပေါ်လာသည်။ မ အက္ခရာ၏ အဆင့်ဆင့် ပြောင်းလဲပုံကို အောက်တွင် အစဉ်အတိုင်းယှဉ်တွဲ၍ ပြထားသည်။

**မကောကြက်တူရွေး။** ။မကော ကြက်တူရွေးသည် ကြက်တူရွေးမျိုးရင်းတွင် ပါဝင်၍ ရိုးရိုး ကြက်တူရွေးထက် အကောင်ကြီးကာ အမြီးရှည်ပြီးလျှင် အရောင်အဆင်းမှာ ပို၍ လှပတောက်ပြောင်လေသည်။ အခွံမာသော သစ်သီးဝလံများကို စားလေ့ရှိသဖြင့် ကြီးမားချွန်ထက်၍ ကောက်ကွေးသောနှုတ်သီးရှိ၏။ မကောကြက်တူရွေးဟု ခေါ်ခြင်းမှာ တောင်အမေရိကတိုက် ဗရာဇီးနိုင်ငံတွင် ပေါက်ရောက်သော "မကော" ဟု ခေါ်သည့် အုန်းပင်တမျိုးမှ အသီးကို အမြဲ စားတတ်သောကြောင့် ဖြစ်သည်။

မကောကြက်တူရွေးကို တောင်အမေရိကတိုက်နှင့် ကျူးဗားကျွန်းတို့၌ တွေ့ရှိနိုင်သည်။ မြန်မာနိုင်ငံတွင် ထိုကြက်တူရွေးမျိုး မရှိပေ။ ယင်း၏ အရောင်အဆင်းမှာ တမျိုးတည်းမဟုတ်၊ ကျက်စားနေထိုင်သည့် ဒေသကိုလိုက်၍ ခြားနားမှုရှိသည်။ ပနားမားနိုင်ငံ အရှေ့ပိုင်းမှ ဗရာဇီးနိုင်ငံအလယ်ပိုင်း စပ်ကြားရှိ ဒေသများတွင် တွေ့ရှိနိုင်သော မကောကြက်တူရွေးများ၏အရောင်အဆင်းမှာ အပေါ်ပိုင်းတွင် အပြာရောင်ဖြစ်၍ အောက်ပိုင်းတွင် အဝါရောင်ဖြစ်၏။ တောင်အမေရိကတိုက် ပါရာဂွေးနိုင်ငံမြောက်ပိုင်းရှိမကောကြက်တူရွေးမျိုးမှာမူကား အပေါ်ပိုင်း၌ အပြာရောင်ဖြစ်၍ အောက်ပိုင်းတွင် လိမ်မော်နီရောင် ဖြစ်သည်။ အလျားမှာ ပျမ်းမျှ လက်မ ၃၀ ကျော်သည်။

မကောကြက်တူရွေးများသည် ခရီးဝေးကို တဆက်တည်း ပျံသန်းနိုင်ကြ၏။ အသံမှာ ကျယ်လောင် စူးရှလှ၍ သူတို့ ရှိမှန်းကို အသံဖြင့် အဝေးကပင် သိနိုင်သည်။ အစုလိုက် အအုပ်လိုက် နေထိုင်တတ်ကြသော်လည်း၊ မိတ်လိုက်ရာတွင် အဖိုအမတကောင်တည်းကိုသာ အာရုံပြုတတ်သော အလေ့အထ ရှိလေသည်။

**မကောလေး၊လော့** ( ခရစ် ၁၇၀၀–၁၇၅၉)။ ။လူတဦးတယောက်သည် မှတ်ဉာဏ် အလွန်ကောင်းပါသည်ဟု ဆိုစေကာမူ ထိုသူသည် မကောလေးအား မှီနိုင်မည်မထင်။ မကောလေးကား ထူးထူးချွန်ချွန် မှတ်ဉာဏ်ကောင်းသူ ဖြစ်သောကြောင့် ကမ္ဘာကျော်ခဲ့လေသည်။

သူသည် စာအုပ် တအုပ်ကို တခေါက်တည်းဖတ်ရရုံနှင့် ထိုစာအုပ်အတိုင်း တသွေမတိမ်း အလွတ်ပြန်ဆိုပြောပြနိုင်သည်။ ဤမျှ မှတ်ဉာဏ် ကောင်းပေသည်။ ထိုပုဂ္ဂိုလ်ကြီးကား အင်္ဂလိပ်စာပေသမိုင်းနှင့် အင်္ဂလန်နိုင်ငံသမိုင်းတွင် စာရေးဆရာကြီးအဖြစ်ဖြင့်၎င်း၊ နိုင်ငံပြု သုခမိန်အဖြစ်ဖြင့်၎င်း ထင်ရှားကျော်စောခဲ့သော လော့ တောမတ် ဗက်ဗင်တန် မကောလေးပင်တည်း။

မကောလေးသည် ၁၇၀၀ ပြည့်နှစ်တွင် ဖွားမြင်၍ ဖခင်မှာ ဇက်ခါရီမကောလေးဆိုသူ စကော့လူမျိုးဖြစ်၏။ မကောလေး၏ ဖခင်သည် စိတ်ဓာတ်ပြင်းထန်သော လူမှုပြုပြင်ရေးသမားတဦးဖြစ်၍၊ ငွေဝယ်ကျွန်စံနစ်ကို လွန်စွာ စက်ဆုပ်မုန်းတီးသူဖြစ်သည့်အတိုင်း၊ ထိုစံနစ်ကို တိုက်ဖျက်ယင်းပင် ဥစ္စာပစ္စည်း ဆုတ်ယုတ် ပျက်စီးခဲ့လေသည်။

မကောလေး၏ ဖခင်သည် မကောလေးအား ငယ်ရွယ်စဉ်ကပင် အထူးဂရုစိုက်၍ ပညာသင်ကြားပေးခဲ့သဖြင့် မကောလေးသည် ၃ နှစ်သားအရွယ်ကပင် စာဖတ်ဝါသနာထုံခဲ့၏။နေအိမ်ညှော့ခန်းကော်ဇောကြီးပေါ်တွင် အလျားမှောက်လျက် လက်တဖက်မှ ပေါင်မုံ့ထောပတ်သုတ် တချပ်ကိုကိုင်ယင်း စာဖတ်လေ့ရှိသော မကောလေးကလေးအား ဧည့်သည်များက တွေ့မြင်ရသည့်အခါ ထိုကလေး၏ စာဖတ်ဝါသနာကြီးပုံကို အံ့သြချီးမွမ်းကြလေသည်။

စကားပြောရာတွင်လည်း ကလေးနှင့်မမျှအောင် ခမ်း



အင်္ဂလန်နိုင်ငံ သမိုင်းပြုစုရာတွင် ကျော်ကြားသူ လော့ မကောလေး

နားသော စာပေစကားတို့ကို ပြောလေ့ ရှိသဖြင့် မိခင်ဖခင်တို့သည် သားငယ်ကလေးအား အထူးပင် ချစ်ခင် ကြသည်။

မကောလေးသည် အတန်ကြီးပြင်း လာသောအခါ ကိမ်းဗရစ်တက္ကသိုလ်တွင် ပညာများ ဆည်းပူးခဲ့ရာ၌ သင်္ချာဘာသာမှတပါး ကျန်ဘာသာရပ်အားလုံးတွင် ထူးချွန်ခဲ့လေသည်။ သင်္ချာဘာသာကိုကား သူသည် ကလေးအရွယ်ကပင် ဝါသနာမပါခဲ့ပေ။ တက္ကသိုလ်သို့ မရောက်မီ မူလတန်းကျောင်း၌နေရစဉ်ကပင် ကျောင်းတက်နေရသဖြင့် စာဖတ်ချင်တိုင်း မဖတ်ရသည့်အပြင် သူစိတ်မဝင်စားသော အတွက် အချက်ပုစ္ဆာများကို ဖြေနေရသဖြင့် ကျောင်းသွားရန်ကိုပင် ပျင်းရိခဲ့လေသည်။ ထိုပြင် စကားအိုးကလေး ဖြစ်၍ ကျောင်းတွင် စကားပြောချင်တိုင်း မပြောရသည်ကို စိတ်ညစ်ညူးခဲ့သည်။ သို့သော်လည်း ကျောင်းမှန်မှန် တက်ခဲ့သဖြင့် ကျောင်းတွင်သာမက တက္ကသိုလ်သို့ ရောက်ခဲ့သည့်တိုင် ထူးချွန်ခဲ့၍ ဆုအမျိုးမျိုးရခဲ့၏။ မကောလေးသည် ဂရိဘာသာ၊ လက်တင်ဘာသာ၊ ပြင်သစ်ဘာသာ၊ ဂျာမန်ဘာသာ၊ စပိန်ဘာသာ၊ ဣတာလျံဘာသာ၊ ဒပ်ချဘာသာတို့ဖြင့် ရေးသားထားသော စာအုပ်များကိုလည်း ဖတ်ရှုနိုင်ခဲ့လေသည်။

မကောလေးသည် ဖခင်ကြီး၏ ဆန္ဒအတိုင်း ဥပဒေပညာရပ်များကို ဆည်းပူးလေ့လာခဲ့သဖြင့် ဥပဒေဘွဲ့ထူးကို ရရှိခဲ့သော်လည်း သူ၏အာရုံမှာ စာပေဖက်သို့သာ ညွတ်လျက်ရှိလေသည်။ ၁၈၂၅ ခုနှစ်တွင် မကောလေးသည် အက်ဒင်ဗာရာရီဗျူးခေါ် စာစောင်အတွက် ကဗျာစာဆို မီလတန် အကြောင်း ဆောင်းပါးတခုကို ရေးသားခဲ့ရာတွင် ၂၅ နှစ်သားအရွယ် မကောလေး၏ ဂုဏ်သတင်းမှာ တမုဟုတ်ခြင်း လူသိများပြီးလျှင် ထင်ရှားခဲ့လေသည်။ ထိုအချိန်မှစ၍ မကောလေးသည် အက်ဒင်ဗာရာရီဗျူးစာစောင်ကြီး၏ ပဋ္ဌမတန်းစား စာရေးဆရာကြီးတဦးအဖြစ် အသိအမှတ်ပြုခြင်း ခံရပြီးနောက် သူရေးသားသမျှသော ဆောင်းပါးများကိုလည်း ထိုစာစောင်ကြီးတွင် မကြာခဏ ဖတ်ရှုကြရလေသည်။

မကောလေးသည် သူ၏ အသက်မွေးဝမ်းကျောင်းမှု အတွက် စာရေးခြင်းဖြင့်ရရှိသော ဝင်ငွေအပေါ်၌သာ အမှီပြုရလေသည်။ သူ၏ဖခင်သည် မူလက ပစ္စည်းဥစ္စာ အတော်အတန် ချမ်းသာကြွယ်ဝသူ ဖြစ်သော်လည်း မကောလေးငယ်စဉ်ကပင် စီးပွားပျက်ခဲ့သောကြောင့် မကောလေး ကြီးပြင်းလာသောအခါ ဖခင်နှင့် နှမများကိုပင် မကောလေးက ထောက်ပံ့ခဲ့ရလေသည်။ သို့သော်လည်း မကောလေးကဲ့သို့သော ပါရမီရှင် စာရေးဆရာ တယောက်အဖို့ ဆင်းရဲခြင်းသည် တာရှည်တည်မြဲ နေလိမ့်မည် မဟုတ်ပေ။

မကောလေးသည် အခြားသော စာရေးဆရာများကဲ့သို့ စာရေးခြင်း အလုပ်တခုကိုသာ မလုပ်ကိုင်ဘဲ နိုင်ငံရေးခေါင်းဆောင်တဦးအနေဖြင့် ပါလီမန်အမတ်၏ တာဝန်များကိုလည်း တဖက်တလမ်းမှ ထမ်းဆောင်ခဲ့လေသည်။ သူ့ခေတ်သူ့အခါက မကောလေးသည် ပဋ္ဌမတန်းစား ပြည်သူ့ကိုယ်စားလှယ် အမတ်တဦးပင်ဖြစ်သည်။ ပါလီမန်ထဲ၌ အချက်အလက်ကို ပိုင်ပိုင် နိုင်နိုင်နှင့် ပြတ်သားရှင်းလင်းစွာ စကားပြောဆိုရာတွင် မကောလေးကို မှီသူမရှိပေ။ မကောလေးသည် ဝှစ် ပါတီ၏ ဝါဒနှင့်သဘောထားကို ထောက်ခံသူဖြစ်၏။ သို့ရာတွင် သူ့ကို ပါတီနိုင်ငံရေးသမား ဟူ၍ကား မခေါ်နိုင်ချေ။ သူ၏စိတ်၌ မှန်ကန်ဖြောင့်မတ်သည်ဟု မထင်လျှင် သူသည် မည်သည့်ကိစ္စကိုမျှ လိုက်လျောသည်မဟုတ်ပေ။ ပါလီမန်အမတ်ရာထူးကိုပင် စွန့်လွှတ်လိုက်ရန် ဦးလေးမည် မဟုတ်သော လူဖြောင့်ကြီး တဦးပေတည်း။

မကောလေး၏ နိုင်ငံပြု သုခမိန်တယောက်အဖြစ် ဆောင်ရွက်ခဲ့သော ကိစ္စများတွင် အရေးပါအရာရောက်ဆုံးသော ကိစ္စတခုကား အိန္ဒိယနိုင်ငံသို့ ဥပဒေ အတိုင်ပင်ခံ အရာရှိ အဖြစ် သွားရောက်ပြီးလျှင် ဗြိတိသျှအုပ်ချုပ်ရေး စံနစ်ကြီး တခုလုံးကို ပိုမို ကောင်းမွန်အောင် ပြုပြင်ခဲ့ခြင်းပင် ဖြစ်လေသည်။ သူ၏ လုပ်ငန်းတွင် သူသည် ပညာဉာဏ် အမြော်အမြင် ပြည့်စုံစွာဖြင့် တော်ဖြောင့် မှန်ကန်သော လမ်းစဉ်များအတိုင်း ပြုလုပ်ဆောင်ရွက်ခဲ့သည့်အတွက်လည်း နှောင်းကာလတိုင်အောင် သူ၏ ဂုဏ်ကျေးဇူးများကို အိန္ဒိယနိုင်ငံက အ

စဉ် အောက်မေ့လျက် ရှိကြပေသည်။ မကောလေးသည် မိမိ၏တာဝန်အလျောက် နိုင်ငံရေးလုပ်ငန်းများကို ထမ်းဆောင်လျက် နေရသော်လည်း သူအပျော်မွေ့ဆုံး အလုပ်သည်ကား စာရေးခြင်းအလုပ်သာဖြစ်၏။ ထိုစာရေးခြင်း အလုပ်ကပင် သူ၏ ကြီးပွားတိုးတက်ရေးကို ဖန်တီးခဲ့ပေသည်။ ပစ္စည်းဥစ္စာ ချမ်းသာကြွယ်ဝလာသောအခါ သူသည် နိုင်ငံရေးမှ ထွက်ပြီးလျှင် စာရေးခြင်းဖြင့်သာ အချိန်ကို ကုန်လွန်စေခဲ့သည်။ မကောလေးသည် ကဗျာများကိုလည်း အများအပြား ရေးသားခဲ့၏။ အထင်ရှားဆုံး ကဗျာသည်ကား ၁၈၄၂ ခုနှစ်တွင် ထုတ်ဝေခဲ့သော 'ရှေးခေတ်ရောမနိုင်ငံ၏ တေးသံ' အမည်ရှိ ကဗျာပင် ဖြစ်ပေသည်။

မကောလေးသည် ၁၈၃၉ ခုနှစ်တွင် သူ၏ ကမ္ဘာကျော် 'အင်္ဂလန်နိုင်ငံသမိုင်း' စာအုပ်ကြီးကို စတင်ရေးသားခဲ့၏။ ၁၈၄၉ ခုနှစ်တွင် ပဌမတွဲနှင့် ဒုတိယတွဲကို ပုံနှိပ်ထုတ်ဝေနိုင်ခဲ့၏။ ကျန်အတွဲများကိုလည်း တတွဲပြီးတတွဲ ထုတ်ဝေခဲ့လေသည်။ သို့ရာတွင် လုပ်ငန်းမှာ ကြီးမားလွန်းရကား မကောလေး အနိစ္စရောက်သည်တိုင်အောင် အပြီးမသတ်နိုင်ခဲ့ချေ။ ထိုနိုင်ငံသမိုင်း စာအုပ်ကြီးမှာ ပေါ်ပေါက်ခဲ့သမျှသော နိုင်ငံသမိုင်း စာအုပ်များတွင် အထင်ရှားဆုံးသော စာအုပ် ဖြစ်ပေသည်။

၁၈၅၇ ခုနှစ်တွင် မကောလေးသည် ဗဲရွန်ဘွဲ့ကို ရရှိလေသည်။ ထိုသို့ ချီးမြှင့်ခြင်း ခံရပြီးနောက် ၂ နှစ်အကြာ ၁၈၅၉ ခုနှစ်တွင် ကွယ်လွန် အနိစ္စရောက်လေသည်။

**မကိုင်ရှ်။** ။မင်းမြောက်တန်ဆာငါးပါး — ရှု။

**မကန်း။** ။"အော်-ဆွေမစုံဖက်၊ ဖြေပုံခက်အောင်၊ မကန်းကွက်ချုန်၊ တိမ်ရှက်ကွန်လဲ၊ လက်ပုစွန်ရိုး" အစချီသည့် ဦးကြင်ဥရေး ပဒေသာသီချင်းမှ တန်ခူးလဘွဲ့တွင် တိမ်များသည် မကန်းကောင်၏ အကြေးကွက်များသဖွယ် အထပ်ထပ် အကွက်ကွက် ထနေသည်ဟု ဆိုထားသည် တကြောင်း၊ မင်းပူးဆရာတော် ဦးဩဘာသရေး မဟာဇနကဇာတ်တော်ကြီးတွင် သင်္ဘောသား ခုနစ်ရာတို့သည် ငါးလိပ်မကန်းတို့၏ အစာဖြစ်လေကုန်၏ ဟု ဆိုထားသည်တကြောင်း၊ ပြာသိုလ မကာရ ရာသီခွင်တွင် မကန်းကောင် အရုပ်ရှိသည်ဟု ဆိုထားသည်တကြောင်းတို့ကြောင့် "မကန်း"သည် ရေသတ္တဝါ တကောင် ဖြစ်ကြောင်း သိနိုင်လေသည်။ "မကန်း" သည် ပါဠိ"မကရ"၊ သံသကြိုဋ္ဌ 'မကရ'၊မြန်မာ "မကာရ" ဟူသော စကားမှ လာသည်။ ပေါရာဏကထာ အဘိဓာန်တွင် ပင်လယ်ငါးကြီးတမျိုးဟု ဖော်ပြထား၍ အဘိဓာန်ဋီကာ ပါဌ်တွင် လက်နှင့်ဖမ်းလျှင် ပါးစပ်ဟတတ်သော ငါး ဟူ၍လည်း ဖော်ပြထားသည်။

အချို့သော ဟိန္ဒူဘာသာ ကျမ်းများ၌ မကန်းကို ဝါရုဏမည်သော နတ်မင်း၏ စီးတော်ယာဉ်ဟု ဆိုထား၏။ အချို့ကျမ်းများတွင် ဂင်္ဂါမြစ်စောင့် နတ်သမီး၏ စီးတော်ယာဉ်ဟူ၍ ဆိုထားပြန်သည်။ ပုံသဏ္ဌာန်ကို ဖော်ပြရာ၌ ခြေလက်တို့သည် မြင်း၏ခြေလက်ကဲ့သို့ရှိပြီးလျှင် ခွာမှာ ကွဲသောခွာရှိသည်။ သွားများသည် ကျားခြသေ့ကဲ့သို့ ချွန်ထက်သည်။ ဆင်၏ နှာမောင်းရှိသည်။ ကိုယ်၏အမြီးပိုင်းသည်ငါး၏ကိုယ်ကာယကဲ့သို့ရှိ၍ အမြီးမှာ ငါး၏အမြီးကဲ့သို့ဖြစ်သည်။ ဝက်နားရွက်ရှိသည်။ ပါးစပ်အမြဲဖွင့်ထားသည်ဟု ဖော်ပြထားသည်။ အချို့က မကန်းကောင်၏ ဦးခေါင်းနှင့် နှာမောင်းမှာ ဆင်၏ နှာမောင်းနှင့် ဆင်၏ ဦးခေါင်းဖြစ်ပြီးလျှင် မျောက်၏ သွားကဲ့သို့သော သွားရှိသည်။ ခြသေ့၏ ခြေလက်ကဲ့သို့သော ခြေ လက်နှင့် ခြေသည်း လက်သည်းများ ရှိသည်။ ကိုယ်ကာယမှာ ငါး၏ ကိုယ်ကာယဖြစ်၍ အမြီးမှာ ဥဒေါင်း၏ အမြီးကဲ့သို့ ဖြစ်သည်ဟု ဖော်ပြထားပြန်သည်။ ထိုကြောင့် အချို့က မကန်းကောင်သည် အကယ်ရှိသော သတ္တဝါမဟုတ်၊ ဒဏ္ဍာရီပုံပြင် စကားတွင် ပါသော စိတ်ကူးယဉ် ဖန်တီးယူသည့် ရေသတ္တဝါမျိုးသာ ဖြစ်သည်ဟု ယူဆကြသည်။

မည်သို့ပင် အမျိုးမျိုးတွေးတော ရေးသား ကြစေကာမူ မကန်းဟုခေါ်သည့် ရေသတ္တဝါမျိုး ရှိနေသည်မှာ အမှန်ပင်ဖြစ်၏။ မကန်းများသည် ပင်လယ်သမုဒ္ဒရာအောက်ရှိ ရွှံ့ညွန်မြေပျော့များအတွင်း လိုဏ်ခေါင်းကြီး တူးဖော်၍ လျှိုဝှက်စွာ နေကြသည်။ အိန္ဒိယ သမုဒ္ဒရာ၏ အရှေ့မြောက်မျက်နှာရှိ ဗင်္ဂလားပင်လယ်အော်ဖြစ်သော မြိတ်ခရိုင် မြိတ်ကျွန်းစု ပင်လယ်ရွှံ့ကုန်းများ အတွင်းဝယ် ၃ လက်မ အရှယ်မှသည် တပေထက် မကြီးလွန်းသော မကန်းများကို တံငါသည်များ ဖမ်းယူ ရရှိကြသည်။ ယင်းတို့အား ပင်လယ်ကျားပါးစပ်တိုက်၌ငှင်း၊ ငါးပိလုပ်ရန်အတွက် ဗုဇ္ဇန်ဆိတ်ကလေးများကို ဂွဖြင့် ထိုး၍ ဖမ်းသည့်အခါ၌ငှင်း တကောင်စ၊ နှစ်ကောင်စ ဖမ်းဆီးရမိတတ်သည်။ အမြောက်အမြားကိုမူ ရွှံ့ကုန်းများအတွင်းမှ ပင်လယ်ဒီရေကျသော အချိန်တွင် လိုက်လံဖမ်းဆီးရသည်။ အလွန်ချိုသောအရသာရှိသဖြင့် သဌေးများ ဈေးကြီးပေး၍ဝယ်ယူစားသောက်တတ်ကြသည်။

မကန်းများသည် တကောင်ချင်း ပင်လယ်ရေအောက်၌ တွင်းဖော်နေတတ်ကြရာ ထိုတွင်းများသည် လိုဏ်ခေါင်းကြီးသဏ္ဌာန် ရှိ၏။ တွင်းပေါက်ဝမှာ တကောင်ဝင်သာရုံ ဖောက်လုပ် ထားလျက် အတွင်း၌ကား အကျယ်ကြီး ထားကာ လိုဏ် ခေါင်းများနှင့် လျှိုဝှက်ဂူများလည်း ထားရှိကြသည်။ ယင်းတို့သည် ပင်လယ်ရေ အမြဲရှိသော နေရာ၌သာ နေထိုင်ကြသည်။ ပင်လယ်ရေမရှိသောအရပ်တွင် မနေကြချေ။ ပင်လယ် ဒီရေ ကျသွားသည်တိုင်အောင် ထိုပင်လယ် ဒီရေများ

ကို လိုဏ်ခေါင်းအတွင်း အလုံအလောက် ယူသွင်း ထားကြသည်။ လိုဏ်ခေါင်း တွင်းကြီးများမှာ ၆ လက်မအရွယ်ရှိ မကန်းတကောင်အတွက် လိုဏ်ခေါင်းအနက်ကို ၃ ပေမှ ၄ ပေအထိ တူးထားကြပြီးလျှင် တဖက်မှလည်း ထွက်ပေါက်လိုဏ်ခေါင်းတခုကို ဖောက်လုပ်ထားသေးသည်။ တပေ အရွယ်မျှရှိသော မကန်းကြီးများအတွက်မူကား ၄ ပေမှသည် ၆ ပေအထိ တွင်းနက်ကြီးများကို တူးလျက် ထွက်ပေါက် ဝင်ပေါက်လုပ်ထားကြလေသည်။ တွင်း၏ အဝကို ကြည့်ကာ အကောင် ကြီးသည် ငယ်သည်ကို ခန့်မှန်းနိုင်ကြသည့်ပြင် တွင်း၏ အနက်ကိုလည်း ခန့်မှန်းနိုင်ကြသည်။ တွင်းထဲတွင် ယင်းတို့ ရှိသည်မရှိသည်ကိုလည်း သိနိုင်ပေသည်။ ယင်းတို့ရှိသော တွင်းတွင် သွင်းထားသောရေသည် ကြည်လင် သန့်ရှင်းနေ၏။ ယင်းတို့မရှိက ရေမှာ နောက်ကျိနေသည်။ယင်းတို့သည် တွင်းတတွင်းတွင် ကြာရှည်မနေဘဲ ၁၅ ရက်မှ တလ အကြာဆုံးသာ နေတတ်ပြီးလျှင် တနေရာမှ တနေရာသို့ ပြောင်းရွှေ့နေတတ်ကြသည်။ လူလောက်ကြီးသော မကန်းကြီးများနှင့် လူထက် ကြီးမားသော မကန်းကြီးများကား ပင်လယ်သမုဒ္ဒရာနက်ကြီးအတွင်း၌ ရှိကြောင်း သိရသည်။ ထိုသတ္တဝါကြီးများသည် ပင်လယ်ထဲ၌ ငါးကလေးများ၊ ပင်လယ်ပိုးများနှင့် ပင်လယ်ရွှံ့စေးတမျိုးကို စားသောက်ကြသည်။

မကန်း၏အသားသည် ကင်းနှင့် ဗုဇ္ဇန်တို့၏ အသားနှင့် တူသော်လည်း ပုံသဏ္ဍာန်မှာ အလွန်ကွာခြား၏။ ပျော့ပျောင်းသော ကိုယ်ရေကို မာကျောသော အခွံဖြင့် ဖုံးအုပ်ထားရာတွင် အခွံလွှာမှာ အထပ်လိုက် ဖြစ်နေလျက် အထပ်တိုင်းတွင် ချွန်ထက်သော ဆူးများမှာ အထပ်လိုက် ဖြစ်နေသည်။ အထပ်တိုင်းတွင် ချွန်ထက်သော ဆူးများရှိ၏။ စိမ်းပြာညိုရောင်နှင့် ခရမ်းရောင်အသွင်လည်း ရှိကာ "မကန်းကွက်ချွန်၊ တိမ်ရွက်ကွန်လဲ" ဆိုသော စာဆိုအတိုင်းပင် ဖြစ်နေသည်ကို တွေ့ရသည်။ ယင်းတို့၏ အကွက်အကြေးများအတိုင်း တန်ခူးလရာသီများတွင် ကြည်လင် တောက်ပသော မိုးသားတိမ်တိုက်များ၌ တွေ့ရတတ်သည်။

မကန်းကောင်၏ အခွံမှာ အဆက်လိုက် အဆက်လိုက် ပေါ်နေလျက် အမြီးပိုင်း၌ ကြီးလာသည်။ အမြီးပိုင်းမှာ ဝိုင်းပ၍ ကားနေကာ ချွန်ထက်သော ဆူးများဖြင့် ဇောင်းတွန့်၍ ရှိနေသည်။ ထိုအမြီးများ၏အနားတွင် လက်နှစ်ဖက်ကဲ့သို့သော လက်မနှစ်ခုရှိရာ ယင်းဖြင့် သွားလိုရာ ခရီးကို လှော်ခတ်သွားနိုင်သည့်ပြင် ပဲ့ကိုင်ပေးသေးသည်။ ဦးခေါင်းမှာ ပုလင်းတလုံး၏ ဗူးဝထိပ်သဏ္ဍာန်ကဲ့သို့ ရှိပြီးလျှင် ခေါင်း၏ အောက်၊ ပခုံး နေရာနားတွင် တဖက်လျှင် လက် ၃ ခုစီ၊ ၆ ခုထွက်နေ၏။ ထိုလက်များသည် ရေထဲ၌ ကူးခတ်နိုင်သည့်ပြင် ရွှံ့ပြင်ပေါ်၌လည်း တွားသွား၍ပြေးနိုင်၏။ ကိုယ်ခန္ဓာအောက်ပိုင်း ဝမ်းပိုက်နေရာတွင် တဖက်လျှင် ဆူးတောင် ၈ ခုစီ၊ ပေါင်း ၁၆ ခုရှိရာ ပင်လယ်ထဲ၌ အလွန်လျှင်မြန်စွာကူးနိုင်သော သတ္တဝါဖြစ်သည်။ ဦးခေါင်းထိပ်တွင် မျက်လုံး ၂ လုံးကို ကာကွယ်ပေးသည့် လက်ကဲ့သို့သော ဆူးတောင် ၂ ခုရှိသေးသည်။ မျက်လုံး ၂ လုံးသည် ဗုဇ္ဇန်မျက်လုံးကဲ့သို့ တောက်ပြောင်ကာ ရှေ့သို့ပြူးထွက်နေသည်။ ထိုမျက်လုံးများရှေ့၌ ရန်သူကို ဖယ်ရှားနိုင်သည့် လက်သေးကလေး ၄ ချောင်းနှင့်တူသော အမွေးတန်း ၄ ပင်ရှိသည်။ ထိုအမွေးတန်း ၄ ပင်သည်လည်း မာကျောပြီးလျှင် မျက်လုံးကိုပင် အကာအကွယ် ပြုထားလေသည်။ မျက်လုံး၏ အောက်အခွံရေအတွင်းဝယ် ပါးစပ်ပေါက်၊ ဦးနှောက်၊ ဦးနှောက်အိမ် စသည် အကုန်လုံးသည် ဗုဇ္ဇန်ဦးခေါင်းအတွင်း စုပေါင်း နေသကဲ့သို့ စုပေါင်းနေ၏။

ဦးခေါင်း၏ တဖက် တချက်တွင် အလွန်ခိုင်မာထက်မြက်သော မကန်းလက်ခေါ် လက်ကြီး ၂ ခုရှိသည်။ ထိုလက်ကြီး ၂ ခုမှာ အလွန်ကြီးမား၍ အခြားလက်များထက် ရှည်လည်း ရှည်၏။ ထိုလက်ကြီးတဖက်စီတွင် မာကျောပြီးလျှင် အလွန်ထက်သန်၍ ချွန်မြနေသော ဆူးများ အချောင်း ၂၀ မျှရှိရာ၊ မကန်းတွင် ထိုလက်ကြီး ၂ ခုသည် ကြောက်မက်ဖွယ်ရာ အကောင်းဆုံး ဖြစ်တော့သည်။ အားလည်း အလွန်ကောင်းလျက် ထိုလက်ကြီးများဖြင့် ခုတ်မိလျှင် ပြတ်ပါသွားဖွယ်ရာ အကြောင်းရှိပြီးသော် အလွန်တက်သော ရောဂါတမျိုးကို ခံစားရ တတ်လေသည်။ မကန်းသည် ရန်ပြုမည်ဆိုလျှင် မိမိကိုယ်ကိုကွေးလိုက်ပြီးသည်နောက်မှ တချက်တည်း ဆန့်၍ ရန်သူထံ ပစ်သွင်း လိုက်လေသည်။ ထိုအကွေးကို အထူးသတိထားရသည်။ ရေသတ္တဝါတိုင်းသည် ယင်းမကန်းကိုကြောက်ကြ၏။ အော့တိုပတ်ခေါ် ဘဝဲကောင်ပင် ယင်းကို ကြောက်ရသည်။

မကန်းကောင်ကို အခြောက်လှန်း၍ အိမ်၌ထားလျှင် တစ္ဆေ သူရဲ မိစ္ဆာမကောင်းဆိုးဝါးများ မချဉ်းကပ်နိုင်ဟု ရှေးလူများ အယူရှိကြသည်။ ကလေးပုခက်များတွင်လည်း မကန်းကောင် အခြောက်များကို ဆွဲပေးထားတတ်ကြသည်။

မကန်း၏ ထူးခြားသော အချက်တချက်မှာ အရွယ်နှင့်မမျှအောင် လေမှုတ်အား ကြီးခြင်းပင်ဖြစ်သည်။ မကန်းတွင်းတတွင်းကို ခဏခြင်းလေဖြင့်မှုတ်၍ ဖော်ပြီးသော် လိုဏ်ခေါင်းကြီးကိုလည်း လေဖြင့်ပင်မှုတ်ကာ ရွှံ့စေးများကို အပေါ်သို့ မှုတ်ထုတ်လေသည်။ အတွင်းပိုင်းရှိ ရှည်လျားသော လိုဏ်ဂူ အရပ်ရပ်ကိုလည်း နာရီပိုင်းအတွင်း ဖောက်လုပ်နိုင်သော အစွမ်းသတ္တိ ရှိသည်။

မကန်းကို ဟင်းချိုပြုတ်၍ သောက်ရန်သာ ကောင်း၏။ အရှင်လတ်လတ်ကို ပွက်ပွက်ဆူနေသော ဟင်းရည်အိုးထဲသို့ ထည့်ပြီးမှ အရည်ကိုသောက်လျှင် အလွန်ချို၏။ အသားကို စားလျှင်လည်း အလွန် ချိုမြသော အရသာထူးတမျိုး

ကို ခံစားရသည်။ သေမှ ဟင်းချက်လျှင် အတွင်း၌ အချိုရည်ကို မရတော့သည့်ပြင် အသားလည်း မကျန်တတ်တော့ခြင်းကြောင့် အရှင်ချက်စားတတ်ကြသည်။ မကန်းကို ဖမ်းရာ၌ ဖမ်းယူတတ်မှ ရသည်ဖြစ်၏။ သို့မဟုတ်ပါက ဖမ်းသူ၏လက်မှာ မကန်းတွင်းအထဲ၌ အမှန်ကျန်ရစ်ခဲ့မည်ဖြစ်သည်။

**မကွေးခရိုင်။** ။မကွေးခရိုင်သည် မြန်မာနိုင်ငံ အထက်ပိုင်း မကွေးတိုင်းတွင် ပါဝင်သည့် ခရိုင်တခုဖြစ်သည်။ နယ်နိမိတ်အားဖြင့် အနောက် မြောက်ဖက်စွန်းတွင် ပခုက္ကူခရိုင်၊ မြောက်ဖက်တွင် မြင်းခြံခရိုင်၊ အရှေ့မြောက်ဖက် အစွန်းတွင် မိတ္ထီလာခရိုင်၊ အရှေ့ဖက်၌ ရမည်းသင်းခရိုင်၊ တောင်ဖက်၌ သရက်ခရိုင်၊အနောက်ဖက်၌ဧရာဝတီမြစ်တို့ရှိသည်။ဧရာဝတီမြစ်၏တဖက်တွင် မင်းဘူးခရိုင်ရှိသည်။ မကွေးခရိုင်သည် ရေနံချောင်းနယ်နှင့် တောင်တွင်းကြီးနယ်တို့ဖြင့် ဖွဲ့စည်းထားသည်။ တဖန် ရေနံချောင်းနယ်တွင် မကွေးမြို့နယ်၊ ရေနံချောင်းမြို့နယ်၊ ချောက်မြို့နယ်တို့ ပါဝင်၍ တောင်တွင်းကြီးနယ်တွင် တောင်တွင်းကြီးမြို့နယ်၊ မြို့သစ်မြို့နယ်နှင့် နတ်မောက်မြို့နယ်တို့ ပါဝင်သည်။ ခရိုင်၏ အကျယ်အဝန်းမှာ ၃,၇၂၄ စတုရန်းမိုင်၊ ကျေးရွာပေါင်း ၄၂၄ နှင့် လူဦးရေမှာ ၁၉၅၆ ခုနှစ်တွင် ခန့်မှန်းခြေ ၆၅၃,၂၇၄ ယောက် ဖြစ်၏။

မကွေးခရိုင်သည် အနောက်ဖက် ဧရာဝတီမြစ်ကမ်း တလျှောက်တွင် နုံးတင်မြေနုရပ်ကွက်ဖြစ်သည်။ မြေသည် နိမ့်ရာမှ တဖြည်းဖြည်း မြင့်မားမတ်စောက်သွား၍ သစ်ပင်များ မပေါက်ဘဲရှိ၏။ တောင်ကြားတောင်ချောက်များလည်း ရှိသည်။ မြစ်ချောင်းများ၏ အောက်ပိုင်း မြစ်ဝှမ်းချောင်းဝှမ်းများမှုကား မြေပြန့်ဖြစ်သည်။ ခရိုင်၏ မြောက်ဖက်မှာ တောက်လျှောက် တောင်ကုန်းများဖြစ်၍ အချို့နေရာများတွင် ပေ ၁,၅၀၀ ပင်မြင့်သည်။ ခရိုင်၏ တောင်ဖက်တွင်မူ တောင်ကုန်းများပြီးလျှင် မြေနိမ့်မြေပြန့်ပေါ် လာပြန်သည်။ တောင်ဖက် အလယ်တည့်တည့်တွင် တည်ရှိသော လွင်ပြင်ကြီးမှာ မြောက်ဖက်မှသည် တောင်ဖက်သို့ ၄၅ မိုင်၊ အရှေ့ဖက်မှသည် အနောက်ဖက်သို့ မိုင် ၃၀ ခန့် ကျယ်ပြန့်သည်။ ဤလွင်ပြင်ကား ယင်းချောင်းဝှမ်း တဝိုက်တွင် ဖြစ်၏။ လွင်ပြင်ဆုံးသောအခါ တောင်ကုန်းများ ပေါ်လာပြန်သည်။ ပဲခူး ရိုးမနှင့် တဆက်တည်း တည်ရှိသော တောင်များဖြစ်၍ စိမ်းလန်းစိုပြည်သော သစ်ပင်များ အုပ်ဆိုင်းနေသဖြင့် ရှုမောဖွယ် ဖြစ်တော့၏။ တဖန်အလယ်ပိုင်း မြေပြန့်အလွန် တောင်စောင်းများ တလျှောက်တွင် ပြုလုပ် ထားသော တောင်ယာ တို့မှာလည်း လှပသော ရှုခင်းဖြစ်၏။ ယင်းချောင်းဝှမ်း တလျှောက်မှာလည်း တမျိုးပင် သာယာပေသေး၏။

ခရိုင်တွင်း ဖြတ်သန်းစီးဆင်းသော မြစ်ချောင်းတို့အနက် အနောက်ဖက်တွင် နယ်နိမိတ်အဖြစ် တည်ရှိသော ဧရာဝတီမြစ်သည် အရေးပါအရာရောက်ဆုံး မြစ်ကြောင်း ဖြစ်၏။ သဘော်ကြီးငယ် စုန်ဆန်ခုတ်မောင်း နိုင်သည်။ ပင်းချောင်းသည် မြင်းခြံခရိုင်တွင်းရှိ ပုပ္ပါးတောင်မှ အဦးအစ စီးဆင်းပြီးသော် ခရိုင်၏ မြောက်ဖက်နယ်စပ်တလျှောက် အနောက်ဖက်သို့ စီးဆင်းပြီးလျှင် ရေနံချောင်းမြို့၏ အထက်နားဆီတွင် ဧရာဝတီမြစ်တွင်းသို့ စီးဝင်သည်။ ယင်းချောင်းသည် ရမည်းသင်းခရိုင် ယင်းတော်အနီးမှ စတင်စီးဆင်းကာ ပဲခူးရိုးမကိုဖြတ်ကျော်ပြီးလျှင် မကွေးခရိုင်တွင်းသို့ အရှေ့မြောက်ဖက်မှ စီးဝင်လာသည်။ တောင်ကုန်းများကို လွန်သောအခါ တောင်အရပ်သို့ လှည့်၍ စီးဆင်းသည်။ အောက်ဖက်မိုင် ၆၀ ခန့် အကွာတွင် စတုန်၊ ရန်ပယ်နှင့် တောင်ကူချောင်းတို့သည် ယင်းချောင်းတွင်းသို့ စီးဝင်သည်။ ထိုပြင် အခြားချောင်းများလည်း စီးဝင်သေးသည်။ အထက်တွင် ဖော်ပြခဲ့သော အလယ်ပိုင်း မြေပြန့်သည်ကား ဤချောင်းများဆုံစည်းရာ တဝိုက်ပင် ဖြစ်ပေသည်။ မြေသြဇာအထူးကောင်းမွန်သည်။ ထိုနောက် ယင်းချောင်းသည် အနောက်ဖက်သို့ လှည့်၍ စီးဆင်းပြီးလျှင် မကွေးမြို့အထက် ၈ မိုင်ကွာ မြင်ကွန်းရွာ အနီးတွင် ဧရာဝတီမြစ်တွင်းသို့ စီးဝင်သည်။ ပင်းချောင်းနှင့် ယင်းချောင်းတို့သည် ရတ်ခြည်း ရေလွှမ်းတတ်သည်။ ချောင်းငယ်များမူကား နွေအခါတွင် ခန်းခြောက်တတ်သည်။ ခရိုင်တွင်း အင်းကြီးအိုင်ကြီးဟူ၍ကား မရှိပေ။

မကွေးခရိုင်သည် မြန်မာနိုင်ငံ အလယ်ပိုင်း မိုးပါးရေရှားရပ်ဝန်းတွင် တည်ရှိသောကြောင့် ရာသီဥတုမှာ အပူ အအေး မမျှဘဲ ရှိ၏။ နွေရာသီတွင် ပျမ်းမျှအပူချိန် ဖာရင်ဟိုက် ၈၅ ဒီဂရီအထက်ဖြစ်၍ ဆောင်းရာသီတွင် ဒီဂရီ ၆၀ မျှ အထိ ကျဆင်းသည်။ သို့သော် ခရိုင်တခုလုံးမှာ ယေဘုယျအားဖြင့် ကျန်းမာရေးနှင့် ညီညွတ်သည်။ မိုးရေချိန်မှာ တနှစ်လျှင် ၂၇ လက်မခန့် ဖြစ်သည်။

မကွေးခရိုင်တွင်း၌ စိုက်ပျိုးရေး ဖြစ်ထွန်းသည်။ ဆန်စပါးကို အဓိက စိုက်ပျိုးသည်။ အထူးသဖြင့် ပင်းချောင်းနှင့်ယင်းချောင်းတလျှောက်၊ တောင်တွင်းကြီးနယ် တဝိုက်တွင် အများဆုံး စိုက်ပျိုးသည်။ ဆန်စပါးအပြင် ကြက်သွန်ခင်းများကိုလည်း စိုက်ပျိုးသည်။ မြေအနိမ့်အမြင့် မညီသောကြောင့် ဆန်စပါး မစိုက်ပျိုးနိုင်သော အရပ်များ၌ နှမ်းနှင့် ပြောင်းတို့ကို စိုက်ပျိုးသည်။ မကွေးနှမ်းသည် ကောင်းမွန်သဖြင့် နာမည်ကျော်ပေသည်။ရေနံချောင်း၊ နတ်မောက်နှင့် မကွေးမြို့နယ်များတွင် ပြောင်း၊ နှမ်း၊ မြေပဲနှင့် အာလူးတို့မှာ အဓိက ထွက်ကုန်ဖြစ်သည်။ ထိုပြင် ဧရာဝတီမြစ်ကမ်းတလျှောက်နှင့် မြစ်အတွင်း ပေါ်ထွန်းသော ကျွန်းငယ်များပေါ်တွင် ဂျုတ်၊ ပြောင်းဖူး၊ ဆေးရွက်ကြီးနှင့် ပဲအမျိုးမျိုးကို စိုက်ပျိုးသည်။



မြန်မာနိုင်ငံအလယ်ပိုင်း မိုးပါးရေရှားရပ်ဝန်းတွင်တည်ရှိသော မကွေးခရိုင်၏ သဘာဝရှုခင်း တစိတ်တဒေသကို မကွေးမြို့၏ တန်ခိုးကြီးဘုရား ဖြစ်သော မြသလွန်ဘုရားနှင့်အတူ ကောင်းကင်မှ ရှုမြင်ရပုံဖြစ်သည်။

မကွေးခရိုင်သည် မြန်မာနိုင်ငံတွင် ရေနံအများဆုံးထွက်သောခရိုင် ဖြစ်သည်။ ရေနံချောင်းနှင့် ချောက်မြို့အနီးတွင် ရေနံတွင်းကြီး အမြောက်အမြားရှိသည်။ ခရိုင်တွင်းရှိ ပင်းချောင်းကမ်းပေါ်တွင် ဆားတွင်း အနည်းငယ် ရှိ၍၊ ယင်းချောင်းကမ်းတွင် ထုံးကျောက် အနည်းငယ်ရှိသည်။ ဤသည်တို့အပြင် မကွေးခရိုင်အရှေ့ဖက်တွင် ကြိုးဝိုင်း သစ်တောများရှိ၍ ကျွန်းပင် အများအပြား ပေါက်ရောက်သည်။ နာမည်ကျော် စလေဆီးသီးထွက်သော စလေသည် မကွေးခရိုင်တွင်း၌ ပါရှိသည်။ မကွေးဖန်ခါးသည်လည်း ထင်ရှားပေသည်။ မကွေးမှ ကွမ်းညှပ်၊ ဓားများလည်း ထွက်သည်။ ထို့ကြောင့် မကွေးခရိုင်မှ ထွက်သောပစ္စည်းတို့ကား ရေနံ၊ နှမ်းဆီ၊ ပဲဆီ၊ ဆန်စပါး၊ နှမ်း၊ ထန်းလျက်၊ မြေပဲ စသည်တို့ဖြစ်၏။

မကွေးခရိုင်သည် လမ်းပန်းဆက်သွယ်ရေး ကောင်းမွန်လှပေသည်။ ဧရာဝတီမြစ်သည် အနောက်ဖက် တလျှောက်မှ စီးဆင်းသည်နှင့် အညီ သင်္ဘောကြီးငယ်တို့သည် မကွေး၊ ရေနံချောင်း၊ မြင်ကွန်း၊ မိကျောင်းရဲ၊ မင်းရွာ စသည်တွင် ဆိုက်ကပ်ရပ်နားသည်။ ရမည်းသင်းခရိုင်တွင်းရှိ ပျဉ်းမနားမြို့မှသည် မြင်းခြံခရိုင်တွင်းရှိ ကျောက်ပန်းတောင်းမြို့သို့ခွဲထွက်လာသော မီးရထားလမ်းသည် မကွေးခရိုင်အရှေ့ဖက်ရှိ မြို့များဖြစ်သော ဆတ်သွား၊ တောင်တွင်းကြီး၊ မြို့သစ်၊ နတ်မောက်မြို့များကို ဖြတ်သွားပေသည်။ ယင်းမြို့များမှာ ကုန်စည် ဖြန့်ဖြူးရာ ဌာနများဖြစ်၏။ ပျဉ်းမနား ကျောက်ပန်းတောင်း မီးရထားလမ်းကို မကွေးခရိုင်းတွင်းရှိ ချောက်မြို့နှင့် ဆက်မိအောင် စီစဉ်လျက်ရှိသည်။ မကွေးခရိုင်တွင်း ဖြတ်သန်းသွားသော ကားလမ်းတို့ကား ပဌမတန်း ကျောက်ခင်းလမ်းများ ဖြစ်သည်။ ရန်ကုန် ပြည်ကားလမ်းမှ ဆက်၍ မြင်းခြံသို့ ပေါက်သော ကားလမ်းသည် မကွေး၊ ရေနံချောင်းမြို့များကို ဖြတ်သွားသည်။ မြင်းခြံရောက်လျှင် မြင်းခြံ–မန္တလေးလမ်းနှင့် ဆက်မိသဖြင့် ရန်ကုန်-မန္တလေးသို့ တိုက်ရိုက်ကားလမ်းပေါက်သည်။ မကွေးမြို့တွင် လေယာဉ်ကွင်းလည်း ရှိပေသည်။ မကွေးခရိုင်တွင်း နေထိုင်သူတို့မှာ ဗုဒ္ဓအယူဝါဒီ မြန်မာလူမျိုး များသည်။

မကွေးခရိုင်တွင်းရှိ တန်ခိုးကြီး ဘုရားများမှာ မကွေးမြို့တွင် မြသလွန်ဘုရား၊ တောင်တွင်းကြီးမြို့ရှိ ရွှေရောင်တော်နှင့် ရွှေအင်းတောင်တို့ ဖြစ်၏။ ရှေးအခါက ရွှေရောင်တော်ဘုရားတွင် နှစ်စဉ်ဘုရားပွဲ ကျင်းပသော်လည်း ယခုအခါ မကွေး မြသလွန်ဘုရားတွင်သာ သီတင်းကျွတ်လတွင် နှစ်စဉ်ဘုရားပွဲ ကျင်းပလျက် စည်ကားလှပေသည်။ (မြသလွန်ဘုရား — ရှု။) မကွေးခရိုင် တောင်တွင်းကြီးနယ်အတွင်းရှိ ဆတ်သွားမြို့အနီးတွင် မြို့တော်ဟောင်း တခုဖြစ်သော ဗိဿဏိုးမြို့ ပျက်၏ အစအနအကြွင်းအကျန်များကို တွေ့နိုင်ပေသေးသည်။ (ဗိဿဏိုးမြို့ဟောင်း — လည်းရှု။)

**မကွေးမြို့။** ။မကွေးမြို့သည် မြန်မာနိုင်ငံ အထက်ပိုင်းရှိ မကွေးတိုင်း၊ မကွေးခရိုင်နှင့် မကွေးမြို့နယ်တို့၏ ရုံးစိုက်မြို့ဖြစ်သည်။ ဧရာဝတီမြစ်၏ လက်ဝဲဖက်ကမ်းပေါ်တွင် တည်ရှိ၍ မင်းဘူးမြို့နှင့် မျက်နှာချင်းဆိုင် ဆိုသလို ဖြစ်သည်။ ရေလမ်းအားဖြင့် ရန်ကုန်မြို့၏ အထက် ၃၇၇ မိုင် ဝေးကွာ၍ မန္တလေးမြို့၏ အောက် ၁၁၉ မိုင် အကွာတွင် တည်ရှိသည်။ ကားလမ်းအားဖြင့်မူ ရန်ကုန်မြို့မှ မိုင် ၃၃၀ ကွာဝေး၍ မြင်းခြံမြို့မှ ၁၂၆ မိုင်ဝေးသည်။ မြင်းခြံရောက်လျှင် မြင်းခြံ- မန္တလေးကားလမ်း



မကွေးမြို့၏ ကျက်သရေဆောင် မြသလွန်ဘုရား

နှင့် ဆက်မိသည်။ မကွေးမြို့သည် ပြည်မြို့၊ မြင်းခြံမြို့များသို့ငှင်း၊ ခရိုင်တွင်းရှိ မြို့များဖြစ်သော နတ်မောက်မြို့နှင့် တောင်တွင်းကြီး မြို့များသို့ငှင်း ကားလမ်းကောင်းများဖြင့် အဆက်အသွယ် ရှိသည်။ မကွေးမြို့တွင် လေယာဉ်ကွင်းလည်း ရှိသည်။ အောက်သို့ ရန်ကုန်၊ အထက်သို့ လမ်းရွာ၊ မိတ္ထီလာ၊ မန္တလေးသို့ လေကြောင်းပေါက်သည်။

မကွေးမြို့နယ်သည် အကျယ်အဝန်းအားဖြင့် စတုရန်းမိုင် ၆၄၇ မိုင်၊ကျေးရွာပေါင်း ၇၁ ရွာနှင့် ၁၉၅၆ ခုနှစ်တွင် ခန့်မှန်းခြေအားဖြင့် လူဦးရေ ၉၃,၅၉၄ ယောက်ရှိသည်။ မကွေးမြို့နယ်သည် ရေနံချောင်းနယ်တွင် ပါဝင်သည်။ မကွေးမြို့နယ်တွင် အများစုမှာ ဗုဒ္ဓအယူဝါဒီ မြန်မာလူမျိုးတို့ဖြစ်၏။ မကွေးမြို့၏ လူဦးရေမှာ ၁၉၅၃ ခုနှစ် ခန့်မှန်း သန်ကောင်စာရင်းအရ ၁၃,၂၇၀ ဖြစ်သည်။

မကွေးမြို့သည် တိုင်း၊ ခရိုင်တို့၏ ရုံးစိုက်မြို့ ဖြစ်သည်နှင့်အညီ မကွေးမြို့တွင် အစိုးရရုံးကြီးများ၊ အထက်တန်း အလယ်တန်းနှင့် မူလတန်းကျောင်းများ၊ ဈေး၊ ဆေးရုံ၊ မျူနီစီပယ်ရုံး စသည်တို့အပြင်၊ ၁၉၅၅ ခုနှစ်က ဖွင့်လှစ်၍ မန္တလေး တက္ကသိုလ်တွင် ဖွဲ့စည်းပါဝင်ခဲ့သော မကွေး ဥပစာ ကောလိပ်လည်း ရှိသည်။

မကွေးမြို့သည် စီးပွားရေး ဖွံ့ဖြိုးသော ခရိုင်တွင် တည်ရှိ၍ ရေလမ်း၊ ကားလမ်း၊ လေကြောင်းလမ်းတို့ဖြင့် ဆက်သွယ်လျက်ရှိသောကြောင့် အချက်အခြာဌာနတခု ဖြစ်၏။ ဆန်စက်၊ ဆီစက်၊ သစ်စက်နှင့် အခြား စက်မှုလက်မှု လုပ်ငန်းများ စုဝေးရာဖြစ်၏။ မကွေးမှ ကွမ်းညှပ်၊ ခေါ၊ ဖန်ခါးသီးတို့မှာလည်း နာမည်ရဖြစ်၏။

ဤသည်တို့အပြင် မကွေးမြို့သည် မြသလွန်ဘုရားကြောင့် မြန်မာပြည်တဝှန်းတွင် ထင်ရှားပေသည်။ ဧရာဝတီမြစ်ကမ်း၏တောင်ထိပ် ကုန်းတခုပေါ်တွင် တည်ရှိသော မြသလွန်ဘုရားသည်ကား မြန်မာနိုင်ငံတွင် တန်ခိုးကြီးဘုရားတဆူဖြစ်၏။ မြစ်လမ်း တလျှောက် လှေ၊ သင်္ဘောစီးသွားသူသည် မြသလွန်ဘုရားနှင့် စောင်းတန်းများကို အဝေးမှပင် ဖူးမျှော်နိုင်ပေသည်။ နှစ်စဉ် သီတင်းကျွတ်လဥကျင်းပသော ဘုရားပွဲသို့ မြန်မာနိုင်ငံအရပ်ရပ်မှ ဘုရားဖူးများ သွားကြပေသည်။ (မြသလွန်ဘုရား — ရှု။)

**မဂန်လူမျိုး။** ။ချင်းလူမျိုး — ရှု။

**မဂျဲလင်, အက်(ဖ)** (ခရစ်၁၄၈၀ ခန့်–၁၅၂၁)။ ။ဖာဒီနန် မဂျဲလင်သည် ကမ္ဘာတပတ်ကို ရေကြောင်း ခရီးလမ်းအားဖြင့် ပဌမဆုံးပတ်မိသူ ဖြစ်ကာ ကမ္ဘာကို ပတ်၍ သွားသောရေကြောင်းခရီးကို တွေ့ရှိခဲ့သူ ဖြစ်လေသည်။ သူသည် ပေါ်တူဂီလူမျိုးဖြစ်၍ မှူးမတ်မျိုးရိုးမှ ဆင်းသက်လာသူ ဖြစ်



ပင်လယ်ရေကြောင်းခရီးဖြင့် ကမ္ဘာကိုဦးစွာပတ်ခဲ့သူ မဂျဲလင်

သော်လည်း ဆင်းရဲလေသည်။ သို့ဖြစ်၍ ငယ်ရွယ်စဉ်က နန်းတော်အတွင်း လက်ပါးစေအဖြစ်ဖြင့် နေထိုင်ခဲ့ရ၏။ အသက် ၂၅ နှစ်အရွယ်တွင် အိန္ဒိယရှိ ပေါ်တူဂီနယ်များ၏ ဘုရင်ခံအားလမဲအီဒါးနှင့် လိုက်ပါ၍ စစ်မှုထမ်းလေသည်။ အိန္ဒိယပြည်သို့ သင်္ဘောနှင့် လပေါင်း အတော်ကြာအောင် သွားရသည်ဖြစ်ရာ လမ်းခရီးတွင် သင်္ဘောသားများနှင့် ပင်လယ်အကြောင်းကို လေ့လာစူးစမ်းမှတ်သားယင်း အချိန်ကုန်ခဲ့လေသည်။ အိန္ဒိယ၌ တိုက်ပွဲများတွင် ပါဝင်ခဲ့ပြီးနောက် စမဲအမွှေးအကြိုင်များထွက်ရာ အရှေ့အိန္ဒိယကျွန်းစုများသို့တိုင် ရောက်ခဲ့၏။ အိန္ဒိယတွင် ၇ နှစ်ခန့် စစ်မှုထမ်းခဲ့သည် ဖြစ်၍ စစ်ဗိုလ် အဆင့်အတန်းပင် ရရှိခဲ့၏။ သို့သော် မကြာမီပင် ဘုရင်ခံနှင့် ပနံမစားတော့သဖြင့် ပေါ်တူဂယ်နိုင်ငံသို့ ပြန်လေ၏။ မိုရော့ကိုနယ်၌ အာရပ်တို့ကို ပေါ်တူဂီတို့က သွားရောက် တိုက်ခိုက်သည်တွင် မဂျဲလင် လိုက်ပါ ထမ်းဆောင်လေသည်။

ထိုအတောအတွင်း မဂျဲလင်သည် ပထဝီဝင် ပညာရပ်တွင် စိတ်ပါ ဝင်စားလာ၍ ထိုပညာရပ်ကို စူးစမ်း လေ့လာခဲ့၏။ ထို့ပြင် ရေကြောင်းအတတ်ကိုလည်း အတော်ပင် တတ်ကျွမ်းလာလေသည်။ ပေါ်တူဂယ်နိုင်ငံမှ အနောက်စူးစူးအရပ်သို့ သင်္ဘောများဖြင့် ရွေးရှူသွားကာ တောင်အမေရိကတိုက်ကို ပတ်ပြီးလျှင် မကြာသေးမီက ဗဲလဗိုအာ တွေ့ရှိခဲ့သော ရေပြင်ကျယ်ကို ဖြတ်ကျော်၍ သွားလေသော် အိန္ဒိယပြည်

သို့ ရောက်မည်ဟု မဂျဲလင် စွဲမြဲ ယုံကြည်လေသည်။ သို့ရာတွင် ပေါ်တူဂီ ဘုရင်ထံ တင်ပြသောအခါ ဘုရင်က သူ့ကို အားမပေးသဖြင့် စပိန် ဘုရင်ထံသို့ သွားရောက်၍ အကူအညီ တောင်းလေသည်။ စပိန်ပြည့်ရှင် ပဥ္စမချားဘုရင်ကား ကိုလံဗပ်ကဲ့သို့ပင် မဂျဲလင်လည်း အောင်မြင်လိမ့်မည်ဟု ယုံကြည်သဖြင့် သူ့အား သင်္ဘော ၅ စင်းနှင့် လူ ၃၀၀ ခန့် ပေးလေသည်။ (ကိုလံဗပ်,စီ — ရှု။)

ခရစ် ၁၅၁၉ ခုနှစ် စက်တင်ဘာလအတွင်း၌ မဂျဲလင်သည် ယင်းသင်္ဘော ၅ စင်းနှင့် ဆန်လုကာ ဆိပ်ကမ်းမှ ထွက်ခွာခဲ့၏။ နောက် ၄ လခန့်အကြာတွင် တောင်အမေရိကတိုက်သို့ ရောက်သွားလေသည်။ ထိုနောက် မဂျဲလင်နှင့် အပေါင်းပါ သင်္ဘောသားတို့သည် ကမ်းရိုးတန်းတလျှောက် တောင်ဖက်သို့ ဆက်လက်သင်္ဘောလွှင့်သွားကြ၍ ဆောင်းဝင်လာသောအခါမှ ခရီးတထောက် နားကြလေသည်။ ထိုသို့ နားနေစဉ် မကျေမနပ်ဖြစ်နေသော သင်္ဘောသားအချို့က သူ့ကို တော်လှန်ရန် ကြံစည်ကြသည်။ သို့ရာတွင် မဂျဲလင်က တင်းတင်းမာမာ နှိပ်ကွပ်လိုက်သဖြင့် အားလုံး ငြိမ်ဝပ်သွားကြလေသည်။ မဂျဲလင်သည် မည်သည့် အနှောင့်အယှက်များကိုမျှ ဂရုစိုက်သူမဟုတ်ချေ။ ရိက္ခာများ တဖြည်းဖြည်းလျော့နည်းလာသော်လည်း မဂျဲလင်သည် ရွက်များမှ သားရေကိုပင် စားရစေ သူကား အလျှော့မပေးဘဲ သူ့အကြံ အထမြောက်ရေးအတွက် ကြိုးပမ်းမည်ဟု သန္နိဋ္ဌာန်ပြုလေသည်။ မဂျဲလင်သည် ကုန်းအနေအထားကို စုံစမ်းရန်အတွက် သင်္ဘော တစင်းလွှတ်လိုက်ရာ ထိုသင်္ဘောမှာ ပင်လယ်၌ ပျက်စီးနစ်မြုပ်သွားလေသည်။

ဆောင်းရာသီကုန်မှ ဆက်လက် ထွက်ခွာ သွားခဲ့ပြီးနောက် ၃ ရက်အကြာတွင် တောင်အမေရိကတိုက် တောင်ဖက်ဖျားရှိ အငူကို သူတို့ပတ်မိကာ ရေလက်ကြား ကလေးတခုကို ဖြတ်လျှင် ရေပြင်ကျယ်ကြီးထဲသို့ ရောက်သွား ကြလေသည်။ ယင်းရေလက်ကြားမှာ သူဖွဲ့သန်သန်နှင့် ရှာခဲ့သော ရေလက်ကြားဖြစ်၍ အနောက်ဖက်သို့ ထွက်ပေါက်ပင် ဖြစ်၏။ ယခုသော် ထိုရေလက်ကြားကို မဂျဲလင်ရေလက်ကြားဟု ခေါ်ကြသည်။ ထိုပြင် သူတို့ရောက်ရှိနေသော ရေပြင်ကျယ်ကြီးမှာ သူတို့ဖြတ်သန်းလာခဲ့သော သမုဒ္ဒရာနှင့် စာသော် လှိုင်းလေ ငြိမ်သက်လှသဖြင့် ပစိဖိတ် (ချေမ်း ငြိမ်သက်ခြင်း) သမုဒ္ဒရာဟု မှည့်ခေါ် ခဲ့လေသည်။ ထိုနောက်တွင်ကား သင်္ဘောတစင်းမှာ စပိန်နိုင်ငံသို့ လှည့်ပြန်သွားပြီ ဖြစ်၍ သင်္ဘော ၃ စင်းသာ ကျန်တော့၏။

ဤသို့အားဖြင့် ရက်ပေါင်း ၉၈ ရက်ကြာအောင် အနောက်စူးစူးသို့ ခရီးလွှင့်ခဲ့ကြရသောအခါ မဂျဲလင်နှင့် သင်္ဘောသားတို့မှာ အစာရေစာ ပြတ်သွားသဖြင့် အတိဒုက္ခရောက်ကြကာ ဖျားနာကြ၏။ ထိုကြောင့် သင်္ဘောပေါ်ရှိ ကြွက်များနှင့် သားရေကြိုးများကိုပင် စားကြရလေသည်။ စောစောပိုင်းက မဂျဲလင်ဆိုခဲ့သော စကားသည် နိမိတ်သဖွယ် ဖြစ်နေတော့၏။

ယင်းသို့ လူအများပင် သေကြေ ပျက်စီးကြသော်လည်း မလျှော့သော ဇွဲသတ္တိဖြင့် ဆက်လက်လွှင့်သွားကြရာ ယခု မယ်ရီယန္နားကျွန်းစုခေါ် ကျွန်းများသို့ ရောက်သွားလေသည်။ ထိုကျွန်းများမှာ အစာရေစာ ဖြည့်တင်း၍ အနောက်စူးစူးသို့ လွှင့်ပြန်သော် ရက်အနည်းငယ်အတွင်း ဖိလစ်ပိုင်ကျွန်းစုသို့ ရောက်ကြလေ၏။

ကျွန်းသားများမှာ ပျူငှါဖော်ရွေ၍ စေဗူးခေါ် ကျွန်းတကျွန်းမှ လူရိုင်းဘုရင်က မဂျဲလင်နှင့် လာ၍ မိတ်ဖွဲ့လေသည်။ မဂျဲလင်က သူ၏မေတ္တာကို တုံ့ပြန်သော အားဖြင့် သူတိုက်တွန်းသည့်အတိုင်း အခြား ကျွန်းတကျွန်းရှိ လူရိုင်းဘုရင်ကို သွားရောက်တိုက်ခိုက် နှိမ်နင်းပေးလေသည်။ ထိုသို့ လူရိုင်းများနှင့် တိုက်ခိုက်ရာ၌ မဂျဲလင်သည် အသက်ဆုံးရှုံးရလေသည်။သူ၏နောက်လိုက်များမှာလည်း လူရိုင်းဘုရင်၏ ဖမ်းဆီးခြင်းကို ခံရလေသည်။

စပိန်နိုင်ငံမှ ထွက်သွားစဉ်က ပါသွားသော လူ ၃၀၀ နီးပါး အနက် ၁၁ ယောက်သာ သင်္ဘောတစင်းနှင့် ဗော်နီယိုကျွန်းမှ တဆင့် ဂွတ်ဒဟုပ် အငူကိုပတ်၍ စပိန်နိုင်ငံသို့ ပြန်ရောက်ခဲ့လေသည်။ မဂျဲလင်ကား စပိန်နိုင်ငံသို့ ပြန်မရောက်ခဲ့သော်လည်း သူသည် ယခင်က ကမ္ဘာအရှေ့ဖျား သူကျဆုံးသော အရပ်အထိသို့ပင် ရောက်ခဲ့ဘူးပြီးဖြစ်၍ ကမ္ဘာကို သင်္ဘောဖြင့် ပဌမဆုံးပတ်ဘူးသည်ဟု ဆိုရမည်ဖြစ်ပေသည်။

**မဏိပူရနယ်။** ။မဏိပူရနယ်သည် အိန္ဒိယ ပြည်ထောင်စုတွင် ပါဝင်သော နယ်ဘနယ် ဖြစ်သည်။ ရှေး ဗြိတိသျှလက်ထက်က မဏိပူရနယ်သည် အာသံ ဘုရင်ခံ၏ အုပ်ချုပ်ခြင်းကို ခံခဲ့ရ၏။ အိန္ဒိယနိုင်ငံ လွတ်လပ်ရေးရပြီး၍ နယ်နိမိတ်များကို ပြန်လည် သတ်မှတ်ပြီးသည့်နောက်တွင် သီးခြားနယ်ဖြစ်လာသည်။ မဏိပူရနယ်သည် အိန္ဒိယ နိုင်ငံ၏အရှေ့ဖက်တွင် အာသံပြည်နယ်နှင့် မြန်မာနိုင်ငံတို့၏ အကြား၌ တည်ရှိ၍ အကျယ်အဝန်းအားဖြင့် ၈,၄၅၆ စတုရန်းမိုင် မျှသာ ရှိသည်။ မြန်မာနိုင်ငံ၏ နယ်စပ်ဘွင်တည်ရှိခြင်းကြောင့် ရှေးမြန်မာမင်းများ အုပ်စိုးစဉ်အခါက မဏိပူရနယ်နှင့် မြန်မာတို့ အချင်း ဖြစ်ပွားလျက် မဏိပူရနယ်သည် မြန်မာမင်းတို့၏ အာဏာစက် ပြန့်နှံ့ရာဒေသဖြစ်ခဲ့ဘူးပေသည်။ မြန်မာတို့က မဏိပူရကို ကသည်းပြည်ဟူ၍၎င်း၊ မဏိပူရတွင် နေထိုင်သူတို့ကို ကသည်းလူမျိုး ဟူ၍၎င်း ခေါ်ဝေါ်သည်။ (ကသည်းလူမျိုး — ရှု။) မဏိပူရနယ်၏ မြို့တော်သည် အင်ဖားမြို့ ဖြစ်၏။ အင်ဖားမြို့သည် ချင်းတွင်းမြစ်၏ လက်တက်ဖြစ်သော မြစ်သာမြစ်အတွင်း

စီးဝင်သော မဏိပူရမြစ်ဝှမ်းတွင် တည်ရှိလျက် မန္တလေး မြို့၏မြောက်ဖက် အနောက်ယွန်းယွန်း မိုင် ၂၅၀ အကွာတွင် တည်ရှိသည်။

မဏိပူရနယ်သည် တောင်ထူထပ်သော ဒေသ၏ အလယ် ကျယ်ပြန့်သော ချိုင့်ဝှမ်းတွင် တည်ရှိသည်။ ယင်းနယ်၏ များသော အပိုင်းမှာ တောကြီးမျက်မည်းဖြစ်လျက်၊ ဆင်၊ ကြံ့၊ ကျား၊ ကျားသစ်၊ ဝက်ဝံ၊ သမင်၊ ပြောင်များ ကျက်စားသည်။ မဏိပူရနယ်ရှိ အချို့တောင်များသည် ပေ ၁၀,၀၀၀ ကျော် မြင့်သော်လည်း အများအားဖြင့် ပေ ၅,၀၀၀၊ ၆,၀၀၀ အမြင့်ရှိကြသည်။ ချိုင့်ဝှမ်းသည် စတုရန်းမိုင် ၇၀၀ ကျယ်၍ ပင်လယ်ပြင်ထက် ပေ ၂,၆၀၀ မြင့်သည်။ တောင်ပေါ်ဒေသတွင် နေထိုင်သူများသည် နယ်ရှိ လူဦးရေ၏ ၃ ပုံ ၁ ပုံရှိ၍ လူမျိုးအုပ်စုခွဲပေါင်း ၄၀ မျှ ပါဝင်သည်။ ယင်းတို့အနက် အုပ်စုကြီး ၂ စုမှာ နာဂနှင့် ကုကီလူမျိုးများပင်တည်း။ မြို့တော်ဖြစ်သော အင်ဖားမြို့အနီးတဝိုက်တွင် နေထိုင်သူတို့မှာ အများအားဖြင့် မေထေး (မဏိပူရီ) လူမျိုးများ ဖြစ်၏။ မဏိပူရ နယ်တွင် ပြောဆိုကြသော ဘာသာစကား အများအပြားပင် ရှိသော်လည်း မဏိပူရီ (ကသည်း) နှင့် အင်္ဂလိပ်စကားတို့မှာ ရုံးသုံးဘာသာစကားများ ဖြစ်ကြသည်။ မဏိပူရတွင် နေထိုင်သော လူဦးရေမှာ ၁၉၅၉ ခုနှစ်တွင် ခန့်မှန်းခြေ ၅၇၇,၆၃၅ ယောက်ဖြစ်၏။ များသောအားဖြင့် ဟိန္ဒူ၊ မွတ်စလင်၊ ခရစ်ယန်နှင့် ဗုဒ္ဓအယူဝါဒီများဖြစ်ကြ၏။

မဏိပူရနယ်တွင် စပါးသည် အဓိက စိုက်ပျိုးသော ကောက်နှံဖြစ်၏။ ဆန်အသင့်အတင့်ကို နယ်အပသို့ ထုတ်ရောင်းသည်။ သစ်တောထွက် ပစ္စည်းများသည်လည်း အရေးပါသော ထုတ်ကုန်ဖြစ်သည်။ လက်ရက်ကန်းလုပ်ငန်းသည် နာမည်ရသောလုပ်ငန်းဖြစ်၏။ အလုပ်အကိုင်များတွင် အမျိုးသမီးများ ဦးစီး လုပ်ကိုင်သည်က များ၏။ မဏိပူရတွင် ထင်ရှားသော မြင်းတမျိုးပေါက်ဖွား၍ ယင်းတို့ကို အမျိုးသား ကစားပွဲ တခုဖြစ်သော ပိုလိုကစားပွဲများတွင် အသုံးပြုသည်။ ယခုအခါတွင် မဏိပူရနယ်၌ လုပ်ငန်းများ တိုးတက်အောင် အစိုးရက စီမံစိုင်းပြင်းလျက် ရှိပေသည်။

မဏိပူရနယ်သည် ရှေးအခါက တိုင်းရင်း မဟာရာဇာ စော်ဘွား အုပ်ချုပ်ခံနယ်ဖြစ်၏။ အတွင်းကျ၍ မထင်ရှားသော ချိုင့်ဝှမ်းတွင် တည်ရှိသဖြင့် အခြား နိုင်ငံများနှင့် အဆက်အစပ် မရှိသော်လည်း မြန်မာနိုင်ငံနှင့် ကပ်လျက်ရှိသောကြောင့် မြန်မာ့သမိုင်းတွင် ဘုရင့်နောင် လက်ထက်မှစ၍ ဖော်ပြပါရှိသည်ကိုတွေ့ရ၏။ သက္ကရာဇ် ၉၂၁ ခု၊ ဘုရင့်နောင် လက်ထက်တွင် ကလေးမင်းခင်း နယ်ပယ်များကို ကသည်းစော်ဘွားက ထိပါးလာသောကြောင့် ရဲမက်တော်တို့ ချီတက်ကြရသည်။ ကသည်းစော်ဘွားက သစ္စာတော်ခံ၍ သမီးကိုဆက်သည်။ ဤသို့ဖြင့် ဘုရင့်နောင်လက်ထက်တွင် လက်ဆောင်ပဏ္ဏာများ ဆက်သလာသော်လည်း ကုန်းဘောင်ခေတ်အလျင် မြန်မာနိုင်ငံ ကစဉ့်ကရဲဖြစ်နေချိန်များတွင် ကသည်းတို့သည် မြန်မာနိုင်ငံတွင်းသို့ ဝင်ရောက်ကာ သောင်းကျန်းဖျက်ဆီး၏။ သို့ထိပါးတိုက်ခိုက်ခဲ့သည်ကို တုံ့ပြန်သောအားဖြင့် ကုန်းဘောင်ခေတ် ခရစ် ၁၇၅၈ ခုနှစ် အလောင်းဘုရား လက်ထက်၊ ၁၇၆၄ ခုနှစ် ကုန်းဘောင်ဆင်ဖြူရှင် မင်းတရားလက်ထက်၊ ၁၈၁၉ ခုနှစ် ဘကြီးတော်ဘုရားလက်ထက်တို့တွင် မြန်မာတို့က မဏိပူရ ကသည်းပြည်ကို အောင်မြင်သိမ်းပိုက်ခဲ့၏။ ဘကြီးတော်ဘုရားလက်ထက်တွင် မဏိပူရ၊ ကသည်းစော်ဘွား မဟာရှိန် ရာဇာသည် လက်ဆောင်ပဏ္ဏာ အဆက် အသ မရောက်သဖြင့် ၁၈၁၉ ခုနှစ်တွင် ညီတော် ဒွါရဝတီမင်းသား သတိုးမင်းရဲကျော်ထင်ကို ဗိုလ်ချုပ် ခန့်အပ်တော်မူ၍ တပ်များ ချီတက်သိမ်းယူစေရာ မဏိပူရ တမြို့လုံးကိုရ၍ အစောင့်တပ်များ ထားခဲ့ပြီးလျှင် ပြန်လာကြသည်။ ထိုမဏိပူရချီတပ်တွင် အလုံမြို့ဝန်မင်းကြီးမဟာဗန္ဓုလမှာလက်ဝဲကြောင်းစစ်ကဲ၊ မင်းကြီးမင်းခေါင်ကျော်မှာ လက်ျာကြောင်း စစ်ကဲအဖြစ်ဖြင့် လိုက်ပါ ထမ်းရွက်ကြသည်။

မဏိပူရစော်ဘွား မဟာရှိန်ရာဇာကား ကချာနယ်သို့ ထွက်ပြေး တိမ်းရှောင်လေသည်။ ကချာတွင် မိမိအစ်ကို စော်ဘွားဟောင်း ချောဂျစ်ဆင် အုပ်ချုပ်နေနှင့်သည်ကို တွေ့ရှိ၍ ညီဂမ္ဘီရဆင်နှင့် ပူးပေါင်းပြီးလျှင် ချောဂျစ်ဆင်ကို တိုက်ခိုက် နှင်ထုတ်၍ ကချာတွင် အခိုင်အလုံ နေလေသည်။ ထိုနောက် မဟာရှိန်ရာဇာ၏သားသည် ကချာမှ လာ၍ မဏိပူရ မြို့စောင့် မြန်မာတပ်ကို တိုက်လာ ပြန်သည်နှင့် သက္ကရာဇ် ၁၁၈၂ ပြည့်ခုနှစ်တွင် မြန်မာတပ်များစစ်ကူထပ်မံလာရောက် တိုက်ခိုက်နှိမ်နင်းရပြန်သည်။ အင်္ဂလိပ်တို့ကား မြန်မာတို့ တန်ခိုးဖြန့်လာသည်ကို စိုးရိမ်သဖြင့် ကချာ စော်ဘွားဟောင်း ဂေါဝိန္ဒချန္ဒရာကို အားပေးကူညီပြီးလျှင် မဏိပူရ စော်ဘွားတို့ကို ပင်စင်ရိက္ခာပေး၍ အေးချမ်းစွာ နေထိုင်စေသည်။ ထိုနောက် မြန်မာတပ်တော်တို့က ကချာနယ်သို့ ချဉ်းနင်း ဝင်ရောက်သည်တွင် အင်္ဂလိပ်နှင့် မသင့်မတင့်ဖြစ်ရသည်။ ဤသို့ မဏိပူရစော်ဘွားတို့ကို လိုက်လံတိုက်ခိုက်သည်မှအစပြု၍ အင်္ဂလိပ်နှင့် မြန်မာတို့ စစ်ဖြစ်ကြသည်တွင် ပဌမ အင်္ဂလိပ်-မြန်မာစစ်ပွဲအဆုံး ရန္တပို စာချုပ်အရ မဏိပူရနယ် ကချာနယ်တို့ကို မြန်မာတို့က အနှောင့်အယှက် မပြုရတော့ချေ။ ဤတို့ဖြင့် မဏိပူရနယ်သည် မြန်မာတို့လက်မှ လွှတ်မြောက်သွားသည်။ သို့ရာတွင် မဏိပူရ စော်ဘွားများသည် ထီးနန်းဆက်ခံရေးတွင် မသင့်မတင့် အငြင်းပွားမှုများဖြစ်ခဲ့၏။ ခရစ် ၁၈၉၁ ခုနှစ်တွင် နန်းဆက်ခံမှုနှင့် စပ်လျဉ်း၍ အငြင်းပွားသည်တွင် အာသံပြည်

ဝန်ရှင်တော်မင်းကြီးချုပ်က နိမ်နင်းရန် ဂေါ်ရခါးစစ်သည် ၄,၀၀၀ နှင့် ဝင်ရောက်လာ၍ တိုက်ပွဲများ ဖြစ်ပွားခဲ့၏။ မဏိပူရကသည်းတို့က ဗြိတိသျှ ကိုယ်စားလှယ်တော် အိမ်ကို တိုက်ခိုက် ခဲ့ကြသည်။ ထိုနောက် နှစ်ဖက်သဘောတူ အတိုက်အခိုက် ရပ်စဲနေခိုက်တွင် ဝန်ရှင်တော် မင်းကြီးချုပ်နှင့် ဗြိတိသျှ ကိုယ်စားလှယ်တော်တို့သည် အခြားဗြိတိသျှအရာရှိ ၃ ဦးနှင့် အတူ ဥပါယ်တံမျဉ်ဖြင့် ရက်ရက်စက်စက်သတ်ဖြတ်ခြင်းခံရသည်။ နောက်ဘလ အကြာတွင် ဗြိတိသျှစစ်တပ်က မဏိပူရကို သိမ်းပိုက်ပြီးလျှင် ယင်းနယ်တည်ရှိရေးကို အသိအမှတ်ပြု၍ အုပ်စိုးသော မင်းနွယ်မှ ဆင်းသက် လာသော ၅ နှစ်သားရွယ် မင်းသားကလေး ချူရာချန်အား စော်ဘွားခန့်အပ်ကာ ထိုစော်ဘွား အရွယ်မရောက်မီစပ်ကြား ဗြိတိသျှတို့က ကွပ်ကဲ၍အုပ်ချုပ်သည်။ ခရစ် ၁၉၀၇ ခုနှစ်၌ စော်ဘွားအရွယ်ရောက်သည်တွင် အုပ်ချုပ်ရေး အာဏာကို ပြောင်းယူလိုက်ပေသည်။ ဒုတိယကမ္ဘာစစ်ကြီးအတွင်းဖြစ်သော ၁၉၄၄ ခုနှစ်က မဏိပူရနယ်အတွင်းသို့ မြန်မာပြည်၌တပ်စွဲလျက်ရှိသော ဂျပန်တပ်များက ဝင်ရောက် တိုက်ခိုက်ကာ အင်ဖားမြို့တော်ကိုပင် ထိုနှစ်မတ်လမှ ဇွန်လအထိ ဝိုင်းရံထားခဲ့သော်လည်း ဗြိတိသျှနှင့် အိန္ဒိယ တပ်များက တွန်းလှန်လိုက်၏။ အိန္ဒိယနိုင်ငံ လွတ်လပ်ရေး ရရှိသောအခါ မဏိပူရနယ်သည် အာသံနှင့် မဆိုင်တော့ဘဲ သီးခြားနယ် ဖြစ်လာသည်။

**မဏိမေခလာ။** ။မြခါးရန်းကိုး၊ သို့မဟုတ် စိမ်းလဲ့သော အဆင်းရှိသည့် မြရတနာတို့ဖြင့် စီခြယ်ထားသော ခါးကိုးတန်ဆာရှိသည့် သမုဒ္ဒရာစောင့် နတ်သမီးဖြစ်သည်။ မဏိမေခလာ နတ်သမီးသည် ကျွန်းကြီး လေးကျွန်းပြင်ဖက်၊ သမုဒ္ဒရာရေအယဉ်၌၊ အတွင်းကားငွေ၊ အပကား ရွှေအတိပြီးသော၊ ယူဇနာ ၁၅၀ အပြောအကျယ် အစောက်ရှိသော ဘုံနန်းပြာသာဒ်၊ ပန်းမာလ်သစ်ပင် ပဥ္စင်တူရိယာ ကချေသဘင်နှင့် ပျော်ရွှင်၍ နတ်သားနတ်သမီး ရှစ်သောင်း ခြံရံလျက် စံစားကာနေ၏။ မိဖကို အရိုအသေလုပ်ကျွေးခြင်း၊ သူတပါးတို့အား ချစ်ခင်သနားခြင်း၊ အလှူပေးခြင်း၊ သီလဆောက်တည်ခြင်း စသောဂုဏ်တို့နှင့် ပြည့်စုံသော ယောကျ်ားမြတ်တို့ကို မဟာသမုဒ္ဒရာ၌ နစ်မွန်းခဲ့သည်ရှိသော် ဆယ်တင်စိမ့်သောငှါ စတုလောက ပါလ နတ်ကြီးလေးယောက်တို့က မဏိမေခလာနတ်သမီးအား သမုဒ္ဒရာ၌ အသီးအသီး အစောင့်ထားကြသည်။

မြန်မာပညာရှိ အမတ်ကြီး မဟာစည်သူ ရေးသား ဖွဲ့ဆိုအပ်သော မဟာဇနကပျို့တွင်—

"........နတ်ပြည် ပဌမ၊ အစိုးရသား၊ လောကပါလော်၊ နတ်လေးဖော်တို့၊ ထိုရော်အခါ၊ မဟာသမုဒ္ဒ၊ ပင်လယ်ဝ၌၊ မိဖလုပ်ကျွေး၊ မွေးပေသသူ၊ လူဖြင်အရှိ၊ ဘေးမထိအောင်၊ စောင်စောင် မမ၊ နေ့ညမြင်သိ၊ ကြည့်ရှုဘိဟု၊ မဏိမေခလာ၊ နတ်လိမ္မာကို၊ အရာကိုယ်စား၊ အစောင့်ထား၏။...."

ဟု မဏိမေခလာအကြောင်း ဖော်ပြပါရှိလေသည်။

ဂေါတမမြတ်စွာဘုရား အလောင်းဖြစ်သော မဟာဇနကမင်းသည် ခုနစ်ရာသော သင်္ဘောသားတို့နှင့်တကွ သမုဒ္ဒရာအတွင်း သင်္ဘောလွှင့်သွားရာ လေအဟုန် ပြင်းထန်သဖြင့် မခံနိုင်သောကြောင့် သင်္ဘောနစ်မြုပ်ခဲ့၏။ ခုနစ်ရက်မြောက်သောနေ့မှမဏိမေခလာနတ်သမီးလာ၍ ဘုရားလောင်းအား ကယ်တင်သည်။ နတ်သမီးသည် ဘုရားလောင်းအား သမုဒ္ဒရာထဲမှ ချီပိုက်၍ မိထိလာပြည်၊ သရက်ဥယျာဉ် မင်္ဂလာ ကျောက်ဖျာအပြင်၌ သိပ်ထားကြောင်း မဟာဇနကဇာတ်တော်တွင် ဆိုသည်။

**မဏိသြဃပင်။** ။မဏိသြဃပင်ကို ရုက္ခဗေဒအလို အားဖြင့် ကရယ်လီးယား လူဆီးဒါးဟု ခေါ်၍ ရိုင်ဇိုဖိုရေးစီအီးမျိုးရင်းတွင် ပါဝင်သည်။ မဏိသြဃပင်သည် အပင်ကြီးမျိုးဖြစ်၍ အမြင့် ပေ ၈၀ ထိရှိသည်။ ပင်စည်၏ လုံးပတ်မှာ ၆ ပေမှ ၇ ပေထိ ရှိ၍ မြန်မာနိုင်ငံ မြေညီသစ်တောများ၌ အတော်များများ တွေ့ရသော အပင်မျိုးဖြစ်သည်။ အပင်ကို ခုတ်လှဲပြီးသည်နောက် သစ်လုံးသည် လျင်မြန်စွာ အက်ကွဲလွယ်သည်။ သစ်သားအရောင်မှာ နီကြန်ကြန်ဖြစ်၍ ဖယောင်းမှိုင်း တိုက်ပေးခြင်းဖြင့် အရောင်ညိုမှိုင်း၍ လာစေနိုင်သည်။

သစ်သားတွင် အကွက်အစက်များ ပေါ် ထွက်လျက် ရှိရာ လှပသော အသားဖြစ်သည့်ပြင် ပွပြင်ရလည်း လွယ်ကူသည်။ မာ၍ လှပသော သစ်သားဖြစ်သောကြောင့် ဘီရိုကဲ့သို့ အဆက်အစပ်များသော အိမ်အသုံးအဆောင်များ လုပ်ရန်နှင့် ကြမ်းပြင်အလှခင်းရန်အတွက် အလွန် အသုံးကျလေသည်။ ထို့ပြင် မှန်ကူကွက်ပုံ တပ်ဆင်ရာ၌၎င်း၊ ဝက်မှင်ဘီးခုံများပြုလုပ်ရာ၌၎င်း၊ အခြားအလှအပအတွက် သစ်သားဖြင့် တန်ဆာဆင်ရာ၌၎င်း အသုံးဝင်သော သစ်သား ဖြစ်သည်။

မဏိသြဃသားသည် အသားကျစ်၍ မာသည့်ပြင် လေးသောကြောင့် အချို့ဒေသများတွင် ဆန်ဖွပ်ကျည်ပွေ့ ပြုလုပ်ကြသည်။ အခေါက်နှင့်အမြစ်သည် ဆေးဖက်ဝင်သဖြင့် ဗိန္ဒောဆရာများ အသုံးပြုသည်ဟု ဆိုသည်။

တနင်္သာရီတောင်ပိုင်း၌ မဏိသြဃပင်ကို ယတ်ပင်ဟု ခေါ်ကြသည်။

**မတူပီမြို့။** ။မတူပီမြို့သည် ချင်းဝိသေသတိုင်း တောင်ပိုင်း ချင်းတောင်ခရိုင်အတွင်းရှိ နယ်ပိုင်ရုံးစိုက်မြို့ ဖြစ်၍ နယ်ပိုင်ရုံးစိုက်မြို့ ၆ မြို့အနက် ချောင်အကျဆုံး ဖြစ်သည်။ မြန်မာ

နိုင်ငံ လွတ်လပ်ရေး ရရှိပြီးနောက် ၁၉၄၉ ခုနှစ်တွင်မှ နယ်ပိုင်ရုံးစိုက်မြို့ ဖြစ်လာပေသည်။ မတူပီမြို့သည် မင်းတပ်မြို့၏ အနောက်ဖက် မိုင် ၇၀ ခန့်ကွာဝေး၍ ပလက်ဝ၏ အရှေ့ဖက် ၇၅ မိုင်ကွာလှမ်းသည်။ အရှေ့ပါကစ္စတန်ပြည် နယ်စပ်နှင့် သော်ကား မိုင် ၁၀၀ မျှသာ ဝေးသည်။ မတူပီနယ်တွင် လူဦးရေ ၂၅,၀၀၀ ကျော်ရှိသည်။ မတူပီမြို့သည် ၂ မိုင်ပတ်လည် ကျယ်ဝန်း၍ အိမ်ခြေ ၅၀၀ လူဦးရေ ၂,၀၀၀ ကျော်ရှိသည်။

မတူပီမြို့သည် အမြင့်ပေ ၄,၀၀၀ ရှိ၍ ကျယ်ပြန့်သောကုန်းမြင့်ပေါ် တွင် တည်ရှိသည်။ တောကြီး တောင်ကြီးများ ဝိုင်းရံလျက်ရှိသည်။ ထိုပြင်လေးမြို့ချောင်းနှင့် ကောင်ဝါချောင်းများ ရစ်ဝိုင်းလျက်ရှိသည်။ တောတွင်းဝယ် တောငှက် သားရဲ တိရစ္ဆာန်များ ပေါများသည့်အလျောက် ထိုဒေသရှိ မတူလူမျိုးသည် တောလည်ခြင်းကို နှစ်သက်ကြသည်။ နွေရာသီ၌ ခြောက်သွေ့ကြွေကျနေသည့် သစ်ရွက်များကို မီးရှို့၍ အစုလိုက် အပြုံလိုက် တောလိုက်ထွက်ကြသည်မှာ ဓလေ့ပင် ဖြစ်နေပေသည်။ တောကြီးများမှာ အလွန်နက်၍ ကျယ်ပြန့်သောကြောင့် စစ်မဖြစ်မီက တောတွင်း၌ တောဆင်ရိုင်းများ၊ ကြံ့များပင် ရှိသည်ဆို၏။ အချို့သူတို့သည် အားလပ်ချိန်များတွင် ချောင်းကမ်းဘေး၌ ပျော်ပွဲစားထွက်ခြင်း၊ ငါးများခြင်းတို့ကို လူစုလူဝေးနှင့် တပျော်တပါး ပြုလုပ်လေ့ရှိကြသည်။ ဤသို့တောတောင်ရေမြေ တင့်တယ်သည့်တွင်တောင်ယာလယ်ကွက်များမှာလည်း ရှုမျှော်ခင်းတရပ်ဖြစ်၏။

မတူပီမြို့သည် ချောင်အကျဆုံးမြို့ ဖြစ်သည့် အလျောက် လမ်းပန်းဆက်သွယ်ရေးမှာ ကောင်းမွန်တိုးတက်ခြင်း မရှိသေးချေ။ မင်းတပ်နှင့် ပလက်ဝသို့ ဆက်သွယ်သော ကားလမ်း တပိုင်းတစမျှသာ ရှိသေးသည်။ ကားလမ်းဖောက်လုပ်ပြီးစီးသောအခါမှ လမ်းပန်းအဆက်အသွယ် အဆင်ပြေနိုင်ဖွယ်ရှိသည်။ အခြား တနေရာနှင့် တနေရာသို့ သွားနိုင်ရန် ၆ ပေလမ်းခေါ် လူသွားလမ်းများသာ ရှိသည်။ ရေကြောင်းနှင့်လေကြောင်းခရီး လုံးဝမရှိသဖြင့် ထုတ်ကုန် သွင်းကုန်ဟူ၍ မရှိသလောက်ပင်။ အချို့လူကုံထံများမှအပ ကျန်နယ်သူ နယ်သားတို့သည် မိမိတို့ လက်ဖြစ် အဝတ်အစားများကိုသာ ဝတ်ဆင်ကြသည်။ နယ်သူနယ်သားများမှာ များသောအားဖြင့် တောင်ယာစပါးကို စိုက်ပျိုးကြသည်။ အချို့လည်း မင်းတပ်နယ်နှင့် ဟားခါးနယ်များသို့ သွားရောက်၍ လမ်းအလုပ်သမားအဖြစ် အသက်မွေးဝမ်းကျောင်းကြသည်။ မတူပီနယ်သည် မည်မျှပင် ချောင်ကျစေကာမူ ဆန်စပါးလုံလောက်စွာ ရရှိသောကြောင့် ဝတ်စားနေထိုင်မှု ဖူလုံသည်ဟု ဆိုရပေမည်။

မတူပီနယ်တွင် ချင်းလူမျိုး ၃ မျိုးနေထိုင်ကြပေရာ ယင်းတို့မှာ မတူလူမျိုး၊ ဇိုးလူမျိုးနှင့် မေရန်လူမျိုးများ ဖြစ်ကြသည်။ ဇိုးလူမျိုးမှာ အများစုဖြစ်သည်။ မတူပီမြို့၌ ချင်းလူမျိုးသာ နေထိုင်ကြရာ များသောအားဖြင့် မိရိုးဖလာနတ်ကိုးကွယ်သူများဖြစ်၍ ခရစ်ယန် အယူဝါဒီ အနည်းငယ်မျှရှိသည်။ ဗုဒ္ဓအယူဝါဒီဟူ၍ ပြောပလောက်အောင် မရှိသေးပေ။ သို့သော် ယခုအခါ မတူပီမြို့တွင် တောင်တန်းသာသနာပြု ဘုန်းကြီးကျောင်း တကျောင်းရှိ၍ သာသနာပြုဘုန်းတော်ကြီးတပါး သီတင်းသုံးလျက်ရှိသည်။

နှစ်စဉ်နှစ်တိုင်း ဒီဇင်ဘာလမှ ဖေဖွာရီလအထိ ဆက်တိုက်ဆိုသလိုပင် 'ယူဆုတ်ပွဲ' နှင့် 'အွေပီပွဲ' ခေါ် ကောက်ရိတ် သိမ်းပွဲတော်များကိုင်း၊ နတ်ကြီးတက်ပွဲကိုင်း မြို့ပေါ် ရော နယ်တွင်ပါ ကျင်းပလေ့ရှိသည်။ နေဝင်ချိန်မှ မိုးလင်းသည့်တိုင် နွားနောက်သား၊ ဝက်သားများကို ချက်ပြုတ် စားကာ ခေါင်ရေကိုသောက်လျက် ပျော်ရွှင်မြူးထူးကြ၏။ တအိမ်နှင့်တအိမ် ထင်းရှူးမီးများဖြင့် ကူးသန်းသွားလာကြ၏။ ညအချိန်တွင် တညလုံးလိုပင် မအိပ်ကြဘဲ မီးပုံကြီးများ ပြုလုပ်၍ လူငယ်လူရွယ်အမျိုးသမီး အမျိုးသားတို့သည် ကောက်သိမ်းခြင်း အကြောင်း ဖွဲ့နွဲ့သီကုံးထားသော သီချင်းများကို သံပြိုင်သီဆိုကြ၏။

မတူပီနယ်တွင် အင်္ဂလိပ်များ အုပ်စိုးစဉ် အခါက အစိုးရစာသင်ကျောင်းဟူ၍ မရှိခဲ့ချေ။ ယခုအခါ မူကား အထက်တန်းကျောင်း တကျောင်း၊ အလယ်တန်းကျောင်း ၂ ကျောင်းနှင့် မူလတန်းကျောင်း ၃၃ ကျောင်းရှိသည်။ ထိုပြင် ပြည်တော်သာ စီမံကိန်းအရ ချောင်းကူးတန်တားများ ဆောက်လုပ် ပြီးစီးပြီ ဖြစ်၏။

မတူပီမြို့တွင် ရှေးအထက်ကျော်ကာရီက လူနေအိမ်ခြေ ၁,၀၀၀ ကျော်ပင် ရှိသည်ဟု သိရသည်။ 'မတူ' ဆိုသည်မှာ မတူလူမျိုးကို ဆိုလို၍ 'ပီ' ဆိုသည်မှာ ကြီးသည်ဟု အဓိပ္ပါယ်ရရှိလေသည်။ မတူပီနှင့် ကပ်လျက် ရှိသည့် ရွာကလေးများကို မတူသဲဟု ခေါ်ကြသည်။ 'သဲ' ဟူသောစကားသည် 'ငယ်သည်'ဟု အဓိပ္ပါယ်ရသည်။ မတူပီဆိုသည်မှာ မတူပီလူမျိုးအကြီးအကဲများနေထိုင်ရာ ဒေသဟုပင် ဆိုလိုသလော၊ သို့တည်းမဟုတ် မတူပီ နယ်၏ အကြီးဆုံး မြို့ရွာကြီးဟုပင် ဆိုသလောဟူ၍ကား အတိအကျ မသိရပေ။

**မဒမပင်။** ။ရုက္ခဗေဒ အလိုအားဖြင့် မဒမပင်ကို ဒယ်လဗားဂျီးယား အိုဗားတား ဟု ခေါ်သည်။ ထိုအပင်သည် လီဂူမီနိုးစီး မျိုးရင်းတွင် ပါဝင်သည်။ မဒမပင်သည် အပင်လတ်မျိုးဖြစ်၍ အမြင့် ပေ ၃၀ မှ ၄၀ အထိ ရှိသည်။ အသီးတောင့်သည် အလွန်ပြား၍ အထဲတွင် အစေ့တခုနှစ်ခုသာပါသည်။ မြန်မာနိုင်ငံ အအက်ပိုင်း၊ အောက်ပိုင်းရှိ နွေအခါ အရွက်ကြွေသောသစ်တောများတွင် မဒမပင်များ ပေါက်ရောက်ကြသည်။ သို့ရာတွင် အခြား တောသစ်ပင်များလောက် ယင်းတို့ကို အမြောက်အမြား မတွေ့ရပေ။

သစ်သား၏ အရောင်သည် ညိုမဲ့ရောင်ဖြစ်စေ၊ သို့မဟုတ် ညိုဝါရောင်ဖြစ်စေ ရှိတတ်၍ အတော်အသင့် မာသောကြောင့် လှည်းသန်နှင့် လှေရွက်တိုင်များအတွက် အသုံးပြုကြသည်။ ပုဆိန်၊ ရဲတင်း စသည်တို့၏ လက်ကိုင်ရိုးများ ပြုလုပ်ရန်အတွက်လည်း အလွန် အသုံးကျသော သစ်သား ဖြစ်သည်။ မဒမခေါက်များကို ပြုတ်၍ရသော အရည်ကို မြန်မာ လှေရွက်များဆိုးရာ၌ အသုံးပြုကြသည်။

တနင်္သာရီတိုင်း တောင်ပိုင်းနှင့် ပင်လယ်ကမ်းရိုး တလျှောက် လမုတော၊ လမဲ့တောများ၌ ကဘိုင်ပင်ခေါ် မဒမပင် တမျိုးကို တွေ့ရှိရသည်။ ထိုမဒမပင်တို့သည် သစ်ပင်ငယ်များ ဖြစ်၍ ထင်းနှင့် မီးသွေးဖုတ်ရန်အတွက်သာ ခုတ်ယူ အသုံးပြုကြသည်။

မဒမ အသားသည် အတော်အသင့် တာရှည်ခံသော သစ်သား ဖြစ်သဖြင့် အချို့ ဒေသများတွင် အိမ်တိုင်၊ ထုတ်လျှောက်၊ ဒိုင်း စသည်တို့ကို မဒမသားဖြင့် ပြုလုပ်ကြသည်။

မုတ်ဆိုးမပင်ခေါ် မဒမပင် တမျိုးကိုလည်း မြန်မာနိုင်ငံ၌ တွေ့ရှိရသေးသည်။ ကချင်ဘာသာဖြင့် ထိုသစ်ပင်မျိုးကို နုဝါဥလန်ဟူ၍ ခေါ်သည်။ တနင်္သာရီတိုင်း၌ ထိုမဒမပင်ကို ဝန်ဖြောင်ပင်ဟု ခေါ်ကြသည်။ သာမန် မဒမပင်၏ အရွက်ထက် ဤမဒပင်၏အရွက်တို့ကပိုကြီး၍ အဖျားတုံးသည်။

တောင်ငူနယ်နှင့် မေမြို့နယ်များ၌ မဒမပင်ခေါ် နွယ်ပင် တမျိုးကို တွေ့ရသေးသည်။

မဒမပင်များမှ ချိပ်ရရှိနိုင်သည်။

**မဒရစ်မြို့။** ။မဒရစ်မြို့သည် ဥရောပတိုက်အနောက်တောင်ဖက်အစွန်းတွင် တည်ရှိသော စပိန်နိုင်ငံ၏ မြို့တော်ဖြစ်၏။ စပိန်ဘာသာဖြင့် မားသရိဟုခေါ်၏။ မဒရစ်မြို့သည် စပိန်နိုင်ငံ၏ အလယ်ဗဟိုဒေသ မန်းသာနာရေးမြစ်၏ လက်ဝဲဖက် ကမ်းပေါ်တွင် တည်ရှိ၍ ကုန်းပြင်မြင့်ပေါ်တွင် ဖြစ်၏။ ယင်းကုန်းပြင်မြင့်သည် ပင်လယ်ပြင်ထက် ပေ ၂,၁၅၀ မြင့်၏။ မဒရစ်မြို့သည် စပိန်နိုင်ငံ၏ အလယ်ဗဟိုတွင် တည်ရှိသောကြောင့် မြေထဲပင်လယ်၊ အတ္တလန္တိတ်သမုဒ္ဒရာ၊ ဗစ္စကေးပင်လယ်အော်တို့နှင့် အကွာအဝေးချင်း ညီမျှပေသည်။ (စပိန်နိုင်ငံ — ရှု။) ၉ ရာစုနှစ်ဦးပိုင်းက မဒရစ်သည် မူးငါးလူမျိုးတို့၏ ပိုင်နယ် သိုလေသို၏ နယ်စပ်တွင် ကင်းစောင့်မြို့ ဖြစ်၏။ ရှေးအခါက ကြီးကျယ်ခမ်းနားသောမြို့ကြီး မဟုတ်ခဲ့စေကာမူ ယခုအခါတွင် ခေတ်မှီသော မြို့ကြီးတမြို့ ဖြစ်နေပေပြီ။ မဒရစ်မြို့တွင် နေထိုင်လျက်ရှိသော လူဦးရေသည် ၁၉၆၀ ပြည့်နှစ်ခန့်မှန်းခြေအရ ၂,၀၀၀,၀၀၀ ခန့်ဖြစ်၏။ မဒရစ်မြို့၏ ရာသီဥတုသည် မျှတခြင်းမရှိဘဲ အပူဓာတ် အအေးဓာတ် လွန်ကဲပေသည်။

မဒရစ်မြို့၏အချက်အခြာတွင်ရှိသောပွားတိုဒေဆောခေါ် စတုဂံ လူထုပန်းခြံရပ်ကွက်သည် စီးပွားကုန်သွယ် ရောင်းဝယ်ဖောက်ကားမှု လုပ်ငန်းအဝဝ စုဝေးရာဖြစ်၏။ မြို့တွင်းရှိလမ်းကြီးလမ်းငယ် အသွယ်သွယ်တို့သည် ယင်းစတုဂံ ဥယျာဉ်မှ ဖြာထွက်လေသည်။ ကမ္ဘာတွင် လှပသောရိပ်သာများ အနက် တခု အပါအဝင် ဖြစ်သော ပရာဒိုရိပ်သာသည် ပွားတိုဒေဆော၏ အရှေ့ဖက်တွင် တည်ရှိ၏။ ပရာဒိုရိပ်သာ တလျှောက်တွင် ရေပန်းများ၊ အထိမ်းအမှတ် ကျောက်တိုင်များနှင့် ရုပ်တုများရှိလျက် ဖြောင့်မတ်သော သစ်ပင်များကို လမ်းတလျှောက်လုံး တဖက်တချက်တွင် စီတန်းစိုက်ပျိုးထားလေသည်။ ပွားတိုဒေဆော၏ အနောက်ဖက်တွင်မူ အမျိုးသား နန်းတော်ရှိ၏။

လက်နက်တိုက်တော်မှာ မဒရစ်မြို့ရှိ ထင်ရှားသော အဆောက်အအုံများတွင် အပါအဝင် ဖြစ်၏။ ယင်းလက်နက်တိုက် အတွင်းဝယ် အဖိုးမဖြတ်နိုင်အောင် တန်ဖိုး ကြွယ်ဝသော ရှေးခေတ် လက်နက် ပစ္စည်းများ၊ စစ်ဝတ် တန်ဆာများရှိလျက် စပိန်နိုင်ငံ၏ ရှေးဖြစ်ဟောင်း အောက်မေ့ဖွယ်နိုင်ငံ၏ကျက်သရေဆောင်အဆောက်အအုံပင်ဖြစ်၏။ထိုပြင် တဝလည်း ပရာဒိုဟုခေါ်သော ပန်းချီနှင့် ပန်းပုဆိုင်ရာ အမျိုးသား ပြတိုက်သည် စပိန်နိုင်ငံ၏ အနုပညာကို ထင်ရှားစေသည့် ရတနာသိုက်ပင် ဖြစ်၏။ ယင်းပြတိုက်ထဲတွင် ဂိုးယာ၊ဗေလက်ကတ်၊ မူရီလျို၊ရူးဗင်း၊အယ်ဂရေးကိုး၊ ဗန်ဒိုက်၊ ရက်ဖီအယ် အစရှိသော အနုပညာရှင် ပန်းချီပန်းပု အကျော်အမော်များ၏ လက်စွမ်းပြ ပန်းချီ ပန်းပုလက်ရာများကို တွေ့နိုင်ပေသည်။ (စပိန်အနုပညာ — လည်းရှု။) ရေတပ် ပိဋကတ်တိုက်နှင့် အခြား ပိဋကတ် ပြတိုက်များလည်း ရှိပေသေးသည်။ ယင်းတို့ကြောင့် မဒရစ်မြို့သည် ခရီးသည်များ၊ ပညာရှင်များအတွက် အနုပညာ ယဉ်ကျေးမှုနှင့် စပ်လျဉ်း၍ စိတ်ဝင်စားဖွယ်ရာ ဒေသဖြစ်၏။ မဒရစ် တက္ကသိုလ်သည် ဥရောပတိုက်၏ အကြီးဆုံးသော တက္ကသိုလ်များတွင် အပါအဝင် ဖြစ်သည်။ မဒရစ်မြို့ရှိ အော်ပရာဇာတ်ရုံသည် လှပသောကြောင့် ကမ္ဘာတွင် ကျော်ကြားလေ၏။ ပလားဆားဒေတိုးရိုးခေါ် နွားကစားပွဲရုံသည် ပရိသတ် ၁၃,၀၀၀ ခန့် ဆံ့သည်။

မဒရစ်မြို့သည် မီးရထားလမ်းဆုံရာ ဒေသဖြစ်၏။ သို့အားဖြင့် သယ်ယူပို့ဆောင်ရေးတွင် အချက်အခြာ ဖြစ်သည်။ ပါရစ်မြို့၊လစ္စဗွန်းမြို့နှင့် ကျွန်းဆွယ်ပေါ်ရှိ အခြားမြို့ကြီးများသို့ မီးရထားလမ်း ပေါက်၏။ မဒရစ်မြို့တော်တွင် စက်မှုလက်မှု လုပ်ငန်းအဝဝသည် ခရစ် ၁၈၉၀ခုနှစ်နောက်ပိုင်းတွင် အထူး တလည် တိုးတက်လာ၏။ အရေးပါ အရာရောက်ဆုံးမှာ သားရေထည်လုပ်ငန်းဖြစ်၍၊ အခြား လုပ်ငန်းများမှာ ယပ်တောင်၊ ထီး၊ ဓာတုဗေဒပစ္စည်းများ၊ အရောင်တင်ဆေး၊ ကြယ်သီးများ၊ ဖယောင်းတိုင်၊ အိမ်ထောင် ပရိဘောဂ၊



စပိန်နိုင်ငံ မဒရစ်မြို့တော်ရှိ ဘုရင့်နန်းတော်ရှုခင်း

ကြွေထည်၊ကြွေရည်သုတ်ထည်၊မီးခြစ်၊ကော်ဇော၊ ရထားတွဲ၊ ဆေးရွက်ကြီး၊ အရက်၊ ဖော့၊ အထည်အလိပ်များအစရှိသည် ထုတ်လုပ်သော လုပ်ငန်းတို့ဖြစ်၍ သစ်စက်၊ ဂျုံစက်၊ ဆပ်ပြာစက်၊ အုတ်စက်၊ စက္ကူစက်၊ သွားရေရုံ အစရှိသည်တို့လည်း ရှိပေသည်။ လက်ဝတ် ရတနာများလည်း ထွက်၏။ ပုံနှိပ် ထုတ်ဝေရေးလုပ်ငန်းလည်း အရေးပါပေသည်။

မဒရစ်မြို့သည် သမိုင်းအားဖြင့် ထင်ရှားလှသည် မဟုတ်။ ရောမမြို့၊ ပါရစ်မြို့တို့နှင့် နှိုင်းယှဉ်၍ မရနိုင်ပေ။ ရောမနိုင်ငံတော် ခေတ်ကောင်းစဉ် အခါက ယခုမဒရစ်မြို့တည်ရာဘွင် လူနေအိမ်ခြေ ရှိမရှိပင် အသေအချာ မသိရပေ။ ခရစ် ၉၀၀ ပြည့် နှစ်လွန်နှစ်များတွင် မူးဝါးတို့၏ ကင်းစခန်းတခုကို ယခု မဒရစ်မြို့တည်ရာတွင် တွေ့ရပေသည်။နှစ်ပေါင်း ၁,၀၀၀ ကျော်ခန့်က မူးဝါးတို့လက်မှ စပိန်လူမျိုးတို့က သိမ်းယူလိုက်သော်လည်း ခရစ် ၁၅၁၀ ပြည့်နှစ်အထိ မထင်ရှားသေးပေ။ ခရစ် ၁၅၆၁ ခုနှစ်တွင် ဒုတိယဖိလစ်ဘုရင်က မဒရစ်မြို့ကို မင်းနေပြည်အဖြစ် ရွေးချယ်လိုက်၏။ ဤသို့ ရွေးချယ်ခြင်းမှာ စပိန်နိုင်ငံ၏ အလယ်ဗဟိုတွင် တည်ရှိသည်က တကြောင်း၊ ထိုပြင် အနီးတဝိုက်တွင် တောလည်ထွက်ရန် ကောင်းသော တောစခန်းများလည်း ရှိသောကြောင့်တကြောင်း ဖြစ်၏။ မဒရစ်မြို့သည် နိုင်ငံ၏ အလယ်ဗဟိုတွင် တည်ရှိရုံမှတပါး အခြား ကောင်းခြင်း အင်္ဂါမရှိပေ။ ဤသို့ အားဖြင့် အကျိုးမရှိကြောင်းကိုတွေ့ရှိသောအခါ ဒုတိယဖိလစ်၏သားတော်က မြို့တော်ကို ပြောင်းရွှေ့ရန် ကြံစည်ခဲ့သေး၏။ ထို့နောက်ပိုင်းတွင် မဒရစ်မြို့၏ တိုးတက်မှုသည် အလွန် နှေးကွေးခဲ့၏။

နပိုလီယန် စစ်ပွဲအဘွင်းက မဒရစ်မြို့ကို ပြင်သစ်တို့ သိမ်းပိုက်ခဲ့၏။ ပြင်သစ်တို့ကို ဒျူဘွဲရ ဝယ်လင်တင်က တိုက်ထုတ်ခဲ့၏။ စပိန်ပြည်တွင်းစစ် အတွင်း(၁၉၃၆—၃၉)က မဒရစ်မြို့သည် အချိန်အတော်ကြာစွာ ဝန်းရံထားခြင်း ခံရ၍ တိုက်ပွဲပြင်းထန်စွာ ဖြစ်ပွားရာ စစ်တလင်း ဖြစ်ခဲ့၏။ ၁၉၃၉ ခုနှစ်တွင် ဖရန်ကိုက မြို့တွင်းသို့ ဝင်၍ အစိုးရဖွဲ့၏။ ယင်းအချိန်မှသည် ၁၉၅၀ ပြည့် နှစ်လွန် နှစ်များတိုင်အောင် မြို့ကို ပြန်လည် တည်ဆောက်ခဲ့လေ၏။

**မဒရပ်ပြည်နယ်။** ။မဒရပ် ပြည်နယ်သည် အိန္ဒိယနိုင်ငံတွင် ပါဝင်သည့် ပြည်နယ်တခုဖြစ်သည်။ ဗြိတိသျှတို့ လက်ထက်က နယ်နိမိတ် ကျယ်ဝန်းသော်လည်း အိန္ဒိယပြည်သည် လွတ်လပ်သော နိုင်ငံဖြစ်လာ၍ ပြည်နယ်များကို ပြန်လည်သတ်မှတ်သည်တွင် မဒရပ်ပြည်နယ် မြောက်ပိုင်း တခြမ်းကို အန္ဓရပဒေသ ဟူသော အမည်ဖြင့် ပြည်နယ်သစ်တခု ဖွဲ့စည်းပေးလိုက်သဖြင့် ယခုအခါမဒရပ်ပြည်နယ်၏ အကျယ်အဝန်းမှာ ၅၀,၁၃၂ စတုရန်းမိုင်မျှသာ ရှိပေသည်။ မဒရပ်ပြည်နယ်သည် ဗြိတိသျှတို့၏ မူရင်းနယ်ကြီး ၃ နယ်အနက်

တနယ်ဖြစ်ခဲ့၏။ အခြားနယ်များမှာ ဘုံဘိုင်နှင့် ဗင်္ဂလားတို့ ဖြစ်လေသည်။ (အန္ဓရပဒေသ — လည်းရှု။)

မဒရပ်ပြည်နယ်သည် အိန္ဒိယကျွန်းဆွယ် တောင်ဖက်အစွန်းတွင် ဗင်္ဂလားအော်တလျှောက်၌ တည်ရှိသည်။ မဒရပ်ပြည်နယ်၏အနောက်ဖက် ကျောချင်းကပ်၌ ကေရာလပြည်နယ် တည်ရှိ၏။ အနောက်မြောက်ဖက်တွင် မိုင်ဆိုပြည်နယ်၊ မြောက်ဖက်တွင် အန္ဓရပဒေသပြည်နယ်၊ အရှေ့ဖက်တွင် ဗင်္ဂလားအော်တို့ဖြင့် ပတ်ရံလျက် ရှိ၏။ တောင်ဖက်၌ သီဟိုဠ်ကျွန်းရှိ၍ ပေါက် ရေလက်ကြားဖြင့်သာ ခြားလျက်ရှိပေသည်။ မဒရပ်ပြည်နယ်၏ ရုံးစိုက်ရာမြို့သည် မဒရပ်မြို့ဖြစ်၍ အိန္ဒိယ နိုင်ငံတွင် တတိယလိုက်သော မြို့ကြီး ဖြစ်၏။ ယင်းပြည်နယ်ရှိ အခြား မြို့ကြီးများမှာ ပွန်ဒီချယ်ရီ၊ တီရှုချီရာပလီ၊ တန်ဂျော်၊ မဒူရေမြို့များ ဖြစ်ကြသည်။ ( မဒရပ်မြို့ — လည်းရှု။)

မဒရပ်ပြည်နယ်သည် များစွာသောအပိုင်းတွင် တောင်ထူထပ်၍ ကျန်အပိုင်းမှာ ကုန်းပြင်မြင့် ဖြစ်ကာ ကျွန္တား မွေးမြူရန် သင့်လျော်၏။ အဓိက တောင်တန်းများမှာ အရှေ့နှင့် အနောက် ဂတ် တောင်တန်းများနှင့် နီလာဂီရီ တောင်များဖြစ်၏။ အရေးပါ အရာရောက်သော မြစ်များကား ဂေါဒဝရီနှင့် ကစ္စနာမြစ်များဖြစ်၏။ မဒရပ်ပြည်နယ်သည် ယေဘုယျအားဖြင့် အိန္ဒိယနိုင်ငံတွင် အပူပြင်းဆုံး ဒေသဟု သတ်မှတ်ထားခြင်း ခံရသော်လည်း အနိမ့်အမြင့်သို့လိုက်၍ ဒေသအသီးအသီးတွင် များစွာကွာခြားမှု ရှိသည်။ ပင်လယ်မှတိုက်ခတ်သော လေပြေလေညှင်းများကြောင့် သက်သာရာရသင့်သလောက်လည်းရသည်။ မဒရပ်ပြည်နယ်တွင် ထူးခြားသည်ကား ဆောင်းဦးပေါက် ကာလ ဖြစ်သော နိုဝင်ဘာလ၊ ဒီဇင်ဘာလများတွင် မိုးအထူးကောင်းခြင်းပင် ဖြစ်လေသည်။ အနောက်ဖက် ကမ်းရိုးတလျှောက်တွင် လက်မ ၁၅၀ ခန့်ရွာ၍၊ အနောက်ဂတ်တောင်တန်းအရှေ့ဖက်ရှိ အချို့ဒေသများတွင် လက်မ ၁၂၀ သာရွာသည်။

မဒရပ်ပြည်နယ်ထွက် သဘာဝ ပစ္စည်းများတွင် အဖိုးတန်သစ်များနှင့် သယံဇာတ ပစ္စည်းများ ပါဝင်သည်။ အရေးပါ အရာရောက်ဆုံး သယံဇာတပစ္စည်းတို့မှာ သံ၊ ရွှေ၊ ခဲ၊ ဂါးနက်ကျောက်၊ စိန်နှင့် ကြေးနီတို့ဖြစ်၏။

လမ်းပန်း ဆက်သွယ်ရေးတွင် မဒရပ် ပြည်နယ်သည် နဂိုရ်အားဖြင့် ကောင်းမွန်ခြင်း မရှိသော်လည်း ပြုပြင်ထားသည့်အတွက် လွယ်ကူမှုရှိသည်။ ပြည်နယ်တွင်း၌ မီးရထားလမ်းများ ကောင်းစွာဖောက်လုပ်ထားသည်။ မဒရပ်မြို့ရှိ သင်္ဘောဆိပ်မှာ ငွေကြေးအမြောက်အမြား အကုန်အကျခံ၍ ပြုပြင်ဆောက်လုပ်ထားသော ဆိပ်ကမ်းဖြစ်၏။ ပြည်နယ်သည် မြေသြဇာကောင်းမွန်ခြင်း မရှိသော်လည်း မြစ်ဝကျွန်းပေါ်ဒေသများ၌ တူးမြောင်းများဖြင့် ရေသွင်းပေးသောကြောင့် စိုက်ပျိုးရေး ဖွံ့ဖြိုးကာ၊ ပြည်နယ်၏ ဝင်ငွေကို တိုးပွားစေသည်။ စိုက်ပျိုးသောကောက်နှံများကား စပါး၊ နှံစားပြောင်း၊ ဆီထွက်သော အစေ့များ၊ ဝါ၊ မဲနယ်၊ ဟင်းခတ် အမွှေး အကြိုင်များ၊ ဆေးရွက်ကြီးပင်၊ လက်ဖက်အစရှိသည်တို့ ဖြစ်၏။ မဒရပ်ပြည်နယ်သည် အိန္ဒိယနိုင်ငံရှိ အခြားမြို့ကြီးများနှင့် မီးရထားလမ်းများဖြင့် အဆက်အသွယ်ရှိသည်။ သီဟိုဠ်ကျွန်းသို့သွားလိုလျှင် မဒရပ်ပြည်နယ်၏ အရှေ့တောင်ဖက်ရှိ ဒါနုသကိုဒိ ဆိပ်ကမ်း တန်တားအထိ မီးရထားစီး၍၊ ထိုမှ တဆင့် တဖက်ကမ်းရှိ သီဟိုဠ်ကျွန်းမှ တာလယ်မန္နာဆိပ်ကမ်းသို့ သင်္ဘောဖြင့် ကူးကာ တာလယ်မန္နာမှနေ၍ ကိုလံဗိုသို့ မီးရထားဖြင့် ခရီးဆက်ရ၏။

မဒရပ်ပြည်နယ်တွင် နေထိုင်သူအများမှာ ဟိန္ဒူများ ဖြစ်၏။ ခရစ်ယန်အယူဝါဒသည် အိန္ဒိယနိုင်ငံတွင် အခြား ဒေသများထက် မဒရပ်ပြည်နယ်၌ ပို၍ပြန့်ပွားသည်ဖြစ်ရကား ခရစ်ယန်အယူဝါဒီ အထူးသဖြင့် ဗရင်ဂျီဂိုဏ်းဝင် များပေသည်။ ဤပြည်နယ်တွင် တိုင်းရင်းဘာသာ စကား ၃ မျိုး ပြောကြသော်လည်း အများသုံး ဘာသာစကားမှာ တမီလ်စကားဖြစ်၏။ မဒရပ်ပြည်နယ်ရှိ လူဦးရေမှာ ၁၉၅၉ ခုနှစ်တွင် ခန့်မှန်းခြေ ၂၉,၉၇၄,၉၃၆ ယောက် ဖြစ်၏။

မဒရပ်ပြည်နယ်သည် အာဏာအတွက် ဗိုလ်လုပွဲ မကြာခဏ ဖြစ်ပွားရာဒေသ ဖြစ်၏။ ခရစ် ၁၄ ရာစု နှစ်ဦးကာလက မဒရပ်ပြည်နယ်တွင်းသို့ မွတ်စလင်များ ချင်းနင်း ဝင်ရောက်လာသည်။ ထို့နောက် ဗြိတိသျှ၊ ပြင်သစ်နှင့် ဒပ်ချလူမျိုးတို့သည် အာဏာရရေးအတွက် နှစ်လကြာရှည်စွာ တိုက်ခိုက်ကြ၍ အဆုံးတွင် ဗြိတိသျှတို့က အနိုင်ရသည်။ မဒရပ်ပြည်နယ်သည် အိန္ဒိယနိုင်ငံ၌ ဗြိတိသျှတို့က ဦးစွာ အခြေစိုက်ရာ ဌာနတခုဖြစ်၏။ ၁၉၅၃ ခုနှစ်တွင် အိန္ဒိယနိုင်ငံ လွတ်လပ်ရေး ရပြီးသည့်နောက်ပိုင်း၌ မဒရပ်ပြည်နယ် မြောက်ပိုင်းကို အန္ဓရပဒေသပြည်နယ်ဟူ၍ နယ်သစ်တခု တည်ထောင်၏။အန္ဓရပဒေသပြည်နယ်တွင် အများပြော ဘာသာစကားမှာ တေလဂူဖြစ်၏။ အိန္ဒိယနိုင်ငံတွင် ပြောဆိုသော ဘာသာစကားကို မူတည်၍ ပြည်နယ်သီးခြား သတ်မှတ်ရာ၌ အန္ဓရပဒေသသည် ပဌမဆုံးပြည်နယ် ဖြစ်၏။ မဒရပ်ပြည်နယ်ကို အိန္ဒိယနိုင်ငံသမတက ခန့်အပ်သော ဘုရင်ခံအားတာဝန်ခံရသည့်ဝန်ကြီးအဖွဲ့က အုပ်ချုပ်သည်။ သီးခြားဥပဒေပြုလွှတ်တော် ၂ ရပ်ရှိ၏။ မဒရပ်ပြည်နယ်မှ အိန္ဒိယနိုင်ငံ အထက်လွှတ်တော်သို့ ကိုယ်စားလှယ် ၁၇ ဦးနှင့် အောက်လွှတ်တော်သို့ ကိုယ်စားလှယ် ၄၁ ဦးစေလွှတ်ရသည်။

**မဒရပ်မြို့။** ။မဒရပ်မြို့သည် အိန္ဒိယနိုင်ငံတွင် အဝင်အပါဖြစ်သော မဒရပ်ပြည်နယ်၏ မြို့တော် ဖြစ်သည်။ အိန္ဒိယ

နိုင်ငံ အရှေ့ဖက် ကမ်းရိုးတန်းတွင် တည်ရှိလျက် အရှေ့ဖက် ကမ်းခြေ တလျှောက်တွင် အဓိက သင်္ဘောဆိပ်မြို့ဖြစ်၏။ ကမ်းခြေသည် သဲထူ၍ ဗင်္ဂလားအော်မှ လှိုင်းလုံးများ ပြင်းထန်စွာ ပုတ်ခတ်ခြင်းကို ခံရ၏။ သို့ရာတွင် လှိုင်းကာဖြင့် ပြုပြင်စီမံ ထားသောကြောင့် ယခုအခါ ခေတ်မှီသော သင်္ဘောဆိပ်ကြီး တခုဖြစ်၏။ မဒရပ်မြို့သည် မြေပြန့်ပေါ်တွင် တည်ရှိကာ ကမ်းရိုးတလျှောက် ၉ မိုင်၊ အတွင်းဖက်သို့ ၄ မိုင်ခန့် ကျယ်ပြန့်၍ ၂၇ စတုရန်းမိုင်ခန့် ကျယ်ဝန်း၏။ ကာလကတ္တားမြို့ အနောက်တောင်ဖက်တွင် တည်ရှိလျက် ၇၃၅ မိုင် ကွာဝေးသည်။ ကာလကတ္တားမြို့၊ ဘုံဘိုင်မြို့တို့နောက် အိန္ဒိယနိုင်ငံတွင် တတိယလိုက်သော မြို့ကြီးဖြစ်သည်။ ရုတ်တရက် ကြည့်လိုက်သော်ကား မဒရပ်မြို့သည် အခြား မြို့ကြီးများကဲ့သို့ မြို့ခင်းများစွာ မသာယာလှပေ။သို့သော် ခရစ်ယန် ဘုရားရှိခိုးကျောင်းများ၊ စာသင်ကျောင်းများ၊ ဆေးရုံ၊ ဘူတာရုံ၊ အစိုးရရုံးအစရှိသော တိုက်တာ အဆောက်အအုံကြီးများအပြင် တက္ကသိုလ် ၂ ခုလည်း ရှိ၏။ မြို့တွင်း၌ အစည်ကားဆုံး စီးပွားကုန်သွယ်မှု ရပ်ကွက်မှာ ဂျော့တောင်းဖြစ်သည်။

ဂျော့တောင်းကိုရှေးအခါက ဗလက်တောင်းဟုခေါ်၏။ ရှေးဟောင်း ခံတပ်ဖြစ်သော ဖို့စိန်ဂျော့မှာ သမိုင်းဝင် အဆောက်အအုံ ဖြစ်၏။ ကာကွယ်ရေးနှင့် ပင်လယ်ရေကြောင်း သွားလာရေး အလို့ငှါ ၁၆၃၉ ခုနှစ်က တည်ဆောက်ခဲ့၏။

မဒရပ်မြို့သည် မြို့ကြီးဖြစ်သည့် အလျောက် ကြည်း၊ ရေ၊ လေ သုံးကြောင်းလုံးတွင် လမ်းပန်းအဆက်အသွယ် ရှိပေသည်။ မီးရထားလမ်းများ ဆုံရာလည်း ဖြစ်၏။ သင်္ဘောဆိပ်သည် အထူးတလည် ကောင်းမွန်ခြင်း မရှိသော်လည်း၊ ပင်လယ်ကြောင်း ကုန်သွယ်မှု ဖွံ့ဖြိုး၏။ မဒရပ်မြို့တွင် သားရေနယ် လုပ်ငန်းများ၊ သားရေထည် လုပ်ငန်းများ၊ ခြည်ထည်စက်ရုံများ၊ အင်ဂျင်နီယာလုပ်ငန်းများ၊ ဆေးဆိုးလုပ်ငန်းများ၊ ဗိလတ်မြေစက်ရုံများ၊ သံရည်ကျို စက်ရုံများ စသည်တို့ ရှိ၏။ ထုတ်ကုန်များမှာ ဝါ၊ ဆန်၊ ကာဖီ၊ သားရေစိမ်း၊ လက်ဖက်ခြောက်၊ ဆိုးဆေး၊ ရေဘ်ကောင်း၊ ဆီထွက်သော အစေ့များ အစရှိသည်တို့ဖြစ်၏။ သွင်းကုန်များမှာ ယူနိုက်တက်ကင်းဒမ်းမှ ကုန်ပစ္စည်းများဖြစ်၍ အထူးသဖြင့် ခြည်ထည်များ၊ အရက်၊ သတ္တုများ၊ စာရေးကရိယာများ၊ ကျောက်မီးသွေး၊ သစ်၊ ဆီနှင့် စက်ကရိယာများ ဖြစ်၏။

မဒရပ်မြို့တွင် နေထိုင်သူအများစုမှာ ဟိန္ဒူ အယူဝါဒီများ ဖြစ်လျက် ၈၈ ရာခိုင်နှုန်းဖြစ်၏။ မွတ်စလင်များမှာ ၉ ရာခိုင်နှုန်းမျှရှိ၍၊ ခရစ်ယန်များမှာ ၃ ရာခိုင်နှုန်းမျှသာလျှင်ရှိ၏။ ခရစ် ၁၉၆၀ ပြည့် နှစ်ခန့်မှန်းခြေအရ မဒရပ်မြို့ရှိ လူဦးရေမှာ ၁,၇၂၅,၂၁၆ ဖြစ်၏။

မဒရပ်မြို့ကို ခရစ် ၁၆၃၉ ခုနှစ်က အင်္ဂလိပ်လူမျိုးတို့ တည်ထောင်ခဲ့၏။ ဗြိတိသျှ အရှေ့အိန္ဒိယကုမ္ပဏီမှ ဖရန်းစစ်ဒေးဆိုသူသည် ချန်ဒဂါရီမဟာရာဇာထံမှ မြို့နှင့်ခံတပ်တည်ဆောက်ခွင့် မြေကရုံရရှိသဖြင့် ဖို့စိန်ဂျော့ခေါ် ခံတပ်ကို တည်ဆောက်ခဲ့သည်။ သို့ တည်ဆောက်ရခြင်းမှာ ကာကွယ်ရေးနှင့် ရေကြောင်း သွားလာမှုလွယ်ကူစေရန်ဖြစ်၏။ တဖြည်းဖြည်းနှင့်



မဒရပ်မြို့ရှိ ရှေးခေတ်ဟောင်း အောက်မေ့ဖွယ်ရာ မဟာရာဇာတို့၏ စံအိမ်တော်ကို ယနေ့တိုင် တွေ့မြင်နိုင်သေးသည်။

ယင်းခံတပ်တဝိုက်တွင် အိမ်ခြေယာခြေများ တည်ထောင်ကြသောကြောင့် စည်ကားတိုးတက်သော မြို့ကြီးအဖြစ်သို့ ရောက်ရှိလာ၏။ ယခုအခါတွင် မဒရပ်မြို့တွင် အဝင်အပါ ဖြစ်သော စိန်တိုမေးကို ထည့်တွက်လျှင် မြို့တည်နှစ်သည် ထို ထက်ပင်စောသေး၏။ စိန်တိုမေးရွာကို ခရစ် ၁၅၀၄ ခုနှစ်က တည်ထောင်ခဲ့သည်။ မဒရပ်မြို့သည် ကိုရိုမန်ဒယ် ကမ်းရိုးတန်းတွင် အင်္ဂလိပ်တို့၏ စခန်းမြို့ကြီး ဖြစ်ခဲ့၏။ ခရစ် ၁၇၄၆ ခုနှစ်တွင် ပြင်သစ်လူမျိုးတို့က သိမ်းယူ၍ ၁၇၄၉ ခုနှစ်ထိ သိမ်းပိုက်ထားခဲ့ပြီးလျှင် အက်လာရှပယ်စာချုပ်အရ ဗြိတိသျှတို့ကို ပြန်လည် ပေးအပ်ခဲ့ရ၏။ ခရစ် ၁၇၅၈ ခုနှစ်တွင် ပြင်သစ်တို့က ထပ်မံ ဝန်းရံပိတ်ဆို့သော်လည်း ၂ လ အကြာတွင် နောက်ဆုတ်သွားရလေသည်။

**မဒီးရကျွန်းများ။** ။မဒီးရ ကျွန်းများသည် အတ္တလန္တိတ်သမုဒ္ဒရာ၏ အရှေ့ပိုင်းတွင် တည်ရှိသောကျွန်းစုဖြစ်၍ ပေါ်တူဂယ် နိုင်ငံပိုင် ဖြစ်၏။ အာဖရိကတိုက် အနောက်မြောက်ပိုင်းတွင်တည်ရှိသော မိုရော့ကိုနှင့် မျက်နှာချင်းဆိုင် ဖြစ်လျက် မိုင်ပေါင်း ၃၆၀ မျှကွာလှမ်း၏။ ပေါ်တူဂယ်နိုင်ငံ၏ မြို့တော် လစ္စဗွန်းမြို့၏ အနောက်တောင်ဖက်တွင် တည်ရှိလျက် ၅၃၅ မိုင်ခန့် ကွာဝေးသည်။ ထိုပြင် ကနေရီကျွန်းစု၏ မြောက်ဖက်တွင်၎င်း၊ အဇိုးကျွန်းစု၏ အနောက်တောင်ဖက်တွင်၎င်း တည်ရှိ၏။ မဒီးရကျွန်းစုတွင် မဒီးရကျွန်း၊ ပေါ်တိုဆန်းတိုးကျွန်းနှင့် လူနေအိမ်ခြေ မရှိသော အခြားကျွန်းကလေး ၂ ခုပါဝင်၏။ မဒီးရကျွန်းသည် အကြီးဆုံးကျွန်း ဖြစ်ကာ အရေးပါ အရာရောက်ဆုံးလည်း ဖြစ်၏။ မဒီးရကျွန်းများ၏ မြို့တော်သည် ဖွန်ရှားမြို့ဖြစ်လျက် မဒီးရကျွန်း၏ အရှေ့တောင်ဖက်ကမ်းရိုးတွင် တည်ရှိသည်။ ကျွန်းများ၏ စုစုပေါင်း အကျယ်အဝန်းမှာ ၃၁၅ စတုရန်းမိုင် ဖြစ်၏။ မဒီးရကျွန်းသည် အလျား ၃၅ မိုင်၊ အနံ ၁၃ မိုင်ခန့်ရှိ၏။ ရှေးအခါက မီးတောင်ဖြစ်ခဲ့သော တောင်တန်းတခုသည် ကျွန်းကိုဖြတ်သန်း တည်ရှိ၏။ အမြင့်ဆုံး တောင်ထွတ် ဖြစ်သော ပီကူးရူဝီဗူးသည် ပင်လယ်ပြင်ထက် ၆,၀၅၆ ပေ မြင့်၏။ ရာသီဥတုသည် သမမျှတ၍ တသမတ်တည်း ရှိသောကြောင့် နာလှန်ထများ သွားရောက် အနားယူရာ ဒေသ ဖြစ်လေသည်။

မဒီးရကျွန်းများ၏ အဓိက ထွက်ကုန်များမှာ စွန်ပလွံသီး၊ ငှက်ပျောသီး၊ ပြောင်းဖူး၊ သြဇာသီး၊ တည်သီး၊ သလဲသီး၊ သကြား၊ ကာဖီ၊ သပျစ်သီး၊ ကြံ၊ ကန်စွန်းဥ၊ ကြက်သွန်၊ ကောက်သီးကောက်နှံအချို့နှင့် သစ်သီးများဖြစ်၏။ နွားများကို နွားနို့အလို့ငှါမွေးမြူကြ၏။အဓိကလုပ်ငန်းများကား ဇာထိုးပန်းထိုးလုပ်ငန်း၊ ဝိုင်အရက်လုပ်ငန်း၊ သကြားလုပ်ငန်း၊ ကြိမ်ထည် ပရိဘောဂများ၊ ခြင်းနှင့် တောင်းများ လုပ်ငန်းနှင့် ငါးဖမ်းလုပ်ငန်းဖြစ်၏။ ထုတ်ကုန်များမှာ နာမည်ကျော် မဒီးရဝိုင်အရက်၊ ပန်းထိုးထည်များ၊ ကြိမ်ထည်များ၊ ငှက်ပျောသီး၊ နာနတ်သီး၊ နွားနို့ထွက် ပစ္စည်း များနှင့် ငါးများပင်တည်း။ မဒီးရကျွန်း၏ မြို့တော် ဖွန်ရှားမြို့သည်



ကမ္ဘာကျော် မဒီးရဝိုင်အရက် ထုတ်လုပ်ရာဖြစ်သော မဒီးရကျွန်း၏ သာယာဖွယ်ရှုခင်း

ပင်လယ်ကူး သင်္ဘောများ ဆိုက်ကပ်ရပ်နားရာ ဆိပ်ကမ်းကောင်း ဖြစ်သောကြောင့် အရောင်း အဝယ် ဖွံ့ဖြိုး၏။

မဒီးရ ကျွန်းများအကြောင်းကို ရှေးရောမ လူမျိုးတို့ လက်ထက် ကတည်းက သိရှိခဲ့၏။ ခရစ် ၁၄၁၈ ခုနှစ်တွင် ပေါ်တူဂီ လူမျိုး နွမ်းဂွန်းဆာလဗက်ရှဇာကူး ဆိုသူက ပြန်လည်တွေ့ရှိခဲ့၍ အနှစ် ၃၀ ကြာသောအခါ ထိုကျွန်းများတွင် နယ်သစ်စတင်စိုက်ခဲ့၏။ မဒီးရဟူသည်မှာ ပေါ်တူဂီဘာသာ အားဖြင့် 'သစ်' ဟု အဓိပ္ပါယ် ရ၏။ ယင်းကျွန်းတွင် သစ်တောထူခြင်းကို အစွဲပြု၍ ထိုသို့ မှည့်ခေါ်ခြင်းဖြစ်၏။ ခရစ် ၁၅၈၆ ခုနှစ်မှ ၁၆၄၀ ပြည့်နှစ်အထိ အမိနိုင်ငံဖြစ်သော ပေါ်တူဂယ်ရော မဒီးရကျွန်းများပါ စပိန်လူမျိုးတို့ လက်အောက်သို့ သက်ရောက်ခဲ့ရ၏။ ခရစ် ၁၈၀၁ ခုနှစ်တွင် တကြိမ်၊ ၁၈၀၇–၁၈၁၄ ခုနှစ်တွင် တကြိမ် ပေါင်း ၂ ကြိမ်မျှ ဗြိတိသျှလက်တွင်းသို့ သက်ဆင်းခဲ့ရသေးသည်။ ဗြိတိသျှတို့သည် ဝိုင်အရက် လုပ်ငန်းကို တိုးတက် ကောင်းမွန်အောင် ပြုလုပ်ခဲ့လေသည်။

မဒီးရကျွန်းစုတွင် မဒီးရကျွန်းနှင့် ပေါ်တိုဆန်းတိုးကျွန်းတို့တွင်သာ လူနေအိမ်ခြေ ရှိသည်။ လူအားလုံးလိုလိုပင် မဒီးရကျွန်းတွင် နေထိုင်ကြသည်။ နေထိုင်သူတို့မှာ ပေါ်တူဂီကပြားများ၊ နီးဂရိုးများ၊ မူးဝါး အဆက်အနွယ်များ ဖြစ်ကြ၏။ လူဦးရေမှာ ၁၉၆၀ ပြည့်နှစ်တွင် ခန့်မှန်းခြေအားဖြင့် စုစုပေါင်း ၂၈၂,၆၇၈ ယောက်ခန့် ဖြစ်၏။ မဒီးရကျွန်း တခုတည်းတွင်ရှိသော လူဦးရေမှာ ၂၇၀,၀၀၀ ကျော် ဖြစ်သည်။

**မဒေါနား။** ။မဒေါနား ဟူသည်ကား ဣတာလျံ ဝေါဟာရဖြစ်၍ 'အရှင်သခင်မ' ဟု အဓိပ္ပါယ်ရကာ ခရစ်တော် ယေရှု၏ မယ်တော် အပျိုစင်မေရီ(ဝါ) မယ်တော်မာရီအား ရည်ညွှန်းသည်။ မယ်တော် မာရီအားငင်း၊ မယ်တော် မာရီကို ရည်စူး၍ ရေးခြယ် ထုလုပ်သောအရုပ်ကား၊ ရုပ်တုတို့ကိုငင်း မဒေါနား ဟုခေါ်သည်။

အေဒီ ၄ ရာစုနှစ် နောက်ပိုင်းတွင် ခရစ်ယန် အယူဝါဒီများ အဖို့ ခရစ်တော်၏ မယ်တော်မှာ မိမိတို့ ခိုလှုံအားထားရာဟု သဘောပိုက်လျက် မယ်တော်မာရီအား အထူးပင် ကြည်ညိုကိုးကွယ် ပူဇော်လာကြ၏။ မယ်တော်မာရီသည် လူခပ်သိမ်းအတွက် ကြားဝင်၍ သားတော်ကို ပြောကြားတောင်းပန်ပေးနိုင်စွမ်း ရှိသည်ဟု ယုံကြည်သောအားဖြင့် ဤသို့ဆည်းကပ် ကြည်ညိုကိုးကွယ်ခြင်းဖြစ်၏။ အထူးသဖြင့် ရောမကက်သလစ်ခေါ် ဗရင်ဂျီဂိုဏ်းဝင်များက ပို၍ သက်ဝင်ယုံကြည်ကြလေသည်။ သို့အားဖြင့် မယ်တော်မာရီအား ရည်စူး၍ ပန်းချီကားများ ရေးခြယ်၊ ရုပ်တုများ ထုလုပ်လျက် ခရစ်ယန်တို့သည် နှစ့်စဉ် ဝတ်ပြုကြလေသည်။

မဒေါနား ပုံတော်ကို ပဌမဆုံး ရေးဆွဲသူမှာ စိန်လုကဖြစ်သည်ဟု ဆိုရိုးရှိသည်။ သို့ရာတွင် အပျိုစင်နှင့် သားတော်ငယ်တို့၏ ပုံတော်ကို ခရစ် ၄၃၁ နှစ်နောက်ပိုင်းတွင်မှ လက်ခံကိုးကွယ်ကြပေသည်။ သို့ဖြင့် မဒေါနား ရုပ်ပုံတော်များကို အများအပြား ရေးဆွဲခဲ့ကြပေသည်။ အဟောင်းဆုံးပုံတော်များကို ရှေးဦးခရစ်ယန်အယူဝါဒီတို့ ခိုအောင်းရာ လိုဏ်ဂူများတွင် တွေ့ရှိရ၏။ လက်ဦးကာလက ရေးခြယ်သော ပန်းချီပုံများတွင် များသောအားဖြင့် မယ်တော် မာရီသည် လက်အုပ်ချီကာ ဘုရားဝတ်ပြုနေသည့် အသွင် ဖြစ်၍ ရွှေနှင့် တန်ဆာ ဆင်ထားသော ဝတ်ရုံပြာကို ခေါင်းမှ လွှမ်း၍ ရုံထားလေ့ရှိ၏။ ခရစ် ၁၂၀၀ ပြည့်အထိ ယင်းသည် ဗိုင်ဇင်းတိုင် နမူနာဟူ၍ တွင်၏။ သို့သော် ဥာဏ်သစ်အရေးပုံခေတ်ဦးကာလက ပန်းချီဆရာများသည် ဟန်သစ် ထွင်လျက် နောက်ခံရှုခင်းများကိုပါဝင်စေ၏။ ဥာဏ်သစ်အရေးပုံခေတ်သည် တိုးတက်၍ အထွတ်အထိပ်သို့ ရောက်ရှိသည်နှင့် အမျှ မဒေါနား ပုံတော်များလည်း ထူးခြားခမ်းနားလာ၏။ တကျောင်းတဂါထာ တရွာတပုဒ်ဆန်း ဆိုဘိသကဲ့သို့ပင် ပန်းချီ ပန်းပုဆရာတို့လည်း အမျိုးမျိုး ဥာဏ်ကွန့်၍ မွမ်းမံသဖြင့် တဦးနှင့်တဦး တမူခြားနားသော လက်ရာများဖြင့် မဒေါနား ပုံတော်ကို ရေးခြယ် ထုလုပ်ကြသောကြောင့် အသီးအသီး လက်ရာပြောင်မြောက်လျက် အနုပညာတွင်အရေးပါ၍မဒေါနား ပုံတော် ပန်းချီရေးဆွဲ ထုလုပ်ခြင်းသည် ခေတ်စားလာလေ၏။ မယ်တော်နှင့်သားတော်ပုံတို့သည် များစွာသဘာဝကျလာသည်။ သားတော်ကို ပိုက်ချီထားသည့် မယ်တော်မာရီ၏ ပုံတော်သည် မိခင်၏မေတ္တာနှင့် ပြည့်လျှမ်းသည့် အသွင်ကိုဆောင်နေပေ၏။သို့အားဖြင့် ၁၄ ရာစုနှစ်နှင့် ၁၆ ရာစုနှစ် အတွင်းက ပန်းချီပန်းပုဆရာမှန်သမျှ မဒေါနား ရုပ်ပုံတော်ကို အနည်းနှင့်အများ ရေးဆွဲထုလုပ်ဘူးသူချည်းပင် ဖြစ်ခဲ့၏။ မဒေါနားနှင့်သားတော်တို့၏ပန်းချီကား ပန်းပုရုပ် အမြောက်အမြားပင် ပေါ်ထွန်းလာသည်။ ဤသို့ရေးခြယ်ထုလုပ်ကြရာ၌ ပန်းချီ ပန်းပုဆရာတို့သည် ကာလ၊ ဒေသကို အတိအကျ မသတ်မှတ်ဘဲ မိမိရေးဆွဲနေစဉ် ခေတ်က ခေတ်စားသော အဝတ်အစားများအလိုက် မဒေါနားကို ဝတ်ဆင်ပေးသည့်အတွက် မဒေါနားပုံတော်မှ အဝတ် အစားများမှာ တခုနှင့်တခု ကွဲပြားခြားနားလျက် ရှိ၏။

မဒေါနားပုံတော်ကို ရေးခြယ်ထုလုပ်ခဲ့သည့် များလှစွာသော ပန်းချီ ပန်းပု ဆရာများအနက် အထင်ရှားဆုံးမှာ ဣတာလျံ ပန်းချီကျော် ရက်ဖီအယ်ဖြစ်၏။ ရက်ဖီအယ်၏ လက်ရာများသည် အနုပညာမြောက်၍ စံတင်လောက်သော လက်ရာများ ဖြစ်လေသည်။ သူ၏ပြောင်မြောက်လှသော မဒေါနား ပုံတော် ပန်းချီကားများကား 'ကုလားထိုင်ပေါ်မှ မဒေါနား' ပုံတော်နှင့် မဒေါနားသည် သားတော်ကို ပိုက်ချီလျက်ကောင်းကင်ဘုံမှ သက်ဆင်းလာခိုက် စိန်စစ်ကစတပ်

နှင့် စိန်ဗာဗရာ သူတော်စင်နှစ်ပါးက အောက်ဖက်တွင် ဝတ်တွား ကြည်ညိုနေပုံ ကားချပ်တို့ဖြစ်၏။ မဒေါနားပုံတော် ရေးဆွဲရာတွင် ထင်ရှားသော အခြားပန်းချီ ဆရာတို့မှာ ဖရား ဖီလစ်ပိုလစ်ပီ၊ လီယိုနာဒိုဒါဗင်းချီ၊ ဗဲလီနီနှင့် တစ်ရှန်တို့ဖြစ်၏။ မဒေါနားပုံတော်များကို ဣတာလျံ ပန်းချီဆရာများက အထူးသဖြင့် ရေးဆွဲကြလေသည်။ သို့ရာတွင် ဂျာမန်ပန်းချီဆရာ ဟောလဗိုင်း၊ ဖလင်းမစ်လူမျိုး ဗန်ဒိုက်နှင့် စပိန်ပန်းချီဆရာ မူရီလျိုတို့၏ ပြောင်မြောက်သော မဒေါနားပုံတော် ပန်းချီလက်ရာများကိုလည်း တွေ့ရလေသည်။

၁၆ ရာစုနှစ် နောက်ပိုင်းတွင် မဒေါနားပုံတော် ပန်းချီရေးခြယ်ခြင်း နည်းပါးသွား၍ ဥဘဏ်သစ်အရေးပုံ ခေတ်ကကဲ့သို့လည်း မကောင်းမွန်တော့ချေ။

**မနီတိုးဗားပြည်နယ်။** ။မနီတိုးဗား ပြည်နယ်သည် ကနေဒါ ဒိုမီနီယန် နိုင်ငံတွင် ပါဝင်သော ပြည်နယ်တနယ် ဖြစ်၍ အကျယ်အဝန်းမှာ ၂၄၆,၅၁၂ စတုရန်းမိုင် ရှိ၏။ မနီတိုးဗားပြည်နယ်သည် ပထဝီဝင်သဘောအရ မြောက်အမေရိကတိုက် အလယ်ဗဟိုတွင် တည်ရှိ၏။ ကနေဒါနိုင်ငံရှိ ပရေရီ နယ်များ အနက် အရှေ့ဖက်ဖျားတွင် တည်ရှိသည်။ နယ်နိမိတ်မှာ မြောက်ဖက်တွင် ကီဝါတင်ခရိုင်၊ အရှေ့မြောက်ဖက်တွင် ဟဒ်ဆန် ပင်လယ်အော်၊ အရှေ့ဖက်တွင် အွန်တေးရီယိုပြည်နယ်၊ တောင်ဖက်တွင် အမေရိကန်ပြည်ထောင်စု နိုင်ငံ၌ ပါဝင်သော မင်နီဆိုတာနှင့် မြောက်ဒကိုးတာပြည်နယ်များ၊ အနောက်ဖက်တွင် ဆက်စကက်ချီဝမ်ပြည်နယ် တို့တည်ရှိ၏။ မနီတိုးဗားပြည်နယ်သည် မြေပြန့်မြေနိမ့်ပိုင်းတွင် တည်ရှိ၏။ မြစ်ချောင်းအင်းအိုင် ပေါများလှ၍ မြစ်များသည် ဟဒ်ဆန်ပင်လယ်အော်တွင်းသို့ စီးဝင်သည်။ မနီတိုးဗားပြည်နယ်တွင် ထင်ရှားသော အိုင်ကြီး ၃ ခုရှိ၍ ယင်းတို့မှာ ဝင်နီပက်အိုင်၊ မနီတိုးဗားအိုင်နှင့် ဝင်နီပက်ဂိုးဆစ် အိုင်များဖြစ်၏။ အခြားအိုင်ငယ်များလည်း ရှိသေး၏။ မနီတိုးဗားပြည်နယ်၏ အလယ်ဗဟိုတွင် တည်ရှိသည့် ယင်းအိုင်ကြီး ၃ အိုင်တွင်းသို့ မြစ်နီ (ရက်ရီဗား)၊ ဝင်နီပက်နှင့် ဆက်စကက်ချီဝမ် မြစ်များ စီးဝင်၏။ နယ်လဆန်မြစ်မှာ ယင်းအိုင်များ၏ ထွက်ပေါက်ဖြစ်၏။ ချာချီနှင့် ဆီးလမြစ်တို့သည် မြောက်ဖက်ယွန်းယွန်းတွင်စီးဆင်းသည်။ ချာချီမြစ်ဝတွင် တည်ရှိသော ချာချီဆိပ်ကမ်းသည် နွေဥတုတွင် အင်္ဂလန်ပြည် လီဗာပူးမြို့နှင့် တိုက်ရိုက် အဆက်အသွယ်ရှိ၏။ မနီတိုးဗားပြည်နယ်၏ ဗဟိုရုံးစိုက်ရာ မြို့တော်မှာ ဝင်နီပက်မြို့ဖြစ်၍ အခြား မြို့ကြီးများကား စိန်ဗွန်နီဖေ့၊ ဗရန်ဒန်၊ ပေါတစ်လာပရေရီနှင့် ထရန်စကိုးနီးယား မြို့များ ဖြစ်ကြလေသည်။

မနီတိုးဗား ပြည်နယ်ကို သဘာဝ အပိုင်းကြီး ၃ ပိုင်း ပိုင်းခြားနိုင်၏။ ယင်းတို့မှာ ဟဒ်ဆန်ပင်လယ်အော် မြေနိမ့်ပိုင်း၊ လော်ရင်းရှန်း ကုန်းပြင်မြင့်နှင့် ပရေရီဒေသတို့ဖြစ်၏။ ဟဒ်ဆန်ပင်လယ်အော်မြေနိမ့်ပိုင်းသည် ပြန့်၍ ကျောက်ထူထပ်သော အရပ်ဖြစ်၏။ ဟဒ်ဆန်ပင်လယ်အော်ကမ်းခြေမှသည် အနောက်တောင်ယွန်းယွန်း မနီတိုးဗားပြည်နယ်ထဲသို့ မိုင် ၁၀၀ ခန့် ကျယ်ပြန့်၏။ ရာသီဥတု ချမ်း၏။ ချုံနွယ်ပိတ်ပေါင်းမှတပါး ပေါက်ရောက်သော အခြားအပင်များ နည်းပါး၏။ လယ်ယာစိုက်ပျိုးရန် မြေဆီသြဇာနှင့် ပြည့်စုံသော မြေမျိုး မဟုတ်ပေ။ ဤအရပ်တွင် လူနေ အိမ်ခြေနည်းပါး၏။ လော်ရင်းရှန်းကုန်းပြင်မြင့်သည် ကနေဒါနိုင်ငံ၏ များစွာသော အပိုင်းတလျှောက်တွင်တည်ရှိသော ကျောက်တောင်တန်းများ၏ အစိတ်အပိုင်းဖြစ်၏။ မနီတိုးဗား ပြည်နယ်ရှိ ယင်းတောင်ကုန်းများမှာ သစ်တောများဖြင့် ဖုံးလွှမ်းလျက်ရှိကာ ဓာတ်သတ္တုလည်း ပေါကြွယ်ဝ၍ ထိုဒေသဘွင် လယ်ယာ လုပ်ကိုင်နိုင်သည့် မြေမျိုးရှိ၏။ ပရေရီဒေသမှာ မြောက် အမေရိကတိုက်တွင် ထင်ရှားသော ပရေရီလွင်ပြင်၏ တစိတ်တဒေသဖြစ်၏။ မြေဆီ သြဇာ ကောင်းမွန်၍ ကောက်သီး ကောက်နှံ ဖွံ့ဖြိုး၏။

မနီတိုးဗား ပြည်နယ်၏ ရာသီဥတုသည် ဆောင်းရာသီရှည်လျား၍ ချမ်း၏။ ဒီဇင်ဘာလမှ မတ်လတိုင်အောင် မြေကြီးသည် ဆီးနှင်းဖြင့် ဖုံးလွှမ်းလျက်ရှိ၏။ ဆောင်းရာသီမှ နွေရာသီသို့ အကူးအပြောင်း အလွန်လျင်မြန်၏။ ဧပြီလဦးပိုင်းတွင် ချမ်းလေသော်လည်း ဧပြီလကုန်တွင် နွေရာသီဖြစ်နေတတ်ပေသည်။ နွေရာသီသည် တိုတောင်း သော်လည်း နေ့တာရှည်၏။ မိုးရေချိန်မှာ နည်းပါး၏။ တနှစ်လျှင် ပျမ်းမျှ မိုးရေချိန်မှာ လက်မ ၂၀ ဖြစ်၏။ ယင်းမိုးရေချိန်၏ ၄ ပုံ ၃ ပုံသည် ကောက်သီး ကောက်နှံပင် စိုက်ပျိုးကြီးထွားချိန်တွင် ရွာသော မိုးရေချိန်ဖြစ်၏။

ပရေရီဒေသသည် မြေဆီသြဇာနှင့် ပြည့်စုံသည်နှင့်အညီ စိုက်ပျိုးဖြစ်ထွန်း၏။ စိုက်ပျိုးရာ၌ မအောင်မြင်ဟူ၍ မရှိ။ မနီတိုးဗားပြည်နယ်တွင် သစ်တောစတုရန်းမိုင် ၃၀,၅၀၀ မျှ ရှိလျက် အဖိုးတန်သစ်များထွက်၏။ ထိုပြင်တဝ စတုရန်းမိုင်ပေါင်း ၆၂,၅၀၀ မျှ ကျယ်ဝန်း၍ ဖော်ပြခဲ့သည့် တောများလောက် တန်ဖိုးရှိသော သစ်များ မထွက်စေကာမူ တောသတ္တဝါတို့ ကျက်စားရာ ဒေသဖြစ်သော တောများလည်း ရှိ၏။ ယင်း တောသတ္တဝါတို့အနက် သားမွေးရသော ဝက်ဝံ၊ ကြောင်မြီးတို၊ မြေပါကြီး၊ ဗီဗာဖျံ၊ ကြွက်ကတိုး၊ စကန့်ကောင်၊ ယုန်များကိုလည်း တွေ့ရ၏။ လော်ရင်းရှန်းကုန်းပြင်မြင့်သည် ဓာတ်သတ္တု အလွန်ကြွယ်ဝ၏။ အဓိကသတ္တုများမှာ ရွှေ၊ ကြေး၊ သွပ်နှင့် ငွေတို့ဖြစ်သည်။

မနီတိုးဗားပြည်နယ်မှ အဓိကထွက်ကုန်များမှာ စိုက်ပျိုးရေးအားဖြင့် ဂျုံ၊ မြင်းစားဂျုံ၊ မုယောရိုင်းစပါးပဲကျတ်ပြင်

(ဆိုယာပဲ)၊ ကလိုဗာပင်၊ အယ်လဖာဖာ၊ မုန်လာဥနီ၊ မုန်လာဥဝါ၊ မုန်လာဥဝိုင်း၊ အမဲနှင့် နို့ထွက်ပစ္စည်းများ၊ သားမွေး၊ သိုး၊ ဝက်၊ ကြက်၊ ဘဲနှင့် ကြက်ဥ၊ ဘဲဥများ ဖြစ်၏။ မနီတိုးဗားဂျုံသည် မာ၍ပဋမတန်းစားဂျုံအဖြစ်ထင်ရှား၏။ ဓာတ်သတ္တုတို့မှာ ရွှေ၊ ကြေးနီ၊ သွပ်၊ ငွေ၊ ဗိလတ်မြေ၊ ထုံး၊ ဂျစ်ပဆမ်၊ ဆား၊ ဖဲလစပါး စသည်တို့ ဖြစ်၏။ စက်မှုလက်မှုလုပ်ငန်းတို့မှာ အမဲသား ထုတ်လုပ်ခြင်း၊ ဂျုံကြိတ်ခြင်း၊ ထောပတ်နှင့် ဒိန်ခဲများ ထုတ်လုပ်ခြင်း၊ မီးရထားတွဲများ ထုတ်လုပ်ခြင်း၊ သစ်နှင့် သစ်ထွက်ပစ္စည်းများထုတ်လုပ်ခြင်း၊ သစ်ပျော့ဖတ်နှင့် စက္ကူလုပ်ငန်းတို့ ဖြစ်၏။ ငါးဖမ်းခြင်းလုပ်ငန်းလည်း လုပ်ငန်းကြီးတခု ဖြစ်၏။

မနီတိုးဗား ပြည်နယ်တွင် ရေကြောင်း သယ်ယူပို့ဆောင်ရေး လွယ်ကူ၏။ ကောင်းမွန်သော ကုန်းလမ်းများလည်းရှိ၍ မီးရထားလမ်းများလည်း ရှိ၏။ ဝင်နီပက်မြို့သည် ကနေဒါနိုင်ငံ၏ ရှိကာဂို မြို့ပင်တည်း။ မနီတိုးဗားနယ်မှ မီးရထားလမ်းများအားလုံးပင် ဝင်နီပက်မြို့တွင် ဆုံ၍ အရှေ့အနောက်သို့ ယင်းအရပ်မှ ဖြာထွက်၏။ ကနေဒီယန်ပစိဖိတ် မီးရထားလမ်းနှင့် ကနေဒီယန် နေရှင်နယ် မီးရထားလမ်းများသည် ဝင်နီပက်တွင် ဆုံလေသည်။ မနီတိုးဗားနယ်၏ မြောက်ပိုင်းတွင် ဟဒ်ဆန်ဗေး မီးရထားလမ်းရှိ၏။ မနီတိုးဗား ပြည်နယ်တွင် လေကြောင်း ခရီးလမ်းများလည်း ရှိသည်။ မြောက်ဖက် ဓာတ်သတ္တု တူးဖော်ရေးနှင့် သစ်လုပ်ငန်းများလုပ်ကိုင်ရာသို့ သွားရောက်ရာ၌ များသောအားဖြင့် လေကြောင်းခရီးကို အသုံးပြု၏။

မနီတိုးဗား ပြည်နယ်၏ လူဦးရေမှာ ၁၉၅၆ ခုနှစ် သန်းကောင်စာရင်းအရ ၈၅၀,၀၄၀ ဖြစ်သည်။

မနီတိုးဗားနယ်ကို ခရစ် ၁၇ ရာစုနှစ်က စတင် တွေ့ရှိ၏။ ရှေးဦးစွာသားမွေးများကို ရှာဖွေယင်း မနီတိုးဗားသို့ ရောက်ရှိလာ၏။ ၁၆၁၂ ခုနှစ်တွင် ဟဒ်ဆန်ပင်လယ်အော် ကမ်းခြေသို့ ဦးစွာ ဆိုက်ရောက်လာသူမှာ အင်္ဂလိပ် လူမျိုး ဆာတောမတ် ဗတ်တန်ဖြစ်၏။ သို့ရာတွင် ၁၆၉၀ ခုနှစ် ရောက်မှသာလျှင် မနီတိုးဗား အတွင်းဖက် ချာချီမြစ်တလျှောက်သို့ ဟဒ်ဆန်ဗေးကုမ္ပဏီမှ အလုပ်သမားတဦးဖြစ်သူ ဟင်နရီ ကယ်လစီ ရောက်ရှိသွားခဲ့၏။ ၁၇၃၁ ခုနှစ်တွင် ပြင်သစ်လူမျိုး ဆီယာဒါလာ ဗယ်ရင်ဒရီက ထိုနယ်တောင်ပိုင်းကို ရှာဖွေတွေ့ရှိခဲ့သည်။ ၁၇၅၄ ခုနှစ်တွင် အင်္ဂလိပ်တို့၏ ဟဒ်ဆန်ဗေးကုမ္ပဏီနှင့် ပြင်သစ်တို့၏ အနောက်မြောက် ကုမ္ပဏီတို့သည် သားမွေး အရောင်းအဝယ်နှင့် စပ်လျဉ်း၍ အပြိုင်အဆိုင် ဖြစ်လာခဲ့ကြ၏။ ၁၈၂၁ ခုနှစ်တွင် ယင်းပြိုင်ဖက် ကုမ္ပဏီ ၂ ဦးပေါင်းစည်း ခဲ့သောအခါမှ ငြိမ်းအေးသွား၏။ ၁၈၁၁ ခုနှစ်တွင် ရက်ရီဗားတလျှောက်၌ ဆဲလကတ်စား အားဘွဲ့ရ ဆာတောမတ်ဒေါက်ဂလပ်သည် စကော့လူမျိုး တောင်သူလယ်သမားများ အတွက် ကိုလိုနီနယ်သစ် ထူထောင်ပေးခဲ့သည်။ ယင်းသို့ ပြောင်းရွှေ့လာသော စကော့ လူမျိုးတို့သည် လက်ဦးပိုင်းတွင် များစွာအခက်အခဲ တွေ့ကြ၏။ အင်္ဂလိပ် သားမွေးကုန်သည်များက သူတို့ကို သဘောမကောင်း ဖြစ်သည့်အပြင်၊ ပြင်သစ် ကပြားများကလည်း သူတို့အား မလို မုန်းထား ပြုကြ၏။ စကော့လူမျိုးတို့ လာရောက်နေထိုင်ခွင့် ရစဉ်က မိမိတို့မြေများ ပါသွားသောလူစုကလည်း မကျေမနပ်ဖြစ်ကြ၏။ သို့အားဖြင့် လူဝီရီအယ်အမည်ရှိ ပြင်သစ်ကပြား ခေါင်းဆောင်သော ပုန်ကန်မှုဖြစ်ပွား၏။ သို့သော် ကနေဒီယန် အစိုးရက နှိမ်နင်းလိုက်၏။ ဤသူပုန်အရေး ဖြစ်ပွားပြီးနောက်တွင် အစိုးရ အင်အားကောင်းမှ ဖြစ်မည်ကို တွေ့ရှိလာသောကြောင့် မနီတိုးဗားကို ကနေဒါနိုင်ငံအတွင်းသို့ ပြည်နယ်အဖြစ် သွတ်သွင်းလေ၏။ ရက်ရီဗားခေါ် မြစ်နီမြစ်ဝှမ်းတွင် ရွှေ့ပြောင်း နေထိုင်ကြသူများလည်း အခွင့်အရေးသာကာ ရှေးက ဆင်းရဲခဲ့ရသည့် အကျိုးကို ခံစားကြရ၏။ ယင်းနောက်ပိုင်းတွင် မနီတိုးဗားပြည်နယ်၌ မီးရထားလမ်းများ ဖောက်လုပ်ဆက်သွယ်ပေးသဖြင့် တိုးတက်လာ၏။ မနီတိုးဗားပြည်နယ်၏ စိုက်ပျိုးရေးလုပ်ငန်း၊ ဓာတ်သတ္တုတူးဖော်ရေး လုပ်ငန်းများ တိုးတက်ဖွံ့ဖြိုးလာသည်။ ၁၈၈၁ ခုနှစ်မှ ၁၉၁၂ ခုနှစ်အတွင်း တိုးတက်မှု အလွန်လျင်မြန်ခဲ့လေသည်။

**မနီလာမြို့။** ။မနီလာမြို့သည် ဖိလစ်ပိုင် သမတနိုင်ငံ၏ ပင်လယ်ဆိပ်ကမ်းမြို့ ဖြစ်၍ တခါက မြို့တော် ဖြစ်ခဲ့သည်။ ဖိလစ်ပိုင်ကျွန်းစု လူဇုန်ကျွန်း၏ အနောက်ဖက်ကမ်း၊ မနီလာပင်လယ်အော်၏ အရှေ့ဖက်အစွန်း ပါဆစ်မြစ်ဝတွင် တည်ရှိသည်။ လခြမ်းသဏ္ဌာန် တောင်စဉ်တခုသည် မြို့တဝက်ကို ဝန်းရံထားသည်။ ပါဆစ်မြစ်သည် အရှေ့မှ အနောက်သို့ စီးဆင်းလေရာ မနီလာမြို့ကို ဖြတ်သန်းပြီးလျှင် မနီလာပင်လယ်အော်တွင်းသို့ စီးဝင်လေသည်။ ဤသို့ပါဆစ်မြစ်က ဖြတ်သန်းသွားသောကြောင့် မြို့သည် မြစ်၏တဖက်တချက်တွင်တည်ရှိ၏။ ပါဆစ်မြစ်ပေါ်တွင် ဆောက်လုပ်ထားသော တံတား ၆ ခုသည် နှစ်ပိုင်းကွဲနေသောမြို့ကိုဆက်စပ်ပေး၏။ မြို့၏အကျယ်အဝန်းမှာ ၁၄ စတုရန်းမိုင် ရှိ၏။ မြို့ဟောင်းနေရာသည် မြစ်၏ တောင်ဖက်ကမ်းတွင်ဖြစ်၏။ မြို့ကို ရှေးနှစ်ပေါင်း ၄၀၀ ခန့်က တည်ခဲ့ရာ ရှေးမြို့ရိုး၏အစိတ်အပိုင်း အချို့ယခုတိုင် ရှိသေး၏။ မြို့ဟောင်းနေရာကို အင်တရာမျူးရွတ်ဟုခေါ် လျက် ယင်းအရပ်တွင် ရှေးစပိန်လူမျိုးတို့ ကြီးစိုးစဉ်ခေတ်ကို အမှတ်ရစေသော စပိန်လက်ရာဘုန်းကြီးကျောင်း၊ ဘုရားရှိခိုးကျောင်းများကို တွေ့ရပေသည်။ ရှေးက မြို့ရိုးကို ပတ်ရံထားသော ကျုံးကို ယခုအခါ ပန်းခြံနှင့် ဂေါက်သီးကစားကွင်းအဖြစ် ပြုပြင်စီမံထား၏။ စီးပွားကုန်သွယ်ရေး ရပ်ကွက်သည် မြစ်၏ မြောက်ပိုင်းတွင် ဖြစ်သည်။ ကြွယ်ဝ

သော ကုန်သည်ပွဲစားများ၏ နေအိမ်များသည် ဒျူဝီရိပ်သာ တလျှောက်တွင်၎င်း၊ ဆင်ခြေဖုံး ရပ်ကွက်ဖြစ်သည့် ကေဆွန်း စီတီတွင်၎င်း တည်ရှိ၏။ အခြား ဆင်ခြေဖုံးရပ်ကွက် ဖြစ်သည့် တွန်ဒိုတလျှောက်တွင်မူ ဓနိမိုး ဝါးအိမ်များ ရှိ၍ တိုင်းရင်းသားများ နေထိုင်ကြသည်။ ရှေးအခါက ထင်ရှားသော ဂျက်ဇူးအဝ် မျှော်စင်သည် စစ်အတွင်းက ပျက်စီးသွား၏။ စစ်ပြီး ခေတ်တွင် ဖိလစ်ပိုင်တက္ကသိုလ်ကို ကေဆွန်း စီတီသို့ ရွှေပြောင်းသွား၏။ မနီလာမြို့တွင် ထင်ရှားသော လူနီတာ ပန်းခြံသည် အင်တရာမျူးရွတ်၏ အပြင်ဖက်တွင် ရှိ၏။ နွေရာသီစခန်းမြို့ဖြစ်သော ဗားဂျီမြို့သို့ ခေတ်မှီလမ်း မကြီးဖြင့် ဆက်သွယ်ထားသည်။ မနီလာမြို့ကို လှပသော ကြောင့်၎င်း၊ အရေးပါသောကြောင့်၎င်း 'အရှေ့တိုင်း၏ ပုလဲရတနာ' ဟူ၍ ခေါ် ဝေါ် သမုတ်၏။

မနီလာမြို့ရှိ ဆိပ်ကမ်းသည် အထူးတလည် ကောင်းမွန်ပေသည်။ သို့ဖြစ်ရကား ကမ္ဘာအရပ်ရပ်မှ ပင်လယ်ကူးသင်္ဘောကြီးများ ဆိုက်ကပ်ရပ်နားရာ ဆိပ်ကမ်းဖြစ်၏။ ပစိဖိတ်သမုဒ္ဒရာတကြော ကုန်သွယ်မှုတွင် အချက်အခြာ ဒေသတခု ဖြစ်၏။ မနီလာမြို့တွင် အဗကခေါ် မနီလာလျှော် အကြီးအကျယ်အရောင်းအဝယ်ပြု၏။ (မနီလာ လျှော် — ရှု။) ယင်းလျှော် ထက်ဝက်ကျော်ကျော်ကို ကြိုးကျစ်ရန်အလို့ငှါ အမေရိကန်ပြည်ထောင်စုသို့ ပို့ရ၏။ မနီလာလျှော်အပြင် သကြား၊ အုန်းသီးဆံခြောက်၊ အုန်းဆီ၊ ဆေးပြင်းလိပ်များ ရောင်းဝယ်ရာတွင် အရေးပါသော ဒေသဖြစ်၏။ ဖိနပ်၊ ဆပ်ပြာ၊ ကြိမ်ပရိဘောဂ၊ ဖျာ၊ လျှော်၊ စည်သွတ် အစားအစာ၊ ပန်းထိုးထည်များပြုလုပ်စီမံသော အလုပ်ရုံ စက်ရုံများလည်း ရှိသည်။ ရေကြောင်းတွင် သင်္ဘောကြီးငယ်ဆိုက်ကပ်ရပ်နားနိုင်သည့်ဆိပ်ကမ်းရှိရုံမက ကုန်းကြောင်းတွင် မီးရထားလမ်း၊ ကားလမ်း အဆက်အသွယ်ရှိ၍ လေကြောင်း ကူးသန်းသွားလာရာတွင်လည်း အရေးပါသော ဗဟိုဌာနတခုဖြစ်သည်။

မနီလာမြို့တွင်း နေထိုင်သူတို့မှာ များသောအားဖြင့် စပိန်လူမျိုးဆန်သော ဥရောပတိုက်သားများ၊ တရုပ်၊ ဂျပန်၊ အမေရိကန်နှင့် တိုင်းရင်း ဖိလိပိနိုများ ဖြစ်၏။ မနီလာမြို့၏ လူဦးရေမှာ ၁,၇၆၀,၇၅၄ ယောက်ခန့် ဖြစ်၏။

မနီလာမြို့ကို ခရစ် ၁၅၇၁ ခုနှစ်က စပိန်လူမျိုး မိဂဲလိုပေ့ သေလေဂတ်စပီ တည်ထောင်ခဲ့သည်။ လက်ဦးပိုင်းတွင် စပိန်လူမျိုးတို့ အခြေစိုက် နေထိုင်လျက် စပိန် လက်အောက်ခံဖြစ်ခဲ့၍ ကုန်သွယ်မှု အချက်အခြာ ဌာန ဖြစ်ခဲ့လေသည်။ ခရစ် ၁၇၆၂ ခုနှစ် အောက်တိုဘာလမှ ၁၇၆၃ ခုနှစ် ဖေဖွာရီလအထိ ဗြိတိသျှတို့က တိုက်ခိုက် သိမ်းပိုက်ထားခဲ့၏။ ၁၈၆၃ ခုနှစ် မြေငလျင်လှုပ်စဉ်က မနီလာမြို့သည် အကြီးအကျယ် ပျက်စီးခဲ့သည်။ ခရစ် ၁၈၉၈ ခုနှစ်၌ စပိန်နှင့် အမေရိကန် စစ်ဖြစ်ပွားသည်တွင် အမေရိကန်တို့က မနီလာကို သိမ်းပိုက်ပြီးနောက် မြို့ကို တိုးတက်အောင် ပြုပြင်ခဲ့လေသည်။ ဒုတိယ ကမ္ဘာစစ် အတွင်းက ၃ နှစ်ကျော်



မနီလာမြို့ဆိပ်ကမ်းသည် မနီလာလျှော်များ တင်ပို့ရောင်းချရာ အချက်အခြာဌာန ဖြစ်သည်။



မနီလာလျှော်ဖြင့် ကျစ်သောကြိုးသည် လွန်စွာခိုင်ခံ့သည့်ပြင် ကိုင်တွယ်ရ ချောမွတ်သည်။

မျှ ဂျပန်တို့ လက်အောက်သို့ ရောက်ရှိနေခဲ့၏။ ဂျပန်တို့သည် ၁၉၄၂ ခုနှစ် ဇန္နဝါရီလက မြို့ကို စီး၍ ၁၉၄၅ ခုနှစ် ဖေဖွာရီလတွင် အမေရိကန်တို့က ပြန်လည် သိမ်းပိုက်ခဲ့သည်။ မနီလာမြို့ကို ပြန်လည် တိုက်ခိုက် သိမ်းပိုက်ရာတွင် ရက်သတ္တ ၃ ပတ်မျှ ကြာ၏။ ဂျပန်တို့သည် ဆုတ်ခွာသွားသောအခါ တိုက်တာ အဆောက်အအုံကြီးများကို မီးရှို့ဖျက်ဆီးသဖြင့် မနီလာမြို့သည် မရှုမလှပျက်စီးလေသည်။ ဖိလစ်ပိုင်အစိုးရသည် မနီလာမြို့ကို အတော် ပြန်လည် ထူထောင်ယူရလေသည်။

မနီလာမြို့သည် ခရစ် ၁၉၄၈ ခုနှစ်တိုင်အောင် ဖိလစ်ပိုင်နိုင်ငံ၏မြို့တော်ဖြစ်ခဲ့၏။ ၁၉၄၈ ခုနှစ်တွင်မူ ဖိလစ်ပိုင်သည် လွတ်လပ်သောသမတနိုင်ငံ ဖြစ်လာသောအခါ မနီလာ၏ အရှေ့မြောက်ဖက် ဆင်ခြေဖုံးအရပ်တွင်ရှိ၍ ၁၀ မိုင်ကွာဝေးသော ကေဆွန်းစီတီသို့ မြို့တော် ရွှေပြောင်းလိုက်သည်။ ယင်းမြို့တော်သစ်မှာ ဖိလစ်ပိုင်မနေသဟာယနိုင်ငံ၏ ပဌမဆုံးသမတဖြစ်သော လူးဝစ်မန်းနွယ်ကေဆွန်းကို ဂုဏ်ပြု မှည့်ခေါ်ထားသော အမည်ဖြစ်၏။

**မနီလာလျှော်။** ။မနီလာလျှော်သည် ဖိလစ်ပိုင်ကျွန်းစုနှင့် ဆန်ဒါကျွန်းစုများတွင် ပေါက်ရောက်သော တိုင်းရင်းအမည် အဗက ငှက်ပျောပင်မှရသည့် အမျှင်ဖြစ်သည်။ယင်းအပင်၏ ရုက္ခဗေဒအမည်မှာ မူဆ တက်စတိုင်းလစ် ဖြစ်၍ မည်သည့်မြေတွင်မဆို စိုက်ပျိုးနိုင်သည့် ငှက်ပျောပင်မျိုး ဖြစ်သည်။ ၉ ပေမှ ၁၈ ပေအထိမြင့်သော နှစ်ကြာခံပင်မျိုးဖြစ်၍ ငှက်ပျောပင်ကဲ့သို့ ရှည်ဖားဖားအရွက်ကြီးများရှိသည်။ အမျှင်များကို အရွက်များမှရရာ ထိုအမျှင်များကို ယခင်က ဖိလစ်ပိုင်ကျွန်းစု၏ မြို့တော်ဖြစ်သော မနီလာမြို့၌ အကြီးအကျယ် ရောင်းဝယ်ဖောက်ကား ပြုလုပ်သဖြင့် ယင်းမြို့ကို အစွဲပြု၍ မနီလာလျှော်ဟု ခေါ်သည်။ လျှော်အချောစားကို အထည်အလိပ်များ ရက်လုပ်၍ အကြမ်းစားကို မနီလာကြိုး၊ ပတ္တူ၊ကောဇောစသည်တို့ ပြုလုပ်ကြသည်။ မနီလာမှထွက်သော မနီလာလျှော် တင်ကျော်ကျော်လောက်ကို ကြိုးကျစ်ရန် အမေရိကန်ပြည်ထောင်စု နိုင်ငံသို့ တင်ပို့ရသည်။ မနီလာကြိုးကား ကမ္ဘာပေါ်တွင် ထင်ရှားသောကြိုးပင် ဖြစ်လေသည်။

**မနုကျယ်ဓမ္မသတ်။** ။မနုကျယ်ဓမ္မသတ်သည်ကား သက္ကရာဇ် ၁၁၁၅ ခုနှစ်တွင် ရတနာသိဃ်ကုန်းဘောင်မြို့တည် အလောင်းမင်းတရားကြီး လက်ထက်တော်တွင် မဟာသီရိဥတ္တမဇေယျသင်္ကြံဘွဲ့ကို ခံယူရရှိသော ပညာရှိအမတ်ကြီး ကျုံးဝန်ဘုမ္မဇေယျ စီရင်ရေးသား ပြုစုသော ကျမ်းကြီးဖြစ်သည်။ (ကျုံးဝန် ဘုမ္မဇေယျ — ရှု။)

မနုကျယ်ဓမ္မသတ်သည် ဥပဒေလောကတွင်သာမက မြန်မာစာပေလောကတွင်ပါ ထင်ရှားသော ကျမ်းတစောင် ဖြစ်၏။ မြန်မာမင်းတို့လက်ထက်က အုပ်ချုပ်မှု၊ ယဉ်ကျေးမှု စသည်ကို ပေါ်လွင်ထင်ရှားစေသော မှတ်တိုင်ကြီးတခုပင် ဖြစ်ပေသည်။

မနုကျယ်ဓမ္မသတ်ကျမ်းကြီးသည် မနုရသေ့စီရင်သော ပါဠိဘာသာဖြင့်ရှိသည့် မနုကျမ်းရင်း ၁၀ တွဲကို ရှင်လူအများတို့ခွဲခြားနားလည်နိုင်ကြစေရန် ၁၈ ပိုင်းပိုင်း၍ စကားပြေဖြင့် အကျယ်ရေးသားထားသော ကျမ်းဖြစ်သည့်အတွက် အခြားကျမ်းများထက် ကြည့်ရှုရန် လွယ်ကူပေသည်။

မနုကျယ်ဓမ္မသတ်ကို ကြည့်ခြင်းအားဖြင့် မနုအမည်ဖြင့်လာသော ဓမ္မသတ်အစောင်စောင်တို့ကို ကြည့်ရှုမှတ်သားရသည်နှင့်အတူ တရားစီရင်ထုံး အပေါင်းတို့ကို သိရှိနိုင်ပေသည်။ မြစ်ကြီးငါးသွယ် မြစ်ငယ်ငါးရာတို့သည် ပင်လယ်တွင်းသို့ စီးဝင်သကဲ့သို့ ဓမ္မသတ်ကျမ်းကြီး ကျမ်းငယ် အစောင်စောင်တို့သည်လည်း အလုံးစုံပင် ကျုံးဝန်ကြီး၍ မနုကျယ်ဓမ္မသတ်ကြီးအတွင်း၌ သက်ဆင်း ပါဝင်ကြကုန်သည် ဖြစ်၍ ဤကျမ်းတစောင်ကို ကြည့်ခြင်းအားဖြင့် အခြားကျမ်းကြီးကျမ်းငယ် အပေါင်းလာအကြောင်းအရာတို့ကို ခြုံ၍ သိရှိနိုင်ပေတော့သည်။

တရားဥပဒေဖက်မှကြည့်သော် ကုန်းဘောင်မင်းတို့ အစဉ်အဆက် သီပေါမင်းတိုင်အောင် ဤကျမ်းကြီးကို လက်စွဲပြု၍ တရား စီရင်ခဲ့၏။ အင်္ဂလိပ် အုပ်စိုးစဉ်ကလည်း မနုကျယ်ဓမ္မသတ်ကို လက်မလွှတ်ဘဲ တရားစီရင်ရာ၌ ကိုးကားခဲ့ကြလေသည်။

ထိုပြင်တဝလည်း မြန်မာစာပေကို များစွာ အထောက်အပံ့ပြုသည်။ မနုကျယ်ဓမ္မသတ်သည် ပါဠိမနှောဘဲ မြန်မာစကားပြေသက်သက်ဖြင့် ရေးသားစီရင်ထား၏။ ဓမ္မသတ်ကျမ်းတွင် ပါဝင်သော ဖြတ်ထုံးဥပဒေများကို ဆိုင်ရာဝတ္ထုကလေးများနှင့်တကွစီစဉ်ရေးသားထားသောကြောင့်လည်း ဖတ်ရသူတို့ မငြီးငွေ့ဘဲ စိတ်ဝင်စားကာ မှတ်ဉာဏ်ကို ဖြစ်ပေါ်စေနိုင်သည်။ ဤတရားကျင့်ထုံး ဥပဒေကို နားလည်ခြင်းဖြင့် ဖတ်ရှုရသူတို့သည် သိမ်မွေ့နူးညံ့ပြီးလျှင် ဗဟုသုတပွားဖွယ်ဖြစ်၏။

မနုကျယ်ဓမ္မသတ်ကြီးကို သာလွန်မင်းတရားကြီး လက်ထက် ကိုင်းရွာစား မနုရာဇာရေးသားပြုစုသော မဟာရာဇသတ်ကြီးနှင့် မမှားသင့်ကြပေ။ ကိုင်းရွာစား မနုရာဇာ စီရင်သော ဓမ္မသတ်ကြီးကို မဟာရာဇသတ်ကြီး ဟူ၍လည်း ကောင်း၊ မနုရာဇာလျှောက်ထုံးဟူ၍၎င်း ခေါ်ဝေါ်သည်။ ထိုမနုရာဇာ ဓမ္မသတ်သည် ကျုံးဝန်ဘုမ္မဇေယျ၏ မနုကျယ်ဓမ္မသတ်ကြီးလောက် မစုံလင်လှပေ။ သာလွန်မင်းတရားကြီး မေးမြန်းရာကို မနုရင်းဓမ္မသတ်ကျမ်းမှ ထုတ်နုတ်လျှောက်ထားချက်များသာ ဖြစ်သည်။ ထို့ကြောင့် မနုရာဇာလျှောက်ထုံးဟူ၍လည်း ခေါ်ဝေါ်ကြသည်။

**မနုမနောလူမျိုး။** ။ဗရဲလူမျိုး — ရှု။

**မနုသီဟ။** ။မနုသီဟ ဆိုသည်မှာ ရှေးက အကယ်ရှိခဲ့ဘူးသော သတ္တဝါ တမျိုးမဟုတ်ချေ။ ရှေးခေတ်ကလူများ စိတ်ကူးဉာဏ် ဆန်းကြယ်စွာ တီထွင် ပြုလုပ်ခဲ့သော တိရစ္ဆာန်ကိုယ်တပိုင်း လူကိုယ်တပိုင်း အရုပ်မျိုးဖြစ်သည်။ ယင်းကို မြန်မာနိုင်ငံ အချို့သော စေတီပုထိုးများတွင် တွေ့ရသည်။ မနုသီဟဟူသောစကားမှာ ပါဠိစကားဖြစ်၍ လူခြင်္သေ့ဟု အဓိပ္ပါယ်ရသည်။ ခြင်္သေ့ကိုယ်၌ လူဦးခေါင်း တပ်ဆင်ထားသော အရုပ်ဖြစ်ခြင်းကြောင့် မနုသီဟဟု ခေါ်တွင်လာဟန်တူသည်။ မြန်မာတို့ စိတ်၌မူ မနုသီဟဆိုလျှင် ကိုယ်နှစ်ခုရှိသည်ဟု စွဲယူပြီးဖြစ်သည်။

မနုသီဟရုပ်ကို ထုလုပ်ထားပုံမှာမူ အနုပညာမြောက်သည်။ လူဦးခေါင်း၌ မကိုဋ်သဏ္ဌာန်ရှိသော အချွန် အတက်များနှင့် ဦးဆောင်းကို ဆောင်းထားပေးသည်။ မြန်မာ နိုင်ငံရှိ မနုသီဟရုပ်များသည် အီဂျစ်ပြည်ရှိ စဖင့်ရုပ်များနှင့်ဆင်သည်။ လူဦးခေါင်း၌ မကိုဋ်သဖွယ် ဆောင်းထားပေးခြင်းကြောင့် အီဂျစ်ပြည် စဖင့်ရုပ် ဦးခေါင်းများကဲ့သို့ ဘုရင်တဦးဦး၏ ပုံတူ၊ သို့မဟုတ် ကိုးကွယ်သည့်နတ်၊ ဗြဟ္မာ တဦးဦး၏ ရုပ်ပုံကို စိတ်ကူးဖြင့် မှန်းဆ၍ ထုလုပ်ထားဖွယ် ရှိသည်ဟု တွေးထင်ယူဆရသည်။

ယင်းမနုသီဟရုပ်များသည် မည်သည့် ခုနှစ်သက္ကရာဇ်က ထုလုပ်ပေါ်ပေါက်လာခဲ့သည်ဟု အသေအချာမသိရချေ။ သို့သော် သာသနာလင်္ကာရစာတန်းတွင် "မြတ်စွာဘုရား သခင်ပရိနိဗ္ဗာန်စံယူတော်မူပြီးနောက် သာသနာ ၂၃၅ ခုနှစ် ရောက်လတ်သော် ရာမညတိုင်း အစိတ် သုဝဏ္ဏဘုမ္မိသို့အရှင်သောဏ၊ အရှင်ဥတ္တရမထေရ်နှစ်ပါးကို အရှင်မောဂ္ဂလိပုတ္တတိဿက ရဟန်းပြုကံ မြောက်လောက်အောင် သံဃာငါးပါးနှင့် သာသနာပြု စေလွှတ်တော်မူ၏။....ထိုရောအခါ သုဝဏ္ဏဘုမ္မိတိုင်း သထုံပြည်ဝယ် သီရိမာသောက မင်းပြု၏။....ထိုမြို့သည် သမုဒ္ဒရာနှင့် နီးသောကြောင့် ရေစောင့်ဘီလူးမသည် မင်းအိမ်၌သားဖွားတိုင်း စားလေ၏။ သာသနာပြု မထေရ်တို့ ရောက်သောနေ့လည်း မင်းအိမ်၌ သားဖွားခိုက်ကြိမ်၍ ဘီလူးမ စားမည်ဟု အရံငါးရာနှင့်လာသည်ကို လူတို့မြင်၍ ကြောက်လန့် ကြွေးကြော်ကြ၏။ ထိုသို့စဉ်တွင် မထေရ်လည်း ကြောက်မက်ဖွယ်ရှိအောင် ခြင်္သေ့နှင့်တူသော ခေါင်းတလုံး ကိုယ် ၂ ခုရှိသော မနုသီဟသဏ္ဌာန်နှင့် အရေအတွက်နှစ်ဆထက်သာအောင် ဖန်ဆင်းပြီးမှ ဘီလူးမတို့ကို လိုက်၍ ပိတ်ဆီးကုန်လျှင် ဘီလူးမတို့ ပြေးသွားလေကုန်၏။



မနုသီဟရုပ်တုကို စေတီခြေတော်ရင်း၌ စိုက်ထူလေ့ရှိကြသည်။

"မထေရ်တို့လည်း တဖန် ဘီလူးမတို့ မလာစိမ့်သောငှါ ပရိတ် အရံအတားကို ပြုပေ၏။ ထိုကာလ စည်းဝေးလာသောသူတို့အား ဗြဟ္မဇာလသုတ်ကို ဟောတော်မူသော် ခြောက်သောင်းသော လူတို့ အကျွတ်တတန် သောတာပန်စသော အရိယာဖြစ်လေကုန်၏။ ထိုကာလမှစ၍ ယနေ့ဖွားစ မင်းသားငယ်တို့အား သောဏုတ္တရ ဟူ၍ ငယ်မည်မှည့်လင့်ကုန်သတည်း။"

"သူငယ်ခပ်သိမ်းတို့အားလည်း ဘီလူးဘေးကို ဆီးတားခြင်းငှါ ထန်းရွက်၊ သလူရွက်များတွင် မထေရ်တို့ ဖန်ဆင်းသော မနုသီဟရုပ်ကိုရေး၍ ခေါင်းထက် တင်ထား ကုန်၏။ ထိုအရုပ်ကို သထုံမြို့၏အရှေ့မြောက်ထောင့်တောင်ထိပ်ထက် ကျောက်ရုပ်ထု၍ ယခုထက်တိုင် ထားရှိသတည်း။ " ဟူ၍ ဖော်ပြ ပါရှိလေသည်။

**မနုဟာမင်း။** ။မနုဟာမင်းသည် သီရိတြိဘဝနာဒိတျာ ပဝရဓမ္မရာဇာဘွဲ့ခံ သထုံမင်းဖြစ်၏။ ဆင်ဖြူသုံးဆဲ့ နှစ်စီး အရှင်လည်းဖြစ်၏။ ဘုရားသခင်ရှိတော်မူစဉ်က သထုံပြည် ဝယ် မင်းပြုသော သီဟရာဇာမင်းမှ ဆင်းသက်ဆက်နွယ်သူ ဖြစ်၍ လေးကျိပ်ရှစ်ဆက်မြောက်သောမင်း ဖြစ်သည်ဟု ဆိုသည်။ သထုံမင်းတို့သည် ဘုန်းတန်ခိုး အာဏာနှင့် ပြည့်စုံ၍ ဘုရားရှင် သာသနာတော်ကို အစဉ်ဆောင်ရွက်တော်မူကြသည်။

မနုဟာမင်းသည် ပုဂံပြည်ရှင် အနော်ရထာမင်းစောနှင့် တခေတ်တည်း ပေါ်ပေါက်သည်။ အနော်ရထာမင်းစောသည် ရှင်အရဟံက ဘုရားရှင် သာသနာတော်သုံးပါးတွင် ပရိယတ္တိ သာသနာတော်ရှိမှ ပဋိပတ္တိ သာသနာတော် ဖြစ်နိုင်သည်။ ပဋိပတ္တိသာသနာတော်ဖြစ်မှ ပဋိဝေဓ သာသနာတော် ဖြစ်နိုင်သည်။ ပရိယတ္တိဟူသော ပိဋကတ်သုံးပုံသည် မရှိချေသေး။ ဘုရားရှင် သရီရဓာတ်တော် မွေတော် ပိဋကတ်ကျမ်းဂန်ရှိသော ပြည်ရွာတိုင်းကားသို့ လက်ဆောင် လက်နက်နှင့် တောင်းစေ၍ ရသည်ဖြစ်မှ သာသနာတော် အစဉ်ရှည်စွာတည်ရာသည်။ သထုံပြည်၌ ပိဋကတ်သုံးပုံကို တစုံခေါ်၍ အစုံ ၃၀ ရှိသည်။ မွေတော် ဓာတ်ဘော်များရှိသည်ဟု မိန့်ကြားချက်အရ လက်ဆောင် ပဏ္ဏာ များစွာစီရင်၍ လိမ္မာသောအမတ်တယောက်ကို သာယာချေင်သော စကားဖြင့် သထုံသို့စေ၍ တောင်းရလေ၏။ သထုံမင်းသည် မကောင်းသောနှလုံးဖြင့် ကြီးစွာသော ပဋိဃာတ်စိတ်ရှိသည်ဖြစ်၍ မချေမငံသော စကားဖြင့် ဆိုလိုက်၏။ အနော်ရထာမင်းစောလည်း ထိုစကားကို ကြားတော်မူသောအခါ ပြင်းစွာအမျက်တော်ဖြစ်၏။ ထို့ကြောင့် နိုင်ငံတော်၌ရှိသော သူရဲသူခက် အပေါင်းတို့ကို စုရုံးတော်မူ၍ ရေကြောင်း၊ ကြည်းကြောင်းမှ အလုံးအရင်းဖြင့် သာသနာတော်နှစ် ၁၆၀၁ ခု ကောဇာသက္ကရာဇ် ၄၁၉ ခုနှစ်တွင် ကိုယ်တိုင်ချီတက် တိုက်ခိုက်၏။ ကြည်းကြောင်းတွင် ကျန်စစ်သား၊ ငထွေးရူး၊ ငလုံးလက်ဖယ်၊ ညောင်ဦးဖီး စစ်သူကြီး ၄ ယောက်တို့ ရှေ့ဖျားချီစေ၏။ အနော်ရထာမင်းစောသည် နောက်တပ်မပြု၍ ချီတက်သည်။

သထုံမင်း မနုဟာလည်း အနော်ရထာမင်းစော ဤသို့ အလုံးအရင်းဖြင့် ချီတက်လာပြီဟူ၍ ကြားလေသော် အလွန်ကြောက်လန့်သဖြင့် မြို့တံခါးကို ပိတ်ပြီးလျှင် မြို့ကို ခိုင်လုံအောင်လုပ်၍ ခံနှင့်၏။ အနော်ရထာမင်းစောသည် ကာလရှည်ကြာစွာဝန်းရံလုပ်ကြံရသည်။ နောင်သော် သူရဲကောင်းကုလားခြေလျှင် ဗျတ္တ အစီအရင်ဖြင့် သထုံပြည်တွင်းသို့ ရဲမက်တော်အပေါင်းတို့ ဝင်နိုင်၍ မနုဟာမင်းနှင့် တကွ သားမယား အမှုးအမတ်တို့ကို ဖမ်း၍ အနော်ရထာမင်းစောအား ဆက်လေ၏။ အနော်ရထာမင်းစောသည်လည်း သထုံပြည်တွင် မင်းအဆက်ဆက်တို့ကိုးကွယ်သော မွေတော်ဓာတ်တော်များ၊ အစုံ ၃၀ သော ပိဋကတ်တို့ကို ၃၂ စီးသော ထိုမင်း၏ ဆင်ဖြူများပေါ်တွင်တင်၍ ဆောင်ယူတော်မူ၏။ ထိုမှ တပါးလည်း ကျမ်းတတ် ရဟန်းသံဃာတော်၊ ပညာသည်များ၊ သူရဲသူခက်အလုံးအရင်းတို့နှင့်တကွ မင်းကိုပါ ဆောင်ယူတော်မူခဲ့သည်။

အနော်ရထာမင်းစောလည်း ပုဂါရာမခေါ် ပုဂံပြည်သို့ ရောက်လျှင် ဆောင်ယူတော်မူခဲ့သော သူရဲသူခက်အစရှိသော ပညာသည်အပေါင်းတို့ကို အသီးအသီး အစုအကွက်ချ



မနုဟာမင်း တည်ထားကုသိုလ်ပြုခဲ့သည့် မနုဟာဘုရားကို ဤသို့တမူထူးခြားစွာ ဖူးမြင်ရသည်။

၍ နေစေ၏။ သရိရ ဓာတ်တော် အပေါင်းတို့ကိုလည်း ကောင်းစွာ ဌပနာ၍ ခေါင်းရင်းတော်၌ အမြဲထား၍ ကိုးကွယ်တော်မူ၏။ ပိဋကတ်တော်အစုံ ၃၀ ကိုလည်း ရတနာ အတိပြီးသော ပြာသာဒ်၌ထား၍ အရိယာ သံဃာတော်အား သင်ကြား ပို့ချရသည်။ မနုဟာမင်းကိုလည်း မြင်းကပါအရပ်၌ အလုပ် အကျွေးနှင့်တကွ နေစေ၏။

မနုဟာမင်း၏ အာနုဘော်သည်ကား စကား ပြောသော် ခံတွင်းမှ စက်ပြောင်ပြောင် ထွက်သောဟူ၏။ အနော်ရထာမင်းစောလည်း မနုဟာမင်း အဖူးအမြင်လာ၍ ဦးချသော အခါ ကြက်သီးမွေးညင်းထ၍ ထိတ်ထိတ် လန့်လန့် ရှိတော်မူချေ၏။ ရှည်လတ်သော် မနုဟာမင်း ဘုန်းတန်ခိုးအာနုဘော်ကို ညှိုးစေခြင်းငှါ မနောလင်ပန်းနှင့် စားတော်ပြင်ပြီးသော် ဘုရားမှာ တင်စေ၍ ထိုစားတော်ဖြင့် မပြတ် မင်းကို ကျွေးတော်မူ၏။ မနုဟာမင်းလည်း မစုံမစမ်းမဆင်မခြင် စားတော်ခေါ်လေ၏။ ရှည်လတ်သော် မိမိခံတွင်းမှထွက်သော စက်ရောင်သည် ကွယ်ခဲ့၏။ ထိုစက်ရောင်ကွယ်ရာတွင်မှ ငါကြံငြားသော်လည်း မဖြစ်နိုင်ရာဟူ၍ နှလုံးချသောဟူ၏။ ယင်းသို့မှ သံဝေဂရရှိ၍ သံသရာဝဋ် ကျင်လည်သရွေ့ သူနိုင်သည်ကို မဖြစ်လို ဟူ၍ ကြီးစွာသော ဘုရားထက်ဝယ်တဆူ၊ ပရိနိဗ္ဗာန်ပြုတော်မူဟန် ပေါင်းလည်းတဆူ တည်တော်မူ၏။ ထိုဘုရားကို ယခုတိုင်အောင် မနုဟာဟူ၍ တွင်၏။ (အနော်ရထာ — ရှု။)

**မနောပွဲ။** ။မနောပွဲသည်ကား မြန်မာနိုင်ငံမြောက်ပိုင်းတွင် နေထိုင်ကြသော ပြည်ထောင်စုသားများ ဖြစ်သည့် ကချင် (ဝါ) ဂျင်းဖောအမျိုးသားတို့၏ ရိုးရာကိုးကွယ်မှုမှ ပေါက်ဖွားလာသည့် နတ်ပသပူဇော်ပွဲဖြစ်၍ နတ်စားခြင်းဟူ၍လည်း ခေါ်နိုင်သည်။ ရှေးအစဉ်အဆက်က တောင်တန်းဒေသတွင် အုပ်ချုပ်လာခဲ့ကြသော ဒူးဝါးကြီးများကသာ ကြီးမှူးပေးခဲ့သည့် မနောပွဲတော်ကို ယခုအခါ ဒူးဝါးကြီးများသာမက ကချင်ပြည်နယ် အစိုးရကပါ တာဝန်ယူ၍ကြီးမှူးကျင်းပပေးလျက်ရှိပေသည်။ ပြည်နယ်သဘင်များ အနက် အကြီးအကျယ်ဆုံးတခုဖြစ်၍ ကချင်အနွယ်ဝင်တို့၏ ရိုးရာကိုးကွယ်မှုကို ထုတ်ဖော်ရာတွင် အပေါ်လွင်ဆုံး သဘင်တခု ဖြစ်၏။

ကချင်တို့သည် ရိုးရာအားဖြင့် နတ်ကိုးကွယ်သူများ ဖြစ်၏။ နတ်များမှာလည်း အရေအတွက်အားဖြင့် များပြားပေသည်။ ရေ၊ မြေ၊ တော၊ တောင်၊ ကမ္ဘာမြေကြီး၊ မိုး၊ လေ၊ နေ၊ အာကာသတို့ကို အစိုးရသော ဆိုင်ရာ နတ်အသီးအသီး ရှိပေ၏။ ထိုပြင် ကွယ်လွန်သူ မိဖ ဘိုးဘွားတို့ကိုလည်း နတ်များအဖြစ် ရည်မှန်းပူဇော်ကြ၏။ နတ်များသည် သက်ရှိ သက်မဲ့ဝတ္ထုပစ္စည်းများ အားလုံးကို ဖန်တီးပြုပြင်နိုင်သည်ဟု ယုံကြည်၏။ နတ်များတွင် ကောင်းကျိုးပေးသောနတ်များ ရှိသကဲ့သို့ ဆိုးကျိုးပေးသော နတ်များလည်း ရှိသည်ဟု ယုံကြည်ကြသည်။

နတ်များအနက် 'ဆွမ်' နှင့် 'ဂျထုန်' ခေါ်နတ်တို့ကား



မနော ပွဲဆိုင်ရာ နတ်ကွန်းများ ထားရှိပူဇော်သည့် မနောအဆောင်တော်

ကောင်းကျိုးထက် ဆိုးကျိုးကို ပိုမိုပေးစွမ်းနိုင်သည်ဟု ကချင်လူမျိုးတို့ ယုံကြည်ကြသည်။တဖန် အာကာသစိုးနတ်ဖြစ်သော 'မဒိုင်' နတ်မင်းကြီးသည်ကား ကချင်နတ်တို့တွင် လူအပေါင်းတို့၏ အသက်ကို စောင့်ရှောက်၍ ကြွယ်ဝချမ်းသာမှုကို အများဆုံး အကျိုးပြုနိုင်သည်ဟူ၍ ယုံကြည်ကြသည်။ ဤသို့နတ်ပေါင်း မြောက်မြားစွာရှိရာ၌ ကချင်အမျိုးအနွယ်တို့သည် အဆင့်အတန်းနှင့် အမျိုးအနွယ်ကိုလိုက်၍ နတ်ကိုးကွယ်ခွင့်များ ခြားနား၍သွားပေသည်။ 'မဒိုင်' နတ်မင်းကြီးကို ရွေးထုံးစဉ်လာအရ ဒူးဝါးကြီးများသာလျှင် ကိုးကွယ်ဆည်းကပ်နိုင်ခွင့် ရှိ၏။ မဒိုင်နတ်ကိုးကွယ်သူများသာလျှင် မနောပွဲကို ကျင်းပနိုင်ခွင့်ရှိရာ၊ ဒူးဝါးများသာလျှင် မနောပွဲကို ကျင်းပနိုင်ခွင့်ရှိပြီးလျှင် ရွေးအစဉ်အဆက် ဒူးဝါးများကပင် ဦးဆောင်၍ မနောပွဲများကျင်းပလာခဲ့ကြပေသည်။နတ်ပွဲသဘင်များ ယဇ်ပူဇော်ပွဲများ ပြုလုပ်ရာ၌ ရပ်ရွာအုပ်ချုပ်သူ အကြီးအကဲတဦးဦးက တာဝန်ယူရရိုး ထုံးစံရှိ၏။ ထို့ကြောင့် ဒူးဝါးများသည် မဒိုင်နတ်ကိုးကွယ်သူများ အနေဖြင့်သာမက အုပ်ချုပ်သူအကြီးအကဲအနေဖြင့်လည်း တာဝန်ယူ၍ မနောပွဲ ကျင်းပလာခဲ့ခြင်း ဖြစ်သည်ဟု တွေးဆဖွယ်ရာရှိ၏။ထိုခေတ်ကာလ အခြေအနေအရ ဒူးဝါးကြီးများကပင် ဦးဆောင်၍ မနောပွဲများ ကျင်းပပေးခဲ့ရာ ယခုတိုင်ပင် ဖြစ်၏။ ယခုအခါတွင် မနောသည် ကချင်ပြည်နယ်၏ အောင်ပွဲ သဘင်အဖြစ်သို့ အသွင်ပြောင်းလာပေပြီ။ မနောပွဲကို ကချင်ပြည်နယ်နေ့တွင် ပြည်နယ်အစိုးရက တာဝန်ယူ၏။ သို့သော် အချို့ဒေသများတွင် အခါရာသီအလိုက် ဒူးဝါးကြီးများ ကြီးမှူးကျင်းပသော မနောပွဲများလည်း ရှိသည်။

မနောဟူရာ၌ ဆွတ်မနော၊ ဂျူမနော၊ အိမ်သစ်တက်မနော၊ ပဒန်းမနောဟူ၍ ၄ မျိုးရှိသည်။ ဆွတ်မနောကား မနော ၄ မျိုးတွင် အကြီးအကျယ်ဆုံးဖြစ်၏။ နှစ်စဉ်ကချင်ပြည်နယ်နေ့တိုင်းတွင် ကျင်းပသော မနောမှာ ဤမနောမျိုးဖြစ်၏။ ချမ်းသာကြွယ်ဝခြင်း စသည်တို့ကို ဂုဏ်ယူသောအားဖြင့် ကျင်းပသည်။ ဂျူမနောမှာ ရောဂါအန္တရာယ်ထူပြောသည့်အခါများ၌ နတ်များအား ပသခြင်း ဖြစ်၏။ အိမ်သစ်တက် မနောမှာ အိမ်သစ်ဘက်ပွဲ ဟုလည်း ခေါ်ဆိုသည်။ ပဒန်းမနောမှာ အောင်ပွဲခံဖြစ်၍ ဘိသိက်ခံပွဲတမျိုးဖြစ်၏။ ထို့ပြင် နွမ်ရှုလိုင်း မနောဟူ၍လည်း မနောတမျိုး ရှိသေးသည်။ ထိုမနောမှာ ဒူးဝါးကြီးများ လက်ထပ်ထိမ်းမြားသည့်အခါ ပြုလုပ်၍ 'ထိမ်းမြားမင်္ဂလာ မနော' ဟုလည်း ခေါ်သည်။

ကချင်ပြည်နယ်တွင် ကြီးကျယ်သော မနောပွဲ ၃ ကြိမ် ကျင်းပခဲ့ဘူးပေသည်။ ၁၉၃၇ ခုနှစ်တွင် ဆင္ဂ ဂျော့ ဘုရင်နန်းတက်သည်ကို ဂုဏ်ပြုသော အားဖြင့် တကြိမ်ကျင်းပခဲ့သည်။ ၁၉၄၅ ခုနှစ်တွင် ဖက်ဆစ်တို့ကို အောင်မြင်သည့် အထိမ်းအမှတ်အဖြစ် ပဒန်းမနောပွဲတကြိမ်၊ ၁၉၄၈ ခုနှစ်တွင် ကချင်ပြည်နယ် သီးခြား ပေါ်လာသည်ကို အောင်ပွဲခံသည့်အနေဖြင့် ပဒန်းမနောပွဲ တကြိမ် ကျင်းပခဲ့သည်။

ပြည်နယ်ရပြီးသည့် နောက်ပိုင်းတွင် ၄ နှစ်တကြိမ် ပြည်နယ်အစိုးရက ဦးဆောင်၍ ဆွတ်မနောမျိုးဝင် မနောများ ကျင်းပခဲ့ပေသည်။ ရှေးခေတ်မှစ၍ ယခုတိုင် ကချင်ပြည်နယ်တွင် ဒေသအလိုက် အနည်းဆုံး တနှစ်တကြိမ်ကျင်းပလေ့ရှိသည်။ တနှစ်တကြိမ် ကျင်းပရမည်ဟူ၍ကား သီးခြား သတ်မှတ်ချက် မရှိပေ။ ဒူးဝါးကြီးများအနေနှင့် မနောပွဲပြုလုပ်ရန် အကြောင်း ကိစ္စပေါ်လျှင် ကျင်းပ၏။

ဤသို့သော ရိုးရာနတ်တို့ကို ပသသော ယဇ်ပူဇော်ပွဲတွင် ရွာလုံးကျွတ်၊ နယ်လုံးကျွတ်မျှ ပါဝင်ဆင်နွှဲသည် ဖြစ်ပေရာ၊ ရပ်နီး ရပ်ဝေး ဆွေမျိုးမိတ်သင်္ဂဟ အပေါင်းတို့နှင့် တွေ့ဆုံကြရပေသည်။ ပူဇော်အပ်သူတို့ကို ပူဇော်ခြင်း၊ ခြီးမြှင့်အပ်သူကို ခြီးမြှင့်ခြင်း၊ မိတ်သင်္ဂဟတို့ကို ကျွေးမွေး ပေးကမ်းခြင်းတို့မှာ မနောပွဲ၏ ရည်ရွယ်ချက်များဖြစ်၏။

မနောပွဲ ကျင်းပရာ၌ ငွေကုန်ကြေးကျ များသောကြောင့် လပေါင်းများစွာကပင် ကြိုတင် စီမံရလေသည်။ ကျင်းပရန် နေ့ကောင်း ရက်ကောင်းကို နတ်ဆရာက ရွေးပေး၏။ နတ်ဆရာကြီး ၆ မျိုးရှိသည့်အနက် ဂျေးဝါးခေါ် နတ်ဆရာက အခါရွေး နတ်များအား ပူဇော်ပသမေးမြန်း၍ ထိုနတ်ဆရာ၏ ညွှန်ကြားချက်အရ စီစဉ်ဆောင်ရွက်ရသည်။ ဂျေးဝါး နတ်ဆရာ အဆင်မသင့်ပါက ဒုမ်းဆခေါ် နတ်ဆရာများနှင့် တိုင်ပင်ဆောင်ရွက်လေ့ရှိသည်။ မနောပွဲမှာ အစဉ် အလာအားဖြင့် နတ်ပသပူဇော်ပွဲ ၄ ရက်၊ ကပွဲ ၄ ရက်၊ ပေါင်း ၈ ရက်မျှကြာသည်။ မနောပွဲများကို အထူးသဖြင့် မိုးတိမ်များ ကင်းစင်သည့် ဆောင်းရာသီနှင့် နွေရာသီတို့တွင် ကျင်းပလေ့ရှိပေသည်။

မနောအဆောင်တော်မှာ မနောပွဲဆိုင်ရာ နတ်ကွန်းကို ထားရှိပူဇော်သည့် အဆောက်အအုံဖြစ်သောကြောင့် မရှိမဖြစ် အရေးကြီးပေသည်။ ၁၉၅၇ ခုနှစ် မတိုင်မီက မနောနတ်ကွန်းအတွက် မနော အဆောင်တော်ဟူ၍ သီးခြား ဆောက်လုပ် သတ်မှတ်ခြင်း မရှိသောကြောင့် မနောအဆောင်တော်ကို သစ်၊ ဝါး၊ သက်ငယ်တို့ဖြင့်သာ မြေစိုက်တထပ် တဲရှည်ကြီးထိုး၍ ကျင်းပလေ့ ရှိခဲ့သည်။ ထိုတဲကြီး၏ အတွင်းတွင်မှ နတ်ကွန်းထားရှိသည်။ မြစ်ကြီးနားမြို့အတွင်း ရှိ အတွင်းဝန်ရုံးဟောင်းကွင်းပြင်ကြီးတွင် အလျဉ်းသင့်သလို ကျင်းပခဲ့သည်။ ယခုအခါမနောအဆောင်တော်ကို မြစ်ကြီးနား မြို့ထိပ် စီတာပူချပ်ကွက်ရှိ ကွင်းပြင်ကြီး အလယ်တွင် အခိုင်အခံ့ ပြုလုပ်ပြီးဖြစ်ကာ ယင်းမှာ စီတာပူမနောကွင်းဟုတွင်သည်။ မနောအဆောင်တော်ကို ရှေးထုံးစဉ်လာ ပုံစံအတိုင်း ဆောက်လုပ်၍ အဆောင် ဦးကင်းတွင် ရှေးထုံး

စဉ်လာ အတိုင်း ကျွဲချိုကြီး တင်၍ တန်ဆာ ဆင်ထားလေသည်။

ထိုအဆောင်တော်အတွင်း၌ နတ်ကွန်း ၂ ခုရှိ၏။ နတ်ကွန်းနှင့် တွဲ၍ မီးဖိုကြီး ၂ ခုရှိသည်။ မီးဖိုတွင် ဒယ်အိုးကြီး ၂ ခုရှိ၍၊ ယင်း၌ ရေအမြဲဆူနေရပေသည်။ တလုံးမှာ အသားချက်ရန် ဖြစ်ပြီးလျှင် ကျန်တလုံးမှာ ကြက်ဥပြုတ်ရန် ဖြစ်၏။ ဆင်ယင်ပူဇော်ရန် ကျွဲ နွား ဝက်ကြက်များကို သတ်ပြီးသည့်အခါ ကျွဲချိုကို နတ်ကွန်းတွင် ဆင်ယင်ပူဇော်သည်။ တောင်စဉ်ဖက်များဖြင့် ကတော့များ၊ ခွက်များ ထိုးကာ အသားအချို့ကိုထည့်လျက် နတ်တင်ပြီးလျှင် အသားအချို့ကို မီးဖိုပေါ်ရှိ ဒယ်တွင် ပြုတ်၍ နတ်ဆရာကြီးများနှင့် အနီးအနားမှ ပုဂ္ဂိုလ်အချို့က ခေါင်ရည်နှင့် မြည်းကြယင်း ရပ်ရွာကောင်းမွန် တိုးပွား၍ အန္တရာယ်အပေါင်း ကင်းစေကြောင်း ဆုတောင်းကြပေသည်။

ထိုနောက်မနောအဆောင်တော်နှင့် အလှမ်းဝေးရာ၌ စိုက်ထူထားသော မနောတိုင်ကြီးများကို ပတ်ချာ လှည့်၍ ယောကျ်ားများရောမိန်းမများပါ ပျော်မြူးရွှင်ပြစွာ ကကြပေသည်။

မနောပွဲကခြင်းနှင့် စပ်လျဉ်း၍ ဝိဒါဒကွဲလျက် ရှိသည်။ မနောပွဲကို ရှေးဦးစွာ နတ်များက စတင် ခင်းကျင်းကပြသည်။ ယင်းကပွဲသို့ တက်ရောက်ခွင့် ရသော ငှက်များသည် မနောအကအကြောင်း သိလာ၏။ နေနတ်ပွဲမှအပြန် ငှက်များသည်ညောင်ပင်တပင် တွေ့၏။ ညောင်သီးများကို တညီတညွတ်တည်း ဝိုင်းအုံ ထိုးဆိတ်စားသောက်ပြီးသော် ပျော်ရွှင်အားရစွာ ထိုအပင်ကို ပတ်ချာဝိုင်းကာ ကကြ၊ ခုန်ကြ၏။ ယင်းအကကား နေနတ်မင်းတိုင်းပြည်မှ တတ်မြောက်လာသော မနောအကတည်း။ ယင်းအကကို ကမ္ဘာ မြေ အလယ်ဗဟိုရှိ လူသား ဇနီးမောင်နှံတို့ တွေ့ရှိပြီးလျှင် တဆင့်သင်ယူ၏။ ထိုမှ တဆင့်တဆင့် ပျံ့ပွားခဲ့သည်မှာ ယခုတိုင်ဖြစ်သည်ဟူ၍ ဝါဒတမျိုး ရှိသည်။

အခြား ဝါဒတမျိုးမှာ ဤသို့တည်း။ ကချင်လူမျိုးတို့ကို ပေါက်ပွားခဲ့သည့် အဖိုး၊ ကမ္ဘာမြေစောင့် နတ်ဘုရင်နှင့် အဖွားအန္တယ်တော် နေနတ်မင်းတို့ကို ပူဇော်ခြင်း၊ အာကာသစိုးနတ်မင်းကြီး မဒိုင်နှင့် လေနတ်မင်းကြီးများကို ပူဇော်ပသရာ၌ နတ်မင်းကြီးများ လူ့ပြည်သို့ ဆင်းသက်သည့်အခါ အာကာသစိုး နတ်သမီးများကိုပါ ခေါ်ဆောင်လာခဲ့ကြပေသည်။ ဤတွင် မြေပြင်မှ လူသားများ နတ်ငယ်များက အခမ်းအနားဖြင့် သွားရောက်ကြိုဆိုညည့်ခံကြသည်။ နတ်မင်းကြီးနှင့် နတ်သမီးများက အားရရွှင်မြူးစွာ ကခုန်ခြင်းကို မနောဟု ခေါ်စမှတ်ပြု၍ အစဉ်အလာ ကျင်းပသည်ဟူ၏။

မနောပွဲတော်၏ အစမှာ ဒူးဝါးကြီးများ သရဖူဆောင်းပွဲ ဆင်ယင်ရာ၌ ကျင်းပသည်ဟူ၍လည်း အဆိုတရပ် ရှိပေသေးသည်။ ထိုကြောင့် မနောပွဲကျင်းပရာတွင် ယခုတိုင်မင်းမြောက်တန်ဆာများဖြစ်သော ဝတ်ရုံတော်၊ သရဖူ၊ သန်လျက်၊ ဓား၊ ဆင်စာမြက်၊ ပန်းပွားကို ကိုင်ဆောင်ထားသူနှစ်ယောက် ခေါင်းဆောင်၍ မနောတိုင်ရှိရာသို့ အတီးအမှုတ် အခမ်းအနားနှင့် ထွက်ကြသည့်ဟန် ပြုလုပ်ရခြင်း ဖြစ်လေသည်။ မနောပွဲ ကသည့်ပရိသတ်ကလည်း မောင်းမမိဿံများသဖွယ် ယပ်တောင် ကိုယ်စီကိုင်၍ လိုက်ပါကခုန်ကြရပေသည်။

# လူ့အကြောင်းလေ့လာသော အတတ်ပညာ

လူတို့ဖြစ်ထွန်းပေါ်ပေါက် တိုးတက်ပြောင်းလဲလာပုံ အကြောင်းစုံကို ရုပ်သဏ္ဍာန်ဆိုင်ရာ၊ လူ့အဖွဲ့အစည်းဆိုင်ရာနှင့် ယဉ်ကျေးမှုဆိုင်ရာ ရှုထောင့်အထွေထွေမှ သိပ္ပံနည်းကျကျ လေ့လာသောအတတ်လည်းဖြစ်၍၊ ရုပ်သဏ္ဍာန် မနုဿဗေဒ၊ ယဉ်ကျေးမှု မနုဿဗေဒ၊ သမိုင်းမပေါ်မီခေတ်၊ လူမျိုးဗေဒနှင့် ဘာသာစကားတည်းဟူသော တခုပေါ်တခု အမှီပြုနေသည့် ကဏ္ဍကြီး ၅ သွယ် ပါဝင်သည်။

**မနုဿဗေဒ။** ။မနုဿဗေဒ ဘာသာရပ်သည် အတိတ်ကာလမှ လူနှင့် ပဋိပ္ပန်ရှိ လူတို့ကို လေ့လာသော အတတ်ပညာ ဖြစ်သည်။ တနည်းဆိုသော် ကမ္ဘာမြေကြီးပေါ်တွင် လူဟူ၍ ပေါ်ပေါက်လာသည့် အချိန်မှစ၍ လူတို့ အကြောင်းကိုရုပ်သဏ္ဍာန်ဆိုင်ရာ၊လူမှုရေးဆိုင်ရာနှင့်ယဉ်ကျေးမှု ဆိုင်ရာကိစ္စတို့တွင် ဖြစ်ထွန်း ပေါ်ပေါက် တိုးတက်ပြောင်းလဲလာပုံ အစုံစုံကို သိပ္ပံနည်းကျကျ လေ့လာသော အတတ်လည်း ဖြစ်သည်။ ယင်းဘာသာရပ်တွင် ထင်ရှား၍ တခုအပေါ်တခု အမှီသဟဲ ပြုနေသော ကဏ္ဍကြီး ၅ သွယ်ရှိ၏။ ယင်းကဏ္ဍကြီး ၅ သွယ်တို့မှာ ရုပ်သဏ္ဍာန် မနုဿဗေဒ၊ ယဉ်ကျေးမှု မနုဿဗေဒ၊ သို့မဟုတ် လူ့အဖွဲ့အစည်း မနုဿဗေဒ၊ သမိုင်း မပေါ်မီခေတ်၊ လူမျိုးဗေဒနှင့် ဘာသာစကားဗေဒတို့ ဖြစ်သည်။

**ရုပ်သဏ္ဍာန် မနုဿဗေဒ။** ။ဤဘာသာရပ်တွင် လူ၏ ရုပ်သဏ္ဍာန်ဆိုင်ရာ အင်္ဂါရပ်တို့သည် ပတ်ဝန်းကျင် အခြေအနေကို လိုက်၍ မည်ကဲ့သို့ ဆင့်ကဲ ပြောင်းလဲ တိုးတက်လာသည်ကို လေ့လာရပေသည်။ တနည်းအားဖြင့် လူကို သတ္တဝါ တမျိုးကဲ့သို့ သဘောထားပြီး လေ့လာရပေသည်။

ထိုသို့ လေ့လာရာတွင် ဆင့်ကဲ ပြောင်းလဲခြင်း သဘောတရားကို ချန်လှပ်ထား၍ မဖြစ်ပေ။ ကမ္ဘာလောကကြီးတွင် လူဟူ၍ စတင် ပေါ်ပေါက်ခဲ့စဉ်က မည်သည့်ပုံပန်းသဏ္ဌာန်၊ မည်သည့်ဘဝ၊ မည်သည့် အခြေတွင် ရှိခဲ့သည်။ လူအဖြစ်သို့ မည်သည့် သတ္တဝါမျိုးမှ အခြေခံ၍ ဆင့်ကဲ ပြောင်းလဲ တိုးတက်လာခဲ့သည် စသည်တို့ကို လေ့လာရပေသည်။ လူ၏ ဇာစ်မြစ်ကို နှိုက်ချွတ် လေ့လာမည် ဆိုပါက ဆဲမျိုးသတ္တဝါတို့က စရပေမည်။ ထိုသတ္တဝါများမှ ကျောရိုးရှိသတ္တဝါ၊ ယင်းမှ နို့တိုက် သတ္တဝါ၊ ထိုမှတဆင့် မျောက်၊ မျောက်ဝံ၊ လူစသည်အားဖြင့် ဆင့်ကဲ ပြောင်းလဲခဲ့ရာမှ အဆုံးတွင် မျောက်ဝံနှင့် လူအဆင့်သို့ ရောက်ခဲ့ပေသည်။ မနုဿဗေဒ ပညာရှင်များ အယူအဆအားဖြင့် မျောက်ဝံသည် မျောက်က တိုက်ရိုက်မဆင်းသက်ပေ။ထိုအတူ လူသည်လည်း မျောက်ဝံက တိုက်ရိုက် မဆင်းသက်ပေ။ 'မျောက်၊ မျောက်ဝံ၊ လူဇာစ်မြစ်' မှ၊ မျောက်များက တခက်၊ 'မျောက်ဝံ - လူ ဇာစ်မြစ်' တို့ တခက်အနေဖြင့် သီးခြား ခွဲထွက် ဆင်းသက်ခဲ့ပေသည်။ ထိုမျောက်ဝံ-လူဇာစ်မြစ်ကမှ တဆင့် မျောက်ဝံများနှင့် လူတို့ သီးခြားဆင်းသက်ခဲ့ကြပြန်သည်။ သို့နှင့် လူသည် မျောက်နှင့်မျောက်ဝံများမှ တိုက်ရိုက် ဆင်းသက်ခဲ့ခြင်း မဟုတ်ပေ။



လူ၏ဦးခေါင်းခွံကို သေချာဂရု စံနစ်တကျ လေ့လာလျက်ရှိစဉ်

လူ၏ အတိတ် ဖြစ်စဉ်ကို လေ့လာရာတွင် မြေလွှာများထဲမှ တူးဖော်ရရှိသော ကျောက်ဖြစ်ရုပ်ကြွင်းများကို အများဆုံး ကိုးကားရပေသည်။ အကိုးအကားရဆုံး ကျောက်ဖြစ်ရုပ်ကြွင်းများမှာ ဦးခွံရိုး၊ မေးရိုး၊ ပေါင်ရိုး၊ လက်မောင်းရိုးနှင့် သွားများ ဖြစ်သည်။

လူ့ကိုယ်တိုင်း ပညာသည် ရုပ်သဏ္ဌာန် မနုဿဗေဒ၏ အရေးပါသော အခက်အလက်တခု ဖြစ်သည်။ ထိုဘာသာရပ် အရ သက်ရှိ သက်မဲ့ လူအမျိုးမျိုးကို တိုင်းထွာနိုင်ပေသည်။ လူ့အရိုးဟောင်းများကို သေချာဂရု တိုင်းထွာလေ့လာခြင်းအားဖြင့် ယင်းလူသည် မည်သည့် လူမျိုးဖြစ်သည်။ အရပ်အမောင်း မည်မျှမည်မျှရှိ၍ ယောကျ်ားဖြစ်သည်၊ မိန်းမဖြစ်သည် စသည်ကို အနီးကပ်ဆုံး မှန်ကန်အောင် ပြောနိုင်သည်။ သက်ရှိလူကို တိုင်းထွာ၍လည်း လူမျိုးကို ခွဲခြား ပြသနိုင်ပေသည်။ လူ့ကိုယ်တိုင်းပညာကို ထပ်မံ၍ စိတ်ဖြာမည် ဆိုပါက၊ လူကောင်တိုင်းပညာ၊ လူ့ရိုးတိုင်းပညာ၊ ဦးခေါင်းတိုင်းပညာနှင့် ဦးခွံတိုင်းပညာဟူ၍ ခွဲခြားနိုင်သည်။

ရုပ်သဏ္ဌာန် မနုဿဗေဒအရ၊ လူ၏ ပြင်ပအင်္ဂါများကို လေ့လာ၍လည်း လူမျိုး ခွဲခြားနိုင်၏။ အသားရောင် အဖြူ၊ အမည်း၊အဝါကိုကြည့်၍ခွဲခြားနိုင်၏။ခေါင်းချွန်းသည်၊ ပြားသည်၊ လုံးသည်၊ ရှည်သည် စသည့် ဦးခေါင်းညွှန်း (ဦးခွံညွှန်း) ကိုကြည့်၍လည်း ခွဲခြားနိုင်၏။ နှာခေါင်းရှည်သည်၊ တိုသည်၊ ပြားသည်၊ ချွန်းသည်၊ ပွသည် စသည့် နှာခေါင်းညွှန်းကို လေ့လာ၍လည်း ခန့်မှန်းနိုင်၏။ ဆံပင်ရောင်၊ ဆံပင်သဏ္ဌာန်နှင့် ဆံသားကို ကြည့်၍လည်း ခွဲခြားနိုင်၏။ မျက်လုံးရောင်အနက်၊ အညို၊ အပြာ၊ အဝါကို လေ့လာ၍လည်း ခွဲခြား စိတ်ဖြာနိုင်၏။ လူတို့၏ အရပ်အမောင်း၊ သွေးအမျိုးအစားနှင့် နောက်ဆုံးပေါ် စမ်းသပ်တွေ့ရှိချက်များအရ လူ့ကိုယ်နှင့်ကို လေ့လာ၍ပင် လူ့အဆက်အနွယ်၊ အမျိုးအမည်ကို ခန့်မှန်းနိုင်ပြီဟု ဆို၏။

ကမ္ဘာပေါ်ရှိ လူမျိုးပေါင်းစုံ၏ ၁၀ ပုံ ၉ ပုံမှာ လူမျိုးရင်းကြီး ၃ မျိုးမှ ဆင်းသက် ပြန့်ပွားသွားသည်ဟု အဆိုရှိပေ၏။ ထိုလူမျိုး ပေါင်းစုံ၏ ရုပ်သဏ္ဌာန်ဆိုင်ရာ စသည်တို့အား လေ့လာသော ပညာရပ်ကို ရုပ်သဏ္ဌာန် မနုဿဗေဒဟု ခေါ်ဆိုခြင်းပင် ဖြစ်သည်။

**ယဉ်ကျေးမှု မနုဿဗေဒ၊ သို့မဟုတ် လူ့အဖွဲ့ အစည်း မနုဿဗေဒ။** ။ယဉ်ကျေးမှု မနုဿဗေဒနှင့် လူ့အဖွဲ့အစည်း မနုဿဗေဒကို သီးခြား ကဏ္ဍများအဖြစ် ခွဲခြားဖော်ပြလိုက ပြနိုင်ပေ၏။ ထိုဘာသာရပ် နှစ်ခုမှာ စည်းမျဉ်းကတ္တား၊ ပြတ်သားစွာ ခြား၍ ရနိုင်စကောင်းသော ဘာသာရပ်များ မဟုတ်ပေ။ တခုနှင့်တခု ဆက်စပ်မှု အထူးရှိနေပေသည်။ သို့နှင့် ယဉ်ကျေးမှု မနုဿဗေဒ ခေါင်း

စည်းအောက်တွင် လူ့အဖွဲ့အစည်း မနုဿဗေဒကို ထည့်သွင်း ဖော်ပြခြင်းဖြင့် လုံလောက်ပေသည်။

လူကို ယဉ်ကျေးမှု ရှုထောင့်မှနေ၍ လေ့လာခြင်း အတတ်ပညာသည် ယဉ်ကျေးမှု မနုဿဗေဒ မည်၏။ ထိုသို့ လေ့လာရာတွင် အတိတ်ကာလ၊ ယဉ်ကျေးမှုဟူ၍ စတင်ပေါ်စ အခါသမယ ဖြစ်စဉ်များကို ချန်လှပ်ထားခဲ့၍ မဖြစ်ပေ။ ထိုကာလမှသည် လက်ရှိ ယဉ်ကျေးမှု အစုစုတို့ အထိ ပြောင်းလဲ တိုးတက် ဆက်စပ်လာပုံကို ပေါင်းရုံး လေ့လာမှသာ ပြည့်စုံပေလိမ့်မည်။

မနုဿဗေဒအရ ယဉ်ကျေးမှုဟူသည် လူတို့ကိုယ်တိုင် မိမိတို့၏ သက်သာမှု၊ ချောင်ချိမှု၊ လုံခြုံမှု စသည်ဘို့အတွက် ဖန်တီး တီထွင်ထားသော အရာဟူသမျှသည် ယဉ်ကျေးမှု မည်၏။ သို့နှင့် ယဉ်ကျေးမှုကို အထည်ကိုယ်ရှိ ယဉ်ကျေးမှုနှင့် အထည်ကိုယ်မဲ့ ယဉ်ကျေးမှု ဟူ၍ နှစ်မျိုးနှစ်စား ခွဲခြားနိုင်၏။ မြင်နိုင်တွေ့နိုင်၊ စမ်းသပ် ထိတွေ့နိုင်သော အရာဝတ္ထု စသည့် လူတို့၏အသုံးအဆောင်၊ လက်နက်၊ ကရိယာ၊ တန်ဆာပလာ၊ အိုးခွက်၊ အိမ်၊ ခြံ၊ အဝတ်အစား၊ စာရွက်စာတမ်း၊ လက်ဝတ်လက်စား၊ အနုပညာနှင့် သွားလာရေးဆိုင်ရာ ယာဉ်ရထား စသည်တို့ကို အထည်ကိုယ်ရှိ ယဉ်ကျေးမှုဟု ခေါ်၏။ ခေတ်ဦး လူတို့ မည်သို့သော လက်နက်ကရိယာများ သုံးစွဲခဲ့၍ ဂူအောင်း လူတို့ခေတ်တွင် မည်သည့် လက်နက် ကရိယာ တန်ဆာပလာများ ကိုင်ဆောင်ကာ၊ တစတစနှင့် ခေတ်ကာလအလိုက် မည်သို့မည်ပုံ ပြောင်းလဲ တိုးတက်လာသည်ကို ယဉ်ကျေးမှု မနုဿဗေဒ လေ့လာခြင်းဖြင့် သိနိုင်ပေ၏။ ထိုအတူ လူတို့၏ နေမှု ထိုင်မှု၊ သွားမှုလာမှု၊ ဝတ်မှုစားမှု စသည်တို့ တဖြည်းဖြည်း ထူးခြား ကောင်းမွန်လာပုံကိုလည်း သိရှိနိုင်ပေသည်။

ထိုသို့ အထည်ကိုယ်ရှိ ယဉ်ကျေးမှု အစုစုကို လေ့လာနိုင်သည့် နည်းတူ၊ အထည်ကိုယ်မဲ့ ယဉ်ကျေးမှုကိုလည်း လေ့လာသိရှိနိုင်ပေသည်။ အထည်ကိုယ်မဲ့ ယဉ်ကျေးမှု ဟူသည် မမြင်နိုင်၊ မတွေ့နိုင်၊ မစမ်းသပ် မထိတွေ့နိုင်သော အရာများ ဖြစ်ပေသည်။ ယင်းတို့တွင် လူတို့၏ဓလေ့များ၊ အစဉ်အလာများ၊ အလေ့အကျင့်များ၊ ထုံးတမ်းများ၊ ဘာသာယုံကြည်မှု စသည်တို့ အကျုံးဝင်ပေသည်။ ဘာသာရေးဆိုင်ရာ ယုံကြည်မှုနှင့် ထုံးတမ်းများကို အသေးစိတ် လေ့လာမည် ဆိုပါက သက်မဲ့ပစ္စည်း ကိုးကွယ်မှု၊ ဝိညာဉ် ယုံကြည်မှု၊ နတ်ကိုးကွယ်မှု၊ တစ္ဆေယုံကြည်မှု၊ အင်းအိုင် ခါးလှည့် လက်ပွဲမန္တာန် စသည့် အဆောင် ယုံကြည်မှု၊ တိရစ္ဆာန် ကိုးကွယ်မှု၊ သစ်ပင်ကိုးကွယ်မှု၊ သက်မဲ့လောက ကိုးကွယ်မှု၊ မှော်ယုံကြည်မှုနှင့် ထုံးတမ်းနှင့် စပ်လျဉ်းပြီး မီးဖွားထုံးတမ်း၊ ကြီးကောင်ငင် ထုံးတမ်း၊ ဆေးကုထုံးတမ်း၊ လမိုင်းတင်ထုံးတမ်း၊ အသုဘထုံးတမ်း စသည့် လူမှုထုံးတမ်းများကိုလည်း သိရှိနားလည်နိုင်၏။ ယုံကြည် ကိုးကွယ်မှုများနှင့် ထုံးတမ်းများကို ခေတ်ဦး ယုံကြည် ကိုးကွယ်မှု ဟူ၍ ဘာသာရပ်တရပ် အနေဖြင့်လည်း သီးခြား လေ့လာနိုင်ပေသည်။

ထိမ်းမြားခြင်း ဓလေ့များဖြစ်သော တလင်တမယား ဓလေ့၊ ခင်ပွန်းပြိုင်၊ လင်ပြိုင်၊ မယားပြိုင်၊ မျိုးပအိမ်ထောင်ခြင်း၊ မျိုးတွင်းအိမ်ထောင်ခြင်း၊ ခဲအို-မတ်ယူဓလေ့၊ မရီး-ခယ်မယူဓလေ့၊ အစုလိုက် ထိမ်းမြားခြင်းဓလေ့၊ သူငယ် ထိမ်းမြားခြင်းဓလေ့၊ ဦးစား အိမ်ထောင်ခွင့်၊ ဦးစား စပ်ယှက်ခွင့်နှင့် ထိမ်းမြားခြင်းနှင့် စပ်လျဉ်းသော ပညတ်ချက် စသည်များကိုလည်း ယဉ်ကျေးမှု၊ သို့မဟုတ် လူ့အဖွဲ့အစည်း မနုဿဗေဒကို လေ့လာရာတွင် အသေးစိတ် နားလည်နိုင်ပေသည်။

ထိုအထည်ကိုယ်ရှိ၊ အထည်ကိုယ်မဲ့ ယဉ်ကျေးမှု တို့ မည်သည့်အခါ ကာလက မည်သည့် ယဉ်ကျေးမှု အသွင်ဖြင့် ပေါ်ထွန်းခဲ့ပြီး၊ တစတစ မည်ကဲ့သို့ ပြောင်းလဲ တိုးတက်ကာ အဆုံးတွင် မည်သို့ ပေါင်းစပ်၍ ယဉ်ကျေးမှု အသွင် နှောခဲ့သည်တို့ကိုလည်း ဤဘာသာရပ်တွင် ပြည့်စုံအောင် ထည့်သွင်း လေ့လာရပေသည်။

ခေတ်ဦးလူတို့၏ စီးပွားရေး အခြေအနေကို လေ့လာခြင်းနှင့် စပ်ဆိုင်သော 'ခေတ်ဦးဘောဂဗေဒ' ပညာရပ်ကိုလည်း၊ ဤယဉ်ကျေးမှု၊ သို့မဟုတ် လူမှုအဖွဲ့အစည်း မနုဿဗေဒ ခေါင်းစဉ်အောက်တွင် ထည့်သွင်းလေ့လာနိုင်ပေသည်။

**သမိုင်းမပေါ်မီခေတ်။** ။အင်္ဂလိပ်ဘာသာအားဖြင့် အာကီယောလိုဂျီ ခေါ်သော ရှေးဟောင်း သုတေသနဗေဒသည် သမိုင်းမပေါ်မီ ရှေးအတိတ်ကာလမှ ကြွင်းကျန်ခဲ့သော ဝတ္ထုပစ္စည်းများကို လေ့လာသော အဘဘ်ပညာ ဖြစ်သည်။

လေ့လာရာတွင် ထိုခေတ် ထိုအခါသမယ၊ လူတို့ ကိုင်ဆောင် သုံးစွဲခဲ့သော အထည်ကိုယ်ရှိ ယဉ်ကျေးမှုများကို မြေလှန် အဆင့်ဆင့်အောက်မှ စနစ်တကျ တူးဖော်ရယူပြီးမှ လေ့လာရသည်။ ယင်းကို 'တူးဖော်ရှာဖွေခြင်း' ဟု ခေါ်၏။ ထိုသို့ အတိတ်ကို လှန်လှော၍ တူးဖော် ရှာဖွေရာတွင် သင့်တော်သော နေရာကွက်ကို ရွေးချယ်ဘဘ်ဖို့ အထူးအရေးကြီးပေသည်။

သို့တူးဖော် ရှာဖွေရာတွင် ခေတ်အလိုက် လူတို့ သုံးစွဲခဲ့သော ကျောက်လက်နက်ကရိယာများကို တွေ့ရှိတတ်ပေ၏။ ရှေးဟောင်း သုတေသနဗေဒအရ ပေါ်ဦးကျောက်ခေတ်၊ ကျောက်ခေတ်ဟောင်း၊ အလယ်ကျောက်ခေတ်နှင့် ကျောက်ခေတ်သစ်ဟူ၍ ကျောက်ခေတ် အမျိုးမျိုး ရှိပေသည်။ ထိုခေတ်တို့တွင် မည်သည့်နည်းဖြင့် ပြုလုပ်သော ကျောက်လက်နက် ကရိယာမျိုး ရှိခဲ့သည်ကို လေ့လာရ

မနုဿဗေဒ ပညာရှင်များ အလိုအားဖြင့် ကမ္ဘာပေါ်ရှိ လူမျိုးများ၏ ၁၀ ပုံ ၉ ပုံသည် အခြေခံ လူမျိုးရင်းကြီး ၃ မျိုးဖြစ်သော ကော့ကဆွိုက်၊ သို့မဟုတ် ယူရိုပွိုက်၊ နီဂရွိုက်နှင့် မွန်ဂိုလွိုက်တို့မှ ဆင်းသက် ပြန့်ပွားခဲ့သည်ဆို၏။အသားရောင်ကို ရည်ညွှန်း၍မူ၊အဖြူ၊အမည်းနှင့် အဝါဟူ၍ ယေဘုယျအားဖြင့် ခေါ်ဝေါ်၏။ အကြမ်းဖျင်းအားဖြင့် ကော့ကဆွိုက် လူမျိုးရင်းထဲတွင် ဥရောပတိုက်မှ နော်ဒစ်၊ အယ်လပိုင်နှင့် မယ်ဒိတာရေးနီယန် လူမျိုးတို့ပါပြီး လျှင်၊ ကျန်တမျိုးမှာ အာရှတိုက်မှ အိန္ဒိယမြောက်ပိုင်းသားများဖြစ်၏။ နီဂရွိုက်လူမျိုးရင်းတွင် နီးဂရိုး၊ မယ်လနီးရှန်း၊ ပစ်ဂမီနှင့် ဗွတ်ရှမန်းလူမျိုးတို့ပါဝင်ပြီးလျှင်၊ မွန်ဂိုလွိုက် လူမျိုးရင်းတွင် မွန်ဂိုလီယန်၊ မလေးနှင့် အမေရိကန် အင်ဒီးယန်းလူမျိုးတို့ ပါဝင်ကြသည်ဆို၏။ ယခုဆက်ဘိုင် မည်သည့် လူမျိုးရင်းနှင့် ဆက်စပ်မှု ရှိသည်ဟု မခဝခွဲနိုင်သေးသော လူမျိုးများလည်းရှိပေသေးသည်။ ယင်းတို့မှာ ဂျပန်ပြည်မှ အိုင်းနူးများ၊ သီဟိုဠ်မှ ဗက်ဒွိုက်များနှင့် ဩစတြေးလီးယားမှ ဩစတြလွိုက်များ ဖြစ်ပေသည်။ ယင်းသို့ ခွဲခြင်းကို လူမျိုးခွဲခြင်းဟု ခေါ်၏။ နောင်တွင် ယင်းလူမျိုးများ တမျိုးနှင့်တမျိုး ရောနှောပေါင်းဖက်ခြင်းဖြင့် လူမျိုးစပ်ကာ ပွားများလာကြဘောသည်။ ဤအပိုင်းသည် ရုပ်သဏ္ဌာန် မနုဿဗေဒနှင့် ဆက်စပ် နေ၍၊ ယင်းဘာသာရပ် တွင်လည်း ထည့်သွင်း လေ့လာနိုင်ပေသည်။

လူမျိုးဗေဒအရ ကမ္ဘာပေါ်ရှိ လူမျိုးတိုင်းကို ယဉ်ကျေးမှု ရှုထောင့်မှနေ၍လည်း လေ့လာရန် လိုပေသည်။ လူမျိုးတိုင်းဟု ဆိုသော်လည်း များသောအားဖြင့် ယဉ်ကျေးပြီး လူမျိုးများထက် တောကြိုချုံကြားနေ လူရိုင်းများ၊ အသွားအလာ ခက်ခဲ၍၊ အဆက်အသွယ် ပြတ်သော ဒေသနေ လူမျိုးများနှင့် ခေတ်နောက်ကျသော၊ သို့မဟုတ် ခေတ်အလိုက် မယဉ်ကျေးသေးဟု ယူဆရသော လူမျိုးများကို အထူးပြုလေ့လာတတ်ပေသည်။ လူမျိုးဗေဒပညာရှင်များ အများဆုံး မျက်စိကျရာ ဒေသများမှာ အာဖရိကတိုက်၊ ဩစတြေးလီးယားတိုက်၊ တောင်အမေရိကတိုက်၊ နယူးဇီလန်ကျွန်းနှင့် ဘောင်ပင်လယ်ကျွန်းစုတို့ပင် ဖြစ်ပေသည်။ ထိုဒေသများတွင် စိတ်ဝင်စားဖွယ် ကောင်းသော လူမျိုးများ အများအပြား ရှိပေသည်။ လူမျိုးတမျိုးကို အသေးစိတ် လေ့လာရာတွင် ယင်းလူမျိုး၏ ကိုးကွယ် ယုံကြည်မှု၊ လူမှုရေးရာ ဓလေ့ထုံးတမ်းများ၊ စီးပွားရေး အခြေအနေ၊ ဖွဲ့စည်း အုပ်ချုပ်ပုံနှင့် ယဉ်ကျေးမှု အနုပညာ အစုစုကို စေ့စုံအောင် လေ့လာရပေသည်။ မြန်မာနိုင်ငံတွင် ပြည်ထောင်စု တိုင်းရင်းသားများဖြစ်သော နာဂများ အပါအဝင် တောင်တန်းသားများ အကြောင်းကို ရန်ကုန် တက္ကသိုလ် မနုဿဗေဒ ဌာနနှင့် ယဉ်ကျေးမှု ဝန်

ပေသည်။ ပေါ်ဦးကျောက်ခေတ်တွင် သဘာဝက ဖန်ဆင်းသည်ဟု ယူဆရသော ပေါ်ဦးကျောက်ကရိယာများ ပေါ်ပေါက်ခဲ့၏။ ကျောက်ခေတ်ဟောင်းသို့ ရောက်လာပြီးနောက်၊ လူတို့ကနဦးဆုံး ပြုလုပ်သည်ဟု အဆိုရှိသော ရဲတင်းကိုယ် စသည့် အနှစ် ကရိယာများ ပေါ်လာတော့သည်။ မလိုအပ်သော အစိတ်အပိုင်းများကို ခတ်ထုတ်ပစ်ခြင်းအားဖြင့် အနှစ်ကရိယာကို ရစေသည်ဆို၏။ ထိုနောက် ခေတ်အလိုက် တိုးတက်ခဲ့သည်နှင့်အမျှ ခတ်စာကရိယာ၊ ကရိယာပြား၊ ကျောက်သေးတုံး ကရိယာများ ပေါ်လာခဲ့ပေသည်။ ကျောက်သေးတုံး ခေတ်ပေါ်လခြမ်း၊ တြိဂံ၊ စတုဂံနှင့် မြားသွားပုံသဏ္ဌာန် ရှိသောကျောက်သေးတုံး ကရိယာများမှာ လက်နက် လုပ်ရာတွင် အလွန် အရေးပါ အရာရောက်ခဲ့သည်ဆို၏။ ကျောက်ခေတ်သစ်တွင် အဆင့်အတန်း အမြင့်ဆုံးသော ကွဲလတစ်ကျောက်ကရိယာများ ပေါ်ပေါက် လာတော့သည်။ ကျောက်ကရိယာများ ပြုလုပ်ရာတွင် ကျောက်ခတ်နည်း၊ ဖိ၍ဆစ်နည်း၊ ခုတ်၍ဆစ်နည်း၊ အချောသွေးနည်းဟူ၍ ရှိပေရာ၊ မည်သည့် ကရိယာကို မည်သည့်နည်းဖြင့် လုပ်သည်ကိုလည်း စေ့ငုလေ့လာရသည်။

တူးဖော် ရှာဖွေရာတွင် ကျောက်လက်နက် ကရိယာများသာမက၊ ရုံဖန်ရံခါ အရိုးကရိယာ၊ ဦးချိုကရိယာနှင့် နှောင်းခေတ်များတွင် ဆင်စွယ် ကရိယာများမှအစ၊ အိုးခြမ်းကွဲ၊ ပန်းကန်ကွဲ၊ လက်ဝတ်လက်စားများအထိ တူးဖော်ရရှိတတ်ပေသည်။ ယင်းအိုးခြမ်းကွဲ၊ ပန်းကန်ကွဲများ၏ ရှိုသားမြေသားနှင့် သရုပ်ဖော်ပါ ပန်းချီ၊ အရုပ်စာလုံးများကို ရှေးဟောင်း သုတေသနဗေဒအရ လေ့လာခြင်းဖြင့် ထိုခေတ်အခါက လူနေမှု အဆင့်အတန်းနှင့် ကူးလူး ဆက်ဆံမှု အခြေအနေကို ခန့်မှန်းနိုင်ပေသည်။ အချို့ နေရာကွက် များတွင် နှောင်းခေတ်လူတို့ သုံးစွဲခဲ့သော ကြေးဝါ၊ ကြေးညိုနှင့် သံလက်နက် ကရိယာ တန်ဆာပလာများ တူးဖော်ရရှိလာပေသည်။ သို့နှင့် ရှေးဟောင်း သုတေသနဗေဒ ပညာရှင်များသည် အခါအားလျော်စွာ 'ကွင်းဆင်းလုပ်ငန်း' ကို ဆင်းလုပ်ရန် လိုပေသည်။ သို့မှသည်း နှစ်ပေါင်း ၅,၀၀၀ မတိုင်မီက လူတို့ အကြောင်းကို သိသာနိုင် ပေလိမ့်မည်။

**လူမျိုးဗေဒ**။ ။ကမ္ဘာပေါ်ရှိ လူမျိုးပေါင်းစုံကို လေ့လာသော ပညာရပ်သည် လူမျိုးဗေဒမည်၏။ ယင်းဘာသာရပ်အရ ကမ္ဘာ့အရပ်ရပ်ရှိ လူမျိုးများကို လေ့လာရာတွင် ရုပ်သဏ္ဌာန်ဆိုင်ရာ ရှုထောင့်ထက် ယဉ်ကျေးမှုနှင့် လူ့အဖွဲ့အစည်း ရှုထောင့်မှ လေ့လာရပေသည်။ မနုဿဗေဒ ပညာရှင်များ အဆိုအားဖြင့် လူမျိုးဆိုသည်မှာ သဘာဝ ပထဝီအနေအထား ကာဆီးပိုင်းခြားထားသဖြင့် ကြာရှည်ကြာမြင့်စွာ သီးခြား ရပ်တည်နေခဲ့သောလူစုကို 'လူမျိုး' ဟု ခေါ်ပေသည်။

ကြီး၄ဒနမှ လေ့လာနေပေသည်။ ဤအပိုင်းတွင် လူမျိုးဗေဒသည် ယဉ်ကျေးမှု သို့မဟုတ် လူ့အဖွဲ့အစည်း မနုဿဗေဒ ဘာသာရပ်နှင့် ဆက်စပ်လျက် ရှိနေပြန်ပေသည်။

**ဘာသာစကားဗေဒ။** ။ဘာသာစကားကို လေ့လာခြင်းအတတ်ပညာသည် ဘာသာစကား ဗေဒမည်၏။ ဘာသာစကားသည် မည်သည့်ကာလက မည်သို့ စတင် ပေါ်ထွန်းခဲ့သည်ကို ဘာသာစကားဗေဒ လေ့လာခြင်းဖြင့် သိနိုင်၏။ ဘာသာစကားဗေဒ သုတေသီများ အဆိုအားဖြင့် လွန်ခဲ့သော နှစ်ပေါင်း တသန်းခန့်က ဘာသာစကား စတင်ပေါ်ပေါက်ခဲ့သည်ဆို၏။ မည်သို့ စတင် ပေါ်ပေါက်ခဲ့သည်ကိုမူ ယခုထက်တိုင် အတိအကျ မသိရသေးပေ။ ဂရိအဘိဓမ္မာဆရာကြီး ဒီမိုခရစ်တပ်၏ အဆိုအားဖြင့် ကနဦးဆုံး လူတို့တီထွင်ခဲ့သော ဘာသာစကားသည် အသံထွက်နှင့် ရည်ညွှန်းချက် လုံးဝကိုက်ညီမှု မရှိဟုဆို၏။ နောက် ဂရိ အဘိဓမ္မာဆရာကြီးတဦးဖြစ်သူ အက်ပီရပ်ကမူ သဘာဝ၏ဖန်တီးပေးချက်အရ အစဦးလူဘို့သည် မိမိတို့ လိုရာကို ဘာသာစကားဖြင့် ဖော်ထုတ်ရာတွင် ထိရောက် အောင်မြင်ခဲ့သည်ဆို၏။ခရစ်ယန်သာသနာ ထွန်းကားပြီးနောက်၊ အယ်၊ ဂျီ၊ ဗိုနဲ (၁၇၅၄ — ၁၈၄၀) က ဘာသာစကားကို လူတို့ တီထွင်ခြင်း မဟုတ်ဘဲ၊ ဘုရားသခင်က ဖန်ဆင်းပေးခြင်းသာ ဖြစ်သည်ဟု ဆိုပြန်၏။ နောက်ဆုံး အဆိုဘခုအရ ဘာသာစကားသည် လူဘို့၏ စိတ်လှုပ်ရှားမှုကို ဖော်ပြရာမှ အခြေတည် ပေါက်ပွားခဲ့သည်ဆို၏။ ထိုအဆိုကို အများဆုံး လက်ခံထားကြပေသည်။

ပေါ်စဦး ဘာသာစကားများသည် ဒေသအလိုက်၊ လူစုအလိုက်၊ အသံပလံ၊ အသုံးအနှုန်း၊ အယူအဆ၊ အနက်အဓိပ္ပါယ်ကအစ ကွဲပြားခြားနားခဲ့၏။ နှစ်ပေါင်း များစွာ ကြာပြီးနောက်၊ ဘာသာစကားများသည် ပျောက်ကွယ်သင့်သလောက် ပျောက်ကွယ်ခဲ့၏။ ပေါင်းစပ် ရောယှက်ပြီး တိုးပွားသင့်သလောက်သည်း တိုးပွားခဲ့လေသည်။ ယခုဆိုလျှင် အထူးတလည် တိုးတက် ပြောင်းလဲခဲ့ပြီဖြစ်သဖြင့် မည်သို့ စတင်ပေါက်ပွားခဲ့သည်ကိုပင် ဝေခွဲမရအောင်ဖြစ်နေပေပြီ။

ဤကမ္ဘာကြီးတွင် ခန့်မှန်းခြေအားဖြင့် ဘာသာစကားမျိုး စုစုပေါင်း ၂,၇၀၀ ခန့် ရှိသည်ဆို၏။ ထိုအထဲတွင် လက်တဆုပ်စာမျှရှိသော လူမျိုးများ ပြောသော စကားလည်း ပါဝင်၏။ ထိုစကားမျိုးကို မကြာမီ အတောအတွင်း ဥရောပနှင့် အာရှတိုက်သုံး ဘာသာစကားကြီးများက ဝါးမျို ပစ်ပေလိမ့်မည်။ ထိုနည်းဖြင့် ဘာသာစကားမျိုး ရာပေါင်းများစွာ ပျောက်ကွယ်ခဲ့ပေပြီ။ ယခုလည်း ပျောက်ဆဲနှင့် နောင်တွင်လည်း ပျောက်ပျက် ပေလိမ့်ဦးမည်။

ဘာသာစကားဗေဒ အလိုအားဖြင့် လူဦးရေအများဆုံး ပြောသောဘာသာစကားမှာ တရုပ်စကားဖြစ်ပေ၏။ ယင်းနောက် ခရီးအတော်ကွာမှ အင်္ဂလိပ်စကားနှင့် ဟင်ဒူစတန်နီစကားတို့ လိုက်ပေသည်။ ရုရှစကားက စာတွက်လိုက်ပြီးလျှင် ဂျာမန် စကားက ပဥ္စမ လိုက်သည်ဆို၏။ ယင်းနောက်မှ ဂျပန်စကား၊ ပြင်သစ်စကားနှင့် စပိန်စကားတို့ လိုက်ပေသည်။

ထိုသို့ ဘာသာစကား ဇာစ်မြစ်ရှာ၍ သမိုင်းဖွင့် လေ့လာခြင်း အတတ်ပညာကို စကားဇာစ်မြစ် ပညာရပ်ဟု ခေါ်ပေသည်။ ထိုပညာရပ်နှင့် နွယ်သော ဘာသာစကား ပညာရပ်၊ အသံလှယ် ပညာရပ်၊ အသံထွက် ပညာရပ်နှင့် စကားအဓိပ္ပါယ် ပညာရပ်စသည်တို့မှာ ဘာသာစကားဗေဒ၏ အသွန်အရေးပါ အရာရောက်သော အကိုင်းအခက် အလက်များ ဖြစ်ပေသည်။ ထိုပညာရပ်များကို စံနစ်တကျ ပေါင်းစပ် လေ့လာရသော အတတ်ပညာကိုပင် ဘာသာစကားဗေဒဟု ခေါ်ခြင်း ဖြစ်ပေသည်။

ဦးကျော်ခင်

**မဖဲမြို့။** ။ဖေ့မြို့ — ရှု။

**မယူမြစ်။** ။မယူမြစ်သည် မြန်မာနိုင်ငံ၊ ရခိုင်တိုင်း၊ စစ်တွေခရိုင်တွင်း စီးဆင်းသော မြစ်ဘသွယ် ဖြစ်၍ ကုလားတန်မြစ်၊ လေးမြို့မြစ်တို့၏ နောက် တတိယတွဲသည်။ မြောက်ဖက်ရှိ တောင်များ၌ မြစ်ဖျားခံသည်။ ကုလားတန်မြစ်၏ အနောက်ဖက်ကျ၍ နတ်မြစ်၏ အရှေ့ဖက်ဖြစ်သည်။

မယူမြစ်သည် အထက်ပိုင်းတွင် ကုလားပန်းဇင်ချောင်းဟုတွင်သည်။ အရှေ့ဖက်တွင် စိုင်တင်ချောင်းနှင့် ရီချောင်းတို့ ပေါင်းဆုံလာသော ချောင်းသည် ကုလားပန်းဇင်ချောင်းနှင့် ဘုံညိုလိပ်အနီးတွင် ပေါင်းဆုံသည်။ ထိုနောက်ဘွင် မြစ်သည် တဖြည်းဖြည်း ကျယ်လာပြီးလျှင် စစ်တွေမြို့ အထက်ဖက်တွင် ဗင်္ဂလားအော်တွင်းသို့ စီးဝင်သည်။ မယူမြစ်သည် ၉၆ မိုင်မျှရှည်လျားသည်။ စစ်တွေမြို့မှ ၇၅ မိုင်ခန့် ကွာဝေးသော ဘူးသီးတောင်မြို့အထိ မယူမြစ်စဉ်တလျှောက် လှေ့သဘော်ငယ်များ သွားလာနိုင်သည်။ မယူမြစ်ပေါ်တွင် တည်ရှိသော ထင်ရှားသည့် မြို့များမှာ ဘူးသီးတောင်မြို့နှင့် ရသေ့တောင်မြို့များ ဖြစ်၏။ ဘူးသီးတောင်မြို့သည် မယူမြစ်၏ အထက်ပိုင်းဖြစ်သော ကုလားပန်းဇင်ချောင်း၏ အနောက်ဖက်လက်ကြံဖက်ကမ်းပေါ်တွင် တည်ရှိသည်။ ရသေ့တောင်မြို့မှာမူကား အရှေ့ဖက်ဖြစ်သော လက်ဝဲဖက်ကမ်းအထက်ဖက် ၁၀ မိုင်ကျော်လောက်တွင် တည်ရှိသည်။ မယူမြစ်ဝှမ်းမှ ဆန်စပါးများ ထွက်သည်။

မယူမြစ်၏အနောက်ဖက်ရှိ နတ်မြစ်နှင့် မယူမြစ်တို့ အကြားတွင် မယူမြစ်ဝအထိ မယူတောင်တန်းကြီး တည်ရှိ၏။

မယူတောင်တန်းအဆုံး၊ မယူမြစ်နှင့် ဗက်လားအော် အကြား ရှိ မယူကျွန်းဆွယ်သည် ဒုတိယ ကမ္ဘာစစ်အတွင်းက စစ်တလင်း ဖြစ်ခဲ့လေသည်။

**မရသွန်ပြေးပွဲ။** ။ယခုခေတ် အိုလင်းပစ်အားကစားပြိုင်ပွဲများ၌ မရသွန်ပြေးပွဲဟူ၍ ပြေးပွဲတမျိုး ပါရှိလေသည်။ ထိုပြေးပွဲ၏ မူလအရင်းအမြစ် စတင်ဖြစ်ပေါ်ရာမှာ ဂရိနိုင်ငံရှိ မရသွန် လွင်ပြင်ဖြစ်သည်။ ထိုလွင်ပြင်သည် အက်တီကာနယ်၏ အရှေ့ဖက်ကမ်းခြေတွင် တည်ရှိ၍ အက်သင်းမြို့မှ အရှေ့မြောက်ဖက်တွင် ၂၅ မိုင် ကွာဝေးလေသည်။

ထိုပြေးပွဲ၏ မူလအကြောင်းရင်း ဖြစ်ပေါ်ချိန်သည် ဘီစီ ၄၉၀ ခန့် အချိန်ကာလဖြစ်သည်။ထိုအချိန်တွင်ပါးရှင်းဘုရင် ဒရိုင်းယပ် (ဘီစီ ၅၅၀ ခန့်–၄၈၅) ၏ အင်အားကြီးမားလှသော စစ်သည်တို့သည် အက်သင်းမြို့နိုင်ငံနှင့်တကွ ဂရိပြည်နယ်များကို တိုက်ခိုက်သိမ်းပိုက်ရန် ရေကြောင်းဖြင့် ချီတက်လာကြပြီးနောက် မရသွန်လွင်ပြင်တဝိုက်တွင် စခန်းချနေကြ၏။အင်အားချင်း မမျှလှသဖြင့် အက်သင်းတို့က စပါးတန်းတို့ထံ အကူတောင်းသော်လည်း အချိန်မှီ မရနိုင်သဖြင့် အက်သင်းတို့မှာ မြှော်လင့်ချက်မရှိသလောက် ဖြစ်နေလေသည်။

သို့သော် မီလတီယဒီးအမည်ရှိ စစ်ဗိုလ်ချုပ်ကြီး၏ ကြံရည်ဖန်ရည် စွမ်းရည်သတ္တိကြောင့် အက်သင်း ၁ သောင်းခန့်တို့သည် ပါးရှင်းစစ်သည် ၂ သောင်းခန့်တို့ကို ထိုမရသွန်လွင်ပြင်တွင်ပင် တိုက်ခိုက် ချေမှုန်းနိုင်လိုက်သဖြင့် ပါးရှင်း ၆ ထောင်ကျော် ကျဆုံး၏။ အက်သင်းတို့ဖက်မှာမူ ၂ ရာခန့်မျှသာ ကျဆုံးလေ၍၊ ကျဆုံးသော အက်သင်းစစ်သားများကို ထိုမရသွန်လွင်ပြင်ရှိ တောင်ပူစာကလေး တခုပေါ်တွင် မြှုပ်နှံထားခဲ့လေသည်။ ၁၈၉၀ ပြည့်နှစ်တွင် ထိုမြှုပ်နှံထားခဲ့သော မြေပုံများကို ဖော်ထုတ်ခဲ့ရာ အရိုးများနှင့် တကွ ယင်းတို့အားမြှုပ်နှံစဉ်က ထည့်လိုက်သည့် လက်နက်များနှင့် အတူ ပန်းအိုးများကို တွေ့ရသည်။

ထိုမရသွန်တိုက်ပွဲသည် ကမ္ဘာ့သမိုင်း လမ်းကြောင်းကို ပြောင်းလဲ စေခဲ့သော တိုက်ပွဲတခုဖြစ်ခဲ့၏။ မိမိတို့ထက် နှစ်ဆမက အင်အားများလှ၍ လေးမြားလက်နက်သုံးသော ပါးရှင်းများကို လှံတံကို သုံးသော အက်သင်းတို့က အတင်းတိုးဝင်တိုက်ခိုက်ကြသဖြင့် လေးမြားတို့မှာ အသုံးမကျ ဖြစ်ရပြီးလျှင် ပါးရှင်းတို့ အတုံးအရုံး ကျဆုံးကြရသည်။

ပါးရှင်းရေတပ်ကြီး ဆုတ်ခွာသွားပြီးနောက်တွင် ယင်းတို့သည် အက်သင်းမြို့ကို ပင်လယ်ဖက်မှ လှည့်၍ တိုက်ခိုက်ခဲ့သော်၊ မရသွန် လွင်ပြင်တွင် ဖြစ်ပွားခဲ့သော တိုက်ပွဲ အကြောင်း မသိသဖြင့်၊ အက်သင်းမြို့က အညံ့ခံလိုက်မည်ကို မီလတီယဒီးသည် စိုးရိမ်နေခဲ့၏။ ထိုကြောင့် ထိုတိုက်ပွဲတွင် အက်သင်းတို့အောင်မြင်ကြောင်းကို အက်သင်းမြို့သို့ သတင်းပို့ရန် ခြေအမြန်ဆုံး အပြေးသမားတဦးဖြစ်သူ ဖိုင်ဒစ်ပီဒီးအား ဗိုလ်ချုပ်ကြီးကရွေးချယ်၍ စေလွှတ်ခဲ့လေသည်။ထိုသူသည် မရသွန်လွင်ပြင်မှ အက်သင်းမြို့အရောက် ၂၆ မိုင်နှင့် ၃၈၅ ကိုက်မျှ ခရီးကို မရပ်မနား အားသွန်ပြေးလွှားလာခဲ့ရာ အက်သင်းမြို့သို့ အရောက်တွင် အောင်မြင်ကြောင်း သတင်းကို ပြောပြီးသည်နှင့် တပြိုင်နက် အမောဆို့လျက် သေဆုံးသွားရှာလေသည်။ထိုကြောင့် ဖိုင်ဒစ်ပီဒီးအား ဂုဏ်ပြုသောအားဖြင့် ၁၈၉၆ ခုနှစ်မှ စ၍ အိုလင်းပစ်ပြေးပွဲများတွင် ထိုခရီးမိုင်အတိုင်း မရပ်မနား ပြေးရသော ပြေးပွဲတခုကို ထည့်သွင်းပြီးလျှင် မရသွန်ပြေးပွဲဟု အမည်ပေးထားခဲ့လေသည်။

**မရီးယာတရီးဇားဘုရင်မ**(ခရစ် ၁၇၁၇–၁၇၈၀)။ ။ မရီးယာတရီးဇားသည် ရောမသာသနာ့စောင့် နိုင်ငံတော် ကေရာဇ် ဟက်စဗတ်မင်းဆက် ဆင်္ဂချားး၏ သမီးတော်ဖြစ်၍၊ ၁၇၁၇ ခုနှစ် မေလ ၁၃ ရက်နေ့တွင် ဖွားမြင်လေသည်။ ကေရာဇ် ဆင်္ဂချားတွင် နန်းလျာအဖြစ် သားတော် မထွန်းကားသဖြင့်၊မိန်းမများ ထီးမွေနန်းမွေကိုမဆက်ခံနိုင်ဟူသော ဟက်စဗတ် မင်းဆက်၏ အစဉ်အလာကြောင့် အခက်အခဲ တွေ့ခဲ့ရ၏။ ထိုအခက်အခဲကို ကျော်လွှန်နိုင်စေရန် ပရက်ဂမက်တစ်ဆန့်ရှင် ခေါ် ထီးမွေနန်းမွေ ဆက်ခံခွင့် စာချုပ်



သြစတြီးယားနိုင်ငံ ကေရီဘုရင်မ မရီးယာတရီးဇား

တရပ်ကို ရေးဆွဲလက်မှတ်ရေးထိုးကာ၊ ဥရောပတိုက် နိုင်ငံကြီးရှင်တို့အားလည်း အာမခံအဖြစ် လက်မှတ် ရေးထိုးစေခဲ့လေသည်။

၁၇၄၀ ပြည့်နှစ်တွင် ကေရာဇ်ချား နတ်ရွာစံသောအခါ ထိုထီးနန်းဆက်ခံခွင့် စာချုပ်အရ၊ မရီးယာတရီးဇားသည် ဖခမည်းတော်၏ အရိုက်အရာကို ဆက်ခံရလေ၏။ ၁၇၃၆ ခုနှစ်တွင် လောရိန်းမြို့စားဖရန်စစ် စတီဖင်နှင့် လက်ဆက်ခဲ့ရာ၊ ထီးနန်းအရိုက်အရာကို ဆက်ခံရသောအခါ၊ သူ၏ ကြင်ဖက်တော်ကိုလည်း ဘုရင်အဖြစ် ကျေညာခဲ့လေသည်။ သို့ရာတွင် ထီးနန်းတက်လာရသောအချိန်တွင် အခက်အခဲပေါင်းများစွာနှင့် ရင်ဆိုင်ခဲ့ရလေသည်။ ငယ်ရွယ်နုပျို၍ အုပ်ချုပ်ရည် ဗဟုသုတ နည်းလှသေးသော ဘုရင်မကလေးသည် ရန်သူပတ်လည်ဝိုင်းလျက် ရှိခဲ့လေသည်။ ပရက်ဂမက်တစ်ဆန့်ရှင်ခေါ် မိန်းမထီးမွေ ဆက်ခံခွင့်စာချုပ်ကို ကတိအတိုင်းနိုင်ငံနီးချင်းတို့က အသိအမှတ် မပြုရုံမက၊ ဩစတြီးယားနိုင်ငံတွင် ပါဝင်သော ကြွယ်ဝလှသည့် ဆိုင်လီးရှားပြည်နယ်ကို သိမ်းယူရန်ပရပ်ရှားပြည့်ရှင် ဖရက်ဒရစ်ဘုရင်က ချိန်နေခဲ့၏။ ဗာဗေးရီးယားပြည်နှင့် ဆက္ကဆွန်နီပြည်တို့ကလည်း ပြင်သစ် အကူအညီဖြင့်ဩစတြီးယားပိုင် နယ်မြေများကို တောင်းဆိုခဲ့လေသည်။ စပိန်နိုင်ငံကလည်း ဣတလီပြည်ရှိ ဩစတြီးယားပိုင်နယ်များကို သိမ်းယူရန် ကြိုးစားနေလေသည်။ မရီးယာတရီးဇားကို ပဌမဆုံး တိုက်ခိုက်သူမှာ ဖရက်ဒရစ်ပင် ဖြစ်လေသည်။ မရီးယာတရီးဇား နန်းတက်၍ မကြာမီ ဖရက်ဒရစ်သည် အလုံးအရင်းနှင့်ချီတက်လာကာ၊ ဆိုင်လီးရှားပြည်နယ်ကို သိမ်းယူခဲ့လေသည်။ ယင်းသည့်အခါတွင် ဩစတြီးယားထီးနန်းဆက်ခံရေးစစ်ပွဲကြီး (၁၇၄၀–၁၇၄၈)စတင်ဖြစ်ပွားလေတော့သည်။ပြင်သစ်၊ စပိန်၊ဆက္ကဆွန်နီ၊ ဗာဗေးရီးယား၊ ဆာဒင်းနီးယားနှင့် ပိုလန်နိုင်ငံတို့သည် ပရပ်ရှားဖက်မှ ပါဝင်တိုက်ခိုက်လေသည်။ သို့ဖြစ်၍ ဆိုင်လီးရှားနှင့် အခြားနယ်မြေများ အဆုံးရှုံးခံလိုက်ရသော မရီးယာတရီးဇားသည် သားငယ်ကိုပိုက်လျက် သူ့အား ကြည်ညိုသူများရှိရာ ဟန်ဂေရီပြည်သို့ ပြေးသွားကာ အကူအညီ တောင်းရလေ၏။ ထိုအခါတွင် ဟန်ဂေရီမှူးမတ်များနှင့် တိုင်းသူပြည်သားတို့သည် မရီးယာတရီးဇားအပေါ်တွင် ကရုဏာသက်ကာ ဝိုင်းရံလျက်ရှိသော ရန်သူများကို တွန်းလှန်ရန်အတွက် အားကြိုးမာန်တက် ကူညီတိုက်ခိုက်ကြလေသည်။ ထို့ပြင် ပြင်သစ်နိုင်ငံ၏ ရေတပ်အင်အားကို ချိုးနှိမ်နိုင်ခဲ့သော အင်္ဂလန်နှင့်ဟော်လန်နိုင်ငံတို့၏ အကူအညီကိုလည်း ရရှိခဲ့လေသည်။ ထိုသို့သော အကူအညီများနှင့် သူ၏စွမ်းရည်သတ္တိတို့ကြောင့် နယ်မြေအများဆုံးရှုံးခြင်းဘေးမှ ကာကွယ်နိုင်ခဲ့ပေသည်။ ဩစတြီးယားထီးနန်းဆက်ခံရေးစစ်ပွဲမှာ ၇ နှစ်ကြာလေသည်။၁၇၄၈ ခုနှစ်တွင် အက်လာရှပယ်စာချုပ် ချုပ်ဆိုစစ်ပြေငြိမ်းလိုက်ကြလေ၏။ ထိုစာချုပ်အရ မရီးယာတရီးဇားသည် ဆိုင်လီးရှားနယ်ကို ပရပ်ရှားသို့ ပေးအပ်လိုက်ရရုံမက၊ ဣတလီပြည်မှ နယ်မြေအချို့ကို စပိန်သို့ပေးလိုက်ရလေသည်။ သို့သော် ထီးနန်းဆက်ခံခွင့်ကို အသိအမှတ်ပြုခြင်း ခံရလေသည်။ ထိုအချိန်တွင် ကြင်ဖက်တော် ဖရန်စစ်သည်လည်း ပဌမ ဖရန်စစ်ဘွဲ့ဖြင့် ရောမသာသနာစောင့် နိုင်ငံတော် ကေရာဇ် အဖြစ် ရွေးကောက်တင်မြှောက်ခြင်းခံရ၏။ သို့သော် နိုင်ငံ၏အရေးကိစ္စအားလုံးလိုလိုကို မရီးယာတရီးဇားသည်ပင်လျှင် ကြိုးကိုင်ခဲ့လေသည်။



မရီးယာတရီးဇားသည် ဟန်ဂေရီနိုင်ငံသို့ တိမ်းရှောင်နေရခိုက်၊ ဟန်ဂေရီ ပါလီမန် လွှတ်တော်ညီလာခံသို့ သားတော်ကလေးနှင့်အတူ တက်ရောက်ကာ သစ္စာခံဖို့ လှုံ့ဆော်စည်းရုံးစဉ်

မည်သို့ပင် ဖြစ်စေ မရီးယာတရီးဇားသည် အဆုံးရှုံးခံလိုက်ရသော နယ်မြေများကို နှမြောတသလျက် ယင်းတို့ကို ပြန်လည်ရရှိရေးအတွက် အမြဲကြံစည် တွေးတောလျက် ရှိလေ၏။ ထိုသို့ ကြံစည်ခဲ့ရာတွင် ဩစတြီးယားဝန်ကြီးချုပ် ဖွန်ကောင်းနစ်သည် မရီးယာတရီးဇား အားကိုးအားထားပြုရသူဖြစ်၏။ ပြည်ရေးပြည်ရာ၌ ကျွမ်းကျင်လိမ်မာလှသော ကောင်းနစ်သည် လွန်ခဲ့သော နှစ်ပေါင်း ၂၀၀ ကျော်ကစ၍ ရန်ဖက်ဖြစ်ခဲ့သော ပြင်သစ်နိုင်ငံနှင့် မရီးယာတရီးဇားတို့ မဟာမိတ်ဖွဲ့ကာ နှစ်ပြည့်တပြည် ရွှေလမ်းငွေလမ်း ဖောက်

နိုင်စေရန်ဆောင်ရွက်ခဲ့ရာ၊ ၁၇၅၆ ခုနှစ်တွင်အောင်မြင်ခဲ့လေသည်။ ထိုနှစ်တွင်ပင် အင်္ဂလန်ပြည်သည် ဩစတြီးယားနှင့် မဟာမိတ်အဖြစ်မှရပ်စဲ၍ ပရပ်ရှားနှင့် ပူးပေါင်းခဲ့လေသည်။

မရီးယာတရီးဇားသည် ပြင်သစ်နှင့် မဟာမိတ်အဖြစ် ခိုင်မြဲသည်ထက် ခိုင်မြဲစေရန် ၁၇၇၀ ပြည့်နှစ်တွင် သမီးတော် မာရီအန်တွာနတ်ကို ပြင်သစ်အိမ်ရှေ့မင်းသား လူဝီ၊ နောင်အခါ လူဝီ-၁၆ အဖြစ်နန်းတက်သူနှင့်လက်ဆက်ခဲ့လေသည်။ သူ့တွင် သားတော် ၅ ပါးနှင့် သမီးတော် ၁၁ ပါးထွန်းကားခဲ့သည်။ (မာရီအန်တွာနတ် — ရှု။)

ထိုပြင် မရီးယာတရီးဇားသည် ရုရှားနှင့် မဟာမိတ် ဖွဲ့ရာတွင်လည်း အောင်မြင်ခဲ့၏။ ထိုမှတပါး ဆွီဒင်နိုင်ငံနှင့် ဆက္ကဆွန်နီနယ်တို့၏ အကူအညီကို ရလေသောကြောင့် ပရပ်ရှားကို တိုက်ရန်ကြံစည်နေဆဲတွင် ပရပ်ရှားက အကြံဦးသွားကာ စတင် တိုက်ခိုက် လေသည်။ သို့ဖြင့် ၁၇၅၆ ခုနှစ်တွင် ခုနစ်နှစ် စစ်ပွဲဖြစ်ပွားရလေသည်။ (ခုနစ်နှစ်စစ် — ရှု။)

ရုရှား၏ အကူအညီကို ရသောကြောင့် အခြေအနေသာလျက်ရှိသော မရီးယာတရီးဇားသည် ဆိုင်လီးရှားနယ်ကို ပြန်လည် ရရှိရန် အစွမ်းကုန်ကြိုးစားသော်လည်း မအောင်မြင်ခဲ့ချေ။ ဆိုင်လီးရှားတွင် ပရပ်ရှားတို့ ခြေကုပ်မြဲလျက်ပင် ရှိခဲ့လေသည်။ ၁၇၆၅ ခုနှစ်တွင် သူ၏ ကြင်ဖက်တော် ကွယ်လွန်၍ သူ၏သားတော်အကြီးဆုံးက ဒုတိယဂျိုးဇက် အမည်ဖြင့် ဆက်ခံလေသည်။ သို့သော် မရီးယာတရီးဇားသည် ဂျိုးဇက်ဘုရင်အား စစ်မှုရေးရာကိုသာ ကြိုးကိုင်စေခဲ့သည်။ ပိုလန်ပြည်ကို ၁၇၇၂ ခုနှစ်တွင် ခွဲဝေယူကြရာ၌ ရုရှား နိုင်ငံ ပရပ်ရှားနိုင်ငံဘို့နှင့်အတူ ဝေစု ရခဲ့လေသည်။

မရီးယာတရီးဇားသည် လိမ်မာရေးခြားစွာ နိုင်ငံတော်ကို အုပ်ချုပ်နိုင်ခဲ့၏။ နိုင်ငံခြားရေးတွင်လည်း နိုင်နိုင်နင်းနင်း ဆောင်ရွက်နိုင်ခဲ့လေသည်။ ၁၇၈၀ ပြည့်နှစ် နိုဝင်ဘာလ ၂၉ ရက်နေ့တွင် လွန်လေသည်။

**မရှုလူမျိုး။** ။မရှုလူမျိုးသည် မြန်မာနိုင်ငံ မြောက်ပိုင်း ကချင်ပြည်နယ်၊ မြစ်ကြီးနားခရိုင် အရှေ့မြောက်ဖက်ရှိ လောခေါင်းနယ်၊ ထောလန်နယ်၊ တောင်ဖက် ဆဒုံးနယ်နှင့် ဗန်းမော်နယ်များ၌ အများဆုံးနေထိုင်ကြသောတောင်ပေါ်သားများ ဖြစ်ကြသည်။ မရှုလူမျိုးသည် အသွင်အပြင် ကြန်အင် လက္ခဏာအားဖြင့်၎င်း၊ ပြောဆိုသော ဘာသာစကားအားဖြင့်၎င်း မြန်မာလူမျိုးနှင့် အလွန်နီးစပ် တူညီကြသည်။ အထူးသဖြင့် ရှေးမြန်မာ လူကြီးတို့၏ ရုပ်ရည်နှင့် မျက်နှာပေါက်ချင်း အလွန်ဆင်တူသည့် မရှုအဖိုးအို အများအပြား ရှိသည်ကို တွေ့ရသည်။

မြန်မာလူမျိုးတို့နှင့် သွေးချင်းနီးစပ်ပုံကို ယင်းတို့၏ ပါးစပ်ရာဇဝင်အရ ဤသို့သိရသည်။ ရှေးအခါက ညီအစ်ကို နှစ်ယောက် ရှိသည်။ ယင်းညီအစ်ကို နှစ်ယောက်တို့သည် လောင်းဘန် ခေါ် ဒေသ၌ ပေါက်ဖွား၍ အရွယ်ရောက်သောအခါ တောင်ဖက်ဆီသို့ပြောင်းရွှေ့လာကြသည်။ နောက်ဆုံးရောက်သောရွာ၌ ညီအစ်ကိုနှစ်ယောက် ခွဲခွာကြရာ အစ်ကိုဖြစ်သူသည် မြစ်ကြောင်းအတိုင်း လိုက်ကာ တောင်ဖက်သို့ ဆင်းသွားသဖြင့် မြန်မာလူမျိုး ဖြစ်သွားသည်။ ညီငယ်မှာမူ တောင်တန်းဒေသ၌ပင် နေရစ်ခဲ့ပြီးသော် မရှု လူမျိုးဟူ၍ ဖြစ်လာသည်။

မြန်မာနိုင်ငံ သမိုင်းအရဆိုလျှင် မရှုတို့သည် တိဗက်တိုဗားမင်း လူမျိုး အနွယ်ဝင်များပင် ဖြစ်ကြသည်ဟု ဆိုသည်။ ထိုပင်မ အုပ်စုကြီးမှတဆင့် ပေါက်ဖွားလာသော အုပ်စုတို့တွင် မရှုတို့သည် မြန်မာနှင့် ရှေးမြန်မာ အဆက်အနွယ်အုပ်စုထဲ၌ ပါဝင်ကာ မြန်မာပြည် အတွင်းသို့ ဝင်ရောက် နေထိုင်ခဲ့ ကြသည်။ သို့သော် မြန်မာ လူမျိုးမှာ တောင်ဖက်ဒေသများဆီသို့ ဆက်လက်ဆင်းသွား ကြ၍ မရှုလူမျိုးမှာမူကား ယခုလက်ရှိ နေထိုင်ကြသော မြောက်ပိုင်း ဒေသများ၌ ကျန်ရစ်ခဲ့သူများ ဖြစ်ကြသည်ဟု ယုံကြည်ရသည်။ ယခုအခါ၌မူ မရှုလူမျိုးတို့မှာ မိမိတို့ ဒေသများသို့ နောက်မှ ဝင်ရောက်နေထိုင်လာကြသော ဂျင်းဖော ခေါ် ကချင် လူမျိုးတို့နှင့် နှစ်ပေါင်းများစွာ ရောနှော ဆက်သွယ်မှုများကြောင့် ဂျင်းဖောတို့၏ ဓလေ့ထုံးစံ အများအပြားကို အတုယူခဲ့ကြသည်။ နေထိုင်စားသောက်မှုမှ စ၍ ဂျင်းဖောတို့နှင့် ဆင်နေသလိုလို တွေ့ရသည်။ အမြင်အားဖြင့် ဂျင်းဖောနှင့် မရှုလူမျိုးများကို ရုတ်တရက် ခွဲခြား၍ ရကြမည် မဟုတ်ပေ။ သို့သော် လူမျိုးပေါက်ဖွား ဆင်းသက် လာကြပုံ အရင်းခံအချက်ကို သုံးသပ်ကြည့်ခြင်းအားဖြင့် ဂျင်းဖောလူမျိုးတို့သည် တိဗက်တိုဗားမင်း အုပ်စုကြီးမှ တဆင့် သီးခြား စုကွဲ တခုအနေဖြင့် အခြားသော လမ်းကြောင်းမှ မြန်မာနိုင်ငံအတွင်း ဝင်ရောက် နေထိုင်လာခဲ့ခြင်း ဖြစ်ရာ၊ မရှု လူမျိုးမှာ ဂျင်းဖော လူမျိုးထက် မြန်မာ လူမျိုးနှင့် ပိုမို၍ မျိုးရိုးချင်း နီးစပ်ကြောင်း တွေ့ရမည် ဖြစ်လေသည်။

မရှုလူမျိုး အများဆုံး နေထိုင်ရာ ဒေသမှာ အကြမ်းအားဖြင့် လတ္တီတွဒ် ၂၅ ဒီဂရီ ၃၀ မိနစ်နှင့် ၂၇ ဒီဂရီအကြား အတွင်း၌ ရှိ၍၊ အနောက်ဖက်နယ်နိမိတ်မှာ မလိခနှင့် မေခ မြစ်တို့၏ ရေဝေကြောတည်ရာ တောင်တန်းကြီးများ ဖြစ်လျက်၊ အရှေ့ဖက် နယ်နိမိတ်မှာ လရှီလူမျိုး နေထိုင်ရာ နယ်ခြားတောင်တန်းကြီးများဖြစ်သည်။ အသေးစိတ်အားဖြင့် ကချင်ပြည်နယ်အတွင်း အောက်ပါ ဒေသများတွင် မရှု လူမျိုး နေထိုင်လျက်ရှိသည်ကို တွေ့ရသည်။

(က) ထောလန်ကို ဗဟိုပြုထားသော မြောက်ဖက် အာမက်ခမြစ်ဝှမ်းမှ တြိဂံနယ် အရှေ့ပိုင်းထိ ပါဝင်သည့် မေခမြစ်ဝှမ်း ဒေသ၊



ကချင်ပြည်နယ်တွင် တွေ့မြင်ရသည့် မရှုအမျိုးသားတဦး

(ခ) လောခေါင်းနယ်တွင် ငေါချန်းခမြစ်ဝှမ်း အောက်ပိုင်း ဒေသ၊

(ဂ) မေခ၏ မြစ်လက်တက်တခုဖြစ်သော ရှင်ခေါခမြစ်ဝှမ်း ဒေသ၊

(ဃ) ဆွန်ပရာဘုံ တောင်ဖက်ဒေသ၊ (ထိုဒေသရှိ မရှုလူမျိုးသည် ထောလန်နယ်မှ တြိဂံနယ်ကို ဖြတ်ကာ ပြောင်းရွှေ့ နေထိုင်လာကြသူများ ဖြစ်သည်။)

(င) တောင်ဖက် ဆဒုံးနှင့်ဗန်းမော်နယ်များ၊ (ယင်းတို့တွင် မရှုလူမျိုးအုပ်စု အနည်းငယ်နှင့် အခြား လူမျိုးများ၌ကြားရောယှက်နေထိုင်လျက်ရှိသည်။)

"မရှု" ဆိုသည့်အမည်မှာ ဂျင်းဖော (ကချင်) လူမျိုးတို့က ခေါ်ဝေါ်အသုံးပြုသော အမည်သာ ဖြစ်သည်။ စင်စစ် မရှုတို့ကမူ မိမိတို့ကိုယ်ကို လောင်ဝေါ လူမျိုးဟု ခေါ်ဝေါ်ကြသည်။ "လောင်ဝေါ" မှာ မရှုဘာသာအားဖြင့် ချောင်းရိုးတလျှောက် နေသော လူမျိုးဟု အဓိပ္ပါယ်ရလေရာ၊ အဓိကအားဖြင့် မေခမြစ်ဝှမ်းတလျှောက်တွင် မှီတင်း နေထိုင်ကြခြင်းကို ဆိုလိုဟန်တူသည်။ မရှုလူမျိုးသည် မိမိတို့ဘိုးဘွားများ၏ အစဉ်အလာအတိုင်း တောင်ယာ စိုက်ပျိုး လုပ်ကိုင်ခြင်းဖြင့်သာ ဝမ်းစာအတွက် ရှာဖွေစားသောက်ကြသည်။ တောင်ယာများမှာ တနှစ်ထက် တနှစ် မြေဩဇာညံ့ဖျင်းလာသဖြင့် ဝမ်းစာ ဖူလုံရေးအတွက် အတော်ပင် ပင်ပင်ပန်းပန်း လုပ်ကိုင်ကြရသည်။ မရှုလူမျိုးသည် ရိုးရာ အစဉ်အဆက်အားဖြင့် နတ်ကိုးကွယ်လာကြသူများ ဖြစ်သည်။ လွန်ခဲ့သော နှစ်အနည်းငယ်ခန့်က ခရစ်ယန် သာသနာပြုအဖွဲ့များ၏ ကြိုးပမ်းမှုများကြောင့် ခရစ်ယန် အယူဝါဒီများ တစတစ များပြားလာကြသည်။ နတ်ကိုးကွယ်သည့် အစဉ်အလာရှိသည့်အလျောက် "ချင်းခွန်" ခေါ် အိမ်စောင့်နတ်နှင့် "စမ်နဲ" ခေါ် မနေ့ပွဲနတ်များကို အိမ်အတွင်း၌ နတ်စင်ထိုး၍ ကိုးကွယ်လေ့ ရှိကြသည်။

မရှုအမျိုးသမီးများသည် ရိုးရာဝတ်စုံတခုအဖြစ်ဖြင့် ဦးခေါင်းကို အနက်စ ခေါင်းပေါင်း မြင့်မြင့်ကြီး ပတ်ဆင်ထားကြရာ၊ ရှေ့မှနေ၍ ကြည့်လိုက်လျှင် မြန်မာ အမျိုးသမီးတို့ ဆံထုံးကြီးများနှင့် ပုံသဏ္ဍာန် တူသည်။ ဤခေါင်းပေါင်းနက်မြင့်ကြီးများမှာ မရှုအမျိုးသမီးဝတ်စုံတွင် အခြားသော တောင်ပေါ်သား လူမျိုးဝတ်စုံများနှင့် မတူသည့် အထူးခြားဆုံးသော ဆင်ယင်မှုတခု ဖြစ်သည်။ အပျိုအရွယ် ရောက်သည့်အချိန်မှစ၍ ရိုးရာဝတ်စုံ ဆင်ယင်ကြသည့်အခါ၌ ဤခေါင်းပေါင်းကြီးများကို ပေါင်းကြသည်။ ဆံပင်ကို ဆံစုများနှင့် ထိပ်တွင်လုံး၍ စုထုံးထားပြီးလျှင် အပေါ်မှ အနံ ၁၄ လက်မနှင့် အလျား ၉ တောင်ခန့်ရှည်သော အနက်စရှည်ကြီးဖြင့် အပေါ်မှ အထပ်ကလေးတထပ်ခေါက်လျက် ဦးခေါင်းကို ပတ်၍ပေါင်းကြရာ၊ ခေါင်းပေါင်းမှာ အကြမ်းအားဖြင့် ၁၀ လက်မခန့်မြင့်သည်။ ယင်းခေါင်းပေါင်းထဲမှ နေ၍ ရောင်စုံ သိုးမွေးပန်းပွားများကို ဆံမြိတ်ချသကဲ့သို့ ချထားလေ့ရှိကြသည်။

**မရန်းပင်။** ။မရန်းပင်သည် ဆဲ့နှစ်ရာသီ စိမ်းလန်းသော အပင်လတ်မျိုးဖြစ်၍ အမြင့် ပေ ၄၀ ထိရှိသည်။ ရုက္ခဗေဒ အလိုအားဖြင့် ဗိုအီ အိုပေါဇီတီဖိုလီယာ ဟု ခေါ်၍ အန်နကာဒီအေးစီအီး မျိုးရင်းတွင် ပါဝင်သည်။ မြန်မာနိုင်ငံ တနင်္သာရီတိုင်းနှင့် ကပ္ပလီကျွန်းစုတွင် အလွန်ပေါများသည်။ မိုးအလွန်ပါးသော မြန်မာနိုင်ငံ အလယ်ပိုင်းဒေသများမှ တပါး အခြားအပိုင်းများ၌ မရန်းခြံများကို တွေ့မြင်နိုင်သည်။ အကိုင်းကူးစိုက်နည်းဖြင့် အပင်သစ်များ ပွားလာအောင် ပြုလုပ်နိုင်သော အပင်မျိုးပင် ဖြစ်သော်လည်း၊ မြန်မာနိုင်ငံတွင် အစေ့ပျိုး၍သာ မရန်းပင် စိုက်လေ့ ရှိကြသည်။ အပင် မကြီးလွှယ်ချေ။

မရန်းပင်များသည် ထူထပ်သိပ်သည်းသော အရွက်တို့ဖြင့် သိုက်မြိုက်ဝေဆာလျက်ရှိရာ အလွန် လှပသော အပင်မျိုးဖြစ်သည်။ လှပတင့်တယ်၍ အရိပ်အာဝါသကောင်း ရရှိသော သစ်ပင်များဖြစ်သည့်အလျောက် ထိုအပင်ကို လူတို့ အလွန် နှစ်သက်ကြသည်။ ထိုကြောင့် မြန်မာနိုင်ငံတွင်

တောလက်ကျေးရွာများနှင့် ဘုန်းကြီးကျောင်းဝင်းများ၌ မရန်းပင်များကို စိုက်ပျိုး ထားတတ်ကြသည်။

မရန်းရွက်များသည် လုံးသွားပုံရှိ၍ ၄ လက်မခန့် ရှည်သည်။ ပြောင်လက်၍ ချောနေသည်။ အခေါက်တွင် ပတ်သေး ပတ်ကြောင်းများခပ်စိပ်စိပ်ရှိ၍ မွဲပြာညစ်ညစ် အရောင်ရှိသည်။ မရန်းပွင့်များမှာ သေးငယ်သော်လည်း ၃ လက်မခန့်ရှည်သော အခိုင်များဖြင့် ပွင့်ကြသည်။ နတ်တော်လနှင့် ပြာသိုလများတွင် အပွင့်များ ပွင့်၍ တန်ခူးလနှင့် ကဆုန်လများတွင် မှည့်ကြသည်။ အသီးချဉ်မျိုးနှင့် အသီးချိုမျိုး ဟူ၍ မရန်းပင်နှစ်မျိုးနှစ်စားရှိသည်။ အချဉ်ပင်၏ အသီးမှည့်များသည် လိမ်မော်ရင့်ရောင်ရှိ၍ အချိုသီးထက် အလုံးကြီးသည်။ မရန်းချိုသီးမှည့်သည် အဝါဖျော့ဖျော့အရောင်ရှိ၍ အရသာမှာ ချဉ်ဖွဲ့ဖွဲ့ ရှိသည်။

မရန်းပင်များကို အသီးအလို့ငှါ စိုက်ပျိုးလေ့ရှိကြသည်။ မြန်မာလူမျိုးတို့သည် မရန်းသီးကို အကင်းမှအစ အသီးမှည့်သည်အထိ အမျိုးမျိုးပြုပြင်စီမံ၍ စားလေ့ ရှိကြသည်။ မရန်းသီးဆားစိမ်၊ မရန်းသီးသနပ်၊ မရန်းယို၊ မရန်းပြား စသည်ဖြင့် မရန်းသီးကို ကြာရှည်ခံအောင် ဖွယ်ဖွယ်ရာရာစီမံ၍ စားသုံးတတ်ကြသည်။

မရန်းပင်ကို အချို့ဒေသများတွင် မရင်းပင်ဟူ၍လည်း ခေါ်ကြသည်။ မွန်ဘာသာဖြင့် မရန်းပင်ကို ဘရန်း၊ သို့မဟုတ် ဘရိုင်း ဟူ၍ ခေါ်သည်။

**မလယထေရ်(ရှင်မာလဲ)။** ။မလိယမဟာဒေဝ မဟာထေရ်ကိုပင် ရှင်မလယဟူ၍ရင်း၊ ရှင်မာလဲဟူ၍ရင်း မြန်မာနိုင်ငံ၌ ခေါ်ဝေါ်ကြကုန်၏။ မလိယမဟာဒေဝထေရ်သည် စူဠကလ္လရွာသား ဥပါသကာတယောက်ကို ခေါ်၍ စူဠာမဏိစေတီတော်ကို ဖူးမျှော်ရန် ကြွတော်မူရာတွင် တာဝတိံသာနတ်ပြည်၌ မေတ္တေယျအလောင်းတော်နတ်သားနှင့်တွေ့၍အလောင်းတော်နတ်သားက ထိုဥပါသကာအား နတ်ပုဆိုးတစုံ ပေးလိုက်သည်ဟုဆိုသည်။ ဝတ္ထုစဉ်ကား ဤသို့တည်း။

လင်္ကာဒီပဟု ဆိုအပ်သော သီဟိုဠ်ကျွန်း၊ အဇ္ဇရအမည်ရှိသော မြစ်၏အနီး၌ စူဠကဏ္ဍက အမည်ရှိသော မဟာဝိဟာရကျောင်းရပ်ကြီးသည် ရှိ၏။ ထိုကျောင်းရပ်ကြီးသည်ကား အရာမက များစွာသော ရဟန်းတို့ဖြင့်လည်း ပြည့်ကုန်၏။ သဒ္ဓါကြည်ညိုသော လူတို့ဖြင့်လည်း ရောပြွမ်းကုန်၏။ ထိုစူဠကလ္လရွာ၌ တယောက်သော ဥပါသကာဖြစ်သော ဒါယကာသည် သဒ္ဓါတရားနှင့် ပြည့်စုံ၏။ ရတနာသုံးပါး၌လည်း ဆည်းကပ်ကိုးကွယ် ကြည်ညိုမြတ်နိုးခြင်းရှိ၏။ ထိုကြောင့်ယင်း ဥပါသကာသည် ရဟန်းတို့၏ တည်းခိုရာ အရိပ်အာဝါသတို့ကို ကောင်းမွန်စွာ စီမံဆောက်လုပ်၍ လုပတင့်တယ်စွာ တန်ဆာဆင်ယင်ပြီးမှ သောက်ရေတို့ကို သန့်ရှင်းစင်ကြယ်စွာတည်ထား၍ လျောင်းရာ အိပ်ရာနေရာတို့ကို ခင်းထား၏။ ကိုယ်မကျန်းသော ရဟန်းတို့အလို့ငှါ ရေပူရေချမ်းကိုရင်း၊ ဆေးယာဂုအစရှိသည်တို့ကိုရင်း ကပ်ဆက်သူ အလုပ်အကျွေးနှင့်တကွ ထား၏။ ထိုအခါ မလိယမဟာဒေဝထေရ်သည် ဝေရိယဝိဟာရ ကျောင်းကမ္ဗဋ္ဌာန်းအုံ၌ နေတော်မူ၏။ ထိုမထေရ်မြတ်သည် များစွာသော လူအပေါင်းတို့၏ စီးပွားချမ်းသာကို ရွက်ဆောင်တော်မူလေ့ ရှိ၏။ တနေ့သ၌ ညဉ့်အခါ ထိုအရှင်မြတ်အား ဝမ်းလေအနာသည် ကပ်ရောက်လေ၏။ ရှေးကာလ၌ ဤကဲ့သို့ ရောဂါဝေဒနာ ကပ်ရောက်သောအခါ တဆဲ့တပါးသော ဆေးယာဂုကို သုံးဆောင်ရသဖြင့်ထိုအနာမျိုးသည် ငြိမ်းဘူး၏။ထိုကြောင့် ယခုလေနာထသောအခါ ထိုဆေးယာဂုကို အဘယ်မှာ ရပါလတ္တံ့နည်းဟူ၍ ဒိဗ္ဗစက္ခုအဘိညာဉ်ဖြင့်ကြည့်ရှုသည်ရှိသော် စူဠကလ္လရွာနေ ဥပါသကာဖြစ်သော ဒါယကာတယောက်၏ အထံ၌ ရလတ္တံ့သည်ကို မြင်တော်မူ၏။ ထိုအခါ အရှင်မြတ်သည် နံနက်စောစော ထတော်မူ၍ ကိုယ်လက်သုတ်သင်ပြီးလျှင် စေတီအပြင် အစရှိသည်တို့၌ ပြုအပ်သော ဝတ်ကြီးဝတ်ငယ်တို့ကို ပြည့်စုံစေ၍ သပိတ်သင်္ကန်းတို့ကို ဝတ်ရုံလျက် ကောင်းကင်သို့ ပျံတက်၍ ထိုဒါယကာနေသော စူဠကလ္လရွာ တံခါး၌ သက်ဆင်းတော်မူပြီးလျှင် သပိတ်ကိုပိုက်၍ ရွာသို့ ဝင်တော်မူ၏။ အိမ်စဉ်အတိုင်း ဆွမ်းခံရပ်လျက် ထိုဥပါသကာ၏ စရပ်သို့ ဝင်လေ၏။ ဥပါသကာလည်း အရှင်မြတ်ကို မြင်လေသော် ဘိတ်မန်၍ နေရာထိုင်ခင်း ပေးပြီးလျှင် ဤသို့ လျှောက်၏။ အရှင်ဘုရား၊ အရှင်ဘုရား၏ကိုယ်တော်ကို အနာရောဂါ နှိပ်စက်ဘိသလော၊ ကျန်းမာချမ်းသာပါ၏လောဟု မေးလျှောက်၏။ မထေရ်မြတ်လည်း မိမိ၌ လေနာရှိချေသော အဖြစ်ကိုကြားပေ၏။ ဒါယကာက၊ အရှင်ဘုရား၊ ထိုလေနာအား တဆဲ့တပါးသော ဆေးတို့ဖြင့် ခပ်ချက်သော အကျွန်ုပ်၏ ဆေးယာဂုသည် ဤလေနာမျိုးကို ရုတ်တရက်ချမ်းသာရာကို ရနိုင်ပါသည်။ သို့ဖြစ်၍ ဆေးကို စုရုံးစုံဖက်ပါချေအံ့။အချိန်အနည်းငယ်မျှ ဤအရပ်၌ ငံ့နေတော်မူစေချင်ပါသည် လျှောက်ခဲ့၍ မိမိအိမ်သို့ သွားလေ၏။ ဒါယကာလည်း မိမိအိမ်သို့ရောက်သောအခါ ဆေးအလို့ငှါ အလုံးစုံသော ဆေးဖက်တို့ကို ပြည့်စုံစေလျက် ထောင်းထုအမှုန့်ပြု၍ ညက်စွာဆင့်၍ ကောင်းမွန်စွာ ချက်ပြုတ်သော ယာဂုတွင် ခပ်ရမည်ဟု ချက်ပြုတ်သူတို့အား မှာဆိုအပ်နှင်းခဲ့ပြီးလျှင် မထေရ်မြတ်၏ အထံသို့ ပြန်လာ၍ ရိုသေစွာ ရှိခိုးလျက် ပြောဟော၍ နေ၏။

ထိုအခါ မလိယမထေရ်မြတ်သည်ဤသို့ကြံတော်မူ၏။ဤဒါယကာကား ဟုတ်ဟုတ်ညားညားသော သတ္တဝါ မဟုတ်ပေ။ လာလတ္တံ့သောအဖြစ်၌ မဟေသကဟုဆိုအပ်သော တန်ခိုးကြီးသည့် နတ် ဖြစ်လတ္တံ့သောသူပေတည်းဟု ကြံသိ

တော်မူ၍ ဤသို့ဆို၏။ ဒါယကာ၊ အချိန်အနည်းငယ်မျှ ဤအရပ်၌ ငုံ့နေတော်မူချိန်တွင် ငါသည် တာဝတိံသာ နတ်ပြည်သို့သွား၍ စူဠာမဏိစေတီတော်ကို ရှိခိုး၍ ပြန်လာခဲ့အံ့၊ ငါနှင့်အတူတကွ လိုက်လည့်ဟု ဆိုတော်မူ၏။ ဒါယကာသည် စူဠာမဏိစေတီတော်ကိုဖူးမြင်ချင်သော်လည်း ရောက်နိုင်စွမ်းသော တန်ခိုးမရှိ ဖြစ်ခဲ့လေသည်။ ထိုအခါ အရှင်မြတ်က ငါ၏ တန်ခိုးအစွမ်းဖြင့် သင့်ကိုတာဝတိံသာနတ်ပြည် စူဠာမဏိစေတီတော်သို့ ဆောင်ယူအံ့၊ ငါနှင့်အတူလိုက်ခဲ့လော့ဟု ဆိုပြီးလျှင် မိမိ၏သားရေနေယ်ကို ဒါယကာ၏ပခုံး၌ တင်၍ ဤဒါယကာသည် ငါနှင့်အတူ ပါစေသတည်းဟု ဓိဋ္ဌာန်တော်မူလျက် ကောင်းကင်သို့ ပျံတက်၍ တာဝတိံသာ နတ်ပြည်သို့ ရောက်တည့်လေ၏။ ထိုအခါ စူဠာမဏိစေတီတော်၏ အရံဖြစ်သော ခုနစ်ပါးသော ရတနာဖြင့် ပြီးသည့် တံခါးမုတ်ဝယ် ရပ်နေသော ခဏ္ဍ ဖြည့်အပ်ပြီးသော ပါရမီရှိသော မေတ္တေယျ ဘုရားအလောင်းတော်သည် နတ်ပြည် ခြောက်ထပ်တို့၌ များပြားလှစွာသော နတ်ပရိသတ်အပေါင်း ခြံရံလျက် စူဠာမဏိစေတီတော်ကိုရှိခိုးအံ့သောငှါ တုသိတာနတ်ပြည်မှ လာလတ်၏။ ဥပါသကာဖြစ်သော ဒါယကာသည် ထိုမေတ္တေယျ ဘုရားအလောင်း နတ်သားအား မြင်လတ်သော် အတိုင်းထက်အလွန် ဝမ်းမြောက်ဝမ်းသာဖြစ်၍ အရှင်မလိယမထေရ်မြတ်ကို မေးရာ အလောင်းတော် နတ်သားဖြစ်ကြောင်း ပြောဆိုလေသည်။

အရှင်မလိယမထေရ်မြတ်နှင့် ဥပါသကာဖြစ်သော ဒါယကာတို့ စကားပြောဆိုကြစဉ်လျှင် ဘုရားအလောင်းတော်သည် ရောက်လာလတ်သဖြင့် ရထားဗိမာန်မှ သက်လတ်၍ အရှင်မလိယ မထေရ်မြတ်သို့ ချဉ်းကပ်ပြီးလျှင် ပဉ္စပတိဋ္ဌိတဖြစ်သော ငါးပါးသော တည်ကြည်ခြင်းဖြင့် ရှိခိုး၍ နေပြီးလျှင် အရှင်ဘုရား ဤတာဝတိံသာ နတ်ပြည်သို့ အဘယ်အကျိုးငှါ လာတော်မူပါသနည်းဟု လျှောက်၏။ အရှင်မြတ်လည်း အကြောင်းကို ပြန်ပေ၏။ထိုသို့ ပြန်ကြားပြီးမှ ဒါယကာသည် မေတ္တေယျဘုရားလောင်းနတ်သားကိုရှိခိုး၏။အလောင်းတော်နတ်သားက ဤငါ့ကို ရှိခိုးသောသူသည် အဘယ်သို့သောသူနည်းဟု မေးသည်ရှိသော် အရှင်မလိယမထေရ်မြတ်က ဤဒါယကာသည် စူဠကလ္လရွာ၌နေသော သီလအကျင့်နှင့် ပြည့်စုံသော ဥပါသကာပေတည်း၊ သဒ္ဓါသီလတည်းဟူသော ဂုဏ်နှင့်ပြည့်စုံသော သူတည်းဟု ဆို၏။ မေတ္တေယျအလောင်းတော် နတ်သားသည် ထိုစူဠကလ္လဥပါသကာအား ထိုက်လျှောက်ရာ သင့်တင့်လျော်ကန်သော ဒိဗ္ဗသာတကယုဂဖြစ်သောနတ်ပုဆိုးတစုံကိုပေး၍အလှူပေးခြင်း သီလဆောက်တည်ခြင်းမှ မမေ့မလျော့စေနှင့်ဆုံးမ၏။ ထိုဥပါသကာသည် အရှင်မလိယ မထေရ်မြတ်နှင့်တကွ စူဠာမဏိစေတီတော်ကို ရှိခိုး၍ (ဒါယကာနှင့်တကွ) စူဠကလ္လရွာသို့ ပြန်ရောက်သော်၊ မထေရ်မြတ်သည် ဆွမ်းစားစရပ်၌ နေလျက် ဒါယကာ လှူအပ်သော ဆေးယာဂုကို သောက်တော်မူ၏။ လေအနာ ငြိမ်းပြီးသည် ဖြစ်၍ အရှင်မလိယ မထေရ်မြတ်သည် နေတော်မူရာ ဝေရိယဝိဟာရကျောင်းသို့ ကောင်းကင်ခရီးဖြင့် ပျံကြွတော်မူလေသည်။

မြန်မာနိုင်ငံတွင် ဆဲ့နှစ်လ ဆဲ့နှစ်ရာသီအတွက် အမျိုးသားပွဲတော် ဆဲ့နှစ်မျိုး ဆဲ့နှစ်စား ရှိလေသည်။ တန်ဆောင်မုန်းလ ဖြိစ္ဆာရာသီတွင် ကထိန်သင်္ကန်း ကပ်လှူပွဲ၊ ဆီမီးတန်ဆောင် ထွန်းညှိပွဲ၊ မသိုးသင်္ကန်း ရက်လုပ်ပွဲတို့အပြင် ရှင်မာလဲပွဲကိုလည်း ကျင်းပတတ်သေးကြောင်းဖြင့် ပုဂံဝန်ထောက်မင်း ဦးတင့်က မြန်မာမင်း အုပ်ချုပ်ပုံစာတမ်း ပဌမအုပ် မျက်နှာ ၂၃၇ တွင် "ကာကသတ္တဝါ၊ တာရာထိန်ဆဲ၊ ကထိန်ပွဲလျှင်၊ သျှင်မာလဲပွဲ၊ တန်ဆောင်ပွဲက၊ ပွဲကြီးသုံးဖြာ၊ ကြုံကြိုက်ပါလိမ့်" ဟု ဖွဲ့ဆိုခဲ့သည်။ ရှင်မာလဲပွဲသည် သီဟိုဠ်ကျွန်း ကုရောဒ ဇနပုဒ်တွင် သိတင်းသုံးသော ရှင်မာလဲမထေရ်ကို အကြောင်းပြု၍ ဖြစ်ပေါ်လာသည်ဟု ပေါရာဏဒီပနီကျမ်း ဒုတိယတွဲတွင် ပါရှိလေသည်။ တခါသော် ရှင်မာလဲ မထေရ်သည် တာဝတိံသာ နတ်ပြည် စူဠာမဏိစေတီတော်ကို အဖူးအမျှော် သွားရာတွင် အရိမေတ္တေယျ အလောင်းတော် နတ်သားနှင့် ဆုံမိသည်။ ထိုအခါ အလောင်းတော် နတ်သားက တန်ဆောင်မုန်းလပြည့်တိုင်ရောက်သည့်အခါတိုင်း၊ ဝေဿန္တရာ ဇာတ်တော်ကို လူအပေါင်းတို့အား ဟောကြားပါရန် လျှောက်ထား တောင်းပန်လိုက်သဖြင့် ရှင်မာလဲမထေရ်သည် တန်ဆောင်မုန်း လပြည့်နေ့တို့တွင် ဝေဿန္တရာ ဇာတ်ကို ဟောကြားလေသည်။ ထိုကြောင့် ရှင်မာလဲပွဲအခါ၌ ဂါထာတထောင်ဖြင့် တန်ဆာ ဆင်အပ်သော ဝေဿန္တရာ ဇာတ်တော်ကြီးကို ဟောပြောရသည်။ လှော်ကားတော်ပုံ ပြု၍ လှော်ကားထက်တွင် အသီးတထောင်၊ အပွင့်တထောင်၊ ထမင်းဆုပ်တထောင်၊ ဆီမီးတထောင် စသည်တို့ကို လှူဒါန်း ပူဇော်ရလေသည်။

ယခုအခါ မြန်မာနိုင်ငံ အောက်ပိုင်း ဖျာပုံမြို့တွင် နှစ်စဉ်တော်သလင်းလ၌ ရှင်မာလဲ ထောင်ပြည့်ပွဲတော် ဟူ၍ ကျင်းပလေ့ ရှိ၏။ ရှင်မာလဲပွဲတော် ကျင်းပသည့်အခါ လှော်ကားကြီးသဏ္ဌာန် ပြုလုပ်ကာ သစ်သီး၊ မုံ့၊ တံခွန်တိုင် စသော လှူဖွယ်ဝတ္ထုတို့ကို ထောင်နှင့် ချီ၍ ဆွမ်းတော်ကြီး တင်ကြသည်။

ထိုပွဲတော်မှာ မလိယထေရ် (ဝါ) ရှင်မာလဲ၏ ဩဝါဒဖြင့် လှူဒါန်းခြင်းဖြစ်၍ ရှင်မာလဲပွဲတော်၊ "မဂ္ဂင်ဖောင်ကြီး၊ တက်၍စီးက၊ ပြည်ကြီးခေမ၊ မြတ်နိဗ္ဗာန်သို့၊ အမှန်ထုတ်ခြောက်၊ ခရီးပေါက်၏" ဟူသည့်အတိုင်း မိမိတို့ စေတနာဖြင့် နိဗ္ဗာန်ကို ရည်သန်ပြီးလျှင် မဂ္ဂင်ဖောင်ဖြင့် ကူးတော့မည် အဓိဋ္ဌာန်အလျောက် မဂ္ဂင်ဖောင်ပုံ၏ သရုပ်ကို လှော်




ရှင်မာလဲပွဲတော် ကျင်းပသည့်အခါ လှော်ကားကြီးသဏ္ဍာန်ပြုလုပ်ကာ လှူဖွယ်ဝတ္ထုတို့ကို ထောင်နှင့်ချီ၍ ဆွမ်းတော်ကြီးတင်ကြသည်။

ကားဖြင့် တင်စား၍ လှော်ကားပေါ်တွင် အလှူဝတ္ထုများ တင်ပြီး ပူဇော်သည့်အတွက် လှော်ကားပွဲတော်၊ ယင်း လှော်ကားပွဲ အလှူတွင် သစ်သီး၊ မုံ့၊ တံခွန်တိုင် စသော လှူဖွယ်ဝတ္ထုတို့ကို ၁,၀၀၀ စီ၊ ၁,၀၀၀ စီသာ လှူဒါန်းရန် စီမံထားခြင်းကြောင့် ထောင်ပြည့်ပွဲတော် စသည်ဖြင့် အသီး အသီး ခေါ်ဝေါ်ကြလေသည်။

**မလေးလူမျိုး။** ။မလေးလူမျိုးသည်မလ္လာယုကျွန်းဆွယ် နှင့် မလ္လာယုကျွန်းစုတို့တွင် နေထိုင်သော မွန်ဂိုလိုက်လူမျိုး တမျိုး ဖြစ်သည်။ မလေးလူမျိုးကို မြန်မာတို့က ပသျှူး လူမျိုးဟူ၍လည်း ခေါ်သည်။ စင်စစ်သော်ကား မလေး လူမျိုးဟူသည့်အမည်မှာ ထိုမလ္လာယုကျွန်းဆွယ်နှင့် မလ္လာယု ကျွန်းစုတို့တွင် လူများစုဖြစ်လျက် မိမိတို့ကိုယ်ကို အော်ရန် မလ္လာယုဟု ခေါ်ကြသူများကို ဥရောပတိုက်သားတို့က ပေး ထားသော အမည်လည်း ဖြစ်၏။

မလေးလူမျိုးစစ်စစ်မှာ ပေါ်လီနီးရှန်း လူမျိုး၊ မိုက္ကရိုနီး ရှန်း လူမျိုးတို့နှင့် လူမျိုးအားဖြင့်ရင်း၊ ဘာသာစကားအား ဖြင့်ရင်း ဆက်နွယ်နေကြသူများ ဖြစ်သည်။ ယင်းတို့သည် ဆူမတြားကျွန်းရှိ ရှေးဦး မလေးလူမျိုးစုမှ ဆင်းသက်ပေါက် ပွားလာကြသည်။ ထိုရှေးဦး မလေးလူမျိုးစုသည် အေဒီ ၄၀၀ ခန့်မှ စတင်၍ ဟိန္ဒူသွေးနှောကာ၊ ဟိန္ဒူယဉ်ကျေးမှု လွှမ်းမိုးခြင်း ခံခဲ့ရပြီးနောက်တွင် မလ္လာယုကျွန်းဆွယ်သို့ ရောက်လာပြီးလျှင် ၁၁၆၀ ခန့်တွင် စင်္ကာပူကို တည်ထောင် ခဲ့ကြသည်။ ယင်းတို့သည် ဂျားဗားကျွန်းသို့လည်း ပြန့်နှံ့ သွားခဲ့၍၊ အခြား ပင်လယ် ကမ်းခြေဒေသများသို့လည်း ပင်လယ်ကြောင်း ကုန်သွယ်ယင်း၊ လုယက် တိုက်ခိုက်ယင်း ရောက်ရှိသွားခဲ့ရာ၊ ပမာအားဖြင့် ဗော်နီယိုကျွန်းတွင် ရှိယင်း တိုင်းဦးသားတို့ကို ပင်လယ်ကမ်းခြေဒေသများမှ အတွင်း ဖက် ကုန်းမြင့်ဒေသများသို့ မောင်းထုတ်ခဲ့လေသည်။ မလေး လူမျိုးများသည် ၁၄ ရာစုနှစ်တွင် မလက္ကာနိုင်ငံကို ထူ ထောင်ခဲ့၍၊ ထိုနောက်တွင် ဆန်ဒါကျွန်းများ၊ ဖိလစ်ပိုင် ကျွန်းများ၊ မိုလပ်ကပ် ကျွန်းများနှင့် ဩစတြေလေးရှား တွင် အဝင်အပါ ကျွန်းစု အချို့ကိုပင် သိမ်းပိုက် ထားခဲ့ လေသည်။

မလေးလူမျိုးသည် ကိုယ်လုံး အဆစ်အပေါက်ကျသည်။ သို့သော် ကိုယ်နေခပ်ပါးပါး၊ ညိုညစ်ညစ် အရောင်ရှိ၍ အရပ်

ပုသည်။ လက်များသေးကာ၊ အထူးသဖြင့် လက်ဆစ် ခြေဆစ်များ အလွန်သေးငယ်၏။ မျက်နှာဝိုင်း၏။ နှာခေါင်းသေး၍တို၏။ မျက်လုံးမျက်ဖန်ကောင်း၍မည်းသည်။ ပါးရိုးများ ပေါ်လွင် ထင်ရှားသော်လည်း မျက်နှာ ခပ်ပြားပြားဖြစ်သည်။ ဆံပင်ဖြောင့်တန်း၍ မည်းနက်၏။ ယင်းတို့သည် မိမိတို့နှင့် ဆိုင်သော ယဉ်ကျေးမှုကို ထိန်းသိမ်း၍ ဘာသိ ဘာသာ နေတတ်သည်။ သို့သော် ချက်ချက်ခြာခြာရှိသည်။ ဉာဏ်ထက်မြက်သည်။ အာရပ်တို့နှင့် ဆက်ဆံမိပြီးသည့်နောက်တွင် မလေးလူမျိုးသည် ၁၃ ရာစုနှစ်မှ ၁၅ ရာစုနှစ်အထိ နှစ်များအတွင်း အယူဝါဒရေးတွင်၎င်း၊ ယဉ်ကျေးမှုတွင်၎င်း အာရပ်တို့ကို စံနမူနာထားလျက် မွတ်စလင်များ လုံးဝ ဖြစ်သွားလေတော့သည်။ သို့သော် မလေးလူမျိုးတို့သည် စုံနှတ်အစွဲကား ရှိနေဆဲပင် ဖြစ်၏။ ယင်းတို့သည် ကြက်တိုက်ခြင်းကို၎င်း၊ ကံစမ်းကစားနည်းများကို၎င်း ဝါသနာထုံသည်။

မလေး အမျိုးသားတို့သည် ပေါင်လယ်ထိရောက်သော အင်္ကျီရှည်ဖားဖားနှင့် ဘောင်းဘီတို့ကို ဝတ်၍ ဦးခေါင်းတွင် ဦးထုပ်ကိုသော်လည်း ဆောင်းထားတတ်၍၊ ခေါင်းစည်း ပုဝါကိုသော်လည်း စည်းထားတတ်၏။ ခါးတွင် ဘောင်းဘီပေါ်မှ ပိုး၊ သို့မဟုတ် ချည်လုံကွင်းကို စည်းပတ်ဝတ်တတ်သည်။ လုံကွင်းကို ဝတ်ရာတွင် အမျိုးသမီးများအဖို့ ခြေဆစ်အထိ ရောက်သော်လည်း အမျိုးသားများမှာမူ လုံကွင်းကိုခေါက်တင်ထားတတ်ရာ၊ ဒူးဆစ်အထိလောက်သာ ရောက်သည်။ ဓားမြှောင်တို့ကို ကိုင်ဆောင်လေ့ ရှိကြသည်။ ဘောင်းဘီမှာလည်း အတန်တို့၍ ပုံတမျိုးဖြစ်ပြီးလျှင် ရောင်စုံကန့်လန့် အစင်းများ ပါရှိတတ်၏။ အမျိုးသမီးများသည် ညိုဖျော့ဖျော့ အရောင်ရှိ၍၊ ပိုးဖဲ အထူးသဖြင့် ပါတိတ် လုံချည်များကို ဝတ်ဆင်ကြသည်။ ကောင်းမွန်သပ်ရပ်စွာ ဝတ်၍ အနေအထိုင်တတ်သည်။ ခေတ်ကာလအလျောက် မလေးလူမျိုးတို့သည် ခေတ်မှီလာကြကာ အနောက်တိုင်း အဝတ်အစား အသုံးအဆောင် ယဉ်ကျေးမှုတို့ကို လက်ခံသုံးစွဲကြသည်။

မလေးဘာသာစကားမှာ ဩစတြစ်ဘာသာစကား မျိုးရင်းမှ ဩစတြိုနီးရှင်း ဘာသာစကား မျိုးခွဲတွင် ပါဝင်သည့် ဘာသာစကားမျိုးစိတ်တခု ဖြစ်သည်။ မလေးစာမှာ အာရဗစ် အက္ခရာတို့ကို အသုံးပြု၍ ရေးသားထားသောစာဖြစ်သည်။ ယင်းတို့၏ စာပေတွင် ကဗျာလင်္ကာများလည်း ပါဝင်၍ စကားပြေများလည်း ပါဝင်၏။ စကားပြေများမှာ အာရပ်၊ သို့မဟုတ် ပါးရှင်း စာပေတို့ကို မှီးသည်က များလေသည်။

**မလှိုင်မြို့။** ။မလှိုင်မြို့သည် မိတ္ထီလာခရိုင်တွင် ပါဝင်သော မလှိုင်မြို့နယ်၏ ရုံးစိုက်ရာ မြို့ဖြစ်သည်။ မိတ္ထီလာမြို့၏ အနောက်မြောက်ဖက်ရှိ သာစည်-မြင်းခြံမီးရထားလမ်းနှင့်မိတ္ထိ



မလှိုင်မြို့သည် မိတ္ထီလာခရိုင်၏ အရေးပါသော စက်မှုလုပ်ငန်းမြို့ ဖြစ်၍ ဆပ်ပြာလုပ်ငန်းဖြင့် တိုးတက်လျက်ရှိသည်။



မလှိုင်မြို့ရှိ ဝါဂွမ်းစက်ရုံကြီးမှ ဝါဂွမ်းများကို မြင်းခြံမြို့သို့ အများအပြား တင်ပို့ရောင်းချသည်။

လှ-မြင်းခြံကားလမ်းများပေါ်တွင် တည်ရှိသည်။ မီးရထားလမ်းအတိုင်း မိတ္ထီလာမှ ၂၂ မိုင် ဝေးသည်။ မလှိုင်မြို့နယ်သည် ၄၃၁ စတုရန်းမိုင် ကျယ်ဝန်းသည်။ သူကြီးပိုင် ၅၄ ခုရှိ၍ လူဦးရေမှာ ၁၉၅၆ ခုနှစ်တွင် ဂ၉,၁၇၀ ယောက်ခန့်ရှိသည်။ မလှိုင်မြို့တွင် မြို့ပိုင်ရုံး၊ စိုက်ပျိုးရေးရုံး၊ သမဝါယမရုံးများနှင့် ရဲဌာနတို့ ရှိသည်။ မြို့ပေါ်တွင်အစိုးရစိုက်ပျိုးရေး ဥယျာဉ် ရှိသည်။ ၁၉၅၃ ခုနှစ်သန်ကောင်စာရင်းအရ မြို့နေ လူဦးရေမှာ ၆,၅၄၃ ယောက်ခန့်ဖြစ်၏။

မလှိုင်မြို့သည် မီးရထားလမ်း ကားလမ်းပေါ်တွင် တည်ရှိသည်နှင့်အညီ အရောင်းအဝယ် ကောင်းမွန်သည်။ မလှိုင်တွင် ၅ ရက်တစျေး ရှိလျက် အနီးအပါး ရွာများမှ လာရောက်ရောင်းဝယ် ကုန်သွယ်ကြသည်။ အထူးသဖြင့် ဝါဂွမ်းကို အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်သည့် မြို့ဖြစ်၍ ဝါဂွမ်းစက်ရုံများရှိသည်။ ဝါဂွမ်းကို မြင်းခြံမြို့သို့ အများ အပြားတင်ပို့ရောင်းချသည်။ မလှိုင်တွင် ဆီစက်များလည်း ရှိသည်။ မြေအိုးမြေခွက်များကိုလည်း အနည်းငယ် ပြုလုပ်သည်။ အဓိကအားဖြင့် စိုက်ပျိုးလုပ်ကိုင်သူ များပေ၏။

မလှိုင်မြို့တွင် ထင်ရှားသော ဘုရားမှာ ရွှေမုဋ္ဌော စေတီတော်ဖြစ်လျက် နှစ်စဉ် ဘုရားပွဲ ကျင်းပသည်။

ရှေးအခါက မလှိုင်မြို့သည် နယ်ပိုင်ရုံးစိုက်ရာ မြို့ဖြစ်ခဲ့ဘူးလေသည်။ မြန်မာမင်းများ လက်ထက်တော်ကမူ မလှိုင်မြို့ကို ဝန်နှင့်စစ်ကဲတို့က အုပ်ချုပ်ခဲ့သည်။ မြင်ကွန်း မြင်းခုံတိုင်မင်းသားများအရေးတော်ပေါ်ခဲ့စဉ်အခါက မလှိုင်မြို့သူကြီးမောင်ချစ်စရာသည် မင်းတုန်းမင်းအား ခြားနားပုန်ကန်ခဲ့ရာ သီပေါမင်းက အသက်ဘေးမှ ကယ်တင် သူကောင်းပြုခဲ့သော်လည်း အဆုံးတွင် ကွပ်မျက်ခြင်းခံရလေသည်။

ခရစ် ၁ဂဂ၆ ခုနှစ်အင်္ဂလိပ်တို့ အထက်မြန်မာပြည်ကို သိမ်းပိုက်စဉ်က အင်္ဂလိပ်တို့သည် မလှိုင်သို့ ဝင်ရောက်တိုက်ခိုက်၍ မလှိုင်မှတဆင့် မိတ္ထီလာသို့ ချီတက်တိုက်ခိုက်သည်။

မလှိုင် ဟူသောအမည်သည် ပန်းလှိုင် ဟူသော အမည်မှ စကား ရွေ့လျောလာသည် ဆိုသည်။ သီရိဓမ္မာသောကမင်းသည် စေတီပေါင်း ဂ၄,၀၀၀ တည်ရာ၌ မလှိုင်မြို့ ရွှေမုဋ္ဌောလည်း တဆူအပါအဝင်ဖြစ်သည်။ ထိုရွှေမုဋ္ဌောဘုရားအနီးတဝိုက်တွင်၎င်း၊ ထိုဘုရားအား ကပ်လှူပူဇော်ထားသော ပန်းများကြောင့်၎င်း ပန်းများလှိုင်နေသည်ကို အစွဲပြု၍ ပန်းလှိုင်ဟူ၍ အမည်ပေး ပညတ်ခဲ့ရာမှ မလှိုင် ဖြစ်လာသည် ဆိုလေသည်။

**မလွှပင်။** ။မလွှပင်သည် ဖက်သန်းပင်၊ သခွတ်ဖိုပင်တို့နှင့် အတူ ဗစ်နိုးနီအေးစီအီး မျိုးရင်းတွင် ပါဝင်သည်။ ရုက္ခဗေဒ အလိုအားဖြင့် ယင်းကို ဒေါ်လီချန်ဒရန်း စတီပျူလာတာဟု ခေါ်သည်။ မလွှပင်သည် အပင်လတ်မျိုးဖြစ်၍

ယင်း၏ အပွင့်သည် ခရာပုံဖြစ်၍ အရောင်မှာ အဝါရောင် ဖျော့ဖျော့ဖြစ်သည်။ မလှပွင့်နှင့်မလှသီးတို့သည် အဖိုးတန် အသီးအပွင့်များ မဟုတ်ကြသော်လည်း တောလက်ကျေး ရွာများတွင် ထိုအပွင့်နှင့် အသီးတို့ကို ဟင်းချက်စားကြ သည်။ တို့စရာကောင်းအဖြစ်ဖြင့်လည်း စားသုံး ကြသည်။

မြန်မာနိုင်ငံ အထက်ပိုင်းနှင့် အောက်ပိုင်း၊ မိုးပါးသော အ ရပ်ရှိ သစ်တောများ၌ မြေပြင် အမြင့်ပေပေါင်း ၂,၀၀၀ အထိ ပေါက်ရောက်သော သစ်ပင် ဖြစ်သည်။ မြန်မာနိုင်ငံ အောက် ပိုင်းရှိ ခြံဥယျာဉ်များတွင် မလှပင်ကို ရံဖန်ရံခါ တွေ့ရှိရသည်။

မလှသား၏ အရောင်မှာ လိမ်မော်ရောင်ကဲ့သို့ရှိ၍ လှပ သော အစက်အပြောက်များ ပါရှိသည်။ အသားကျစ်၍ မာ သောကြောင့် အိမ်တိုင်များ၊ လေးကိုင်းများ၊ လှံရိုးများ၊ လှော်တက်များ၊ ခတ်တက်များနှင့် အိမ်ထောင် ပရိဘောဂ များ ပြုလုပ်ရာ၌ အသုံးပြုကြသည်။

**မသိုးစာ။** ။အစားအစာများကို မပုပ်မသိုးဘဲ ကြာရှည် ခံအောင် စီမံထားသည့် အလေ့အထသည် ရှေးဂူနေ လူများ ခေတ်မှအစပြု လုပ်လာကြသည်ဟု ယုံကြည်ရသည်။ ထိုဂူနေ လူများသည် တောတွင်း၌ မိမိတို့ လိုက်လံ ရှာဖွေ ရရှိခဲ့သော သားငါးများကို စားမကုန်သည့်အခါ ကျပ်တင်ထားလေ့ ရှိကြသည်။ သားငါးများ အလွယ်တကူ ရှာ မရသည့် အခါတွင်လည်း ထိုကျပ်တင် သားများကိုသာ စားကြ ရသည်။

ရှေးအခါက အရှေ့တိုင်းသားများသည် အစားအစာများ ကို သကြား၊ ဆား၊ အမွှေးအကြိုင်များနှင့်ဖြစ်စေ၊သဖန်းသီး ဆီးသီးစသော သစ်သီးများကို အခြောက်လှန်း၍ဖြစ်စေ မပုပ်မသိုးဘဲ ကြာရှည်ခံအောင် စီမံပြုလုပ်ခဲ့ကြသည်။ ဤသို့ စီမံပြုလုပ်ခဲ့ကြသော်လည်း တိုးတက်မှု များစွာမရှိခဲ့ကြချေ။ လွန်ခဲ့သည့် နှစ်ပေါင်း ၁၅၀ လောက်ကျမှသာ မသိုးစာ စီမံ သည့်နည်းများကို ကောင်းစွာသိရှိနားလည် လာကြပြီးလျှင် ထိုမှအစ တဖြည်းဖြည်း တိုးတက်အောင်မြင်မှု ရရှိခဲ့လေ သည်။ ၁၈၀၉ ခုနှစ်တွင် ပြင်သစ်လူမျိုး ပေါင်မုံ့ဖုတ်သူ နစ်က လပ်အက်ပါး ဆိုသူသည် အစားအစာများကို စည်သွတ်၍ မ ပုပ်မသိုးဘဲ ကြာရှည်ခံအောင် စီမံပြုလုပ်သည့်နည်းကို ပဌမ ဆုံးစတင်တွေ့ရှိခဲ့လေသည်။ထိုမှအစ ဥရောပနိုင်ငံများနှင့် အ မေရိကန်ပြည်ထောင်စုတွင် စည်သွတ်လုပ်ငန်းစက်ရုံများ အ မြောက်အမြား ပေါ်ပေါက်ခဲ့လေသည်။သို့ရာတွင် စည်သွတ် လုပ်ငန်းမှာ သိပ္ပံနည်းကျကျ မရှိသေးရကား ချက်ခြင်းဖွံ့ဖြိုး လာသည်မဟုတ်ပေ။ ယခုအခါတွင် စည်သွတ်လုပ်ငန်းမှာ သိပ္ပံနည်းကျကျ လုပ်ကိုင်လာနိုင်သဖြင့် အမေရိကန်ပြည် ထောင်စုတွင် သံနှင့် သံမဏိလုပ်ငန်းများမှလွဲလျှင် ဒုတိယ အကြီးကျယ်ဆုံး လုပ်ငန်းတရပ် ဖြစ်လာလေသည်။

အစားအစာများ ပုပ်သိုးသွားရခြင်းမှာ အကြောင်း နှစ် ရပ်ကြောင့် ဖြစ်ပေသည်။ ပဌမအကြောင်းရပ်မှာ မိုက္က ရုပ်ပိုးကလေးများကြောင့် ဖြစ်၍၊ ဒုတိယအကြောင်းရပ်မှာ ဓာတ်ပြောင်းမှုများကြောင့် ဖြစ်သည်။ အသားနှင့် ဟင်းသီး ဟင်းရွက်ကဲ့သို့သော အစားအစာများအားလုံးတွင် မိုက္က ရုပ်ပိုးကလေးများ ပါရှိ၏။ ထိုပိုးကလေးများသည် အလွန် အလွန် သေးငယ်ရကား ပကတိ မျက်စိဖြင့်မမြင်နိုင်ဘဲ အထူး အားကောင်းသည့် မှန်ဘီလူးနှင့် ကြည့်မှသာ မြင်နိုင်သည်။ ယင်းပိုးကလေးများမှာ များသောအားဖြင့်ဗက်တီးရီးယား၊ မှိုနှင့် တဆေးတို့ဖြစ်ကြသည်။ မိုက္ကရုပ်ပိုးအားလုံးသည် အ စားအစာများကို ပုပ်သိုးစေသည်မဟုတ်။ အသုံးကျသော မိုက္ကရုပ်ပိုးများလည်း ရှိ၏။ သို့သော် များသောအားဖြင့် ကား အစားအစာကို ပုပ်သိုးပျက်စီးစေလေသည်။

ဓာတ်ပြောင်းမှုကြောင့် အစားအစာပုပ်သိုးသွားရခြင်း မှာ အင်ဇိုင်း ဓာတ်ကြောင့် ဖြစ်သည်။ အစာစိမ်းများ တွင် အင်ဇိုင်းဓာတ်များ ပါရှိ၏။ သစ်သီးများ စိမ်းရာမှ မှည့်လာခြင်းမှာ အင်ဇိုင်းဓာတ်ကြောင့် ဖြစ်သည်။ သို့ ရာတွင် အင်ဇိုင်းကား ကိုယ်တိုင် ဓာတ်ပြောင်းသွားသည် မဟုတ်ဘဲ၊ သစ်သီးကိုသာ မှည့်အောင် ဆောင်ရွက်သွား လေသည်။ သစ်သီးကို အပင်မှ ခူးလိုက်သော်လည်း သစ်သီး အတွင်းရှိ အင်ဇိုင်းများက ယင်းတို့၏အလုပ်များကို ဆက် လက်ဆောင်ရွက်လျက်ရှိရာ အကယ်၍ ထိုဆောင်ရွက်မှုများ ကို မဟန့်တားနိုင်ပါက သစ်သီးမှာ နောက်ဆုံးပုပ်သွားတော့ ၏။ အပူသည် အင်ဇိုင်းများ၏ ဆောင်ရွက်မှုများကို ပျက်စီး စေသည်၊ သို့မဟုတ် ရပ်တန့်စေသည်။

အစားအစာများ မပုပ်သိုးအောင် စီမံရာ၌ လေလုံသော သံဗူး၊ သံခွက်၊ ဖန်ဗူးတွင်ထည့်၍ ပိတ်လိုက်ရသည်။ စည် သွတ်ရာ၌ အချက်ကြီးနှစ်ချက်ရှိ၏။ ပဌမအချက်မှာ အစား အစာကို ပုပ်သိုးစေသည့် မိုက္ကရုပ်ပိုးကလေးများနှင့် အင် ဇိုင်းများ ပျက်စီးသွားအောင် ချက်လိုက်ခြင်းဖြစ်၍၊ ဒုတိယ အချက်မှာ ထိုချက်ပြီးအစားအစာထဲသို့ ပိုးကလေးများ နောက်ထပ် မဝင်လာနိုင်ရန် လေလုံအောင် ပိတ်လိုက်ခြင်း ဖြစ်သည်။ စည်သွတ်နည်းမှာ ဤနှစ်ချက်မျှသာ ဖြစ်သည်။ သို့သော် လုပ်ကိုင်ရာ၌ အခက်အခဲ များစွာရှိ၏။ စည်သွတ် မည့် သစ်သီး၊ သားငါးစသည့်ပစ္စည်းများသည် လတ်ဆတ်၍ အရင့်မှန်ရသည့်ပြင် ထည့်သွင်းသည့်အခါ၌ အစစ အရာရာ သန့်ရှင်းစင်ကြယ်စွာ ရှိစေရန် သန့်ပြန့်စွာ ဆေးကြောပြီးမှ ထည့်ရသည်။

စီးပွားဖြစ် စည်သွတ်လုပ်ငန်းစက်ရုံများတွင်မည်သည့်စည် သွတ်နည်းကို သုံးသည်ဖြစ်စေ အစားအစာဖက်ဆိုင်ရာ ဓာတု ဗေဒပါရဂူသည် အရေးကြီးလှပေသည်။ စည်သွတ် လုပ် ငန်း အဆင့်ဆင့်တွင် အစားအစာများ၌ မိုက္ကရုပ်ပိုးများနှင့်



ရပ်ဝေးသို့ မပို့မီ အမဲဟင်းလျာများကို မပုပ်မသိုးဘဲ လတ်ဆတ်စွာ ကြာရှည်ခံအောင် အထူး စီမံထားသော အအေးခန်းများတွင် သေချာစွာ သိမ်းဆည်းထားရသည်။

အင်ဇိုင်းများ သေကြေပျက်စီးခြင်း ရှိ မရှိ၊ နောက်ထပ် ဝင်မဝင်၊ ခွန်အားဖြစ်စေသည့် ဗီတာမင်ဓာတ်များ ပါ မပါစသည်တို့ကို အသေအချာ တာဝန်ခံ၍ စစ်ဆေးကြည့်ရသည်။ သန့်ရှင်းရေး၌လည်း အထူးကြပ်မ၍ စောင့်ရှောက် ပေးရလေသည်။

စည်သွတ်ရာ၌ ကျက်အောင် ချက်ပြီးမှ စည်သွတ်နည်းနှင့် အစိမ်းလိုက် စည်သွတ်နည်းဟူ၍ အဓိကနည်းကြီး နှစ်နည်းရှိ၏။ ကျက်အောင် ချက်ပြီးမှ စည်သွတ်သည့်နည်းတွင် အစားအစာများကို သန့်ရှင်းစင်ကြယ်သော အိုးကြီးထဲ၌ အပူချိန် ဖာရင်ဟိုက် ၂၁၀ ထိအောင် ထား၍ မိုက္ကရုပ်ပိုး ကလေးများနှင့် အင်ဇိုင်းများပျက်စီးသွားသည့်တိုင်အောင် အတန်ကြာ ချက်ထားသည်။ အခြားအိုးတခုတွင် သံဗူးနှင့်အဖုံးများကို ပိုးများသေသည့်တိုင်အောင် ပြုတ်ထားရသည်။ ထိုနောက် ချက်ထားသည့်ပစ္စည်းကို သံဗူးတွင်ထည့်၍ လေလုံအောင် ပိတ်လိုက်လေသည်။ ဤနည်းတွင် သံဗူးကို မပိတ်မီ မိုက္ကရုပ်ပိုးများ ဝင်ရောက် နိုင်သောကြောင့် အမြဲတမ်းအောင်မြင်သည် မရှိချေ။

အစိမ်းလိုက် စည်သွတ်နည်းတွင် အစား အစာများကို သံဗူးတွင် ပဌမ အစိမ်းလိုက်စီထည့်၍ ပိတ်ပြီးလျှင် အပူချိန် ဖာရင်ဟိုက် ၂၅၀ ထိ အပူတိုက်ပေးကာ သံဗူးအတွင်းရှိ အစာကို ကျက်အောင် ချက်ပေးသည်။ ဤနည်းတွင် ပြင်ပမှ နောက်ထပ် မိုက္ကရုပ် ပိုးများ မဝင်လာနိုင်သောကြောင့် ကျက်အောင် ချက်ပြီးမှ စည်သွတ်သည့်နည်းထက် ကောင်းသဖြင့် ဤနည်းကိုသာ အသုံးများကြသည်။

နွားနို့ကို အခြားအစားအစာများထက် ပို၍ စည်သွတ် ရောင်းချကြသည်။ နို့ဆီ၊ နို့စိမ်း၊ နို့မှုန့်များသည် စည်သွတ်နို့များဖြစ်ကြရာ မိခင်နှင့်ကလေးများအတွက် များစွာ အထောက်အကူရလေသည်။ မကြာသေးမီက နို့ဆီနှင့် နို့စိမ်းများကို စည်မသွတ်မီ ခရမ်းဘေး ရောင်ခြည်များတွင် အတန်ကြာအောင် ပြပြီးမှ စည်သွတ် ကြသည်။ ယင်းသို့ ခရမ်းဘေး ရောင်ခြည်များတွင် ပြလိုက်ခြင်း အားဖြင့် ဗီတာမင် 'ဒီ' ဓာတ် ပါဝင်လာသည်။ အသားနှင့် ပင်လယ်ငါးများကိုလည်း အကြီး အကျယ် စည်သွတ်၍ ရောင်းချကြရာ အတော်ပင် ခေတ်စား၍ လာပေသည်။ အထူးသဖြင့် စည်သွတ် အမဲသားများသည် စစ်တပ်များအဖို့ အလွန် အသုံးဝင်သော ရိက္ခာများ ဖြစ်ကြသည်။ စည်သွတ် အသားများကို အချိန်အခါ ရာသီမရွေး စားနိုင်သည့်ပြင် သယ်ယူပို့ဆောင်ရာ၌လည်း များစွာ လွယ်ကူသည်။ ထိုကြောင့် စစ်ဖြစ်ပွားသည့်အခါတိုင်း စည်သွတ်အသားလုပ်ငန်းမှာ အထူး တိုးတက်ဖွံ့ဖြိုးလာလေသည်။ ဒုတိယကမ္ဘာစစ်ကြီး အ

တွင်း၌ ဆိုလျှင် အသားများကို အမြောက်အမြား စည်သွတ်၍ စစ်မျက်နှာအမျိုးမျိုးသို့ ပို့ခဲ့ရလေသည်။

အစားအစာများကို အအေးခံထားခြင်း အားဖြင့်လည်း မပုပ်မသိုးဘဲ ကြာရှည်စွာထားနိုင်သည်။ အစားအစာတွင်ရှိသော မိုက္ကရုပ်ပိုးကလေးများနှင့် အင်ဇိုင်းများသည် အအေးဒဏ်ကို ခံရသောအခါ မလှုပ်မရှားနိုင် ဖြစ်သွားသောကြောင့် အစာများမှာ လတ်ဆတ်၍နေတော့၏။ ထို့ကြောင့် သား ငါး၊ အသီးအရွက်များကို အအေးသိုလှောင်ခန်းတွင် ထား၍ စားသုံးကြသည်။ အအေးသိုလှောင်ခန်း၏ အပူချိန်မှာ ဖာရင်ဟိုက် ၃၃° မှ ၄၅° အထိ ထားရှိသည်။ အအေးသိုလှောင်ခန်းတွင် သားငါးများကို မပုပ်မသိုးဘဲ ၈ လမှ ၁၀ လထိအောင် သိုလှောင်ထားနိုင်သည်။ ဤနည်းသည် မသိုးစာ စီမံရာ၌ ခေတ်အမှီဆုံး နည်းတနည်း ဖြစ်ပေသည်။

အခြောက်လှန်းခြင်းသည်လည်း မသိုးစာ စီမံရာ၌ ငွေကြေးအကုန်အကျနည်းပြီး ခရီးရောက်သော နည်းတနည်းဖြစ်သည်။ အခြောက် လှန်းလိုက်သောအခါ အစားအစာများထဲမှ ရေများ ခန်းခြောက်သွားသောကြောင့် မိုက္ကရုပ်ပိုးကလေးများနှင့် အင်ဇိုင်းများ သေကြေပျက်စီးကုန်ကြရကား မပုပ်သိုးနိုင်တော့ပေ။ အစားအစာအခြောက်များကို ဒုတိယကမ္ဘာစစ်ကြီးအတွင်းက အမြောက်အမြား လုပ်ကိုင်ကြပြီးလျှင် စစ်သည်တော်များအတွက် စစ်မျက်နှာ အမျိုးမျိုးသို့ တင်ပို့ခဲ့ကြလေသည်။

**မသိုးသက်န်း။** ။တန်ဆောင်မုန်းလတွင် မြတ်စွာ ဘုရားအား ရည်စူး၍ မသိုးသက်န်းကပ်လှူပွဲများ ကျင်းပကြသည်။ မသိုးသက်န်းဆိုသည်မှာ နောက်တနေ့သို့ ကူးမသွားစေဘဲ အရုဏ်မတက်မီ နေ့ခြင်းပြီး ပြုလုပ် လှူဒါန်းသော သက်န်းကိုဆိုသည်။ ယင်းမသိုးသက်န်းကား ကထိန်သက်န်းကို အတုယူ၍ ပြုလုပ်ဟန်တူသည်။ အကြောင်းကား ကထိန်ခင်းရာ၌ ကထိန်ပြီးမြောက်ကြောင်း အင်္ဂါရပ်အများ ရှိရာ "အသန္နိဓိကတေန၊ မသိုးသောသက်န်းဖြင့်။ ကထိန်၊ ကထိန်သည်။ အတ္ထတံ၊ အခင်းမည်သည်။ ဟောတိ၊ ဖြစ်၏" ဟု မြတ်စွာဘုရား ပညတ်ချက်အရ မသိုးသော သက်န်းဆိုသည်မှာလည်း နောက်တနေ့သို့ ကူးမသွားစေဘဲ၊ အရုဏ်မတက်မီ နေ့ခြင်းပြီး ပြုလုပ်လှူဒါန်းသော သက်န်းကို ဆိုသောကြောင့် ဖြစ်သည်။ သိုး၊ မသိုး ဆိုရာ၌လည်း လောက၌ လူတို့စားသောက်သော အချို့အစာအာဟာရသည် ညဥ့်လွန်၍ နောက်တနေ့သို့ ကူးသွားလျှင် သိုးတတ်သည်ကို အစွဲပြု၍ မသိုးသောသဘောရှိသော သက်န်းကိုလည်း နောက်တနေ့သို့ ကူးသွားလျှင် တင်စား၍ သိုးသည်။ နေ့ခြင်းပြီး ဖြစ်လျှင် မသိုးဟု သုံးစွဲကြခြင်း ဖြစ်သည်။

တန်ဆောင်မုန်း လဆန်း ၁၄ ရက်နေ့ နေဝင်သည်နှင့် တပြိုင်နက် လူအများကို ဖိတ်ကြား၍ ဝါစေ့ကို ကြဲပက်ကြရသည်။ ဤကဲ့သို့ စတိကြဲပက်ပြီးလျှင် ဝါပေါက်ကို ကောက်၍ ဝါဖန်ကြ၏။ ဝါကြိတ်ကြ၏။ ရသောဝါဂွမ်းကို ဖတ်ကြရသည်။တဖန် ဂွမ်းဖတ်ကို ဗိုင်းတောင် လိပ်ကြပြန်သည်။ ဗိုင်းတောင့်ကို ခြည်ငင်ကြ၏။ ခြည်ခင်ကို ယောက်ကြ၏။ ယောက်ပြီး ခြည်ခင်ကို ခြည်ဆိုး၊ အစာတင်ပြီးလျှင် မီးတွင် လှန်းကြ၏။ သွေ့ခြောက်အောင် လှန်းပြီး ခြည်ကို ရက်ဖောက်ယောက်ကြ၏။ ရက်ဖောက်ယောက်ပြီးလျှင် ရက်ကန်းရှယ်ကြသည်။ ရှယ်၍ပြီးလျှင် ရက်ကန်းစင်သို့ တင်၍ လျှင်မြန်စွာဆက်လျက် သက်န်းဖြစ်အောင် ရက်ကြရသည်။ နေအရုဏ်မတက်မီ ရက်ပြီးချုပ်ပြီး၍ ရသောသက်န်းကို မြတ်စွာဘုရားအား ရည်စူး၍ ကပ်လှူကြရာ ထိုသက်န်းကို မသိုးသက်န်းဟု ခေါ် သည်။



မသိုးသက်န်းကို ညချင်းပြီး အားသွန်ကြိုးပမ်း ရက်နေစဉ်

**မဟာကစ္စည်းထေရ်။** ။မဟာကစ္စည်းထေရ်သည် ဂေါတမ မြတ်စွာဘုရားလက်ထက်တော်တွင် တေဒဂ်ရ ထင်ရှားသော ရဟန္တာတပါး ဖြစ်သည်။

အဝန္တိတိုင်း၊ ဥဇ္ဇေနီပြည် စန္ဒပဇ္ဇောတမင်းကြီး၏ မိတ်ဆွေဖြစ်သော ပုဏ္ဏားကြီး၏ မယားတွင် ဖွားမြင်သော သားဖြစ်၍၊ ကဉ္စနဟု အမည်တွင်သည်။ အရွယ်ရောက်သော် ဗေဒင်

သုံးပုံနှံ့စပ်၍၊ ပုရောဟိတ်အရာ ရသောအခါ ကစ္စာယနဟု တွင်သည်။

တခါသော် စန္ဒပဇ္ဇောတမင်းသည် ရာဇဂြိုဟ်ပြည်၌ ဘုရား ရှိတော်မူကြောင်း သိရသဖြင့် ကစ္စာယနပုရောဟိတ်ကို ပင့် စေသည်။ ကစ္စာယနလည်း ရဟန်းပြုခွင့်ရလျှင် ပင့်မည်ဟု ဝန်ခံ၍ မင်းကြီးက ခွင့်ပေးသော် မြတ်စွာဘုရားထံ သွား ရောက်သည်။ ရောက်ရှိ၍ တရားတော်ကို နာကြားရလျှင် အရဟတ္တဖိုလ်ကိုရသည်။ မြတ်စွာဘုရားက ဧဟိဘိက္ခုခေါ် တော်မူ၍ ရဟန္တာအဖြစ်သို့ ရောက်သည်။ ကစ္စည်းထေရ်ဟု ထင်ရှားလေသည်။

ထိုနောက် မြတ်စွာဘုရား၏ ခွင့်ပြုချက်အရ ဥဇ္ဇေနီပြည်သို့ ရှေးဦးစွာ ကြွသွားသည်။ ရောက်လျှင် မင်းကြီးအား အ ကြောင်းကို ပြန်ကြားသည်။ မင်း၏ မိဖုရားလည်း မဟာ ကစ္စည်းထေရ်အား ကြည်ညိုသဖြင့် ကျောင်းကြီး ဆောက် လုပ် လှူဒါန်းသည်။

မဟာကစ္စည်းထေရ်သည် အခြားတပါးသောသူထက် အ ဆင်းအဝါ သပ္ပါယ်သည်။ လျှင်သောပညာ၊ ထက်သော ပညာ၊ နက်နဲသော ပညာတို့နှင့်လည်း ပြည့်စုံသည်။ ထို ကြောင့် မြတ်စွာဘုရားသည် မဟာကစ္စည်းထေရ်အား နက်နဲ ထက်မြက်သော ဉာဏ်အရာတွင် ဝိဘဇ္ဇန္တာနံတေဒဂ် ဘွဲ့ထူး ဖြင့် ချီးမြှောက်တော်မူသည်။

**မဟာကဿပထေရ်။** ။ကဿပထေရ် — ရှု။

**မဟာစည်သူ။** ။ထွန်းညို၊ ဦး၊ တွင်းသင်းတိုက်ဝန် မဟာ စည်သူ — ရှု။

**မဟာဆွေ** (မြန်မာ ၁၂၆၂ – ၁၃၁၅)။ ။ မဟာဆွေ သည် ကာလပေါ် ဝတ္ထုများနှင့် ဆောင်းပါး အမြောက် အ မြား ရေးသားခဲ့သောထင်ရှားသည့် နိုင်ငံကျော်စာရေးဆရာ တဦး ဖြစ်သည်။ မဟာဆွေသည် မိမိရေးသားသော ဝတ္ထု ဆောင်းပါးများတွင် စာရှုသူတို့ မျိုးချစ်စိတ် ပွားများလေ အောင် သွေးထိုးပေးသဖြင့် လွတ်လပ်ရေးကို လှုံ့ဆော်အား ပေးသော မျိုးချစ် စာရေးဆရာဖြစ်၏။ ထို့ပြင် အမှားပြုနေ ကြသည်ကို ပြုပြင်နိုင်စေရန် ဆိုင်ရာသူတို့၏ ချွတ်ယွင်းချက် ကို ရဲဝံ့စွာ တင်ပြတတ်သောကြောင့် ခေတ်ပြင် ဆရာလည်း မည်ပေသည်။

မဟာဆွေသည် သက္ကရာဇ် ၁၂၆၂ ခုနှစ် ဝါခေါင်လဆန်း ၈ ရက် (ခရစ် ၁၉၀၀ ပြည့်နှစ် ဩဂုတ်လ ၂ ရက်) နေ့တွင် စစ်ကိုင်းမြို့ မင်းစံရပ်နေ ကုန်သည်မျိုးရိုးဖြစ်သော အဖ ဦး အောင်ငြိမ်း၊ အမိ ဒေါ်မြင့်တို့မှ ဖွားမြင်သည်။ မွေးချင်း ၄ ယောက်အနက် တတိယ ဖြစ်သည်။ နာမည်ရင်းမှာ မောင်ဘ ရှိန် ဖြစ်သော်လည်း နောင်သော် ဝတ္ထုဆောင်းပါးများ ရေး သားရာ၌ သူ၏ အမည်ကို ဘဆွေဟု ထင်မှတ် ရေးသားခဲ့ သဖြင့် အချို့မိတ်ဆွေများသည် သူ့အား ကိုဘဆွေ၊ဦးဘဆွေ ဟုပင် ထင်မှတ် ခဲ့ကြလေသည်။

ငယ်စဉ်က စစ်ကိုင်းတွင် ဘုန်းတော်ကြီး ဦးသီလ အုပ်ချုပ် သော ရွှေတောင်ဦးကျောင်းတွင် ပညာအခြေခံ ယူခဲ့သည်။ သက္ကရာဇ် ၁၂၇၂ ခုနှစ် ၁၀ နှစ်အရွယ်တွင် ဗုဒ္ဓ အယူဝါဒီတို့၏ ထုံးစံအတိုင်း သာမဏေဘောင်သို့ သွတ်သွင်းခြင်း ခံရသည်။ သို့သော် အခြားကလေးများကဲ့သို့ ရက်အနည်းငယ်မျှသာ မကဘဲ ဆက်လက်၍ ၂ နှစ်တိုင် သာမဏေဝတ်ခဲ့သည်။ ကိုရင် ဘဝနှင့် အားလပ်သည့်အချိန်တွင် ယောသိတာဝန် ဆရာ တော်ထံမှ လောကုတ္တရာစာများကို ဆည်းပူး၏။ သင်္ဂြိုဟ် ၉ ပိုင်းလုံးကို ဝါတွင်း ၃ လအတွင်း ပါဠိအနက် အဓိပ္ပါယ်နှင့် တကွ သင်ယူခဲ့လေသည်။

မဟာဆွေသည် အင်္ဂလိပ်စာ တတ်လိုလှသဖြင့် ၃ တန်း တွင် နေစဉ်က တကြိမ်၊ ၅ တန်းရောက်စဉ်က တကြိမ် စစ်ကိုင်း မြို့ အထက်တန်းကျောင်းသို့ ပြောင်းပေးပါရန် ဖခင်အား ပူ ဆာသော်လည်း အကြောင်း မထူးပေ။ အင်္ဂလိပ်စာကို တတ် လိုစိတ် ပြင်းထန်လွန်းရကား မီးရထားကုန်ရုံစာရေးကြီး ဦး ဘအုန်းထံချဉ်းကပ်၍ ဦးစွာ အင်္ဂလိပ်စာကို သင်ယူရသည်။ နေ့စဉ် အိမ်မှုကိစ္စတာဝန်များကိုလည်း မပျက်စေဘဲ ၆ လမျှ သင်ပြီးသည့် အချိန်တွင် ဦးဘအုန်း ပြောင်းရွှေ့သွားသော ကြောင့် ခေတ္တရပ်နားနေရသည်။ မျှားမကြာမီ ဦးဘမြိုင် ဆိုသူက မိမိအားလပ်သောအချိန်များတွင် သင်ပေးသည်။ ၇ တန်းအောင်ပြီးနောက် ဖခင်၏ ဆန္ဒအရ ၂ နှစ်နီးပါးမျှ ပွဲစား ဦးဘဝင်းထံ ကုန်သည် ပွဲစား အလုပ်သင်သည်။ ထို နောက် ရွှေတောင်ဦးကျောင်းတွင် ၈ တန်းကျောင်း ဖွင့် သဖြင့် ဆက်လက်ပညာသင်ယူသည်။

၈ တန်းမြန်မာစာ၌ ဆန်းအလင်္ကာနှင့်တကွ ကဗျာလင်္ကာ များကို သင်ယူရသဖြင့် စာရေးဆရာဖြစ်အောင် အခြေခံကို ထိုစဉ်ကပင် ရခဲ့သည်ဟု ဆိုနိုင်ပေသည်။ စစ်ကိုင်းကျောင်းမှ အစိုးရ ၈ တန်း စာမေးပွဲဖြေဆိုရာ မြန်မာနိုင်ငံလုံးဆိုင်ရာတွင် တတိယစွဲ၍ ဂဏန်းနှင့် အင်္ဂလိပ်စာတို့တွင် ဂုဏ်ထူးနှင့် အောင်မြင်ခဲ့၏။ စစ်ကိုင်းကျောင်းတွင် ဆက်လက်မနေလို သဖြင့် မန္တလေးနော်မန်ကျောင်းခေါ် ဆရာဖြစ်သင်ကျောင်း သို့ မိဖများအား အတင်းအကြပ် ပူဆာပြီးလျှင် ခရစ် ၁၉၂၀ ပြည့်နှစ်တွင် ပြောင်းရွှေ့သည်။ ကျောင်း ပြေးခုန်ကစားပွဲ များတွင် ဝါသနာအလျောက် ပါဝင်ခဲ့သော်လည်း ဘောလုံး ကန်ခြင်းတွင်သာ ထူးချွန်သဖြင့် ကျောင်းဘောလုံးသင်းတွင် ပါဝင်ရလေသည်။

မန္တလေး နော်မန်ကျောင်းမှ ၉ တန်းအောင်၍ ထို ကျောင်းမှပင် ဆရာဖြစ်လက်မှတ်ရပြီးနောက် ဦးစွာ၌ ရွှေ



နိုင်ငံကျော် မျိုးချစ်စာရေးဆရာ တဦးဖြစ်သူ မဟာဆွေ

ဘိုခရိုင် ဝက်လက်မြို့တွင် ခရစ် ၁၉၂၅ ခုနှစ်မှ ၁၉၂၉ ခုနှစ်တိုင် ၄ နှစ်မျှ ကျောင်းဆရာအဖြစ် လုပ်ကိုင်ခဲ့သည်။ ထိုနောက် ဟိုပင်မြို့သို့ ပြောင်းရွှေ့လုပ်ကိုင်ရသည်။ ၁၉၃၁ ခုနှစ်တွင် ဝက်လက်သို့ ပြောင်းရပြန်သည်။ ထိုအတောအတွင်း ဟိုပင်မြို့မှ မကြည်ကြည်နှင့် အိမ်ထောင်ကျသည်။ ၁၉၃၂ ခုနှစ် ဖေဖွာရီလတွင် အလုပ်မှ ထွက်ရသည်။ ၉ လအကြာတွင် ခင်ဦးမြို့၌ ကျောင်းဆရာအလုပ် ရပြန်သည်။ ခင်ဦးတွင် နေစဉ် ရေဦး သခင်ခေါင်းဆောင်များနှင့် မိတ်ဆွေဖြစ်ခဲ့သည်။ ခင်ဦးသို့ သခင်လူငယ်များ လာရောက်၍ တရားဟောသောအခါ မိမိအိမ်တွင်ပင် လက်ခံခဲ့လေသည်။ ထိုနောက် မဟာဆွေသည် ဆရာဘဝနှင့် တသက်လုံး မနေလိုသဖြင့် ဆရာ အဖြစ်မှ နုတ်ထွက်ကာ ဇာတိရပ်ရွာသို့ပြန်ပြီးသော် လူထုစည်းရုံးရေးအတွက် လူငယ်အသင်းများ ဖွဲ့စည်းပြီးလျှင် နိုင်ငံရေးလုပ်ငန်းများကို ပြင်းပြင်းထန်ထန် ဆောင်ရွက်သည်။ အစစအတော် စိတ်ချရသောအခါ ၁၉၃၉ ခုနှစ် စက်တင်ဘာလတွင် ရန်ကုန်သို့ထွက်ခွာလာသည်။ထိုအချိန်မှစ၍ ကလောင်ကို ကိုင်တော့သည်။ ကိုင်သည့် နေ့မှ စ၍ လခစားအလုပ် မလုပ်တော့ချေ။

မဟာဆွေဟူသောအမည်ကို မခံယူမီ ၁၉၁၇ ခုနှစ်လောက်မှစ၍ ဆောင်းပါး၊ ကဗျာများ ရေးသားလာခဲ့၏။ ၁၉၂၅ ခုနှစ်ခန့်တွင် သူငယ်ချင်း မောင်ကြော့၏အမည်ကို ယူပြီးလျှင် ကြော့ဝက်လက် အမည်နှင့် ကဗျာများ ရေးသားခဲ့သည်။ ၁၉၂၆ ခုနှစ်တွင် ဝက်လက်မြို့၌ ကျောင်းဆရာလုပ်စဉ် ဝတ္ထုများ စတင်ရေးသားခဲ့သည်။ သို့သော် စာရေးဆရာ နာမည်ကို ပုံသေ ကားကျ မယူသေးဘဲ၊ မောင်ရွှေကြော့၏ အရွှေ့ဝါသီက၊ မောင်ဝင်းကြော့၏တပည့် အစရှိသည်တို့ကို သုံး၏။ ရှေးဦးဆုံး ဝတ္ထုမှာ ၁၉၂၆ ခုနှစ် ဇွန်လ၊ သို့မဟုတ် ဇူလိုင်လထုတ် သူရိယ မဂ္ဂဇင်းတွင် ပါလာသော "ရွှေဖူးစာပြိုင်" ဝတ္ထုတို့ဖြစ်၍၊ ထိုဝတ္ထုအတွက် ပဋ္ဌမဆု ငွေ ၁၅ ကျပ်ရရှိသည်။ ထိုနောက် 'ရုံးပြာတာလေး'၊ 'ဘုန်းကြီးလူထွက်'နှင့်'ဆရာမ' စသည့် ဝတ္ထုတိုများလည်း ပဋ္ဌမဆုချည်း ရလေသည်။

မဟာဆွေဟူသော အမည်ကို ၁၉၂၉ ခုနှစ် ဇူလိုင်လထုတ် သူရိယမဂ္ဂဇင်းတွင် ပါရှိသော "မနန်းဝါ" ဝတ္ထုမှ စတင်ခံယူသည်။ ဤအမည်ကို ယူခြင်းမှာ မိမိသည် ကြီးမြင့်သော အမျိုးအဆွေမှ ပေါက်ဖွားခဲ့သူ တယောက်ဟူသော အထိမ်းအမှတ် မပျောက်စေရန် ရည်သန်၍ ယူခြင်းဖြစ်၏။ မဟာဆွေ့ဖခင်၏ အမိမှာ လေ့သင်းအတွင်းဝန် ဦးခြိမ့်၏ နှစ်မ ဖြစ်၏။ မိခင်၏အဖမှာ တိုင်တားမင်းကြီး၏ ညီအရင်း ဖြစ်လေသည်။

မဟာဆွေသည် ကျောင်းဆရာအလုပ်မှ အရမ်းနုတ်ထွက်ခဲ့သည် မဟုတ်။ သူရိယဦးသိမ်းမောင်၊ ကြီးပွားရေးမဂ္ဂဇင်း ဦးလှတို့နှင့် တိုင်ပင်ပြီးမှ ထွက်ခဲ့ခြင်းဖြစ်၏။ သူရိယ မဂ္ဂဇင်းတွင် စောရသက်ပြင်းတပုဒ်၊ မဟာဆွေတပုဒ်၊ ထို့ပြင် ရံဖန်ရံခါ မွန်းသော်တာအမည်နှင့် ဟာသဝတ္ထုများလည်း ရေးသား၏။ ကြီးပွားရေး မဂ္ဂဇင်းတွင်မူ လစဉ်မှန်မှန် နေသူရိန်အမည်နှင့် ဆောင်းပါးတပုဒ်၊ မဟာဆွေအမည်နှင့် ဝတ္ထုတိုတပုဒ် ရေးသားခဲ့၏။

အမ်၊ အေ ဦးမောင်ကြီး ဦးစီးထုတ်ဝေသော ရဲသတင်းစာတွင် မဟာဆွေသည် တာဝန်ခံ အယ်ဒီတာအဖြစ် ၂ နှစ်တာမျှ လခမယူဘဲ စေတနာဝန်ထမ်း ဆောင်ရွက်ခဲ့သည်။ ထိုအခါ မဟာဆွေ၏ အရေးအသားများကို ခြိမ်းမွမ်း ထောက်ခံသော စာများ အနယ်နယ်အရပ်ရပ်မှ ရရှိခဲ့သည်။ ရဲသတင်းစာကို ၁၉၃၇ ခုနှစ် မတ်လတွင် ရပ်စဲလိုက်ရလေသည်။

ထိုအတောအတွင်း မဟာဆွေသည် သူရိယရုပ်စုံတွင် 'ကြုံဘူးတယ်'၊ 'ထောင်နန်းစံ' ဝတ္ထုရှည် ၂ ပုဒ်၊ သူရိယ နေ့စဉ်တွင် 'အကျိုးဆောင်ကြီး'၊ 'ဒို့မေမေ'၊ 'နှစ်ဆင့်မေတ္တာ'၊ 'ကိုလူလိမ်'၊ 'စနေဂြိုဟ်'၊ 'ဆရာဝန်မို့' ဟူသော ဝတ္ထုရှည် ၆ ပုဒ်ကို ရေးသားခဲ့လေသည်။

၁၉၃၇ ခုနှစ် ဇူလိုင်လတွင် ကုလားမြန်မာ အဓိကရုဏ်းဖြစ်ပြီးလျှင် ထိုနှစ်ဒီဇင်ဘာလတွင် ဒေါက်တာဘမော်အစိုးရကို အာဏာဖီဆန်ရာ၌ မဟာဆွေလည်း စိတ်အားထက်သန်စွာ ပါဝင်ခဲ့သည်။ ထိုနောက် လျှို့ဝှက်အသင်း ထောင်၍ ယင်းအသင်း၏ အတွင်းရေးမှူးအဖြစ် ဆောင်ရွက်ခဲ့သည်။

မဟာဆွေသည် အသက် ၃၄ နှစ် ၃၅ နှစ်မှစ၍ ကျော်ကြားနေပြီဖြစ်၏။ စစ်ကြိုခေတ်တွင် ဝါဒဖြန့်ဖြူးရေး အရာရှိချုပ်အဖြစ် ခေတ္တမျှဆောင်ရွက်ခဲ့ဘူးသည်။စစ်ပြီးခေတ်တွင်

'ရတီမှန်'၊ 'မယ်တို့ပြည် မောင်တို့ပြည်' စသော ဝတ္ထုများနှင့် ကိုယ်ရေးအတ္ထုပ္ပတ္တိဖြစ်သော 'မဟာဆွေ၏ မဟာဆွေ' ကို ရေးသားသည်။ မဟာဆွေကိုယ်တိုင် ရေးသားသော်လည်း သူငယ်ချင်း တဦးက ရေးသားသည့် အနေနှင့် ရေးသားထားခြင်းဖြစ်သည်။

မဟာဆွေသည် စုစုပေါင်း ဝတ္ထုရှည် ၆၀ ကျော်၊ ဝတ္ထုတိုပေါင်း ၅၀၀ ကျော် ၆၀၀ နီးပါး၊ ရာပေါင်းများစွာသော ဆောင်းပါး ဝတ္ထုများကို ရေးသားခဲ့သည်။ ၁၃၁၅ ခုနှစ် ဒုတိယဝါဆိုလပြည့်ကျော် ၁၀ ရက် (၁၉၅၃ ခုနှစ်ဩဂုတ်လ ၅ ရက်) နေ့တွင် ဦးနှောက် အကြောပြတ်ရောဂါဖြင့် ကွယ်လွန်သည်။ တာမွေသုသာန်ရှိ စာဆိုဗိမာန်တွင် ဂူသွင်းသင်္ဂြိုဟ်သည်။ မဟာဆွေနှင့် ဒေါ်ကြည်ကြည် တို့တွင် ခင်ဆွေဦးနှင့် ခင်ဆွေအေးဟူ၍ သမီး ၂ ယောက် ထွန်းကားခဲ့၏။ သမီးအကြီး ခင်ဆွေဦးသည် နာမည်ကျော် စာရေးဆရာမတဦး ဖြစ်သည်။

မဟာဆွေသည် ကိုယ်တိုင် ဇွတ်တရွတ်သမားဖြစ်၏။ သို့ရာတွင် မိတ်ဆွေများအပေါ် ၌ ခင်မင်တတ်သည်။ မဟာဆွေသည် မိမိ၏ တိုင်းနိုင်ငံ ကျွန်ဘဝမှ လွတ်မြောက်အောင် ဟူသော ရည်သန်ချက်ဖြင့် စာရေးဆရာလုပ်ရခြင်း ဖြစ်ရကား၊ သူ၏ ဝတ္ထုဆောင်းပါးများတွင် သွေးထိုးလှုံ့ဆော်ချက်များဖြင့် ပြည့်နှက်နေပေသည်။ မဟာဆွေသည် အဟောနှင့် အပြောညီအောင် တတ်နိုင်သမျှ ကြိုးစားခဲ့သည်။ ရဲသတင်းစာနှင့် အခြားဝတ္ထုဆောင်းပါးများဖြင့် လူငယ်များအား သွေးထိုးပေးသည်။ ဤသို့ သွေးထိုးပေးသောကြောင့် စိတ်တက်ကြွသူများတွင် ဗိုလ်အောင်ကျော်လည်း ပါဝင်ပေသည်။ ဗိုလ်ချုပ်အောင်ဆန်းလည်း နေသူရိန်ဆောင်းပါးများကို များစွာ သဘောကျသည်ဟူ၏။ တတ်နိုင်သမျှ ကိုယ်တိုင်ကလည်း လက်တွေ့ လုပ်ပြရမည်ဟုသဘောထားကာ အာဏာဖီဆန်ခြင်း၊ လျှို့ဝှက်အသင်းများ တည်ထောင်ခြင်းတို့ကို ဆောင်ရွက်ခဲ့သည်။

မဟာဆွေ၏ ဝတ္ထုများအနက် 'ဒို့မေမေ'၊ 'သူပုန်ကြီး'၊ 'သူပုန်အိမ်' ဝတ္ထုတို့မှာ တော်လှန်ရေးသို့ လမ်းစပျိုးခဲ့သော စာပေများဖြစ်၏။ 'ဒို့မေမေ' ဝတ္ထုကို ဝတ္ထုသက်သက် ဖတ်သူအဖို့ တအိမ်ထောင် အနေနှင့် နားလည် ကြသော်လည်း၊ ရာဇဝင်နှင့် နိုင်ငံရေး နားလည်သူအဖို့ ပြင်သစ်တို့နှင့် အင်္ဂလိပ်တို့ မြန်မာနိုင်ငံကို မျက်စိကျခဲ့၍၊ အင်္ဂလိပ်တို့က မြန်မာနိုင်ငံကို သိမ်းပိုက်ကာ အဆီအနှစ် စုတ်ယူသည့် သဘောမှာ ထင်ရှား၏။ 'သူပုန်ကြီး'နှင့် 'ဒို့မေမေ' ဝတ္ထုတို့ကြောင့် သက်ရောက်သော အကျိုးမှာ ကုလားဗမာ အဓိကရုဏ်း ဖြစ်ပွားသောအခါ သူပုန်ကြီး ဝတ္ထုတွင် မြောက်ထားပေးသောကြောင့် ကုလားအိုးအိမ် အဆောက်အအုံများ မီးရှို့ဖျက်ဆီးခြင်း ခံရ၏။ ဒို့မေမေ ဝတ္ထုရေးပြီးနောက် ဖြစ်ပွားသော ရေနံမြေသပိတ်တွင် ရေနံတွင်းများ မီးရှို့ ခံရသည်။ ဗုံးနှင့် အပစ်ခံရလေသည်။

ခေတ်ပြုပြင်ရေးကို ရည်သန်၍ မဟာဆွေသည် သာသနာ့ဝန်ထမ်း ရဟန်းများ၏ ချွတ်ယွင်းချက်များကို "စျေးချိုသူ" ဝတ္ထုဖြင့် ရဲဝံ့စွာပြုပြင်ပေးခဲ့၏။ နတ်ကိုးကွယ်ခြင်း၊ ဘိုးဘိုးအောင် အားကိုးခြင်း ဝါဒများကို "ပျိုတောင်ပြုံး"၊ "ဒမစကြာ" စသော စာအုပ်များဖြင့် တိုက်ခဲ့၏။ မြင်းလောင်းကစားမှုများကို "စနေဂြိုဟ်" ဝတ္ထုဖြင့်တိုက်ခဲ့၏။ မဟာဆွေသည် ခေတ်အလိုသို့ မလိုက်ဘဲ မိမိကသာ ခေတ်ကြီးကို ဆွဲဆောင်ပြုပြင်ခဲ့သည်။ တခါက သူရေးသော "နေသူရိန်၏ မကြောက်တရား" စာအုပ်တွင် 'မိရိုးဖလာ ဗုဒ္ဓဘာသာ မဖြစ်ပါစေနှင့်' ဟု ရေးသားခဲ့သည်။

ဤသည်တို့မှတပါး စောရသက်ပြင်း ဝတ္ထုများမှာ စုံထောက်ဝတ္ထုဖြစ်၍ စာဖတ်ပရိသတ်အတော်ပင် စွဲမက်လျက်ရှိသည်။ "စာရေးကြီး" ဝတ္ထုမှာ ဟာသဝတ္ထုသက်သက် ဖြစ်သည်။ 'မယ်တို့ပြည် မောင်တို့ပြည်' ဝတ္ထုမှာ ရှေးနှစ်ပေါင်း တရာခန့်ကို မြော်ခေါ် ရေးသားထားသော ဝတ္ထုဖြစ်သည်။ "စစ်ထွက်သူ" နှင့် "ဘိုးဝဇီရ" တို့မှာ စာပေဝတ္ထုသက်သက် ဖြစ်သည်။ မဟာဆွေသည် အချစ်ဝတ္ထုများလည်း ရေးခဲ့လေသည်။ မြန်မာပြည်တွင် အိမ်ထောင်မှုအတွင်းရေးများနှင့် လိင်ပြဿနာများကို ပွင့်ပွင့်လင်းလင်း ရေးသား ဆွေးနွေးကြခြင်း မပြုကြသေးမီ "အချစ်ပြဿနာ" စာအုပ်နှင့် အိမ်ထောင်သည်များ သိအပ်သော လိင်ကိစ္စများကိုလည်း ပြုစုရေးသားခဲ့သေးသည်။ မဟာဆွေသည် ဤသို့အားဖြင့် စာပေအမျိုးမျိုးကို ပြုစုသွားလေသည်။

**မဟာဇနကဇာတ်တော်ကြီး**။ ။ဇနကဇာတ်တော်–ရှု။

**မဟာနော်ရထာ**။ ။မဟာနော်ရထာသည် ကုန်းဘောင်ခေတ်တွင် ထင်ရှားသော ဗိုလ်ချုပ်ကြီး ဖြစ်၍ အလောင်းဘုရား၊ နောင်တော်ကြီး၊ ဆင်ဖြူရှင်မင်း လက်ထက်တော်များတွင် အမှုတော်ထမ်းရွက်လေသည်။

မဟာနော်ရထာသည် အလောင်းဘုရား လက်ထက်တွင် မင်းလှသီရိ ဟူသော ဘွဲ့နှင့် ကြည်းဖက်၊ ရေဖက်တွင် အမှုတော် ထမ်းရွက်ခဲ့သူ ဖြစ်ပေသည်။ အလောင်းဘုရားသည် ပြည်မြို့ကို တိုက်ခိုက်သောအခါ ရေကြောင်းတပ်တတပ်ကို ကွပ်ကဲ ပါဝင်ခဲ့၏။ ပဲခူး၊ ဒလတိုက်ပွဲတွင်ကား ကြည်းတပ်ကို အုပ်ချုပ်ရလေသည်။

အလောင်းဘုရား လွန်သည်နောက် နောင်တော်ကြီးမင်း လက်ထက်တွင် ဇင်းမယ် ထောင်ထားသည်ကို မင်းလှသီရိသည် စစ်သူကြီးအဘယဂါမဏိနှင့်အတူ နှိမ်နင်းရန် ချီတက်ရသည်။ ဆင်ဖြူရှင်မင်း နန်းတက်သောအခါ နောင်တော်ကြီး

မင်းလက်ထက်က ဇင်းမယ် ၅၇ ခရိုင်အား အောင်မြင်စွာ နှိမ်နင်းခဲ့သည်ကို နှစ်ထောင်းအားရရှိတော်မူ၍ မင်းလှသီရိကို မဟာနော်ရထာဘွဲ့ ပေးအပ် ချီးမြှင့်လေသည်။

ဆင်ဖြူရှင်မင်းလက်ထက် ခရစ် ၁၇၆၄ ခုနှစ်မှ ၁၇၆၇ ခုနှစ်တိုင် ဖြစ်ပွားသော ယိုးဒယား–မြန်မာစစ်ပွဲတွင် မဟာနော်ရထာသည် ဗိုလ်ချုပ်အဖြစ် ပါဝင်ဆင်နွှဲခဲ့သည်။ မဟာနော်ရထာသည် စစ်သည်ရဲမက်ပေါင်း ၂ သောင်းနှင့်အတူ ထားဝယ်ကြောင်း ချီရ၏။ မဟာနော်ရထာ၏ တပ်များကို ယိုးဒယားတို့ ဆီးကြိုတိုက်ခိုက်ကြ၏။ နောင်တပူရီ အနီး၌ စခန်းချထားသော မြန်မာတပ်များအား ယိုးဒယားတို့သည် ဗြိတိသျှ သင်္ဘောတစင်း အကူအညီဖြင့် အမြောက်များနှင့် ပစ်ခတ် တိုက်ခိုက်ခဲ့သည်။ သို့ရာတွင် မဟာနော်ရထာ၏ တပ်များကို ဟန့်တားခြင်းငှါ မစွမ်းပေ။ သို့ဖြင့် မဟာနော်ရထာ၏ တပ်များသည် ယိုးဒယားနိုင်ငံ အယုဒ္ဓယ မြို့တော်အပြင်ဝယ် ကျိုင်းတုံကြောင်းချီ သီဟပတေ့ တပ်များနှင့် ပေါင်းဆုံမိလေတော့သည်။ ယိုးဒယားဘုရင်သည် အယုဒ္ဓယမြို့ကို အခိုင်အခံ့ ဆို့ပိတ်၍ ခုခံ၏။ မြန်မာတပ်များသည် မဟာနော်ရထာနှင့် သီဟပတေ့၏ စီမံအုပ်ချုပ်မှုအောက်တွင် အယုဒ္ဓယမြို့ကို ဝိုင်းရံထားကြလေသည်။ ယင်းသို့ မဟာနော်ရထာနှင့် သီဟပတေ့၏ တပ်များ ဝိုင်းရံထားသည်မှာ တဆဲ့လေးလတိုင်ဖြစ်၏။ ဝိုင်းရံနေစဉ်ပင် မိုးကျလာသည်။ မြန်မာတပ်တို့သည် ကုန်းမြင့်ပိုင်း၌ရှင်း၊ လှေများပေါ်၌ရှင်း နေကြရ၏။ အဖျားအနာရောဂါများထူပြောလာသည်။ မဟာနော်ရထာသည်လည်း ဖျားနာကာ သေဆုံးရလေသည်။ ဗိုလ်ချုပ်မဟာနော်ရထာ၏အလောင်းကို ခမ်းနားကြီးကျယ်စွာ မြှုပ်နှံသင်္ဂြိုဟ်ကြလေသည်။

**မဟာပညာကျော်**။ ။မဟာ ပညာကျော်သည် ရခိုင်ပညာရှိအမတ်ကြီးတဦးဖြစ်၍ သက္ကရာဇ် ၉၁၅–၉၅၅ ခုနှစ်အတွင်း ဓညဝတီပြည် မြောက်ဦးမြို့၌ နန်းစံတော်မူသော မင်းဖလောင်း လက်ထက်တွင် ထင်ရှား ကျော်စော၏။ မင်းရေးကိစ္စဟူသမျှတွင် မင်းဖလောင်းသည် မဟာပညာကျော်နှင့် တိုင်ပင်၍ တိုင်းရေးပြည်မှုကို မလိပ်လည်းရအောင် ဆောင်ရွက်ခဲ့လေသည်။ ပညာရှင်ကြီးဖြစ်သည့် အလျောက် တရားရေးရာ အမှုအခင်း ခဲရာခဲဆစ်တို့ကို အမတ်ကြီးသည် လွယ်ကူစွာ ဖြေရှင်းပေးနိုင်ခဲ့၏။ မင်းဖလောင်း လွန်လေပြီးသည့်နောက် သားတော် မင်းရာဇာကြီး လက်ထက် တိုင်အောင် အပါးတော်၌ ဆက်လက် ခစားခဲ့ရ၏။ မဟာပညာကျော် လျှောက်ထားသဖြင့် ပြီးမြောက်သမျှသော ကိစ္စအဝဝ တို့ကို စုဆောင်း၍ "မဟာပညာကျော် လျှောက်ထုံး" ဟူသော ကျမ်းတစောင်ရှိရာ မြန်မာစာပေသမိုင်းတွင် ထင်ရှားသည်။

သက္ကရာဇ် ၉၅၈ ခုနှစ်တွင် ဟံသာဝတီကို အုပ်စိုးသော ငါးဆူဒါယကာ-နန္ဒဘုရင်အား သားတော်ပြည်ဘုရင် သတိုးဓမ္မရာဇာက ပုန်ကန်၏။ ယိုးဒယားကလည်း မကြာခဏ အနှောင့်အယှက်ပြု၏။ ထို့ကြောင့်နန္ဒဘုရင်သည်မိမိ၏ညီတော်များအပေါ်၌ မယုံမကြည်ရှိသဖြင့် တောင်ငူမင်းမှာ သားတော် နတ်ရှင်နောင်နှင့် ဥပေါသထဆင်ကိုင်ရှင်း၊ ဇင်းမယ် မင်းမှာ ဇင်းမယ်မင်း၏ သားတော် ကုလောင်နှင့် ဗမ္မု ကျက်သရေ ဆင်ကိုင်ရှင်း၊ ညောင်ရမ်းမင်းမှာ ညောင်ရမ်းမင်း၏ သားတော်ကြီး သခင်ကြီးလက်နှင့် ဗမ္မုတံဆိပ်ဆင်တို့ကိုင်ရှင်း ပေးရန် တောင်းလေ၏။ ထိုအခါ တောင်ငူမင်း၊ ဇင်းမယ်မင်းတို့က ငါတို့ကား နောင်တော်၏အမှုကို ကြိုးစားထမ်းဆောင်ပါလျက် သားသမီးဆင်မြင်းတို့ကို တောင်းတော်မူရက်သည်၊ နောင်တော်၏ သားတော် ပြည်ဘုရင် သတိုးဓမ္မရာဇာ ပုန်ကန်သည်ကို အဆိုးမဆိုသာပြီဟု မှတ်ယူကာ တောင်းသည်ကို မပေးဘဲ ပုန်ကန်ကြလေသည်။

တောင်ငူမင်းသည် ယင်းသို့ ပုန်ကန်ရာ၌ ဟံသာဝတီကို တိုက်ရန် ရခိုင်မင်းထံ စစ်အကူအညီတောင်း၏။ ဟံသာဝတီအောင်လျှင် ဆင်ကြီးမြင်းကြီးနှင့် သမီးကညာပေးပါမည်ဟူသောစာသဝဏ်ကို ကြည်းတောင်စားနှင့် ကင်းသားစားတို့အား ဆောင်ယူစေ၍၊ ရခိုင်မင်းအားလျှောက်တင်စေ၏။ ရခိုင်မင်း မင်းရာဇာကြီးလည်း သဘောတူတော်မူ၍ စစ်အကူအညီ ပေး၏။ ဤအရေးတွင် အမတ်ကြီး မဟာပညာကျော်လည်း ပါဝင်သည်။ အမတ်ကြီး မဟာပညာကျော်သည် တောင်ငူမင်း၏ စစ်ကူအဖြစ် ဟံသာဝတီကို လုပ်ကြံအောင်မြင်ပြီး၍ လက်ဆောင်ပဏ္ဏာများဖြင့် ရခိုင်သို့အပြန်လမ်းခရီးတွင် ကွယ်လွန်လေသည်။ အမတ်ကြီး၏ ရုပ်ကလာပ်ကို မော်တင်စွန်း စေတီအနီးတွင် သင်္ဂြိုဟ်လေသည်။

**မဟာဗန္ဓုလ** (မြန်မာ ၁၁၄၄–၁၁၈၆)။ ။မဟာဗန္ဓုလသည် ဘိုးတော်ဘုရားနှင့် ဘကြီးတော်တို့ လက်ထက်တွင် ရှုပ်ရှုပ်ချုံချုံ သက်စွန့်ကြိုးပမ်း အမှုတော်ထမ်းခဲ့သော မြန်မာစစ်သူကြီး ဖြစ်သည်။ ရွာငယ်တွင် မထင်ရှားသော အမျိုးအနွယ်မှ ဖွားမြင်လင့်ကစား စွမ်းရည်သတ္တိ၊ လုံ့လဝီရိယ၊ ကြိုးစားဆောင်ရွက်မှုတို့ကြောင့် နေမျိုး ဟူသောဘွဲ့ သာမက မင်းညီ မင်းသားတို့သာ ခံယူရရှိသည့် သတိုးဘွဲ့၊ ထို့ပြင် အိမ်ရှေ့မင်းသားတို့သာ ရခွင့်ရှိသော စစ်သူကြီး ဘွဲ့ကိုပါ ချီးမြှင့်ခံရသူဖြစ်၏။ မဟာဗန္ဓုလ၏ ဘွဲ့အပြည့်အစုံကား စစ်သူကြီး သတိုးသုဓမ္မ မဟာဗန္ဓုလ ဖြစ်၏။ မဟာဗန္ဓုလသည် ဘိုးတော်ဘုရားလက်ထက် မဏိပူရ အာသံတိုက်ပွဲများတွင် စွမ်းရည်သတ္တိနှင့်အတိုက်အခိုက်ကောင်းခြင်းတို့ကြောင့် ကျော်ကြားလာသည်။ ထို့နောက် ပဌမ အင်္ဂလိပ်-မြန်မာစစ်ပွဲတွင် မြန်မာတို့၏ စစ်သေနာပတိအဖြစ် ပါဝင်ဆင်နွှဲခဲ့သဖြင့် လက်နက်နိုင်ငံကြီးသားများဖြစ်သော ဗြိတိသျှတို့နှင့်

ယှဉ်ပြိုင် တိုက်ခိုက်ရသူ ဖြစ်ပေသည်။ မဟာဗန္ဓုလသည် မြန်မာလူမျိုးအပေါင်းတို့ ဂုဏ်ယူထိုက်သော မြန်မာသား ကောင်းရတနာ အာဇာနည်သူရဲကောင်း တယောက်ဖြစ်၏။ မဟာဗန္ဓုလ၏ စွမ်းရည်သတ္တိကို ဗြိတိသျှတို့ကပင် လေးစား ကြရပေသည်။



ဗြိတိသျှပြတိုက်တွင် ပြသထားသော စစ်သူကြီး သတိုးသုဓမ္မ မဟာဗန္ဓုလ၏ သံချပ်ဝတ် တန်ဆာ

မဟာဗန္ဓုလသည် ငယ်မည် မောင်ရစ်ဟုတွင်လျက် သက္က ရာဇ် ၁၁၄၄ ခုနှစ် တန်ဆောင်မုန်းလဆန်း ၁ ရက်နေ့တွင် အ လုံတိုက်နယ်၊ ငပယင်းရွာ၌ အဖဦးပေါက်တော အမိ မမိငြိမ် တို့မှ ဖွားမြင်သည်။ ငယ်ရွယ်စဉ်က ငပယင်း ရွာဦးကျောင်း ဆရာတော်ထံ၌ ပညာဆည်းပူးသည်။ ဖခင် ဦးပေါက်တော ကွယ်လွန်သောအခါ သားကြီးဖြစ်သည့်အားလျော်စွာ မိခင် နှင့် အတူ အိမ်ထောင်ကို ဦးစီးရသည်။ အရွယ်ရောက်သော် ရှင်မင်းဘူး အမည်ရှိသော အမျိုးသမီးနှင့် အိမ်ထောင် ဖက် သည်။ မိဖလက်ငုတ်ဖြစ်သော နှမ်းခင်းအလုပ်မှာ ဝင်ငွေ မမှန်သဖြင့် ဘိုးတော်ဘုရား နန်းစိုက်ရာ အမရပူရ နေပြည် တော်သို့ မင်းမှုထမ်းရန် ရွှေပြောင်းလာခဲ့သည်။ မောင်ရစ် သည် ဘိုးတော်ဘုရား၏သားတော် အိမ်ရှေ့မင်း၏ အဆောင် ၌ အမှုထမ်းရာ ကိုယ်ရံတော် အဆင့်သို့ ရောက်ခဲ့သည်။ အိမ် ရှေ့မင်းနတ်ရွာစံသော် စစ်ကိုင်းမင်းသားသည် အိမ်ရှေ့အရာ ကို ဆက်ခံသည်။ မောင်ရစ်သည် အိမ်ရှေ့မင်းသစ်ထံ၌ပင် ဆက်လက် အမှုထမ်းရွက်၏။ သို့သော် စစ်ကိုင်းမင်းသား သည် နတ်ရွာစံ အိမ်ရှေ့မင်းသားကဲ့သို့ မောင်ရစ်အား အ ရေးတယူ မရှိချေ။ ထို့ကြောင့် တခုသောညီလာခံတွင် မောင် ရစ်သည် အမှုထမ်း နန္ဒဗလအား ထုထောင်းသဖြင့် ညီလာခံ ရုတ်ရုတ်သဲသဲ ဖြစ်ရလေသည်။ အိမ်ရှေ့မင်းလည်း အမျက် ရှကာ မောင်ရစ်အား ချုပ်နှောင်စစ်ဆေး၏။ ထိုအခါ မိမိ အား အရေးတယူပြုခြင်း မရှိသည့်အတွက် ယခုကဲ့သို့ အရေး တယူပြုရန် ထုထောင်းရကြောင်း မောင်ရစ်က ရဲဝံ့စွာ လျှောက်ထား၏။ အိမ်ရှေ့မင်းသည် မောင်ရစ်အား အရေး မယူသည့်အပြင် ရဲဝံ့မှုကို သဘောကျနှစ်ခြိုက်ကာ မောင် ရစ်၏ ရဲဝံ့မှုကို ဘိုးတော်ဘုရားအား လျှောက်တင်ရာ ဘိုး တော်ဘုရားလည်း နှစ်သက်အားရတော်မူ၍ ဗြဲတိုက်သံဆင့် အရာ ခန့်ထားတော်မူသည်။ ၁၁၇၅ ခုနှစ်တွင် ဗြဲတိုက်သံ ဆင့် အရာမှ ဒီပဲယင်းမြို့ဝန်အရာသို့ နေမျိုးသူရရဲခေါင် ဟူ သောဘွဲ့ထူးနှင့် တိုးတက်ချီးမြှင့်ခြင်းခံရသည်။

ဘိုးတော်ဘုရားလက်ထက်တွင် မြန်မာတို့၏လက်အောက် ခံနယ်ဖြစ်သော မဏိပူရတွင် ထီးနန်းဆက်ခံရေး အရှုပ်အ ထွေး ရှိလေသည်။ မဏိပူရစော်ဘွား ဂျေဆင်း နတ်ရွာစံ၍ နန်းလုရာတွင် သားတော်အကြီး ချောဂျစ်ဆင်း (မဟာ ရာဇာ)က နန်းရ၍၊ သားငယ် မာဂျစ်ဆင်း(ဇူပရာဇာ)မှာ ဘိုးတော်ဘုရား ထီးနန်းရိပ်သို့ လက်ဆောင်ပဏ္ဏာနှင့် ခိုလှုံ လာသည်။ ဘိုးတော်ဘုရားသည် ထီးနန်းဆက်ခံရေး အ ရှုပ်အထွေးကိုပြေအေးစေလိုသဖြင့် ချောဂျစ်ဆင်းအား ခေါ် တော်မူသည်ကို မလာရောက်၍ မဏိပူရသို့ စစ်ချီစေသည်။ ထိုမဏိပူရမြန်မာစစ်ပွဲတွင် နောင်သော် ဗန္ဓုလဘွဲ့ရမည့် နေ မျိုးသူရရဲခေါင်သည် ဗိုလ်ချုပ် အတွင်းဝန် နေမျိုးမင်းလှ မဟာနော်ရထာနှင့်အတူ တမူးပန်းသာကြောင်းမှ ချီတက်ရ သည်။ ထိုစစ်ပွဲတွင် နေမျိုးသူရရဲခေါင်၏ စွမ်းရည်သတ္တိနှင့် တိုက်ရေးခိုက်ရေး ကျွမ်းကျင်မှုမှာ ပေါ်လွင်လာသည်။ စစ် ကဲ တပ်မှူးများသည်ပင်လျှင် နေမျိုးသူရရဲခေါင်၏ အစီအမံ ကို နာခံ၍ စစ်တိုက်ခိုက်ကြသည်ဟု အဆိုရှိသည်။

အာသံပြည်တွင် မြန်မာတို့ နန်းတင်ခဲ့သော ချန္ဒရကန္တာ ဆင်း(စန္ဒရကန္တရှိန်)အား ပုန်ကန်ကာ ပူရန္ဒာဆင်းမင်းသား အား နန်းတင်သည်ကို ဘိုးတော်ဘုရား ကြားလျှင် အလုံး အရင်းနှင့် အာသံပြည်သို့ ချီတက်စေ၏။ သက္ကရာဇ် ၁၁၇၈ ခုနှစ်တွင် မြန်မာတပ်များ ချီတက်ရာတွင် နေမျိုးသူရရဲခေါင် သည် တပ်ဦးမှ ချီတက်ရသည်။ အာသံဖက်မှ ဗိုလ်မှူးကြီး ဗူရာဂိုဟိန် ကြံ့ကြံ့ခံသော်လည်း အာသံပြည်မြို့တော် ဂျော်ရ ဟတ် (ဇူရဟတ်) မြို့မှာ ကျိုးပေါက်ခဲ့ပြီးလျှင် မြန်မာတို့

အောင်မြင်သည်။ ဤအာသံတိုက်ပွဲတွင်လည်း နေမျိုးသူရရဲခေါင်၏ အရည်အသွေးမှာ ပေါ်လွင်၍ နာမည်ရခဲ့၏။

ဘိုးတော်ဘုရား နတ်ရွာစံပြီးနောက် အိမ်ရှေ့စံ စစ်ကိုင်းမင်းသား နန်းတက်သောအခါ နေမျိုးသူရရဲခေါင်၏ အရည်အသွေးကို နှစ်ခြိုက်တော်မူ၍ အလုံမြို့ကို စားစေပြီးနောက် မဟာဗန္ဓုလဘွဲ့ကို ပေးအပ်သည်။

ဘကြီးတော်ဘုရား လက်ထက်တွင် ဘိုးတော်ဘုရား နန်းတင်ခဲ့သော မဏိပူရပြည်ဘုရင် မာဂျစ်ဆင်းသည် အဖူးအမျှော် မရောက်သည့်အပြင် မြန်မာတို့အား ပေးအပ်ထားသော ကဘော့တောင်ကြားမှ သစ်များကို ခုတ်ယူရောင်းချသည်ဟုသိရှိရသဖြင့် ဘကြီးတော်ဘုရားသည် မဏိပူရသို့ချီတက်နှိမ်နင်းစေပြန်သည်။ ဤမဏိပူရစစ်ပွဲတွင် မဟာဗန္ဓုလသည် စစ်ကဲအဖြစ် တိုးမြှင့်ထမ်းရွက်ကာ လိုက်ပါရ၏။ ယင်းမဏိပူရ စစ်ပွဲအား အဆုံးအဖြတ်ပေးခဲ့သော ကက်စိန်တောင် တိုက်ပွဲသည် မဟာဗန္ဓုလ၏ အစီအရင်ဖြင့် အောင်မြင်သည်။မြန်မာတို့သည် မဏိပူရကို အောင်မြင်ခဲ့ပြန်သည်။

မဏိပူရကို အောင်မြင်စွာ တိုက်ခိုက်ပြီးနောက်၊ အာသံဘုရင် ချန္ဒရကန္တာဆင်းသည် မြန်မာများ နန်းတင်ခဲ့သည့် ကျေးဇူးကို မထောက်ဘဲ အင်္ဂလိပ်တို့၏ သြဇာခံဖြစ်နေ၍ တဖန် ချီတက်တိုက်ခိုက်ရပြန်သည်။ ယင်း အာသံစစ်ပွဲတွင် မဟာဗန္ဓုလသည် ဗိုလ်မှူးကြီးအဖြစ် ပါဝင်ထမ်းရွက်၍ အာသံကို အောင်မြင်ခဲ့၏။ မဟာဗန္ဓုလ အမှုထမ်းရည်ကို ဘကြီးတော်ဘုရား သဘောကျနှစ်ခြိုက်၍ အဂ္ဂမဟာ သေနာပတိ ဝန်ကြီးရာထူးသို့ တိုးတက်ခြီးမြှင့်လေသည်။

သက္ကရာဇ်၁၁၈၅ ခုနှစ်တွင် ရခိုင်နှင့်စစ်တကောင်းနယ်စပ်၊ နတ်မြစ်ဝရှိ ရှင်မဖြူကျွန်းကို ဗြိတိသျှတို့ သိမ်းပိုက် တပ်တည်လုပ်လာသည်ကစ၍ အရှုပ်အထွေး ပေါ်ပေါက်လာသည်။ ရှင်မဖြူကျွန်းကို ဗြိတိသျှတို့ကလည်း စစ်တကောင်းနယ်တွင်း ဖြစ်သည်ဟု ယူဆသည်။ မြန်မာတို့ကလည်း ရှင်မဖြူကျွန်းသည် မြန်မာပိုင် ဖြစ်သည်ဟု ထင်မြင်သည်။ ဗြိတိသျှတို့ ရှင်မဖြူကျွန်းကို သိမ်းပိုက်လိုက်သည်ကို ကြားသိရသောအခါ ဓညဝတီမြို့ဝန် မဟာမင်းကြီးကျော်စွာသည် ရှင်မဖြူကျွန်းမှ ဗြိတိသျှတို့အား တိုက်ခိုက်မောင်းနှင် ပစ်ခဲ့သည်။ ဗြိတိသျှတို့က ဤအပြုအမူအတွက် ကန့်ကွက်စာကို ဘကြီးတော်ထံသို့ ပို့၍ တောင်းပန်ခိုင်းသည်။ မြန်မာတို့က ဗြိတိသျှတို့သည် မြန်မာပိုင်နယ်များကို ထိပါး နှောင့်ယှက်သည်ဟု ထင်မြင်ကာ မဟာဗန္ဓုလကို အချုပ်ခန့်၍ ဓညဝတီသို့ချီစေသည်။ ဓညဝတီသို့ရောက်သောအခါ စစ်တကောင်းဖက်သို့ ဦးလှည့်၍ မဟာဗန္ဓုလသည် စစ်ချီခဲ့၏။ ပန်းဝါတိုက်ပွဲတွင် ဗြိတိသျှတပ်အား တိုက်ခိုက်ခြေမှုန်းအောင်မြင်သည်။ ထိုအတောအတွင်း ဗြိတိသျှတို့သည် ရေကြောင်းမှရန်ကုန်မြို့သို့ချီတက်သိမ်းပိုက်လိုက်လေသည်။ဘကြီးတော်ဘုရားသည် ရန်ကုန်မြို့ကို ဗြိတိသျှတို့ သိမ်းပိုက်လိုက်ကြောင်း သိသောအခါ ဓညဝတီရောက် မဟာဗန္ဓုလအား ဆင့်ခေါ်တော်မူလေသည်။ မဟာဗန္ဓုလသည် နေပြည်တော်သို့ ပြန်လာခဲ့ရပြီးလျှင် ရန်ကုန်တိုက်ပွဲ အတွက် ပြင်ဆင်ရလေသည်။ ရန်ကုန်မြို့ကို သိမ်းပိုက်ထားသော ဗြိတိသျှတို့သည် မဟာဗန္ဓုလ ပြန်လာကြောင်း သိရသောကြောင့် ဗင်္ဂလားနယ်သို့ တပ်ကူများ ဆင့်မှာကြရ၏။ဓညဝတီမှထွက်ခွာခဲ့ပြီးနောက် နေပြည်တော်သို့ ပြန်လည်ရောက်ရှိတော်မူသည်တွင် ဘကြီးတော်ဘုရားသည် အားရတော်မူသောကြောင့် ဗန္ဓုလအား သတိုးသုဓမ္မမဟာဗန္ဓုလ ဘွဲ့ဖြင့် အစွမ်းကုန် ခြီးမြှင့်ပြီးလျှင် စစ်သူကြီး၏ နေရာ အစီးအနင်း အဆောင်အရွက်များနှင့် တကွ စစ်တောင်းမြို့ကို ပေးအပ် ခြီးမြှောက်တော်မူသည်။

မဟာဗန္ဓုလသည် ရန်ကုန်သို့ ဆိုက်ရောက်လာကာ တပ်များအား ကြည့်မြင်တိုင်ဖက်မှရင်း၊ မြောက်မျက်နှာ ဆံတော်ကြိုလမ်းမှရင်း၊ ပုဇွန်တောင်ဖက်မှရင်း အသီးအသီး တာဝန်ခန့်ခွဲလျက် မိမိ၏တပ်ကို တပ်မပြုကာ အုပ်ချုပ်



ဘကြီးတော်ဘုရားလက်ထက် ဖြစ်ပွားသော ပဌမ အင်္ဂလိပ်-မြန်မာ စစ်ပွဲတွင် စစ်သူကြီး မဟာဗန္ဓုလ အုပ်ချုပ်ကွပ်ကဲသော မြန်မာတပ်၏ ကင်းစခန်းတခု

ကပ်ကဲတိုက်ခိုက်သည်။ အင်္ဂလိပ်တို့ကား ရွှေတိဂုံဘုရားကို ဌာနချုပ် ပြု၍ နေသည်။ မဟာဗန္ဓုလ၏ တပ်များသည် အင်္ဂလိပ်တို့၏ ဌာနချုပ်နေရာကို သဲသဲမဲမဲ တိုက်ခိုက်ကြ၏။ သို့ရာတွင် လက်နက်အင်အားချင်း မမျှသဖြင့် တပ်ဆုတ်ရသည်သာ ဖြစ်၏။ အင်္ဂလိပ်တို့ သိမ်းပိုက်ထားနိုင်ခဲ့သော ကြည့်မြင်တိုင် ခံတပ်မှာလည်း မကျိုး မပေါက် ရှိသည်။ ရန်ကုန်မြစ်အတွင်းဝယ် အင်္ဂလိပ်စစ်သင်္ဘောများ ရှိသည်။ ယင်း သင်္ဘောများမှလည်း အမြောက်များဖြင့် ပစ်ခတ်တိုက်ခိုက်၍ မြန်မာတို့ အထိနာရသည်။ မဟာဗန္ဓုလသည် ယင်းစစ်သင်္ဘောများအား မြစ်တွင်းမှ ဖယ်ခွာစေရန် ပုဇွန်တောင်ချောင်း၊ ကြည့်မြင်တိုင်ချောင်းတို့မှ မီးဖောင်များ ပြုလုပ်၍ ရေကျတွင် မျှောချစေ၏။ ဗြိတိသျှစစ်သင်္ဘော ၂ စင်း မီးလောင်ခံရ၏။ သို့သော် စစ်သင်္ဘောများမှာ ကြံ့ကြံ့ခံကာ ရှိမြဲရှိနေသည်။ မြန်မာတို့သည် ရန်ကုန်မြို့အား ပြန်လည်သိမ်းပိုက်နိုင်ရေးအတွက် အစွမ်းကုန် ကြိုးစားခဲ့ကြသော်လည်း မအောင်မြင်ခဲ့ချေ။

မဟာဗန္ဓုလသည် ဓနုဖြူမြို့ဖက်သို့ တပ်ဆုတ်ကာ ရှေးမှန်များ တည်ဆောက်ခဲ့သော ခံတပ်ဟောင်းတခုကို အခိုင်အလုံဖြစ်စေ၍ ဗြိတိသျှတို့အား သဲမဲစွာ တိုက်ခိုက်ရန် စောင့်စားနေသည်။ ဗြိတိသျှတို့လည်း ဓနုဖြူခံတပ် ပေါက်မှသာ ရှေ့သို့ ဆက်လက် ချီတက်သိမ်းပိုက်နိုင်မည် ဖြစ်၍ ဓနုဖြူ ခံတပ်ကို အမြောက်များဖြင့် နေ့ညမပြတ်ပစ်ခတ်လေသည်။ တခုသော အမြောက်ကျည်ဆံသည် ဓနုဖြူခံတပ်တွင်း၌ တာဝန်ထမ်းဆောင်နေသော မြန်မာသူရဲကောင်းကြီးအား ထိမှန်ခဲ့သဖြင့် စစ်သူကြီး သတိုးသုဓမ္မ မဟာဗန္ဓုလသည် သက္ကရာဇ် ၁၁၈၆ ခုနှစ် နှောင်းတန်ခူးလဆန်း ၁၄ ရက် (ခရစ် ၁၈၂၅ ခုနှစ် ဧပြီလ ၁ ရက်) နေ့တွင် ကျဆုံးရရှာလေသည်။

မဟာဗန္ဓုလ ကျဆုံးသောနေရာ၌ အထိမ်းအမှတ် ပြုထားသော အုတ်ဂူသင်းချိုင်းသည် ဓနုဖြူမြို့တွင် ယခုတိုင်ရှိပေသေးသည်။

မဟာဗန္ဓုလသည် အရပ်အမောင်း ကိုယ်လုံးကိုယ်ပေါက် ခပ်တုတ်တုတ်နှင့် ခံ့ခိုင်မာကျောလေသည်။ အရပ်မမြင့်လှပေ။အသားညို၍ မျက်စိစောင်းယောင် ရှိ၏။ မျက်နှာထား အမူအရာ ခန့်ညားတည်ကြည် ဣန္ဒြေကြီး၏။ စိတ်ထား သဘောထား ဖြူစင်ရိုးဖြောင့်၍ လက်အောက်ငယ်သားတို့ အပေါ် ညှာတာထောက်ထား ချစ်သနားလေ့ရှိသော်လည်း ကျပ်တည်းစွာ စည်းစနစ်ရှိသဖြင့် မိမိအမိန့်ကို မရိုသေမလေးစား ဖီဆန်တော်လှန်သူတို့အား ရက်စက်စွာပြုကျင့်တတ်၏။ အမှု ကိစ္စဘိုကိုလည်း စဉ်းစဉ်းစားစားနှင့် ဆောင်ရွက်လေ့ ရှိသည့်အပြင် အသက်နှင့်ယှဉ်သော အရေးကြီးကိစ္စများတွင်ပင် တုန်လှုပ်ခြင်းမရှိဘဲ ကြံ့ခိုင်သောစိတ်ဖြင့် ဣန္ဒြေမပျက် ဆောင်ရွက်နိုင်စွမ်း ရှိ၏။ မဟာဗန္ဓုလ၏ ရဲမက်တော်တို့မှာ အထူးသဖြင့် စည်းကမ်းသေဝပ်၍ အထက်အရာရှိတို့၏ အမိန့်များကို အထူးရိုသေ လိုက်နာကြ၏။လက်အောက်ငယ်သားတို့သည် မဟာဗန္ဓုလအား ချစ်ကြောက် ရိုသေကြသည်။

မဟာဗန္ဓုလသည် ဤသို့ အကွပ်အကဲ အအုပ်အချုပ် ကောင်းသည့်အပေါ်တွင် စစ်ဆင်စစ်တက်စသော သေနင်္ဂဗျူဟာအတတ်တွင် အထူးကျွမ်းကျင်လိမ္မာပိရိသူ ဖြစ်၏။ အင်္ဂလိပ် စစ်ဗိုလ်ကြီးများပင် အံ့သြချီးမွမ်းရလောက်အောင် ခံတပ်ဆောက်ရေး၌ အချိန်မြန်၏။ ခိုင်ခံ့ကြီးကျယ်၍ စံနစ်ကျန၏။ ခံတပ်မြေကတုတ် တည်လုပ်ရာ၌ ရန်သူတို့ မည်မျှပင် အားကြီးစေကာမူ မဟာဗန္ဓုလ၏ ခံတပ်ကို တရှိန်တည်း အားနှင့် ဖိ၍ ဇွတ်အတင်း ချင်းနင်း ဝင်ရောက်ခြင်ငှါ မစွမ်းနိုင်ပေ။ ထိုပြင်တဝလည်း ရန်သူတို့၏ အမြောက်ဖုံး လက်နက်များ ကောင်းမွန် များပြားကြီးကျယ်သော အင်အားရှိသည့်အတိုင်း ဆုတ်ဆိုင်းခြင်းမရှိဘဲ ပစ်ခတ်ခြင်းဖြင့် ရဲမက်တော်အများ တကြိမ်တခါတည်းနှင့် ကျဆုံးမည့် ဘေးမှကာကွယ်နိုင်စေရန် မြေကတုတ်ကျင်းများကို တောက်လျှောက်မတူးမဖောက်ဘဲ တကျင်းလျှင်ရဲမက် ၂ ယောက်အတွက်သာ တူးဖောက်ရပ်ခံစေ၏။ ထိုကြောင့် ဗုံးဆံ အမြောက်ဆံတို့ မည်မျှပင် ကျစေကာမူ တကြိမ်လျှင် ရဲမက် ၂ ယောက်ထက် ပို၍မကျပေ။ ဤသို့ဖြင့် မဟာဗန္ဓုလသည် မြန်မာနိုင်ငံသမိုင်းတလျှောက်၌ ထူးခြားသော စစ်သူကြီးအဖြစ် ထင်ရှားလျက် ရှိပေသည်။

**မဟာဗုဒ္ဓဃောသ၊ ရှင်** ။ ။ မဟာဗုဒ္ဓဃောသ မထေရ်မြတ်သည် ဗုဒ္ဓဘုရားရှင်၏ ပိဋကတ်သုံးပုံနှင့် တကွ အဋ္ဌကထာတို့ကို သီဟိုဠ်ဘာသာမှ မာဂဓဘာသာသို့ ပြန်ဆိုကာ အဓိပ္ပါယ် ရှင်းလင်း ဖွင့်ဆိုသော အဋ္ဌကထာသစ်များကို ပြုစုခဲ့သဖြင့် ကျော်ကြားထင်ရှားခဲ့သော ပုဂ္ဂိုလ်ထူးတပါး ဖြစ်ပေသည်။ ထိုမထေရ်မြတ်၏ မွေးဖွားသက္ကရာဇ် စသည်တို့ကို အတိအကျ မသိရသော်လည်း၊ ရှင်မဟာဗုဒ္ဓဃောသသည် အေဒီ ၅ ရာစုနှစ် အတွင်း၌ ကျော်စော ထင်ရှားသော ပုဂ္ဂိုလ်ကျော်တပါး ဖြစ်ကြောင်းကိုမူအထောက်အထားများ တွေ့ရှိရလေသည်။

ရှင်မဟာဗုဒ္ဓဃောသ အလောင်းသည် ပုဏ္ဏားမျိုး ဖြစ်၍၊ ဗုဒ္ဓဘုရားရှင် ပွင့်တော်မူရာ ဗောဓိပင်အနီး ပုဏ္ဏားရွာ တရွာ၌ ဖွားမြင်ခဲ့သည်။ ဗုဒ္ဓဃောသုပ္ပတ္တိကျမ်းအရ၊ "စားကြကုန်၊ သောက်ကြကုန်" အစရှိသဖြင့် ပုဏ္ဏားတို့ ကြွေးကြော်ဆဲတွင် မွေးဖွားသောကြောင့် ဃောသဟူ၍အမည်မှည့်သည်ဟုဆိုလေသည်။

ဃောသလုလင်သည် ငယ်ရွယ်စဉ် အခါကပင် ဗေဒ သုံးပုံကို တဖက်ကမ်းခတ် တတ်မြောက်သည်။ ထိုထိုအယူ ဝါဒ



အနုရာဓမြို့ မဟာဝိဟာရ ကျောင်းတော်၌ ဝိသုဒ္ဓိမဂ်ကျမ်းကို မဟာဗုဒ္ဓဃောသ မထေရ်မြတ် ပေးအပ်နေစဉ်

ကိုလည်း ကောင်းစွာသိကျွမ်း၍ သူတပါးနှင့် အပြောအဟော အငြေအတင်ဝါဒကိုလည်း အလိုကြူးသည်။ ဇမ္ဗူဒိပ်မြေပြင် အလုံးကို လှည့်ပတ်လတ်သော် တဆောင်သော ကျောင်းသို့ရောက်၍ ပတဥ္စလီရှင်ရသေ့၏ အယူကို ပဒ်ဗျည်းမကျန် ပြည့်စုံစွာ ပြန်လှန်သရဇ္ဈာယ်သည်။ ထိုအခါ ထိုကျောင်းတိုက်၌ သီတင်းသုံးနေသော ရေဝတမထေရ်မြတ်သည် ပုဏ္ဏားလုလင်၏ ပညာကြီးကြောင်းကို သိသည်။ ထိုကြောင့် ထိုလုလင်အား ဆုံးမခြင်းငှါ သင့်၏ဟု အကြံဖြစ်တော်မူပြီးလျှင် ရေဝတမထေရ်သည် ဃောသလုလင်နှင့် စကား အငြေအတင်ပြုသည်။ ပုဏ္ဏားလုလင်သည် မိမိ၏ အတတ်ပညာ အယူဝါဒ အလုံးစုံကို မေးသည်။ မေးတိုင်း မေးတိုင်း ရေဝတမထေရ်က ဖြေကြားတော်မူသည်။ ဆန့်ကျင်ဖက်ကိုလည်း ပြတော်မူသည်။

လုလင်မေး၍ပြီးလျှင် ရေဝတမထေရ်က အဘိဓမ္မာ ပါဠိတော်၌ လာသော ပြဿနာကို မေးတော်မူသည်။ လုလင် မဖြေကြားနိုင်၍ မည်သူ၏ အတတ်ပညာ မန္တန်နည်းဟု မေးသည်။ မထေရ်မြတ်က ဗုဒ္ဓမန္တန်ဟုဆိုသည်။ ထိုမန္တန်ကို ပေးပါဟု တောင်းဆိုလျှင်၊ ရှင်ရေဝတက ရဟန်းပြုမှ သင်ကြားပေးမည်ဟု မိန့်ကြားသည်။ ထိုကြောင့် ပုဏ္ဏားလုလင်သည် ရဟန်းပြု၍ ပိဋကတ်သုံးပုံကို အကုန်သင်ယူသည်။ ပုဏ္ဏားလုလင်ရဟန်းသည် ဘုရားရှင်ကဲ့သို့ နက်သောအသံရှိသည်ဖြစ်၍ ဗုဒ္ဓဃောသဟု အမည်ဘွဲ့တော်မှည့်ခေါ်ကြ၍ ဇမ္ဗူဒိပ်မြေအပြင်၌ ကျော်စောလှလေသည်။

ရှင်မဟာဗုဒ္ဓဃောသသည် ဖခင် ပုဏ္ဏားကြီးအားလည်း မိစ္ဆာဒိဋ္ဌိ အယူမှ ချေချွတ်သည်။ ရှင်မဟာဗုဒ္ဓဃောသသည် ဥပဇ္ဈာယ်ဆရာဖြစ်သော ရှင်ရေဝတနှင့်အတူ နေထိုင်ပြီးလျှင် ဉာဏောဒယကျမ်း၊ အဋ္ဌသာလိနီကျမ်းတို့ကို ပြုစုသည်။ ထိုနောက် ပရိတ္တအဋ္ဌကထာကို ပြုရန်အားထုတ်ရာ၊ ရှင်ရေဝတက ဤဇမ္ဗူဒိပ်၌ ပါဠိတော်မျှသာရှိသည်။ အဋ္ဌကထာလည်း မရှိ၊ အာစရိယဝါဒလည်း အကွဲကွဲ အပြားပြားရှိ၏။ ထိုကြောင့် မဟိန္ဒမထေရ်မြတ် ဆောင်ယူခဲ့သော သီဟိုဠ်၌ရှိသော အဋ္ဌကထာ သင်္ဂါယနာ သုံးတန်တင်သော ပါဠိတော်၊ ရှင်သာရိပုတ္တရာအစရှိသော ရဟန္တာတို့ ဟောသော စကားအစဉ်များသည် သီဟိုဠ်ကျွန်းတွင် ရှိသည်ကို သင်သွား၍ မဂဓ ဘာသာ ရေးသားပြန်ယူချေ။ ထိုသို့ ပြန်ယူသော် အလုံးစုံသော သတ္တလောက၏ အစီးအပွားကို ဆောင်နိုင်လတ္တံ့ဟု မိန့်တော်မူသည်။

ထိုကြောင့် ရှင်မဟာဗုဒ္ဓဃောသသည် သီဟိုဠ်ကျွန်းသို့ ကူးခဲ့ရာ၊ ထိုအချိန်သည် သီဟိုဠ်ကျွန်း၌ မဟာနာမမင်းလက်ထက်ဖြစ်၍ သာသနာသက္ကရာဇ် ၉၃၀ ပြည့်နှစ်ခန့်ဟု ခန့်မှန်းရသည်။ သီဟိုဠ်ကျွန်းသို့ ရောက်လျှင်၊ အနုရာဓမြို့၊ မဟာဝိဟာရကျောင်းတိုက်၊ သံဃပါလမထေရ်အထံ၌ သီဟိုဠ် အဋ္ဌကထာနှင့်တကွ ထေရဝါဒ အလုံးစုံကို ကြားနာပြီးမှ အဋ္ဌကထာများကို ပြုအံ့သောငှါ ပန်ကြား၏။ ထိုအခါ သံဃာများက ရှင်မဟာဗုဒ္ဓဃောသ၏ အစွမ်းသတ္တိကို စုံစမ်းခြင်းငှါ "သီလေပတိဋ္ဌာယ" အစရှိသော ဂါထာနှစ်ပုဒ်ကို ပေး၍ ထိုဂါထာ၌ ပိဋကတ်သုံးပုံကို ယှဉ်လျက် အနက်အဓိပ္ပါယ် ပြရန်တိုက်တွန်းသည်။

ရှင်မဟာဗုဒ္ဓဃောသသည် ထိုနေ့ညချမ်းကစ၍ ထိုဂါထာ၏အဖွင့်ဖြစ်သော ဝိသုဒ္ဓိမဂ်ကျမ်းကို စီရင်သည်။ တစောင်ပြီး၍ အိပ်လျှင် ထိုအရှင်အစွမ်းကို စုံစမ်းလို၍ သိကြားမင်း ဖုက်ထားလေသဖြင့်၊ အသစ်တစောင် ရေးပြန်ရသည်။ ထိုအတူပင် ဖုက်ထားပြန်၍ နောက်တစောင်လည်း ရေးပြန်ရလေသည်။ ၃ စောင်စေ့မှ ယခင် ၂ စောင်ကိုလည်း ဖော်ပြသည်။ ၃ စောင်လုံးကို သံဃပါလမထေရ်အား ပြလေသည်။ ၃ စောင်စလုံးသည် ကျမ်းအားဖြင့်၎င်း၊ အနက်အားဖြင့်၎င်း၊ ရှေ့နောက် အစွန်းအားဖြင့်၎င်း၊ ထေရဝါဒတို့ဖြင့်၎င်း၊ ပါဠိတို့ဖြင့်၎င်း၊ ပုဒ်တို့ဖြင့်၎င်း၊ အက္ခရာဝါကျတို့ဖြင့်၎င်း ဖောက်ပြန်ချွတ်ယွင်းခြင်းမရှိ၊ ၃ စောင်စလုံးပင် အညီအညွတ် မကွဲမပြား တသားတည်း ဖြစ်လေသည်။ သံဃာအပေါင်းတို့ရှေ့၌ ထိုဝိသုဒ္ဓိမဂ်ကျမ်းကို ဖတ်ပြသော အခါ၊ သီဟိုဠ်ရဟန်းတော်တို့ အထူးနှစ်သက်ကြ၍၊ ရှင်မဟာ ဗုဒ္ဓဃောသသည် မချွတ်မယွင်း မေတ္တေယျဘုရားအလောင်း

တော်ပေတကားဟု ရှင်လန်းဝမ်းမြောက်စွာ မိန့်ဆိုကြသည်။ အထပ်ထပ် ကောင်းချီးပေးကြသည်။ ထိုအခါမှ သံဃပါလ မထေရ်သည် ပိဋကတ်သုံးပုံပေစာတို့ကို သီဟိုဠ်အဋ္ဌကထာ နှင့်တကွ ပေးတော်မူသည်။ ရှင်မဟာဗုဒ္ဓဃောသသည် အဋ္ဌကထာကြီးတို့၌ အကျယ်ဆိုအပ်သောစကားကို အကျဉ်း ချုံးခြင်း၊ ဘုရားဟောရင်းမူလဘာသာ ပါဠိတော် နည်းအား လျော်သော မဂဓဘာသာသို့ ပြန်ဆိုခြင်းပြုကာ၊ အဋ္ဌက ထာတို့ကို စီရင်သည်။ ရှင်မဟာဗုဒ္ဓဃောသ ပြုစုစီရင်အပ် သော အဋ္ဌကထာသစ်များသည် အလုံးစုံသော သတ္တဝါတို့၏ အစီးအပွားကို ဆောင်သည်။ ခပ်သိမ်းကုန်သော မထေရ် အဆက်ဆက် ဖြစ်ကုန်သော ဆရာကြီးတို့သည် ထိုအဋ္ဌက ထာသစ်ကို ပါဠိတော်ကဲ့သို့ ယူကြသည်။

ရှင်မဟာဗုဒ္ဓဃောသသည် သီဟိုဠ်ကျွန်း၌ ပြုဖွယ် ကိစ္စ ပြီးလျှင် ဇမ္ဗူဒီပါသို့ ပြန်ကြွလေသည်။

အင်္ဂုတ္တရအဋ္ဌကထာတွင် သီဟိုဠ်နှင့် သထုံပြည် (သုဝဏ္ဏ ဘုမ္မိ) သည် သင်္ဘောလမ်းသင့်သည်ဟု ဆိုထားသည်။ သာ သန ဗဟုဿုတပ္ပကာသနီ ကျမ်းတွင် ရှင်ဗုဒ္ဓဃောသသည် သထုံပြည်မှ သီဟိုဠ်ကျွန်းသို့ သာသနာနှစ် ၉၂၇ ခုတွင် ကူးတော်မူသည်။ သထုံပြည့်ရှင် ဘုမ္မိရာဇာမင်းက လက် ဆောင် ပေးသော ဆင်ဖြူကို သီဟိုဠ်မင်းမဟာနာမအား မင်း ချင်းတို့ကို လက်ဆောင်ဆက်စေပြီးလျှင် သီဟိုဠ်၌ ၃ နှစ်နေ ၍ ပိဋကတ်တော်တို့ကို မဂဓဘာသာသို့ ရေးကူးပြီးလျှင် သထုံပြည်သို့ ပြန်လာသည်ဟု ဆိုလေသည်။

**မဟာဘာရတ။** ။ရှေးခေတ်ဂရိစာပေတွင် အစ်လယက် နှင့် အော့ဒီဆီအမည်ရှိ သူရသတ္တိကိုဖော်ပြသော မှတ်တမ်း တင် လက်ာရှည်ကြီး နှစ်စောင် ထင်ရှားရှိသကဲ့သို့ ရှေးခေတ် အိန္ဒိယစာပေတွင်လည်း မဟာဘာရတနှင့် ရာမာယဏ မည် သော လက်ာရှည်ကြီး နှစ်စောင် ထင်ရှားကျော်ကြားစွာ ရှိခဲ့ လေသည်။ (ရာမာယဏ — လည်းရှု။)

မဟာဘာရတသည် ဘရတမင်း၏ အနွယ်များ ဖြစ်ကြ သည့် ပဏ္ဍဝမင်းသားတို့နှင့် ကောရဗျမင်းသားတို့ တဖက် နှင့် တဖက် ရှုပ်ရှုပ်ချဲချဲ တိုက်ခိုက်ကြသည့် စစ်ပွဲကြီး အ ကြောင်းကို သက္ကတဘာသာဖြင့် ပြဆိုရာ လက်ာရှည်ကြီး ဖြစ်သည်။

သက္ကတစာပေဝယ် လက်ာရှည်ကြီးများကို ဣတိဟာသ၊ အက္ခာန၊ သို့မဟုတ် ပုရာဏဟူသော အမည်တို့ဖြင့် ရှိသည့် လက်ာစုများနှင့် ကာဗျဟူသော အမည်ဖြင့် ရှိသည့်လက်ာစု များဟူ၍ နှစ်မျိုးနှစ်စား ပိုင်းခြားနိုင်လေရာ မဟာဘာရ တသည် ပဌမ အမျိုးအစားတွင် ပါဝင်လေသည်။ စင်စစ် သော် မဟာဘာရတသည် ပဌမအမျိုးအစားတွင် ရှေးအကျ ဆုံးနှင့် အထင်ရှားဆုံးသော လက်ာကြီးပင် ဖြစ်သည်။

မဟာဘာရတကို မူရင်း စီကုံး ဖွဲ့နွဲ့သူမှာ ဗျာသ ရသေ့ကြီး ဟူ၍ ယူဆကြလေသည်။ သို့သော် လက်ရှိ မဟာဘာရတ သည် ထိုရသေ့ကြီးတဦးတည်း၏ လက်ရာမဟုတ်၊ မဟာဘာ ရတတွင် နှောင်းစာဆိုတို့၏ လက်ရာများလည်း ပါဝင်ပေရာ လက်ာတစောင်လုံးကို ဘီစီ ၂ ရာစုနှစ်မှ အေဒီ ၂ ရာစုနှစ်အ တွင်း စီကုံးခဲ့ခြင်းဖြစ်မည်ဟု ပညာရှင်အချို့က ယူဆကြလေ သည်။ အချို့ကမူ ဘီစီ ၄ ရာစုနှစ်နှင့် အေဒီ ၄ ရာစုနှစ် အ တွင်းဟူ၍ ခန့်မှန်းကြလေသည်။ မဟာဘာရတ ထွန်းကား ရာ အရပ်သော်ကား အိန္ဒိယနိုင်ငံ အနောက် မြောက်ပိုင်း ဖြစ်ပေသည်။ မဟာဘာရတတွင် အသုံးပြုသော မတြာမှာ ရှေးဟောင်း သက္ကတလက်ာတို့တွင် အသုံးပြုလေ့ ရှိသည့် သိလောကမတြာမျိုးပင်ဖြစ်သည်။ သို့သော် ဥပဇာတိနှင့် ဝံသဋ္ဌမတြာမျိုးဖြင့် ရှိသည့် ပေါရာဏပဒများ သာမက ရှေးက စကားပြေဖြင့် ရှိခဲ့သည့် ပုံဝတ္ထုများလည်း ပါဝင် လေသည်။ အဓိကအားဖြင့်သော် မဟာဘာရတသည် ဇာတ် ကြောင်းနှင့် အဆို အမိန့်များ တွဲဖက်လျက် ရှိလေသည်။ ထိုကြောင့် မဟာဘာရတသည် တသွင်တည်း စီကာစဉ်ကာ ဖော်ပြရာ မရောက်ဘဲ၊ လက်ာပုံဝတ္ထုများကို စုပေါင်းထား သည်သို့ ရှိလေသည်။ ထိုလက်ာစု၊ ပုံဝတ္ထုတို့ တခုနှင့် တခု ဆက်စပ်မှု ရှိနေခြင်းကြောင့်သာ မဟာဘာရတသည် လက်ာ ရှည် တစောင်တဖွဲ့အနေနှင့် စည်းစည်းလုံးလုံး တည်ရှိနေခြင်း ဖြစ်ပေသည်။ ဇာတ်ကြောင်းမှာ လက်ာတစောင်လုံး၏ ၅ ပုံ ၁ ပုံခန့်ရှိ၍ ဩဝါဒကထာများနှင့် ရောပြွမ်း ကြီးထွားလာ ခဲ့ခြင်း ဖြစ်သောကြောင့် လက်ရှိ အသွင်ဝယ် မဟာဘာရတ သည် ဇာတ်ကြောင်း ဖော်ပြရာ လက်ာရှည်နှင့် မတူ၊ နီတိ စွယ်စုံကျမ်းနှင့်သာ တူနေတော့သည်ဟု ပညာရှင် မက္က ဒေါ်နယ်က ဆိုလေသည်။

လက်ရှိ အသွင်အားဖြင့် မဟာဘာရတသည် သိလောက ပေါင်း တသိန်းကျော်မျှ ပါဝင်လေရာ အစ်လယက်နှင့် အော့ဒီ ဆီ ဂရိလက်ာရှည် နှစ်ရပ်ပေါင်းသည်ထက်ပင် ၈ ဆမျှ ရှည် လျားလေသည်။ ကမ္ဘာ့ စာပေသမိုင်းများဝယ် ယခုသိရသ မျှ အရှည်လျားဆုံးသော ဇာတ်လက်ာကြီးပင် ဖြစ်သည်။ ဤဇာတ်လက်ာကြီးကို ပဗ္ဗခေါ် အတွဲ အားဖြင့် ၁၈ တွဲခွဲထား လေသည်။ ၁၉ ခုမြောက် အတွဲသော်ကား ဟရိဝံသခေါ် နောက်ဆက်တွဲမျှ ဖြစ်လေသည်။ တတွဲနှင့်တတွဲလည်း ပမာ ဏချင်းမတူ လွန်စွာခြားနားလေသည်။ အရှည်ဆုံးဖြစ်သည့် ဒွါဒသမတွဲတွင် သိလောကပေါင်း ၁၄,၀၀၀ ခု ပါဝင်၍ အ တိုဆုံးဖြစ်သည့် သတ္တမတွဲတွင် သိလောကပေါင်း ၃၁၂ ခု ပါဝင်လေသည်။ ထို ၁၈ တွဲတွင်လည်း အဋ္ဌမတွဲနှင့် နောက် ဆုံး ၃ တွဲမှအပ ကျန်အတွဲအားလုံးကို တတွဲလျှင် အက္ခာန ခေါ် အခန်းများ ထပ်မံပိုင်းခြား ထားပြန်လေသည်။

မဟာဘာရတဇာတ်လမ်း အကျဉ်းကား ဤသို့တည်း။

ကုရုခေတြတိုင်း ဟတ္ထိနာပုရပြည်ဝယ် ဓတရဋ္ဌ မည်သော မင်းသားညီနောင် နှစ်ပါးရှိသတတ်။ နောင်တော်သည် မျက်မမြင်ဘဝရောက်သည်ရှိသော် ညီတော်ပဏ္ဍုက ထီးနန်း ဆက်ခံကာ တိုင်းပြည်ကို တရားသဖြင့် အုပ်စိုးလေသည်။ ပဏ္ဍုမင်းဝယ် ပဏ္ဍဝခေါ် သားတော် ၅ ပါးထွန်းကားရာ ထင်ရှားသော သားတော် ၃ ပါးကား ယုဓိဋ္ဌိလ၊ ဘီမနှင့် အဇ္ဇုန တို့ဖြစ်ကြလေသည်။ နောင်တော်ကြီး ဓတရဋ္ဌတွင်မူ ကောရဗျခေါ် သားတော်တရာ ထွန်းကားရာ အထင်ရှားဆုံးကား ဒုယျော်ဓနေ ဖြစ်လေသည်။ ပဏ္ဍုမင်း နတ်ရွာ စံသောအခါ ဓတရဋ္ဌက ထီးနန်းကို ပြန်လည် သိမ်းပိုက်၍၊ တူတော် ပဏ္ဍဝမင်းသား ၅ ပါးကို မိမိ၏သားတော်များနှင့် အတူထား၍ ပြုစုမွေးမြူလေသည်။

တူတော်များ အရွယ်ရောက်သော် သားတော်တို့နှင့်မတူ တမူထူးခြားကာ စွမ်းပကားနှင့် ပြည့်စုံသည်ဖြစ်၍ ဓတရဋ္ဌသည် တူတော်အကြီးဆုံးဖြစ်သည့် ယုဓိဋ္ဌိလအား အိမ်ရှေ့ဥပရာဇာ ခန့်အပ်လေသည်။ ဤသို့ခန့်အပ်သည်ကို ကောရဗျမင်းသားတို့ မကျေနပ်၍ လျှို့ဝှက်ကြံစည်လေရာ ပဏ္ဍဝမင်းသားတို့သည် ပဉ္စာလတိုင်းသို့ ထွက်ပြေးကြရလေသည်။ ရောက်လျှင် ထိုမင်းသားတို့အနက် လူစွမ်းကောင်း အဇ္ဇုနမင်းသားသည် လေးတင်ပွဲဝယ် အောင်ပန်းဆွတ်လှမ်းကာ ပဉ္စာလမင်း၏ သမီးတော်ဒေါပဒီကို ရရှိလေသည်။ သို့သော် ဒေါပဒီမင်းသမီးသည် ပဏ္ဍဝမင်းသား ၅ ဦးလုံး၏ ကြင်ယာဖြစ်ရလေသည်။ ထိုလေးတင်ပွဲတွင် ပဏ္ဍဝမင်းသားတို့နှင့် မိတ်ဆွေ ရင်းချာ ဖြစ်လာသူကား ယာဒဝမျိုးမှ လူစွမ်းကောင်းကြီး ကဏှပေတည်း။ တူတော်မင်းသားတို့ ဤသို့ ပဉ္စာလ၊ ယာဒဝတို့နှင့် မိတ်ကျွမ်းဝင်၍ အင်အားကောင်းလာသည်ကို ထောက်၍ ဦးရီးတော် ဓတရဋ္ဌသည် တိုင်းပြည်ကို နှစ်ပိုင်းခွဲကာ သားတော်များနှင့် တူတော်များအား တပိုင်းစီပေးအပ်ရာ သားတော်တို့က ဟတ္ထိနာပုရမြို့တော်ကိုပါ ရရှိ၍ တူတော်တို့ကမူ မိမိတို့ရရှိသည့် မြို့နယ်အတွင်း ဣန္ဒပတ္တ မြို့တော်ကို တည်ထောင်လေသည်။

ပဏ္ဍဝမင်းသားတို့သည် မိမိတို့၏ တိုင်းပြည်ကို ကောင်းစွာ အုပ်ချုပ်လေရာ၊တိုင်းပြည်မှာ စည်ပင်ဝပြောလေသည်။ ဤသို့ စည်ပင်ဝပြောသည်ကို ကောရဗျမင်းသားတို့၏နောင်တော်ကြီး ဒုယျော်ဓနသည် မရှုစိမ့်နိုင်ရကား သကုနိမည်သော ကစားသမားကျော်တဦး၏ အကူအညီဖြင့် ပဏ္ဍဝမင်းတို့၏ ပျက်စီးရာ ပျက်စီးကြောင်းကို ကြံစည်လေသည်။ ဒုယျော်ဓနမင်းသားသည် ပဏ္ဍဝမင်းသားတို့အား ဟတ္ထိနာပုရမြို့တော်သို့ ဥပါယ်တမျဉ်ဖြင့် ဖိတ်ကြားကာ ကြွေအံကစားပွဲ ကျင်းပလေသည်။ ထိုကစားပွဲတွင် ယုဓိဋ္ဌိလသည် ဒုယျော်ဓနနှင့် ကစားလေသော် တစတစနှင့် ရှုံး၍ မိမိ၏ တိုင်းပြည် ဖိုလ်ပါ စစ်တပ် ညီတော်များနှင့်တကွ ဒေါပဒီကိုပါ ဆုံးလေတော့သည်။ နောက်ဆုံးတွင် ဒေါပဒီနှင့်အတူ ညီနောင် ၅ ပါးသည် သရသွတီ မြစ်ကမ်းပါးရှိ ကမ္မကတောသို့ ထွက်ခွာ၍၊ ၁၂ နှစ်ပတ်လုံး တောတွင်း၌ နေထိုင်ကြရလေသည်။ ထိုနောက် တနှစ်တာမျှ မထင်မရှား နေထိုင်ပြီးသောအခါတွင်ကား တိုင်းပြည် ပြန်ပေးမည်ဟု ဒုယျော်ဓနက ကတိပြုလေသည်။ ၁၃ နှစ် မြောက်သောအခါ ပဏ္ဍဝမင်းသားတို့သည် ကမ္မကတောမှ ထွက်ခွာခဲ့ကြပြီးနောက် မစ္ဆပြည့်ရှင် ဝိရာဋမင်းထံ မထင်မရှားခစားကြလေသည်။ ထိုအချိန်တွင် ကောရဗျမင်းတို့သည် အခြား ဘုရင်တပါးနှင့် မဟာမိတ်ဖွဲ့ကာ မစ္ဆတိုင်းကို ဝင်ရောက်တိုက်ခိုက်လေသော်၊ ပဏ္ဍဝမင်းသားတို့သည် ရန်သူတို့အား ခုခံတွန်းလှန်ပြီးနောက် ဝိရာဋမင်းအား ကယ်ဆယ်လိုက်လေသည်။ ထိုနောက် မိမိတို့၏ ဇာတိမှန်ကို ထုတ်ဖော်ကာ ဝိရာဋမင်းနှင့် မဟာမိတ်ဖွဲ့လေသည်။ ကောရဗျမင်းသားတို့ထံမှလည်း မိမိတို့၏ တိုင်းပြည်ကို ပြန်လည်တောင်းဆိုရာ အကြောင်းမပြန်သဖြင့် စစ်တိုက်ရန် ပြင်ဆင်လေတော့သည်။ မကြာမီပင် ဝမ်းကွဲညီနောင်များ အချင်းချင်း ကုရုခေတြမြေပြင်ဝယ် စစ်ပွဲကြီးဆင်ယင် ကြလေသည်။ အချို့မင်းတို့က ကောရဗျ မင်းသားတို့ဖက်မှ ဝင်ရောက် ကူညီ၍၊ အချို့ကမူ ပဏ္ဍဝမင်းသားတို့ဖက်မှ ကူညီကြလေသည်။ ပဏ္ဍဝတို့ဖက်မှ ကူညီကြသူတို့အနက် အထင်ရှားဆုံးမှာ ကဏှပင် ဖြစ်သည်။ မိမိတို့၏ ညီနောင်တဝမ်းကွဲတို့အား မင်္ဂမကွက် ရက်စက်စွာသတ်ဖြတ်တိုက်ခိုက်ရန် ကဏှကအားပေးလှုံ့ဆော်ချက်မှာ ဘဂဝဂီတာဟူသော အမည်ဖြင့် ဤအခန်းဝယ်သီးသန့်ပါရှိလေသည်။ စစ်ပွဲကြီးကား ၁၈ ရက်တိုင်တိုင် ကြာမြင့်၍ အပြီးသတ်ဝယ် ကောရဗျမင်းသားတို့ ပျက်စီးဆုံးရှုံးကြလေသည်။ ထိုတွင်ဘုရင်အိုကြီးဖြစ်သူဦးရီးတော် ဓတရဋ္ဌသည် တူတော်တို့နှင့် စေ့စပ်ကာ ဟတ္ထိနာပုရပြည့်ရှင်အဖြစ် ယုဓိဋ္ဌိလအား တင်မြှောက်လေသည်။ ဓတရဋ္ဌလည်း ဟတ္ထိနာပုရမြို့တော်တွင်ပင် ၁၅ နှစ်တာမျှ နေထိုင်ပြီးနောက် မိဖုရားနှင့်အတူ တောထွက်လေလျှင် တောမီးလောင်၍ အနိစ္စရောက်လေသည်။ ယာဒဝမျိုးတို့လည်း အချင်းချင်း ပဋိပက္ခဖြစ်၍ တမျိုးလုံး ပျက်စီး ကြရပြီးနောက်၊ ကဏှလည်း ဝမ်းနည်း ပက်လက်ဖြင့် တောသို့ သွားလျှင် မုဆိုးတယောက်၏ မြားချက်ဖြင့် အသက်ပျောက်ရလေသည်။ ပဏ္ဍဝမင်းသားများ ကိုယ်တိုင်မှာလည်း ဘဝကို ငြီးငွေ့ကာ၊ အဇ္ဇုနမင်းသား၏ မြေးတော် ပရိက္ခိတအား တိုင်းပြည်ကို အပ်နှံ၍ မေရုတောင်သို့ ဦးတည်ကြွလှမ်းကြစဉ်ပင် မိမိတို့၏ ကြင်ယာတော်နှင့် အတူ နတ်ရွာစံကြလေသည်။

ဤတွင် မဟာဘာရတ ဇာတ်လမ်းပြီးဆုံးလေသည်။ နောက်ဆက်တွဲ ဟရိဝံသမှာမူ ကဏှအကြောင်း သက်သက်ကိုသာ ပြဆို လေသည်။

မဟာဘာရတသည် ဇာတ်လမ်းအနေဖြင့် တရံရောအခါ

က အိန္ဒိယနိုင်ငံတွင် အကယ်ပေါ်ပေါက်ခဲ့သည့် ဖြစ်ရပ်အချို့ကို အရင်းခံပြု၍ ဖွဲ့ဆိုထားသော လင်္ကာဖြစ်သည်ဟု ယူဆရလေသည်။ သို့သော် ပုံဝတ္ထုများကို စုပေါင်းထားရာ လင်္ကာမည်ကာမျှကား မဟုတ်၊ အိန္ဒိယနိုင်ငံ၏ ရှေးဟောင်းအယူဝါဒ အတွေးအခေါ်များအပြင် ပထဝီဝင်နှင့် သမိုင်းကြောင်းဆိုင်ရာ အရေးပါသော အချက်အလက်များကိုပါ သိုမှီးထားရာ ရတနာသိုက်သဖွယ် ဖြစ်လေသည်။ ရှေးပဝေဏီက အိန္ဒိယနိုင်ငံတွင် နေထိုင်ခဲ့ကြသူတို့၏ နိုင်ငံရေး သဘောတရားများနှင့် လူနေမှုစံနစ်များကို မဟာဘာရတတွင် တွေ့မြင်နိုင်လေသည်။

ဦးဘလေး

**မဟာမုနိ ဘုရား(မန္တလေး)။** ။မန္တလေး မဟာမုနိဘုရားကို မဟာမြတ်မုနိဟူ၍၎င်း၊ ဘုရားကြီးဟူ၍၎င်း၊ ရခိုင်ဘုရားကြီးဟူ၍၎င်း ခေါ်ကြသည်။ ဓညဝတီမည်သော ရခိုင်ပြည်၌ မင်းအဆက်ဆက်တို့ ကိုးကွယ်ခဲ့သော ယင်းမဟာမုနိရုပ်ပွားတော်မြတ်ကား အမရပူရ ပဉ္စမမြို့တည်နန်းတည် ဘိုးတော် မင်းတရားကြီး လက်ထက်၊ သားတော်ကြီး အိမ်ရှေ့ဥပရာဇာကို သက္ကရာဇ် ၁၁၄၆ ခုနှစ် တန်ဆောင်မုန်းလတွင် ရခိုင်ပြည်သို့ ချီစေပြီးနောက် လုပ်ကြံသိမ်းပိုက်ရာမှ အမရပူရ ရွှေမြို့တော်သို့ ပင့်ဆောင် ရောက်ရှိလာခဲ့ခြင်း ဖြစ်လေသည်။

သဗ္ဗညုရှင်တော်ဘုရား သက်တော်ထင်ရှား ရှိတော်မူစဉ် ဓညဝတီ ရခိုင်ပြည်ကြီးတွင် စန္ဒသူရိယမင်းသည် ထီးနန်းဆက်ခံစိုးစံလျက်ရှိ၏။ ထိုမင်းလက်ထက်တွင် မြတ်စွာဘုရားသခင်သည် နောက်ပါ ရဟန္တာ ၅၀၀ ခြံရံလျက် မင်းကြီးစံရာ ဓညဝတီသို့ ဒေသစာရီ ကြွချီတော်မူခဲ့လေသည်။ ဘုရားရှင်သည် မင်းကြီးနှင့်တကွ ပြည်သူအပေါင်းတို့အား တရားဓမ္မဟောပြော ဆုံးမတော်မူကာ တဝါတိတိ သီတင်းသုံးတော်မူပြီးသည့်နောက် ပြန်ကြွတော်မူခါနီးတွင် စန္ဒသူရိယမင်းက ဘုရားရှင်ကိုယ်စား ရုပ်ပွားတော်မြတ်တဆူ သွန်းလုပ်ထားရစ်ပါမည့် အကြောင်း လျှောက်ထားသည်။ ဘုရားရှင်လည်း အကြောင်းကြောင်းကို ထောက်ရှု၍ ပဋိညာဉ် ပေးတော်မူလေသည်။

စန္ဒသူရိယမင်းကြီးလည်း ရွှေငွေ ရတနာတို့ကို ကျိချက်၍ ဘုရားရှင်၏ ရှေ့တော်မှောက်ဘွင် ရုပ်ပွားတော်ကို အောင်မြင်စွာ သွန်းလုပ်ပြီးနောက် ဘုရားရှင်၏ ရင်ငွေ့တော်ကို ၇ ကြိမ် ခံယူလေသည်။ ဓညဝတီပြည် မင်းအဆက်ဆက်တို့လည်း ယင်းရုပ်ပွားတော်မြတ်ကို "မဟာမုနိ" ဘွဲ့အမည်



မဟာမုနိဘုရား မဟာရာမ်အတွင်းရှိ မဟာမုနိရုပ်ရှင်တော်မြတ်နှင့်အတူ ရခိုင်ပြည်မှ ပါလာသော ကြေးလူရုပ်နှစ်ခု

ဖြင့် ကိုးကွယ်လာခဲ့ကြ၏။ အလွန်တန်ခိုးတော် ကြီးမြတ်သည်ဟု ဆိုသည်။ ထိုရုပ်ပွားတော်မြတ်ကို မြန်မာမင်းတို့ ကိုးကွယ်လို၍ ပုဂံပြည် အနော်ရထာမင်းစော လက်ထက်တွင်တကြိမ်၊ အလောင်းစည်သူမင်း လက်ထက်တွင် တကြိမ် ပင့်ဆောင်ခဲ့ဘူးသော်လည်း မရရှိခဲ့ချေ။ အမရပူရမြို့တည် ဘိုးတော်မင်းတရားကြီး လက်ထက်ရောက်မှ ရခိုင်ပြည်အလုံးကို သိမ်းကျုံးအောင်မြင်တော်မူ၍ မဟာမုနိ ရုပ်ပွားတော်မြတ်ကို မြန်မာနိုင်ငံသို့ ပင့်ဆောင်လာနိုင်ခဲ့လေသည်။

ရခိုင်ပြည်၊ မြို့ဟောင်းမြို့ရှိ မဟာမုနိ ရုပ်ပွားတော်မြတ်ကို သားတော် အိမ်ရှေ့ဥပရာဇာသည် သက္ကရာဇ် ၁၁၄၆ ခုနှစ် တပို့တွဲလတွင် မြို့ဟောင်းမှ တောင်ကုတ်အထိ ရေလမ်းဖြင့် ဖောင်ဖွဲ့ပြီး ပင့်ဆောင်လာခဲ့သည်။ တောင်ကုတ်မှ တဖန် ကုန်းကြောင်းခရီးဖြင့် စက်ရထားစီရင်ပြီးဥယျာဉ်ပုကြောင်း မှ့ရိုးမကို ခဲယဉ်းပင်ပန်းစွာဖြတ်ကျော်ခဲ့ရာ၊ ပြည်တဖက်ကမ်း ပန်းတောင်းမြို့သို့ ချောမောစွာ ဆိုက်ရောက် လာခဲ့သည်။ ပန်းတောင်းမြို့ ဆိပ်ကမ်းမှ တဖန် ရွှေဖောင်တော် နှစ်စင်းတွဲပြီးလျှင် ဧရာဝတီမြစ်ကို ဆန်တက်ခဲ့ရာ၊ သက္ကရာဇ် ၁၁၄၇ ခုနှစ် ကဆုန်လပြည့်ကျော် ၁၂ ရက်နေ့တွင် စစ်ကိုင်းဆိပ်ကမ်းသို့ ရောက်ရှိတော်မူလေသည်။ ဤသို့ မြို့ဟောင်းမှ စစ်ကိုင်းမြို့သို့ ရေကြောင်း ကုန်းကြောင်း ခရီးဖြင့် ပင့်ဆောင် လာခဲ့ရာ စုစုပေါင်း ၄ လကျော်ကျော် ကြာခဲ့လေသည်။

မဟာမုနိဘုရားရှင် ရောက်ကြောင်း ကြားသိသည့် အခါ ဘိုးတော်မင်းတရားကြီးသည် စစ်အင်္ဂါလေးပါး ခြံရံ၍ ကိုယ်တော်တိုင် ရေလည်ပင်းထိ ဆင်းကြိုတော်မူပြီးလျှင်၊ အမရပူရ ရွှေမြို့တော်သို့ ပင့်ဆောင် လာခဲ့လေသည်။ ထိုနောက် အမရပူရ မြို့တော်မြောက်ယွန်း တာတထောင် အကွာ ညီညာပြေပြစ်သော မြေအပြင်ဝယ် အုတ်အင်္ဂတေတို့ဖြင့် ခံသော ဖလ်မှန်ရတနာတို့နှင့် ခြယ်စီအပ်သည့် ဘုံကိုးဆင့်ရှိ ရွှေပြာသာဒ်တော်တွင် သွင်း၍ ကိုးကွယ် တော်မူလေသည်။

ထိုနောက် မင်း မိဖုရား၊ မှူးမတ် ဝန် စသည်တို့သည် ဘုရားကြီးအတွက် အစဉ်အဆက် ရွှေသင်းကျစ်၊ ရွှေမကိုဋ်၊ ရွှေစောင်းတန်း၊ ရွှေဇရပ်စသည်ပစ္စည်းများနှင့်ပြာသာဒ်ကြီးကို မွမ်းမံပြုပြင် လာကြသည်မှာ သက္ကရာဇ် ၁၂၄၅ ခုနှစ်သို့ တိုင်ရောက်ခဲ့လေသည်။ ၁၂၄၅ ခုနှစ် ကဆုန်လတွင် သီပေါမင်းတရားက ရွှေငွေ ကျောက်သံ ပတ္တမြား စုစုပေါင်း ၈ သောင်းကျော် တန်ဖိုးရှိသည့် ထီးဖြူတော်ကို လှူဒါန်းတော်မူသည်။

သက္ကရာဇ် ၁၂၄၅ ခုနှစ် တန်ခူးလတွင် ရတနာဘုမ်အရပ်မှ စ၍ လောင်သော မီးကူးစက်မှုကြောင့် မဟာမုနိ ရုပ်ပွားတော်မြတ် ကိန်းဝပ်တော်မူရာ တန်ဆောင်းပြာသာဒ်တော်ကြီးနှင့်တကွ စောင်းတန်း လေးသွယ်၊ပတ်ဝန်းကျင်ကျောင်းတိုက်များပါ မီးသင့် လောင်လေသည်။ မဟာမုနိ ရုပ်ပွားတော်မြတ်မှာ ရွှေသား မကိုဋ်တော်၊ နားပန်တော်၊ စလွယ်တော်များနှင့် အများကောင်းမှုများ အားလုံး မီးထဲတွင် ပါသွားသည်။ ရုပ်ပွားတော် မူရင်းမှာကား တစုံ တရာ ချွတ်ယွင်း ပျက်စီးခြင်းမရှိ ပကတိအတိုင်း တည်ရှိတော်မူသည်။ မဟာမုနိရုပ်ရှင်တော်မှ စီးဆင်းသည့် ရွှေများကို ကောက်ယူ ချိန်တွယ်ကြည့်ရာ ရွှေချိန် ငါးထောင့်လေးရာငါးဆယ် (၅,၄၅၀) ကျော်သည်ဟု သိရသည်။၁၂၄၆ ခုနှစ် ဝါဆိုလတွင် ထိုပျက်စီးသမျှ ရွှေသားမကိုဋ် စသည်တို့ကို သီပေါမင်းတရားက ပြန်လည် တပ်ဆင်မွမ်းမံပြီးလျှင် မျက်နှာတော်ဖွင့်တော်မူသည်။ မဟာမုနိ ရုပ်ပွားတော်မှာ ဥဿဏ်တော် ၈ တောင် တမိုက်၊ သို့မဟုတ် ၁၂ ပေ ၇ လက်မရှိပြီးလျှင် ပလ္လင်တော်မှ ၇ ပေမြင့်သည်။

သက္ကရာဇ် ၁၂၆၀ ပြည့်နှစ်တွင် ယခုထင်ရှားရှိသော ပြာသာဒ်တော်ကြီးကို အုတ်အင်္ဂတေတို့ဖြင့် အခွန့်ရှည်စွာအခိုင်အခံ့ ဆောက်လုပ်လှူဒါန်းကြသည်။ ထိုပြာသာဒ်တော်ကြီးအထက်တွင် ထားရှိသော မူလထီးတော်ကြီးသည် ၁၂၇၈ ခုနှစ်တွင် လေခ၍မြေသို့ကျရာ ယပ်စောက်စော်ဘွားကြီးက အသစ်တဖန် ပြန်လည်လှူဒါန်းပြန်သည်။ ငှက်မြတ်နားတော်၊ စိန်ဖူးတော်သို့ကိုကား ညောင်ရွှေစော်ဘွားကြီးက ၁၂၈၀ ပြည့်နှစ်တွင် တင်၍ လှူဒါန်းတော် မူသည်။

မဟာမုနိဘုရား မဟာရာမ်အတွင်းတွင် ရှိနေသော ယိုးဒယားကြေးလူရုပ် ၂ ခု၊ ခြင်္သေ့ရုပ် ၃ ခုနှင့် ခေါင်း ၃ လုံးရှိသောဧရာဝဏ်ဆင်ရုပ် တခုတို့မှာ မဟာမုနိ ရုပ်ရှင်တော်မြတ်နှင့်အတူ ရခိုင်ပြည်မှပါလာသော ကြေးရုပ်ကြီးများ ဖြစ်သည်။ ရခိုင်ပြည်မှ ပါလာသော်လည်း ရခိုင်ကြေးရုပ်များ မဟုတ်၊ ယိုးဒယားကြေးရုပ်များသာဖြစ်သည်။ ဤကြေးရုပ်များသည် ဘုရင့်နောင်လက်ထက်ကယိုးဒယားမှ သိမ်းယူခဲ့သည်။ နောက် သားတော်နန္ဒဘုရင်လက်ထက်တွင် တောင်ငူစားနှင့် စစ်ဖြစ်ရာ တောင်ငူစားဖက်မှ ရခိုင်ဘုရင်က ကူညီတိုက်သဖြင့် စစ်နိုင်သွားသည်။ ထိုကြောင့် တောင်ငူစားက ဤကြေးရုပ်ကြီးများကို လက်ဆောင်အဖြစ် ပေးလိုက်ခြင်းဖြစ်သည်။

**မဟာမက်။** ။မို့ဟမ္ဒ် — ရှူ။

**မဟာမောဂ္ဂလာန်ထေရ်။** ။မဟာ မောဂ္ဂလာန်ထေရ်သည် ဂေါတမမြတ်စွာဘုရား၏ လက်ဝဲရံ အဂ္ဂသာဝကအဖြစ် ခြီးမြှောက်ခြင်း ခံရသော ရဟန္တာ တပါးဖြစ်သည်။

ရာဇဂြိုဟ်ပြည် ကောလိတရွာ ဗြာဟ္မဏ မဟာသာလမျိုးဖြစ်သော ကောလိတရွာသူကြီးနှင့် မောဂ္ဂလိပုဏ္ဏေးမ၏သား ဖြစ်၍ ကောလိတဟု အမည်တွင်သည်။ ငယ်စဉ်က သူငယ်ချင်းဖြစ်သော ဥပတိဿပုဏ္ဏားပျိုနှင့် အတူ တောင်ထွတ်သဘင်ပွဲကို ကြည့်ကြယင်း သတိသံဝေဂရ၍ နှစ်ဦးသဘော

တူ တရားအားထုတ်ရန် ရာဇဂြိုဟ်ပြည် သိင်္ဂုဏ်းပရိဗိုဇ်ထံသို့ သွားကြသည်။

ထိုပရိဗိုဇ်ထံ၌ ရဟန်းပြု၍ တရားရှာကြသော်လည်း တရားစစ် တရားမှန်ကို မရနိုင်မှန်း သိကြသဖြင့် သူငယ်ချင်း နှစ်ဦးသည် တဦးတရားရလျှင် တဦးကို ပြန်ကြားပြောဆိုစတမ်းဟု ကတိကဝတ်ပြုလျက် တရားမှန်ရှာရန် တကွဲတပြားစီ ခွဲထွက်သွားကြသည်။

ထိုအခါ မြတ်စွာ ဘုရားသည် ရာဇဂြိုဟ်ပြည်သို့ ရောက်၍ ဝေဠုဝန် ကျောင်းတော်တွင် စံပယ်သီတင်းသုံးနေတော်မူခိုက်ဖြစ်သည်။ သူငယ်ချင်း ဖြစ်သော ဥပတိဿပရိဗိုဇ်သည် မြတ်စွာဘုရား၏တပည့် ပဉ္စဝဂ္ဂီတို့တွင် အငယ်ဆုံးဖြစ်သော အဿဇိထေရ်နှင့် တွေ့၍ မြတ်စွာဘုရား၏ တရားတော်ကို အဿဇိထေရ်မှတဆင့် နာကြားရကာ သောတာပတ္တိဖိုလ်သို့ ဦးစွာရောက်နှင့်သည်။ ဥပတိဿသည် ကတိကဝတ်အတိုင်း ပြန်လာပြီးလျှင် ကောလိတပရိဗိုဇ်အား မိမိကြားနာခဲ့ရသော ယေဓမ္မာ ဟေတုပ္ပဘဝါ ဟူသော တရားကို ပြန်ကြားဟောပြောရာ ဂါထာအဆုံး၌ ကောလိတပရိဗိုဇ်သည်လည်း သောတာပတ္တိဖိုလ်သို့ ရောက်လေသည်။

ကောလိတသည် တရားရပြီးနောက် ဥပတိဿနှင့်အတူ မြတ်စွာဘုရားထံသို့ လိုက်ပါသွားရောက်သည်။ မြတ်စွာဘုရားက တရားတော်ကို ဟောကြားသဖြင့် မဟာသက္ကရာဇ် ၁၀၃ ခု တပို့တွဲ လဆန်း ၇ ရက်နေ့တွင် ရဟန္တာအဖြစ်သို့ ရောက်သည်။ ထိုနေ့၌ပင် မြတ်စွာဘုရားက မဟာမောဂ္ဂလာန်ဟူ၍ အမိ၏အမည်ကို စွဲ၍ သမုတ်လျက် လက်ဝဲရံ အဂ္ဂသာဝကအရာ၌ ခြီးမြှောက်တော်မူသည်။ ထိုနောက် တန်ခိုးတော်အရာ၌ ထူးချွန်သဖြင့် ဧတဒဂ်ဘွဲ့ဖြင့် ခြီးမြှောက်တော်မူပြန်သည်။

မဟာမောဂ္ဂလာန်ထေရ်သည် မြတ်စွာဘုရားထံတွင် နှစ်ရှည်လများ အလုပ်အကျွေးပြုသည်။ ထိုနောက် ဣသိဂိလိတောင်နံဘေး၌ ဝဋ်ကြွေးအလျောက် ခိုးသား ၅ ရာတို့ ရိုက်နှက်ခြင်းကို ခံရသဖြင့် ပရိနိဗ္ဗာန် စံတော်မူသည်။ မဟာမောဂ္ဂလာန်ထေရ်၏ဓာတ်တော်များကို မြတ်စွာဘုရားကိုယ်တော်တိုင် ကြပ်မတ်၍ ဝေဠုဝန်ကျောင်းတော် တံခါးမုတ်ဝ၌ စေတီ တည်တော်မူသည်။

နောင်သောအခါ သီရိဓမ္မာသောကမင်းကြီးသည် ဓာတ်တော်များကို မူလနေရာမှ တူးဖော်ဆောင်ယူ၍ အဝန္တိတိုင်း ဥဇ္ဇေနီပြည်အနီး ဝေဒိဿကတောင်ရှိ၌ စေတီကြီး ၃ ဆူ တည်၍ တဆူတွင် မဟာမောဂ္ဂလာန်ထေရ်၏ ဓာတ်တော်ကို ဌာပနာသည်။

ထိုဓာတ်တော်များကို ၁၉ ရာစုနှစ်အတွင်း၌ စေတီတော်ပြိုပျက်ရာတွင် တူးဖော်တွေ့ရှိရ၍ အင်္ဂလန်နိုင်ငံ ပြတိုက်သို့ ပင့်ဆောင်ပူဇော်ထားရာမှ အိန္ဒိယနိုင်ငံ မဟာဗောဓိအသင်းမှ ကြီးမှူး၍ ပြန်လည်ပင့်ဆောင်ကာ ထိုဝေဒိဿကတောင် (ယခုအခါ ဆန်ချီ) အရပ်ရှိ စေတီတော်၌ပင် ဌာပနာခြင်းပြုသည်။ ဓာတ်တော်များကို ဌာပနာခြင်းမပြုမီ မြန်မာနိုင်ငံအစိုးရက မြန်မာနိုင်ငံသို့ ပင့်ဆောင်ကာ မြို့ရွာများစွာတွင် လှည့်လည် အပူဇော်ခံတော်မူသည်။ ဓာတ်တော် ဌာပနာပွဲကို ၁၉၅၂ ခုနှစ်တွင် အိန္ဒိယ၌ ကျင်းပရာ လွန်စွာ စည်ကားလှသည်။ ထိုပွဲတော်သို့ မြန်မာနိုင်ငံမှ ဝန်ကြီးချုပ် ဦးနုနှင့် ဗုဒ္ဓဝါဒီအများလည်း တက်ရောက်ကြသည်။

**မဟာယာန။** ။မဟာယာန အမည်မှာ မြောက်ပိုင်း ဗုဒ္ဓသာသနာ၏ အမည်ဖြစ်သည်။ ကမ္ဘာပေါ်ရှိ ဗုဒ္ဓသာသနာမှာ တောင်ပိုင်း ဗုဒ္ဓသာသနာ၊ မြောက်ပိုင်း ဗုဒ္ဓသာသနာဟု နှစ်မျိုးရှိရာ တောင်ပိုင်းဗုဒ္ဓသာသနာမှာ ထေရဝါဒဂိုဏ်း ဗုဒ္ဓသာသနာဖြစ်သည်။ မြောက်ပိုင်း ဗုဒ္ဓသာသနာမှာ မဟာယာနဂိုဏ်း ဗုဒ္ဓသာသနာဖြစ်သည်။ ထိုတောင်ပိုင်း မြောက်ပိုင်းကွဲသည်မှာလည်း ဒုတိယသင်္ဂါယနာ တင်သည်က စ၍ကွဲသည်။

မြတ်စွာဘုရား ပရိနိဗ္ဗာန် စံလွန်ပြီး ၄ လမြောက်တွင် အရှင်မဟာကဿပ အမှူးရှိသော သံဃာတော်တို့သည် အဇာတသတ်မင်းကို အမှီပြု၍ ပဌမသင်္ဂါယနာတင်ပြီး သာသနာနှစ် ၁၀၀ ပြည့်အတွင်း ဗုဒ္ဓသာသနာသည် အယူဝါဒ ကွဲပြားခြင်းမရှိ။ နောက်သာသနာနှစ် ၁၀၀ ပြည့်တွင် အရှင်မဟာယသအမှူးရှိသော သံဃာတော်တို့သည် ကာလာသောကမင်းကို အမှီပြု၍ ဒုတိယသင်္ဂါယနာတင်ကြသည်။ (သင်္ဂါယနာ — ရှု။)

ထိုအခါ ဝေသာလီပြည် ဝဇ္ဇီတိုင်းသား သံဃာတသောင်းတို့သည် ဝိနည်းဒေသနာတော်၌ အယူအဆ ကွဲပြားသည့် အတွက် ကောသမ္ဗီပြည်၌ သီးခြားခွဲ၍သင်္ဂါယနာတင်ကြသည်။

ထိုသို့ သင်္ဂါယနာတင်ကြရာ၌ အရှင်မဟာယသအမှူးရှိသော သံဃာတော်တို့ကို ပိဋကတ်တော်ကို ပဌမသင်္ဂါယနာတင် မထေရ်ကြီးတို့ အယူဝါဒအတိုင်း တင်ကြသောကြောင့်၎င်း၊ သံဃာမှ ရွေးချယ်အပ်သော မထေရ်ကြီးတို့ တင်ကြသောကြောင့်၎င်း ထေရဝါဒဂိုဏ်းဟု ခေါ်သည်။ သီးခြားခွဲ၍တင်သော ဝေသာလီပြည် ဝဇ္ဇီတိုင်းသား သံဃာတို့ကို သံဃာများသည်ဟုယူဆကာ မဟာသင်္ဂီတိဂိုဏ်းဟု ခေါ်ကြသည်။ ထိုအခါကစ၍ ဗုဒ္ဓသာသနာတွင် ဂိုဏ်းကြီးနှစ်ဂိုဏ်း ကွဲသွားသည်။

ဂိုဏ်းကွဲခြင်း အကြောင်းကား နာနာနယ နိပုဏ ဂမ္ဘီရဒေသနာတော်အတိုင်း ပိဋကတ်တော်သည် နည်းအမျိုးမျိုးတို့ဖြင့် သိမ်မွေ့နက်နဲရကား အနက်အဓိပ္ပါယ်ကို ယူရာ၌ တိုက်ရိုက်ယူရမည်ကို ဆောင်၍ယူခြင်း၊ ဆောင်၍ယူရမည်ကို တိုက်ရိုက်ယူခြင်း၊ အဖြောင့်ယူရမည်ကို ကွေ့ကောက်ယူခြင်း၊ ကွေ့



တိဗက်ပြည်တွင် ကြည်ညိုဖွယ် ဖူးမြင်ရသော ပိုးခြည်ထိုး အဝလောကိ တေသာရ ဘုရားလောင်း ပုံတော်

ကောက်ယူရမည်ကို အဖြောင့်ယူခြင်း၊ မုချယူရမည်ကို ဥပစာယူခြင်း၊ ဥပစာယူရမည်ကို မုချယူခြင်း၊ အပြည့်အစုံ ယူရမည်ကို တစိတ်တဒေသယူခြင်း၊ တစိတ်တဒေသ ယူရမည်ကို အပြည့်အစုံယူခြင်း စသည်ဖြင့် အယူအဆ ကွဲလွဲခြင်းကြောင့်၎င်း၊ တဦးနှင့် တဦး ပုဂ္ဂိုလ်အနေဖြင့် မကြေနပ်ခြင်းကြောင့်၎င်း ဂိုဏ်းကွဲခြင်း ဖြစ်သည်။

ဒုတိယသင်္ဂါယနာတင်သည်မှ တတိယသင်္ဂါယနာ အထိ နှစ်ပေါင်း ၁၃၅ နှစ်အတွင်း ကွဲသောဂိုဏ်းတို့ကား ထေရဝါဒဂိုဏ်းကြီးမှ (၁) မဟိသာသကဂိုဏ်း၊ (၂) ဝဇ္ဇီပုတ္တကဂိုဏ်း၊ (၃) ဓမ္မုတ္တရိကဂိုဏ်း၊ (၄) ဘဒ္ဒယာနိကဂိုဏ်း၊ (၅) ဆန္နာဂါရိကဂိုဏ်း၊ (၆) သမ္မိတိဂိုဏ်း၊ (၇) သဗ္ဗတ္ထိဂိုဏ်း၊ (သဗ္ဗသတိဂိုဏ်း)၊ (၈) ဓမ္မဂုတ္တဂိုဏ်း၊ (၉) ကဿပိကဂိုဏ်း၊ (၁၀) သင်္ကန္တိကဂိုဏ်း၊ (၁၁) သုတ္တဂိုဏ်းဟူ၍ တဆဲ့တဂိုဏ်း ကွဲသွားသည်။

မဟာသင်္ဂီတိဂိုဏ်းကြီးမှလည်း (၁) ဂေါကုလိကဂိုဏ်း၊ (၂) ဧကဗျောဟာရဂိုဏ်း၊ (၃) ဗဟုသုတိကဂိုဏ်း၊ (၄) ပညတ္တိဂိုဏ်း၊ (၅) စေတိယဂိုဏ်းဟူ၍ ငါးဂိုဏ်းကွဲသွားသည်။ ဤသို့လျှင် ဂိုဏ်းငယ် တဆဲ့ခြောက်ဂိုဏ်း၊ မူလဂိုဏ်းကြီး နှစ်ဂိုဏ်းနှင့် ပေါင်းလျှင် တဆဲ့ရှစ်ဂိုဏ်း ဖြစ်သည်။

ထိုတဆဲ့ရှစ်ဂိုဏ်းတွင် မူလဖြစ်သော ထေရဝါဒဂိုဏ်းကြီး တဂိုဏ်းသာ ပဌမသင်္ဂါယနာတင်ရာတွင် သတ်မှတ် ပြဓာန်းပြီးဖြစ်သော ပိဋကတ်တော်ကို ပြင်ဆင်ခြင်း၊ နုတ်ပယ်ခြင်း၊ ဖြည့်စွက်ခြင်းမရှိ။ မူလအတိုင်း ထားကာ ယနေ့တိုင်အောင် ထိန်းသိမ်း စောင့်ရှောက်လာကြသည်။ အခြားဂိုဏ်းတို့ကား ပဌမသင်္ဂါယနာတင်ရာတွင် သတ်မှတ် ပြဓာန်းပြီး ဖြစ်သော ပိဋကတ်တော်ကို မူလအတိုင်း မထားဘဲ အရပ်ဒေသသို့လိုက်၍၎င်း၊ အခြားဘာသာအယူဝါဒသို့ လိုက်၍၎င်း၊ ကျပ်တည်းကျဉ်းမြောင်းသည်ဟု ယူဆကာ မိမိတို့ မကျင့်လို၍၎င်း၊ မိမိတို့ လိုရာဆွဲ၍ ဖောက်လဲဖောက်ပြန် မမှန်မကန် ယူဆ၍၎င်း၊ မလိုသော နေရာကို နုတ်ပယ်ခြင်း၊ လိုသော နေရာကို အသစ်ဖြည့်စွက်ခြင်း ပြင်ဆင်ခြင်း စသည်တို့ကို ပြုလုပ်ကြ၍၎င်း မူလပိဋကတ်တော် မဟုတ်တော့ဘဲ တမျိုးတမည် ဖြစ်၍သွားတော့သည်။

သာသနာနှစ် ၂၃၅ တွင် အရှင်မောဂ္ဂလိပုတ္တတိဿအမှူးရှိသော သံဃာတော်တို့သည် သီရိဓမ္မာသောကမင်းကို အမှီပြု၍ တတိယသင်္ဂါယနာတင်ကြသည်။

ထိုအခါ ထေရဝါဒဂိုဏ်းကြီးမှကွဲသွားသော တဆဲ့တဂိုဏ်းတို့တွင် သဗ္ဗသတိဂိုဏ်းက အမှူးပြု၍ ရာဇဂြိုဟ်ပြည်အနီး နာလန္ဒကျောင်းကြီး၌ သီးခြားခွဲ၍ သင်္ဂါယနာတင်ကြသည်။

ထိုအခါမှ စ၍ သဗ္ဗသတိဂိုဏ်းသည် တိုးတက်ကြီးပွားကာ မဟာသင်္ဂီတိဂိုဏ်းကြီးနှင့် အခြားဂိုဏ်းတို့ကို လွှမ်းမိုးသွားသည်။ မဟာသင်္ဂီတိဂိုဏ်းကြီးနှင့် အခြားဂိုဏ်းတို့သည် အမည်မထင်ရှားတော့ဘဲ တဖြည်းဖြည်း တိမ်မြုပ်ပျောက်ကွယ်သွားကြသည်။ နောက်အခါ သဗ္ဗသတိဂိုဏ်းတခုသာ ထင်ရှား ကျန်ရှိလေသည်။

သဗ္ဗသတိဂိုဏ်းကား မဟာယာနဗုဒ္ဓသာသနာ ပေါက်ပွားရာဂိုဏ်းဖြစ်သည်။ မြတ်စွာဘုရားက ခပ်သိမ်းသော အရာသည် (ခပ်သိမ်းသောသင်္ခတဝါသခံရသည်) အမြဲ မရှိ၊ မတည်ဟု ဟောတော်မူ၏။ ထိုဂိုဏ်းက အတိတ် အနာဂတ် ပစ္စုပ္ပန်ကာလသုံးပါး၌ မြဲ၏၊ တည်နေ၏ဟု ယူဆပြောဟောသည်။

တတိယ သင်္ဂါယနာတင်ပြီးနောက် အရှင်မောဂ္ဂလိပုတ္တတိဿက စေလွှတ်သဖြင့် ထေရဝါဒဂိုဏ်း ဗုဒ္ဓသာသနာသည် မြန်မာ၊ သီဟိုဠ်၊ ယိုးဒယား၊ ကမ္ဘောဇပြည် စသည်တို့သို့ ရောက်သွားသည်။

နောက်ဗုဒ္ဓသာသနာကို အားပေးသော သီရိဓမ္မာသောကမင်းဆက်ပြုတ်၍ ဗြာဟ္မဏအယူဝါဒကို အားပေးသော ဆုင်မင်းဆက် တက်လာသောအခါ ဗုဒ္ဓသာသနာသည် တဖြည်းဖြည်း မှေးမှိန်လာသည်။ ဗြဟ္မာဏ ဘာသာ သာမဗေဒင် ကျမ်းအရ ယဇ်ပူဇော်ခြင်း ခေတ်စားလာသည်။ ဆန်းကျမ်းကို စီရင်သော ပိင်္ဂလဆရာကြီးသည်ပင် ယဇ်ဆရာကြီးဖြစ်လာသည်။

ထိုအခါ ထေရဝါဒဂိုဏ်းသည် မဇ္ဈိမဒေသမှ တောင်ဖက်သို့ ရွှေပြောင်းသွားသည်။ ထို့ကြောင့် တောင်ပိုင်း ဗုဒ္ဓသာသနာခေါ်သည်။ သဗ္ဗသတိဂိုဏ်းလည်း မြောက်ဖက်နှင့် အနောက်မြောက်ဖက်ဖြစ်သော မထုရာပြည် ကသ္မီရတိုင်း ဂန္ဓာရ တိုင်းသို့ ပြောင်းရွှေ့သွားသည်။ ထို့ကြောင့် မြောက်ပိုင်း ဗုဒ္ဓသာသနာခေါ်သည်။ ထိုစဉ်အခါ ထိုမြောက်ပိုင်းရှိ တိုင်းတို့၌ ကနိသျှကမင်း အုပ်စိုးလျက်ရှိသည်။ နောက်တဖြည်းဖြည်း ကိုးရီးယား၊ တရုပ်၊ ဂျပန်၊ တိဗက်၊ ရုရှ၊ ဆိုက်ဗီးရီးယား၊ နီပေါ၊ ဘူတန် စသည်တို့သို့ ရောက်သွားသည်။

ပြောင်းရွှေ့သွားကြရာ၌ ထေရဝါဒိဂိုဏ်းသည် မာဂဓ ဘာသာဖြင့်ရှိသော ပိဋကတ်တော်ကို အခြားဘာသာသို့ ပြောင်းလဲပြန်ဆိုခြင်း မပြုရအောင် ကျပ်တည်းစွာ ထိန်းသိမ်းစောင့်ရှောက်သည်။ သဗ္ဗသတိဂိုဏ်းကား ကာလ ဒေသ ဘာသာ ပုဂ္ဂိုလ်သို့လိုက်၍ တစတစ အခြားဘာသာစကားသို့ ပြောင်းလဲ ပြန်ဆိုကြသည်။

သဗ္ဗသတိဂိုဏ်းသည် မထုရာပြည်သို့ ရောက်သော အခါ အရိယသဗ္ဗသတိဂိုဏ်းဖြစ်လာသည်။ ပိဋကတ်တော်ကိုလည်း ပုဏ္ဏားတို့ လိုလားသော သက္ကတဘာသာသို့ ပြန်ဆိုကြသည်။ ပြန်ဆိုရာ၌ အပြည့်အစုံ ပြန်ဆိုခြင်းမဟုတ်၊ နုတ်ပယ်ခြင်း ဖြည့်စွက်ခြင်း လိုရာသို့ ဆွဲဆောင်ခြင်းများကို ပြုလုပ်ပြန်ဆိုကြဟန် တူသည်။

သာသနာနှစ် ၆၅၀–၇၀၀ (ခရစ် ၁၀၆–၁၅၆) အတွင်း သဗ္ဗသတိဂိုဏ်းဝင် အရှင်ဝါသုမိတ္တနှင့် အရှင်အဿဃောသတို့ ကြီးမှူးသော သံဃာ ၅ ရာတို့သည် ကနိသျှက



တရုပ်ပြည်မဟာယာနဂိုဏ်း၏ တတိယဘုရားလောင်းမှာ မေတ္တေယျဘုရားလောင်းဖြစ်သည်။ပုံတော်မှာ ပြုံးရွှင်နေသောလူဝကြီးပုံဖြစ်သည်။

မင်းကို အမှီပြု၍ ပက်ရှဝါမြို့တော်၌(သို့မဟုတ်) ကသ္မီရတိုင်း ဇလန္ဓာမြို့ ကုန္ဒလဝနကျောင်း၌ သင်္ဂါယနာတင်ကြသည်။ ထိုအခါ ဝိဘာသာဋီကာကျမ်းများကို ရေးသား၍ တင်ကြသောကြောင့် ဝိဘာသိကဂိုဏ်းဟု ခေါ်ကြပြန်သည်။

သင်္ဂါယနာတင်ပြီးနောက် အရှင်အဿဃောသသည် ဗုဒ္ဓစရိတ မည်သော ဘုရားကျင့်စဉ်ဖြစ်စဉ်ကျမ်းကို ရေးသားသည်။ ယင်းကျမ်း၌ အဓိကကျင့်စဉ်သုံးမျိုးမှာ (၁) သာဝကယာန-သာဝကယာဉ်၊ သာဝက ဗောဓိကျင့်စဉ်၊ (၂) ပစ္စေကဗုဒ္ဓယာန- ပစ္စေက ဗုဒ္ဓယာဉ်၊ ပစ္စေက ဗောဓိကျင့်စဉ်၊ (၃) ဗုဒ္ဓယာန-ဗုဒ္ဓယာဉ်၊ သမ္မာ သမ္ဗောဓိ ကျင့်စဉ်ဟူ၍ ၃ မျိုး ဖြစ်သည်။ သာဝကယာနနှင့် သာဝက ဗောဓိ၊ ပစ္စေက ဗုဒ္ဓယာနနှင့် ပစ္စေကဗောဓိ၊ ဗုဒ္ဓယာနနှင့် သမ္မာသမ္ဗောဓိ အတူတူပင် ဖြစ်သည်။ ဤနေရာ၌ အကျင့်ကို ယာဉ်ဆိုသည်မှာ လိုရာအရပ်သို့ သွားရောက် နိုင်သောလှေ၊ လှည်း၊ ရထားတို့ကို ယာဉ်ခေါ် ဆိုသကဲ့သို့ နိဗ္ဗာန်ရောက်နိုင်သော အနိစ္စ-ဒုက္ခ-အနတ္တ-လက္ခဏာ ၃ ပါးကို တင်စား၍ ယာဉ်ခေါ်သည်။ ထိုပြင် သာဝကအဖြစ်၊ ပစ္စေကဗုဒ္ဓအဖြစ်၊ ဘုရားအဖြစ်သို့ ရောက်နိုင်သော အကျင့်ကိုလည်း တင်စား၍ ယာဉ်ခေါ် ဆိုခြင်းဖြစ်သည်။

ထိုအခါမှစ၍ သဗ္ဗာသတိဂိုဏ်းသည် ထိုယာဉ် ၃ မျိုး တို့တွင် သာဝကယာနနှင့် ပစ္စေက ဗုဒ္ဓယာနတို့မှာ မိမိတဦးတည်းသာ နိဗ္ဗာန်သို့ ရောက်နိုင်သဖြင့် တကိုယ်ကောင်း အကျင့်ဖြစ်သောကြောင့် ယုတ်ညံ့သည်။ ဗုဒ္ဓယာနသာ မိမိလည်း နိဗ္ဗာန်သို့ ရောက်၍ သတ္တဝါအများကိုလည်း ရောက်စေနိုင်သော အကျင့်ဖြစ်သောကြောင့် မြင့်မြတ်သည်ဟု ယူဆကြသည်။ ယူဆသည့်အတိုင်းလည်း ဘုရားဆုကို တောင်း၍ ဗုဒ္ဓယာနအကျင့်ကိုသာ ကျင့်လာကြသည်။ ထို့ကြောင့် သဗ္ဗာသတိဂိုဏ်းကို ယာနံ-ယာနဂိုဏ်း၊ နောက် မြင့်မြတ်သော အကျင့် ဖြစ်သောကြောင့် ယာန ရှေ့က မဟာ တပ်၍ မဟာယာန-မဟာယာနဂိုဏ်း ဟု ခေါ် ဆိုကြသည်။ ထိုဂိုဏ်းသည် သာသနာ နှစ် ၇၀၀ မှ ၉၀၀ (ခရစ် ၁၅၆ မှ ၃၅၆) အတွင်း လူကိုးကွယ်များသဖြင့် ကြီးပွားလာသည်။

ထေရဝါဒဂိုဏ်းကား ပုဂ္ဂိုလ် အယုတ်-အလတ်-အမြတ် ၃ မျိုး၊ အကျင့်လည်း သာဝကဗောဓိအကျင့်၊ ပစ္စေက ဗောဓိအကျင့်၊ သမ္မာသမ္ဗောဓိအကျင့် ၃ မျိုးစီရှိရာ မိမိတို့ အလိုရှိရာ ကျင့်၍ နိဗ္ဗာန်ရောက်နိုင်သည်ဟု ယူဆသည်။ ထိုသို့ ယူဆသည်ကိုပင် မဟာယာနဂိုဏ်းက သာဝက ဗောဓိ အကျင့်နှင့် ပစ္စေကဗောဓိအကျင့် ပါဝင်နေသဖြင့် တကိုယ်ကောင်း အကျင့်ဖြစ်သည်၊ ယုတ်ညံ့သည်ဟု စွပ်စွဲကာ ထေရဝါဒဂိုဏ်းကို နှိပ်၍ ဟီနယာနဂိုဏ်း ဟု အမည်တပ်ကြသည်။ တပ်ကြသော်လည်း အမည်မတွင် မသုံးစွဲကြ။ ယနေ့တိုင်အောင် ထေရဝါဒဂိုဏ်း ဟူ၍သာ သုံးစွဲလျက် ရှိသည်။

သာသနာ နှစ် ၂၀၀ ခန့်မှ ၁၆၀၀ (ခရစ် ၁၀၅၆ ခန့်အထိ) မဟာယာနဂိုဏ်းသည် ကျမ်းစာအမျိုးမျိုး ရေးသား၍ ဝါဒအမျိုးမျိုး ပြောင်းလဲ လာကြသည်။ ဂိုဏ်းအမျိုးမျိုးလည်း ကွဲလာကြသည်။ ထူးခြားချက်တခုမှာ ဘုရားထက်ပို၍ ဘုရားလောင်းကို အရေးပေးလာကြသည်။ ရုပ်တု အမျိုးမျိုး ထုလုပ်ကိုးကွယ်လာကြသည်။ ဘုရားလောင်းကို ဘုရားအနေ၊ နတ်အနေထားလာကြသည်။အချုပ်အားဖြင့် ဘုရားကို ကောင်းကင်ဘုံ၌ အမြဲတည်ရှိနေစေပြီးလျှင် ကောင်းကင်ဘုံ၌ တည်နေသော ဘုရားမှာ လူ့လောကနှင့် တိုက်ရိုက်မဆက်သွယ်နိုင်သဖြင့် လူနှင့် ဘုရား အကြား ဆက်သွယ်ပေးမည့်သူ လိုနေရာ ဆက်သွယ်ပေးမည့်သူအဖြစ် ဘုရားလောင်းကို ထားကြသည်။

နောက် တာရာ- စာမုဏ္ဍီ စသော နတ်သမီး နတ်သား ရုပ်တုတို့ကို ကိုးကွယ်ကြသည်။ ဂါထာ - မန္တန်- မန္တရား - အင်း-အိုင်-ခါးလှည့်-လက်ဖွဲ့-မှော်ပညာ-ပယောဂပညာ-ဝိဇ္ဇာပညာ ဂန္ဓာရီ ပညာတို့လည်း ဝင်လာကြသည်။ ရဟန်းများလည်း ဂါထာ မန္တန် မန္တရား အင်းအိုင် ခါးလှည့်လက်ဖွဲ့ ဆရာ၊ မှော်ဆရာ၊ ပယောဂဆရာ၊ ဝိဇ္ဇာဆရာ၊ ဂန္ဓာရီဆရာများ ဖြစ်လာကြသည်။ ပိဋကတ်တော်နှင့် ညီသည် မညီသည်ကို ဂရုမစိုက်ကြ။ ကမ္မဋ္ဌာန်းဘာဝနာအားထုတ်ခြင်းမရှိ။ ဝိနည်းတရား

သည်လည်း ယုတ်ညံ့သော ရဟန်းခေါ် သည့်ပုဂ္ဂိုလ်တို့အားနိုပ်ကွပ် ချည်နှောင်သောအကျင့်ဖြစ်သည်။ ငါတို့ဘုရားလောင်းများ အကျင့်မဟုတ်ဟု ကျမ်းစာရေးသားခြင်း၊ ပြောဟောခြင်းကို ပြုကြသည်။ ကိုယ်တိုင်ကား ကျင့်ကြဟန်မတူ။

ထိုအခါလောက်ကစ၍ ဝိနည်းတရားတော် ကွယ်ပျောက်ပြီး သိမ်ဝင်ခြင်း၊ ဉတ်ကမ္မဝါဖြင့် ရဟန်းခံခြင်း ရှိတော့မည်မထင်။ ရသေ့-ပရိဗိုဇ်များကဲ့သို့ ရဟန်းခံကြတော့သည်ဟု ယူဆဘွယ် ဖြစ်သည်။ နောက်သာသနာနှစ် ၁၇၀၀ (ခရစ်-၁၁၅၆) လောက်တွင် မွတ်စလင်တို့သည် အိန္ဒိယ အလယ်ပိုင်း မြောက်ပိုင်းတို့ကို သိမ်းယူပြီး ဗုဒ္ဓသာသနာကို ညှဉ်းဆဲဖျက်ဆီးကြသဖြင့် အိန္ဒိယတွင် ဗုဒ္ဓသာသနာ တဖြည်းဖြည်းဆုတ်ယုတ်၍သာသနာနှစ် ၁၉၀၀ (ခရစ် ၁၃၅၆) လောက်တွင် လုံးဝ ကွယ်ပျောက်လုမတတ် ဖြစ်သွားလေသည်။

ကိုးကွယ်သော ဘုရားလောင်းများကို ရှေးဦးစွာ ဗောဓိသတ္တ၊ ဗုဒ္ဓင်္ကုရ အမည်နှစ်မျိုးသာ ပေးထားသည်။ နောက်တဖြည်းဖြည်း ခွဲထွင်ကာ (၁) အဝလောကိတေသွာရ-လောကကို အမြဲစောင့်ရှောက်ကြည့်ရှုနေသော ကရုဏာရှင်၊ (၂) မဉ္ဇုသိရိ- သာယာနှစ်သက်ဖွယ် အသရေရှိသူ၊ (၃) သမန္တဘဒြ - အလုံးစုံ ထက်ဝန်းကျင် ကောင်းမွန်လျက် စီးပွား တိုးတက်စေသူ၊ (၄) အာကာသဂဗ္ဘ၊ (၅) ခဂဗ္ဘ - ကောင်းကင်တိုက်ခန်း ရှိသူ၊ (၆) ဂဂနဂဉ္စ - ကောင်းကင်ကျောက်မျက်ထွက်သော တွင်းရှိသူ၊ (၇) ပဒုမပါဏိ-ပဒုမာကြာပွင့်ကိုင်ထားသူ၊ (၈) ဝဇိရပါဏိ - ဝရဇိန်လက်နက်ကိုင်ထားသူ၊ (၉) ဝဇိရဂဗ္ဘ - ဝရဇိန်တိုက်ခန်းရှိသူ၊ (၁၀) သဝ-နီဝရဏ - ဝိကမ္ဘီ - ယိုစီးခြင်း တားမြစ်ခြင်း ခွာအပ်ခြင်း ရှိသူ၊ (၁၁) ကိတ္တိဂဗ္ဘ - ကျော်စောခြင်း တိုက်ခန်း ရှိသူ၊ (၁၂) ဗျူဟရာဇ - ကိုယ်ပွားခြင်းရှိသော မင်း၊ (၁၃) ဣန္ဒဇာလီ-မျက်လှည့်ဆရာ- မှော်ဆရာ၊ (၁၄) ရတနာဂဗ္ဘ-ရတနာတိုက်ခန်းရှိသူ စသည်တို့ဖြစ်သည်။

ကိုယ်ကျင့်တရားများကား (၁) ဒါန၊ (၂) သီလ၊ (၃) ခန္တီ၊ (၄) ဝီရိယ၊ (၅) ဈာန၊ (၆) ပညာနှင့် နောက်ထပ်ဖြည့်စွက်ထားသော (၇) ဥပါယ၊ (၈) ပဏိဓာန၊ (၉) ဗလ၊ (၁၀) ဉာဏတို့ဖြစ်သည်။

**တရုပ်ပြည်။** ။သာသနာနှစ် ၃၂၇ တွင် တရုပ်အမည်လိဖန်ခေါ် ဗုဒ္ဓအယူဝါဒီ ရဟန်းတပါးသည် အိန္ဒိယပြည်မှ အခြား ရဟန်း ၁၇ ပါးနှင့် တရုပ်ပြည်သို့ ရောက်လာဘူးသည်။ နောက် ၄၂၁ ခုတွင်လည်း ချန်ချအိယင် မည်သော တရုပ်စစ်ဗိုလ်တယောက်သည် ပါသိယပြည်မှ ရွှေဆင်းတု တဆူ ပင့်လာခဲ့ဘူးသည်။ ဤကားတရုပ်ပြည်သို့ ဗုဒ္ဓသာသနာ ရောက်ရန် ရှေ့ပြေးဖြစ်သည်။

သာသနာနှစ် ၆၀၇ ( ခရစ် ၆၁) တွင် အရှေ့ဟန်မင်းဆက် မင်းထီးခေါ် လိယူချွန်ဘုရင်လက်ထက် မဇ္ဈိမဒေသသို့ တမန် ၁၈ ယောက်ကို လွှတ်၍ ပင့်စေရာ အရှင်ကဿပမာတင်္ဂနှင့် အရှင်ဂေါဘရနတို့သည် သက္ကတဘာသာကျမ်းစာများနှင့် ဓာတ်တော်တို့ကို မြင်းဖြူပေါ်တွင် တင်၍ ပင့်ဆောင်ခဲ့ကြသည်။ လိုယန်မြို့တွင် ပဌမ ဆောက်လုပ်သော ကျောင်းကို မြင်းဖြူကို အစွဲပြု၍ မြင်းဖြူကျောင်းခေါ် သည်။ နောက် ဆောက်လုပ်သော ကျောင်းများကိုလည်း မြင်းဖြူကျောင်းပင် ခေါ်ကြသည်။ ထိုအခါက ရောက်လာသော ဗုဒ္ဓသာသနာသည် ကနိသျှကမင်းခေတ်ဖြစ်၍ မြောက်ပိုင်း ဗုဒ္ဓသာသနာဖြစ်သည်။ ပင့်ဆောင်လာသော သက္ကတ ဘာသာကျမ်းစာများကိုလည်း တရုပ်ဘာသာ ပြန်ဆိုကြသည်။ နောက် တဖြည်းဖြည်း ဘုရားလောင်းဝါဒ မဟာယာနဗုဒ္ဓသာသနာ ဖြစ်လာသည်။

သာသနာနှစ် ၉၄၃ (ခရစ် ၃၉၉) တွင် တရုပ် ရဟန်းအရှင်ဖာဟိယန်တကြိမ်၊ သာသနာနှစ် ၁၁၇၃ (ခရစ် ၆၂၉) တွင် အရှင် ဟိယင်ဆိုင်တကြိမ်၊ သာသနာနှစ် ၁၂၁၅ (ခရစ်-၆၇၁) တွင် အရှင်အိုင်ဆင် တကြိမ် ၃ ကြိမ် အိန္ဒိယသို့သွားကြ၍ ဗုဒ္ဓသာသနာ စာပေများကို သင်ကြား လေ့လာပြီးလျှင် ဂိုဏ်းအမျိုးမျိုးမှ ပိဋကတ်တော်အမျိုးမျိုးကို ဆောင်ယူခဲ့ကြ၍ တရုပ်ဘာသာပြန်ဆိုကြသည်။ တရုပ် ဗုဒ္ဓသာသနာလည်း တိုင်းရင်းအယူဝါဒများနှင့် ရောထွေးကာ၊ ဂိုဏ်းအမျိုးမျိုးကွဲလျက် အယူဝါဒအမျိုးမျိုး ဖြစ်လာသည်။

အကျဉ်းချုပ်အားဖြင့် တရုပ်ပြည်၌ မဟာယာန ဂိုဏ်းကိုးကွယ်သော ပုဂ္ဂိုလ်တို့မှာ (က) ဘုရားများ၊ (ခ) ဘုရားလောင်းများ၊ (ဂ) နတ်ချားများ ဖြစ်သည်။ ဘုရားမှာ ၅ ဆူထားသည်။ (၁) ပဌမ - ဂေါတမသကျမုနိ (တထာဂတ ကိုလည်း တခါတရံ သုံးသည်)။ (၂) ဒုတိယ - အမိတာဘာ၊ ပုံမှာ ခေါင်းကြီးကိုယ်သေး၊ ယာလက်ချ၍ လက်ဝါး ပြထားသည်။ ဝဲလက် ရင်တွင် ကြာပွင့် ကိုင်ထားသည်။ (၃) တတိယ - ဘေသဇ္ဇ ဇယဂုရု - ဆေးဝါးဖက်ဆိုင်ရာ ဘုရား။ အနာရောဂါစွဲကပ်နေသူ၊ ကျိုးကန်းနေသူ၊ အကျဉ်းကျနေသူ၊ဆင်းရဲ ဒုက္ခရောက်နေသူတို့ကို ကယ်မစောင့်ရှောက်၏ ဟု ယူဆသည်။ (၄) စတုတ္ထ-ဝေရောစန၊ ပုံမှာ လက်နှစ်ဖက် ရင်ပေါ်တွင် ပိုက်ထား၍ လက်ညှိုးအပေါ် ထောင်ထားသည်။ (၅) ပဉ္စမ- လောရှန၊ ပုံမှာ ယာလက် ပေါင်ပေါ် တွင်ထား၊ ဝဲလက် ရင်တွင် ထားပြီးလျှင် လက်မနှင့် လက်လယ်ထိထားသည်။

ဘုရားလောင်းမှာလည်း ၅ ပါးပင်ထားသည်။ (၁) ပဌမ-အဝ လောကိတေသွာရ၊ (၂) ဒုတိယ-တရှိချိ-အမိတာဘာ၏ ဒုတိယ သား၊ (၃) တတိယ-မေတ္တယျ၊ပုံမှာ ပြုံးရွှင်နေသော လူဝကြီး၊ အဝတ်ကို ဖယ်၍ ဝမ်းပိုက်ပူကြီးကို ဖော်ပြထားသည်။ ယာလက်-ပန်းခက်ပန်းပွင့် ကိုင်၍ ဝဲလက် နောင်အခါပေးမည့် ချမ်းသာလက်ဆောင်များ ပါရှိသည့် အိတ်ဝကို

ဆုပ်ကိုင်ထားသည်။ (၄) စတုတ္ထ-မဥ္ဇုသီရိ၊ ပုံမှာ ခြင်္သေ့ပေါ်တွင် စီးသည်။ (၅) ပဥ္စမ-သမန္တဘဒြ၊ ပုံမှာ ဆင်ပေါ်တွင် စီးသည်။

အရဟတ်များမှာ (၁) အရှင်သာရိပုတ္တရာ၊ (၂) အရှင်မောဂ္ဂလာန်၊ (၃) အရှင်မဟာကဿပ၊ (၄) အရှင်အနုရုဒ္ဓါ၊ (၅) အရှင်သုဘူတိ၊ (၆) အရှင် ပူရဏ၊ (၇) အရှင်ကုတျဝယ၊ (၈) အရှင်ဥပါလိ၊ (၉) အရှင်ရာဟုလာ၊ (၁၀)အရှင်အာနန္ဒာတို့ ဖြစ်သည်။

နတ်များမှာ ထင်ရှားသောနတ် ၂၄ ပါးကို ပြသည်။ ဗြဟ္မာ ၊ သိကြား ၊ ယမမင်း ၊ စာတုမဟာရာဇ် ဆိုင်ရာ နတ်များပါသည်။ ကွန့်ဖုဇီးနှင့် စာပေဖက်ဆိုင်ရာ နတ်များကိုလည်း ထည့်သွင်း ထားသည်။

ရဟန်းပြုပုံမှာ ပဌမ လူအဖြစ်နှင့် ငါးပါးသီလ၊ ဒုတိယ သာမဏေအဖြစ်နှင့် ဆယ်ပါးသီလ၊ တတိယ ရဟန်းပြု၊ စတုတ္ထ ဘုရားလောင်းအဖြစ်နှင့် ပါရမီ ဖြည့်ရသည်။

ထေရဝါဒဂိုဏ်းမှာ နောက်ဆုံး စခန်းအဖြစ် နိဗ္ဗာန်သို့ ရောက်ရန် ရည်ရွယ်၍ ကျင့်သကဲ့သို့ မဟာယာနဂိုဏ်းမှာလည်း နောက်ဆုံးစခန်းအဖြစ် အတိုင်းအရှည်အဆုံးမရှိ ကိုယ်ရောင်ရှိသော အမိတာဘာဘုရား (ဝါ) အတိုင်း အရှည် အဆုံးမရှိ အသက်ရှည်သော အမိတာယုဘုရားစံရာ အနောက်အရပ်ရှိ သန့်ရှင်းစင်ကြယ်၍ ချမ်းသာသုခနှင့် ပြည့်စုံသော သုခဝတီပြည်သို့ ရောက်ရန် ရည်ရွယ်၍ ကျင့်ခြင်း ဖြစ်လေသည်။

**ဂျပန်ပြည်။** ။သာသနာနှစ် ၁ဝ၉၆ (ခရစ် ၅၅၂) တွင် ကိုရီးယားပြည်၌ ပြည်တွင်းစစ်ဖြစ်နေသဖြင့် ကိုရီးယားဘုရင်ကဒရက ဂျပန်ဘုရင်ထံ အကူအညီတောင်းရာ၌ လက်ဆောင်အဖြစ် မဟာယာနဗုဒ္ဓသာသနာ ကျမ်းစာများနှင့် ဘုရားရုပ်တုတော်များကို ပို့လိုက်သည်။ ဤကား ဂျပန်ပြည်သို့ ဗုဒ္ဓသာသနာ အစရောက်ခြင်းတည်း။ နောက် သာသနာနှစ် ၁၁၃၇ (ခရစ် ၅၉၃) တွင် ဘုရင်နှင့်တကွ တပြည်လုံး ကိုးကွယ်ကြသည်။ အုပ်ချုပ်သော ဥပဒေတို့ကိုလည်း ဗုဒ္ဓတရားတော်ကို အခြေခံထား၍ စီမံကြသည်။ ထင်ရှားသော ကျောင်းကြီးတို့နှင့် တန်ဆောင်းကြီး တို့ကိုလည်း ဆောက်လုပ်ကြသည်။ အယူဝါဒလည်း တရုပ်ပြည်၌ကဲ့သို့ပင် မဟာယာနဂိုဏ်း ဗုဒ္ဓသာသနာ ဘုရားလောင်း အယူဝါဒဖြစ်သည်။ နောက်ဗုဒ္ဓသာသနာတွင် တိုင်းရင်း အယူဝါဒ နတ်များ ဝင်လာသဖြင့် ရှုပ်ထွေးလာသည်။ ဂိုဏ်းအမျိုးမျိုးလည်း ကွဲလာသည်။ ဂျပန် ဘုန်းကြီးတို့လည်း မိမိတို့ ဂိုဏ်းအလိုက် အမျိုးမျိုးဝတ်ဆင် ကြသည်။

ရှေးအခါက ဂျပန်မဟာယာန ဂိုဏ်းသည် သိမ်ဝင်၍ဥတ်ကမ္မဝါဖြင့် ရဟန်းမပြုသော်လည်း အိမ်ထောင်ပြုခြင်းမရှိကြ။ ဂိုဏ်းအမျိုးမျိုးရှိသည်အနက် ဂျိုဒိုဂိုဏ်း ဟိုနင် ဆရာတော်ကြီးလက်ထက် သာသနာနှစ် ၁၆၇၇–၁၇၅၆ (ခရစ် ၁၁၃၃–၁၂၁၂) လောက်တွင် ယင်းဆရာတော်ကြီးတပည့် မင်းမျိုးမှ ရဟန်းပြုသော ရှိနင်ဆရာတော်ကလေး အသက် ၃ဝ ကျော်တွင် မင်းမျိုးတစုက ဆရာတော်ကြီးထံ ရှိနင်ဆရာတော်ကလေးအတွက် အိမ်ထောင်ပြုနိုင်သည့်ဂိုဏ်း တည်ထောင်ရန် အကြိမ်ကြိမ် ခွင့်တောင်းသဖြင့် နောက်ဆုံး၌ ခွင့်ရရှိလေသည်။

ထိုအခါ ရှိနင်ဆရာတော်ကလေးသည် ဂျိုဒိုဂိုဏ်းမှခွဲထွက်ကာ ထားမာဟိခေါ် မင်းမျိုးမင်းနွယ်အမျိုးသမီးနှင့် လက်ထပ်ပြီးလျှင် အိမ်ထောင်ပြုနိုင်သော ရှင်ဂိုဏ်းစ၍ တည်ထောင်သည်။ ယင်းဂိုဏ်းသည် လူကြိုက်များ၍ ကြီးပွားလာသည်။ ဂိုဏ်းကို ဆရာတော်ကလေး၏ သားမြေးအဆက်ဆက်တို့ သာသနာပိုင်အဖြစ်ဖြင့် အုပ်ချုပ် လာကြသည်။ နောက်အတန်ကြာသော် ဂျိုဒိုဂိုဏ်းသည်၎င်း၊ အခြားဂိုဏ်းတို့သည်၎င်း အိမ်ထောင်ပြုကြလေသည်။ ရဟန်းဆိုသော်လည်း အိမ်ထောင်သည် လူဝတ်ကြောင်နှင့် လွန်စွာ မခြားတော့ပြီ။

**တိဗက်ပြည်။** ။တိဗက်ပြည်သည် ဗုဒ္ဓသာသနာမရောက်မီ စုန်းနတ်တစ္ဆေ စသည်တို့နှင့် ရောပြွမ်းလျက်ရှိသည်။ လူကိုပင် ယဇ်ပူဇော်သည်။ သာသနာနှစ် ၁၁၈၂ (ခရစ် ၆၃၈) တွင် ဘုရင်ဆရုန်စဉ်ဂံပိုသည် နီပေါပြည်ဘုရင် အံသုဝါမန်၏ သမီးတော် ဘရိကုဋိနှင့် လက်ထပ်သည်။ သာသနာနှစ် ၁၁၈၅ (ခရစ် ၆၄၁) တွင် တရုပ်မင်းသမီး ဝင်ချအင်နှင့် လက်ထပ်ပြန်သည်။ မင်းသမီးတို့သည် ဗုဒ္ဓဝါဒီများဖြစ်ကြ၍ ဘုရင်မင်းမြတ်အား ဗုဒ္ဓသာသနာအကြောင်း အမြဲ ဟောပြောသဖြင့် ဗုဒ္ဓဝါဒီဖြစ်လာသည်။

ဘုရင်သည် မိဖုရားနှစ်ပါး အကြံပေးချက်အရ အိန္ဒိယပြည်နှင့် နီပေါပြည်သို့ တမန်များ စေလွှတ်သည်။ အိန္ဒိယပြည်သို့ သွားရသော သံသည် အိန္ဒိယပြည်တွင် အတန်ကြာ နေ၍ စာပေများသင်ကြားပြီးလျှင် ပိဋကတ်ကျမ်းစာတို့ကို ယူဆောင်ကာ သာသနာနှစ် ၁၁၉၄ (ခရစ် ၆၅ဝ) လောက်တွင် တိဗက်ပြည်သို့ပြန်ရောက်လာသည်။ တိဗက်ပြည်သို့ ရောက်လာသော ဗုဒ္ဓသာသနာကား ဘုရားလောင်းဝါဒ မဟာယာနဗုဒ္ဓသာသနာဖြစ်သည်။ ကျမ်းစာများကိုလည်း တိဗက် ဘာသာသို့ ပြန်ဆိုသည်။ ဘုရင်လည်း သာသနာပြုမင်း ဖြစ်၍ အလွန် ထင်ရှားလာသည်။

သာသနာနှစ် ၁၂၉၄ (ခရစ် ၇၅ဝ) လောက်တွင် ဆရုန်စဉ်ဂံပို ဘုရင်၏ အဆက်အနွယ်ဖြစ်သော သိဆရုန်ဒတ်စတန်ဘုရင်တက်လာ၏။ ထိုဘုရင်သည် တန်ခိုးကြီး၏။ဗုဒ္ဓဝါဒီဖြစ်၍ ဗုဒ္ဓသာသနာသည် တိုးတက်ခိုင်မြဲလာသည်။ လာမာဘုန်းကြီးဝါဒကိုလည်း စ၍ထွင်သည်။တိဗက်ဘာသာလာမာကား မြင့်မြတ်သောပုဂ္ဂိုလ်ဟုအဓိပ္ပါယ်ရသည်။ ဘုရင်သည် သာသနာပြုရန် ရဟန်းတပါးကို အလိုရှိသဖြင့် အိန္ဒိယပြည်သို့ စေ

လွှတ်ရာ၊ နာလန္ဒ ကျောင်းကြီး၌ နေသော အရှင်ဂုရုပဒုမသမ္ဘဝကိုရခဲ့သည်။ ထိုမထေရ်လည်း လာမာဂိုဏ်းကိုစ၍တည်ထောင်သည်။ တိဗက်ပြည်၌ရှိသော ဗုဒ္ဓသာသနာသည် ယခင်က ရှိနှင့်သော စုန်း-နတ်-တစ္ဆေ-ပယောဂတို့နှင့် ရောပြွမ်းနေသည်။ ထိုမထေရ်လည်း စုန်း-နတ်-တစ္ဆေ-ပယောဂတို့ကို နိုင်နင်းသော ပုဂ္ဂိုလ်ဖြစ်ရကား အလွန် ကြည်ညိုကြသည်။ တိဗက်ပြည်၌ မဟာယာနဂိုဏ်းသည် တရုပ်ပြည်၊ ဂျပန်ပြည်တို့၌ကဲ့သို့ တဖြည်းဖြည်း ဂိုဏ်းအမျိုးမျိုး ကွဲလာသည်။

သာသနာနှစ် ၁၈၁၄ (ခရစ် ၁၂၇၀) တွင် တရုပ်ပြည်၌ အလွန် တန်ခိုးကြီးသော ကူဗလိုင်ခန် ဘုရင်သည် ထိုစဉ်အခါက တိဗက်ပြည်ကိုပါ အာဏာပျံ့နှံ့သည်။ ဘုရင်သည် တိဗက်ပြည်ကို အုပ်စိုးရန် သကျပဏ္ဍိတ မည်သော လာမာဘုန်းကြီးအား အပ်နှင်းသည်။ ဘုန်းကြီးလည်း ဘုရင်ခံ သဘောဖြင့် အုပ်စိုးရသည်။ ထိုစဉ်အခါကစ၍ ရဟန်းမင်းအဖြစ် တည်ထောင်ခဲ့သည်။ နောက်လည်း လာမာဘုန်းကြီးများ ဆက်ကာဆက်ကာ လာခဲ့သဖြင့် ယနေ့တိုင်အောင် လာမာဘုန်းကြီးက မင်းအဖြစ် သာသနာပိုင်အဖြစ် ဆက်ခံအုပ်စိုးလျက်ရှိလေသည်။

အထူးအားဖြင့် ထေရဝါဒဂိုဏ်းမှာ နမော-တဿ ဘုရားရှိခိုးကို အလွန်အလေးပြုသကဲ့သို့ မဟာယာနဂိုဏ်းမှာလည်း တရုပ်က နန်-မော-အို-မိတ-အို-ဖူး၊ ဂျပန်က နမော-အမိဒဘုတ်ဇု၊ ကိုရီးယားက န-မော-အမိဒ-ပု(လ်)ဟု အသီးအသီးရှိသော ဘုရားရှိခိုးတို့ကို အလွန် အလေးပြုကြသည်။ အမြဲလည်း ရှိခိုးကြသည်။

**မြန်မာပြည်**။ ။သာသနာနှစ် ၂၃၅ တွင် မြန်မာပြည်တောင်ပိုင်းသို့ ထေရဝါဒဗုဒ္ဓသာသနာ ရောက်သည်။ ပုဂံအနီး မင်းနန်သူအရပ် ဘုရားသုံးဆူနှင့် နန္ဒမညစေတီများအတွင်းရှိ ဆေးရေးရုပ်များကို ထောက်၍ သာသနာနှစ် ၁၀၀၀ ကျော် ၁၁၀၀ (ခရစ် ၄၅၆–၅၅၆) အတွင်း မြန်မာပြည်မြောက်ပိုင်းသို့ မဟာယာန ဗုဒ္ဓသာသနာ ရောက်သည်ဟု ယူဆကြသည်။ ရဟန်းတို့မှာ အရည်းကြီးတို့ ဖြစ်ဟန်တူလေသည်။

မဟာရာဇဝင်တော်ကြီးအရ ပုဂံပြည်တောင်သူကြီး မင်းလက်ထက် အရည်းကြီးတို့နှင့်တိုင်ပင်၍ ပုထိုး ၅ လုံး တည်ရာဝယ် နတ်ရုပ်မမည်၊ ဘုရားရုပ်တုမမည် ပြုလုပ်၍ ညနံနက် ထမင်းသေစာ တင်၍ကိုးကွယ်သည်ဟု အဆိုရှိသည်ကို ထောက်၍၎င်း၊ သာသနာနှစ် ၁၇၉၂ (ခရစ် ၁၂၄၈) တွင် ထိုးထားသော နန္ဒမညစေတီအနီးရှိ ကျောက်စာများမှာ ကျောင်းနေ ပုဂ္ဂိုလ်အား ညနံနက် ထမင်း သား(အမဲ) သေစာ ပေးကပ်ရန်ဟု အဆိုရှိသည်ကို ထောက်၍၎င်း၊ အရည်းကြီးတို့က ကာမ အလျှုခံသဖြင့် လက်ထပ်မည့် သတို့သမီးကို ပန်းဦးလွှတ်ရသော ဓလေ့ ထုံးစံ ဖြစ်နေသည်ကို ထောက်၍၎င်း ထိုစဉ်အခါက အရည်းကြီးရဟန်းတို့ ညစာစားခြင်း၊ သေရည် အရက် သောက်ခြင်း၊ မေထုန်အကျင့်ကို ကျင့်ခြင်းစသော ရဟန်းကောင်းတို့ မပြုလုပ်ထိုက်သော အရာတို့ကို ပြုလုပ်နေကြောင်း ထင်ရှားသည်။

အနော်ရထာမင်းလက်ထက် သာသနာနှစ် ၁၆၀၁ (ခရစ် ၁၀၅၇) တွင် အရှင်အရဟံ ကြွလာသည်မှစ၍ မဟာယာနဗုဒ္ဓသာသနာသည် တဖြည်းဖြည်း ကွယ်ပျောက်လျက် မြန်မာပြည်တပြည်လုံး ထေရဝါဒဗုဒ္ဓသာသနာ ထွန်းကား တိုးတက်ကာ ယနေ့တိုင်အောင် တည်ရှိလေသည်။

မဟာယာနဂိုဏ်းတွင် သက္ကတဘာသာရင်းနှင့် ရှိ၍ တရုပ်စသော ဘာသာအမျိုးမျိုးဖြင့် ပြန်ဆိုထားသော ကျမ်းများအနက် ထင်ရှားသော ကျမ်းများကား (၁)မဟာဝတ္ထု၊ (၂) လလိတဝိတ္ထာရ၊ (၃)သဒ္ဓမ္မပုဏ္ဍရိက၊ (၄) သုခဝတီဗျူဟာ၊ (၅) ဗုဒ္ဓစရိတ၊ (၆) အဋ္ဌသာဟသိရိကပညာ ပါရမိတာ၊ (၇) စတ္တသာဟသိရိကပညာပါရမိတာ၊ (၈) ဝဇီရဆေဒိကပညာပါရမိတာ၊ (၉) မူလမဇ္ဈိမကကာရိကာ၊ (၁၀) ဓမ္မသင်္ဂဟ၊ (၁၁) အဝဒါနဇာတက၊ (၁၂) ဒိဗျာဝဒါန၊ (၁၃) ဒသဘူမိကသုတ္တ၊ (၁၄) မဟာယာနသုတ္တလင်္ကာရ၊ (၁၅) ဗောဓိ သတ္တဘူမိ၊ (၁၆) လင်္ကာဝတာရသုတ္တ၊ (၁၇)သမာဓိရာဇသုတ္တ၊ (၁၈) သုဝဏ္ဏပဘာသ၊ (၁၉) ကရုဏာ ပုဏ္ဍရိကသုတ္တ၊ (၂၀) ဇာတကမာလာ၊ (၂၁) ရဋ္ဌပါလပရိပစ္ဆ၊ (၂၂) နာဂါနန္ဒ၊ (၂၃) သိဿသမုစ္စယ၊ (၂၄)ဗောဓိစရိယာဝတာရ၊ (၂၅) သိဿလေခ၊ (၂၆) ကာရဏ္ဍဗျူဟာ၊ (၂၇) မဟာဗျုပ္ပတ္တိ၊ (၂၈) ဗောဓိသတ္တ အဝဒါနကာလပါလတာ တို့ဖြစ်သည်။ ထိုကျမ်းတို့အား သာသနာနှစ် ၂၀၀ ခန့်မှ ၁၆၀၀ ခန့် အထိ ရေးသားသော ကျမ်းတို့ဖြစ်သည်။ **ဦးကြီးမေ**

**မဟာရဋ္ဌသာရ၊ရှင်** (မြန်မာ ၈၃၀–၈၉၂)။ ။မြန်မာစာပေသမိုင်းကို ပြန်လည်လေ့လာသော် အင်းဝခေတ် (သက္ကရာဇ်၇၂၆ မှ ၉၀၁ ကျော်) သည် စာကြီးပေကြီး အထွန်းကားဆုံးသော ခေတ်တခေတ် ဖြစ်သည်ကို တွေ့မြင်နိုင်လေသည်။ ထိုခေတ်တွင် တိုင်းပြည်ကို အုပ်ချုပ်သော မင်းများကိုယ်တိုင်က စာပေကို အားပေး ချီးမြှောက်ခဲ့သည်ကိုလည်း တွေ့ရသည်။ ပေါ်ထွန်းခဲ့သော စာဆိုများမှာလည်း လူပုဂ္ဂိုလ် စာဆိုများထက် ရဟန်းပုဂ္ဂိုလ် စာဆိုများက ပိုမိုထင်ရှားခဲ့သည်ဟု ဆိုရမည်ဖြစ်သည်။ ထိုခေတ်တွင် ကဗျာလင်္ကာ စာပေအမျိုးမျိုး ထွန်းကားခဲ့သည့်အနက် ပျို့နှင့်မော်ကွန်းစာပေတို့သည် မြန်မာစာပေသမိုင်းတွင် ထိပ်ဆုံးက နေခဲ့သော ခေတ်လည်းဖြစ်ပေသည်။ ထို့ကြောင့် အင်းဝခေတ်ကို ပျို့နှင့် မော်ကွန်း စာပေတို့ တံခွန်စိုက်သော ခေတ်ဟုဆိုသင့်ပေသည်။ ယင်းပျို့နှင့် မော်ကွန်းစာပေတို့ကို ပြုစုခဲ့သူ ရဟန်းပုဂ္ဂိုလ် စာဆိုများအနက် ရှင်မဟာရဋ္ဌသာရသည် တပါးအပါ

အဝင် ဖြစ်သည်သာမက အထင်ရှား အကျော်ကြားဆုံးသော စာဆိုတော်တဦးလည်း ဖြစ်ပေသည်။

ရှင်မဟာရဋ္ဌသာရသည် ရဟန်းပုဂ္ဂိုလ် ဖြစ်လင့် ကစား ငယ်ရွယ်စဉ်အခါကပင် နန်းတွင်း၌ ကြီးပြင်း ခဲ့ရသူ ဖြစ်၏။ ဇာတိအားဖြင့်လည်း မင်းအမျိုးအနွယ် ဖြစ်၏။ အဖမှာ ဟံသာဝတီဘုရင်မ ရှင်စောပု၏တူ၊ ဗညားအိန်၏ မြေး၊ ဓမ္မပါလ အမတ်ဖြစ်၍၊ အမိမှာ အင်းဝမြို့တည် သတိုးမင်းဖျား သမီးတော်၏ မြစ်ဖြစ်သည်။ သူ၏ငယ်မည်မှာ မောင်မောက် ဖြစ်၍သက္ကရာဇ် ၈၃၀ပြည့်နှစ်တွင်အင်းဝမြို့၌ဖွားမြင်ခဲ့သည်။

စာဆိုကျော် ရှင်မဟာရဋ္ဌသာရသည် သက်တော် ၁၀ နှစ် အရွယ်ကပင် ကဗျာလင်္ကာများကို စပ်ဆိုခဲ့သည်ဟု အဆိုရှိ၏။ သူ၏ အသက် ၁၆ နှစ်အရွယ် သက္ကရာဇ် ၈၄၆ ခုနှစ်တွင် ကား ဘူရိဒတ်လင်္ကာကြီးကို ဖွဲ့နွဲ့စပ်ဆိုတော် မူလေသည်။ ထိုဘူရိဒတ် လင်္ကာကြီးသည် မြန်မာ စာပေဂန္ထဝင်တွင် အဟောင်းဆုံး လင်္ကာရှည်ကြီးဖြစ်သည်ဟု ဆိုသင့်လေသည်။ စာဆိုကျော်သည် မြတ်စွာဘုရား ဟောကြားတော် မူခဲ့သော မဟာနိပါတ်တော်လာ ဇာတ်တော်ကြီး ၁၀ ဘွဲ့ အဝင် အပါ ဘူရိဒတ်ဇာတ်တော်ကြီးကို ပင်ကိုယ်ဉာဏ်ရှင်ရှင်ဖြင့် အလင်္ကာတန်ဆာ ဆင်ကာ မြန်မာဘာသာသို့ ဖွဲ့နွဲ့ ပြန်ဆိုထားခြင်းဖြစ်သည်။ ဤနေရာ၌ ဘုရားဟော ဇာတ်တော်ကြီးများကို အလင်္ကာတန်ဆာဆင်ကာ ဖွဲ့နွဲ့ရေးသား ရာတွင် ရှင်မဟာရဋ္ဌသာရသည် အဦးဆုံး ဖြစ်သည်ဟု ဆိုသင့်၏။ ယင်းလင်္ကာကြီး၌ စာဆိုကျော်သည် အနေအထိုင်အားဖြင့် နန်းတွင်း၌ ကြီးပြင်းခဲ့ရသူ၊ဇာတိအားဖြင့် ယ်ရွယ်သေးသူ ဖြစ်သည့်အလျောက် လောကဓမ္မတာ လူမှုရေးရာ များကို ဖွဲ့နွဲ့ရေးသားရာတွင် သိကျွမ်း ပိုင်နိုင် လှခြင်းကြောင့် နှောင်းစာဆိုတို့ အတုယူ ရလောက်အောင်ပင် ကောင်းမွန် လှပေသည်။ ယင်းလင်္ကာကြီး၌ ဘူရိဒတ် နဂါးမင်းမယ်တော်သည် သားတော်ကို မမြင်မတွေ့ရသဖြင့် လွမ်းမှိုင်တွေဝေပုံကို–

“တရှိုက် မက်မက်၊ တသက်သက်လျှင်၊ စက်လက် မျက်ရည်၊ ဆည်လည်းမတတ်၊ မိန်းသေပြတ်မျှ၊ ကြင်ဆွတ်လေလေ၊ အောက်မေ့ချေသော်၊ မပြေတိုနိုင်၊ ကမ်းနယ်ယိုင်လျက်၊ ရိပ်မြိုင် နန်းထဲ၊ နေစမြဲသား၊ သွေးခဲဘုန်းခေါင်၊ မယ်တော့်မောင်ကို၊ ပြောင်ပြောင် ဝင်းဝင်း၊ ဗိမာန်တွင်း၌၊ ဟင်းလင်း အချည်း၊ မြင်ကတည်းက၊ အူသည်း ငြိမ့်ငြိမ့်၊ ကြောခြင်စိမ့်မျှ၊ နှစ်သိမ့်လွမ်းရူး၊ ပတ်ပတ်မူးလျက်၊ အထူး ရှေ့နောက်၊ တောင်မြောက်မသိ၊ မျက်စိမိုက်မိုက်၊ မှောင်တိုက်အသွင်၊ ယခုထင်ခဲ့၊ တိုင်ပင် နှိုင်းချက်၊ သားဝမ်းထွက်နှင့်၊ ဆိုတက်မနီး၊ တဖျင့်ကြီးသို့၊ ကိုယ်ထီးကျန်စွာ၊ ငါ့ကြမ္မာကား၊ ဇာတာဂြိုဟ်တန်၊ မသန့်စန်းလဂ်၊ ရှေးဝိပါက်ကြောင့်၊ ရှေ့ဇာက်ဟသ်ာ၊ ရေမဲ့ရာ၌၊ မျက်နှာ အောက်ချ၊ မှိုင်လည်တသို့၊ သားလှလှလင်၊ မျိုးလွန်းကြင်ကို၊ ဖူးချင်တောင့်တ၊ မတွေ့ရ၍၊ ကြောင့်ကြညှိုးချုံး၊ မရွှင်ပြုံးသည်၊ ကိုယ်လုံးသမ်းတို့ စွတကား။”ဟု ထိထိငြိငြိ ဖွဲ့ဆိုနိုင်ခဲ့သဖြင့် ဘုရင်မင်းမြတ်နှင့်တကွ တနိုင်ငံလုံး၏ မြှောက်စားခြင်းကို ပင် ခံရလေသည်။

စာဆိုကျော် ရှင်မဟာရဋ္ဌသာရ ဆရာတော်သည် ဘူရိဒတ်လင်္ကာကြီးကိုသာ မဟုတ်၊ ယင်း၏ နိဂုံးဖြစ်သော ဘူရိဒတ်ဇာတ်ပေါင်းပျို့ကိုလည်း သက်တော် ၂၆ နှစ် အရွယ် သက္ကရာဇ် ၈၅၆ ခုနှစ်တွင် လက်စသတ် ဖွဲ့ဆိုခဲ့ပေသေးသည်။ ထိုနောက် ၂ နှစ်မျှ အကြာ သက္ကရာဇ် ၈၅၈ ခုနှစ်တွင် တန်တားဦးတည် မော်ကွန်းကို ပြုစုစီရင်ပြန်လေသည်။ ဆရာတော်နှင့် အပြိုင်စာဆိုဖက်ဖြစ်သောတောင်တွင်းမြို့ဇာတိ ရှင်မဟာသီလဝံသ ဆရာတော်သည်လည်း တန်တားဦးတည် မော်ကွန်း တစောင်ကို ရှင်မဟာရဋ္ဌသာရနည်းတူ ရေးသားသေးသော်လည်း ၁၂ ပုဒ်မျှဖြင့် ရပ်တန့် စေခဲ့သည်။ အကြောင်းမှာ ရှင်မဟာရဋ္ဌသာရသည် ထိုမော်ကွန်းကို ရေးသားလျက် ဘုရင်မင်းမြတ်ထံ သွင်းပြီးဖြစ်ကြောင်း ကြားသိရ၍ ဖြစ်သည်။ ယင်းမော်ကွန်းနှင့် စပ်လျဉ်း၍ ရှင်မဟာ သီလဝံသသည် မိမိရေးပြီးသမျှကို တပည့်များအား ဖျက်ဆီးစေသော်လည်း တပည့်များက စာကို မြတ်နိုး၍ သိမ်းဆည်းထားသဖြင့် ယနေ့အထိ တွေ့ရှိရသေးကြောင်းအဆိုရှိသည်။ စာဆိုကျော်နှစ်ပါး၏ စာကို နှိုင်းခိုင်းရာ၌ ရှင်မဟာရဋ္ဌသာရ၏ စာတို့သည် ရှင်မဟာသီလဝံသ၏ စာများလောက် မနက်နဲ၊ နုရုံ့ယဉ်ရုံမျှသာရှိ၏။ ထိုကြောင့် ရှေးဆရာကြီးများက ရှင်မဟာရဋ္ဌသာရ၏ စာများသည် တူရိယာ ၅ ပါးကိုတပြိုင်နက်တည်း တီးသကဲ့သို့ ကြားရသူတို့၏ နား၌ လွန်စွာ သာယာနာပျော်ဖွယ်ဖြစ်ပေ၏။ သို့သော်မလေးနက်လှ၊ အဝေးသို့လည်းမရောက်။ ရှင်မဟာသီလဝံသ၏ စာများကား စည်တော်ကြီးရွမ်းသည်နှင့် တူလှစွာ၏။ နား၌ သာယာနာပျော်ဖွယ် မဖြစ်လှသော်လည်း နက်နဲလှ၏။ အဝေးသို့လည်းရောက်၏ ဟု ဆိုကြသည်။ (မဟာသီလဝံသ၊ ရှင် — ရှု။)

ရှင်မဟာရဋ္ဌသာရ၏ အကောင်းဆုံးသော လက်ရာကား သက္ကရာဇ် ၈၈၅ ခုနှစ်ခန့်တွင် ပြီးစီးသော စာဝဓမ္မသာရ ကိုးခန်းပျို့ဖြစ်သည်။ ထို ပျို့သည် ဘုရားဟော ဝိသတိနိပါတ် ဟတ္ထိပါလဇာတ်တော်ကို အလင်္ကာ တန်ဆာဆင်ကာ မြန်မာဘာသာသို့ ပြန်ဆိုဖွဲ့နွဲ့ထားသော ပျို့ဖြစ်ခြင်းကြောင့် ဟတ္ထိပါလပျို့ဟုလည်း အမည်တွင်သည်။ ဆရာတော် ရှင်မဟာရဋ္ဌသာရသည် လောကအကြောင်း၌ နိုင်နင်းသူ ဖြစ်သည့်အလျောက် ဓမ္မကြောင်းကို လောကကြောင်းဖြင့် အမွမ်းတင်ကာ ဖွဲ့ဆို ရေးသားရာတွင် အထူးပင် ကျွမ်းကျင်ပိုင်နိုင်လှပေသည်။ ဤကိုးခန်းပျို့သည် လောက၊ ဓမ္မ၊ ရာဇ အ

ကြောင်းသုံးပါးစလုံး ပြည့်ဝစုံလင်လှ၏။ သို့သော် သက္ကရာဇ် ၈၈၆ ခုနှစ်တွင် မိုးညှင်းစား စော်ဘွားစလုံနှင့် ပြည်ဘုရင် သတိုးမင်းစောတို့ အင်းဝနေပြည်တော်ကို တိုက်ခိုက်ကြပြီး နောက် ပြည်ဘုရင်က ရှင်မဟာရဋ္ဌသာရ အစရှိသော ပညာ ရှင်များကို ပြည်မြို့သို့ ပင့်ဆောင် သွားလေသည်။ ရှင်မဟာ ရဋ္ဌသာရလည်း ပြည်မြို့သို့ ရုတ်တရက် လိုက်ပါရသဖြင့် တ ပည့်များထံမှ ကိုးခန်းပျို့၏ ရှေ့ ၈ ခန်းကိုသာ သိမ်းယူနိုင်ခဲ့ ပြီးလျှင် ဇာတ်ပေါင်းခန်းကိုမူ စုံစမ်းရှာဖွေရာ မရသော ကြောင့် အသစ်ထပ်မံ ရေးရလေသည်။ သို့သော် ဇာတ် ပေါင်းခန်းကို အသစ် ပြန်လည်ရေးသားပြီးချိန်၌ပင် ပျောက် ဆုံးနေသော ဇာတ်ပေါင်းခန်း စာမူဟောင်းကို စစ်ကိုင်းမြို့ရှိ တပည့်များထံမှ ပြန်လည် ရရှိခဲ့ပေသည်။ ကိုးခန်းပျို့ကား အလွန်ခန့်ညားရ၍ အနှစ်သာရနှင့် ပြည့်စုံသော ပျို့ကြီးဖြစ် သည်။ ယင်းပျို့တွင် ကိလေသာတည်းဟူသော မိုးကြီး စီးယို ကျသည့် ဘေးမှ လွတ်မြောက်အောင် ဘာဝနာဥာဏ်တည်း ဟူသော သံပြားပျဉ်ပြားများဖြင့် ကာကွယ်ထားသည့် စိတ် နှစ်လုံးတည်းဟူသော ကျောင်းသခ်မ်းကို ပြဆိုရာ၌–

"အာပေါ်ကမ္ဘာ၊ ပျက်ပြုန်းခါ၌၊ ရူပါဝစရ၊ သောဠသ တွင်၊ သုဘကိဏှအောက်၊ ဘုံတလျှောက်ကို၊ လင်းပျောက် နိုင်အောင်၊ ပြည့်လျှမ်းဆောင်သည်၊ ရေတောင်မောက်ဖြိုး၊ ရွာသည့်မိုးထက်၊ ထမ်းပိုးလှင်ကန်၊ အပြန်ပြန်တည့်၊ သည်း ထန်လှစွာ၊ ကိလေသာဟု၊ မဟာမေဃ၊ ဖြိုးဖြိုး ကျလျက်၊ သောကစိမ့်။ ယိုသားဘေးမှ၊ ဟန့်ထေးလို့ငြ၊ ဘာဝနာ ဉာဉ်၊ သံပြား ပျဉ်တိ၊ မြဲယှဉ်ပတ်ကုံး၊ လွှမ်းပိတ်ဖုံးသား၊ နှလုံး သခ်မ်း၊ ကျောင်းသာဝှမ်း၌...." ဟူ၍ ဥပမာ ဥပစာ စကားတို့ဖြင့် တန်ဆာဆင်ကာ ဖွဲ့နွဲ့စီခြယ်ခဲ့ပေသည်။

ထိုနောက် စာဆိုကျော် ရှင်မဟာရဋ္ဌသာရ ဆရာတော် သည် အမျိုးလေးပါးတို့အား သွန်သင်ဆုံးမသြဝါဒ စကား မှာကြားခဲ့ရန် ကျင့်ဖွယ်ရာဝတ်တရား အမျိုးမျိုးတို့ကို ကျမ်း အစောင်စောင်တို့မှ ထုတ်နုတ်၍ အလွန် နက်နဲစွာလှ အနှစ် သာရနှင့် ပြည့်စုံအောင် အလင်္ကာတန်ဆာဆင်ကာ ဂမ္ဘီသာ ရပျို့ တစောင်ကိုလည်း ပြုစုခဲ့ပေသေးသည်။

အထက်ပါ ပျို့၊ မော်ကွန်းများအပြင်၊ ဆရာတော်သည် ပုံတောင်နိုင် မော်ကွန်း၊ ရဲရည်တက် မော်ကွန်း၊ ရတနာပူရ မြို့တည် မော်ကွန်း၊ ဝတ်ရုံကျောင်းဖွဲ့ မော်ကွန်း စသည်တို့ နှင့် သဘာဝ၏ ကြည်နူးစဖွယ် သာယာဆန်းကြယ်ပုံ တို့ကို ဖွဲ့နွဲ့ထားသော ရွှေစက်တော်သွား တောလားကဗျာ၊ 'ဝဏ္ဏ ပဘာ' ချီအလှဖွဲ့ တောင့်တဲတွန့်ရတုတို့ကိုလည်း ပြုစုရေးစပ် ခဲ့ပေသေးသည်။

ရှင်မဟာရဋ္ဌသာရ နောက်ဆုံး ရေးသား ပြုစုခဲ့သော ပျို့ မှာကား ၈၉၁ ခုနှစ်ရေး သံဝရပျို့ပင် ဖြစ်သည်။ ယင်းပျို့ တွင် ကောဒသန်ပါတ် သံဝရဇာတ်တော်လာ ဗာရာဏသီ ပြည် ဖြဟ္မဒတ်မင်း၏ သားတော်တရာတွင် အငယ်ဆုံး သံဝရ မင်းသားသည် ဘုရားလောင်း အမတ်ကြီး၏ သြဝါဒကို ခံယူ ကာ အရာရာ၌ လှုံ့လ ပြုခြင်းကြောင့် ခမည်းတော်၏ အမွေ ကို ဆက်ခံ၍ မင်းပြုရကြောင်း၊ အခြား နောင်တော်များ အားလုံးက ကြေနပ်ကြကြောင်းတို့ကို အဖိုးတန်သော စာ သားများ၊ ဆုံးမစကားများဖြင့် ဖွဲ့နွဲ့ဆိုခဲ့လေသည်။ စာဆို ကျော် ရှင်မဟာရဋ္ဌသာရသည် ထိုပျို့ကို ပြုစုပြီး နောက်တ နှစ် သက္ကရာဇ် ၈၉၂ ခု သက်တော် ၆၂ နှစ်တွင် ပြည်မြို့၌ ပျံလွန်တော်မူသည်။

**မဟာလှေကား။** ။စွယ်တော်ပင် — ရှု။

**မဟာဝိသုဒ္ဓါရုံဆရာတော်**(မြန်မာ ၁၂၀၀–၁၂၇၇)။ ။ မဟာဝိသုဒ္ဓါရုံ ဆရာတော်သည် ရွှေဘိုမြို့ တောင်လက် စမွန် ရွာ၌ သဌေး ဦးမှို၊ ဒေါ်မိတို့မှ သက္ကရာဇ် ၁၂၀၀ ပြည့်နှစ် ဝါဆိုလဆန်း ၁၃ ရက်၊ ဗုဒ္ဓဟူးနေ့တွင် ဖွားမြင်တော်မူသည်။ ငယ်မည်မှာ မောင်မောက်ဖြစ်သည်။ ၈ နှစ်သားအရွယ်တွင် စမွန်ရွာ မဟာရုံတိုက် အရှင်ဣန္ဒမထေရ်ထံတွင် မိဘများ က အပ်နှံ၍ စာပေသင်ကြားသည်။ ၁၃ နှစ်သား အရွယ် တွင် ယင်းဆရာတော်ထံ၌ပင် သာမဏေ အဖြစ်သို့ ရောက် သည်။ ဘွဲ့ ရှင်ဝိသုဒ္ဓါစာရ ဖြစ်သည်။ သာမဏေဝတ်ဖြင့် ၄ ဝါအရ သက္ကရာဇ် ၁၂၁၇ ခုနှစ်၊ ၁၇ နှစ်သားအရွယ်တွင် ထို အခါက ရွှေဘိုနယ် ခေါ်တောရွာ တောရ၌ သီတင်းသုံးနေ တော်မူသော ရွှေကျင်ဆရာတော် ဘုရားကြီးထံသို့ ရောက်၍ ပိဋကတ်ကျမ်းဂန်များကို သင်ကြားတော် မူသည်။ ပိဋကတ် ကျမ်းဂန်များကို သာမက သက္ကတကျမ်းများကိုလည်း လေ့ လာသင်ကြားတော်မူသည်။သက္ကဘကျမ်းများကိုသင်ကြား ရာ၌ ရှေးဆရာများ ရေးသားခဲ့သော သက္ကတဘာသာ မြန် မာနိဿယကျမ်းများကို ကြည့်၍၎င်း၊သက္ကတဘာသာတတ် သော ပြာဟ္မဏလူမျိုး ဟိန္ဒူပုဏ္ဏားတို့နှင့်နှီးနှော၍၎င်း လေ့ လာသင်ကြားသည်ဟု သိရသည်။ သက္ကတ ဘာသာကို ကောင်းစွာ တတ်ကျွမ်း တော်မူသည်။

အသက် နှစ်ဆယ်ပြည့်သောအခါ ၁၂၁၉ ခုနှစ် သီတင်း ကျွတ်လပြည့်နေ့၌ ရွှေဘိုနယ်၊ သရိုင်ရွာ သိမ်ကြီးတွင် ရွှေ ကျင်ဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ်ပြု၍ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။ ဘွဲ့တော် ဦးဝိသုဒ္ဓါစာရပင် ဖြစ်သည်။ ရဟန်းဝါ ၃ ဝါရသောအခါ မန္တလေးမြို့ မဟာဓမ္မိကာရာမ ရွှေကျင်တိုက်သို့ ရောက်ရှိကာ ရွှေကျင်ဆရာတော် ဘုရား ကြီးထံ နည်းခံ သင်ကြား၍ စာသင်သားများကို စာပေပို့ချ တော်မူသည်။ ဝိသုဒ္ဓါရုံ ဆရာတော်သည် ပရိယတ္တိ အရာ၌ ဆရာနည်းစုံစုံ ရရှိရန်အတွက် မြို့ပြင်ကြီး ဆရာတော် အရှင် စန္ဒဝံသာလင်္ကာရ၊ အင်းဝဆရာတော် အရှင်မဇ္ဈူ၊ မင်းတဲ


မဟာဝိသုဒ္ဓါရုံဆရာတော်

ဆရာတော် အရှင်ဥတ္တမ စသော ဆရာတော်များထံ၌လည်း နည်းခံ သင်ကြားတော်မူသည်။

ဝိသုဒ္ဓါရုံ ဆရာတော်သည် ရဟန်းဝါ ၁၄ ဝါရသော အခါ ပဋ္ဌမသင်္ဂါယနာတင် မင်းတုန်းမင်းတရားကြီး၏ အလယ် နန်း ဆင်ဖြူရှင်မ မိဖုရားကြီး ဆောက်လုပ်သော မန္တလေး မြို့ အရှေ့ပြင် မဟာဝိသုဒ္ဓါရာမ ကျောင်းတိုက်ကြီးကို အလှူ ခံတော် မူရသည်။ ထိုအခါမှစ၍ မဟာဝိသုဒ္ဓါရုံ ဆရာ တော်ဟု ကျော်စောထင်ရှားတော် မူသည်။ သက္ကရာဇ် ၁၂၃၅ ခုနှစ် ရဟန်းဝါ ၁၆ ဝါအရတွင် မင်းတုန်းမင်းတရား ကြီး လှူဒါန်းဆက်ကပ်သည့်"ဝိသုဒ္ဓါစာရ ကဝိဓဇ မဟာဓမ္မ ရာဇဂုရု" ဟူသော ဘွဲ့တံဆိပ်တော်ကို အလှူခံရသည်။ သက္ကရာဇ် ၁၂၄၆ ခုနှစ် ဝါတော် ၂၅ ဝါအရတွင် သီပေါမင်း တရား လှူဒါန်းဆက်ကပ်သည့် "ဝိသုဒ္ဓါစာရ ကဝိဓဇဓိပတိ သိရိပဝရ မဟာဓမ္မ ရာဇာဓိရာဇဂုရု" ဟူသောတံဆိပ်တော်ကို လည်း အလှူခံတော် မူရသည်။ ဗြိတိသျှ အစိုးရ လက်ထက် တွင် "အဂ္ဂမဟာပဏ္ဍိတ" ဘွဲ့တံဆိပ်တော်ကိုလည်း အလှူခံ ရသည်။

မဟာဝိသုဒ္ဓါရုံ ဆရာတော်သည် ရွှေကျင် ဆရာတော် ဘု ရားကြီး မရှိသည့်နောက် ရွှေကျင်ဂိုဏ်းကြီး၏ ဦးစီးဦးကိုင် ရွှေကျင် သာသနာပိုင်ကြီးအဖြစ်ဖြင့် ရွှေကျင်ဂိုဏ်းကြီးကို အုပ်ချုပ်တော်မူလေသည်။ မဟာဝိသုဒ္ဓါရုံ ဆရာတော်ဘုရား ကြီး၌ တပည့်ကြီးပေါင်း မြောက်မြားစွာ ထွန်းကား တော်မူ သည်။ ယင်းသို့ တပည့်ကောင်းများ ထွန်းကားခြင်းမှာ ရွှေ ကျင်ဂိုဏ်းကြီး၏ သာသနာပိုင် ဖြစ်တော်မူသောကြောင့် သာ မဟုတ်ပဲ ကိုယ်တော်တိုင် သင်ကြားခြီးမြှောက်တော်မူ သောကြောင့်လည်းဖြစ်သည်။ အထူးအားဖြင့် မဟာဝိသုဒ္ဓါ ရုံ ဆရာတော်ကြီးသည် တပည့်မွေးကောင်းသည်ဟု ကျော် ကြားတော်မူသည်။

မဟာဝိသုဒ္ဓါရုံ ဆရာတော်ကြီးသည် သက်တော် ၇၈ နှစ်၊ ဝါတော် ၅၈ ဝါ၊ သက္ကရာဇ် ၁၂၇၈ ခုနှစ် ဝါဆိုလဆန်း ၈ ရက် သောကြာနေ့တွင် မန္တလေးမြို့၌ ပျံလွန်တော်မူသည်။ မဟာ ဝိသုဒ္ဓါရုံ ဆရာတော်ဘုရားကြီးသည် အောက်ပါ ကျမ်းများ ကို ပြုစုတော်မူခဲ့သည်။

၁။ ကစ္စည်း ပဏာမ အကောက်။ ၂။ ကမ္မဝါစာ နိသျ မူသစ်။ ၃။ဂိဟိစာရိတ္တကျင့်ခန်းနှင့်ဥပါသကပတိပဒါကျမ်း။ ၄။ ဆိဒ္ဓပိဓာနနီကျမ်း။ ၅။ ဆန္ဒောမဉ္ဇရီပါဠ်။ ၆။ ဆန္ဒောမဉ္ဇရီနိသျ။ ၇။ဆန္ဒောမဉ္ဇရီလင်္ကာ။ ၈။ဆဗ္ဗဏ္ဏရံသိ ဝဏ္ဏနာကျမ်း။ ၉။ ဥာဏောဒယကျမ်း။ ၁၀။ ဒေါင်းဋီကာ ဟောင်း။ ၁၁။ဓာတွတ္ထသင်္ဂြိုဟ်ပါဠ်။ ၁၂။ဓာတွတ္ထသင်္ဂြိုဟ် နိသျ။ ၁၃။နေတ္တိပာဠိတ္ထဒီပနီသစ်။ ၁၄။နိက္ခမ္မဓျယောဇန ကျမ်း။ ၁၅။ ပရမတ္ထသရူပဘေဒနီ။ ၁၆။ ပရိဝါသဝိ နိစ္ဆယကျမ်း။ ၁၇။ မဓုသာရတ္ထတတ်ပုံ။ ၁၈။ မဇ္ဈိမကဏ္ဍက ပဟာန်စာတမ်း။ ၁၉။ မုစ္စနဂ်ပကာသနီ။ ၂၀။ ရွှေကျင် နိကာယစာရိတ္တ ဥပဒေကျမ်း။ ၂၁။ ရွှေကျင်ဝံသာနုရက္ခ ကျမ်း။ ၂၂။ ရွှေစက်တော်ဘုရားရှိခိုး ဂါထာပါဠ်အနက်။ ၂၃။ ဝိနယကောသလ္လကျမ်း။ ၂၄။ ဝိသုဒ္ဓါရုံသုတ်နက်။ ၂၅။ ဝိသုဒ္ဓါရုံ အဆုံး အဖြတ်။ ၂၆။ ဝိဇ္ဇာဓိုရ် မည်သော ကဗျာဗန္ဓကျမ်း။ ၂၇။ သမဇ္ဇဒေါသဒီပနီ။ ၂၈။သိရိမဟာ မာယာဝတ္ထု နိသျသစ်။ ၂၉။ သဒ္ဒတ္ထဘေဒစိန္တာဂဏ္ဌိသစ်။ ၃၀။ သတ်ပုံသစ် သံခိပ်ကဗျာ ကျမ်း။ ၃၁။ သံဝါသ ဒီပနီ ကျမ်း။ ၃၂။သံဝဏ္ဏနာဆက္ကကျမ်း။ ၃၃။အဘိဓမ္မတ္ထသင်္ဂဟ နိသျသစ်တို့ ဖြစ်သည်။

(ဝိသုဒ္ဓါရုံ ဆရာတော် အကြောင်းကို ရေးသားရာ၌ (၁) သက္ကရာဇ် ၁၂၆၆ ခုနှစ် သီဟိုဠ်ရဟန်းတော် အသျှင်သိရိမေ့ ရေးသားသော မဟာဝိသုဒ္ဓါရာမိကထေရုပ္ပတ္တိ ဒီပနီပါဠ်နှင့် (၂) ၁၂၆၈ ခုနှစ်၊ လယ်တီပဏ္ဍိတရေးသားသော ယင်းနိဿ ယ၊ (၃) ဟင်္သာတမြို့ မြစ်ကွေ့ဆရာတော် ဦးပညာဝံသ၏ မှတ်စုများကို မှီငြမ်းပြု၍ ရေးသားပါသည်။) **ဦးထွန်းမြင့်**

**မဟာသမယနေ့။** ။ဂေါတမ မြတ်စွာဘုရား သခင်သည် သက္ကတိုင်း ကပိလဝတ်ပြည် အနီး မဟာဝုန်တောကြီး၌ သီ တင်းသုံးစံနေတော်မူစဉ် နယုန်လအခါ ညှိုးခြောက်နွမ်း လျော်ကြကုန်သော ကောက်ပင်များအတွက် လိုအပ်သော ရောဟိနီမြစ်ရေကို အကြောင်းပြု၍ မြစ်၏ ဝဲယာဖက်တွင် နေထိုင် ကြသော ကပိလဝတ်ပြည်သားများနှင့် ကောလိ

ယပြည်သားများ အချင်းဖြစ်ပွားခဲ့ရာ ထို နှစ်ပြည်ထောင် မင်းတို့သည် စစ်မက် အင်္ဂါတို့ကို စီရင်လျက် ထွက်ခဲ့ ကြသည့်အခြေသို့ ဆိုက်ရောက်ခဲ့လေသည်။ ထိုအခါ နံနက်မိုး သောက်ထ၌ မဟာကရုဏာသမာပတ်မှ ထ၍ လောကကို ကြည့်တော်မူသော မြတ်စွာဘုရားသည် မင်းများ စစ်ဖြစ်အံ့ သည်ကို မြင်တော်မူ၍ တန်ခိုးတော်ဖြင့် ကြွကာ၊ နှစ်ဖက် သောစစ်၏ အလယ် ကောင်းကင်၌ ခြောက်ပါးသော ရောင် ခြည်တို့ကို လွှတ်လျက် ထက်ဝယ်ဖွဲ့ခွေ နေတော်မူလေသည်။

မြတ်စွာဘုရားကို ဖူးမြင်ရလေလျှင် ကပိလဝတ် မင်းမျိုး တို့သည် အခြားသူဘို့ကား ငါဘို့အား သတ်လိုမူ သတ်စေ ဟု မိမိတို့လက်နက်များကို စွန့်ပစ်ကာ မြတ်စွာဘုရားအား မြတ်နိုးစွာ ဖူးမြော်ကြကုန်၏။ ကောလိယ မင်းတို့လည်း ထိုအတူပင် လက်နက်များကို စွန့်ပစ်၍ မြတ်စွာဘုရားကို ဖူး မြော်ကြ၏။ မြတ်စွာဘုရားလည်း ထိုမင်းတို့အား ရန်ကို ငြိမ်းစေအောင် ကောင်းမြတ်လှသော ဖန္ဒနဇာတ်၊ ပထဝီ ဥန္ဒြီယဇာတ်၊ လဍုကိကဇာတ်များကို ဟော၍ တဖန် ညီ ညွတ်ခြင်း၏ အကျိုးကိုပြသော ရုက္ခဓမ္မဇာတ်၊ ဝဋ္ဋကဇာတ် တို့ကို ဟောကြားတော်မူ၏။

နှစ်ပြည်ထောင်မှ မင်းများသည် မြတ်စွာဘုရား၏ ဂုဏ် ကျေးဇူးကြောင့်သာလျှင် ငါတို့ အသက်ဘေးမှ ချမ်းသာရာ ရသည်ဟု တဖက်လျှင် ၂၅၀ စီသော မင်းသားတို့ကို မြတ် စွာဘုရားထံ အပ်နှံကြရာ မြတ်စွာဘုရားသည် ထိုမင်းသား ၅၀၀ တို့အား ရဟန်းပြု၍ မဟာဝုန်တောသို့ တဖန် ပြန်ကြ တော်မူလေသည်။

ထိုရဟန်းငါးရာတို့လည်း ရဟန်းအဖြစ်၌ မမွေ့လျော်နိုင် ကြသေးသဖြင့် ဟိမဝန္တာ၊ ကုဏာလအိုင်သို့ခေါ် ဆောင်ကာ ကုဏာလဇာတ်ကို ဟောတော်မူမှ အားလုံး သောတာပန် ဖြစ်ကြ၏။ ထိုနောက် မဟာဝုန်တောသို့ ပြန်ကြွတော်မူပြီး လျှင် ကမ္မဋ္ဌာန်းတရားကို ပွားများစေရာ ငါးရာသောရဟန်း တို့သည် ရဟန္တာချည်း ဖြစ်ကြကုန်လေသည်။

မြတ်စွာဘုရားသခင်သည် ဤသို့လျှင် ကိလေသာမှ စင် ကြယ်ကုန်ပြီးသော ရဟန္တာငါးရာခြံရံလျက်မဟာဝုန်တော၌ တင့်တယ်စွာ စံပယ်တော်မူသည်ကို အလွန်အထူး ညွတ်နူး ကြည်ညိုကြကုန်သော နတ်ဗြဟ္မာအပေါင်းတို့သည် မဟာဝုန် တောသို့ စုဝေးလာရောက်ကြကုန်၏။ စကြဝဠာတသောင်း တိုက်၌ ရှိရှိသမျှသော နတ်ဗြဟ္မာတို့တွင် အသညသတ်၊ အရူ ပဗြဟ္မာကြီးများနှင့် သမာပတ် ဝင်စားလျက်ရှိသော ဗြဟ္မာ များသာ ကြွင်းသတည်း။

ဤကဲ့သို့ ထူးမြတ်လှသော မဟာသမယအခါတော်နေ့ ကား နယုန်လပြည့်နေ့ဖြစ်လေသည်။ မြတ်စွာဘုရားသခင် သည် စုဝေးရောက်လာကြကုန်သော နတ်ဗြဟ္မာ တို့ကို ရဟန်းတို့အား သိစေလျက် စရိုက်ခြောက်ပါးအား လျော် စွာ အမြိုက်တရားကို ဟောကြားတော်မူလေရာ မရေမတွက် နိုင်သော နတ်ဗြဟ္မာတို့သည် အောက်မဂ်ဖိုလ် သုံးပါးကို ရရှိ ကြ၍ ကုဋေတသိန်းကုန်သော နတ်ဗြဟ္မာတို့သည် အရ ဟတ္တဖိုလ်၌ တည်ကြလေသည်။

ထိုအချိန်အခါမျိုးသည် ဘုရားတဆူပွင့်လျှင် တကြိမ်မျှ သာ ဖြစ်ပေါ်၏။ ထိုအချိန် အခါက မြတ်စွာဘုရား သခင် သည် နတ်ဗြဟ္မာအပေါင်းတို့၏ အမျိုး အနွယ်အလိုက် ရည် ညွှန်း၍ ဟောကြားတော်မူသော ဒေသနာတော်များကို ကြားနာရကုန်သောအခါ ရန်သူချင်း ဖြစ်ကြသော နဂါးနှင့် ဂဠုန်၊ သိကြားနှင့် အသူရာ စသည်တို့သည်လည်း တဦးနှင့် တဦး ပီယဝါစာ သာယာချိုအေး ဆွေးနွေးကြကုန်လျက်၊ ခင်မင်ကြင်နာစိတ်များ ဖြစ်ပေါ်လာကြလေသည်။ ထိုမျှ သာမက နတ်ဗြဟ္မာတို့သည် သက်တော်ထင်ရှား မြတ်စွာ ဘုရားကိုယ်တော်တိုင် ယင်းတို့အား ရည်ညွှန်း၍ ဟောကြား တော်မူသော ဒေသနာတော်ကို အစဉ်သတိရလျက်၊ ထိုဒေ သနာတော်ကို ရွတ်ဖတ်သရဇ္ဈာယ်ကုန်သော ပုဂ္ဂိုလ်တို့အား ချစ်ခင်ကြကုန်၏။

ထိုကဲ့သို့ ဘုရားတဆူပွင့်မှ တကြိမ်သာ ဖြစ်ပေါ်သော ကြီးကျယ်လှသော အခါတော်ကြီးကို ဗုဒ္ဓအယူဝါဒ၌ သက် ဝင် ယုံကြည်ကြသော ရှင်လူရဟန်းတို့သည် ထူးမြတ်လှသော အခါတော်နေ့အဖြစ် အစဉ်တစိုက် သတ်မှတ်ကာ ထိုအခါ တော် ကြုံကြိုက်သော နယုန်လပြည့်နေ့များတွင် မဟာသမ ယသုတ် ရွတ်ဖတ်သရဇ္ဈာယ်ပွဲများ ကျင်းပလေ့ ရှိကြလေ သည်။ ထိုမဟာသမယအခါတော် နေ့များတွင် ဓမ္မစကြာ သုတ်၊ ဓဇဂ်သုတ်၊ ရတနသုတ်၊ မေတ္တသုတ်၊ အာဋာနာဋိယ သုတ်၊ ပုဗ္ဗဏှသုတ်၊ ဓာရဏပရိတ်တော် စသော အန္တရာယ် ကင်း၍ ကောင်းကျိုးချမ်းသာ အစစ်ကို ပေးစွမ်းနိုင်သည့် ပရိတ်တော် တရားတော်များကိုလည်း စုဝေး ရွတ်ဆိုလေ့ ရှိကြပေသည်။

**မဟာသီလဝံသ၊ ရှင်** (မြန်မာ ဂ၁၅ ခုဖွား)။ ။'သဒ္ဒါ မှာ ရှင်ကစ္စည်း၊ ကဗျာမှာ၊ ရှင်မဟာသီလဝံသတည်း' ဟူ၍ ၎င်း၊ "ပါရမီ မသီနှင့်" ဟူ၍၎င်း၊ "တောင်းကိုမဖောက် တောင် ကိုဖောက်သည် စိန်ကျောက်အသွင် သီလဝင်" ဟူ၍၎င်း ဆိုထုံးစကားဖြင့် ဥဒါန်း တွင်ရစ်စေသူမှာ ရှင်မဟာသီလဝံ သပင် ဖြစ်သည်။

ဤသို့ဖြင့် ယခုတိုင် နာမည် ထင်ရှားလျက်ရှိသော ရှင်မ ဟာသီလဝံသသည်ကား မြန်မာ့စာပေသမိုင်းအရ အင်းဝ ခေတ်ဦးတွင် ထွန်းပေါ်သော ရဟန်းစာဆို တပါးဖြစ်၏။ စာပေသမိုင်းတွင် ထင်ရှားသော ပေလေးပင် ရှင်လေးပါး အနက် တပါးအပါအဝင် ဖြစ်သည်။ ဂုဏ်ရသ အဝဝနှင့် ပြည့် စုံသော ပျို့၊ မော်ကွန်း၊ လင်္ကာ၊ ရတု၊ ဆုံးမစာ၊ ကျောက်စာ၊

ရာဇဝင်၊ ကျမ်းဂန်၊ ဝတ္ထုအစုစုကို ရေးသားပြုစုခြင်းအားဖြင့် အင်းဝခေတ်မှသည် ယခုခေတ် တိုင်အောင် စာပေတန်ဆောင်ကို တပြောင်ပြောင် ထိန်ညီးစေခဲ့ပေသည်။ ကဗျာအရာ၌ နှောင်းလူတို့သည် ရှင်မဟာသီလဝံသကို လိုက်၍မမှီဘဲ နည်းခိုး၍သာ အတုယူကြရသည်။ ရှင်မဟာသီလဝံသ၏ ပါရမီတော်ခန်းပျို့သည် ခက်ခဲနက်နဲလွန်းသဖြင့် ပါရမီတော်ခန်းပျို့ကို လူသာမန်တို့ မသိကြလေနှင့်ဟု သတိပေးခဲ့ခြင်းဖြစ်သည်။ ရှင်မဟာသီလဝံသသည် လောကရေး၊ ဓမ္မရေး၊ ရာဇရေး တည်းဟူသော အရေး ၃ ပါးတွင် လောကကို မဖက်ဘဲ အထူးသဖြင့် ဓမ္မကို အရေးထားခြင်းဖြင့် လောကုတ္တရာကိုသာ ဦးစားပေး၍ စာပေကိုဖွဲ့သော ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ်ပင် ဖြစ်ပေသည်။ တရားအဆီအနှစ်တို့မှ ထုတ်နုတ်သီဖွဲ့ထားသည့် ပါရမီတော်ခန်းပျို့နှင့် ဆုတောင်းခန်းပျို့တို့သည် ရှင်မဟာသီလဝံသ၏ ကောင်းမွန်လှစွာသော စာပေများဖြစ်၏။ ပျို့တံခွန်စိုက်သော အင်းဝစာပေခေတ်တွင် ထင်ရှားသော ပျို့ကြီးများ ဖြစ်ကြ၏။

ကဗျာ့ဝိစူ ပါရဂူ စာဆိုအကျော်အမော် ဖြစ်သော ရှင်မဟာသီလဝံသသည် အင်းဝခေတ်ပေါ် စာဆိုကျော်တဦး ဖြစ်သော်လည်း ဇာတိအားဖြင့် တောင်တွင်းကြီးသား ဖြစ်၏။ တောင်တွင်းကြီးမြို့ မြောက်မျက်နှာ မြို့လုလင်ရွာ၌ အဖဦးကြည်၊ အမိ နတ်ထိန်းကြီးမယ်ဒွေးတို့မှ သက္ကရာဇ် ၈၁၅ ခုနှစ်တွင် ဖွားမြင်သည်။ ပေလေးပင် ရှင်လေးပါး သိုက်ဝင်တဦး ဖြစ်သည်နှင့်အညီ အတိတ်နိမိတ်ဖြင့် ဖွားမြင်လာသူ ဖြစ်သည်။ ငယ်မည်မှာ မောင်ညိုဖြစ်၏။

စာသင်ရွယ်သို့ ရောက်သော် မောင်ညိုအား ကျောင်းသို့ပို့ကြ၏။ မောင်ညို၏ငယ်ဆရာကား တောင်တွင်းကြီးမြို့ မြောက်ယွန်းယွန်း ငှက်ပစ်တောင် အရှေ့၊ ထူပါရုံကျောင်းတိုက်နှင့်တကွ မြို့တောင်မှ ရတနာဗိမာန်ကျောင်းကြီး နှစ်ကျောင်းတွင် အလှည့်အလည်သီတင်းသုံးသော နတ်မီးဆရာတော်၊ သို့မဟုတ် နတ်မီးလင်းဆရာတော် ရှင်သီလာစာရဘိဓဇဖြစ်သည်။ ယင်းဆရာတော်အား ငှက်ပစ်တောင်ဆရာတော်ဟူ၍၎င်း၊ ထူပါရုံဆရာတော်ဟူ၍၎င်း ခေါ်ဆိုကြသေး၏။ ထိုနတ်မီးလင်းဆရာတော်ထံတွင် ရှင်မဟာသီလဝံသအလောင်း မောင်ညိုသည် တရွာတည်းသား ဖြစ်သော ရှင်ဥတ္တမကျော်အလောင်း မောင်ဥက္ကာ၊ သတိုးထမ်းရွာသား ရှင်အုံးညို အလောင်း၊ မကျည်းယောင်ရွာသား ရှင်ခေမာအလောင်း ကျောင်းသားသူငယ်ဖော်များနှင့်အတူ တဆရာတည်း တပည့်များအဖြစ် စာပေ သင်အံခဲ့လေသည်။

မောင်ညိုသည် ကျောင်းသားအရွယ် ငယ်စဉ်အခါ ကတည်းကပင် ဉာဏ်ရှင်သည့် အလျောက် ကဗျာလင်္ကာများကို စပ်ဆိုခဲ့၏။ ထိုနောက် လူလားမြောက်သော် ထိုကျောင်း၌ပင် သာမဏေပြု၊ ပဉ္စင်းတက်လေသည်။ ထိုအခါတွင် ရှင်မဟာသီလဝံသသည် ပါဠိကျမ်းဂန် ပိဋကတ်တို့၌ အထူးနှံ့စပ်ခဲ့ပြီဖြစ်သည်။ မွေးဖွားစဉ်ကတည်းက စာဆိုဗီဇ ပါရှိခဲ့သူဖြစ်သည့်အလျောက် ရှင်မဟာသီလဝံသသည် သက္ကရာဇ် ၈၅၃ ခု သက်တော် ၃၈ နှစ်တွင် နတ်မီးလင်းဆရာတော်ဘုရား၏ ကျောင်း၌ပင် ပါရမီတော်ခန်းပျို့ ကဗျာကြီးကို အပြီးစပ်ဆို သီကုံးခဲ့ပေသည်။

ပါရမီတော်ခန်းပျို့ ကဗျာကြီးသည် ပျို့မည်ကာမတ္တ မဟုတ်ချေ။ တရားသဘော အဆီအနှစ်တို့ဖြင့် သိမ်မွေ့နက်နဲ ခက်ခဲလှသဖြင့် သာမန်ဉာဏ်ရှင်တို့ အဖို့ လက်လှမ်းမမှီနိုင်ချေ။ ထို့ကြောင့်လည်း ပါရမီ မသိနှင့်ဟူ၍ပင် စကားပုံ ပေါ်ထွန်းခဲ့ရ၏။ ထိုပျို့တွင် ဂေါတမဘုရားလောင်း သုမေဓာရှင်ရသေ့သည် ဒီပင်္ကရာဘုရားထံတွင် ဘုရားဆုကို ပန်ယူပြီးသော် ဆည်းပူးရမည့် ပါရမီတော်ဆယ်ပါးအကြောင်းကို စာဆို ရှင်မဟာသီလဝံသက ဒါန၊ သီလ၊ နိက္ခမ၊ ပညာစသော အခန်းကြီးပေါင်း ဆယ်ခန်းဖွဲ့၍ ခန့်ညားစွာ ပြုစုစီကုံးခဲ့ပေသည်။ စာဆိုရှင်မဟာသီလဝံသသည် ဒါနပါရမီခန်း၌ ရေပြည့်အိုးနှင့်၎င်း၊ သီလပါရမီခန်း၌ စာမရီသားမြီးနှင့်၎င်း၊ နိက္ခမပါရမီခန်း၌ နှောင်အိမ်တွင်း ကြာမြင့်စွာ နေရသော ယောကျာ်းနှင့်၎င်း၊ ပညာပါရမီခန်း၌ ဆွမ်းခံသွားသော ရဟန်းနှင့်၎င်း၊ ဝီရိယပါရမီခန်း၌ ခြသေ့်မင်းနှင့်၎င်း၊ ခန္တီပါရမီခန်း၌ မြေကြီးနှင့်၎င်း၊ သစ္စာပါရမီခန်း၌ သောက်ရှူးကြယ်နှင့်၎င်း၊ အဓိဋ္ဌာန်ပါရမီခန်း၌ ကျောက်အတိပြီးသော တောင်နှင့်၎င်း၊ မေတ္တာပါရမီခန်း၌ ရေနှင့်၎င်း၊ ဥပေက္ခာပါရမီခန်း၌ မြေကြီးနှင့်၎င်း အသီးအသီး နှိုင်းခိုင်းနှုန်းဖွဲ့၍ ပါရမီဆယ်ခန်းကို ပြုစုစပ်ဆိုခဲ့ပေသည်။

ထိုနောက် ရှင်မဟာသီလဝံသသည် မိမိ၏ ဆရာတော်ထံတွင် ခွင့်ပန်၍ ကျမ်းတတ်အမော် ပုဂ္ဂိုလ်ကျော်များရှိရာ ရတနာပူရ အင်းဝနေပြည်တော်သို့ ကြွရောက်သည်။နေပြည်တော်သို့ ရှင်မဟာသီလဝံသ ရောက်သော် အင်းဝပြည်သို့ ဆင်ဖြူတော်ဝင်သည်ဟု ကောလာဟလ ဖြစ်သောဟူ၏။

ထိုအခါဝယ် ရတနာပူရအင်းဝနေပြည်တော်၌ မင်းခြီးမြောက်ကြည်ညိုအပ်သော ကျမ်းတတ်အမော် စာဆိုကျော် ရှင်မဟာရဋ္ဌသာရ ဆရာတော်သည် ရှိနှင့်၏။ (မဟာရဋ္ဌသာရ၊ ရှင် — ရှု။) သို့သော် တောင်တွင်းရွှေပြည်မှ အင်းဝ နေပြည်တော်သို့ ကြွရောက်လာခဲ့သော စာဆိုအကျော် ရှင်မဟာသီလဝံသသည်လည်း အင်းဝ ရွှေပြည်သို့ ရောက်လျှင်ပင် အင်းဝဘုရင်မင်းခေါင်ထံသို့ မေတ္တာစာများ သွင်းရာ ဘုရင်မင်းမြတ်လည်း ကြည်ညိုတော်မူလှသဖြင့် ရှင်မဟာသီလဝံသအား ရတနာဗိမာန်ကျောင်းကို ဆောက်လုပ်လှူဒါန်းတော်မူ၍ နေပြည်တော်ဆရာ ရှင်မဟာရဋ္ဌသာရကဲ့သို့ မြှောက်စားတော်မူသည်။ သီလဝံသဇ မဟာရာဇဂုရု ဟူသော ဘွဲ့တံဆိပ်ကိုလည်း ဆက်ကပ်လှူဒါန်းတော်မူသည်။

မကြာမကြာလည်း နန်းတွင်း၌ ထိုဆရာတော် နှစ်ပါး အား ပင့်ဖိတ်၍ အပြိုင် စာဆိုတော် မူစေသည်။ ဆရာ တော်နှစ်ပါး အပြိုင်စာဆိုကြပုံမှာ စိတ်ဝင်စားဖွယ် ကောင်း ၏။ ထိုပြင် ဤသို့ အပြိုင်စာဆိုကြသဖြင့် စာပေလက်ာ ကောင်းများ ပေါ်ပေါက်လာသည်မှာလည်း နောက်လာ နောက်သားတို့အတွက် အလွန်ကျေးဇူးများဖွယ် ဖြစ်၏။

ပါရမီတော်ခန်းပျို့အပြင် စာဆိုအကျော် ရှင်မဟာသီ လဝံသဆရာတော်သည် အင်းဝနေပြည်တော်သို့ ရောက်မှ ဆု တောင်းခန်းပျို့ကိုလည်း ရေးသားပြုစုခဲ့သေး၏။ ဆုတောင်း ခန်းပျို့ကို ရေးသားရခြင်းမှာ ဤသို့သော အကြောင်း ကြောင့်ဖြစ်၏။ ရွှေနန်းတော်တွင်းဝယ် ပါရမီတော်ခန်းပျို့ နှင့် ရှင်မဟာရဋ္ဌသာရပုဂ္ဂိုလ် စီရင်အပ်သော ဘူရိဒတ်လင်္ကာ ကြီး၊ဘူရိဒတ်ဇာတ်ပေါင်းပျို့များကို ပြိုင်ယှဉ်ကြားနာ၍ စာ သဘင်ကြီး ကျင်းပပြီးသည့်အဆုံးတွင် ဒုတိယ မင်းခေါင်က နေပြည်တော်ဆရာ ရှင်မဟာရဋ္ဌသာရအား ပါရမီတော်ခန်း ပျို့ကို ကောင်းလှကြောင်းနှင့် လျှောက်ထားရာတွင် ရှင်မ ဟာရဋ္ဌသာရက ပါရမီတော်ကို မည်သို့ပင် ဖြည့်ဆည်းသော် လည်း ဆုတောင်းဦးမှ ဘုရားဖြစ်နိုင်သည် တကာတော်မင်း မြတ်ဟူ၍ မိန့်မြွက်တော်မူသွားသည်ကို ရှင်မဟာ သီလဝံသ ပုဂ္ဂိုလ် ကြားသိရကား မိမိနေထိုင်ရာ ကျောင်းတော်သို့ ပြန် ကြွတော်မူပြီးလျှင် ဆုတောင်းခန်းပျို့ကို ၃ ရက်နှင့်အပြီး ရေးသားတော်မူလေသည်။ လေးသချေ်နှင့် ကမ္ဘာတသိန်း အထက် ဒီပင်္ကရာဘုရားရှင်သည် ရမ္မာဝတီပြည်သို့ ကြွအလာ လမ်းခရီးကို တိုင်းသူပြည်သားတို့ တာဝန်ခွဲ ပြုပြင်ကြရာဝယ် သုမေဓာရှင်ရသေ့လည်း တပါးအပါအဝင် ဖြစ်၏။ လမ်းပြင် ဆဲ မပြီးစီးမီပင် ဘုရားသခင် ကြွလာတော်မူသဖြင့် သုမေဓာ ရှင်ရသေ့သည် မိမိကိုယ်ကို အလျားစင်း၍ တန်တားခင်း ပူဇော်ပြီးလျှင် ဘုရားဆုကို တောင်းလေသည်။ ယင်းသို့ ဆု တောင်းသောအကြောင်းနှင့်တကွ သုမေဓာရှင်ရသေ့ဘဝသို့ မရောက်မီ သုမေဓာပုဏ္ဏားသဌေးကြီးဘဝ၊ လောကီစည်း စိမ် ရိမ်ငြိမ်၏ ဒုက္ခဆင်းရဲ နက်နဲသော အပြစ်များကို မြင် လျက် ခြွေရံခမ်းနားဥစ္စာများကို အလုံးစုံစွန့်လွှတ် တော ထွက်ခဲ့ပုံ အကြောင်းကို ဆုတောင်းခန်းပျို့တွင် လေးနက် ထင်ရှားစွာ ပြုစုဖော်ပြခဲ့လေသည်။ ထိုပျို့သည် အကျယ်ကို အကျဉ်းဖြစ်အောင် ဖွဲ့ဆိုနိုင်သောကြောင့် ဩဇဂုဏ်နှင့် ပြည့် စုံလှ၏။ အထူးသဖြင့် ဓမ္မကြောင်းကို နိုင်နင်းစွာ ဖွဲ့ဆိုထား လေသည်။ ဆရာတော်၏ အတွေးအခေါ် သည်လည်း နက်နဲ သည်။ သို့နက်နဲခက်ခဲသော်လည်း ရေးသားဟန်မှာ ရှင်း လင်းပြတ်သားလှ၏။ ကိလေသာတည်း ဟူသော မစင်ဘင် ပုပ် အလူးလူးလိမ်းကပ်သည့် ယောကျ်ားသည် ရေဖြင့်ပြည့် သော အမြိုက်နိဗ္ဗာန် တည်းဟူသော တဖက်ဆည်ကန်ကြီး ရှိပါလျက် ထိုတဖက်ဆည်ကန်သို့ မစင်ဆေးကြောရန် မမှီး မကပ်၊ ထိုသို့မမှီးမကပ်သော အပြစ်သည် တဖက်ဆည်ကန်၏ အပြစ်မဟုတ်၊ လူ၏ အပြစ်သာလျှင် ဖြစ်ကြောင်းကို နေက္ခမ္မ ပရိယေသနစိန္တာခန်း၌ —

"ပြောထုန်ဟောင်၊ ဘင်လယ်ခေါင်၌၊ ဥဿျှောင်လည်ရစ်၊ ရင်ရှည့်နှစ်သား၊ သူညစ်စတော၊ ယောကျ်ားလေသည်၊ ရေ တိဖြင့်ဖြင့်၊ ကန်ကြီးမြင်လျက်၊ ခုံမင်ရက်ရက်၊ ချွံချွံသက် ၍၊ တိတွက်မဆေး၊ ဖြည်းစွာနေးအံ့၊ အတွေးနှစ်ပါး၊ ယောကျ်ားနှင့်ကန်၊ ဤဆိုဟန်၌၊ ချမ်းမြိုက်အိုင်မင်း၊ အပြစ် ကင်း၏၊ ရှင်းရှင်းချိုးတန်း၊ စွန်းစွန်းဖွားဖွား၊ မဆေးငြား သည်၊ ယောကျ်ားသူနုပ်၊ ထိုကျွန်ပုပ်၌၊ ရှုပ်မျှအပြစ်၊ တင် ရာဖြစ်၏။ "ဟူ၍ ဖွဲ့ဆိုတော်မူလေသည်။

ထိုကြောင့် ဆရာတော်အား လောကီရေး မဖက် ဓမ္မ ကြောင်း သက်သက်ကိုသာ ရိုးရိုးခန့်ခန့်နှင့် ပိုင်နိုင်နက်နဲစွာ ရေးစွမ်းသောစာဆိုဟု အများက ယူဆခဲ့ကြပေသည်။ သို့ သော် ယင်းသို့ယူဆထားခဲ့ကြကုန်သော သူများသည် ဆရာ တော်ပင် ရေးသားပြုစုခဲ့သော သံဝေဂခန်းပျို့၏ တနေရာကို ရှုကြည့်လျှင် ဆရာတော်အား ခေတ်ပြင် စာဆို တော်လှန် ရေး ပုဂ္ဂိုလ်အဖြစ် မြင်တွေ့ရပေလိမ့်မည်။ ဆရာတော် တော် လှန်ခဲ့သည့် အရာမှာကား ပုဂံခေတ်မှ အင်းဝခေတ်တိုင် အောင် လူတို့၏ အသွေးအသားထဲတွင် နစ်နစ်ကြီး အမြစ် တွယ် စွဲဝင်လျက်ရှိသော နတ်မိစ္ဆာအယူဝါဒကိုးကွယ်မှု ဖြစ် ၏။ အင်းဝခေတ်တွင် လူတို့သည် နတ်ကို အလွန်ယုံကြည် ကိုး စားကြဟန်တူသည်။ဘုရား၊ တရား၊ သံဃာ၊ ဆရာ မိဖထက် ပင် နတ်ကိုယုံကြည်မှု၊ ကိုးကွယ်မှု၊ လေးစားမှု ပိုမိုခဲ့ကြဟန် တူသည်။ ဆရာတော် ရှင်မဟာသီလဝံသ၏ အမျိုးအနွယ် တော်ပင်လျှင် နတ်ထိန်းကြီးမျိုးဟူ၍ အမှတ်အသား ပြုခြင်း ခံခဲ့ရ၏။ ထိုကြောင့် ဤသို့ မဟုတ်မရာသော မိစ္ဆာဒိဋ္ဌိ အယူ အဆ အစွဲအလမ်းတို့ကို တော်လှန်လိုသော၊ တော်လှန်စေလို သော စာဆိုကြီး ရှင်မဟာသီလဝံသသည် သံဝေဂခန်းပျို့၌ အောက်ပါအတိုင်း ဖွဲ့ဆို ရေးစပ်တော်မူခဲ့လေသည်။

"ကာလရှည်လျား၊ လူငနားတို့၊ ကြီးမားယုတ်မာ၊ နတ် မိစ္ဆာကို၊ ဘိုးလာဘွားဘက်၊ မွေးသားဆက်၍၊ မပျက်ခု တိုင်၊ နတ်ခရိုင်နှင့်၊ ပန်းခိုင်ရေအိုး၊ ဆယ်စုံဖြိုး၍၊ မြတ်နိုး နှစ် သက်၊ အနက်အနီ၊ အတီခေါင်းပေါင်း၊ တင်အုပ်ဆောင်းနှင့်၊ အပေါင်းစုဝေး၊ အမွှေးအကြိုင်၊ မှုံစိုင်မှုံခဲ၊ ကြက်ဝက်လဲ၍၊ ပုံနဲ့ခရာ၊ တီးမှုတ်ကာနှင့်၊ ချမ်းသာဆင်းရဲ၊ ပေးစမြဲဟု၊ စိတ် ထဲထင်မှတ်၊ နေတတ်တို့ကို၊ မပြတ်ကိုးကွယ်၊ အန္တရာယ်လည်း၊ ကိုယ်ဝယ်လွတ်ကင်း၊ မရှိလျှင်း၏၊ ဆောင်နှင်းမင်္ဂလာ၊ လျှ ဒါပုည၊ ပြုကာလလည်း၊ မိဖရှေ့မှတ်၊ ငါတို့နတ်ကို၊ ပေးအပ် အပ်လျှင်၊ပွဲလမ်းပြင်၍၊အရှင်မှတ်မှတ်၊ ကိုယ်ဝယ်ကြပ်လျက်၊ မပြတ်ထင်ရှား၊ မမေ့မှားဟု၊ ဆုများရွယ်ရွယ်၊ ရှက်စဖွယ်နှင့်၊ ဘယ်ဝယ်တခါ၊ကိုယ်တိုင်လာ၍၊ ဥစ္စာထင်ရှား၊ ဘယ်သူအား

ကို၊ နတ်များပို့လှာ၊ ရှိဘူးပါအံ့၊ မိစ္ဆာစွဲမှတ်၊ ဘယ်အရပ်မှာ၊ နတ်တို့နေရာ၊ အိမ်ခန်းဝါနှင့်၊ သာယာခမ်းနား၊ နတ်မယား နှင့်၊ နတ်သားနတ်လင်၊ ကြည့်မမြင်တည့်။ ငြိုငြင်စိတ်စွဲ၊ အံ သွားခဲ၍၊ ညဉ်းဆဲနှိပ်စက်၊ နတ်တို့လက်နှင့်၊ ထုတ်လျက်ဆွဲ ငင်၊ ပြုကြအင်ကို၊ မမြင်ဘူးပါ၊ သည်အရာကို၊ မိစ္ဆာမောဟ၊ အယူခွ၍၊ နတ်များသခင်၊ နတ်ဘုရင်ဟု၊ နတ်တွင် အကြီး၊ ငါ့သမီးကို၊ ဖမ်းဆီးတတ်ငြား၊ ငါ့မယားကို၊ ဖမ်းစားတတ် ချေ၊ ချမ်းသာစေဟု၊ ကခြေပွဲလမ်း၊ အခမ်းအနား၊ နတ်ထိန်း များနှင့်၊ သောက်စားဟစ်အော်၊ တကျော်ကျော်နှင့်၊ မောင် တော်ရှင်ချစ်၊ နတ်သံပစ်၍၊ မူးယစ်မိုင်ဝေ၊ အထွေထွေလျှင်၊ လူ့မြေရပ်ရွာ၊ နတ်မိစ္ဆာကို၊ ကယ်သာထင်မှတ်၊ သဘော ကပ်၍၊ နတ်လူ့ဗြဟ္မာ၊ သတ္တဝါကို၊ ကံသာအရင်း၊ ပြုဖန်ဆင်း ဟု၊ ယူလျှင်းအပ်စွာ၊ ယခုမှာကား၊ ချမ်းသာဆင်းရဲ၊ နတ်ခပဲ သည်၊ ပေးမြဲတို့မှာ၊ ထင်မှတ်ရာသည်၊ မိစ္ဆာယူမိ ယူမှား တည်း။ ။

ပုဂ္ဂိုလ်အကျော် ဆရာတော် ရှင်မဟာ သီလဝံသသည် ဖော်ပြခဲ့သော ပါရမီတော်ခန်းပျို့၊ ဆုတောင်းခန်းပျို့၊ သံဝေ ဂခန်းပျို့တို့အပြင် လူအများ အသိခက်ခဲသော ပျို့တစောင် ကိုလည်း ဉာဏ်ကစားရန် ရည်သန်၍ ရေးသားခဲ့သေးသည်။ ထိုပျို့ကား ဇာတိတောင်တွင်းကြီးမြို့မှ အင်းဝနေပြည်သို့ လာရာလမ်း၌ ကြုံတွေ့ရသည့် အဖြစ်အပျက်များကို စကား ထာ ပဟေဠိ သဘောဖြင့် ကွယ်ဝှက်၍ ရေးသားခဲ့သော တောင်တွင်းလာပျို့ ဖြစ်သည်။ ထိုပျို့တွင် ဆရာတော် ရှင် မဟာသီလဝံသသည် မိမိ၏ အဖြစ်သနစ်အစုံကို ထည့်သွင်း ရေးစပ်ထားရာ ထိုပျို့ကို ကျနသေချာစွာ အနက်အဓိပ္ပါယ် ပြန်ဆိုနိုင်ပါက ဆရာတော်၏ အကြောင်းစုံကို ယခုထက်ပို၍ သိကြရပေမည်။ ယင်းတောင်တွင်းလာပျို့ကို ၁၀၉၇ ခုနှစ် တွင် ဆားလင်းဆရာတော်က ရှင်မဟာသီလဝံသ၏ ဆိုလို ချက် သဘောအာဂုံကို ဉာဏ်မှီနိုင်သမျှ ဖွင့်လှစ် ဖြေဆိုထား သေး၏။ သို့သော် ထိုထက် ကျယ်ဝန်းစွာ ဖြေဆိုနိုင်ပါက ရှင်မဟာသီလဝံသ ပုဂ္ဂိုလ်ကျော်၏ အဖြစ်သနစ်ကို ယခု ထက်ပိုမိုစုံလင်စွာ သိနိုင်မည် ဖြစ်ပေသည်။

ပျို့များအပြင် ရှင်မဟာသီလဝံသသည် မော်ကွန်းများ ကိုလည်း ရေးသားသေးသည်။ ရှင်မဟာသီလဝံသသည် သက္က ရာဇ် ၈၅၈ ခုနှစ် ဒုတိယမင်းခေါင် လက်ထက်တွင် တန်တားဦး တည်မော်ကွန်းကို ဖွဲ့ဆိုသည်။ တန်တားဦးအရပ်တွင် ဒုတိယ မင်းခေါင်တည်ထားကိုးကွယ်တော်မူသော မင်္ဂလာ စေတီ တော်ကို ဖွဲ့ဆိုခြင်းဖြစ်သည်။ သို့သော် ၁၂ ပိုဒ်မျှ ပြီးစီးသည့် ကာလ ထိုတန်တားဦးတည်မော်ကွန်းကို ရှင်မဟာ ရဋ္ဌသာရ ရေးသားစီရင် ပြီးစီးကြောင်း သိသောအခါ ဆက်လက်မရေး သားတော့ဘဲ ရေးပြီး ၁၂ ပိုဒ်ကို ချေဖျက်စေသည်တွင် တ ပည့်ရဟန်းများက ကူးယူ သိမ်းဆည်းထားကြလေသည်။ ယင်းမော်ကွန်းတွင် ရှင်မဟာသီလဝံသသည် ဒုတိယ မင်း ခေါင်အား ဗုဒ္ဓအလောင်းအလျာသဖွယ် ထား၍ သတ္တဝါတို့ ကို ကယ်မတော်မူနိုင်သည့် ဘုရားစင်စစ်ဖြစ်မည့် အကြောင်း ကို ခမ်းနားနက်နဲသောစကား ဥပမာ ဥပစာတို့ဖြင့် တန်ဆာ ဆင်ကာ ရေးသားဖွဲ့ဆိုထားလေသည်။ ဘုရားအဖြစ်ကို ရရှိ ဖို့ရာ ပါရမီတော်ကို ဖြည့်ကျင့်ရန် ကြံတော်မူမည့်အကြောင်း နှင့် ဆုတောင်းတော်မူသော အကြောင်း အရာများကို က ဗျာ့ကဝိကြီး ပီသစွာ ဥပစာတင်စား၍ သုံးပုံမှာလည်း လွန် စွာ ကောင်းမွန်လှသည်ဖြစ်ရကား ရှင်မဟာသီလဝံသ၏ ကဗျာ့အာဘော်ကို မှီအောင်ပင် နောက်ဆရာများ မလိုက် နိုင်ကြပေ။ ဤမော်ကွန်းအပြင် အခြားမော်ကွန်းတို့ကား မိတ္ထီလာ (သျှိသျှား) ကန်တော်ဘွဲ့မော်ကွန်း၊ ရွှေနန်းတည် မော်ကွန်းတို့ဖြစ်၏။

ရှင်မဟာသီလဝံသသည် စကားပြေ ကျမ်းများကိုလည်း ရေးသားသည်။ ရွှေနန်းကြော့ရှင် လက်ထက် သက္ကရာဇ် ၈၆၃ ခုနှစ်တွင် စီရင်ရေးသားသော ပါရာယနဝတ္ထုသည် ထင် ရှားတွေ့ရှိသမျှသော စကားပြေ ဝတ္ထုများတွင် အဟောင်း ဆုံးဝတ္ထုဖြစ်၏။ ပါဠိဘာသာစကားများကို နည်းပါးနိုင် သလောက် နည်းပါး၍ ဘုရားဟော ဓမ္မက္ခန္ဓာအပေါင်းတို့မှ ကောင်းနိုးရာရာတို့ကို ထုတ်နုတ်စိစစ်၍ မြန်မာ စကားပြေ ဖြင့် ဖွဲ့ထားသော ကျမ်းဖြစ်၏။

သက္ကရာဇ် ၈၆၄ ခုနှစ်တွင် ရှင်မဟာသီလဝံသ ရေးသား ပြု စုခဲ့သော ရာဇဝင်ကျော်မှာ ထင်ရှား တွေ့ရှိရသမျှသော ရာဇ ဝင်ကျမ်းများတွင် အဟောင်းဆုံး ဖြစ်သည်။ ရာဇဝင်ကျော် ဟူသော အမည်မှာ ရှင်မဟာသီလဝံသ မှည့်ခဲ့ရင်း အမည် မဟုတ်၊ နောက်မှခေါ်ကြသော အမည်ဖြစ်၏။ ရှင်မဟာသီ လဝံသကမူကား မဟာသမ္မတဝံသကျမ်းဟူ၍သာ မှည့်ခဲ့၏။

ရှင်မဟာသီလဝံသသည် သက္ကရာဇ် ၈၈၂ ခုနှစ်ကျော် ကျော်တွင် အင်းဝနေပြည်တော် ရတနာဗိမာန်ကျောင်း တော်ကြီး၌ပင် ပျံလွန်တော်မူသည်ဟု ခန့်မှန်းရသည်။

ရှင်မဟာသီလဝံသ၏ စာတော်စာရင်းမှာ ပါရမီတော် ခန်းပျို့၊ တောင်တွင်းလာပျို့၊ ဆုတောင်းခန်းပျို့၊ သံဝေဂခန်း ပျို့၊ ဓမ္မပါလပျို့ (ရေးဆဲပျံလွန်တော်မူသောကြောင့် တပည့် ပုဂံဆရာတော်က ဆက်ရေးရာ ၉၁၁ ခုနှစ်၌ ပြီး၏)၊ ကမ္ဘာ လောင်ပျို့ (စာမူမတွေ့ရ၊ တိမ်မြုပ်နေသည်)၊ ဗုဒ္ဓုပ္ပတ္တိပျို့ (ပါရမီတော်ခန်းပျို့ကိုပင် ဆိုလိုသည်ဟု အချို့မှတ်သား ကြသည်)၊ တန်တားဦးတည် မော်ကွန်း၊ ရွှေနန်းတည်မော် ကွန်း၊ ရွှေနန်းကြော့ရှင်နန်းဖွဲ့ မော်ကွန်း၊ မိတ္ထီလာကန်တော် ဘွဲ့မော်ကွန်း (သျှိသျှားကန်ဘွဲ့ မော်ကွန်းဟုလည်းခေါ် ၏။) ဆုံးမစာလင်္ကာများ၊ ဧကပိုဒ်၊ အဖြဲ့သံပိုဒ်စုံရတုများ၊ ရာဇ ဝင်ကျော်၊ ပါရာယနဝတ္ထု၊ မဟာရဟနီတိ၊ နေတ္တိပါဠိတော် နိဿယဟောင်း၊ ဆုံးမစာစကားပုံ အစရှိသော ကျမ်းများနှင့်

ရတနာဗိမာန်ကျောင်းတော် ကျောက်စာတို ဖြစ်၏။ ထိုကျောက်စာမှာ တကြောင်းလျှင် စာလုံးရေ ၁၀ ခန့်၊တဖက်တွင် ကြောင်းရေ ၅၄၊ တဖက်တွင် ၃၅ ခန့်ရှိ၏။

**မဟာသီဟသူရ၊ ဗိုလ်မှူး** (မြန်မာ ၁၁၄၃ လွန်)။ ။ မဟာသီဟသူရသည် ကုန်းဘောင်ခေတ် ဆင်ဖြူရှင်မင်း လက်ထက်က ဝန်ကြီးတပါးဖြစ်၍ ထိုမင်း လက်ထက်တော်တွင် သက္ကရာဇ် ၁၁၂၇ ခုနှစ်မှ ၁၁၃၀ ပြည့်နှစ်အထိ ဖြစ်ပွားသော တရုပ် - မြန်မာ စစ်ပွဲများအပြင် ယိုးဒယား စစ်ပွဲများတွင် ဗိုလ်ချုပ်အဖြစ် ခန့်အပ်ခြင်းခံရကာ ဗိုလ်ချုပ်အဖြစ်ဖြင့် တရုပ်တို့ကို လုံးဝအောင်မြင်အောင် အမှုတော် ထမ်းရွက်ခဲ့သော သူရဲကောင်း ဗိုလ်ချုပ်ကြီး ဖြစ်လေသည်။

တရုပ်တို့နှင့် ဖြစ်ပွားသော ပဌမစစ်ပွဲ(သက္ကရာဇ် ၁၁၂၇ ခုနှစ်) အပြီးတွင် ဇင်းမယ် ငါးဆဲ့ခုနစ်ခရိုင် မငြိမ်မဝပ်ရှိသည်ကို ဆင်ဖြူရှင်မင်းသည် ဝန်ကြီးမဟာသီဟသူရအား ဗိုလ်ချုပ်ခန့်၍ စစ်သည်သူရဲ ၂၀,၀၀၀ နှင့် ချီတက်စေသည်။

ဒုတိယစစ်ပွဲ (သက္ကရာဇ် ၁၁၂၈ ခုနှစ်) တွင် မဟာသီဟသူရသည် ဇင်းမယ် ကျိုင်းရုံးမှလှည့်၍ချီလာကာ လက်ဝဲဝင်းမှူးတို့တပ်နှင့် ပေါင်းပြီးလျှင်သိန္နီအရှေ့မြောက်တွင် နေလာသော တရုပ်တပ်ကြီး တတပ်ကို တိုက်ခိုက်ကြသဖြင့် တရုပ်တို့ ပျက်၍ ပြေးကြရသည်။

တတိယစစ်ပွဲ (သက္ကရာဇ် ၁၁၂၉ ခုနှစ်) တွင် မဟာသီဟသူရသည် အောင်ပွဲများရသည်။ တတိယအကြိမ် တရုပ်တို့ဖက်မှ နာမည်ရ ဗိုလ်ချုပ်မင်းဂျူး(မြင်းခုံရဲ)သည် အလုံးအရင်းဖြင့် သိန္နီစစ်ကြောင်းမှ ချီလာသည်မှာ အင်းဝမြို့တော်နှင့် မိုင် ၃၀ ကွာ ဆင်ဂေါင်းအရပ်သို့ တိုင်၏။ သို့ရာတွင် မြစ်ငယ်ကြောင်းမှ ချီလာသော မဟာသီဟသူရ၏ စစ်တပ်များက မင်းဂျူး၏စစ်ကြောင်းကို ဖြတ်တောက်ကာ ရိက္ခာပို့ဆောင်ရေးကို ဟန့်တားလိုက်သောကြောင့် တရုပ်စစ်တပ်သည် အင်းဝဖက်သို့ ဆက်လက် မချီတက်နိုင်ဘဲ ဆင်ဂေါင်းမှ ပင်တပ်ဆုတ်ခဲ့ရ၏။ ဤသို့ဖြင့် မဟာသီဟသူရသည်တရုပ်တို့ လက်တွင်းသို့ မြန်မာတို့၏ မြို့တော် ကျရောက်မည့်ဘေးမှ ကာကွယ်ခဲ့လေသည်။ အောင်ပွဲရ မဟာသီဟသူရ၏ တပ်မကြီးသည် မိုးမိတ် စစ်ကြောင်းချီ လက်ဝဲဝင်းမှူး၏ တပ်နှင့် ပေါင်းမိပြီးလျှင် သိန္နီမြို့ရှိ တရုပ်တပ်မကြီးကို တိုက်ခိုက်အောင်မြင် ပြန်၏။ ယင်းသို့အားဖြင့် တတိယ တရုပ်မြန်မာ စစ်ပွဲတွင်ဝန်ကြီး မဟာသီဟသူရမှာနာမည်ထွက်ခဲ့ပေသည်။

စတုတ္ထစစ်ပွဲတွင် မဟာသီဟသူရ၏ စစ်မှုရေး၌ အမြင်ကျယ်ပုံ ပေါ်လွင်ပေသည်။ စတုတ္ထအကြိမ် တရုပ်-မြန်မာစစ်ပွဲ (သက္ကရာဇ် ၁၁၃၀ ခုနှစ်) ဖြစ်သောအခါ ဆင်ဖြူရှင်မင်းသည် မဟာသီဟသူရအား ဗိုလ်ချုပ်ခန့်၍ ရေကြောင်းဖြင့် ဗန်းမော်သို့ ချီစေ၏။ ဗိုလ်ချုပ်မဟာသီဟသူရသည် လက်ဝဲဝင်းမှူးအားအချုပ်ခန့်၍ ရေဝတ်မြစ်အရှေ့ဖက် မိုးမိတ်စစ်ကြောင်း ချီစေ၏။တဖန်တိမ်ကြားမင်းခေါင်ကို အချုပ်ခန့်၍ တရုပ်တို့၏ ရိက္ခာကြောင်းကို ဖျက်ဆီးစေကာ၊ တရုပ်တပ်ကို နောက်မှလှည့်တိုက်ရန် တာဝန်ပေးပြန်သည်။ တတိယတရုပ်-မြန်မာ စစ်ပွဲ၊ စတုတ္ထတရုပ်-မြန်မာစစ်ပွဲများတွင် ဗိုလ်ချုပ်မဟာသီဟသူရသည် တရုပ်တို့အား ရိက္ခာဖြတ်တောက်ရန် ကြိုးပမ်းပြီးမှ စစ်ဆင်လေ့ရှိသည်။ တရုပ်တို့ ရိက္ခာမရလေက မြန်မာတို့အဖို့ စစ်ဆင် အောင်မြင်ရန် လွယ်ကူသည်ဟု ဗိုလ်ချုပ် မဟာသီဟသူရ နားလည်ဟန်ရှိသည်။ ဗိုလ်ချုပ်မဟာသီဟသူရ၏ ယူဆချက်အတိုင်းပင် တရုပ်ရာဇဝင်၌ တရုပ်-မြန်မာစစ်ပွဲတွင် တရုပ်တို့ စစ်ရှုံးနိမ့်ရသည့် အကြောင်းရင်းတချက်မှာ ရိက္ခာပြတ်လပ်မှုပင် ဖြစ်သည်ဟု ဆိုထားသည်။ ဤသည်မှာ ဗိုလ်ချုပ် မဟာသီဟသူရ၏ စစ်ရေးအမြင်ကျယ်မှုတည်း။

မဟာသီဟသူရသည် ဗိုလ်ချုပ်အဖြစ် စစ်ရေးအမြင်ကျယ်သကဲ့သို့ ဝန်ကြီးတပါးအနေနှင့်လည်း နိုင်ငံရေးအမြင်ကျယ်လေသည်။တရုပ်တို့ ရိက္ခာပြတ်လပ်၍ စစ်ပြေငြိမ်းရန် စေ့စပ်ပြောဆိုသောအခါမြန်မာဗိုလ်မှူးများက လက်မခံလိုကြချေ။ သို့ရာတွင် မဟာသီဟသူရသည် တရုပ်တို့နှင့် ဆက်လက်၍ အရှည်စစ်ဖြစ်ပွားနေသည်ထက် သင့်မြတ်ချစ်ကြည်စွာ နေထိုင်ပါက အကျိုးရှိဖွယ် ဖြစ်သည်ကို မြော်မြင်မိ၍ တဦးတည်း တာဝန်ယူကာ စစ်ပြေငြိမ်းခဲ့သည်။ ယင်းသို့သော မဟာသီဟသူရ၏ အပြုအမူသည် ခေါင်းဆောင်ကောင်းတို့၏ အရည်အချင်းဟု ဆိုအပ်သော နိုင်ငံရေးအမြော်အမြင်ကျယ်ခြင်း၊ ရဲဝံ့စွာဆုံးဖြတ်ခြင်း စသည်တို့ဖြင့် မဟာသီဟသူရသည် ပြည့်စုံကြောင်းကို အထောက်အထား သာဓက ပြုသည်။ ဤသို့ စစ်ပြေငြိမ်းမှုကို သဘောတူသောကြောင့် ထိုအချိန်ကစ၍ တရုပ်တို့နှင့် မြန်မာတို့ စစ်မက်ရေးမရှိတော့ဘဲ နှစ်ပြည့်တပြည် မဟာမိတ်ဖြစ်ကာ သံအတုံ့အပြန် စေလွှတ်၍ အရောင်းအဝယ်လည်း တိုးပွားလာလေသည်။ မြန်မာတို့မှာ ယိုးဒယားစစ်နှင့် တရုပ်စစ်တို့ကို တိုက်ခိုက်ရ၍ ပင်ပန်းနေစဉ်တွင် ဤကဲ့သို့ ဆောင်ရွက်နိုင်စွမ်း ရှိသဖြင့်၊ စတုတ္ထမြန်မာနိုင်ငံ တည်မြဲရေးကို ဂုဏ်သရေရှိစွာဖြင့် ဖန်တီးပေးလိုက်ခြင်းပင်ဖြစ်သည်ဟု ဆိုရပေမည်။

သို့သော်ဆင်ဖြူရှင်မင်းကား မဟာသီဟသူရ၏ သဘောဖြင့် စစ်ပြေငြိမ်းခဲ့သည်ကို အမျက်ရှိလေသည်။ သို့ဖြစ်၍ ဗိုလ်ချုပ် မဟာသီဟသူရသည် အရှင်သခင် အမျက်တော်ပြေစေရန် မငြိမ်မသက်ဖြစ်နေသော မဏိပူရသို့ စစ်ကြောင်းလှည့်ကာ တိုက်ခိုက်အောင်မြင်ပြီးမှ နေပြည်တော် အင်းဝသို့ပြန်လာခဲ့၏။ ဆင်ဖြူရှင်မင်းသည် မဏိပူရကို အောင်မြင်စွာ နှိမ်နင်းခဲ့သည်တိုင် ကျေနပ်ခြင်း မရှိပေ။ မဟာသီဟသူရသည် အသက်ချမ်းသာပေးခြင်း ခံရသော်လည်း မြစ်ငယ်

အရှေ့ဖက် ကြက်ယက်လယ်ပြင်သို့ ပို့ထားခြင်း ခံရသည်။ အတန်ကြာမှ အမျက်ပြေကာ နေပြည်တော်သို့ ဝင်ခွင့် ပြုခဲ့ပေသည်။

မဟာသီဟသူရသည် ယိုးဒယား တိုက်ပွဲတွင်လည်း ဦးစီး ပါဝင်တိုက်ခိုက်ခဲ့ရသည်။ အလောင်းဘုရား လက်ထက်တွင် အယုဒ္ဓယမြို့တော်ကို တိုက်ခိုက်အောင်မြင်စဉ်က ထွက်ပြေး တိမ်းရှောင်ခဲ့သော ဖယားတက်ဆင် (ဘယားတက်သေဉ်) သည် ဗန်ကောက် မြို့တွင် မြို့သစ်တည်ကာ မြန်မာတို့၏ သြဇာကို မခံတော့ကြောင်း သိရသဖြင့် ယိုးဒယားသို့ စစ်ချီ ပြန်၏။ ထိုအခါ ဝန်ကြီး မဟာသီဟသူရကို ဘုရားသုံးဆူ စစ်ကြောင်းမှ ချီစေသည်။ လက်ထောက်ဗိုလ်အချို့ သြဇာ မခံဘဲ အစီအမံ နှောင့်နှေး၍ အရေးမလှခဲ့ပေ။ ယိုးဒယား သို့ စစ်ချီရာမှ ပြန်လည် လာသောအခါ အင်းဝနန်းတွင် ဆင် ပြူရှင်မင်း နတ်ရွာစံပြီး စဉ့်ကူးမင်း နန်းတက်၏။ စဉ့်ကူး မင်းသည် မင်းဖြစ်လျှင် ဝန်ကြီး မဟာသီဟသူရကို မျက် တော်မူ၍ ဝန်ကြီးအရာက နုတ်ပြီးလျှင် စစ်ကိုင်းတွင်ထား သောကြောင့် အငြိမ်းစား နေရသည်။ စဉ့်ကူး၏နန်းကို ဖောင်းကားစားမောင်မောင် သိမ်းပိုက်သောအခါ အငြိမ်း စားနေရာမှ ဗိုလ်ချုပ်အဖြစ် တာဝန်ပြန်ယူရ၏။ ဖောင်း ကားစား မောင်မောင်၏ နန်းသက်ခုနစ်ရက်တွင် ဘိုးတော် မင်းတရားက အင်းဝနန်းကို လုပ်ကြံအောင်မြင်ပြန်၏။ ဤ သို့ အောင်မြင်ရာတွင် ဗိုလ်ချုပ် မဟာသီဟသူရ၏ အကူ အညီပါသည်ဟု ဆိုကြသည်။ ဝန်ကြီး မဟာသီဟသူရကို မရှုတ်မချ ဝန်ကြီးအရာနှင့် သူကောင်းပြုသည်။ သို့ရာတွင် နန်းတက်ပြီးသည့်နောက်ပိုင်းတွင် ဘိုးတော်ဘုရားသည် ဝန် ကြီး မဟာသီဟသူရအား ညီတော် စည်သာ မင်းသားနှင့် ပူးပေါင်း၍ နန်းလုရန်ကြံစည်သည်ဟု စွပ်စွဲကာ ၁၁၄၃ ခု နှစ် တပေါင်းလတွင် ကွပ်မျက် လိုက်လေသည်။

**မဟာ အရိယဝံသ၊ ရှင်။** ။ရှင်မဟာ အရိယဝံသသည် အင်းဝခေတ် သက္ကရာဇ် ၇၀၄ ခုနှစ်တွင် နန်းတက်သော ထုပါရုံဒါယကာ နရပတိမင်းလက်ထက်တွင် ကျမ်းဂန်တတ် မြောက်လှသဖြင့် ကျော်စောထင်ရှားသော ဆရာတော် ဖြစ် သည်။ ပင်းယမြို့တောင် စကားအင်းရွာသား ဇာတိဖြစ် လေသည်။

ပင်းယမြို့၊ အင်းဝမြို့များ၌ ပါဠိ၊ အဋ္ဌကထာ၊ ဋီကာကျမ်း ဂန်များကို သင်ကြား၍ ကိုယ်ဝန်ဆောင် မိန်းမရွက်နိုင် လောက်သည့် တရွက်စာခန့်သော ပေပုရပိုက်များကို နှုတ် တက် အာဂုံရွတ်ဆိုနိုင်သော်လည်း၊ ကျမ်းဂန်တတ်သည်၊စာ ပေတတ်သည်ဆိုသော သဘောကိုမသိချေ။ ထိုကြောင့် ရှင် မဟာအရိယဝံသသည် စစ်ကိုင်းအရပ်သို့ ကူး၍ ကျမ်းဂန် တတ်သည့် ရေငုံဆရာတော်ထံ စာဝါတောင်းရန် ဆည်းကပ် လေသည်။ ၂ ရက်တိုင်အောင် စကားပြောခွင့်မရသဖြင့် ဝတ်ဖြည့်၍သာ ပြန်ခဲ့ရသည်။ ၃ ရက်မြောက်သော နေ့၌ ကား သားရေနယ် ခေါက်သံကို ကြားရသောအခါမှ ရေငုံ ဆရာတော်သည် ရေကိုထွေးပြီးလျှင် မေးမြန်း၏။ ရှင်မဟာ အရိယဝံသက စာဝါတောင်းရန် ရောက်ကြောင်း လျှောက် သောအခါ သင်ကြား လေ့ကျက်ခဲ့ဘူးသော ကျမ်းဂန်များကို မေး၏။ သင်ကြားခဲ့ဘူးသော ကျမ်းဂန်များကို လျှောက် သည်တွင် ရေငုံဆရာတော်က မသင်ကြားခဲ့ဘူးသော သင်ရိုး ကျမ်းဂန်များပင် မရှိပြီဟု မိန့်တော်မူသည်။ သို့သော် ရှင်မ ဟာ အရိယဝံသက ကျမ်းဂန်တတ်သည်၊ စာပေတတ်သည် ဆိုသော သဘောကို မသိပါသေးသောကြောင့် ဆည်းကပ် ပါသည်ဟုလျှောက်ပြန်လေသည်။ထိုအခါမှ ရေငုံဆရာတော် က ဋီကာလက်သန်းကို သင်တော့ဟု စာဝါပေး၍ အမျိုးမျိုး သောနည်းတို့ဖြင့် တန်ဆာဆင်၍ သင်ကြားပြသတော်မူ လေသည်။

ရှင်မဟာအရိယဝံသသည် ၃ ရက်မျှ သင်ကြားပြီးလျှင် ပြသအပ်သော နည်းကိုမှီ၍ နည်းအမျိုးမျိုးဖြင့် ဆင်ခြင် သုံး သပ်ရာတွင် ကျမ်းဂန်တတ်သည်၊ စာပေတတ်သည်ဆိုသော သဘောကို ထိုအခါမှ သိတော့သဖြင့် ၂ ရက် ၃ ရက် မလာ ဘဲနေလေသည်။ ထို့နောက် ရေငုံ ဆရာတော်ထံလာ၍ အ ကျိုးအကြောင်းကို လျှောက်ထားလေသည်။

ရေငုံဆရာတော်က ကျမ်းဂန် တတ်ကြောင်း၊စာပေ တတ် ကြောင်းကို သိလျှင် ကျေးဇူးပြုသောအားဖြင့် ဋီကာလက် သန်းကိုပင် ဖွင့်ပေတော့ဟု ဆိုတော်မူသောကြောင့်၊ ရှင်မ ဟာအရိယဝံသသည် ဋီကာလက်သန်း အဖွင့် ဖြစ်သော မဏိသာရမဉ္ဇူသာ ကျမ်းကို ပုညစေတီ အရှေ့မြောက် ချောက်တွင်နေ၍ စီရင်ရေးသားတော်မူရာ သက္ကရာဇ် ၇၂၇ ခု နှစ်၌ ပြီးစီး၏။ ယင်းကျမ်းကို ပြုစုရာ၌ ပြီးသမျှကို လပြည့် လကွယ် ရှစ်ရက်သိတင်းနေ့တိုင်း ပုညစေတီရင်ပြင်၌ သံဃာ အများရှေ့၌ ဖတ်ပြ၏။ ထိုအခါ အစွန်း၌ နေ၍ စာနာလျက် ရှိသော ရဟန်းတပါးက ဧးဧးဟူ၍ နှစ်ကြိမ်တိုင်ဆိုသည်ကို မှတ်သားလိုက်ရလေသည်။ ကျောင်းသို့ပြန်ရောက်၍ မှတ် သားထားသော အရာကို ပြန်၍ကြည့်ရှုဆင်ခြင်သော အခါ တချက်မှာ ဝါကျထပ်၍ အခြားတချက်မှာ “ဣမံဂန္ထံ” ဟုစွဲ ရမည့်အစား “ဣဒံဂန္ထံ” ဟုအစွဲပျက်သည်ကို မြင်သော ကြောင့် ပြင်ဆင်ရသည်။ ထိုသို့ မှားယွင်းသော အချက် နှစ် ချက်ကို ထောက်ပြသတိပေးသဖြင့် ကျေးဇူးကြီးမားလှသော ကြောင့် ထိုရဟန်းအား နှစ်ထပ်သက်န်းဖြင့် ဥဏ်ပူဇော် တော်မူသည်။

ရှင်မဟာအရိယဝံသသည် (၁)မဏိသာရမဉ္ဇူသာဋီကာ၊ (၂)မဏိဒီပဋီကာ၊(၃)ဂန္ထာဘရဏပါဌ်၊ (၄)မဟာနိဿယ၊ (၅)ဇာတကဝိသောဓနဟူသော ကျမ်းများကို ပြုစုတော်မူခဲ့

သည်။ မဏိသာရမဉ္ဇူသာသည် ဋီကာကျော်၏ အဖွင့်ကျမ်းဖြစ်သည်။ မဏိဒီပကျမ်းသည် ဒွါရကထာ မူလဋီကာ၏ အဖွင့်ကျမ်းဖြစ်သည်။ ဂဏ္ဌာဘရဏကျမ်းသည် ဥပသာရနိပါတ်တို့၏ အနက်အနေအထားကိုဆိုသော သဒ္ဒါကျမ်းဖြစ်သည်။ မဟာနိဿယကျမ်းသည် မူလ ဋီကာနှင့် အနုဋီကာကို စပ်ယှဉ်၍ ဖွင့်သောနိဿယကျမ်းဖြစ်သည်။ ဇာတကဝိသောဓနကျမ်းကား ဇာတ်တော်ဆယ်စောင်ကို ပုဒ်ပါဠိ အဆစ်အဖု သုတ်သင်သော ဂဏ္ဌိကျမ်းတည်း။ (ဆရာတော်များ — လည်းရှု။)

**မဟူရာ။** ။မဟူရာသည်ကျစ်လျစ်မာကြောသောကျောက်သလင်းမျိုးဖြစ်သည်။ ယင်းသည် ကျောက်ခေါင်းများထဲရှိ သဲစင် ထပ်များတွင် ဖြစ်ပေါ် လျက်ရှိသည်။ မဟူရာကျောက်သည် သံမဏိထက် အနည်းငယ် မာသော်လည်း သံမဏိထက်ပို၍ဆတ်သည်။ မဟူရာသည် အရောင်အမျိုးမျိုးတို့ဖြင့် အစင်းများထင်လျက် ရှိသည့်ပြင် သွေးလိုက်သည့်အခါ အလွန် အရောင်တောက်ပြောင်လာနိုင်သည်။ အချို့ မဟူရာကျောက်များသည် အစင်းများဖြစ်၍အချို့ကား လုံးချင်း မီးခိုးရောင်၊ အညိုရောင်၊ အဝါရောင်၊ အပြာရောင်၊ သို့မဟုတ် အမည်းရောင်များဖြစ်ကြသည်။ အချို့မဟူရာ ကျောက်များကိုယင်းတို့တွင် ပေါ်ထွက်နေသော အရောင်ကို လိုက်၍ အမည် အမျိုးမျိုးပေးကြသည်။

မဟူရာကျောက်များကို များသောအားဖြင့် တောင် အမေရိကတိုက် ဗရာဇီးနိုင်ငံနှင့် အူရူဂွေးနိုင်ငံတို့ရှိ ကျောက်ကျင်းများမှ တူးဖော်ရရှိကြသည်။ ဂျာမနီနိုင်ငံရှိ အိုင်ဒါ-အိုဗာစတိုင်းခရိုင်သည် နှစ်ရာပေါင်းများစွာကပင် မဟူရာကျောက်သွေးခြင်းနှင့် အရောင်တင်ခြင်း ပြုလုပ်ရာဌာနကြီးတခု ဖြစ်ခဲ့သည်။ ဂျာမန်အလုပ်သမားများသည် မဟူရာကျောက်အရောင်ဆိုးနည်းတမျိုးကို တိုးတက် လုပ်ကိုင်လာခဲ့ရာ ယခုအခါ အမျိုးသမီးများဝတ်ဆင်သော မဟူရာကျောက်များကိုကြိုက်ရာအရောင်ရအောင် ဆိုးယူကြသည်။ အချို့ မဟူရာကျောက်များကို အမေရိကန် ပြည်ထောင်စု၊ ဩရီဂန်ပြည်နယ်တွင် တူးဖော်ရရှိ၍ပို့တလန်မြို့တွင် ကျောက်သွေး လုပ်ငန်းကို လုပ်ကိုင်ကြသည်။

မဟူရာကို ဆံထိုး၊ ရင်ထိုး၊ စက္ကူဖြတ်ဓား၊ မင်အိုးတင်ခုံနှင့် တံဆိပ်များ ပြုလုပ်ရာ၌ အများအပြား အသုံးပြုကြသည်။ မဟူရာကျောက်သည် မာသည့်ပြင် အက်ဆစ်မစားနိုင်သောကြောင့် ဓာတ်ပစ္စည်းများ ထောင်းရန်နှင့် ရောစပ်ရန်အတွက် ဆုံနှင့် ကျည်ပွေ့များ ပြုလုပ်ရာ၌ အသုံးပြုကြလေသည်။

မဟူရာ အမျိုးမျိုးရှိသည့်အနက် မဟူရာဖြူသည်လည်း ကျောက်သလင်းမျိုးပင် ဖြစ်သည်။ အာရှမိုင်းနား ဒေသ၊ ဗီသင်းနီးယားနယ်၊ ကယ်လဆီဒွန်မြို့အနီးတွင် မဟူရာဖြူကျောက်ကျင်းတခု ရှိသည်။ အခြား မဟူရာဖြူ ကျောက်ကျင်းများကို အမေရိကန်ပြည်ထောင်စုရှိ ကာလီဖိုးနီးယားပြည်နယ်နှင့် ကော်လိုရားဒိုးပြည်နယ်များ၊ အိုက်စလန်ကျွန်းနှင့်ဗြိတိန်နိုင်ငံ စကော့တလန်ပြည်တို့တွင် တွေ့ရသည်။

မဟူရာဖြူသည် ဟိုဖက် သည်ဖက် တိုးရိုပေါက် မမြင်နိုင်သော်လည်း မြင်နိုင်လုနီးပါးမျှ ကြည်လင်၍ အငိုင်းစက်ကလေးများ မှုန်မှုန် ပါရှိသည်။ အချို့ မဟူရာဖြူများတွင် လှပသော အရောင်အစက်ကလေးများ ပါရှိသည်။

မဟူရာညိုသည်လည်း ကျောက်သလင်းမျိုးဖြစ်၍ လက်စွပ်နှင့် အခြားဆင်မြန်းရန် ဝတ်စားတန်ဆာများတွင် ထည့်၍ ဆင်ယင်ကြသည်။ မဟူရာညိုကို အိန္ဒိယ၊ ပယ်လက်စတိုင်၊ အာရေဗျ၊ ဗရာဇီး၊ အူရူဂွေး၊ စကော့တလန်နှင့် အယ်ယာနိုင်ငံများတွင် တွေ့ရသည်။ ယင်းသည် ကျောက်မျက်ရတနာများတွင် အပေါဆုံး ရတနာတခုဖြစ်၍ သွေးရာ၌ အပြားလိုက်သွေးတတ်ကြသည်။ အခုံး၊ အခွက် ဖြစ်အောင်လည်း သွေးကြသည်။

မဟူရာနီသည်လည်း ကျောက်သလင်း မျိုးဖြစ်သည်။ ယင်းကို အိန္ဒိယနိုင်ငံ၊ တောင်အမေရိကတိုက်နှင့် ဂျပန်နိုင်ငံများရှိ ကျောက်ကျင်းများမှ တူးဖော် ရရှိသည်။ လက်စွပ်လက်ကောက်များတွင် ထည့်၍ ဆင်ယင်ကြသည်။ မဟူရာနီကို တခါတရံ အဝါ၊ အညို၊ သို့မဟုတ် အဖြူရောင်ဖြစ်အောင် ဆိုး၍ အသုံးပြုကြသည်။ ရှေးလူများသည် မဟူရာနီကို လက်နက်နှင့် ပယောဂဘေးမှ အကာအကွယ် ပေးသော အဆောင် အဖြစ်ဖြင့် အသုံးပြုကြသည်။

**မဟောဂနီ။** ။မဟောဂနီပင်သည် အမြဲစိမ်း အပင်ကြီးမျိုးဖြစ်၍ အနောက် အိန္ဒိယကျွန်းစုနှင့် အမေရိကတိုက် အပူပိုင်းဒေသများတွင်ပေါက်ရောက်သည်။ သာမန်အားဖြင့် ပေ ၁၀၀ ခန့်ထိ မြင့်သော်လည်း ကြီးထွားရာ၌ အလွန်နှေးကွေးသည်။ ပင်စည်လုံးပတ်မှာ တခါတရံ ၁၂ ပေထိရှိ၍ တုတ်ခိုင်ကြီးမားသည်။ မြေပြင်မှသည် ပဌမဆုံး ထွက်သည့် အကိုင်းကြီးထိ ပေ ၆၀ ကျော်ကျော် မြင့်သည်။

မဟောဂနီ၏ ရုက္ခဗေဒအမည်မှာ ဆွိုက်တင်းနီးယားမဟောဂနီဖြစ်၍ မယ်လီယေစီအီး မျိုးရင်းတွင် ပါဝင်သည်။ ယင်းအသီးမှရသောအစေ့များကို ပုတီးကုံးများ သီကုံးကြသည်။မဟောဂနီဟူသောအမည်ကို အခြားမျိုးရင်းဝင်အပင်များနှင့်မဟောဂနီကဲ့သို့ အကွက် အကြောနှင့် အရောင်ချင်းဆင်တူသည့် သစ်ပင်များတွင်လည်း အသုံးပြုထားကြသည်။ ပုံပမာ-ရုက္ခဗေဒအမည်အားဖြင့် ခယာ ဆင်နီဂေါလင်ဆစ်ဟုခေါ်သော အာဖရိကမဟောဂနီသည်အာဖရိကမှအမြောက်အမြားထွက်သော်လည်းအမျိုးညံ့၍အသားရောင် မကောင်း



မဟောဂနီပင်များသည် အမေရိကတိုက် အပူပိုင်းဒေသများနှင့် အနောက်အိန္ဒိယကျွန်းစုတွင် ပေါက်ရောက်ကြသည်။

ချေ။ ဩစတြေးလီးယားဘိုက်တွင် ပေါက်ရောက်သော ယူကလစ်ပင် (ငှက်ခြေခက်ပင်) တမျိုးနှင့် မြောက်အမေရိကတိုက်တွင် ပေါက်သော ဆာကိုကာပတ်ခေါ် အပင်မျိုးကိုလည်း မဟောဂနီ ဟုခေါ်ကြသည်။

မဟောဂနီသည် ဥရောပတိုက်သို့ မည်သည့်အချိန်က ရောက်ရှိလာသည်ကို မည်သူမျှ မသိကြချေ။ ၁၅၉၅ ခုနှစ်တွင် အင်္ဂလိပ်လူမျိုး ဆာဝေါ်လတာရောလီဆိုသူ ပုဂ္ဂိုလ်ကြီးသည် အနောက် အိန္ဒိယကျွန်းစုသို့ သင်္ဘောဖြင့် ဆိုက်ရောက်လာရာတွင် သူနှင့်အတူ ပါသွားသော သင်္ဘောဗိသုကာသည် မဟောဂနီ သစ်သားကို ဂျမေးကားကျွန်း၌ တွေ့ရှိသဖြင့် သင်္ဘောပြင်ရာတွင် အသုံးပြုခဲ့ဘူးသည်။ ထိုစဉ်က ယင်း၏ တန်ဖိုးကို မသိကြချေ။ ၁၈ ရာစုနှစ် ကျမှသာ အင်္ဂလိပ် အိမ်ထောင် ပရိဘောဂ ပြုလုပ်သူ များသည် မဟောဂနီ သားကို စတင် အသုံးပြုလာကြရာ အလွန်ကောင်းကြောင်း သိသာလာသဖြင့် တဖြည်းဖြည်း ထင်ရှား၍ လူသုံးများလာသည်။ ၁၇၅၃ နှစ်တနှစ်တည်းတွင် မဟောဂနီသား ကုဗပေ ပေါင်း ၅ သိန်းကျော်ကျော်ကို အင်္ဂလန်ပြည်သို့ တင်ပို့ခဲ့ရလေသည်။

ယခုအခါ မဟောဂနီသစ်မျိုးမှာ အလွန်ရှားပါးသွားပေပြီ။ တောကြီး မျက်မည်းထဲ၌ တကေလောက်မှ တပင် နှစ်ပင်သာတွေ့ရတော့သည်။ ခုတ်လှဲရာ၌ အမြစ်မှ နေ၍ ၁၂ ပေအမြင့်ရှိသော စင်ကြီးများမှ တက်ခုတ်ရသဖြင့် အလွန်ဘေးအန္တရာယ် များသော အသက်မွေးဝမ်းကျောင်း တရပ်ဖြစ်ပေသည်။ ခုတ်လှဲပြီးသော သစ်လုံးများကို နွားများဖြင့်သော်၎င်း၊ သစ်ဆွဲစက်များဖြင့်သော်၎င်း အလွန်ကြမ်းတမ်းသော လမ်းတလျှောက် မြစ်ဆိပ်သို့အရောက် ဆွဲလာရသည်။ မြစ်ဆိပ်တွင်လည်း ရေတက်စောင့်၍ လိုရာ သင်္ဘောဆိပ်မြို့သို့ ယူဆောင်သွားရလေသည်။ ဤမျှ ရှားပါး၍ ခက်ခက်ခဲခဲယူဆောင်လာရသော မဟောဂနီသားသည် တန်ဖိုးများလှသောကြောင့် အိမ်ထောင်ပရိဘောဂများ ပြုလုပ်ရာတွင် ယင်းကိုချည်း သက်သက်မသုံးနိုင်ကြချေ။ ပါးလွှာသော အချပ်များဖြစ်အောင် ခွဲစိတ်၍ အခြားသစ်အပေါ်စားများ ပေါ်ထပ်၍ ထပ်သစ်အဖြစ် အသုံးပြုကြလေသည်။

မဟောဂနီသားသည် ကျစ်လျစ်မာကြော၍ နှစ်ပေါင်းများစွာခံသည့်ပြင် လှပသော အရွက်အကြောများရှိသောကြောင့် အိမ်ထောင် ပရိဘောဂများနှင့် အခြား အိမ်တွင်းသုံးပစ္စည်းများ ပြုလုပ်ရာ၌ များစွာတန်ဖိုးထားကာ အသုံးပြုကြလေသည်။ နဂိုအသားရောင်မှာ လှပသောနီညိုရောင်ဖြစ်သောကြောင့်အရောင်ဆိုတင်ရန်ပင်များစွာမလိုလှချေ။ ရေစိုခံနိုင်သည့်ပြင် ကျုံ့မဝင်တတ်သောကြောင့် မဟောဂနီသားကို လှေငယ်များ ဆောက်လုပ်ရာ၌လည်း အသုံးပြုကြလေသည်။

# ဝေါဟာရ နှင့် အသံလှယ်အမည်များ

ဤကျမ်းတွင် ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသော ပညာရပ်အမျိုးမျိုး၊ အကြောင်းရပ်အမျိုးမျိုးတို့ ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံးပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလိုပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားသော အမည်များ မြောက်မြားစွာပါရှိသည်။ ဤကျမ်းတွင်ပါဝင်သော ဝေါဟာရနှင့် အသံလှယ်ယူထားသောအမည်တို့ကို မူရင်းစကားနှင့်တကွ အောက်တွင် အက္ခရာစဉ်အတိုင်း ဖော်ပြထားသည်။ ထုတ်ဝေပြီးအတွဲများတွင် ဖော်ပြပါရှိပြီးဖြစ်သော ဝေါဟာရများနှင့် အသံလှယ်အမည်များကိုမူ အောက်ပါစာရင်း၌ ထပ်မံဖော်ပြခြင်းမပြုပါ။

## ဝေါဟာရများ

| | |
|---|---|
| ကနူး ဘုဇပတ် | Canoe Birch |
| ကနေးဒီးယန်း-ပစိဖိတ် မီးရထား | Canadian-Pacific Railway |
| ကပရအိုလာ နန်းတော် | Capraola Palace |
| ကဖား ဘာသာစကား | Kaffir Language |
| ကလေးထုန်ရောဂါ | Infantile Beri - beri |
| ကာရီမာတာ ရေလက်ကြား | Karimata Strait |
| ကားကွတ် ရေနံမြေ | Kirkuk Oilfields |
| ကားရန့်သီး | Currant |
| ‘ကုလားထိုင်ပေါ်မှ မဒေါနား’ | ‘Madonna of the Chair’ |
| ‘ကယ်တင်သူ’ | ‘Liberator’ |
| ကော့ပလီယန်တံဆိပ် | Copleian Medal |
| ကောလိပ်ဝင်ကျောင်း | Collegiate School |
| ကိုယ်တွင်းပြည့် ဘာသာစကား | Analytical Language |
| ကိုဖူးကူညီ ဘုရားကျောင်း | Kofukuji Temple |
| ကင်းစဗေး ပင်လယ်အော် | King's Bay |
| ကုတ်ဟီးချောင်းဆိုး | Whooping Cough |
| ကုန်ထုတ်လုပ်မှု အားစု | Factors of Production |
| ကုန်သွယ်မှုရေးရာ ပညာရှင် | Mercantilist |
| ကပ်ဆေးပြောင်းလဲခြင်း အယူအဆ | Catastrophist Concept |
| ‘ကံကို မယုံနှင့်’ | ‘Don't Trust to Luck’ |

| | |
|---|---|
| ‘ကမ္ဘာ့ ဗဟိုချက်သို့ ခရီးထွက်ခြင်း’ | ‘A Journey to the Centre of the Earth’ |
| ကမ္ဘာ့ဝင်ရိုးစွန်းနှစ် | International Polar Year |
| ‘ကမ္ဘာတပတ် ရက်ရှစ်ဆယ်’ | ‘Round the World in Eighty Days’ |
| ကမ္ဘာပထဝီမြေ နိယမ | Theory of the Earth |
| ကျောက်ကပ်ရောင် ရောဂါ | Nephritis |
| ကျောက်သေးတုံး ကရိယာ | Microlith |
| ကျောက်သေးတုံး ခေတ် | Microlithic Age |
| ကြီးကောင်ဝင်ထုံးတမ်း | Initiation Rite |
| ‘ကြီးသုံးကြီး ညီလာခံ’ | ‘Big Three Conference’ |
| ကွင်းဆင်းဘူမိဗေဒ | Field Geology |
| ကွင်းရှားလော့ ကျွန်း | Queen Charlotte Island |
| ကွတ်ဗာရေ့ ဆည် | Kut Barrage |
| ကွန်ပေါဇစ်တိုင်စံနစ် | Composite Style |
| ခရီတေးရှပ် ကျောက်စဉ်စု | Cretaceous Rock System |
| ခရစ်စတီအားနီးယား တက္ကသိုလ် | Christiania University |
| ခရစ္စတယ်လိတ် ဘောလုံး | Crystallate Ball |
| ‘ခရစ်ယန်၏ ထွက်ရပ်လမ်း’ | ‘Pilgrim's Progress’ |
| ခရမ်းကျောက်၊ သို့မဟုတ် ဖရဲအူကျောက် | Chrysoberyl |
| ခဲအို-မတ်ယူခလေ့ | Levirate |
| ခင်ပွန်းပြိုင် (ဓလေ့) | Polygamy |

| | |
|---|---|
| ခတ်စာ ကရိယာ | Flake Tool |
| ချာတာဟောက် ပတ်ဗလစ်ကျောင်း | Charterhouse Public School |
| ချူလာလွန်ကွန်တက္ကသိုလ် | Chulalongkorn University |
| ချယ်ရီဗိုပင် | Birch |
| ချယ်ရီဘုဇပတ် | Cherry Birch |
| ချက်ကိုစလိုဗက် အမျိုးသားကောင်စီ | The Czechoslovak National Council |
| ချန်နယ်ကျွန်း | Channel Island |
| ခွေးသွားစိတ်ဘီး | Gear |
| ခွဲဖျက်ဗုံး | Demolition Bomb |
| ဂေါ့တင်ဂျင်တက္ကသိုလ် | University of Göttingen |
| ဂိုနိုညောင်းကျရောဂါ | Gonorrhoea |
| ‘ဂန္ထဝင်နှင့် လူပြိန်း’ | ‘Classics & the Plain Man’ |
| ဂမ္မာရောင်ခြည် | Gamma Ray |
| ဂျာဒင်းဆု | Jardine Prize |
| ဂျီရော့ နန်းတော် | Giraud Palace |
| ဂျော့ဂျီးယား ရေလက်ကြား | Georgia Strait |
| ‘ဂွတ်ရှက်ပတ်သီလရှင်ဂိုဏ်း’ | ‘Sisters of the Goodshepherd’ |
| စကားဇာစ်မြစ် ပညာရပ် | Etymology |
| စကား အဓိပ္ပါယ် ပညာရပ် | Semantics |
| စတန်လေဥယျာဉ် | Stanley Park |
| စပိန်ဗရော့ | Spanish Baroque |
| ‘စာပေအသင်း’ | ‘Literary Club’ |
| စီးပွားရေးသမိုင်း | Economic History |
| စဲလဗီး ပင်လယ် | Celebes Sea |
| စက္ကူဘုဇပတ် | Paper Birch |
| စက်မောင်းဘီး | Driving Wheel |
| စောင့်ရှောက်ခံနယ် | Protectorate |
| ‘စစ်အေး’ | ‘Cold War’ |
| စည်းမျဉ်းခံဘုရင့်အစိုးရစံနစ် | Constitutional Monarchy |
| စုတ်ဗုံဗိုင် | Suction Pump |
| စိန့်ဖရန်စစ်ဇေးဗီးယား မြန်မာသီလရှင်ဂိုဏ်း | Burmese Sisters of St. Xavier |
| စိန့်အက်ဒွပ်သရဖူ | The Crown of St. Edward |
| စံနစ်မှန် ဘောလုံး | Fair Ball |
| စိမ်းရောင်ခြပ် | Chlorophyl |
| ဆာဟောင်ဝီ မူလတန်းကျောင်း | Serhowy Elementary School |
| ဆီအက်တယ် သံစုံတီးဝိုင်းကြီး | Seattle Symphony Orchestra |
| ဆီးမစ်တစ်ဘာသာစကား | Semitic Language |
| ဆီးမစ်တစ်အစု | Semitic Group |
| ဆီးလဟက်ခရိုင် | Sylhet District |
| ‘ဆုတောင်းစာ’ | ‘Prayer Book’ |
| ဆူဒန်အစု | Sudanese Group |
| ဆူလေမန်နီးယား ပလီ | Suleimaniyeh Mosque |
| ဆူးလူး ပင်လယ် | Sulu Sea |
| ဆေးသိပ္ပံတက္ကသိုလ် | University of Medical Sciences |
| ဆင်ဖနီဂီတ | Symphony |
| ဆိုင်းတန်တား | Bridge of Sighs |
| ဆိတ်တင်းပင် | Blue Berry |
| ဆန်ဖရန်စစ္စကိုဗယ်လေအဖွဲ့ | San Francisco Ballet |
| ဆွစ်ပြည်နယ်ပေါင်းချုပ်အဖွဲ့ | Swiss Confederation |
| ဇလဗေဒ (ဥဒကဗေဒ) | Hydrology |

| | |
|---|---|
| ဇီရွန်း စီရင်စုနယ် | Gironde Department |
| ဇီရွန်းမြစ်ဝကျွယ် | Gironde Estuary |
| တလင်တမယားဓလေ့ | Monogamy |
| တာတာ သံနှင့်သံမဏိစက်ရုံ | Tata Iron & Steel Works |
| တိဗက်-တရုပ်ဘာသာစကား | Tibeto-Chinese Language |
| တယ်ဖယ်ဟို့ ကျွန်းဆွယ် | Tafelhock Peninsula |
| တယ်လီဖုန်းစမ်းတံ | Telephone Probe |
| တော်ဝင်ပန်းချီကျောင်း | Royal College of Art |
| တိုးတက်မှုဆိုင်ရာ ဘောဂဗေဒ | Economics of Growth |
| တက်တနတ် ရောဂါ | Tetanus |
| တက်တိုနို ရူပဗေဒ | Tectono Physics |
| 'တောင်စိမ်းပြည်နယ်' | 'Green Mountain State' |
| 'တောင်ဖက်ပိုင်း၏ ပါရစ်မြို့' | 'Paris of the South' |
| တန်ဖိုး သီအိုရီ | Theory of Value |
| တပ်စကန်တိုင်စံနစ် | Tuscan Style |
| ထရဗေဒ | Tratigraphy |
| 'ထရီဗျွန်း အပတ်စဉ်စာစဉ်' | 'Tribune Weekly' |
| 'ထာဝရ ဘုရားသခင်၏ အတ္ထုပ္ပတ္တိ' | 'Life of Our Lord' |
| ထိုးဗုံဗိုင် | Force Pump |
| ထည်မဲ့ယဉ်ကျေးမှု | Non-Material Culture |
| ထည်ရှိယဉ်ကျေးမှု | Material Culture |
| ထုတ်ပြီးသောကုန်စည် | Out Put |
| ထိန်းသိမ်းခံနယ် | Trust Territory |
| ထုန်ခြောက်နာ | Dry or Paralytic Beri-beri |
| ထုန်စိုနာ | Wet or Dropsical Beri-beri |
| ထုန်ရှပ်နာ | Acute or Fulminating Beri-beri |
| ဒလာဆားဂိုဏ်း | De La Salle Brothers |
| ဒီဇွန်း တက္ကသိုလ် | University of Dijon |
| 'ဒို့အနီ' | 'Our Ernie' |
| ဒိုးဂျနန်းတော် | Palace of Doges |
| ဒေါင်သန်းနာ | Anthrax |
| ဒိုင်နမစ် ဘူမိဗေဒ | Dynamic Geology |
| ဒစ်ဖသီးရီးယား ဆုံဆို့နာ | Diphtheria |
| ဒျူးဝီရိပ်သာ | Dewey Boulevard |
| ဒြပ်ဆွဲအားကို အသုံးပြုရှာနည်း | Gravity Method of Exploration |
| ဓာတ်ငွေ့ဗုံး | Gas Bomb |
| နီလာဂီရိတောင် | Nilgiri Hills |
| 'နီးဗလွန်းရတနာ' | 'The Ring of Nibelungs' |
| နေထား ဘူမိဗေဒ | Structural Geology |
| နေရာရွေး (ဝါ) တသီးပုဂ္ဂလ (ဝါ)ကေဝဏ္ဏ ဘာသာစကား | Isolating Language |
| နေရောင်ခြည်ဖြာထွက်ခြင်း | Solar Radiation |
| နေရောင်အင်အား လှုပ်ရှားမှု | Solar Activity |
| နက်ပကျွန်း အယူအဆ | Neptunism |
| နိုင်ငံတော် ဘဏ္ဍာရေး | Public Finance |
| နိုင်ငံတော်အသိအမှတ်ပြုအသင်းတော် | Established Church |
| 'နတ်ပြည်ချိုင့်ဝှမ်း' | 'Valley of Paradise' |
| နျူကလီယာ ဓာတုဗေဒ | Nuclear Chemistry |
| နျူကလီယာ ရူပဗေဒ | Nuclear Physics |
| နျူကလီယာ ရောင်ခြည် ဖြာထွက်ခြင်း | Nuclear Radiation |
| နှာခေါင်းညွှန်း | Nasal Index |

| | |
|---|---|
| နှိုင်းရှည့်တန်ဖိုး | Relative Value |
| ပတိဇီဝနဆေး | Antibiotic |
| ပါရစ်မြို့နိုင်ငံခြား သာသနာပြုအဖွဲ့ | Foreign Mission of Paris |
| ပီလဇင်နာ ဗျစ်ရည် | Pilsener Beer |
| ပုလိပ် ဘတ်ဂျက် | Police Budget |
| ပူရာရုက္ခဗေဒ | Palaeobotany |
| ပူရာပါဏဗေဒ | Palaeozoology |
| ပူလတန်စီ တန်တား | Pultency Bridge |
| ပူးတွဲဘာသာစကား | Agglutinative Language |
| ပေ့ဂျစတုန်းဗယ်လေအဖွဲ့ | Pagestone Ballet |
| ပေါ် ဦးကျောက်ကရိယာ | Eolith |
| ပေါ် ဦးကျောက်ခေတ် | Eolithic Age |
| ပို့စဒမ် ညီလာခံ | Potsdam Conference |
| ပို့တလန်ကျွန်းဆွယ် | Portland Peninsula |
| ပို့တာဗျစ်ရည် | Porter |
| ပိုလီယိုရောဂါ | Poliomyelitis |
| ပိုလိုနာရုဝ ဘုရားကျောင်း | Polonnaruva Temple |
| ပေါက် ရေလက်ကြား | Palk Strait |
| ပင်နဆိုက်ကျောက် | Penasite |
| ပစ်တီနန်းတော် | Pitti Palace |
| ပန်းချီနှင့် ပန်းပုဆိုင်ရာ အမျိုးသားပြတိုက် | National Museum of Painting & Sculpture |
| 'ပျင်းသည့်ချိန်ခါ' | 'Hours of Idleness' |
| ပြည်တော်သာဘတ်ဂျက် | Welfare Budget |
| ပြွတ်တံခေါင်း | Piston |
| ဖိဆစ်နည်း | Pressure Flaking Method |

| | |
|---|---|
| ဖိလဒဲလဖီးယားဗယ်လေအဖွဲ့ | Philadelphia Ballet |
| ဖွံ့ဖြိုးမှုဆိုင်ရာ ဘောဂဗေဒ | Economics of Development |
| ဗရူးနေး ပင်လယ်အော် | Brunei Bay |
| ဗရော့ ဟန် | Baroque Style |
| ဗရပ်ဆယ်စာချုပ် | Brussels Pact |
| ဗဟိုအလုပ်သမား ကောလိပ် | Central Labour College |
| ဗာလဒိုင်း တောင်ကုန်း | Valdai Hills |
| ဗားရတ် ရေကျော် | Burrard Inlet |
| ဗီတာမှုန် | Beta Particle |
| ဗီဗာ ပင်လယ်ထုံး | Viva Lagoon |
| ဗီယက်နမ် ဒီမိုကရက်တစ် သမတနိုင်ငံ | Democratic Republic of Vietnam |
| ဗီယက်နမ် သမတနိုင်ငံ | Republic of Vietnam |
| ဗူဂိန်းဗီးကျွန်း | Bougainville Island |
| ဗူဂိန်းဗီး ရေလက်ကြား | Bougainville Strait |
| ဗူလဂေးရီးယား ပြည်သူ့ သမတနိုင်ငံတော် | People's Republic of Bulgaria |
| ဗေဒါပင် | Water Hyacinth |
| ဗေရွန်ဘုရားကျောင်း | Bayron Temple |
| ဗယ်ရီသီး | Berry |
| ဗယ်ရီလီယမ် ကြေးညို | Beryllium Bronze |
| ဗိုလ်စားပဲပင် | French Bean or Kidney Bean |
| ဗိုးဝါးစစ် | Boer War |
| ဗက်ဆီမာနည်း | Bessemer Process |
| ဗက်တီကန်နန်းမြို့ | Vatican City |
| ဗက်တီးရီးယားဗေဒ | Bacteriology |
| ဗက်ထရီအိုး | Battery |

| | |
|---|---|
| ဗင်တူရီ နိယာမ | Venturi's Law |
| ဗင်တူရီပြွန် | Venturi Tube |
| ဗင်္ဂလားဆီးသီး | Apricot |
| ဗင်္ဂလားနယ် အာရှတိုက် ဆိုင်ရာအသင်း | Asian Society of Bengal |
| ဗင်္ဂလားပြည်နယ် | Bengal Province |
| ဗင်္ဂလားအော် | Bay of Bengal |
| ဗောင်တုတ်ငှက် | Water Cock |
| ဗောင်လောင်ညိုပင် | The Black Nightshade |
| ဗတ်စဘာသာစကား | Basque Language |
| ဗတ်ဇတ်သိမ်း | Buzzard |
| ဗုဒ္ဓဘာသာ ကလျာဏယုဝတီအသင်း | Young Women's Buddhist Association |
| ဗုဒ္ဓဘာသာ ကလျာဏယုဝအသင်း | Young Men's Buddhist Association |
| ဗုဒ္ဓသရဏာပင် | Canna |
| ဗုဒ္ဓဟူးဂြိုဟ် | Mercury |
| ဗန်ဆင်မီးတိုင် | Bunsen Burner |
| ဗန္တူအစု | Bantu Group |
| ဗန်ဒေါင်း ညီလာခံ | Bandung Conference |
| ဗုံဗိုင် | Pump |
| ဗုံးပျံ | Flying Bomb |
| ဗျိုင်းအောက် | Indian Pond Heron |
| ဗျစ်ခတ်ဆေး | Hop |
| ဗျစ်ရည် | Beer |
| ဗျစ်ရည်ချို | Wort |
| ဗြဟ္မဒေဝဗေဒ | Theology |
| ဗြိတိသျှကျွန်းစု | British Isles |
| ဗြိတိသျှ ဓနသဟာယ နိုင်ငံများ | British Commonwealth of Nations |
| ဗြိတိသျှ မြောက်ဗော်နီယို ကုမ္ပဏီ | British North Borneo Company |
| ဗွိုင်လာမြင်းအား | Boiler-Horse Power |
| ဗွိုင်လာအိုး | Boiler |
| ဗွိုင်းစည်း | Boyle's Law |
| ဗွိုင်းလီယာနာစက် | Machine Boyleana |
| ဗွတ်ကလုံ | Red-Whiskered Bulbul |
| ဗွတ်ကုလား | Jay |
| ဗွတ်စာမွဲ | Blandford's Olive Bulbul |
| ဗွတ်ဖင်နီ | Red-Vented Bulbul |
| ဗွတ်ဖင်နီငှက်မျိုး | Bulbuls |
| ဗွတ်ရှမန်းအစု | Bushman Group |
| ဗွန်းတက္ကသိုလ် | Bonn University |
| ဘာဂျာ | Mouth Organ |
| ဘာသာစကားရပ်ပညာ | Philology |
| ဘိသိက်ခံလက်စွပ် | Coronation Ring |
| ဘီကျား | Pheasant Tailed Jacana |
| ဘီလုံးငှက် | Small Indian Sky Lark |
| ဘီသွာလျှော် | Flax |
| ဘုဇပတ်ချို | Sweet Birch |
| ဘုဇပတ်ငွေရောင် | Silver Birch |
| ဘုဇပတ်နီ | Red Birch |
| ဘုဇပတ်မည်း | Black Birch |
| ဘုဇပတ်ဝါ | Yellow Birch |
| ဘုဇပတ်ဖြူ | White Birch |

| | |
|---|---|
| ဘုရင့်အစိုးရစနစ် | Monarchy |
| ဘူကမ္ပဗေဒ | Seismology |
| ဘူမိဓာတုဗေဒ | Geochemistry |
| ဘူမိရူပဗေဒ | Geophysics |
| ဘူမိရူပဗေဒနှစ်၊ ကမ္ဘာ့ | Geophysical Year, International |
| ဘူမိသံလိုက်ဗေဒ | Geomagnetism |
| ဘေးကင်းအဆို့ရှင် | Safety Valve |
| ဘဲတူဖျံတူကောင် | Duckbill or Platypus |
| ဘောဂဘူမိဗေဒ | Economic Geology |
| ဘုမ္မတီး | The Burmese Green Pigeon |
| မကောကြက်တူရွေး | Macaw |
| မဂျလင် ရေလက်ကြား | Strait of Magellan |
| မစွက်ဖက်ဝါဒ | Laissez-Faire Policy |
| မဒန်မိုဟန် ဘုရားကျောင်း | Madan Mohan Temple |
| မနီတိုးဗားပြည်နယ် | Manitoba State |
| မယားပြိုင်စလေ့ | Polygyny |
| 'မယားဟောင်း၏ ပုံပြင်' | 'The Old Wife's Tale' |
| မရီး-ခယ်မယူစလေ့ | Sororate |
| မဟာမိတ်တို့၏ အာဖရိက မြောက်ပိုင်းဝါဒ | Allied North Africa Policy |
| 'မဟာအရှုပ်တော်' | 'The Great Mystery' |
| မာကက်ဆာ ရေလက်ကြား | Macassa Strait |
| မာရီဗတ်မြေ | Marie Byrd's Land |
| မာလတီပလက် နည်း | Multiplex |
| မိရိုးဖလာဘုရင့် အစိုးရစနစ် | Hereditary Monarchy |
| မီးတောင်ပညာ | Volcanology |

| | |
|---|---|
| 'မီးပုံပျံထဲမှာငါးပတ်ကြာ' | 'Five Weeks in a Balloon' |
| မီးပြွန်ဗွိုင်လာ | Fire Tube Boiler |
| မီးလောင်ဗုံး | Incendiary Bomb |
| 'မက်မီလန် စူးစမ်းရှာဖွေရေးအဖွဲ့' | 'Macmillan Expedition' |
| မက်သဒစ် ဓမ္မဆရာ | Methodist Minister |
| 'မစ္စတာ ဗက်မန်း၏ဘဝ' | 'The Life & Death of Mr. Badman' |
| မုတ်ခုံးနှင့် ပေါင်းကူး | Arch & Vault |
| မန်းကျွန်း | Isle of Man |
| မျိုးပအိမ်ထောင်ခြင်း | Exogamy |
| မျိုးတွင်း အိမ်ထောင်ခြင်း | Endogamy |
| မြေကြီးကို တုန်လှုပ်စေခြင်းဖြင့် ရှာဖွေနည်း | Seismic Method |
| မြေခွဲတိုင်းပညာ | Geodesy |
| 'မြင်းတပ်မဟာဖိတ်တိုက်ခြင်း' | 'The Charge of the Light Brigade' |
| မြန်မာပြည် ပန်းချီအသင်း | Burma Art Club |
| ယူနီဖော်မီတေးရီးယန်း အယူအဆ | Uniformitarianism |
| ယူရယ်-အယ်လတစ် ဘာသာစကား | Ural-Altaic Language |
| ယဲလိုးဒိုး ပန်းချီ အနုပညာကျောင်း | Yellow-Door School of Arts |
| ယောဝရတ်လမ်းမကြီး | Yao-Warat Road |
| ယိုးဒယား ပင်လယ်ကွေ့ | Gulf of Siam |
| ယဉ်ကျေးမှု မနုဿဗေဒ | Cultural Anthropology |
| ရနောင်းဘုရင်ခံဆု | Governor of Renaung's Prize |
| ရဟန်းမင်း ကိုယ်စားလှယ်တော် | Vicar General |
| ရဟန်းမင်း အစိုးရစနစ် | Theocracy |
| ရာဇဒမ္မာန်ရိပ်သာ | Rajadamnern Avenue |
| ရီကာဒီ နန်းတော် | Riccardi Palace |

